၁၁၁၈၄

# မြန်မာ့စွယ်စုံကျမ်း

စာပေဗိမာန်

၏

# ရုပ်ပြဗဟုသုတဘဏ်



အတွဲ – ၁၁

ယူး – လာ

ရန်ကုန်မြို့

မြန်မာနိုင်ငံဘာသာပြန်စာပေအသင်း

# ဤကျမ်းကိုမရှုစားမီ

**အောက်ပါလမ်းညွှန်ကိုလေ့လာထားပါက ဤစွယ်စုံကျမ်းစီစဉ်ပုံကို ကောင်းစွာသဘောပေါက်၍ ကိုးကားရာကျမ်းထဆူအဖြစ် လွယ်ကူစွာ အသုံးပြုထတ်ပေလိမ့်မည်။**

**အက္ခရာစဉ်ဇယား။** ။စွယ်စုံကျမ်းတွင်ပါဝင်သော အကြောင်းရပ်များကို လွယ်လင့်တကူ ရှာဖွေဖတ်ရှုနိုင်ရန် အက္ခရာစဉ်ဇယားကို အတွဲတိုင်း၌ဖော်ပြထားသည်။

**ဝေါဟာရနှင့်အမည်များ။** ။ဤကျမ်းမှာ ကမ္ဘာပေါ်ရှိ ကျယ်ဝန်းလှသောပညာရပ်အမျိုးမျိုး၊ အကြောင်းရပ်အမျိုးမျိုးတို့ပါဝင်သည့်ပြင်၊ မြန်မာနိုင်ငံတွင် ပဌမဆုံးပေါ်ထွက်လာရခြင်းဖြစ်သည့်အလျောက်၊ ဘာသာခြားမှ မြန်မာလို ပြန်ဆိုထားသော ဝေါဟာရသစ်များနှင့် အသံလှယ်ယူထားရသောအမည်များ မြောက်မြားစွာပါဝင်သည်။ ယင်းတို့ကို မူရင်းစကားနှင့်တကွ ဤကျမ်း၏နောက်ပိုင်းတွင် ကဏ္ဍသီးခြား၍ အက္ခရာစဉ်အတိုင်းဖော်ပြထားသည်။

**မြန်မာအမည်များ။** ။ရဟန်းရှင်လူဆိုင်ရာ အကြောင်းရပ်များကို ခေါင်းစည်းပေးရာ၌၊ အမည်ရှေ့ရှိ သျှင်၊ ဦး၊ ဒေါ်၊ ကို၊ မောင်၊ မ စသည်တို့နှင့်တကွ အခြားဂုဏ်ပုဒ်များကို အမည်ရင်းနောက်တွင်ထား၍၊ အမည်ရင်းကိုသာ အက္ခရာစဉ်အလိုက် စီစဉ်ဖော်ပြထားသည်။ ပုံစံအားဖြင့် သျှင်ကရဝိက၊ ခုံတော်မောင်ကျဘမ်း၊ ဦးချိန်၊ မြဝတီဝန်ကြီးဦးစ တို့ကို ကရဝိက၊ သျှင်။ ကျဘမ်း၊ မောင်၊ ခုံတော်။ ချိန်၊ ဦး။ စ၊ ဦး၊ မြဝတီဝန်ကြီး ဟူ၍ အသီးအသီးဖော်ပြထားသည်။ ဤသို့ပြုလုပ်ခြင်းမှာ ပုဂ္ဂိုလ်ကို မလေးစား၍ မဟုတ်၊ စွယ်စုံကျမ်းများထုံးတမ်းစဉ်လာအရ အကြောင်းရပ်ရှာဖွေရ လွယ်ကူစေရန်သာဖြစ်ရာ၊ လူမျိုးခြားအမည်များကိုလည်း အလားတူပင်စီစဉ်ဖော်ပြထားသည်။

**ဖတ်ချင်ဖွယ်ရာအဖြာဖြာ။** ။တခါတရံ ပျင်းပျင်းရှိ၍ စာအုပ်လှန်လိုသောအခါ၊ သို့မဟုတ် ဝါသနာအလျောက် သမိုင်းဖြစ်စဉ်များ၊ တိုင်းနိုင်ငံများ၊ ပုဂ္ဂိုလ်ကျော်များ၊ စာပေဝတ္ထုများ၊ အနုပညာရပ်များ၊ သိပ္ပံပညာရပ်များ၊ လုပ်ငန်းကြီးများ၊ သစ်ပင်များ၊ တိရစ္ဆာန်များ၊ ကစားခုန်စားများအကြောင်းကို သိလိုသောအခါ အကူအညီရစေရန် ဖတ်ချင်ဖွယ်ရာအဖြာဖြာကို အတွဲတိုင်း၌ထည့်သွင်းထားသည်။

**ဗဟုသုတစစ်တမ်း။** ။စွယ်စုံကျမ်းအတွဲတိုင်းတွင် ဗဟုသုတစစ်တမ်းကိုထည့်သွင်းထားသည်မှာ၊ စာရှုသူသည် ဤစစ်တမ်းဖြင့် မိမိကိုယ်ကိုမိမိ ပြန်လည်မေးခွန်းထုတ်၍ မသိသေးသောအကြောင်းအရာကို သိလိုပါက၊ ညွှန်းထားသောနေရာတွင် ပြန်လည်ဖတ်ရှုလေ့လာနိုင်စေခြင်းငှာ ရည်ရွယ်သည်။ ထိုစစ်တမ်းတွင် အတွဲတွင်းပါ အကြောင်းရပ်အားလုံးငုံမိအောင် မေးခွန်းထုတ်ထားခြင်း မဟုတ်ချေ။ စိတ်ဝင်စားဖွယ်အချက်အလက်များ အတွက်သာလျှင် မေးခွန်းများကို ရွေးချယ်စီစဉ်ထားခြင်းဖြစ်သည်။

**အပြန်အလှန်အညွှန်း။** ။စွယ်စုံကျမ်းအကြောင်းရပ်တို့မှာ အက္ခရာအလိုက်စီစဉ်ထားသည့်အလျောက်၊ ဘာသာရပ်အလိုက် တစုတဝေးတည်းမရှိဘဲ နေရာအနှံ့အပြား ကွဲပြားလျက်ရှိကြသည်။ သို့ဖြစ်၍ အကြောင်းရပ်ချင်းဆက်စပ်နေသည့်အချက်အလက်တို့ကို အပြန်အလှန်ညွှန်းပြရသည်။ စာကိုယ်မှအကြောင်းရပ်ခေါင်းစည်းမှ စာကိုယ်ရှိအကြောင်းရပ်ခေါင်းစည်းသို့ရင်း၊ အကြောင်းရပ်တခုနှင့်တခု ပညာသဘောအားဖြင့် ဆက်သွယ်နေသော်လည်း တသီးတခြားစီရှိသဖြင့် ပိုမိုပြည့်စုံစွာ လေ့လာစေလိုသောအခါတွင်ရင်း (......................... — ရှု။) ဟုညွှန်းသည်။ ပညာသဘောအားဖြင့် ဆက်သွယ်ခြင်း မရှိစေကာမူ၊ တနည်းတလမ်းအားဖြင့် နီးစပ်သည့် အကြောင်းရပ်တခုကို စိတ်ဝင်စားဖွယ်ဖြစ်၍ လေ့လာစေလိုသောအခါတွင် (......................... — လည်းရှု။) ဟုညွှန်းသည်။

**ကြောင်းခြင်းရာအညွှန်းအတွဲ။** ။နောက်ဆုံးအတွဲသည် စာရှုသူအဖို့ အခါမရွေး ကိုးကားရန်လမ်းညွှန်ပင်ဖြစ်သည်။ ထိုအတွဲသည် အသီးသီးသောအတွဲများအတွက် အက္ခရာစဉ်အညွှန်းဖြစ်ရုံမျှမက၊ လုံးချင်းစွယ်စုံခေါ် သောက် ပေသည်။ ထိုအတွဲတွင် ကမ္ဘာ့သမိုင်းမှတ်တမ်းတင်သည်မှ မျက်မှောက်ခေတ်အထိ ပေါ်ပေါက်ဖြစ်ပျက်ခဲ့သော မှတ်သားဖွယ်ရာအကြောင်းအရာများကို နှစ်၊ လ၊ ရက် အပိုင်းအခြားနှင့်သိနိုင်စေရန် နှစ်လုံးပတ်လည်ဖော်ပြထားသော ကမ္ဘာ့ပြက္ခဒိန်ကိုရင်း၊ ပညာရပ်များကို စံနစ်တကျ တဆင့်ပြီးတဆင့် ပြည့်စုံစွာလိုက်စားနိုင်ရန် ပညာရပ်မာတိကာကိုရင်း ထည့်သွင်းထားသည်။ ထိုနောက် အသီးသီးသောအတွဲများတွင်ပါဝင်သည့် အကြောင်းရပ်များကို လွယ်ကူစွာ လှန်လှောရှာဖွေနိုင်ရန် ညွှန်ပြသော ကြောင်းခြင်းရာအညွှန်းကိုလည်း စီစဉ်ဖော်ပြထားသည်။ ထိုအညွှန်းတွင် စွယ်စုံကျမ်းပါအကြောင်းရပ်များကိုသာမက၊ စွယ်စုံကျမ်းစာကိုယ်တွင် မပါဝင်လင့်ကစား သိသင့်သိထိုက်သောအကြောင်းရပ်မြောက်မြားစွာကိုလည်း မှတ်သားဖွယ် အချက်အလက်များနှင့်တကွ ဖြည့်စွက်ဖော်ပြထားသည်။

# အက္ခရာစဉ်ဇယား

ဤကျမ်းပါအကြောင်းရပ်များကို အောက်ပါအက္ခရာစဉ်အတိုင်း စီစဉ်ထားသည်

၁။ အ
၂။ အာ
၃။ အား

၄။ အိ
၅။ အီ
၆။ အီး

၇။ အု
၈။ အူ
၉။ အူး

၁၀။ အေ့
၁၁။ အေ
၁၂။ အေး

၁၃။ အဲ့
၁၄။ အယ်
၁၅။ အဲ — နောက်ပစ် နှင့် ယသတ်

၁၆။ အော့
၁၇။ အော်
၁၈။ အော

၁၉။ အို့
၂၀။ အို
၂၁။ အိုး

၂၂။ အက်
၂၃။ အောက်
၂၄။ အိုက် — ကသတ်

၂၅။ အင့်
၂၆။ အင်
၂၇။ အင်း — ငသတ်

၂၈။ အောင့်
၂၉။ အောင်
၃၀။ အောင်း
၃၁။ အိုင့်
၃၂။ အိုင်
၃၃။ အိုင်း — ငသတ်

၃၄။ အစ် — စသတ်

၃၅။ အည့်
၃၆။ အည်
၃၇။ အည်း — ညကြီးသတ်

၃၈။ အဉ့်
၃၉။ အဉ်
၄၀။ အဉ်း — ဉကလေးသတ်

၄၁။ အတ်
၄၂။ အိတ်
၄၃။ အုတ် — တသတ်

၄၄။ အန့်
၄၅။ အန်
၄၆။ အန်း
၄၇။ အိန့်
၄၈။ အိန်
၄၉။ အိန်း
၅၀။ အုန့်
၅၁။ အုန်
၅၂။ အုန်း — နသတ်

၅၃။ အပ်
၅၄။ အိပ်
၅၅။ အုပ် — ပသတ်

၅၆။ အမ့်
၅၇။ အမ်
၅၈။ အမ်း
၅၉။ အိမ့်
၆၀။ အိမ်
၆၁။ အိမ်း
၆၂။ အုမ့်
၆၃။ အုမ်
၆၄။ အုမ်း — သေးသေးတင် နှင့် မသတ်

၆၅။ ျ ယပင့်

၆၆။ ြ ရရစ်

၆၇။ ွ ဝဆွဲ

၆၈။ ှ ဟထိုး

၆၉။ ျွ ယပင့် ဝဆွဲ

၇၀။ ြွ ရရစ် ဝဆွဲ

၇၁။ ျှ ယပင့် ဟထိုး

၇၂။ ြှ ရရစ် ဟထိုး

၇၃။ ွှ ဝဆွဲ ဟထိုး

၇၄။ ျွှ ယပင့်ဝဆွဲဟထိုး

၇၅။ ြွှ ရရစ်ဝဆွဲဟထိုး

# ဖတ်ချင်ဖွယ်ရာအဖြာဖြာ

**တခါတရံ ပျင်းပျင်းရှိ၍ စာအုပ်လှန်လိုသောအခါ အောက်ပါ လိုရာအကြောင်းရပ်တို့မှ ဆူရာရွေးနုတ်၍ လေ့လာပါက စာရှုသူသည် အပျင်း လည်းပြေ ဗဟုသုတလည်းပွားပေလိမ့်မည်။ ထိုင်ရာမထဘဲ ကမ္ဘာ့မြို့ကြီး၊ နယ်ကြီး၊ နိုင်ငံကြီးများသို့ရောက်၍ ပုဂ္ဂိုလ်ကျော်များနှင့် ရင်း နှီးကာ ကမ္ဘာ့သမိုင်းကိုလည်း သုံးသပ်ခွင့် ရနိုင်မည့်ပြင် သိပ္ပံပညာ၏ အံ့ဖွယ်ရာအကြောင်းများကိုလည်း သိနားလည်လာပေလိမ့်မည်။ ထိုမျှမက အနုစာပေဂန္ထဝင်များ၏အရသာကိုပါ ထင်ရှားစွာခံစားရမည့်ပြင် အားလပ်ခိုက် အပျင်းပြေရန်နည်းများလည်း ရရှိပေအံ့။**

### ထင်ပေါ်ကျော်ကြား ပုဂ္ဂိုလ်များ



### တိကျသိအပ် အရပ်ရပ်



### သုခုမဝင် ကြောင်းစုံလင်



### တမြေရပ်ခြား ဒေသများ



### သစ်ပင်ပန်းမာလ် တိရစ္ဆာန်



### သိပ္ပံအံ့ဖွယ် အသွယ်သွယ်



### လုပ်ငန်း ဆောင်တာ အဖြာဖြာ



### အားလပ်ချိန်ဝယ် ပျော်ရွှင်ဖွယ်



### လောကီထုပ္ပတ် လူတို့ဇာတ်

# ဗဟုသုတစစ်တမ်း

ဤကျမ်းတွင် များစွာသောပြဿနာတို့ကို ဖြေရှင်းထားပေသည်။ စာရှုသူသည် မိမိမည်မျှမှတ်မိ၍ အသိဉာဏ်အခြေ၊ ဗဟုသုတအခြေ မည်မျှကြွယ်ဝနေပြီကို မှတ်ကျောက်တင်ကြည့်ရန် အောက်ပါမေးခွန်းများဖြင့် စစ်တမ်းထုတ်သင့်ပေသည်။ အကယ်၍ အဖြေမပေးနိုင်ရှိတုံ၊ ညွှန်းထားရာစာမျက်နှာတွင် ပြန်လည်ဖတ်ရှုလေ့လာရန် တိုက်တွန်းရပေသည်။

# ကျေးဇူးပြုသူများ

မြန်မာ့စွယ်စုံကျမ်းတွင် စာမျက်နှာတိုင်း၌ ရုပ်ပုံဓာတ်ပုံစသည်ဖြင့် ဝေဆာစွာမွမ်းမံရန် ကြိုးပမ်းခဲ့ရာ၌ နိုင်ငံတွင်းနိုင်ငံပမှ အကူအညီများရခဲ့သည်။ နိုင်ငံပမှဆိုလျှင် လန်ဒန်မြို့ ပစ်ချာပို့လိုက်ဗရေရီနှင့် ပေါပေါ့ပါးမှရင်း၊ နယူးယော့မြို့ အီဝင်ဂယ်လိုဝေမှရင်း၊ ဓာတ်ပုံများ ဝယ်ယူပုံနှိပ်ခွင့်ရခဲ့သည်။ နိုင်ငံတွင်းမှ ကူညီသူ ရာပေါင်းများစွာရှိသည့်အနက် စွယ်စုံကျမ်းနှင့်ထိုက်တန်သည့် ရုပ်ပုံ၊ ဓာတ်ပုံ၊ မြေပုံ စသည်တို့ကို အောက်ပါဌာနကြီးများနှင့် ပညာရှင်များထံမှ ရရှိပါ၍ ကျေးဇူးအထူးတင်ပါကြောင်း။

| အမည် | နေရပ် | ဓာတ်ပုံပါ စာမျက်နှာ |
| --- | --- | --- |
| မြန်မာနိုင်ငံ ကြက်ခြေနီအသင်း | ရန်ကုန်မြို့ | ၃၃၅၊ ၃၃၇၊ ၃၄၀၊ ၃၄၁ |
| မြန်မာနိုင်ငံ တော်လှန်ရေးအစိုးရ၊ မြန်ကြားရေးဌာန | ရန်ကုန်မြို့ | ၁၂၃၊ ၁၅၇၊ ၁၈၉၊ ၂၆၁၊ ၂၆၂၊ ၂၇၀၊ ၂၇၃၊ ၂၇၄၊ ၂၇၇၊ ၃၀၄၊ ၃၀၅၊ ၃၀၆၊ ၃၇၇၊ ၃၈၁၊ ၃၈၄၊ ၃၈၆၊ ၃၉၁၊ ၃၉၄၊ ၃၉၇၊ ၄၂၂၊ ၄၃၂၊ ၄၄၅၊ ၄၄၆၊ ၄၄၈၊ ၄၈၃၊ |
| မြန်မာနိုင်ငံ တော်လှန်ရေးအစိုးရ၊ ပြည်သူ့ ရဲတပ်ဖွဲ့ ညွှန်ကြားရေးမှူးချုပ်ရုံး | ရန်ကုန်မြို့ | ၁၉၇၊ ၁၉၈၊ ၁၉၉၊ ၂၀၀ |
| မြန်မာနိုင်ငံ တော်လှန်ရေးအစိုးရ၊ ရှေးဟောင်းသုတေသနဌာန | ရန်ကုန်မြို့ | ၃၆၁၊ ၃၆၂၊ ၃၆၃၊ |
| မြန်မာနိုင်ငံ တော်လှန်ရေးအစိုးရ၊ မီးရထားအုပ်ချုပ်ရေးအဖွဲ့ | ရန်ကုန်မြို့ | ၃၆ |
| မြန်မာနိုင်ငံ တော်လှန်ရေးအစိုးရ၊ မြေတိုင်းဌာန | ရန်ကုန်မြို့ | ရှမ်းပြည်နယ် မြေပုံ၊ ၄၂၁၊ ၄၅၁ |
| ဆိုဗီယက်သံရုံး | ရန်ကုန်မြို့ | ၈၈၊ ၉၀၊ ၉၁၊ ၉၂၊ ၉၃၊ ၉၅၊ ၉၆၊ ၉၇၊ ၉၈ |
| ယိုးဒယားသံရုံး | ရန်ကုန်မြို့ | ၆၊ ၇၊ ၈၊ ၁၀၊ ၁၂၊ ၁၃၊ ၁၄၊ ၁၆ |
| ရှမေးနီးယားသံရုံး | ရန်ကုန်မြို့ | ၁၀၆၊ ၁၀၇၊ ၁၀၈၊ ၁၀၉၊ ၁၁၀ |
| မြန်ကြားရေးဌာန၊ အမေရိကန်သံရုံး | ရန်ကုန်မြို့ | ၁၃၆၊ ၄၇၂၊ ၄၇၄ |
| ဂန္ဓဝင် စာကြည့်တိုက် | အင်းစိန်မြို့ | ၂၈၅ |
| ရွှေမုဋ္ဌောဘုရား ဂေါပကအဖွဲ့ | ပုသိမ်မြို့ | ၄၅၅ |
| ဦးကျော် | တွံတေးမြို့ | ၄၂၇ |
| ဦးကျော်(ရှမဝ) | ရန်ကုန်မြို့ | ၄၄၀ |
| ဦးကျော်မင်း | ထားဝယ်မြို့ | ၃၅၈၊ ၃၅၉ |
| သခင် ခင်မောင်ဦး | တောင်တွင်းကြီးမြို့ | ၀၆၂ |
| စစ်လေးမောင် | ရန်ကုန်မြို့ | ရွှေတိဂုံဘုရား ရောင်စုံပုံ |

| အမည် | နေရပ် | ဓါတ်ပုံပါ စာမျက်နှာ |
|---|---|---|
| ဦးစိန်တင် | ရန်ကုန်မြို့ | ၂၆၈ |
| ဗိုလ်မှူးကြီး ထင့်ဆွေ | မှော်ဘီမြို့ | ၆၀၊ ၆၁၊ ၆၂ |
| ဦးတင့်ဆွေ | တောင်ငူမြို့ | ၄၂၇ |
| ဦးထွန်းရည် | ရန်ကုန်မြို့ | ၂၀၆၊ ၃၁၃၊ ၄၄၃၊ ၄၈၂ |
| ဦးဘကွန်း(ညိုချော) | မန္တလေးမြို့ | ၃၀၃ |
| ဦးမင်းနိုင် | ရန်ကုန်မြို့ | ၁၇၊ ၁၈၊ ၁၉၊ ၂၀၊ ၂၁၊ ၂၂၊ ၂၆၊ ၂၇၊ ၂၉၊ ၄၆၊ ၄၇ ရေတံခွန်နှင့် ရှမ်းလူမျိုးရောင်စုံ ပုံများ |
| ဦးမောင်ကလေး(၂) | ရန်ကုန်မြို့ | ၃၂၀ |
| ဦးမျိုးဆက်၊ ''ထား'' မောင်နှမများ | ရန်ကုန်မြို့ | ၄၃၉ |
| ဦးမျိုးမြင့် | ရွှေတောင်မြို့ | ၄၃၈ |
| ဒေါက်တာ လှမြင့် | မန္တလေးမြို့ | ၄၄၇ |
| ဦးသိမ်းမောင် | ပြည်မြို့ | ၄၂၆ |
| ဦးဟန်ဒလေ | ရန်ကုန်မြို့ | ၃၀ |
| ဦးဟိန်စွန်း | ရန်ကုန်မြို့ | ၂၈၆ |

## ဒပ်ချရှေးဟောင်းမြို့

**ဥရောပသမိုင်း၌ ထင်ရှားသော စာချုပ်တရပ်ကို ၁၇၁၃ ခုနှစ်တွင် ထိုမြို့၌ ချုပ်ဆိုခဲ့သည်။ ထိုမြို့ရှိ တက္ကသိုလ်ကျောင်းသည် နယ်သာလန် နိုင်ငံတွင် ထင်ရှားသော တက္ကသိုလ်ကျောင်းဖြစ်သည်။**

**ယူးထရက်မြို့။** ။ယူးထရက်မြို့သည် နယ်သာလန် နိုင်ငံ အမ်စတာဒမ်မြို့ အရှေ့တောင်ဖက် ၂၂ မိုင်ကွာ၌ တည်ရှိ၍ ဒပ်ချ ရှေးဟောင်းမြို့ ဖြစ်သည်။ နယ်သာလန် နိုင်ငံသမိုင်းတွင် အရေးပါ အရာရောက်သော မြို့လည်းဖြစ်သည်။ ၁၅၇၉ ခုနှစ်တွင် စပိန်အစိုးရလက်အောက်ခံ နယ်သာလန် မြောက်ပိုင်း ပြည်နယ် ခုနစ်နယ်တို့သည် ယူးထရက် ပြည်ထောင်စု ဟူ၍ ပေါင်းစည်းပြီးလျှင် စပိန် အစိုးရကို တော်လှန်ခဲ့ကြသည်။ ယူးထရက် ပြည်ထောင်စုမှ နယ်သာလန် နိုင်ငံ ဟူ၍ ပေါ်ပေါက်လာသည်။ ဥရောပသမိုင်း၌ ထင်ရှားသော ယူးထရက် စာချုပ်ကို ၁၇၁၃ ခုနှစ်တွင် ဤမြို့၌ ချုပ်ဆိုခဲ့ကြသည်။ ထိုစာချုပ်အရ စပိန်ထီးနန်း ဆက်ခံရေး စစ်ပွဲသည် ပြီးဆုံးခဲ့ရလေသည်။

ယူးထရက်မြို့တွင် လှပသော ပန်းခြံများနှင့် ကျယ်ဖြန့်သော လမ်းများရှိ၏။ ယူးထရက်မြို့ကိုဖြတ်၍ တူးမြောင်း နှစ်ခု ဖောက်လုပ်ထား၏။ ထိုတူးမြောင်းများကိုဖြတ်ကျော်ရန် တန်တားပေါင်း ၉၀ ကျော်ရှိသည်။ ထို့ကြောင့်လည်း ယူးထရက်မြို့ကို "တန်တားပေါသောမြို့"ဟု ခေါ်စမှတ်ပြုကြသည်။ ရေလမ်း၊ မီးရထားလမ်းအဆက်အသွယ်ကောင်းသဖြင့် ယူးထရက်မြို့သည် ကုန်သွယ်ရေး အချက်အခြာ မြို့ဖြစ်သည်။ နယ်သာလန်နိုင်ငံ၏ မီးရထားလမ်းဆုံ မြို့ကြီးလည်းဖြစ်သည်။

ယူးထရက်မြို့ရှိ စက်မှုလုပ်ငန်းများမှာ သစ်စက်များ၊ စက်ကရိယာအလုပ်ရုံများ၊ ဓါယာချက်စက်ရုံများနှင့် ကတ္တီပါ၊ ခြည်ထည်၊ ကော်ဇော၊ လင်နင်ပိတ်ချော၊ တူရိယာ စသည် ထုတ်လုပ်သည့် စက်ရုံများဖြစ်သည်။

မြို့လယ်တွင် ၁၅ ရာစုနှစ်၌ ဆောက်လုပ် ပြီးစီးသော ဂေါ်သပုံစံ ကသီဒရယ် ဘုရားရှိခိုးကျောင်း ရှိသည်။ ထိုဘုရားရှိခိုးကျောင်းနှင့် တဆက်တည်း ဖြစ်သော တက္ကသိုလ်ကျောင်းသည် နယ်သာလန် နိုင်ငံတွင် ထင်ရှားသော တက္ကသိုလ်ကျောင်း ဖြစ်လေသည်။ ထိုတက္ကသိုလ်ကျောင်းကို ၁၆၃၆ ခုနှစ်တွင် စတင်တည်ထောင်ခဲ့သည်။

လူဦးရေမှာ ၁၉၆၅ ခုနှစ်တွင် ၂၆၇,၀၀၀ ယောက်ခန့် ရှိလေသည်။

**ယေရှုရှလင်မြို့။** ။ဂျေရူးဆလမ်းမြို့ — ရှု။

**ယောရင်လူမျိုး။** ။ဆူလူမျိုး — ရှု။

**ယောဂီ။** ။ယောဂီ ဆိုသော စကားသည် ယောဂဟူသော သသ်ကရိုက် ဘာသာမှ ဆင်းသက်လာသည့် စကားဖြစ်၍ အစုအရုံး၊ အပေါင်းအသင်း၊ အဖွဲ့အစည်းဟူသော အဓိပ္ပါယ်ရှိသည်။ ယောဂီပညာသည် ဟိန္ဒူလူမျိုးတို့၏ဘာသာတရပ်ဖြစ်ရာ တောရပ် မိုသော ရသေ့ကဲ့သို့ လောကီအာရုံ ကာမဂုဏ်အများကို ချိုးနှိမ်ပယ်ဖြတ်၍ သမထလုပ်ငန်းကို ကြိုးပမ်းကျင့်ကြံကြခြင်းဖြင့် မိမိတို့၏ စိတ်နှလုံး ဖြူစင်သန့်ရှင်းကာ၊ သိဝအမည်ရှိ မိမိတို့ဘုရားရှင်နှင့် တွေ့ဆုံပူးပေါင်းမိနိုင်မည်ဟု အယူရှိကြသည်။ ထိုပညာကို လေ့လာလိုက်စားသူများအား ယောဂီ ဟု အိန္ဒိယနိုင်ငံတွင် ခေါ်ကြသည်။

ယောဂီပုဂ္ဂိုလ်တို့သည် အစာရေစာ မစားဘဲ ဥပုသ်စောင့်ခြင်း၊ ခြေလက်အင်္ဂါ ကိုယ်ခန္ဓာတို့ကို မလှုပ်ရှားဘဲ နေခြင်းစသည်ဖြင့် အာရုံဟူသမျှကို ဖြတ်ကာ အာရုံတခုတည်းကိုသာ စူးစိုက် ကသိုဏ်းရှုခြင်းဖြင့် မိမိ၏ ပတ်ဝန်းကျင် လောကနှင့် အဆက်ဖြတ်ပြီးလျှင် မိမိတို့၏ စိတ်အစဉ်ကို ဘုရားအထံတော်၌သာ အာရုံ ထားလေသည်။

ဤသို့ ကျင့်ကြံသော ယောဂီတို့၏ ထူးခြားချက်မှာ အခြား သာမန်လူတို့ သိရန်ခက်ခဲသော သဘာဝဓမ္မနှင့် အခြားအကြောင်း အရာများကို သိမြင်နိုင်စွမ်းသဖြင့် လူသတ္တဝါတို့အား ဆွဲဆောင်လွှမ်းမိုးနိုင်သော သတ္တိ ရှိလေသည်။ သိဝဘုရားသည် ယောဂီကြီးဖြစ်သည်ဟု ဆိုကြ၏။

ထိုပညာရပ်ကို ဘီစီ ၁၅၀ ခန့်က ဥဓနယ် ဂွန်ဒါ အရပ်၌ ပါတန်ဂျလိ (ပတဥ္စလိ) အမည်ရှိ အနာဂတ်ကို အမြင်ရသူ ဟိန္ဒူတဦးက စတင်အသုံးပြုခဲ့သည်ဟု ဆိုကြလေသည်။ မြန်မာနိုင်ငံ၌လည်း သမထဝိပဿနာကို ကျင့်ကြံအားထုတ်ကုန်သော သူတော်စဉ်များအား ယောဂီဟု ခေါ်ကြသည်။

**ယောနကတိုင်း။** ။ယောနယ် — ရှု။

**ယောနယ်။** ။ယောနယ်သည် ယခင်က ပခုက္ကူခရိုင်တွင် နယ်တနယ်အဖြစ် ပါဝင်ခဲ့သည်။ ယောတွင်းနယ်ဟုလည်း ခေါ်ဝေါ်ခဲ့၏။ ရှေးအခါကမူ ယောနကတိုင်း ဟူသော အမည်ဖြင့် မဇ္ဈိမဒေသ၊ မဂဓတိုင်း၊ ရာဇဂြိုဟ်ပြည်ကြီးရှင် ဘုရင်နာဂဒါသမင်း၏ သားတော် ဇလာမိကမင်းသား အမှူးပြုသော သကျသာကီဝင် အဆက်အနွယ်တို့ အစပြု၍ နေထိုင်ခဲ့ကြသည်ဟု ဆို၏။ ယောနကတိုင်း၏ နယ်နိမိတ်များမှာ ကား အရှေ့လားသော် မြောက်ပိုင်း သောင်သွတ် ဖောင်း

ပြင်မှစ၍ သလ္လာဝတီမြစ်ရိုးတလျှောက် ကောက်ကောက်စင်းစင်း ဧရာဝတီမြစ်ဆုံအထိ၊ တောင်သို့လားသော် (ယခုအခါ မင်းဘူး ခရိုင်အတွင်း) စက်တော်ရာရှိသော မန္တာတောင်အထိ၊ အနောက်လားသော် နဂရာဇ်တောင်ရိုးအတိုင်း မြောက်သို့လျှောက်၍ ဖိုးခေါင်တောင်၊ ရိုးမလဲ့ ယမုနာမြစ်အနီးအထိ၊ မြောက်သို့လားသော် ကသည်းပြည်၊ အက္ကပတ်ပြည်၊ ရှမ်းပြည်မိုင်းလွန်အထိ အတွင်း အကျယ်အဝန်းနယ်မြေကို ယောနကတိုင်းဟု သမုတ်ခဲ့သည် ဆိုသည်။

ယောနကတိုင်းတွင် ထင်ရှားသော မြို့ကြီးများမှာ ကလေး၊ တိမ်ညင်း၊ ရာဇဂြိုဟ်ဟု ကလေးသုံးမြို့၊ ယော၊ ဆော၊ လောင်းရှည်၊ ထီးလင်း ဟူ၍ ယောလေးမြို့၊ လောင်းတောင်ကင်းတို့ဖြစ်သည်။ ဗုဒ္ဓသာသနာလည်း ပွင့်လင်းစည်ပင်ခဲ့၏။

ယောတွင်းနယ်တွင် ယောမြို့နယ်နှင့် လောင်းရှည်မြို့နယ်တို့ ပါဝင်ခဲ့၏။ ယောတွင်းနယ်၏ အရှေ့ဖက်တွင် ပေါက်နယ်နှင့် ပခုက္ကူနယ်၊ မြောက်ဖက်တွင် ပေါက်နယ်၊ အနောက်ဖက်တွင် ချင်းတောင်တန်း၊ တောင်ဖက်တွင် မင်းဘူးခရိုင်တို့ အသီးအသီး တည်ရှိ၏။ ယောမြို့နယ်၏ အရှေ့ဖက်တွင် ပေါက်မြို့နယ်၊ မြောက်ဖက်တွင် ထီးလင်းမြို့နယ်၊ အနောက်ဖက်တွင် ချင်းတောင်တန်းနှင့် တောင်ဖက်တွင် လောင်းရှည်နယ်တို့ အသီးအသီး တည်ရှိသည်။ နောင်အခါ ပခုက္ကူခရိုင်အတွင်း မြို့နယ်များကို အသစ် ပြန်လည်စီစဉ်သောအခါ ပခုက္ကူခရိုင် အနောက်ပိုင်းတွင် တောင်နှင့်မြောက် စီတန်းလျက် ဆော၊ ထီးလင်း၊ ဂန့်ဂေါဟူ၍ မြို့နယ် သုံးခု တည်ရှိလာခဲ့၏။ ယင်းတို့ကို ယောတောင်တန်းမြို့နယ်များဟု ခေါ်ဝေါ်လာကြလေသည်။

ထိုအခါ ယောမြို့နယ်သည် ဆောမြို့နယ်တွင် ပါဝင်သွား၍ ယောလေးမြို့တွင် အပါအဝင်ဖြစ်ခဲ့သော ယောမြို့သည်၎င်း၊ လောင်းရှည်မြို့သည်၎င်း ယခုအခါ၌ ရွာကြီးများ အဖြစ်သာ တည်ရှိကြတော့၏။ လူနေအိမ်ခြေ မစည်ကားလှတော့ပေ။ ယောမြို့ ကျောင်းကြီးရှင်ချစ်စေတီ (ကြောင်ကြီးရှင်ချစ်ဟုလည်း ပြောကြ၏။) လောင်းရှည်မြို့ သိန်းကျင်း ရွှေတန်းဆာဘုရား၊ ဂန့်ဂေါ ရွှေပြည်ဆိပ်ဦးဘုရားနှင့် မင်းရွာ မြသိန်းတန်စေတီတို့ကား ယောနယ်၏ ကျက်သရေဆောင် ဘုရားစေတီများ ဖြစ်သည်။

ယောချောင်းသည် အနောက်ဖက် ချင်းတောင်တန်း၌ မြစ်ဖျားခံ၍ ဧရာဝတီမြစ်ထဲသို့ ဆိပ်ဖြူမြို့အနီးတွင် စီးဝင်သည်။ ယင်း၏ ထင်ရှားသော မြစ်လက်တက်သည် ကျောချောင်း ဖြစ်၍ ပေါက်မြို့အနီး၌ ပေါင်းဆုံမိကြသည်။ ပခုက္ကူခရိုင် အနောက်ပိုင်းတွင် ယောချောင်းနှင့် ယင်း၏ မြစ်လက်တက်များ စီးဆင်းရာ မြစ်ဝှမ်းဒေသကို ယောနယ်ဟူ၍ သိမှတ်ထားကြသည်။

ယောနယ်တွင် မြန်မာလူမျိုး၊ ချင်းလူမျိုး၊ ယောလူမျိုးနှင့် တောင်သားလူမျိုးတို့ နေထိုင်ကြသည်။ ယောလူမျိုးတို့မှာ မြန်မာအနွယ်ဝင်များဖြစ်၍၊ ဒေသအလိုက် ထုံးဓလေ့နှင့် စကားအသုံးအနှုန်းတို့ ခြားနားနေရခြင်း ဖြစ်ပြီးလျှင် ဂန့်ဂေါနှင့် ယောတွင် အများဆုံး နေထိုင်ကြသည်။ တောင်သားတို့ကို ပညာရှင်အချို့က ချင်းနှင့်မြန်မာ သွေးစပ်ထားသည့် အနွယ်များ ဖြစ်ဟန်ရှိသည်ဟု ယူဆကြသည်။ ဂန့်ဂေါ၊ ထီးလင်း၊ ယော၊ ဆော စသည့် နယ်များ၏ အတွင်းပိုင်း တောင်ခြေ ကျေးရွာများတွင် နေထိုင်ကြသည်။

ယောနယ်တွင် မိုးခေါင်ရေရှားရပ်ဝန်း အသီးအနှံပင်များကို မြစ်မှရေသွင်း၍ စိုက်ပျိုးကြသည်။ ဆေးလိပ်လိပ်ရန်အတွက် ယောဖက်ခေါ် ပြောင်းဖူးဖက်မှာ ထင်ရှားသော ထွက်ကုန်ဖြစ်၍ ပခုက္ကူမြို့မှတဆင့် အရပ်ရပ်သို့ တင်ပို့ရောင်းချသည်။ ယောလုံချည် ရက်လုပ်သည့် လုပ်ငန်းကြောင့်လည်း ယောနယ်သည် ထင်ရှားသည်။ သို့သော် ယောလုံချည်ကောင်းများမှာ ဂန့်ဂေါ၊ မင်းရွာ၊ ကန်ရွာတို့နှင့် ထီးလင်းနယ်ရှိ ထီးလင်း၊ ညောင်ကန်၊ ကင်းပန်ရွာများမှသာ ထွက်လေသည်။ ယောလုံချည်နှင့် ပင်နီအကျီ ဝတ်စုံသည် မြန်မာနိုင်ငံတွင် ဝံသာနုစိတ်တက်ကြွနေချိန်က ခေတ်အလိုက် လူကြိုက်များသော ဝတ်စုံဖြစ်သည်။ ယခုထက်တိုင်လည်း ယောလုံချည်ကို ယောကျ်ား၊ မိန်းမတို့ နှစ်သက်စွာ ဝတ်ဆင်လျက် ရှိကြသည်။

ယောချောင်း ရေဆင်းနယ်အတွင်း ချင်းတောင်တန်း၊ ယောချောင်းနှင့် မောချောင်းအကြားရှိ ရေဝေကုန်းတန်းတို့တွင် ကျွန်းသစ်တောများ ရှိသည်။ ယောသစ်တောတိုင်းမှ သန်းသစ်နှင့်ရှားစေး အမြောက်အမြားထွက်သည်။ မောချောင်းနှင့် မြစ်သားမြစ်တို့သည် သစ်မျှောရန်အသုံးကျလေသည်။

၁၉၅၆ ခုနှစ် ခန့်မှန်းခြေ သန်ကောင်စာရင်းအရ ဆောမြို့နယ်တွင် လူဦးရေ ၃၇,၀၁၉ ယောက် ရှိ၍၊ ယောမြို့ရှိ လူဦးရေမှာ ၄၂၅ ယောက်ခန့် ဖြစ်သည်။

**ယော အတွင်းဝန်။** ။ဘိုး လှိုင်၊ ဦး၊ ယော အတွင်းဝန် —ရှု ။

**ယိုကိုဟားမားမြို့။** ။ယိုကိုဟားမား မြို့သည် ဟွန်းရှူးကျွန်း အရှေ့ဖက်ကမ်းပေါ်တွင် တည်ရှိ၍ တိုကျိုမြို့မှ အနောက်တောင်ဖက် ၁၈ မိုင်ခန့် ကွာဝေးသည်။ ဂျပန်နိုင်ငံတွင် ပဥ္စမ မြို့ကြီးဖြစ်၍ ထင်ရှားသော သင်္ဘောဆိပ်မြို့လည်းဖြစ်သည်။ ဆိပ်ကမ်း အပြင်ဖက်တွင် ကြီးကျယ်ခိုင်ခံ့သောရေကာတန်တိုင်းကို ဆောက်လုပ်ထားသဖြင့် ပင်လယ်ကူးသင်္ဘောကြီးများအတွက် လုံခြုံစိတ်ချရသည်။ တိုကျိုမြို့နှင့် မီးရထားလမ်းဖြင့် ဆက်သွယ်လျက် ရှိ၏။



ယိုကိုဟားမားမြို့၏ဆိပ်ကမ်းရှိ ယာမားရှိတာပန်းခြံ အပန်းဖြေရိပ်သာကို ခေတ်မှီစွာတည်ဆောက်ထားသည်။

ယိုကိုဟားမား မြို့ကွက်သည် မြေပြန့်ဖြစ်၍ တောင်ကုန်းများ ရံလျက် ရှိသည်။ ပင်လယ် ကမ်းဖက်၌ သင်္ဘောကုမ္ပဏီများ၊ ကုန်သွယ်ရေး ကုမ္ပဏီများ ရှိသည်။ အတွင်းဖက်တွင် အရောင်းအဝယ်ဖြင့် စည်ကားသော လူနေရပ်ကွက် ရှိလေသည်။ ငွေကြေးရတတ် ဂျပန်အမျိုးသားများနှင့် နိုင်ငံခြားသားများကမူ မြို့တောင်ဖက်ရှိ တောင်ကုန်းဒေသပေါ်၌ နေထိုင်ကြသည်။ တိုကျိုပင်လယ်အော်ကို ထိုတောင်ကုန်းဒေသပေါ်မှ စီး၍ မြင်နိုင်၏။

၁၈၅၄ ခုနှစ်တွင် ယိုကိုဟားမား မြို့သည် တံငါရွာမျှလောက်သာ ဖြစ်သည်။ ၁၈၅၉ ခုနှစ်သို့ ရောက်သောအခါ ဂျပန် အစိုးရသည် အနောက်နိုင်ငံများနှင့် အဆက်အသွယ်မရှိဘဲ၊ အထီးတည်းနေသော ဝါဒကို စွန့်ပြီးလျှင် နိုင်ငံခြားနှင့် ကူးသန်း ရောင်းဝယ်ရေးကို လိုက်လျောခွင့် ပြုလိုက်လေသည်။ ထိုအခါမှ စ၍ ယိုကိုဟားမားတွင် ကုန်သွယ်ရေးအတွက် နိုင်ငံခြားသား မြောက်မြားစွာ လာရောက်နေထိုင်ကြလေသည်။ ယိုကိုဟားမားသည်လည်း ကြီးကျယ် စည်ကားသော မြို့ကြီး ဖြစ်လာသည်။ သို့ရာတွင် ၁၉၂၃ ခုနှစ် စက်တင်ဘာလ ၁ ရက်နေ့တွင် အလွန်ပြင်းထန်သောငလျင်ဒဏ်ကြောင့် တမြို့လုံးနီးပါးမျှ ပျက်စီးခဲ့ရလေသည်။ မြို့ကို အသစ်ပြန်တည်ရာ၌ လမ်းများကိုလည်း ချဲ့ထွင်ကြ၏။ အဆောက်အအုံများကိုလည်း ခေတ်မှီအောင် တည်ဆောက်ကြ၏။ တဖန် ၁၉၄၅ ခုနှစ်တွင် အမေရိကန် လေတပ်က ဗုံးကြဲတိုက်ခိုက်သောကြောင့် သင်္ဘောဆိပ်ကမ်း တလျှောက်ရှိ ရပ်ကွက်မှတပါး ကျန်ရပ်ကွက်တို့မှာ ပျက်စီးကုန်၏။ စစ်ပြီး ခေတ်တွင် မြို့ကိုပြန်လည်ထူထောင်လျက် ရှိကြသည်။

ယိုကိုဟားမား မြို့သည် ဂျပန် နိုင်ငံတွင် ကုန်သွယ်ရေးအတွက် အချက်အခြာမြို့ ဖြစ်သည်။ ပိုးခြည်၊ ပိုးထည်၊ လက်ဖက်ခြောက်၊ ယွန်းထည်၊ ကြေးနီ၊ ကျောက်မီးသွေးတို့သည် ထင်ရှားသော ထွက်ကုန်များဖြစ်၍၊ သိုးမွေးထည်၊ ဝါခြည်၊ သကြားတို့ကို တင်သွင်းသည်။ သင်္ဘော တည်ဆောက်သည့် လုပ်ငန်းသည်လည်း အရေးကြီးသောလုပ်ငန်းတရပ် ဖြစ်လေသည်။

ယိုကိုဟားမား မြို့၏ အကျယ်အဝန်းမှာ စတုရန်း မိုင် ၇၀ ခန့်ရှိ၍ လူဦးရေသည် ၁,၆၁၉,၀၀၀ ယောက် (၁၉၆၄) ဖြစ်လေသည်။

**ယိုကွလူမျိုး။** ။ချင်းလူမျိုး — ရှု။

**ယိုထိုးခြင်း။** ။အနောက် နိုင်ငံများတွင် အလေ့ ရှိသည်မှာ ပေါင်မုံ့ကို ထောပတ်သုတ်၍ စားကြသကဲ့သို့ "ယို" သုတ်၍လည်း သုံးဆောင်ကြလေသည်။ အဆိုပါယိုကိုပြုလုပ်ရာ၌ ယိုပြုလုပ်မည့် သစ်သီးများကို ရွေးဦးစွာပြုတ်၍ ချေနယ်ရ

သည်။ ထိုနောက်မှ သကြားနှင့်ရေ ရော၍ထားသည့် အထဲသို့ ချေနယ်ထားသော သစ်သီးဖတ်များကို ထည့်ကာ သကြားရည် အတန် ပျစ်လာသည်အထိ ကျိုရသည်။ ပေါင်မုန့်တွင် သုတ်စားရန် အနေရောက် မရောက် သိနိုင်ရန်မှာ ကျိုနေသောယိုကို တဇွန်းခန့် ခပ်ပြီးလျှင် လက်ဖက်ရည်ပန်းကန်ထဲသို့ ထည့်၍ အအေးခံကြည့်ရသည်။ ယိုသည် အနည်းငယ်ခဲသွားလျှင် အိုးကိုချရန် သင့်ပြီ ဖြစ်သည်။

ကျိုထားသော အိုးကို ဖိုပေါ်မှ ချလျှင်ချခြင်း အသင့်ပြင်ထားသော ပုလင်းများထဲသို့ ပူနွေးနေခိုက်တွင် လောင်းထည့်ရလေသည်။ ပုလင်းထဲတွင် အအေးခံ၍ ခပ်ပျစ်ပျစ်ဖြစ်လာသောအခါမှ ဆီစိမ် စက္ကူ၊ ဂျပ်စက္ကူတို့ဖြင့် ပုလင်းအဝကို ခပ်ကျပ်ကျပ် ပိတ်စည်းရလေသည်။

ယိုအမျိုးမျိုး ရှိသည့်အနက် မာမလိတ် ခေါ် ယိုတမျိုးသည် လိမ်မော်သီး၊သံပုရာသီးတို့ကို အခွံပါထည့်သွင်းပြုလုပ်ထားသော ယိုဖြစ်သည်။ ဂျယ်လီ ခေါ် ယိုတမျိုးမှာကား သစ်သီး၏ အရည်ကိုသာ ညှစ်ယူ၍ အဖတ်များ မထည့်ဘဲ သကြားဖြင့် ကျိုထားခြင်းဖြစ်သည်။ယိုထိုးရာတွင် သကြားကို ယိုထိုးမည့် သစ်သီး၏ အလေးချိန်နှင့် ဆတူမျှ ထည့်ရသည်။ အချဉ် အရသာ မပါသော သစ်သီးမျိုးဆိုလျှင် သကြားအနည်းငယ် လျော့၍ ထည့်ရသည်။ ယိုထိုးရာတွင် ဒန်အိုး၊ သို့မဟုတ် ကြွေပါအိုး အဝခပ်ကျယ်ကျယ်ကို အသုံးပြုသင့်၍ မိနစ် ၂၀ မှ ၆၀ ခန့်အထိ ကျိုပေးရသည်။ ကျိုရာ၌ မီးခပ်ပြင်းပြင်းတွင် ခပ်သွက်သွက် ဆူနေစေရမည်။

ယိုထိုးသည် ဟု ဆိုလျှင် သစ်သီးတမျိုးမျိုးကို ယိုထိုးကြောင်း သိနိုင်သည်။ သစ်သီးမှ အပ အခြား အရာများကို ယိုထိုး၍ မရချေ။ မြန်မာနိုင်ငံတွင်လည်း ရာသီအလိုက်ပေါ်သော သစ်သီးများကို ယိုထိုးကြသည်။ သို့ရာတွင် အနောက်နိုင်ငံမှ ယိုများကဲ့သို့ ပေါင်မုန့်တွင် သုတ်စားရန် မဟုတ်ဘဲ၊ မုန့်ခဲဖွယ် အချိုပွဲများတွင် သုံးဆောင်ရန် ဖြစ်သည်။ သရက်သီး၊ မရမ်းသီးစသော အသီးများကို အလုံးလိုက်ဖြစ်စေ၊ အခြမ်းလိုက် ဖြစ်စေ၊ အစိတ်လိုက်ဖြစ်စေ ယိုထိုးကြ၍ အဖတ်အတိုင်း ဆယ်၍စားသုံးကြသည်။ နာနတ်ယို၊ ဒူးရင်းယိုများမှာ ချေနယ်၍ ယိုထိုးထားခြင်း ဖြစ်သော်လည်း လက်ဖြင့် ဆုပ်ကိုင် စားနိုင်သော ယိုများ ဖြစ်ကြသည်။ ကျောက်ဖရုံယို၊ အုန်းယိုတို့ကိုကား အေးသွားလျှင် ခဲ၍ မာသွားသည်အထိ ယိုထိုးကြသည်။မြန်မာနိုင်ငံတွင်ယိုထိုးရာ၌ သကြားကိုရင်း၊ ထန်းလျက်ကိုရင်း၊ ကြံသကာကိုရင်း အသုံးပြုကြလေသည်။

သစ်သီးများမှာယိုထိုးထားခြင်းဖြင့် ကြာရှည်ခံကာ အရသာ ပို၍ ကောင်းလေသည်။ အနောက်နိုင်ငံများတွင်မူ ကမ္ဘာအရပ်ရပ်သို့ တင်ပို့ရောင်းချကြရန် ယိုထိုးခြင်းကို လုပ်ငန်းတရပ် အကြီးစားဖြင့် ဆောင်ရွက်ကြသည်။

# ထိုင်းလင်းနိုင်ငံ

**မြန်မာတို့က ယိုးဒယားနိုင်ငံ ဟု ခေါ်ဝေါ်လာခဲ့ကြသော မြန်မာနိုင်ငံ အရှေ့ဖက်ရှိ အိမ်နီးချင်းနိုင်ငံကို ၁၉၄၉ ခုနှစ်မှ အစပြု၍ ထိုင်းလင်းနိုင်ငံဟု ကမ္ဘာက အသိအမှတ်ပြုခဲ့ကြသည်။ ထိုနိုင်ငံကို အနောက်တိုင်းသားတို့က “ ပြုံးရယ်သူတို့ဌာနီ ” ဟူ၍ရင်း၊ “ သင်္ကန်းရောင် လွှမ်းသောတိုင်းပြည် ” ဟူ၍ရင်း တင်စားခေါ်ဝေါ်ကြသည်။ အာရှ အရှေ့တောင်ပိုင်းတွင် ဥရောပ လက်နက်နိုင်ငံကြီး တခုခု၏ လက်အောက်သို့ တကြိမ်တခါမျှ မကျရောက်ခဲ့ဘူးသည့် တခုတည်းသော နိုင်ငံလည်း ဖြစ်လေသည်။**

**ယိုးဒယားနိုင်ငံ**။ ။မြန်မာတို့က ယိုးဒယားနိုင်ငံဟု ခေါ်ဝေါ်သော မြန်မာနိုင်ငံ၏ အရှေ့ဖက် အိမ်နီးချင်း နိုင်ငံကို ၁၉၄၉ ခုနှစ် မေလမှ အစပြု၍ ထိုင်းလင်း နိုင်ငံဟု ကမ္ဘာက အသိအမှတ် ပြုခဲ့ကြသည်။ သို့သော် ထိုနိုင်ငံသူ နိုင်ငံသားများကမူ မိမိတို့ နိုင်ငံကို မွန်ထိုင်း (လွတ်လပ်သော တိုင်းပြည်) ဟု ခေါ်ဝေါ်ကြလေသည်။ ထိုင်းလင်းနိုင်ငံသည် အာရှတိုက် အရှေ့တောင်စွန်းတွင် တည်ရှိသည်။ ထိုင်းလင်းနိုင်ငံ၏ ထူးခြားချက်မှာ ထိုနိုင်ငံသည် အာရှတိုက် အရှေ့တောင်ပိုင်းတွင် ဥရောပတိုက် လက်နက် နိုင်ငံကြီး တခုခု၏ အုပ်ချုပ်ခြင်းကို မခံခဲ့ရသည့် တခုတည်းသော နိုင်ငံအဖြစ် ရပ်တည်နေခဲ့ခြင်း ဖြစ်သည်။ ထိုနိုင်ငံ၏ အနောက်ဖက်တွင် မြန်မာနိုင်ငံ၊ အရှေ့ဖက်တွင် လောနိုင်ငံနှင့် ကမ္ဘောဇနိုင်ငံ၊ တောင်ဖက်တွင် မလေးရှား နိုင်ငံနှင့် မြောက်ဖက်တွင် မြန်မာနိုင်ငံနှင့် လောနိုင်ငံတို့ အသီးအသီး တည်ရှိလေသည်။ အကျယ်အဝန်းမှာ ၁၉၈,၂၄၇ စတုရန်းမိုင် ဖြစ်၍၊ အရှည်ဆုံးနေရာတွင် အလျားမိုင် ၁,၁၀၀ ရှိပြီးလျှင် အကျယ်ဆုံး နေရာတွင် အနံမိုင် ၄၇၀ ရှိ၏။ ထိုင်းလင်း နိုင်ငံ၏ ပင်လယ် ကမ်းရိုးတန်းသည် ၁,၆၃၅ မိုင် ရှည်လျားသည်။

ထိုင်းလင်း နိုင်ငံကို ပထဝီဝင် သဘောအရ မြောက်ပိုင်း၊ အရှေ့ပိုင်း၊ အလယ်ပိုင်းနှင့် တောင်ပိုင်း ဟူ၍ လေးပိုင်း ခွဲခြားနိုင်သည်။ မြောက်ပိုင်းသည် အရေးပါသည့် မြစ်နှစ်သွယ်ဖြစ်သော သံလွင်မြစ်နှင့် မဲခေါင်မြစ်တို့၏ အကြားတွင်



ကမ္ဘာ့အရပ်ရပ်မှ စေတီတော်ကို ဖူးမြော်ရသူ အပေါင်းတို့၏ အံ့ချီး
မကုန်ရာဖြစ်တော်မူသော ရွှေတိဂုံစေတီတော်



ရှုမြင်သူအားလုံး ရွှင်ပြုံးကြည်နူးချမ်းမြေ့စေသည့်
ဇင်းကျိုက်ရေတံခွန်




ယိုးဒယားနိုင်ငံ တည်နေရာပြမြေပုံ

ကည်ရှိသည်။ ထိုအပိုင်းတွင် မြင့်၍ မတ်စောက်သော တောင်တန်းများသည် မြောက်မှ တောင်သို့ မျဉ်းပြိုင်သွယ် တန်း တည်ရှိသည်။ ထိုင်းလင်းနိုင်ငံတွင် အမြင့်ဆုံးဖြစ်သည့် ဒွိုင်အန်ကာ တောင်ထိပ်သည် ထိုအပိုင်း၌တည်ရှိလေသည်။ ထိုတောင်ထိပ်သည် ၈,၄၅၂ ပေ မြင့်သည်။ အရှေ့ပိုင်းဒေသကို ခိုရတ် ကုန်းပြင်မြင့်ဟုလည်း ခေါ်သည်။ ထိုအပိုင်းသည် မြင့်၍ သွေ့ခြောက်သော လွင်ပြင်ပိုင်း ဖြစ်သည်။ တောင်ကုန်းများမှသည် အင်ဒိုချိုင်းနား နယ်စပ် အထိ ကျယ်ပြန့်သည်။ ထိုင်းလင်းနိုင်ငံ၏ အလယ်ပိုင်းသည် နိမ့်၍ ပြန့်ပြူးသည့် မြစ်ဝှမ်း ဒေသ ဖြစ်သည်။ ထိုအပိုင်းသည် စတုရန်း မိုင်းပေါင်း ၆၇,၀၀၀ ခန့် ကျယ်ဝန်းသည်။ အဆိုပါ မြစ်ဝှမ်းဒေသသည် ထိုင်းလင်းနိုင်ငံရှိ မြစ်ကြီးတသွယ် ဖြစ်သော ကျောက်ဖျမြစ်ခေါ် မဲနမ်မြစ်နှင့် အခြားမြစ် အ မြောက်အမြားကြောင့် ဖြစ်ထွန်း ပေါ်ပေါက်လာခဲ့သည်။ ထိုအပိုင်းတွင် ဆန်စပါးကို အများဆုံး စိုက်ပျိုး လုပ်ကိုင်ကြ၍ လူဦးရေ အထူထပ်ဆုံး ဖြစ်၏။ ထိုင်းလင်းနိုင်ငံ တောင်ပိုင်းသည် ရှည်၍ကျဉ်းမြောင်းသည်။ တနေရာတွင် ဆယ်မိုင်မျှသာ ကျယ်၏။ ထိုအပိုင်းသည် အပူပိုင်းတွင် တည်ရှိ၍ တောင်ထူထပ်သည်။ ထိုင်းလင်း နိုင်ငံမှ ထွက်သော တွင်းထွက်ပစ္စည်းများကို ထိုအပိုင်းတွင် တူးဖော်ရရှိလေသည်။

ထိုင်းလင်း နိုင်ငံသည် မြောက်ယဉ်စွန်းတန်းနှင့် အီကွေတာအတွင်း၌တည်ရှိသဖြင့် မုတ်သုန်လေများ၏အကျိုးကျေးဇူးကို ခံစားရလေသည်။ ထိုမုန်သုန်လေများသည် ဧပြီလမှ အောက်တိုဘာလ အတွင်းတွင် အနောက်တောင်ဖက်မှ တိုက်ခတ်၍ အောက်တိုဘာလမှ ဧပြီလ အတွင်းတွင် အရှေ့မြောက်ဖက်မှ တိုက်ခတ်သည်။ ထိုင်းလင်းနိုင်ငံ၏ ရာသီ ဥတုသည် များသောအားဖြင့် ပူနွေး၍ စိုထိုင်းသည်။ မြောက်ပိုင်း၊ အရှေ့ပိုင်းနှင့် အလယ်ပိုင်းတို့တွင် မြန်မာနိုင်ငံမှာကဲ့သို့ ရာသီဥတု သုံးမျိုးရှိသည်။ ထိုင်းလင်းနိုင်ငံ၏ ဆောင်းဥတုသည် နိုဝင်ဘာလမှ ဖေဖွာရီလထိ ကြာ၍ နွေဥတုသည် ဖေဖွာရီလ အဆုံးမှ မေလတိုင်အောင် ကြာသည်။ မိုးဥတုသည် ဇွန်လတရက်နေ့လောက်မှစ၍ အောက်တိုဘာလကုန်ဆုံးမှ ပြီးဆုံးသည်။ တောင်ပိုင်းတွင်မူ နွေဥတုနှင့် အတန်အေးသော ဥတု ဟူ၍ ရာသီဥတု နှစ်မျိုးသာ ရှိသည်။

ထိုင်းလင်း နိုင်ငံတွင် တွင်းထွက်ပစ္စည်း အခြေအမြစ် အမြောက်အမြား ရှိသည်။ ထိုပစ္စည်းများတွင် သံဖြူ၊ တန်စတင်၊ ခဲ၊ ကျောက်မီးသွေး၊ ရွှေနှင့် အခြား အဖိုးတန်ကျောက်မျက်ရတနာများ ပါဝင်သည်။ ထိုင်းလင်း နိုင်ငံ၏ တောင်စောင်းများတွင်လည်း များသောအားဖြင့် သစ်တောများရှိရာ ထိုသစ်တောများမှ ထင်းအတွက်ငှင်း၊ လူအသုံးအဆောင် ပစ္စည်းများ ပြုလုပ်ရန်အတွက်ငှင်း သစ်အမျိုးမျိုး ထွက်၏။ လယ်ယာ ကိုင်းကျွန်း လုပ်ကိုင်ရန် အတွက် အကောင်းဆုံး မြေဆီလွှာသည် ထိုင်းလင်း နိုင်ငံ၏ အလယ်ပိုင်းတွင် တည်ရှိသည်။

ထိုင်းလင်းနိုင်ငံတွင် အပင် အမျိုးမျိုးနှင့် တိရစ္ဆာန် အမျိုးမျိုးရှိရာ သီးစားအပင်များတွင် သရက်၊ လိမ်မော်နှင့် ငှက်ပျော ဆဲ့ရှစ်မျိုး ပါဝင်ပြီးလျှင်၊ တောရိုင်းတိရစ္ဆာန်များတွင်လည်း ဆင်၊ ကျား၊ ကြံ့၊ မျောက်၊ သစ်နက်များနှင့် တောဝက်များ ပါဝင်သည်။ ထိုတိရစ္ဆာန်များသည် သစ်တောများအတွင်း၌ လှည့်လည် ကျက်စားနေကြလေသည်။ အိမ်မွေး တိရစ္ဆာန်များတွင် နွား၊ ကျွဲနှင့် ဆင်များ ပါဝင်ကြသည်။ ထိုင်းလင်းနိုင်ငံမှ ကြောင်များသည် ကမ္ဘာကျော်သည်။ ထိုပြင် ထိုင်းလင်းနိုင်ငံတွင် ငါးအမျိုးမျိုးနှင့် ငှက်အမျိုးပေါင်း တထောင်မကလည်း ရှိသည်။

ထိုင်းလင်းနိုင်ငံ၏ လူဦးရေမှာ ၂၆,၂၅၇,၉၁၆ ဖြစ်၍ ထိုင်းလူမျိုး (ယိုးဒယားလူမျိုး) ၈၀ ရာခိုင်နှုန်း၊ တရုပ် ၃.၄ ရာခိုင်နှုန်း၊ အိန္ဒိယ တိုင်းရင်းသားနှင့် မလေးလူမျိုး ၃.၄ ရာခိုင်နှုန်း၊ အခြားလူမျိုး ၁.၂ ရာခိုင်နှုန်း ဖြစ်သည်။ (ရှမ်းလူမျိုး — လည်း ရှ။) အခြားလူမျိုးများ ဟူရာ၌ မြန်မာ၊ မွန်၊ ကရင်၊ လဝ၊ မူဆို၊ မျောင်၊ ယောင် စသည့် လူမျိုးများ ပါဝင်သည်။

များသောအားဖြင့် ထိုင်းလူမျိုး (ယိုးဒယားလူမျိုး) သည် အရပ် မနိမ့်မမြင့် ဖြစ်၍ အသားညိုသည်။ နှာခေါင်းပွ၍ ပြားသည်။ နှုတ်ခမ်းများ ပေါ်လွင်၍ မေးရိုးကားပြီးလျှင် မေးတိုသည်။ နှုတ်ခမ်းမွေး ရေးရေးလည်း ထားလေ့ ရှိသည်။ ဆံပင် မည်း၍ ကြမ်းတမ်း၏။ ဆံပင်ကို တိုတိုညှပ်ထားတတ်သည်။ မြန်မာတို့ကဲ့သို့ပင် ကွမ်းစားတတ်သည့် အလေ့ ရှိ၏။ ထိုင်းလူမျိုးတို့သည် အမည်နှင့် လိုက်အောင်ပင် (ထိုင်းဟူသည်မှာ လွတ်လပ်သူ ဟူ၍ ဖြစ်သည်။) လွတ်လပ်ရေးကို မြတ်နိုး၍ မိမိတို့၏ လွတ်လပ်ရေး၊



ယိုးဒယားနိုင်ငံ ဗန်ကောက်မြို့တော်ရှိ ရေပေါ် ဈေးရပ်ကွက်
ဗန်ကောက်မြို့တွင် လူအမြောက်အမြားပင် လှေငယ်များတွင် နေထိုင်ကာ ရောင်းဝယ်ဖောက်ကားလေ့ရှိကြသည်။



ဗန်ကောက်မြို့ နာမည်ကျော် မြဘုရား ယင်ပြင်တော်ရှိ အစောင့် ဘီလူးကြီးများ

ကောင်းစားရေးအတွက် အနည်းနည်း အဖုံဖုံ ကြိုးစား အားထုတ်ခဲ့ကြသည်။ တိုက်ပွဲပေါင်းစုံကို ဆင်နွှဲခဲ့ကြသည်။ အသက်ပေါင်း များစွာကို စတေးခဲ့ကြသည်။ သူတို့၏ စိတ်ဓာတ်မှာ ရင့်ကျက်လျက် ဆုံလာသမျှ ဒုက္ခအဝဝကို ရင်ကော့၍ အပြုံးမပျက် ခံနိုင်ကြသည်။ အမြဲတမ်း ပြုံးကာ ရယ်ကာဖြင့် နေလေ့ရှိကြသည်။ ထို့ကြောင့် သူတို့၏ တိုင်းပြည်ကို "ပြုံးရယ်သူတို့ဌာနီ" ဟူ၍ပင် အနောက် နိုင်ငံသားတို့က တင်စား ခေါ်ဝေါ် ခဲ့သည်။ ထိုင်းလူမျိုးတို့သည် ဖြစ်သမျှအကြောင်း အကောင်းချည်း ဟူသော စိတ်မျိုးလည်း မွေးနိုင်ကြလေသည်။

ထိုင်းလူမျိုးတို့သည် မြန်မာလူမျိုးတို့ကဲ့သို့ပင် ထမင်းကို အာသာထား၍ စားကြသည်။ ထိုင်းတို့၏ ထမင်းပွဲတွင် ထမင်းကို အဓိက ထား၍ ဟင်းချိုပန်းကန် ပတ်လည်တွင် ဟင်းပန်းကန်များကို တည်ထားသည်။ ဟင်းရံများမှာ ဆီပြန်ချက်ထားသော ငါး၊ အသားနှင့် ဟင်းရွက် ဖြစ်လေသည်။ လူလတ်တန်းစားမိသားစု၏ ထမင်းပွဲ၌ ဟင်း လေးငါးမျိုး၊ ဆီပြန်ဟင်း နှစ်မျိုး သုံးမျိုးနှင့် ဟင်းချိုတပန်းကန် ပါမြဲ ဖြစ်၏။ ထမင်းစားအပြီး၌ အချိုတည်းရန် ရာသီအလိုက် အသီးများလည်း ပါဝင်၏။ ထို့ပြင် မြန်မာတို့ကဲ့သို့ပင် ငပိ၊ ငခြောက်၊ ငန်ပြာရည်တို့ကို စားသုံးသည်။ ထိုင်းတို့၏ ဟင်းမှာလည်း အုန်းနို့နှင့် သကြား ပါတတ်သည်သာ ထူးခြား၍ မြန်မာဟင်းနှင့် တူလှသည်။ ဟင်းအရသာများမှာ အချို၊ အခါး၊ အစပ်၊ အငန် အရသာမျိုးစုံလှ၏။ ဟင်းအနှစ်မှာ မြန်မာဟင်း အနှစ်ကဲ့သို့ပင် ငရုတ်၊ ကြက်သွန်၊ ချင်းမှစ၍ အမွှေးအကြိုင် မျိုးစုံပါလေသည်။ ထိုင်းတို့သည် အကြော်အလှော်တွင်လည်း ကျွမ်းကျင်သည်။ ထိုင်းတို့၏ မုံ့အချို ဟူသမျှမှာလည်း အုန်းသီးနှင့် မကင်းပေ။ အုန်းနို့ပါသော ခဲလန်ကျည်ထောက်၊ နနွင်းမကင်း၊ မုံ့လုပ်ဆောင်းနှင့် မုံ့ဖက်ထုပ်တို့မှာ ထိုင်းတို့၏ သွားရည်စာကောင်းများ ဖြစ်၏။ ဇင်စစ်သော်ကား မြန်မာတို့၏ သမရိုးကျ သွားရည်စာ အချို့ကို နနွင်းမကင်း၊ နန်းကထိ၊ မုံ့လုပ်ဆောင်း စသည်ဖြင့် ခေါ်ဝေါ်နေကြသည်မှာ ထိုင်းတို့၏ အမည်ကို မပြီမသ ခေါ်ဝေါ်နေခြင်းပင် ဖြစ်သည်ဟု ဆိုလေသည်။

ရှေး ထိုင်းလူမျိုးတို့ ဝတ်သော အဝတ်မှာ ပန္နန်းဟုခေါ်၏။ ပန္နန်းသည် အိန္ဒိယ လူမျိုးများ ဝတ်သော ဒိုတီနှင့် တူ၏။ တဖြတ်လျှင် လေးကိုက်ရှိ၍ ဒိုတီဝတ်သကဲ့သို့ပင် ဝတ်ရလေသည်။ ရှေး ထိုင်း နန်းတွင်းသူ နန်းတွင်းသား

များနှင့် မှူးကြီးမတ်ကြီးတို့သည် ကျား မ မရွေး အဖြူရောင် အပေါ်ဖုံး အင်္ကျီနှင့် အပြာရောင် ပန္နန်းကို ဝတ်ဆင်ရသည်။ ယခုအခါတွင်ကား ထိုင်းအမျိုးသမီး အမျိုးသား အားလုံး လိုလိုပင် အနောက်တိုင်းသူ တိုင်းသားတို့ကဲ့သို့ ဘောင်းဘီ၊ ရှတ်အင်္ကျီ၊ ဂါဝန် စသည်တို့ကို ဝတ်ဆင်ကြလေသည်။

ထိုင်းလူမျိုးတို့သည် ဗုဒ္ဓ အယူဝါဒီများ ဖြစ်ကြသည်။ ထေရ ဝါဒ ဗုဒ္ဓအယူဝါဒသည် နိုင်ငံတော်၏ အဓိက အယူ ဝါဒ ဖြစ်သည်။ ထိုင်းနိုင်ငံတွင် ဗုဒ္ဓအယူဝါဒီများမှာ တနိုင်ငံ လုံး လူဦးရေ၏ ၉၀ ရာခိုင်နှုန်းခန့်ပင် ရှိလေသည်။

ထိုင်းလင်း နိုင်ငံသည် ဗုဒ္ဓ အယူဝါဒီ နိုင်ငံဖြစ်သည့်အား လျော်စွာ နိုင်ငံတွင်း၌ ကျောင်း ကန် တန်ဆောင်းပေါင်း ၁၈,၄၀၀ ကျော်ရှိ၍ ရုပ်ပွား ဆင်းတုတော် စေတီတော်များ ၏ အရေအတွက်မှာမူကား လူဦးရေထက်ပင် များသည်ဟု ဆိုလေသည်။ နခုံပထုံမြို့ရှိ ဖရာ့ပထုံ စေတီနှင့် ဗန်ကောက် မြို့ရှိ မြဘုရား၊ နဝတ်အရုဏ်ခေါ် အရုဏ်စေတီတို့သည် ထင်ရှား၏။ ဖရာ့ပထုံစေတီသည် ၃၅၇ ပေ မြင့်၍ ထိုင်းလင်း နိုင်ငံတွင် တန်ခိုးအကြီးဆုံးသော စေတီတော်ဖြစ်ကာ နှစ်စဉ် တိုင်းရင်းသား ဘုရားဖူးများသာမက နိုင်ငံခြားသားများ ပါ အမြဲမပြတ် လာရောက် ဖူးမြော်ခြင်း ခံရသော စေတီ လည်း ဖြစ်လေသည်။ ထိုင်းလင်းနိုင်ငံတွင် ရဟန်းသံဃာ များ ပေါများ၍ ထိုင်းအမျိုးသားတိုင်း အရွယ်ရောက် အသက်စေ့လျှင် အနည်းဆုံး တကြိမ်ဖြစ်စေ ရဟန်းခံကြမြဲ ဖြစ်၏။ ထို့ကြောင့်လည်း အနောက်နိုင်ငံသား ဟဦးက "သင်္ကန်းရောင်လွှမ်းသော တိုင်းပြည်" ဟုပင် အမည်ပေးခဲ့ လေသည်။

ထိုင်းလူမျိုးတို့သည် ယဉ်ကျေးမှု၌ အဆင့်အတန်းမြင့်၏။ အထူးသဖြင့် ဆိုတီးက ပညာရပ်များတွင် ဝါသနာထုံသည်။ ယိုးဒယားအက၊ ယိုးဒယားသီချင်း၊ ယိုးဒယားရာမဇာတ်၊ ယိုးဒယားပန်းခက် စသည်ဖြင့် ထိုင်း (ယိုးဒယား) တို့နှင့် စပ်လျဉ်းသော အခေါ်အဝေါ်များကို မြန်မာတို့ နှုတ်ဖျား၌ နေ့စဉ် သုံးစွဲလျက် ရှိ၏။ မြန်မာ့ ယဉ်ကျေးမှု အကပညာ၌ ယိုးဒယားအက ကတတ်မှ အကတတ်သည်ဟု အသိအမှတ် ပြုကြ၏။ အဆိုပညာ၌လည်း ယိုးဒယား သီချင်း မဆိုတတ် သူကို သီချင်းအဆိုတော်အဖြစ် ခြီးမြှောက်ခြင်းမပြုကြ။ (ယိုးဒယား သီချင်းနှင့် အက — လည်း ရှု။) ဇာတ်သဘင် ၌လည်း ယိုးဒယား ရာမဇာတ်တော်ကြီးသည် အဆင့်အတန်း မြင့်သော တော်ဝင်ဇာတ်တော်ကြီး ဖြစ်၏။ ပန်းချီ၊ ပန်းပု ပညာသည်တို့တွင်လည်း ယိုးဒယား ပန်းခက်ကို ရေးဆွဲ



ဗန်ကောက်မြို့ရှိ အရုဏ်စေတီကို ကြည်နူးဖွယ်ရာ ဖူးမျှော်ရစဉ်

တတ် ထုလုပ်တတ်မှ ပန်းချီဆရာကောင်း၊ ပန်းပု ဆရာကောင်း တယောက်အဖြစ် ကျော်ကြားနိုင်ပေသည်။

ထိုင်းလူမျိုး ထိုသည် လက်ဝှေ့ထိုးခြင်း၊ ခြင်းလုံး ခတ်ခြင်း၊ စွန်ပြတ်ခြင်း စသော တိုင်းရင်းသား ကစားနည်းများကိုင်း၊ ဘော်လုံးကန်ခြင်း၊ ဗတ်စကက်ဘော ကစားခြင်း၊ ရပ်ဂဗီဘော ကစားခြင်း စသော ဥရောပတိုက်သားတို့၏ ကစားနည်းများကိုင်း ဝါသနာထုံသည်။ ထိုင်းတို့ လက်ဝှေ့ထိုးရာတွင် ရိုးရာ လက်ဝှေ့ထိုးပုံမှာ အနောက်တိုင်း လက်ဝှေ့သမားများကဲ့သို့ လက်အိတ်စွပ်ထားသော်လည်း မြန်မာလက်ဝှေ့ကဲ့သို့ ခြေ၊ လက်၊ ဒူး၊ တထောင်ဆစ်၊ ခေါင်းတို့ကို အလျဉ်းသင့်သလို အသုံးပြု၍ ထိုးခြင်းမျိုး ဖြစ်သည်။ ငါးတိုက်ခြင်းသည်လည်း ထိုင်းလူမျိုးတို့ နှစ်ခြိုက်သော ကစားနည်းတမျိုး ဖြစ်၏။

ထိုင်းလူမျိုးတို့၏ အစဉ်အလာ ပွဲတော်များမှာ နှစ်ကူးပွဲတော် (ဒီဇင်ဘာ ၃၁ ရက်နေ့မှ ဇန္နဝါရီ တရက်နေ့) မက္ခပူဇာပွဲတော် (ဖေဖွာရီလတွင်)၊ ဝိသာခပူဇာ ပွဲတော် (မေလတွင်)၊ ထိုင်းအမျိုးသားနေ့ (ဇွန်လ ၂၄ ရက်)၊ ဝါဝင်ပွဲတော် (ဇူလိုင်လတွင်)၊ ဆာတ်ခေါ် ဝါကျွတ်ပွဲတော် (အောက်တိုဘာလတွင်) နှင့် ကထိန်ပွဲတော် (အောက်တိုဘာလ အကုန်လောက်တွင်) စသည်တို့ ဖြစ်လေသည်။ နှစ်ကူး ပွဲတော် အခါတွင် ပျော်ပွဲရွှင်ပွဲများကို ကျင်းပကြသည်။ မက္ခပူဇာပွဲတော် အခါတွင် ဗန်ကောက်မြို့ အနောက်မြောက်ဖက် မိုင်တရာခန့် အကွာရှိ တောင်ပေါ်မှ ဘုရားစက်တော်ရာ (ဖရာဘတ်) ကို လူအများ သွားရောက် ဖူးမြော်ကြသည်။ မြန်မာနိုင်ငံရှိ ရွှေစက်တော်ဘုရားပွဲကဲ့သို့ စည်ကားလှပေသည်။ ဝိသာခပူဇာ ပွဲတော်မှာ မြန်မာနိုင်ငံတွင် ကဆုန်လပြည့် ပွဲတော် ဟူ၍ ကျင်းပသော ပွဲတော်ပင် ဖြစ်သည်။ ဘုရားအလောင်း ဖွားတော်မူသောနေ့၊ ဘုရားအဖြစ်သို့ ရောက်တော်မူသောနေ့၊ ပရိနိဗ္ဗာန်စံတော်မူသောနေ့ ဟူသော အထိမ်းအမှတ်ကို ရည်ညွှန်း၍ သုံးရက် ကျင်းပခြင်း ဖြစ်လေရာ၊ ကျောင်းကန်ဘုရား သွားရောက် တရားနာယူခြင်း၊ ဥပုသ်သီတင်း စောင့်သုံးခြင်းတို့ကို ပြုလေသည်။ ကထိန်ပွဲတော်အခါတွင် ထိုင်းဘုရင်မင်းမြတ်သည် လှေတော်ဖြင့် မြစ်ကြောင်းအတိုင်း စုန်ဆန် ကူးခတ်ကာ မိမိကိုးကွယ်သော ဘုန်းတော်ကြီး ကျောင်းများသို့ တက်၍ ကထိန်သင်္ကန်း ကပ်လှူတော်မူသည်။ ဘုရင့်လှေတော်၏ နောက်မှ မင်းမှုထမ်းတို့၏ လှေများက လိုက်ကြသည်။ ဘုရင့်လှေတော်သားများကလည်း လှော်တက်ကို ညီညီခတ်၍ လှေတော်သံများ ဆိုကြရလေသည်။ လမ်းခရီး တလျှောက်ရှိ တွေ့သမျှ ဘုန်းကြီးကျောင်းများသို့လည်း ဘုရင်၏ကိုယ်စား မင်းမှုထမ်းများက ကထိန်သင်္ကန်းများ ကပ်လှူလေသည်။

ထိုင်းလူမျိုးတို့၏ စာတွင် ဗျည်း ၄၄ လုံး၊ ရိုးရိုးသရ ၁၄ လုံး ရှိ၏။ ဂဏန်း ၁၀ လုံး ရှိ၏။ အိန္ဒိယ နိုင်ငံသုံး သက္ကတဘာသာကို အတုယူ၍ တီထွင်ခဲ့ခြင်း ဖြစ်သည်ဟု ဆိုလေသည်။

ထိုင်းလင်း နိုင်ငံတွင် လယ်ကေ တရာရှိလျှင် ဆယ်ကေခန့်ကိုသာ ထွန်ယက် စိုက်ပျိုးလေ့ ရှိသော်လည်း လူဆယ်ယောက်တွင် ကိုးယောက်သည် လယ်ယာ လုပ်ငန်းဖြင့် အသက်မွေးမှုပြုကြသည်။ ထိုင်းလင်းနိုင်ငံ၏ မြို့တော် ဖြစ်သော ဗန်ကောက်မြို့၏ မြောက်ဖက် အလယ်ပိုင်း လွင်ပြင်အတွင်း၌ လယ်ယာကောင်း အမြောက်အမြားရှိရာ များသောအားဖြင့် စပါးကိုသာ စိုက်ပျိုးကြသည်။

ထိုင်းလင်း နိုင်ငံ၏ အဓိက ကောက်ပဲသီးနှံမှာ စပါး ဖြစ်သည်။ ဆန်သည် ယိုးဒယားလူမျိုး၏ အဓိက အစာ ဖြစ်သည်။ စပါးကို ရေသွင်း၍လည်း စိုက်ပျိုးကြသည်။

ကြက်ပေါင်စေးပင်သည် ထိုင်းလင်းနိုင်ငံ၏ ဒုတိယ အရေးပါဆုံးသော အပင် ဖြစ်သည်။ ထိုင်းလင်း နိုင်ငံ တောင်ပိုင်းတွင် ကြက်ပေါင်စေးပင်များကို အကြီးအကျယ် စိုက်ပျိုးသည်။ ထိုပြင် ဆေး၊ ကြံ၊ အုန်း၊ ဝါ၊ ငရုတ်ကောင်း နှင့် ဖူးပြောင်းတို့ကိုလည်း စိုက်ပျိုး လုပ်ကိုင်ကြသေးသည်။ ချိပ်သည်လည်း ထင်ရှားသည့် ထွက်ကုန်တခု ဖြစ်သည်။ ထိုင်းလင်းနိုင်ငံရှိ တောင်သူ လယ်သမားများသည် ကျွဲနှင့် နွားများကို မွေးမြူကြသည်။

ထိုင်းလင်းနိုင်ငံ၏ အရေးအကြီးဆုံး တွင်းထွက်ပစ္စည်းမှာ သံဖြူဖြစ်သည်။ ထိုင်းလင်း နိုင်ငံ တောင်ပိုင်းတွင် များသောအားဖြင့် တူးဖော် ရရှိသည်။ တန်စတင်၊ ခဲ၊ ရွှေနှင့် ကျောက်မီးသွေးများကိုလည်း ထိုင်းလင်း နိုင်ငံ တောင်ပိုင်းတွင် တူးဖော်ရရှိသည်။ နီလာ အပါအဝင် အချို့ ကျောက်မျက်ရတနာများကို ဗန်ကောက်မြို့၏ အရှေ့တောင်ဖက်ရှိ ဒေသမှ တူးဖော် ရရှိလေသည်။

ထိုင်းလင်း နိုင်ငံတွင် ရှည်လျားသော ကမ်းရိုးတန်း ရှိသည်က တကြောင်း၊ မြစ်ချောင်း အမြောက်အမြား ရှိသည်က တကြောင်းတို့ကြောင့် ငါးဖမ်းသည့် လုပ်ငန်းကို ကောင်းမွန်စွာ လုပ်ကိုင်နိုင်လေသည်။ ငပိ၊ ငခြောက်များကို ကမ်းရိုးတန်း ဒေသများမှ နိုင်ငံအတွင်းသို့ တင်ပို့ ရောင်းချကြသည့်ပြင် နိုင်ငံခြားများသို့လည်း တင်ပို့ ရောင်းချလေသည်။

ထိုင်းလင်း နိုင်ငံ၏ ဆယ်ပုံပုံ ခုနစ်ပုံခန့်သည် သစ်တောများဖြင့် ဖုံးလွှမ်းနေသည်။ ထိုင်းလင်း နိုင်ငံ၏ မြောက်ဖက်ပိုင်းတွင် ကျွန်းတောကြီးများသည် ထိုအပိုင်း၏ သုံးပုံ တပုံခန့် ရှိသည်။ ကျွန်းသစ်ကို အိမ်ထောင် ပရိဘောဂ ပြုလုပ်ရာတွင်ရင်း၊ သင်္ဘောများ တည်ဆောက်ရာတွင်ရင်း အသုံးပြုကြသည်။ နိုင်ငံခြားသို့လည်း တင်ပို့ရောင်းချကြ



ထိုင်းလူမျိုးတို့သည် မြန်မာတို့ကဲ့သို့ပင် ထေရဝါဒ ဗုဒ္ဓဝါဒီများ ဖြစ်ကြသည်။

သည်။ ပျဉ်းကတိုး၊ ကြိမ်နှင့် ဝါးတို့သည်လည်း ထိုင်းလင်းနိုင်ငံ၏ အရေးပါသော အခြား သစ်တောထွက် ပစ္စည်းများ ဖြစ်သည်။ စက်မှု လုပ်ငန်းကို ထိုင်းလင်းနိုင်ငံတွင် လူတရာလျှင် နှစ်ယောက်မျှသာ လုပ်ကိုင် အသက်မွေးကြသည်။ အရေးပါသော စက်မှု လုပ်ငန်းများမှာ ခြည်ထည်နှင့် ပိုးထည် ရက်သည့် လုပ်ငန်း၊ ဆန်ကြိတ်ခြင်း၊ သကြားချက်ခြင်းနှင့် ဟင်းသီးဟင်းရွက်ဆီ ထုတ်လုပ်ခြင်း စသည်တို့ ဖြစ်သည်။

ထိုင်းလင်းနိုင်ငံ၏ အဓိက ထွက်ကုန်များတွင် လယ်ယာစိုက်ပျိုးရေးဆိုင်ရာ ထွက်ကုန်များမှာ ဆန်စပါး၊ ကြက်ပေါင်စေး၊ ဆေးရွက်၊ ကြံ၊ အုန်းသီး၊ ဝါဂွမ်း၊ ချိပ်၊ ကျွန်း၊ ဝါး၊ ကျွဲ၊ နွားနှင့် မြင်းများဖြစ်၍၊ တွင်းထွက်ပစ္စည်းဆိုင်ရာ ထွက်ကုန်များမှာ သံဖြူ၊ ရွှေ၊ တန်စတင်၊ ခဲ၊ ကျောက်မီးသွေးတို့ ဖြစ်ပြီးလျှင် စက်မှုလုပ်ငန်းဆိုင်ရာ ထွက်ကုန်များမှာ အထည်အလိပ်၊ အစားအစာနှင့် သစ်တို့ ဖြစ်လေသည်။

များသောအားဖြင့် ထိုင်းလင်းနိုင်ငံသည် ဂရိတ် ဗြိတိန်နိုင်ငံ၊ အမေရိကန် ပြည်ထောင်စု နိုင်ငံတို့နှင့်၎င်း၊ အိမ်နီးချင်း အာရှနိုင်ငံများနှင့်၎င်း နိုင်ငံခြား ကုန်သွယ်မှုကို ပြုလုပ်သည်။ နိုင်ငံထုတ်ကုန်များတွင် ထက်ဝက်ကျော်ကျော်သည် ဆန်စပါး ဖြစ်၏။ အခြား အရေးပါသော ထုတ်ကုန်များမှာ သံဖြူ၊ ကြက်ပေါင်စေး၊ ကျွန်းသစ်၊ တန်စတင်နှင့် ချိပ်ဖြစ်သည်။ ဝင်ကုန်များတွင် အထည်အလိပ်၊ သတ္တုများ၊ စက်ကရိယာများ၊ ယာဉ်များနှင့် ဓာတုဗေဒပစ္စည်းများ ပါဝင်လေသည်။

• ထိုင်းလင်းနိုင်ငံတွင် ၁၈၉၃ ခုနှစ်၌ ပဌမဆုံး မီးရထားလမ်းကို ဖောက်လုပ်ခဲ့သည်။ ယခုအခါတွင်မူ တနိုင်ငံလုံး၌ မီးရထားလမ်း အရှည်မိုင်ပေါင်း ၂,၁၆၀ ခန့်ရှိနေပြီဖြစ်၏။ အာရှ အရှေ့တောင်ပိုင်း နိုင်ငံများတွင် ထိုင်းလင်း နိုင်ငံသည် ဒီဇယ်စက်ခေါင်းများကို ဦးဆုံး အသုံးပြုခဲ့သော နိုင်ငံ ဖြစ်သည်ဟု ဆိုလေသည်။

ထိုင်းလင်းနိုင်ငံတွင် လမ်းမကြီးအရှည် မိုင်ပေါင်း ၄,၂၀၀ ခန့်ရှိသည်။ များသောအားဖြင့် နိုင်ငံအတွင်း ကူးသန်းသွားလာရေးအတွက် မြစ်ချောင်းများကို အသုံးပြုကြရသည်။ ထိုင်းလင်း နိုင်ငံတွင် လေကြောင်းအားဖြင့် ကူးသန်း သွားလာရေးသည်လည်း အရေးပါ ခေတ်စားသည်။ ဗန်ကောက်မြို့ရှိ ဒုန်မောင်း လေဆိပ်သည် အာရှ အရှေ့တောင်ပိုင်းတွင် အရေးအပါဆုံးသော လေဆိပ်များ၌ အဝင်အပါ ဖြစ်၏။

ထိုင်းလင်းနိုင်ငံရှိ မြို့ကြီးများတွင် ဗန်ကောက်မြို့၊ ဇင်းမယ်မြို့နှင့် လမ်ပန်းမြို့တို့သည် ထင်ရှားသည်။

ဗန်ကောက်မြို့သည် ထိုင်းလင်း နိုင်ငံ၏ မြို့တော် ဖြစ်သည်။ (ဗန်ကောက်မြို့ — လည်းရှု။)

ဇင်းမယ်မြို့တွင် လူဦးရေ ၂၅,၀၀၀ ခန့်ရှိ၍၊ ထိုင်းလင်းနိုင်ငံ မြောက်ပိုင်းတွင် အကြီးဆုံးမြို့ ဖြစ်သည်။ မြို့တော်ဖြစ်သော ဗန်ကောက်မြို့၏ အနောက်မြောက်ဖက် မိုင် ၃၆၀ ခန့် အကွာတွင် ရှိသည်။ ကျွန်းသစ် လုပ်ငန်းနှင့် ချိပ်လုပ်ငန်းများ ထွန်းကားရာမြို့ကြီး ဖြစ်သည်။ ထိုမြို့တွင် ပိုးထည်ရက် လုပ်ငန်း၊ အိုးခွက်လုပ်ငန်း၊ ငွေထည် လုပ်ငန်းနှင့် ယွန်းထည် လုပ်ငန်းများကိုလည်း လုပ်ကိုင်သည်။ (ဇင်းမယ် — လည်း ရှု။)

လမ်ပန်းမြို့တွင် လူပေါင်း ၂၅,၀၀၀ ခန့်ရှိ၍၊ ဇင်းမယ်မြို့၏ အရှေ့တောင်ဖက် ၄၅ မိုင်ခန့် အကွာတွင် တည်ရှိသည်။ သစ်တောကြီးများ အနီးအနားတွင် တည်ရှိ၍ သစ်ထုတ်လုပ်ငန်း ဗဟိုဌာန ဖြစ်သည်။ အဆိုပါ သစ်တောကြီးများတွင် ကျွန်းပင် အမြောက်အမြား ပေါက်ရောက်လျက် ရှိသည်။

ထိုင်းလင်း နိုင်ငံတွင် အသက်ရှစ်နှစ်မှ တဆဲ့ငါးနှစ်အရွယ်ရှိ ကလေးသူငယ်များကို မူလတန်း ပညာ မသင်မနေရ ဥပဒေကို ပြဌာန်းထားသည်။ သို့သော် ထိုင်းနိုင်ငံ၏ တဝက်မရှိတတ်သော လူဦးရေသည်သာ အရေးအဖတ် တတ်ကြသည်ဟု ဆိုလေသည်။ နိုင်ငံ အစိုးရက ကျောင်းများ တိုးတက်အောင် ဆောက်လုပ်ပေးခြင်း၊ ကျောင်းဆရာများ တိုးတက် မွေးထုတ်ပေးခြင်းတို့ဖြင့် ပညာရေးစံနစ် တိုးတက်ကောင်းမွန်အောင် ကြိုးပမ်း ဆောင်ရွက်လျက် ရှိ၏။ ထိုင်းလင်းနိုင်ငံတွင် အထက်တန်း ပညာ သင်ကြားရေးအတွက် နိုင်ငံတော် တက္ကသိုလ်ကျောင်းပေါင်း ငါးကျောင်းရှိရာ ထိုငါးကျောင်းစလုံးသည် မြို့တော်ဖြစ်သော ဗန်ကောက်မြို့ တမြို့တည်းတွင်သာ တည်ရှိလေသည်။ ထိုတက္ကသိုလ်များအနက် ၁၉၁၇ ခုနှစ်က စတင် ဖွင့်လှစ်ခဲ့သော စူဠာလောင်ကွန် တက္ကသိုလ်ကြီးသည် ထင်ရှားလေသည်။

ဦးစွာ၌ ထိုင်းလူမျိုးတို့သည် ယန်ဆီမြစ်ဝှမ်းတွင် နေထိုင်ခဲ့ကြ၍ ထိုဒေသတွင် နန်းကျောက် နိုင်ငံကို တည်ထောင်ခဲ့ကြ၏။ ကာလကြာသော် ကျောက်ဖျမြစ်၏ မြေဩဇာကောင်းသော လွင်ပြင်များဆီသို့ တိုက်ထုတ်ခြင်း ခံရလေသည်။ ထိုကျောက်ဖျမြစ်၏ လွင်ပြင်ဒေသတွင် ယင်းတို့၏ ပဌမဆုံး မြို့တော်ဖြစ်သော ဆုခေါ်ထိုင်း (သောက္ကထဲ) မြို့ကို ၁၃ ရာစုနှစ်တွင် တည်ထောင်ခဲ့ကြလေသည်။ ဆုခေါ်ထိုင်းတွင် အုပ်ချုပ် မင်းလုပ်ခဲ့သော ဘုရင်များအနက် အရေးအပါဆုံး ဘုရင်မှာ ရမ်ခါမိန် (ရာမဂါမဟိ) ဖြစ်၏။ ထိုမင်းသည် ထိုင်းအက္ခရာစဉ်ကို တီထွင်ပေးခဲ့သည်ဟု ဆိုလေသည်။

ထိုနောက် နှစ်ပေါင်း တရာခန့် ကြာသည့်အခါ **ရာမာ**ဓိပတိ (ဉထုံ) ဘုရင်သည် မင်းဆက် အသစ်ကို ထူထောင်ခဲ့၍ ၁၃၅၀ ပြည့်နှစ်ခန့်တွင် အယုဒ္ဓယ မြို့တော်ကိုလည်း တည်ထောင်ခဲ့၏။ (အယုဒ္ဓယမြို့ — လည်းရှု။) ထိုင်းလင်းနိုင်ငံ၏ ဘုရင်များသည် ၄၁၇ နှစ်မျှ ကြာသော ကာလ

ပတ်လုံး အယုဒ္ဓယကို မြို့တော် ပြုခဲ့လေသည်။ ၁၆ ရာစုနှစ် စောစောပိုင်းမှ အစပြု၍ ထိုင်းလင်း နိုင်ငံသည် အနောက်နိုင်ငံများနှင့် ဆက်ဆံမိသည်။ ထိုအချိန်လောက်တွင် ပေါ်တူဂီ ကုန်သည်များနှင့် လူစွန့်စားများသည် ထိုင်းလင်းနိုင်ငံသို့ ရောက်လာခဲ့ကြသည်။ ၁၇ ရာစုနှစ်တွင် ထိုင်းလင်းနိုင်ငံသည် ဟော်လန်၊ ဗြိတိန်နှင့် ပြင်သစ် နိုင်ငံတို့နှင့် ကုန်ကူးသန်း ရောင်းဝယ်ရေး အဆက်အသွယ်များ ပြုလုပ်ခဲ့လေသည်။

၁၇ ရာစုနှစ်နှင့် ၁၈ ရာစုနှစ်များတွင် ထိုင်းလင်း နိုင်ငံသည် အိမ်နီးချင်း နိုင်ငံများနှင့် အကြိမ်ကြိမ် စစ်ဖြစ်ခဲ့ရလေသည်။ (ဘုရင့်နောင်။ နန္ဒဘုရင် စစ်ပွဲများ။ ဆင်ဖြူရှင်မင်း — လည်းရှု။) ၁၇၆၇ ခုနှစ်တွင် ဆင်ဖြူရှင်မင်း၏ မြန်မာတပ်များသည် အယုဒ္ဓယ မြို့တော်ကို တိုက်ခိုက် ဖျက်ဆီးပစ်လိုက်ကြသည်။ ထိုနောက်တွင် ယိုးဒယားနိုင်ငံသည် မငြိမ်မသက် ဖြစ်နေခဲ့၍ စစ်ရှုံး ထိုင်းတပ်မတော်၏ ဗိုလ်ချုပ်တဦးဖြစ်သော ဖယားတက်ဆင် (ဘယားတက်သေဉ်) သည် လူသူစုရုံးကာ ပြန်လည်တိုက်ခိုက်ခဲ့ရာ နောက်ဆုံးတွင် ကျူးကျော် တိုက်ခိုက်လာသူများကို အောင်မြင်စွာတိုက်ထုတ်နိုင်ခဲ့လေသည်။ (ဖယားတက်ဆင် — ရှု။) ဖယားတက်ဆင်သည် ကျောက်ဖျမြစ်၏ အနောက်ဖက်ကမ်းတွင် ထွန်ဗူရီမြို့ကို တည်ထောင်ခဲ့၏။ ဖယားတက်ဆင်၏ အရိုက်အရာကို ယင်း၏ဗိုလ်ချုပ်တဦးဖြစ်သော ကျောက်ဖျကျက္ကရီက ဆက်ခံခဲ့သည်။ ကျောက်ဖျကျက္ကရီသည် ပဌမ ရာမာဓိပတိဘွဲ့ကို ခံယူခဲ့၍ ဗန်ကောက်မြို့ကို မြို့တော်အဖြစ် တည်ထောင်ခဲ့လေသည်။ ထိုမင်းပင် အဦးအစဖြစ်သော ကျက္ကရီမင်းဆက်သည် ထိုင်းလင်း နိုင်ငံတွင် ယခုတိုင် ဆက်လက်စိုးစံနေလေသည်။

၁၈၅၁ ခုနှစ်တွင် အမြော်အမြင် ကြီးမားသည့် ထိုင်းမင်းသားတပါး ဖြစ်သော ကျောက်ဖမောင်းကွတ်သည် စတုတ္ထ ရာမဘွဲ့ကို ခံယူလျက် ဘုရင်ဖြစ်လာသည်။ ထိုမင်းသည် ထိုင်းလင်းနိုင်ငံကို တိုင်းတပါးတို့နှင့် အဆက်အဆံပြုစေပြီးလျှင် ခေတ်မီအောင် ပြုပြင်ရန် လိုအပ်သည်ကို သိမြင်ခဲ့သည်။ ထိုမင်း လက်ထက်တွင် တိုင်းတပါးတို့နှင့် ထိုင်းလင်းနိုင်ငံ အချုပ်အချယ်မရှိ ကုန်သွယ် ရောင်းဝယ်ခွင့်ပေးသည်။ ထိုသို့ ပြုလုပ်နိုင်ရန်အတွက်လည်း စာချုပ်များ ချုပ်ဆိုခဲ့ရလေရာ အချို့သော စာချုပ်များ အရ တိုင်းတပါးသားတို့ကို ထိုင်းလင်း နိုင်ငံတွင်း၌ မိမိတို့ ကိုယ်ပိုင် တရားဥပဒေများအရ အုပ်ချုပ် စီရင်ပိုင်ခွင့်ကိုပါ ပေး



ထိုင်း ဆင်ထိန်းတော်များသည် ရှေးမြန်မာစစ်သည်တို့ ဝတ်စားဆင်ယင်သည့်အတိုင်း မောက်တို မောက်ရှည်တို့ကို ဝတ်ဆင်ကြသည်။



ငြိမ့်ညောင်းညင်သာသည့် ယိုးဒယားအက။ ထိုင်း လူမျိုးတို့သည် ယဉ်ကျေးမှုအဆင့်အတန်း မြင့်သည်။ အထူးသဖြင့် ဆို တီး က ပညာရပ်များတွင် ဝါသနာထုံသည်။ ယိုးဒယားအက ကကွက်များမှာ ညက်ညောသိမ်မွေ့စွာ ကပြရသော ကကွက် များ ဖြစ်သည့်အလျောက် နရီ၊ စည်း၊ ဝါး၊ အနှေးအမြန်နှင့် ကကွက်ပြောင်းစေကာမူ ငြိမ့်ညောင်းစွာ လှုပ်ရှား ကပြရသော အကတမျိုးဖြစ်သည်။

ခဲ့ရလေသည်။ ထိုမင်းကား "အင်နာခင်နှင့် ယိုးဒယားဘုရင်" အမည်ရှိသော နာမည်ကျော် ဝတ္ထုနှင့် ရုပ်ရှင်တို့တွင် ဇာတ်ဆောင်အဖြစ် ဖော်ပြခြင်း ခံရသော ထိုင်းဘုရင်ဖြစ်၏။ ထိုမင်းသည် ပညာဗဟုသုတနှင့် ပြည့်စုံ၏။ ပါဠိ၊ လက်တင်၊ အင်္ဂလိပ် စသော ဘာသာစကားများ အပြင် သင်္ချာဘာသာ၊ နက္ခတ်ပညာတို့ကိုလည်း တတ်ကျွမ်း၏။ သိပ္ပံပညာတွင် ဝါသနာကြီး၏။ စတုတ္ထ ရာမ ဘုရင်၏သားတော် ပဥ္စမ ရာမဘုရင် (စူဠာလောင်ကွန်) (၁၈၆၈–၁၉၁၀) လက်ထက်တွင် တိုင်းပြည်၏ ဥပဒေများကို ပြုပြင်ပြီးလျှင် တရားရုံးတော်များကိုလည်း ခေတ်မီအောင် ပြုပြင်ခဲ့သည်။ ထိုမင်းသည် ကျေးကျွန်စံနစ်ကို ပယ်ဖျက်ခဲ့၏။ အနောက်တိုင်း နည်းစံနစ်အတိုင်း စာသင်ကျောင်းများကို ဖွင့်လှစ်ပေးခဲ့ရုံမက လမ်းပန်းဆက်သွယ်မှု တိုးတက် ကောင်းမွန်အောင်လည်း ဆောင်ရွက်ခဲ့သည်။ ထို့ပြင် လက်နက်ကိုင် တပ်ဖွဲ့များကိုလည်း ပြန်လည် ဖွဲ့စည်းပေးခဲ့လေသည်။

၁၉ ရာစုနှစ် နောက်ပိုင်းတွင် ထိုင်းလင်း နိုင်ငံသည် အင်ဒိုချိုင်းနားတွင် မိမိ၏ ပိုင်နက်များကို နယ်ချဲ့လျက် ရှိသော ပြင်သစ်နိုင်ငံနှင့် မသင့်မတင့် ဖြစ်ခဲ့ရ၏။ ပြင်သစ်တို့၏ နယ်ချဲ့မှုကြောင့် ထိုင်းလင်းနိုင်ငံသည် စတုရန်း မိုင်ပေါင်း ၉၀,၀၀၀ မျှ ကျယ်ဝန်းသည့် ယင်း၏ အရှေ့ဖက်ပိုင်း နယ်မြေအချို့ ဆုံးရှုံးခဲ့ရလေသည်။

ပဥ္စမ ရာမဘုရင် (စူဠာလောင်ကွန်) သည် ၁၉၀၀ ပြည့်နှစ်တွင် လွန်၍ သားတော် ဝဇီရာဝုဓဘုရင် (၁၉၁၀ – ၁၉၂၅) နန်းတက်သည်။ ဝဇီရာဝုဓ ဘုရင် နန်းတက်သည့် ၁၉၁၀ ပြည့်နှစ်မှ ဒုတိယကမ္ဘာစစ် ဖြစ်ပွားသည့် ၁၉၄၂ ခုနှစ်အထိ ကာလ အပိုင်းအခြားကို "ထိုင်းလင်း နိုင်ငံ၏ ခေတ်ပြောင်းချိန်" ဟု သမိုင်းဆရာတို့က ဆိုစမှတ်ပြုကြလေသည်။ စူဠာလောင်ကွန် ဘုရင် နတ်ရွာစံပြီးနောက်တွင် ထိုင်းလင်းနိုင်ငံသည် ပညာရေးဖက်တွင်သာမက အစစအရာရာ တိုးတက် ပြောင်းလဲလာခဲ့လေသည်။

ပဌမ ကမ္ဘာစစ်အတွင်းက ၁၉၁၇ ခုနှစ်တွင် ထိုင်းလင်းနိုင်ငံသည် ဂျာမနီနှင့် ဩစတြီးယား၊ ဟန်ဂေရီ နိုင်ငံတို့ကို စစ်ကြေညာခဲ့သည်။ ထိုသို့ အကူအညီ ပေးခဲ့သဖြင့် မဟာမိတ်များသည် ထိုင်းလင်းနိုင်ငံအတွင်း မိမိတို့၏ ကိုယ်ပိုင် အုပ်ချုပ် စီရင်ပိုင်ခွင့်များကို စွန့်လွှတ်ရန် သဘောတူခဲ့သည်။ ဤသို့အားဖြင့် ထိုင်းလင်းနိုင်ငံသည် ပြည်တွင်းရေးတွင် လုံးဝ လွတ်လပ်စွာ ဆောင်ရွက်နိုင်ခဲ့လေသည်။

နှစ်ဆယ်ရာစုနှစ် အစထိ အုပ်ချုပ်ခဲ့သော အစိုးရစံနစ်မှာ သက်ဦးဆံပိုင် ဘုရင်စံနစ်ဖြစ်သည်။ အာဏာ အားလုံးကို ဘုရင်ကသာ ပိုင်ဆိုင်သည်။ ဘုရင်က သူ၏ သားတော်များနှင့် ညီတော်များကို ပြည်နယ်များ၏ဘုရင်ခံများအဖြစ် ခန့်အပ်သည်။ ဘုရင်ခံများသည် သူတို့၏နယ်များတွင် အာဏာလုံးဝရှိသူများ ဖြစ်သည့်ပြင်၊ ထိုပြည်နယ်များ၏ တာဝန်ခံ



ထိုင်းလင်းနိုင်ငံမှ ဆင်အမြောက်အမြား ထွက်သည်။ နှစ်စဉ်နှစ်တိုင်း ဆင်များကို ဤသို့ ဖမ်းဆီးကာ ကျုံးသွင်းလေ့ ရှိကြသည်။

များလည်း ဖြစ်သည်။ ဝဇီရာဝုဓ ဘုရင်၏ အရိုက်အရာကို ဆက်ခံသော ညီတော် ဖရာဂျာဒိပေါက်ဘုရင် (၁၉၂၅ – ၁၉၃၅) ၏ လက်ထက် ၁၉၃၂ ခုနှစ် ဇွန်လ ၂၄ ရက်နေ့တွင် ထိုင်းလင်းနိုင်ငံ၌ အုပ်ချုပ်ရေး စံနစ်သည် သက်ဦးဆံပိုင် ဘုရင်စံနစ်မှ စည်းမျဉ်းခံ ဘုရင်စံနစ်သို့ ပြောင်းလဲခဲ့သည်။ တိုင်းပြည် အုပ်ချုပ်ရေးအတွက် ဖွဲ့စည်း အုပ်ချုပ်ပုံ အခြေခံ ဥပဒေ တရပ်ကိုလည်း ရေးဆွဲ ပြဋ္ဌာန်းခဲ့၏။ ဘုရင် ဖရာဂျာဒိပေါက်သည် ၁၉၃၅ ခုနှစ်တွင် ထီးနန်းကို စွန့်လွှတ်လိုက်လေသည်။ သူ၏ အရိုက်အရာကို တူတော် အာနန္ဒာ မဟီဒိုက ဆက်ခံလေသည်။ ထိုအခါတွင် နိုင်ငံရေး အာဏာသည် စည်းမျဉ်းခံ ဘုရင်စံနစ်ကို ထူထောင်ခဲ့သူများ လက်တွင်းသို့ ကျရောက်သွားလေတော့သည်။

ဒုတိယ ကမ္ဘာစစ်အတွင်း ၁၉၄၀ ပြည့်နှစ် ဇွန်လတွင် ဥရောပတိုက်၌ ပြင်သစ်နိုင်ငံ စစ်ရှုံးသည်နှင့် တပြိုင်နက် လိုလိုပင် ထိုင်းလင်းနိုင်ငံသည် ယခင်က ပြင်သစ်ပိုင် အင်ဒိုချိုင်းနားသို့ ပေးအပ်ခဲ့ရသည့် နယ်မြေများကို ပြန်ပေးရန် တောင်းဆိုရာတွင် ပြင်သစ်နိုင်ငံက ငြင်းဆန်ခဲ့သောကြောင့် ပြင်သစ်နိုင်ငံနှင့် ထိုင်းလင်းနိုင်ငံတို့ စစ်ဖြစ်ကြသည်။ ဂျပန်နိုင်ငံက ထိုင်းလင်း နိုင်ငံဖက်မှ ပါဝင် ကူညီခဲ့၍ ထိုင်းလင်းနိုင်ငံသည် နယ်မြေအချို့ကို ပြန်၍ ရရှိခဲ့လေသည်။

၁၉၄၁ ခုနှစ် ဒီဇင်ဘာလတွင် ဂျပန်နိုင်ငံသည် ထိုင်းလင်းနိုင်ငံကို ဝင်ရောက် တိုက်ခိုက်သည်။ ထိုင်းလင်း နိုင်ငံသည် ဂျပန်တို့ကို ခေတ္တမျှသာ ခုခံ၍ ဂျပန်တို့နှင့် စစ်ပြေငြိမ်းရေး စာချုပ် ချုပ်ဆိုပြီးလျှင် ဂျပန်တို့နှင့် မဟာမိတ် ဖွဲ့လိုက်လေသည်။ ၁၉၄၂ ခုနှစ်တွင် နန်းရင်းဝန်ဖြစ်သော ပီးဗူဆွန်ဂရမ်က အမေရိကန် ပြည်ထောင်စုနှင့် ဗြိတိန်နိုင်ငံတို့ကို စစ်ကျေညာသည်။ (ဆွန်ဂရမ်,ပီးဗူ — လည်းရှု။) သို့သော် ထိုသို့ ထိုင်းလင်း နိုင်ငံက စစ်ကျေညာခဲ့သည်ကို အမေရိကန် ပြည်ထောင်စုက အသိအမှတ် မပြုချေ။ ထိုသို့ စစ်ကျေညာခဲ့သည့်အတွက်လည်း ဂျပန်တို့သည် ထိုင်းလင်း နိုင်ငံသို့ မြန်မာနိုင်ငံနှင့် မလ္လာယု ကျွန်းဆွယ်တို့မှ နယ်မြေ အချို့ကို ပေးအပ်ခဲ့လေသည်။ သို့သော်လည်း ထိုင်းလင်း နိုင်ငံရှိ ခေါင်းဆောင် အချို့သည် မဟာမိတ်များနှင့် လျှိုဝှက်စွာ ပူးပေါင်း ဆောင်ရွက်ခဲ့သည်။ ထိုသို့ မဟာမိတ်တို့နှင့် ပေါင်းကာ ထိုင်းလင်းနိုင်ငံ လွတ်မြောက်ရေး လုပ်ငန်းများကို လျှိုဝှက် လုပ်ကိုင် ဆောင်ရွက်ခဲ့သည့် အဖွဲ့၏ ခေါင်းဆောင်မှာ ဆွန်ဂရမ်၏ ဘဏ္ဍာရေး ဝန်ကြီးဟောင်း နိုင်ပရီဒီး ဖြစ်လေသည်။

ဒုတိယ ကမ္ဘာစစ်ကြီး ပြီးဆုံးသွားသောအခါတွင် ထိုင်းလင်း နိုင်ငံသည် ပြင်သစ်နိုင်ငံနှင့် ဗြိတိန် နိုင်ငံတို့၏ ချစ်ကြည်ရင်းနှီးမှုကို ပြန်လည် ရရှိခဲ့သည်။

၁၉၄၆ ခုနှစ် ဇွန်လအတွင်း၌ အာနန္ဒာ မဟီဒို ဘုရင်သည် နဖူးတွင် သေနတ်ကျည်ဆံ နှစ်ချက် မှန်သော ဒဏ်ရာ ဖြင့် လွန်ရာ၊ သူ၏ ညီတော် ဖူမီဖွန် အဒူလဒက်က ထီးနန်း အရိုက်အရာကို ဆက်ခံလေသည်။ သို့သော် ဖူမီဖွန် ဘုရင် သည် ဆွစ်ဇာလန်နိုင်ငံတွင် ပညာသင်ကြားနေဆဲ ဖြစ်သဖြင့် ပုဂ္ဂိုလ်သုံးဦးကို ရင်ခွင်ပိုက် အစိုးရအဖြစ် ခန့်အပ်ခဲ့ရလေသည်။ ၁၉၄၆ ခုနှစ် ဒီဇင်ဘာလတွင် ထိုင်းလင်းနိုင်ငံသည် ကုလသမဂ္ဂတွင် ၅၅ ဦးမြောက် အဖွဲ့ဝင်အဖြစ် ပါဝင်ခွင့် ရရှိခဲ့လေသည်။

၁၉၄၇ ခုနှစ် နိုဝင်ဘာလ ၈ ရက်နေ့တွင် ပေါ်ပေါက်ခဲ့သော စစ်ဖက်တော်လှန်မှုကြောင့် စစ်ပြီးသည်မှစ၍ အစိုးရ အဖွဲ့အသီးအသီးကို ကြီးကိုင်ခဲ့သော နိုင်ပရီဒီးသည် ထိုင်းလင်း နိုင်ငံမှ ထွက်ပြေးခဲ့ရပြီးလျှင် ထိုနောက် မကြာမီပင် ပီးဗူဆွန်ဂရမ်သည် နန်းရင်းဝန် ပြန်ဖြစ်လာခဲ့သည်။ ၁၉၄၉ ခုနှစ်တွင် ဖွဲ့စည်း အုပ်ချုပ်ပုံ အခြေခံ ဥပဒေကို ပြန်လည် ပြင်ဆင်ခဲ့သည်။ ၁၉၅၀ ပြည့်နှစ်တွင် ဖူမီဖွန် ဘုရင်သည် နဝမ ရာမ ဘုရင်အဖြစ် နန်းတက်လေသည်။

၁၉၅၁ ခုနှစ်တွင် တော်လှန်ရေးတရပ် နောက်ထပ်ဖြစ်ပေါ်ခဲ့သေးသည်။ ပီးဗူဆွန်ဂရမ်သည် နာရီ အနည်းငယ်မျှ ရာထူးမှ အချုပ်ခံခဲ့ရသော်လည်း မကြာမီ အတွင်း၌ပင် အစိုးရ အဖွဲ့၏ ခေါင်းဆောင် ပြန်၍ ဖြစ်လာပြန်သည်။ ထိုအခါ ၁၉၄၉ ခုနှစ် ဖွဲ့စည်း အုပ်ချုပ်ပုံ အခြေခံ ဥပဒေကို ဖျက်သိမ်း၍ ၁၉၃၂ ခုနှစ် ဖွဲ့စည်း အုပ်ချုပ်ပုံ အခြေခံ ဥပဒေကို ပြန်၍ အသုံးပြုကြလေသည်။

၁၉၅၇ ခုနှစ် ဖေဖော်ဝါရီလတွင် ကျင်းပခဲ့သော ရွေးကောက်ပွဲများတွင် ပီးဗူဆွန်ဂရမ်၏ အဖွဲ့သည် အနိုင်ရရှိခဲ့၍ အစိုးရ အဖွဲ့ကို ဖွဲ့စည်းနိုင်ခဲ့သော်လည်း ထိုနှစ် စက်တင်ဘာလ ၁၇ ရက်နေ့တွင် မာရှယ်ဆာရစ်ထာနာရတ် ခေါင်းဆောင်သော ထိုင်းတပ်မတော်က ဆွန်ဂရမ် အစိုးရ လက်တွင်းမှ အာဏာကို လက်ရ သိမ်းပိုက်လိုက်သည်။ ၁၉၅၇ ခုနှစ် ဒီဇင်ဘာလတွင် ဒုတိယအကြိမ် ရွေးကောက်ပွဲများ ကျင်းပပေးခဲ့သော်လည်း မည်သည့်အဖွဲ့ကမျှ အစိုးရအဖွဲ့ ဖွဲ့နိုင်လောက်သည့် အမတ်အင်အား မရရှိခဲ့ပေ။ ၁၉၅၈ ခုနှစ် ဇန္နဝါရီလ ၁ ရက်နေ့တွင် ဗိုလ်ချုပ်ကြီး ထနွမ်ကစ်တီကာချွန် ခေါင်းဆောင်ဖွဲ့စည်းခဲ့သော အစိုးရအဖွဲ့ကို ထိုနှစ် အောက်တိုဘာလတွင် ဖြုတ်ချခဲ့သည်။ ထိုနောက်တွင် အမျိုးသား လွှတ်တော်ကို ဖျက်သိမ်းကာ ဖွဲ့စည်း အုပ်ချုပ်ပုံ အခြေခံဥပဒေကို ပယ်ဖျက်ခဲ့ပြီးလျှင် နိုင်ငံရေးအဖွဲ့များ ဖွဲ့စည်းခွင့်ကိုလည်း ဖျက်သိမ်းလိုက်လေသည်။ မာရှယ်ထာနာရတ် ခေါင်းဆောင်သော တော်လှန်ရေးအဖွဲ့၏ ရည်မှန်းချက်များမှာ အလွန် ထိရောက်လှသော အုပ်ချုပ်ရေး ဆိုင်ရာ ပြုပြင်မှုများကို ဆောင်ရွက်ရန်၊ လာဘ်ပေးလာဘ်ယူအဂတိလိုက်စားမှုများ ပပျောက်အောင် ပြုရန်၊ တဦးချင်း ဝင်ငွေကို တိုးမြှင့်ပေး

ခြင်းဖြင့်၎င်း၊ တိုင်းပြည်၏ ကျယ်ပြန့်လှသော သဘာဝ ပင်ရင်း အခြေအမြစ်များကို အသုံးပြုခြင်းဖြင့်၎င်း ပြည်သူ လူထု၏ နေထိုင်မှု အဆင့်အတန်းကို တိုးမြှင့်ပေးရန် တို့ဖြစ်လေသည်။

မာရှယ် ထာနာရတ် ခေါင်းဆောင် ဖွဲ့စည်းသော အစိုးရ အဖွဲ့တွင် ဝန်ကြီးချုပ် တဦးနှင့် ဒု-ဝန်ကြီးချုပ် ၂ ဦး အပါ အဝင် ဝန်ကြီး ၁၄ ဦး ပါဝင်သည်။ ၁၉၅၉ ခုနှစ် ဇန္နဝါရီလ ၂၈ ရက်နေ့တွင် ကြားဖြတ် အခြေခံ ဥပဒေ တရပ်ကို ပြဋ္ဌာန်းခဲ့၏။ ထိုအခြေခံ ဥပဒေအရ ဆိုသော် ထိုင်းနိုင်ငံတွင် စည်းမျဉ်းခံ ဘုရင်အစိုးရ စံနစ်ကို လက်ခံ ကျင့်သုံး၍ ပြည်သူ လူထုမှ ဆင်းသက်လာသော အချုပ်အချာ အာဏာကို အုပ်ချုပ်ရေးဌာန၊ ဥပဒေပြုရေး ဌာနနှင့် တရားစီရင်ရေး ဌာနတို့မှ တဆင့် အသုံးပြုသွားမည်ဟု ဆိုလေသည်။ အမြဲတမ်း ဖွဲ့စည်းအုပ်ချုပ်ပုံ အခြေခံ ဥပဒေတရပ်ကို မပြဋ္ဌာန်းရသေးမီ အစိုးရ ခန့်ထားသည့် အဖွဲ့ဝင် ၁၄၀ ပါဝင်သော ဥပဒေပြုလွှတ်တော် တရပ်ကို ဖွဲ့စည်းထားခဲ့ရာ ထိုလွှတ်တော်သည် တိုင်းပြည်ပြု လွှတ်တော်အဖြစ်၎င်း၊ အမျိုးသား ဥပဒေပြု လွှတ်တော် အဖြစ်၎င်း ဆောင်ရွက်သွားမည် ဖြစ်လေသည်။



ထိုင်းနိုင်ငံ လယ်ယာစိုက်ပျိုးရေးတွင် လယ်တွင်းရေသွင်းရန် ခြေနင်း ဒလက်ကို အသုံးပြုကြသည်။

၁၉၆၃ ခုနှစ်တွင် မာရှယ် ဆရစ်ထာနာရတ် ကွယ်လွန်သွား၍ ထိုနှစ် ဒီဇင်ဘာလ ၉ ရက်နေ့တွင် ထိုင်းဘုရင်မင်းမြတ်က မာရှယ်ထနွမ်ကစ်တီကာချွန်ကို ဝန်ကြီးချုပ် အဖြစ်၎င်း၊ ကာကွယ်ရေး ဝန်ကြီးအဖြစ်၎င်း ခန့်အပ်ခဲ့လေသည်။

ထိုင်းလင်း နိုင်ငံကို အုပ်ချုပ်ရေး အလို့ငှါ ပြည်နယ်များ (ချန်ဝတ်)၊ ခရိုင်များ (အမ်ဖူး)၊ ခရိုင်ခွဲများ (ကင်းအမ်ဖူး)၊ ကွန်မြူန်းများ (ဝါ) ကျေးရွာ အုပ်စုများ (တမ်ဗုံး) နှင့် ကျေးရွာများ (ဗူးဗန်း) ဟူ၍ ခွဲခြားထားရာ ထိုင်းလင်း နိုင်ငံတွင် ပြည်နယ် ၇၁ နယ်ရှိသည်။ အာဏာ ကန့်သတ်ထားသော ဒေသဆိုင်ရာ အုပ်ချုပ်ရေး အဖွဲ့များနှင့် ဥပဒေပြု အဖွဲ့များကို ဖွဲ့စည်းထားသည်။

ပြည်နယ် တခုတွင် ဘုရင်ခံတဦးစီရှိရာ ယင်းတို့ကို ပြည်ထဲရေး ဝန်ကြီးက ခန့်ထားသည်။ ပြည်နယ် အုပ်ချုပ်ရေး အတွက် ဘုရင်ခံက လုံးဝတာဝန်ယူရသည်။ ဘုရင်ခံ၏ အဖွဲ့တွင် ဒုတိယ ဘုရင်ခံတဦး၊ လက်ထောက် ဘုရင်ခံတဦး၊ အစိုးရ ရှေ့နေတဦး၊ ရဲချုပ်တဦးအပြင် အခွန်တော်၊ ပညာရေး၊ လယ်ယာစိုက်ပျိုးရေးနှင့် ပြည်သူ့ကျန်းမာရေး ဌာနတို့ကဲ့သို့သော ဗဟို အစိုးရ အဖွဲ့ရှိ ဌာနများမှ ဒေသန္တရ ဆိုင်ရာ အထက်တန်း အရာရှိများ ပါဝင်လေသည်။

**ယိုးဒယားသီချင်းနှင့် အက။** ။ယခုခေတ် မြန်မာတိုင်းရင်းသားတို့၏ သီဆို တီးမှုတ် ကခုန်မှု သဘင်ပညာသည် မြန်မာနိုင်ငံတွင် လွန်ခဲ့သော နှစ်ပေါင်း ၁၅၀၀ ခန့်မှစ၍ ဆင်းသက် ပေါက်ပွားလာသော ပညာဖြစ်လေသည်။ ပုဂံခေတ် ကျောက်စာများတွင် ကခြေသဘင် ဟူသော ဝေါဟာရ စကားများကို တွေ့ရသည့်အပြင် ပုဂံ ကူဘုရား နံရံများရှိ အချို့သော ပန်းချီ ဆေးရေးကားများတွင် ကဟန် အမူအရာအမျိုးမျိုးကို မြင်နိုင်လေသည်။ ထိုအမူအရာများသည် ယခုအခါ ယိုးဒယားအကဟု နတ်ဝသီအတိုင်း ခေါ်နေကြသော အချို့ အက အမူအရာတို့နှင့် တူလှလေသည်။ သို့ရာတွင် ပုဂံကောင်းစားနေသောခေတ်၌ ယခုအခါ ယိုးဒယားဟု ခေါ်သော ဒေသတွင် ယိုးဒယားလူမျိုးများသည် နိုင်ငံ မတည်ကြသေးချေ။ ထို့ကြောင့် ယိုးဒယား အကဟု ယခုအခါ ခေါ်ဆိုလျက်ရှိသော မြန်မာတို့၏ အချို့ အက အမူအရာများသည် ပုဂံခေတ်မှ ဆင်းသက်လာသော မြန်မာ့အကပညာအစစ် ဖြစ်သည်ဟု၎င်း၊ ထိုအက အမူအရာများကို ရှေးရိုး မြန်မာအကပညာဟု၎င်း ဆိုထိုက်လှလေသည်။ (မြန်မာဇာတ်သဘင် — လည်းရှု။)



ခေါင်းပေါင်း (ဘောင်းတော်) ပေါင်းဟန်ကို လက်အကွေး အညွှတ် အပျောင်း အနွဲ့တို့ဖြင့် သရုပ်ဖော် ကပြရသည်။

အလောင်းမင်းတရားကြီး၏ သားတော်လတ် ဖြစ်သော ဆင်ဖြူရှင် မင်းတရားကြီးသည် သက္ကရာဇ် ၁၁၂၉ ခုနှစ်တွင် ဇင်းမယ်၊ လင်းဇင်း၊ အယုဒ္ဓယတို့ကို အောင်တော်မူရာ ယိုးဒယား မင်းသား မင်းသမီးတို့နှင့်တကွ ယိုးဒယားသဘင် ပညာသည်တို့သည် အင်းဝသို့ ရောက်လာကြလေသည်။ ဂျွမ်းပြည်၊ ယွန်းပြည်တို့မှ အရပ်ရပ် ဒဏ္ဍာရီပုံပြင်များ၊ ယိုးဒယား အဆိုအတီးများလည်း ပါလာလေသည်။ ထို ပုံပြင်များအနက် သခ်ပတ္တ၊ ကေသာသီရိ၊ အီနောင်၊ ရာမ တို့သည် ထင်ရှားသည်။

ဘိုးတော်ဘုရား လက်ထက် ၁၁၅၁ ခုနှစ်တွင် ဂျွမ်းပြည်၊ ယွန်းပြည်တို့မှ ပါလာသော အီနေ့စင်၊ ရာမ၊ သခ်ပတ္တ၊ ကေသာသီရိ ဒဏ္ဍာရီဇာတ်များကို ဂျွမ်းသံခံ၊ ယွန်း သံခံတို့၏ အကူအညီဖြင့် မြန်မာ ပြန်ဆိုစေသည်။ ထို နောက် မြဝတီမင်းကြီး ဦးစနှင့် ပြင်စည်မှူးစား မြင်းမှူး မင်းသား အစရှိသော မြန်မာပညာရှိများကို ပင့်ခေါ် စုရုံး စေ၍ ထိုဘာသာပြန် ဒဏ္ဍာရီများကို နန်းတွင်း ဇာတ် တော်ကြီးများအဖြစ် ခင်းကျင်း ကပြနိုင်အောင် မြန်မာ တို့နှင့် သင့်လျော်သော ဇာတ်လမ်းဇာတ်ကွက်များ ထုတ် ကာ၊ ကဗျာလင်္ကာ သီချင်းများကို ရေးစပ် ဖွဲ့ဆိုစေခဲ့သည်။

(စ၊ ဦး၊ မြဝတီမင်းကြီး။ ပြဇာတ်။ ပြင်စည်မင်းသား — လည်းရှု။) ထိုသို့ ပုံပြင် ဒဏ္ဍာရီများနှင့်အတူ ပါလာသော ယိုးဒယား အဆိုအတီးများ (ဝါ) ယိုးဒယား သီချင်းတေး သံတို့ကို မြန်မာစကားလုံးများဖြင့် စီကုံးရေးသားခဲ့ရာ၊ ယင်း တို့ကို ယိုးဒယားသီချင်းဟု ခေါ်လာခဲ့၍ ထိုယိုးဒယား သီ ချင်း တီးကွက်အသံများကို အမှီပြုကာ ပေါ်ပေါက် ထွန်း ကားလာခဲ့သော၊ တနည်းအားဖြင့် ထိုတေးသီချင်းများကို အကြောင်းပြု၍ ယှဉ်တွဲ သရုပ်ဖော် ကပြသည့် ကကွက် များကို ယိုးဒယားအက ဟူ၍ ခေါ်ဝေါ်လာကြလေသည်။

ယိုးဒယား တေးသီချင်း တီးကွက်များ အနေဖြင့် မြန်မာ တူရိယာ ပညာရှင်တို့ အဓိကထား၍ တီးမှတ်ခဲ့သော မြန် မာ ယိုးဒယား တေးသီချင်းများနှင့် စပ်လျဉ်း၍ "ရွှေနှင်း တောမှိုင်၊ ပန်းခိုင်မော်မှိုင်း၊ ခြားပိုင်းရှစ်သံ၊ ဖရဲတင်(ညွန့်)၊ ခက်မွန်ခမိန်၊ ထနောင်းချိန်သား၊ ဖရင်းချားထပ်တွန့်၊ ချွတ် ချုံငုစ်၊ အသံရှစ်၊ မှတ်လစ်စဉ်ကမ္ဘာ" ဟု မှတ်သားရန် လင်္ကာတပိုဒ် ရေးစပ်ထားခဲ့၏။ ယင်းသည့် လင်္ကာကို အ ကျယ် ဖွင့်ပြရသော် —

| | | | |
|---|---|---|---|
| (၁) | ( ရွှေ ) | — ရွှေတညာ | (ဖရဲတင်) |
| (၂) | ( နှင်း ) | — နှင်း ယွန်းခါဟေမန် | (ခက်မွန်) |
| (၃) | (တော) | — တောတောင်စွယ် | (ခမိန်) |
| (၄) | ( မှိုင် ) | — တောမှိုင်ခြေလမ်း | (ထနောက်) |
| (၅) | ( ပန်း ) | — ပန်းမှိုင်လယ် | (ဖရင်းချား) |
| (၆) | ( ခိုင် ) | — ခိုင်ပန်းစုံ | (ထပ်တွန့်) |
| (၇) | ( မော် ) | — မော်ရုံဟောင်း | (ချွတ်ချုံ) |
| (၈) | ( မှိုင်း ) | — မှိုင်းမှုံပြာညို | (ငုစ်) ဟူ၍ ဖြစ်သည်။ |

ယိုးဒယားသံ ရှစ်မျိုးဖြင့် သီကုံး ဖွဲ့ဆိုသော ထိုယိုးဒယား သီချင်း ရှစ်ပုဒ်ကို ပြင်စည် မင်းသား စပ်ဆိုခဲ့သည်။ ပြင် စည် မင်းသားကြီးသည် ဤရှစ်ပုဒ်ဖြင့် ယိုးဒယားသံ မြန်မာ သီချင်းများ၏ အုတ်မြစ်ကို ချခဲ့သည်ဟု ဆိုရသည်။

ရှေးအစဉ်အလာအားဖြင့် မြန်မာ တူရိယာ ပညာရှင် တို့သည် ဤယိုးဒယား သီချင်း ရှစ်ပုဒ်ကို သင်ကြား ပြီး မြောက်ချိန်၌ ယိုးဒယား သီချင်းများ၏ အခြေခံကို ပြည့်စုံ တတ်မြောက်သည်ဟု ယူဆခဲ့လေ့ရှိသည်။ ထိုပြင် ထိုမြန်မာ ယိုးဒယား သီချင်းတေးသံတို့ကို ယိုးဒယားရှစ်ခန်း ဟူ၍ မှတ်သားလာခဲ့သည်ဟု ဆိုသည်။ သို့ရာတွင် ထိုသီချင်း ရှစ်ပုဒ်တွင် —

| | | | |
|---|---|---|---|
| (၁) | (လွမ်း) | — လွမ်းပိုအောင် | (ချူခြား) |
| (၂) | (ဆန်း) | — ဆန်းနွေဦး | (ကပီ) |
| (၃) | ( စိန် ) | — စိန်ခြယ်ညီးလင်း | (အလေ့မေ့) |
| (၄) | ( ဝေ ) | — ဝေဇယန္တာ | (မဟိုရ်သီ) |

တို့ကို ဖြည့် စွက်၍ ယိုးဒယား ၁၂ ခန်းဟု မှတ်သားထားကြသည်လည်း ရှိပြန်လေသည်။



မှန်ကြည့်ဟန်အကဖြစ်သည့် မှန်တော်ရှုအက

မြန်မာ ယိုးဒယား တေးသီချင်းများ၏ တီးကွက် တေးသွားနှင့် ယှဉ်တွဲ ကပြလေ့ရှိသော ကကွက်များမှာ အထက်ဖော်ပြပါ တေးသီချင်းများ၏ တီးကွက် အစိတ်အပိုင်း အတွင်း၌သာ ကိုယ်ဟန် အမူအရာ ပြောင်းလဲ ဖန်တီး ကပြသော ကကွက်များ ဖြစ်လေသည်။

ယိုးဒယားအက ကကွက်များမှာ ညက်ညော သိမ်မွေ့စွာ ကပြရသော ကကွက်များ ဖြစ်သည့်အလျောက် နရီ၊ စည်း၊ ဝါး၊ အနှေးအမြန်နှင့် ကကွက် ပြောင်းစေကာမူ ငြိမ့်ညောင်းစွာ လှုပ်ရှား ကပြရသော အကတမျိုး ဖြစ်လေသည်။ မြန်မာအခေါ်အားဖြင့် ထိုကကွက် ကဟန်များတွင် သရုပ်ဖော်မှု၏ အဓိပ္ပါယ်ကို အကြောင်းပြု ပေါ်လွင်စေမည့် အမည်များ ပေးထားလေသည်။ ထိုအကများကိုပင် ယခုအခါ၌ ရှေးရိုး တပင်တိုင်အက ဟု ခေါ်ဝေါ်ကြပြန်လေသည်။ ထိုအကများကိုလည်း အောက်ပါအတိုင်း ၁၂ မျိုး ပြဆိုလေသည်။

(၁) ဘောင်းတော်ပြင်။ ။ခေါင်းပေါင်း (ဘောင်းတော်) ပေါင်းဟန်ကို လက်အကွေးအညွှတ် အပျောင်းအနွဲ့တို့ဖြင့် သယ်ယူ ကပြသွားခြင်း ဖြစ်သည်။

(၂) မှန်တော်ရှု။ ။မှန်ကြည့်ဟန်အက ဖြစ်သည်။

(၃) ပန်းစိုက်။ ။ပန်းစိုက်ဟန်၊ ပန်းပန်ဟန် အကမျိုး ဖြစ်သည်။

(၄) သားပိုက်။ ။သားပိုက်ဟန် အကမျိုး ဖြစ်၍ သားပိုက်ဟန်—ချော့ဟန် သရုပ်ပေါ်စေရန် လက်ခြေ အနေအထားယူပုံတွင် ကကြိုးဟန် ကချက် မလွတ်စေရဘဲ၊ အပျော့ အကွေး အညွှတ်တို့ဖြင့် လွဲပြောင်း လှုပ်ရှား ကပြရသည့် အကမျိုး ဖြစ်သည်။

(၅) ကျောက်ကောက်။ ။မင်းသမီးကျောက်ကောက်ဟန်နှင့် မင်းသား ကျောက်ကောက်ဟန် နှစ်မျိုးရှိ၏။ လက်နှစ်ဖက်ကိုခွဲ၍ ကပြရာတွင် လက်နှစ်ဖက်စလုံး ပက်လက်လှန်သည့် အနေအထားဖြင့် ပြသရသော အကတမျိုး ဖြစ်သည်။

(၆) ဆံတော်သိမ်း။ ။ဆံပင်သိမ်းဟန်၊ ထုံးဟန်၊ ရစ်ဟန် အကတမျိုး ဖြစ်၏။ လက်နှစ်ဖက်စုံယူရာတွင် လက်များ ဦးခေါင်းနောက် ရောက်လျှင် "ဆံတော်သိမ်း" ရှေ့ရောက်လျှင် "ပန်းဝိုင်း" ဟု ခွဲခြားသည်။

(၇) ဖျင်းချင်။ ။အကြမ်း အားဖြင့် ကကြိုး ခပ်သွက်သွက်ကို အချိန်တိုတိုဖြင့် တမျိုးပြီးတမျိုး ပြောင်းလဲ ကပြသွားသည့် အကကို ခေါ်ဆိုပေသည်။

(၈) ဖျင်းဖျတ်ဖျတ်။ ။ဖျင်းချင် အကမှ မူကွဲတမျိုး ဖြစ်၍ စည်း ခပ်သွက်သွက်ဖြင့် အမျိုးမျိုး ပြောင်းလဲ ကပြရသည့် အကကိုပင် ခေါ်ဆိုသည်။

(၉) ချွတ်။ ။ချွတ် အကြီး အသေး ဟူ၍ နှစ်မျိုး ရှိရာ ရာမဇာတ်မှ သမင်လိုက်ခန်းမှာ ချွတ်အကြီး ဖြစ်သည်။ ခြေကို ရွရွကလေး နင်း၍ တစုံတဦးအား ရှောင်ဟန်၊ တိမ်းဟန်၊ ချောင်းဟန်၊ ရှာဟန်နှင့် မိုးဟန်၊ ခုတ်ဟန် အကမျိုး ဖြစ်သည်။

(၁၀) ချွတ်အသေး။ ။တချက်ချင်း ခပ်လေးလေး ခပ်မှန်မှန်ကလေး တီးခေါက် ပေးနေသည့် ဆိုင်းချက်အလိုက် ရွရွကလေး ခြေဖော့နင်းပြီးလျှင် အရှောင်အတိမ်း အကူးအပြောင်းနှင့် အံ့ဩဟန် ထိတ်လန့်ဟန်တို့ကို ဟန်ပါပါဖြင့် ပရိသတ်တို့ အသဲတထိတ်ထိတ်၊ စိတ်တထင့်ထင့်ဖြင့် ငေးမောနေရအောင် ကပြရသော ကကြိုး ဖြစ်သည်။



ပန်းစိုက်ဟန် ပန်းပန်ဟန်အကမျိုးဖြစ်သည့် ပန်းစိုက် ကဟန်ဖြစ်သည်။



လက်ခြေအနေအထားယူပုံတွင် **ကကြိုးဟန်ကချက်** မလွတ်စေရဘဲ သားပိုက်ဟန်၊ ချော့ဟန် သရုပ်ပြ သားပိုက်အက

**(၁၁) ကပီ။** ။ခြေမျှားမျှား ကသော အကကို ကပီ ဟု ခေါ်သည်။ ဆင်ကပီ၊ မြင်းကပီ ဟူ၍ ရှိရာ၊ မြင်းကပီ ဆိုသည်မှာ မြင်းကို ခြေဖြင့် တို့၍ နောက်သို့ ကြည့်ဟန် ကကြိုးတမျိုး ဖြစ်သည်။ ဆင်ကပီ ဆိုသည်မှာ ခြေကို စုံထား၍ ကူးပြောင်း ကပြရသော ကကြိုးတမျိုး ဖြစ်သည်။

**(၁၂) ကရောင်း။** ။ကရောင်း ဆိုသည်မှာ ပေါင်ကို အများဆုံး ကပြရသော အကတမျိုး ဖြစ်သည်။ ဘီလူးများ ကလေ့ရှိသည့် အကအားလုံး ဟန်အားလုံးကို ကရောင်းဟူ၍ ခြုံပြီး ခေါ်ဆိုလေ့ ရှိသည်။

(၁)မှ(၆) အထိသည် အနုပိုင်းဆိုင်ရာ လူများဖြစ်သည့် မင်းသမီးများ ကနိုင်သည့်အတွက် အနု ခြောက် ခန်း ဟု ခေါ်၍၊ (၇) မှ (၁၂) အထိသည် အထူးသဖြင့် ယောကျ်ားပိုင်းမှ ကလေ့ရှိသဖြင့် အကြမ်း ခြောက်ခန်းဟု ခေါ်သည်။

ထိုပြင် ယိုးဒယား အက ကကွက် ကဟန်များကို (၁) ကန်တော့ခန်း၊ (၂) သားပိုက်၊ (၃) အဝေးမျှော်၊ (၄) အနီးမျှော်၊ (၅) ကျောက်ကောက်၊ (၆) သမင်လိုက်၊ (၇) ဖျင်းချင်၊ (၈) ကိန္နရာလည်ပြန်၊ (၉) ကပီ၊ (၁၀) ဆံသိမ်း၊ (၁၁) ချွတ်၊ (၁၂) မှန်တော်ရှု၊ (၁၃) ပန်းစိုက်၊



ကျောက်ကောက်ဟန် ကကွက်တမျိုး



ကန်တော့ခန်း

(၁၄) ဘောင်းတော်ပြင် ဟူ၍ ခွဲခြား ဖော်ပြသည်လည်း ရှိသေးသည်။

ယိုးဒယား အကပညာသည် ခက်ခဲ ရှုတ်ထွေးသော အတတ်ပညာဖြစ်၍ ဆရာကြီးများထံ ရှိသေ ကျိုးနွံစွာ ကြိုးစား အားထုတ် သင်ယူမှ ရလေသည်။ ယိုးဒယားအက အခန်းကုန်၊ အချင်းကုန်ကို ယိုးဒယား ဇာတ်တော်ကြီးသားများမှ လွဲ၍ အခြားသူများ မကတတ်ဟု ဆိုလေသည်။ "အကအစ၊ ယိုးဒယားမှ" ဆိုသော စကားစဉ်အတိုင်း ခြေဖျားမှ ဦးခေါင်းအထိ၊ ဗယ်ခြေညာလက်၊ ဗယ်မြှောက် ညာချ စသော ကိုယ်အင်္ဂါ အစိတ်အပိုင်း လှုပ်ရှားပုံ၊ ရင်ခါး၊ ဦးခေါင်းငဲ့၊ မေးတိမ်း၊ လက်ဖျားမှောက်လှန်၊ လက်ချောင်းထားပုံ စသော အကွက်အချင်းတို့ကို အထူးဂရုပြုရန် လိုပေသည်။ ယိုးဒယားဇာတ်သည် စည်းကမ်း အလွန် ကြီးသည်။ ဟန်လည်း အလွန်ကြီးသည်။ အတီးနှင့် အက၊ အကနှင့် ခြေဟန် လက်ဟန်၊ ခြေဟန်လက်ဟန်နှင့် မျက်နှာထားတို့ သုံးမျိုးသုံးစား ညီညွတ်ရလေသည်။



ရာမဇာတ်မှ သမင်လိုက်ခန်း ချွတ်အကြီး အက



ကိန္နရာ လည်ပြန်အက

ယိုးဒယားကဟန် မှန်သမျှတွင် မိမိကိုယ်ကို တောင့်တောင့်တင်းတင်း၊ ခိုင်ခိုင်မာမာ ရပ်တန့်မနေရ၊ ပေါင်ကွကွ ကိုယ်ဟန် ပျော့ပျော့ နေရသည်။ ဟန်ဆိုသည်မှာ တိမ်တောင် တိမ်လိပ် တက်သကဲ့သို့ တဟန်မှ တဟန်သို့ တရိပ်ရိပ်ဖြင့် ကူးပြောင်းမှန်းမသိ သိမ်သိမ်မွေ့မွေ့ ကူးပြောင်းရလေသည်။

ရာမ ဇာတ်ကြီးတွင် (၁) ဘိုးတော်၊ ရာမ၊ လက္ခဏ၊ သီတာတို့ ထွက်လာလျှင် ဖရင်းချား၊ သို့မဟုတ် ဖျင်းကို တီးမှုတ်ပေးရသည်။ (၂) ဘီလူးထွက်လာလျှင် ထပ်တွန့်၊ သို့မဟုတ် ကရောင်းကို တီးမှုတ်ပေးရသည်။ (၃) မျောက်ထွက်လာလျှင် ချွတ်၊ သို့မဟုတ် ကပီကို တီးမှုတ်ပေးရသည်။ ဘိုးတော်၊ ရာမ၊ သီတာ၊ လက္ခဏနှင့် ဟနုမန် ပေါင်း ငါးဦးတို့သည် ခြေမှန်မှန်နှင့် ခပ်ကျဲကျဲကပြရလေသည်။ အိမ်နောင်လောက် ဟန်မစိပ်ရချေ။

ဘီလူးနှင့် မျောက်တို့မှာ ခြေကျဲကျဲ မှန်မှန် လှမ်းရသည်။ ခပ်သွက်သွက် ခြေလှမ်း၍ ဝါးချက်နှင့် ထပ်တူထပ်မျှ ခြေချမိစေရသည်။

**ယောက်ဖ ခွေးခေါ်။** ။ယောက်ဖ ခွေးခေါ် သည် ဥသြငှက်မျိုး ဖြစ်သည်။ ယောက်ဖ ခွေးခေါ် ဟု အော်သောအသံကို အစွဲပြု၍ ယောက်ဖခွေးခေါ် ဟု ခေါ်ကြခြင်း ဖြစ်သည်။ပါဏဗေဒအလိုအားဖြင့် ကျူကျူလပ်မိုင်ကရော့တီးရပ်ဟု ခေါ်၍ ကျူကျူလီဒီး မျိုးရင်းတွင် ပါဝင်လေသည်။

ဤငှက်သည် ကိုယ်အလျား ၁၃ လက်မရှိသည်။ ထပ်ကာထပ်ကာ အော်တတ်သော်လည်း အော်သံမှာသာယာသည်။ ယင်း၏အော်သံကို ဇန္နဝါရီလကုန်မှ ဇွန်လအထိ ကြားကြရသည်။ နေထိုင်မှု အလေ့အကျင့်များမှာ အခြားမျိုးတူငှက်များနှင့် အတူတူဖြစ်သည်။ ယင်းတို့၏ အော်သံကို ဆောင်းရာသီကုန်ချိန်နှင့် နွေဦးပေါက်အချိန်တွင် သစ်တော၊ တောင်ခြေနှင့် တောင်ပေါ်များတွင် မကြာခဏ ကြားကြရသည်။ တောထဲ၌သာ ကျက်စားသော ငှက်မျိုးဖြစ်သဖြင့် လွင်တီးပြင်၌ တွေ့ရခဲသည်။

ဥများမှာ အပြာနုရောင် ဖြစ်၍ အပြာနုရောင် ဥများ အုတတ်သော အခြားငှက်များ၏ အသိုက်များထဲတွင် အုထားတတ်ကြသည်။ ယောက်ဖခွေးခေါ် ငှက်များကို အရှေ့တိုင်း



ယောက်ဖ ခွေးခေါ် ငှက်

ဒေသများတွင် အနှံ့အပြား တွေ့ရှိရပြီးလျှင် မြန်မာနိုင်ငံ သစ်တောများထဲ၌လည်း တွေ့ကြရသည်။ ယင်းတို့ကို မြေ နိမ့်နေရာများမှာထက် တောင်ပေါ်များတွင် ပို၍တွေ့ကြရ လေသည်။

**ယောက်သွား။** ။ခရုမျိုး — ရှု။

**ယင်ကောင်။** ။ယင်ကောင်ကို ပါဠိဗေဒ အလိုအရ မတ် စက ဒိုမက်စတိက ဟု ခေါ်သည်။ ယခင်က ယင်ကောင် သည် ဘေးမပြုတတ်၊ အနှောင့်အယှက်ကိုသာ ဖြစ်စေနိုင် သည် ဟု ထင်မှတ်ခဲ့ကြသည်။ နှစ်ဆယ် ရာစုနှစ်သို့ ရောက် လာသော အခါတွင်မူ ယင်ကောင်များသည် ရောဂါပိုးများ ကို သယ်ဆောင် လာပြီးလျှင် လူများကို သေစေနိုင်သည့် ရောဂါများ ဖြစ်စေနိုင်ကြောင်းကို သိလာကြသည်။ အမှန် မှာ ယင်ကောင်သည် လူ၏ ကြောက်မက်ဖွယ် အကောင်းဆုံး ရန်သူများတွင် ပါဝင်နေပေသည်။ ယင်ကောင် တကောင်ကို သာ အဏုကြည့်မှန် (မိုက်ကရိုစကုပ်) ဖြင့် ကြည့်လျှင် ယင် ကောင်၏ ခြေသည်း လက်သည်းများ၊ ခြေထောက်များ၏ အောက်ဖက်ရှိ အခံပြားကလေးများနှင့် ခန္ဓာကိုယ်တွင် အမွေးအမှင်များ ရှိနေ၍ လျှာတွင်လည်း စေးကပ်သော အရည်များရှိနေသည်ကို မြင်ရပေလိမ့်မည်။ ထိုအမွေးအမှင် များနှင့် လျှာတို့၌ကပ်နေသော ဖုံမှုန့်ကလေးများတွင် တိုက် ဖွိုက်(အူရောင်ငန်းဖျား)ရောဂါ၊ သို့မဟုတ် ဝမ်းကိုက်ရောဂါ ကို ဖြစ်စေသော ရောဂါပိုးများ ပါနေသည်ကို အားကောင်း သည့်မှန်ဘီလူးဖြင့် ကြည့်က မြင်နိုင်လေသည်။ ယင်ကောင် များသည် ထိုရောဂါပိုးများကို ရောဂါစွဲကပ်နေသူများ၏ အ ညစ် အကြေးများမှ ရရှိလာသည်။ လူတို့စားသောက်မည့် အစာများသည် ထိုရောဂါပိုးများကို သယ်ဆောင်လာသည့် ယင်ကောင်များနှင့် ထိမိပြီးလျှင် စားသောက်မည့် အစာ များသည်လည်း ရောဂါများကို ဖြစ်စေနိုင်တော့လေသည်။

ယင်ကောင်များကို သတ်ပစ်ခြင်းဖြင့် ပပျောက်၍ မသွား စေနိုင်ချေ။ ထိုသို့ ဖြစ်ရသည်မှာ လူက ယင်ကောင်ကို သတ် ပစ်နိုင်သည်ထက် ယင်ကောင်၏ အတိုးအပွားက ပို၍ မြန် သောကြောင့်ဖြစ်သည်။ အကယ်၍သာ ယင်မတကောင်မှ ပေါက်ပွားသော ယင်မအားလုံးနှင့် ယင်းတို့၏ သား သမီး များအားလုံးသာ အသက် ရှင်နေကြမည်ဆိုလျှင် ဧပြီလ မှ စက်တင်ဘာလ အတွင်း၌ပင် ယင် အမ တကောင်တည်းမှ သန်းပေါင်း များစွာသော ယင်ကောင်များ ဖြစ်စေ နိုင် ကြောင်းကို တွက်ချက် ကြည့်ခြင်းဖြင့် သိရလေသည်။ အမှန်အားဖြင့်ကား ထိုသို့ မဖြစ်ချေ။ အဘယ်ကြောင့် ဆို သော် အခြား ပိုးကောင်များက ယင်ကောင်များကို စား သောက်ပစ်ကြခြင်းကြောင့် ဖြစ်လေသည်။

အရွယ်ရောက်ပြီး ယင်ကောင်တကောင်၏ အရှည်မှာ ဘလက်မ၏ လေးပုံ တပုံခန့် ရှိ၍ တောင်ပံတဖက်စွန်းမှ အ ခြား တဖက်စွန်းထိ လက်မဝက်ခန့် ကျယ်သည်။ ယင်ကောင် ၏ အရောင်သည် မွဲခြောက်ခြောက် ဖြစ်သည်ဟု ထင်ရသော် လည်း သေချာစွာစစ်ဆေးကြည့်လျှင် ယင်း၏ အတောင်နှစ် ဖက်သည် ပြတင်းပေါက် မှန်များနီးပါး အလင်း ပေါက်လုမ တတ် ဖြစ်နေသည်ကို တွေ့ရပေမည်။ ထိုအတောင်များပေါ် သို့ အလင်းကျရောက်လျှင် သက်တန့်အရောင် ဖြာထွက်နေ သကဲ့သို့ ဖြစ်နေသည်ကိုလည်း တွေ့ရလေသည်။

ယင်ကောင် တကောင်တွင် အပိုင်း သုံးပိုင်း ရှိသည်။ ခေါင်းသည် ရှေ့ပိုင်း၌ရှိ၍ အလယ်ပိုင်းသည် ရင်ပိုင်းဖြစ်ကာ ထိုအပိုင်း၌ အတောင်များနှင့် ခြေထောက်များ ရှိသည်။ ဝမ်းပိုက်ပိုင်းသည် နောက်ဖက်ပိုင်းတွင် ရှိသည်။

ယင်ကောင်၌ အံ့ဖွယ်ကောင်းသော မျက်လုံးကြီး နှစ်လုံး ရှိရာ ထိုမျက်လုံးကြီး နှစ်လုံးသည် ခေါင်းတခုလုံးပေါ် လိုလို တွင် တည်ရှိနေသည်။ ထိုမျက်လုံး ကြီးများတွင် ဖက်စက် ခေါ် မှန်ကူကွက်ကလေးများ ကဲ့သို့သော မျက်စိကလေး များရှိနေပြန်သည်။ ထိုအကွက်ကလေးများဖြင့် အဖက်ဖက် သို့ မြင်နိုင်သည်။ ထိုကြောင့်လည်း ယင်ကောင်ကို အဖမ်း ရခက်ခြင်းဖြစ်လေသည်။ ခေါင်းပေါ်ရှိ မျက်လုံးကြီး နှစ်လုံး ၏ ကြားတွင် အိုစဲလပ် ခေါ် အလွန်သေးငယ်သည့် မျက် လုံးကလေး သုံးလုံး ရှိသည်။ ဦးမှင်ကလည်း ထိုမျက်လုံး ကြီး နှစ်လုံး၏ ကြားတွင် ရှိနေပြန်သေးသည်။ ထိုဦးမှင်သည် ထိမိသည့် အရာဝတ္ထု၏ အကြောင်းကို သိနိုင်လေသည်။ ထိုဦးမှင်များသည်ပင် အနံ့ခံသည့်အင်္ဂါများ ဖြစ်ကောင်း ဖြစ်ပေလိမ့်မည်။

ယင်ကောင်တွင် နှာမောင်း ခေါ် စုတ်ယူနိုင်သည့် ပါးစပ်ရှိ သည်။ ထိုပါးစပ်ဖြင့် အစာကို စုတ်ယူလေ့ ရှိသည်။ ရေတွင် ပျော်ဝင်နိုင်သော သကြားကဲ့သို့သော ပစ္စည်းကို မစားမီ ပဋမ တံတွေးအနည်းငယ်ကို ထုတ်ပြီးလျှင် သကြားကို အ ရည်ပျော်သွားစေသည်။ ထိုနောက်မှ သကြားကို စားလေ သည်။ သာမန် ယင်ကောင် တကောင်ရှိ နှာမောင်းသည် ပျော့ပျောင်းနေသဖြင့် လူကို မကိုက်နိုင်ချေ။ သို့သော် ယင် ကောင်အမျိုးမျိုးရှိရာ စတေဗယ် ဖလိုင်း ခေါ် မြင်းစောင်း ယင်ကောင်မျိုးတွင် မာကျော၍ထိုးသွင်းနိုင်သည့်နှာမောင်း ရှိသဖြင့် ယင်းတို့သည် လူများကို ကိုက်နိုင်လေသည်။

ယင်ကောင်၏ ခြေထောက် ခြောက်ချောင်း အောက်ဖက် တွင် ပါးလမီးလပ် ခေါ် အခံပြားကလေးများရှိသည်။ ထိုအ ခံပြားကလေးများကြောင့် ယင်ကောင်သည် ချောမွတ်သည့် မျက်နှာပြင်ပေါ် တွင် တွယ်ကပ်၍ နေနိုင်လေသည်။ မျက် နှာကြက်များပေါ် ၌ ယင်ကောင်များ အောက်သို့ မကျဘဲ တွယ်ကပ်နေကြသည်ကို မြင်ဘူးကြပေမည်။




**လူတို့၏ ကျန်းမာရေးကို ထိခိုက်စေသည့် ယင်ကောင်အမျိုးမျိုး**

အသက်ရှူရာတွင် ယင်ကောင်သည် နှာခေါင်းဖြင့် အသက်မရှူချေ။ စပီရက်ကယ် ခေါ် အပေါက်ကလေးများဖြင့်သာ အသက် ရှူသည်။ ထိုအပေါက်ကလေးများသည် ယင်ကောင်၏ ရင်ပိုင်းနှင့် ဝမ်းပိုက်ပိုင်း တဖက်တချက်စီတွင် တန်းစီ၍ ရှိကြလေသည်။

အစာ ရှာစားရာတွင် ယင်ကောင်သည် နေရာမရွေးချေ။ ယင်မများကမူ ဥအုရန်နေရာကို ရွေးချယ်ကြသည်။ ယင်မများသည် လတ်ဆတ်သည့် မြေသြဇာများ၊ မီးဖို အမှိုက်များနှင့် ဆွေးမြည့်နေသော ဟင်းသီးဟင်းရွက်များကို ရွေးချယ်တတ်ကြသည်။ ယင်မတကောင်သည် တခါအုလျှင် ဥပေါင်း ၁၃၀ ခန့် အုတတ်သည်။ ယင်မတကောင်သည် အသက်ရှင်စဉ် နှစ်ကြိမ်မှ နှစ်ဆဲ့တကြိမ်ထိ ဥအုတတ်သည်။ ဥများကို အုပြီး၍ နောက်တရက်နှစ်ရက် ကြာလျှင် ဥများမှ အကောင်လောင်း ခေါ် ခြေမရှိသည့် လောက်ကောင်ကလေးများ ဖြစ်လာကာ ပတ်ဝန်းကျင်ရှိ အစာများကို စ၍ စားကြတော့သည်။ ထိုသို့ ညစ်ညမ်းသည့် အစာများကို စားနေကြရာ လေးရက်မှ ရက်သတ္တနှစ်ပတ်အကြာတွင် ဝဖြိုးလာကြသည်။ ထိုသို့ ကြီးထွားလာရာတွင် အရေပြားသည် အကောင် ကြီးထွားလာခြင်းကို မခံနိုင်တော့သဖြင့် ကွဲသွားလေသည်။ ထိုသို့ အရေပြားကွဲသွားသောအခါ အကောင်လောင်းသည် တွန့်လိမ်ကာ ထွက်လာလေသည်။ အကောင်လောင်းကလေး အရေပြားကို နှစ်ကြိမ်မျှ ခွာထုတ်ပြီးလျှင် တရက်နှစ်ရက်မျှ အစာကို စားသည်။ ထိုနောက်တွင် မြေသြဇာ၏ အောက်ဖက်ရှိ မြေကြီးထဲသို့ တွားသွားသည်။ ထိုနောက် အရေပြားသည် မာလာပြီးလျှင် ပိုးတုံးလုံး၏ အခြေသို့ ရောက်ရှိ သွားသည်။ ထိုအခြေတွင် အကောင်လောင်းသည် တကြိမ်အရေပြားကိုလဲ၍ ပိုးတုံးလုံး ဘဝသို့ ရောက်ရှိ သွားသည်။ နွေအခါတွင် ထိုဘဝ၌ သုံးရက်မှ ခြောက်ရက်ထိ နားနေပြီးလျှင် ခြေထောက် မရှိသော လောက်ကောင်အဖြစ်မှ အတောင်ရှိသော ယင်ကောင် အဖြစ်သို့ ပြောင်းလဲသွားသည်။ ပိုးတုံးလုံး အခြေမှ အရွယ်ရောက်သည့် ယင်ကောင် တကောင် ဖြစ်မလာမီ လွန်စွာ စိတ်ဝင်စားဖွယ်ကောင်းသည့် အဖြစ်အပျက်တခုကို တွေ့ရလေသည်။ ယင်ကောင်၏ဦးခေါင်းလောက် ကြီးမားသော ဘောလုံးနှင့်တူသည့် အင်္ဂါတခုသည် ယင်ကောင်လောင်း၏ ခေါင်းရှေ့တွင် ထွက်လာသည်။ မာကျောသည့် ပိုးတုံးလုံး၏ အခြေမှ လွတ်မြောက်စေရန် ယင်ကောင်လောင်းက ထိုအင်္ဂါကို အသုံး ပြုလေသည်။ ထိုအခြေမှ လွတ်မြောက်ရန် ကြိုးစားချိန်တွင် ထိုအင်္ဂါသည် ဖောင်းလိုက် ရှုံ့လိုက် ဖြစ်နေသည်။ ယင်ကောင် အခွံတွင်းမှ လုံးဝလွတ်ထွက်သွားသောအခါတွင် ထိုအင်္ဂါသည် ယင်ကောင်၏ ခေါင်းအတွင်းသို့ ပြန်၍ ဝင်သွားသည်။ ထိုနောက်တွင် ယင်ကောင်သည်

မြေဩဇာ၏ အပေါ် ဖက်သို့ တက်လာပြီးလျှင် အခြောက်ခံခြင်းနှင့် အတောင်များကို ဖြန့်ခြင်းများ ပြုလုပ်သည်။ ထိုသို့ ဖြစ်လာပြီးသည့် နောက်တွင် ယင်ကောင်သည် နောက်ထပ်၍ မကြီးတော့ချေ။ လူအများက ယင်ကောင်ကလေးများသည် ယင်ကောင်ကြီးများ ဖြစ်လာမည့် ယင်ကောင်ကလေးများ ဖြစ်သည် ဟု ထင်မှတ်ကြသည်။ ထိုသို့ မဟုတ်ချေ။ ထိုယင်ကောင်ကလေးများသည် အမှန်အားဖြင့် အခြား ယင်ကောင်ကလေးမျိုးမှ အရွယ်ရောက်ပြီး ယင်ကောင်ကြီးများသာ ဖြစ်လေသည်။

နွေရာသီတွင် အရွယ်ရောက်ပြီး ယင်ကောင်သည် ရက်ပေါင်း ၃၀ ခန့် အသက်ရှည်သည်။ ပို၍ အေးသော အခါများတွင် ယင်ကောင်သည် ပို၍ အသက်ရှည်သော်လည်း နွေးသောအခါကကဲ့သို့ လှုပ်လှုပ်ရှားရှား မပြုလုပ်ချေ။ အေးသည့် ရာသီသို့ ရောက်သော အခါတွင် ယင်ကောင်များ ပျောက်ကွယ်ကုန်ပြီ ဟု ထင်ရပေသည်။ ထိုအခါမျိုးတွင် အရွယ်ရောက်ပြီး ယင်ကောင်များသည် များသောအားဖြင့် သေကုန်ကြသည်။ သို့သော် အကောင်လောင်း အမြောက်အမြားနှင့် ပိုးတုံးလုံး အမြောက်အမြားကား ဆောင်းရာသီအတွင်း၌ အသက်မသေဘဲ ရှင်နေကြသည်။ ရာသီဥတု ကောင်းမွန်လာသော အခါတွင် အရွယ်ရောက်သည့် ယင်ကောင်များအဖြစ်သို့ ထိုအကောင်လောင်းနှင့် ပိုးတုံးလုံးအဖြစ်မှ ပြောင်းလဲကုန်ကြပြန်သည်။

ယင်ကောင်၌ အတောင်နှစ်ခုသာ ရှိခြင်းကြောင့် ယင်ကောင်ကို အခြား အင်းဆက်ပိုးများမှ ခွဲခြား၍ သိနိုင်လေသည်။အင်းဆက်ပိုးများတွင် များသောအားဖြင့် အတောင်လေးခု ရှိကြသည်။ ယင်ကောင်သည် အမှန်အားဖြင့် အတောင်တစုံ ပိုးမျိုးစဉ်တွင် ပါဝင်လေသည်။ သို့သော် ယင်ကောင်၌ အတောင်တစုံအပြင် ဟောလတီးရီး ခေါ် ညှိပေးသည့်အရာ တစုံပါရှိသည်။ထိုညှိပေးသည့်အရာများသည် အတောင်၏ နောက်ဖက်တွင် ကပ်လျက် တည်ရှိကြသည်။

ယင်ကောင်များသည် အရွယ်တွင် အမျိုးမျိုး ကွဲလွဲလျက် ရှိကြလေသည်။ ဖရုဖလိုင်း ခေါ် သစ်သီးယင်ကောင်သည် အတောင်တစုံ ပိုးမျိုးစဉ်တွင်ရှိသော ယင်ကောင် အငယ်ဆုံးများတွင် ပါဝင်သည်။ ဟော့ (စ) ဖလိုင်း ခေါ် မြင်းယင်ကောင်အမည်းသည် အကြီးဆုံးယင်ကောင်မျိုးတွင် ပါဝင်သည်။ ယင်များသည် အရွယ်တွင် ကွဲလွဲသည်ထက် အလေ့အကျင့်တွင် ပို၍ ကွဲလွဲကြသည်။

ဗလိုးဖလိုင်း ခေါ် ယင်ကောင်ကိုလည်း အိမ်များတွင် တွေ့ရတတ်သည်။ ထို အနှောင့်အယှက် ပေးတတ်သည့် ယင်ကောင်၏ အရောင်မှာ အပြာသော်၎င်း၊ အစိမ်းသော်၎င်း ဖြစ်တတ်သည်။ ထိုယင်ကောင်မျိုးသည် သာမန်ယင်ကောင်ထက်လည်း ပို၍ ကြီးသည်။ ဝီဝီ ဝီဝီ မြည်တတ်သဖြင့် ထိုယင်ကောင်မျိုး အိမ်၌ရှိသည်ကို သိနိုင်သည်။ ထိုယင်ကောင်မျိုးကိုသာ လူက ဝါးမျိုမိလျှင် လူကို အလွန် နာကျင်စေခြင်း၊ သို့မဟုတ် နာမကျန်း ဖြစ်စေခြင်း ဖြစ်တတ်သည်။

ယင်ကောင်လောကတွင် ဟော့(စ)ဖလိုင်း ခေါ် မြင်းယင်ကောင်မျိုးနှင့် ဒီးယားဖလိုင်း ခေါ် ချေသူငယ်မှက်မျိုးတို့သည် လူကိုအနာကျင်ဆုံးကိုက်နိုင်သည့် ယင်ကောင်မျိုးများ ဖြစ်သည်။ အာဖရိကတိုက်တွင် စက်စီယင်ကောင် ခေါ် ယင်ကောင်တမျိုး၏ အကိုက်ကို ခံရလျှင် ဦးနှောက်ရောင် အိပ်မဝရောဂါ ဖြစ်တတ်သည်။ အိမ်သာများတွင် ပေါက်ဖွားသည့် ယင်ကောင်များ၏ အကိုက်ကို ခံကြရလျှင် ဝမ်းသက်သည့် ရောဂါကို ခံရတတ်သည်။

စကရူးဝမ်း ခေါ် ယင်ကောင်တမျိုးသည် အိမ်မွေး တိရစ္ဆာန်များကို ဒုက္ခ ဖြစ်စေနိုင်သည်။ နွား၊ မြင်းကဲ့သို့သော အိမ်မွေး တိရစ္ဆာန်များရှိ အနာများတွင် ထိုယင်ကောင်မျိုး၏အမများက ဥများကို အုလေ့ရှိကြသဖြင့် ဥများမှ ပေါက်လာကြသော လောက်ကောင် အဖြူကလေးများက အနာအတွင်းသို့ လိုက်စားကြပြီးလျှင် တစ်ရှူးများကို ပြတ်သွားစေကာ တိရစ္ဆာန်များကို ဒုက္ခဖြစ်စေသည်။ သို့မဟုတ် သေစေသည်။ ထိုကြောင့် ထိုယင်ကောင်မျိုး မပွားစေရန် ထိန်းပေးဖို့ အရေးကြီးသည်။ ဟွန်းဖလိုင်း ခေါ် ယင်ကောင်တမျိုးသည် တိရစ္ဆာန် တကောင်ပေါ်တွင် ယင်ကောင်ပေါင်း ၄,၀၀၀ ခန့်က ဝိုင်းအုံ၍ ထိုးခြင်းနှင့် စုတ်ခြင်းများကို ပြုလုပ်တတ်ကြသည်။ ထိုသို့ အကိုက်ခံရသည့် နွားမတကောင်အဖို့ ကိုယ်အလေးချိန်သည် လျော့သွားပြီးလျှင် ခါတိုင်းထွက်နေကျနို့၏ တဝက်မျှကိုသာ ရနိုင်တော့သည်။

အပင်များကိုဒုက္ခပေးသည့် ယင်ကောင်မျိုးလည်း ရှိသေးသည်။ အမေရိကန် ပြည်ထောင်စု အတွင်း၌ ဂျုံပင်များကို စိုက်ပျိုးကြရာတွင် ဟက်ဆီယန်ဖလိုင်း ခေါ် ယင်ကောင် တမျိုးသာရှိလျှင် ဂျုံပင်တို့သည် ဖြစ်ထွန်းနိုင်မည် မဟုတ်ချေ။ အဘယ်ကြောင့် ဆိုသော် ထိုယင်ကောင်မျိုး၏ အကောင်လောင်းကလေးများသည် ဂျုံပင်တို့၏ ပင်စည်များကို စားသောက်ကြသဖြင့် ပင်စည်များ ကျိုးပြတ် ကုန်ကြခြင်းကြောင့် ဖြစ်သည်။

ယင်ကောင်သည် များသောအားဖြင့် လူကိုဒုက္ခပေးတတ်သော်လည်း လူကို အကျိုးပြုသည့်ယင်ကောင်မျိုးများလည်း ရှိပေသေးသည်။ ဟိုဗာဖလိုင်း ခေါ် ယင်ကောင်မျိုးသည် အပင်များ၏ ပန်းပွင့်များရှိရာသို့ ပျံသန်းသွားပြီးလျှင် ဝတ်မှုန်များကို ပန်းတပွင့်မှ တပွင့်သို့ သယ်ဆောင်ပေးကြသည်ဟု သိရသည်။ ထိုယင်ကောင်မျိုး၏ အကောင်လောင်းကလေးများကလည်း အပင်များ၏ အရည်များကို စုတ်ယူလေ့ ရှိကြသော ပျကောင်များကို စားသောက် ပစ်တတ်ကြသည်။ ထိုနည်းဖြင့် လူကို အကူအညီပေးကြလေသည်။

ယင်ကောင်များကို ရှင်းလင်းကြရာတွင် နည်းအမျိုးမျိုးကို အသုံးပြုကြသော်လည်း အထိရောက်ဆုံးနည်းမှာ အပေါက်ပွား မခံဘဲ ထားခြင်း ဖြစ်သည်။ လယ်ကွင်းများအတွင်း၌ မြေသြဇာအသစ်များကို ပါးပါးခင်းထားလျှင် ထိုမြေသြဇာပေါ်၌ရှိသော ယင်ဥ၊ သို့မဟုတ် လောက်ကောင် ကလေးများသည် သွေ့ခြောက်မှု၊ အပူ၊ သို့မဟုတ် အအေး၏ ဒဏ်ကြောင့် သေကုန်ကြပေလိမ့်မည်။ သို့မဟုတ် မြေသြဇာကို ယင်လုံသည့် သေတ္တာ၊ သို့မဟုတ် တွင်းတွင် ထားကာ အပေါ်တွင် ကတော့ပုံ ယင်ထောင်ခြောက်များကို ထားကြသည်။ ထိုထောင်ခြောက်က မြေသြဇာမှ ထွက်လာသမျှသော ယင်ကောင်များကို ဖမ်းယူလေသည်။ ထိုပြင် ဓာတ်ပစ္စည်းများကို အသုံးပြုခြင်းဖြင့်လည်း ယင်ကောင်များကို နှိမ်နင်းကြလေသည်။

**ယင်ဒူးလူမျိုး။** ။ချင်းလူမျိုး — ရှု။

**ယင်းလူမျိုး။** ။မွန်ခမာ အုပ်စုမှ ဝ ပလောင် အုပ်စုခွဲတွင် ပါဝင်သော ယင်းလူမျိုးအနွယ်ဝင်တို့သည် များသောအားဖြင့် ရှမ်းပြည်တောင်ပိုင်း ကျေးသီးမံစံနယ် အတွင်းပိုင်းရှိ



မိုးနဲနယ်မှ ယင်းကျား အမျိုးသမီး



ရှမ်းပြည်တောင်ပိုင်းမှ ယင်းအမျိုးသမီး

ကျေးလက် တောရွာများ၌၎င်း၊ ပင်လုံမြို့ အနီးတဝိုက် တောင်တန်းဒေသရှိ ကျေးရွာများ၌၎င်း နေထိုင်ကြသည်။ ရှမ်းပြည်မြောက်ပိုင်း၌ အနည်းငယ်မျှ လောက်သာ နေထိုင်သည်။ မိုးနဲနယ်ရှိ သံလွင်မြစ်အနောက်ဖက်တောင်ကုန်းများမှာ ယင်းတို့၏ ဗဟိုအချက်အခြာ ဒေသဖြစ်၏။ အချို့သည် ကျိုင်းတုံနယ်တွင် ပျံ့နှံ့နေသည်။ ထိုလူမျိုးစုကို မြန်မာတို့က "ယင်း" ဟူ၍၎င်း၊ ရှမ်းတို့က "ယန်း" ဟူ၍၎င်း အမည်မှည့်ခေါ်ကြသည်။ ယန်းလမ်၊ သို့မဟုတ် ယင်းနက်နှင့်ယန်းဆက်၊ သို့မဟုတ် ယင်းကျား ဟူ၍ နှစ်မျိုးရှိရာ ယင်းနက်ကို အချို့က ကရင်နက် ဟု ခေါ်ဆိုကြ၍ ယင်းကျားကို ကရင်ကျား ဟု ခေါ်ဆိုကြလေသည်။

ယင်းလူမျိုးတို့ ပြောဆိုသော ဘာသာ စကားနှင့် ယဉ်ကျေးမှုတို့သည် ပလောင်တို့၏ ဘာသာစကား၊ ယဉ်ကျေးမှုနှင့် အလွန် နီးစပ်လေသည်။ ဗုဒ္ဓအယူဝါဒီများ ဖြစ်၍ ပလောင်တို့နည်းတူ ဒေသဆိုင်ရာ နတ်များကိုလည်း ကိုးကွယ်ကြလေသည်။ ယင်းလူမျိုးတို့သည် ပလောင်တို့၏ တောင်ပိုင်းအဆက်အနွယ်ပင် ဖြစ်သည် ဟု ဆိုနိုင်ကောင်းပေသည်။

ယန်းလမ်တို့သည် ရှမ်းအမျိုးသားတို့နှင့် တရွာတည်း၌ ရောပြွမ်း၍ နေထိုင်လေ့ ရှိသည်။ သိမ္ဘီတောင်ပိုင်းနယ်နှင့်



ပင်လုံနယ်တွင် နေထိုင်ကြသည့် ယင်းနက်အမျိုးသားနှင့် အမျိုးသမီး

ကျေးသီး မံစံ နယ်တို့တွင် ဆန်စပါးအပြင် ဝါကိုလည်း စိုက်ပျိုး လုပ်ကိုင် ကြသည်။ ယန်းလမ်အမျိုးသမီးတို့သည် ပလောင်အမျိုးသမီးတို့ကဲ့သို့ ဝတ်ဆင်ကြသည်။ အမျိုးသားတို့ကမူ ရှမ်းအမျိုးသားတို့ကဲ့သို့ပင် ဝတ်ဆင်ကြသည်။

တောင်ဖက်အစွန်ပိုင်းသို့ရောက်ရှိနေကြသော ယင်းကျားတို့သည် တောင်ပေါ် ကရင်တို့နှင့် ပို၍ နီးစပ်ကြသည်။ ထိုကြောင့် ယင်းကျားအမျိုးသမီးတို့ ဝတ်ဆင်ပုံမှာ တောင်ပေါ် ကရင်အမျိုးသမီးတို့ ဝတ်ဆင်ပုံနှင့်တူသည်။ သို့ရာတွင် အဖြူနှင့်အနီ အစင်းကျား သင်တိုင်းကို ဝတ်ဆင်လေ့ ရှိကြသည်။ ခြေထောက်တွင် ကြေးခြေကျင်းများကိုလည်း ဝတ်ဆင်ထားလေ့ ရှိကြသည်။

ယင်းလူမျိုး၏ လူဦးရေမှာ ၁၄,၀၀၀ ခန့်ရှိသည်။

**ယင်းတလဲလူမျိုး။** ။ယင်းတလဲလူမျိုးတို့သည် ကယားပြည်နယ်၊ ဘောလခဲနယ်၌ နေထိုင်ကြသော တောင်ပေါ် ကရင်လူမျိုးစု ဖြစ်လေသည်။ (ကယားပြည်နယ် အစိုးရ၏ ယူဆချက်အရ ယင်းတလဲလူမျိုးသည် ကယား လူမျိုးအုပ်စုတွင် ပါဝင်သည်။) ဘောလခဲနယ်၏ မြို့တော်၊ ဘောလခဲမြို့တွင် ယင်းတလဲအမျိုးသားတို့ အများဆုံး နေထိုင်ကြလေသည်။ ကယား၊ ယင်းဘော်၊ ပဒေါင်၊ ဗရဲ၊ မနုမနော အမျိုးသားတို့ကိုလည်း နယ်တွင်း နေရာအနှံ့အပြား၌ တွေ့နိုင်လေသည်။ ရှေးအခါက ကယားပြည်နယ်ကို ကရင်နီပြည်နယ် ဟူ၍ရင်း၊ ပြည်နယ်သားတို့ကို ကရင်နီ လူမျိုးဟူ၍ရင်း ခေါ်ဝေါ်ခဲ့ကြလေသည်။ မြန်မာနိုင်ငံ လွတ်လပ်ရေးရရှိပြီးနောက်၊ ၁၉၅၁ ခုနှစ်တွင် နိုင်ငံအစိုးရတို့က ကရင်နီ ဟူသော အမည်အစား ကယား ဟူသော အမည်ကိုသုံးစွဲရန် ဥပဒေဖြင့် ပြဋ္ဌာန်းခဲ့လေသည်။ (ကရင်လူမျိုး — လည်းရှု။)

ယင်းတလဲ ဟူသော အမည်မှာ ဘောလခဲနယ်ကို ဦးစွာ တည်ထောင်ခဲ့သော ဖဘန့် (ပဗန်း) မင်း၏ သားသမီးများ ဟူ၍ရင်း၊ သို့မဟုတ် ရှေးလူဟောင်းများမှ ကျန်ရစ်ခဲ့သော လူများ ဟူ၍ရင်း အဓိပ္ပါယ် ကောက်ယူနိုင်သည် ဟု ဆိုလေသည်။ (ဘောလခဲနယ် — လည်းရှု။) ယင်းတလဲအမျိုးသားတို့သည် ရိုးသား၍ ရဲရင့် တည်ကြည်ကြသည်။ ယင်းတို့၏ စိတ်နေစိတ်ထားကို ဝတ်စားဆင်ယင်သော အဝတ်အထည်၏ အသွေးအရောင်အားဖြင့် အကဲခတ်နိုင်သည် ဟု ဆိုရပေမည်။ ယင်းတလဲ အမျိုးသားတို့သည် အနားများတွင် အနီစကွပ်ထားသော အင်္ကျီအဖြူနှင့် ဘောင်းဘီရှည် အဖြူကို ဝတ်ဆင်ကြသည်။ အနီရောင် ခေါင်းပေါင်းကို ပေါင်းလေ့ ရှိကြသည်။ အမျိုးသမီးတို့သည် အင်္ကျီအဖြူ၊ ထဘီ အနီကွက်ကျားနှင့် ခေါင်းပေါင်းအနက်ကို ဝတ်ဆင်လေ့ ရှိကြသည်။

အလုပ်အကိုင်မှာ တောင်ယာလုပ်ခြင်း၊ ဝါဂွမ်း၊ နှမ်း၊ ဆန် စပါး စိုက်ပျိုးခြင်း၊ ရှားစေးချက်ခြင်း၊ ချိပ်မွေးမြူထုတ်လုပ်ခြင်း၊ သစ်ခုတ်ခြင်း စသော အလုပ်တို့ ဖြစ်လေသည်။ မြေပြန့်တွင် ဆန်စပါးကို တူးမြောင်းများဖြင့် ရေသွင်းစိုက်ပျိုးသည်။

ယင်းတလဲ အမျိုးသားတို့သည် ရိုးရာဓလေ့ ထုံးစံ အရ အက အခုန် အတီး အမှုတ်တို့၌ ဝါသနာ ထုံကြသည်။ ယောကျ်ားနှင့် မိန်းမ စုံတွဲအက၊ စုပေါင်းအကတို့ကို တပျော်တပါး ကခုန်လေ့ ရှိကြသည်။ တူရိယာများမှာ မောင်း၊ အိုးစည်၊ ပြွေ၊ လင်းကွင်းတို့ ဖြစ်သည်။

**ယင်းတော်မလေး။** ။ယင်းတော်မလေးသည် အိမ်နောင်နန်းတွင်းဇာတ်တော်ကြီးတွင် ခေါင်းဆောင်မင်းသမီးအဖြစ် ထူးကဲစွာ ကျော်ကြားခဲ့သော တော်သုံး မင်းသမီးဖြစ်ပေသည်။ နာမည်ရင်းမှာ မလေးဖြစ်၍ ယင်းတော်မြို့သူ ဖြစ်သဖြင့် ယင်းတော်မလေးဟု ခေါ်တွင်လေသည်။ ငယ်စဉ်ကပင် ယင်းတော်မြို့စားကိုအကြောင်းပြု၍ နေပြည်တော်သို့ရောက်ပြီးလျှင် နန်းတွင်း၌ အငြိမ့်အပျိုတော်အဖြစ် စတင်အမှုထမ်းရလေသည်။ ထိုနောက် အိမ်နောင် နန်းတွင်းဇာတ်တော်ကြီးတွင် အရေးပါအရာရောက်ဆုံးဖြစ်သူ ပွတ်စပါး မင်းသမီးအခန်းတွင် နိုင်နင်းစွာ အမှုထမ်းနိုင်သဖြင့် မြန်မာဇာတ်သဘင်သည်တို့၏ မိခင်ကြီးသဖွယ် ဖြစ်ပေသည်။ ထိုအချိန်က မယင်းတော် ဟူ၍ရင်း၊ နန်းတော်သား အရာရှိ၊ မြို့စား၊ ရွာစား၊ သူဌေး၊ သူကြွယ်၊ မင်းပျို၊ မင်းလွင်တို့က ယင်းတော်လေး ဟူ၍ရင်း ခေါ်ကြသည်။

နာမည်ကျော် မင်းသမီး ယင်းတော်မလေးသည် မင်းသမီးဘဝ ခေတ်ကောင်းချိန်က အဆင်းအင်္ဂါ လှပ၍ ကန့်ကရ ပျော့ပျော့ပျောင်းပျောင်း ရှိသည်။ တေးကြိုး၊ ဘွဲ့ကြီး၊ ပတ်ပျိုး၊ယိုးဒယား စသည်တို့ကို ငယ်စဉ်ကပင် နိုင်နင်းစွာ သီဆို နိုင်သည်။ ဇာတ်ချင်းများကို သီဆိုရာတွင်လည်း ဖွဲ့ဖွဲ့နွဲ့နွဲ့ လေယူလေသိမ်း၊ ထီးသံနန်းသံ၊ ကြင့်နန်းသံ မှန်လှသည် ဟု ထိုခေတ်က နန်းတော်သူတို့၏ ချီးကျူးခြင်း ခံရသူဖြစ်လေသည်။ နန်းတော်သူတို့က အိမ်နောင် ဦးစံတုတ်ကို သဘောကျ စွဲလမ်းသည့်နည်းတူ နန်းတော်သား၊ မှူးသားမတ်သား၊ မင်းယောကျ်ား အရာရှိပိုင်းကလည်း ယင်းတော်မလေးကို သဘောကျ စွဲလမ်းကြလေသည်။ (စံတုတ်၊ ဦး (အိမ်နောင်) — လည်းရှု။)

သီပေါမင်း ပါတော်မူပြီးနောက် ယိုးဒယား ရာမ ဇာတ်တော်ကြီး အဖွဲ့ဝင်များနှင့် အိမ်နောင်ဇာတ်တော်ကြီး အဖွဲ့ဝင်များသည် မြောက်စား ကြည့်ရှုမည့် ဘုရင် မရှိတော့သဖြင့် ကစဉ့်ကလျား ဖြစ်ကြရရှာလေသည်။ သို့သော်လည်း ထိုခေတ်တွင် ပစ္စည်းအင်အား တောင့်တင်းသော တောင်ခွင်မြို့စား မင်းကြီးကတော်သည် အိမ်နောင် ဇာတ်ကြီးကို ထောက်ပံ့ အားပေးခဲ့ခြင်းကြောင့် ဇာတ်သူဇာတ်သားများသည်

ရတ်တရက် အစည်းမပြေသေးဘဲ ရှိရုံမျှမက၊ မှူးတော် မတ်တော်၊ ဆွေတော် မျိုးတော်တို့က သားသမီး ရှင်ပြု နားထွင်း မင်္ဂလာပွဲ၊ လက်ထပ် မင်္ဂလာပွဲ စသော သဘင်ပွဲလမ်း အခမ်းအနားတို့တွင် ခေါ်ယူ ငှါးရမ်း အသုံးပြုခဲ့ကြလေသည်။ မင်းကြီးကတော် ကွယ်လွန်ပြီးနောက်၌ပင် မင်းပိုင်၊ သင်္ဘေးသူကြွယ်၊ ကုန်သည်ပိုင်းတို့က ဝိုင်းဝန်း အားပေးကြသဖြင့် ရံဖန်ရံခါ ကပြကြရသေးသည်။

သီပေါမင်း ပါတော် မူပြီးနောက် ရှစ်နှစ်ခန့်ကြာသောအခါ ယင်းတော်မလေးသည် မျက်စိတဖက် ကွယ်သွားသဖြင့် ကျောက်မျက်လုံး တပ်ထားရလေသည်။ မင်းသမီးကြီးသည် အသက်အရွယ်အားဖြင့် ၄၀ ကျော် ၅၀ နီးပါးခန့်ရှိလာသည်ကတကြောင်း၊ ဇာတ်ကြီးသားအချို့နှင့် အိနေောင် ဦးစံတုတ်လည်း အနိစ္စရောက်ကြသည်က တကြောင်းတို့ကြောင့် အိနေောင် ဇာတ်တော်ကြီးအဖွဲ့ တိမ်မြုပ်ခဲ့ရလေသည်။

ယင်းတော် မလေးမှာ မူကား အသက် ၆၀-၇၀ အရွယ် အထိ ဆင်းရဲ ငြိုငြင်စွာ အသက်ရှည်လျက် ကျန်ရစ်ခဲ့သေးသည်။ အရွယ် အိုမင်းလာပြီ ဖြစ်သော်လည်း နာမည်ကျော် မင်းသမီးကြီး ဖြစ်ခြင်းကြောင့် အလှူပွဲ အခမ်းအနားပွဲများတွင် အခြားသော မင်းသားတို့နှင့် တွဲကရန် ချီကောက် ငှါးခေါ် သူရှိလျှင် လိုက်၍ တွဲကရလေသည်။ မင်းသားများက နှစ်ပါးသွားစကား ပြောသောအခါ အသက်အရွယ်ကပင် ကြီးသော်လည်း ဝမ်းရေးအတွက် ကရသဖြင့် "နင်တို့က တယ်ပြီး မကလက်စမ်းပါနဲ့" ဟု မင်းသားလုပ်သူကို တီးတိုး ပြောရှာသည် ဟု ဆိုသည်။ ယင်းတော် မလေး၏ ပညာအမွေကို ခံယူခဲ့သော မင်းသမီး ဟူ၍ မရှိဟုလည်း ဆိုလေသည်။

**ယင်းတိုက်ပင်။** ။ယင်းတိုက်ပင်ကို ရုက္ခဗေဒ အလိုအရ ဒယ်လဗာဂျီယာ ကာလတြေတာ ဟု ခေါ်သည်။

ယင်းတိုက်သစ် အနှစ်သားသည် မာ၍ အစင်းကြောင်းများ ထင်လျက် လှပသဖြင့် ပန်းပုထုရန် အလွန် အသုံးဝင်သည်။ အသား၏အရောင်မှာ အညို၊ သို့မဟုတ် အနက် ဖြစ်သည်။ အနောက်နိုင်ငံများမှ အက်ဗနီ ခေါ် သစ်သားနက်နှင့် ယင်းတိုက်သားတို့သည် ဆင်တူကြသည်။ ယင်းတိုက်သားကို မြေအောက်၌ အတန်ကြာ မြှုပ်ထားလျှင် အက်ဗနီသစ်နှင့် မခြား မည်းနက်လာနိုင်သည်။ လက်ကိုင်တုတ်များ၊ လက်ကိုင်ရိုးများနှင့် အိမ် အသုံးအဆောင်များကို ယင်းတိုက်သားနှင့် ပြုလုပ်ကြသည်။ နဲ့တံ၊ ပြွေတံ စသည်တို့ကို ပြုလုပ်ရာတွင်လည်း ယင်းတိုက်သားကို အသုံးပြုကြသည်။ ထူးခြားစွာ လှပသော ဝက်မှင်ဘီးခုံများ ပြုလုပ်ရာတွင်လည်း ယင်းတိုက်သားကို အသုံးချနိုင်သည်။

ယင်းတိုက်ပင်သည် အမြင့် ပေ ၆၀ အထိနှင့် ပင်စည်လုံးပတ် ငါးပေမျှ ရှိသဖြင့် အရွယ် အလတ်စားမျိုး သစ်ပင်ဖြစ်သည်။ မြန်မာနိုင်ငံရှိ မြေပြန့် သစ်တောများနှင့် တောင်နိမ့်ပိုင်း သစ်တောများ၌ ယင်းတိုက်ပင်များ ပေါက်ရောက်သည်။ ယင်းတိုက်ပင်၏ ပင်စည်တွင် များသောအားဖြင့် ထွင်းကြောင်းများ ထင်လျက် ရှိသဖြင့် ပျဉ်ကြီးကြီးများ ခွဲဖြတ်ရန် မဖြစ်နိုင်ချေ။

**ယင်းဘော် လူမျိုး။** ။ယင်းဘော် လူမျိုး တို့သည် တောင်ပေါ် ကရင် လူမျိုးစုတွင် ပါဝင်၍ ကယားပြည်နယ်၌ တောခေါင်ခေါင် အတွင်းပိုင်းကျကျ အရပ်များတွင် နေထိုင်ကြသည်။ (ကယားပြည်နယ် အစိုးရ၏ ယူဆချက်အရ ကယားလူမျိုး အုပ်စုတွင် ယင်းဘော်၊ ယင်းတလဲ၊ ပဒေါင်၊ ဗရဲ၊ မနု မနော၊ ကဲခိုက်ဗာ စသည့် လူမျိုးစုတို့ပါဝင်သည်။) လူဦးရေ ၂,၉၀၀ ယောက်ခန့် ရှိ၍၊ ဘောလခဲနယ်နှင့် တောင်ငူခရိုင် အရှေ့ဖက်ရှိ လိပ်သို တောင်ပေါ် တို့၌ တွေ့ရသည်။ (ကရင်လူမျိုး၊ ဘောလခဲနယ် — လည်းရှု။)



ကယားပြည်နယ်မှ ယင်းဘော်အမျိုးသမီးများ

**ယင်းမာပင်။** ။ယင်းမာပင်ကို ရုက္ခဗေဒ အလိုအရ ချပ်ကရာဆီယာ တာဗျူလာရစ္စ ဂျပ်ဆီယူနှင့် ချပ်ကရာဆီယာ ဗီလူတီနာ ရိုးမာ ဟု ခေါ်သည်။



အိမ်အသုံးအဆောင်ပစ္စည်းပြုလုပ်ရာတွင် အသုံးဝင်သည့် ယင်းမာပင်

မြန်မာနိုင်ငံ အတွင်း၌ ထိုယင်းမာပင် မျိုးစိတ်နှစ်ခုလုံးသည် အတော်များများ ပေါက်ရောက်လျက် ရှိကြရာ ထိုနှစ်မျိုးစလုံးကိုပင် ယင်းမာပင်ဟု ခေါ်လေ့ရှိကြသည်။ မျိုးစိတ်တခုဖြစ်သည့် ချပ်ကရာဆီယာ ဗီလူတီနာ ရိုးမာ ယင်းမာပင်မျိုးသည် ရွှေဘိုမြို့ကဲ့သို့ သွေ့ခြောက်၍ မိုးပါးသော ဒေသများတွင် ပေါက်လေ့ ရှိသည်။ ထိုယင်းမာပင် မျိုးစိတ်နှင့် ချပ်ကရာဆီယာ တာဗျူလာရစ္စ ဂျပ်ဆီယူမျိုးစိတ်၏ ကွာခြားချက်မှာ ထိုယင်းမာပင်မျိုးစိတ်၏ အရွက်ကလေးများတွင် ကတ္တီပါမွေးကဲ့သို့အမွေးနုကလေးများရှိ၍ အကိုင်းကလေးများလည်း ရှိနေခြင်း ဖြစ်သည်။ ထိုပြင် အပွင့်တည်ပုံတွင်လည်း တမျိုးစီဖြစ်သည်။ ထိုမျှမကသေး၊ အပင်ကလည်း ယော်၍ အသားမှာလည်း ပို၍ မာပြီးလျှင် အခြားမျိုးစိတ် တခုလောက် မလုချေ။ ထိုယင်းမာပင်မျိုးသည် ပေပေါင်း ၃,၀၀၀ ခန့်ထိ မြင့်သော နေရာများ၌ပင် ပေါက်ရောက်နိုင်လေသည်။ ထိုယင်းမာပင်မျိုးကို မန္တလေး - မေမြို့လမ်းတလျှောက်တွင် တွေ့နိုင်သည်။

ယင်းမာပင်သည် လုပ၍ များသောအားဖြင့် ဖြောင့်မတ်ပြီးလျှင် လုံးသည့်ပင်စည် ရှိတတ်သည်။ထိုပြင် ထိပ်ပိုင်းသည် ဖြာလျက် ငှက်မွေး မုံသဏ္ဍာန် အရွက်များ ရှိသည်။ အသန်စွမ်းဆုံး ပေါက်ရောက်သည့်အခါတွင် အပင်၏ အမြင့်သည် ပေပေါင်း ၁၁၀ ထိ ရှိတတ်၍ လုံးပတ်သည်လည်း ခြောက်ပေမှ ရှစ်ပေထိ ရှိတတ်သည်။ ကသာနှင့် မြစ်ကြီးနား ခရိုင်များတွင် ယင်းမာပင်များ အသန်စွမ်းဆုံး ပေါက်ရောက်သည်ကို တွေ့ရလေသည်။ ယင်းမာပင်၏အရွက်များသည် များသောအားဖြင့် ရာသီအလိုက် ကြွေသော အရွက်များ ရှိတတ်သော်လည်း အမြဲစိမ်း တောများတွင် ပေါက်ရောက်သော အခါ၌မူ အချိန် အနည်းငယ် အတွင်း၌သာ အရွက်များ ပြတ်လပ်တတ်သည်။ ယင်းမာပင်၏ အခေါက်ရောင်မှာ သံချေးရောင်မှ အမည်းရောင်အထိ ရှိတတ်သည်။ ထို့ပြင် အတော် နက်နက်လည်း ကွဲနေတတ်သည်။ အရွက်သစ်တို့၏ အရောင်မှာ ပန်းရောင် ဖြစ်သော အစွန်းရွက် တစုံမှလွဲ၍ ခပ်စိမ်းစိမ်း ဖြစ်သဖြင့် ထိုအပင်ကို အလွယ်တကူနှင့် သိသာနိုင်ပေသည်။ အခေါက်၏ အရသာမှာ ဖန်သော်လည်း မခါးချေ။ အပင်ကို ဓားဖြင့် ထစ်လိုက်သောအခါတွင် အတွင်း၌ နီနေ၍ ထောင်လိုက် အဖြူကြောင်းကလေးများကို မြင်နိုင်လေသည်။

အရွက်များသည် ငှက်မွေးပုံဖြစ်၍ အရွက်နုကလေးများ ၁၀ ခုမှ ၂၄ ခုထိ ရှိတတ်ပြီးလျှင် ထိုအရွက်နုကလေးများသည် များသောအားဖြင့် ရွက်လွှဲ ပေါက်တတ်ကြသည်။ ထိုအရွက်နုကလေးများသည် နှစ်လက်မမှ ငါးလက်မအထိ ရှည်တတ်ပြီးလျှင်အပေါ်မျက်နှာပြင်သည် ချောမွတ်၍ အောက်မျက်နှာပြင်တွင် အမွေးနုများ ရှိသည်။ (ချပ်ကရာဆီယာ ဗီလူတီနာရိုးမာ မျိုးစိတ်တွင် အကိုင်းကလေးများ၊ အရွက်များနှင့်ပန်းခိုင်များတွင် အမွေးနုများရှိသည်။)ယင်းမာပင်ငယ်များ၏ အရွက်များသည် နှစ်ခါငှက်မွေးရွက်ပေါင်း ဖြစ်သည့်အပြင် အရွက်နုကလေးများကလည်း ရွက်ခြားလက်ထွက်ကြလေသည်။ ဖြေ-မေလတွင် ပန်းပွင့်များ ပွင့်လာသည်။ အရောင်မှာ အဖြူဖြစ်၍ လက်မဝက်ခန့် ရှည်သည်။

ယင်းမာသီးတွင် အမြှောင်း နှစ်ခု၊ လေးခု၊ ငါးခု ရှိတတ်ပြီးလျှင် ကြက်ဥပုံ၊ သို့မဟုတ် အီလစ်ပုံ ဖြစ်သည်။ မှည့်လျှင် ကွဲတတ်သည်။ အရှည် တလက်မခွဲခန့် ရှိသည်။ ဇန္နဝါရီလမှ မတ်လအတွင်း မှည့်သည်။ အစေ့ကလေးများ ကြွေကျသော အခါ လေက သယ်ဆောင်သွားသည်။ ကွဲလျက်ရှိသော အသီး တောင့်များသည် ကွဲပြီးနောက် အပင်တွင် ဆက်၍ အချိန်အတန်ကြာ တည်ရှိနေတတ်ကြသည်။ အစေ့မှာ ပြား၍ အညိုရောင် ဖြစ်သည်။ ကျယ်ပြန့်၍ အမြှေးကဲ့သို့ ပါးပြီးလျှင် အစေ့၏ နှစ်ဆခန့်ရှည်သော အတောင် ပါရှိသည်။ အစေ့များကို အစေ့ ကွဲပြီးလျှင် အရိပ်အတွင်း၌ တဖြည်းဖြည်း သွေ့ခြောက် မသွားမီ ဖေဖွာရီလ၊ သို့မဟုတ် မတ်လအတွင်းတွင် စုသိမ်းသင့်သည်။ အလေးချိန် တပေါင်ရှိသော အစေ့များမှ ယင်းမာပင်ကလေးပေါင်း ၁,၄၅၀ ခန့်ရမည် ဟု ခန့်မှန်းရသည်။ ပျိုးခင်းများတွင် အစေ့များမှ အညှောက်ကလေးများသည် ၁၀ ရက်၊ ၁၅ ရက် အကြာတွင် ထွက်လာတတ်သည်။ အပင်ငယ်များ လေးလက်မမှ ခြောက်လက်မထိ ကြီးလာကြသော အခါတွင် မိုးဦးကျ၌စိုက်ပျိုးသင့်သည်။ ပျိုးပင်ကလေးများသည် ပဌမ တနှစ်အတွင်း၌

တပေမှ တပေခွဲအထိ အတော် အကြီးမြန်သည်။ ဒုတိယနှစ် အတွင်းတွင် သုံးပေ ကိုးလက်မမှ ခြောက်ပေ ဆယ်လက်မ အထိ အကြီးအလွန်မြန်သည်။ တတိယနှစ်တွင် ဆယ်ပေ အထိ မြင့်လာတတ်သည်။ ပင်စည်၏လုံးပတ်သည်လည်း ငါး လက်မမှ ခြောက်လက်မအထိ ရှိလာတတ်သည်။ ခြောက်နှစ် ကြာသောအခါတွင် ၁၈ ပေအထိ မြင့်လာတတ်ပြီးလျှင် ပင် စည်၏ လုံးပတ်သည်လည်း တပေခွဲအထိ ကြီးလာတတ် လေသည်။

မိုးကုန်လောက်တွင်မှ ပျိုးပင်များကို စိုက်ပျိုးလျှင် ပဌမ ပူသော လများတွင် ရေ လောင်းပေးသင့်သည်။ အရိပ် အတွက် လမ်းဘေး တလျှောက်တွင် စိုက်လျှင် တပင်နှင့် တပင်ကို ပေ ၄၀ ခန့် ခွါ၍ စိုက်သင့်သည်။

ယင်းမာသားသည် ခွဲစ စိတ်စတွင် အဝါဖျော့ဖျော့ အ ရောင်ရှိ၍ လေ၊ အလင်းတို့နှင့် တွေ့ထိဖန်များလျှင် ညိုဝင်း သော အရောင်သို့ ပြောင်းလဲသွားသည်။ အိမ်အသုံးအ ဆောင်ပစ္စည်းများ ပြုလုပ်ရန်နှင့် ပွတ်ခံရန် ကောင်းသော သစ်သား ဖြစ်သည်။ မြန်မာနိုင်ငံတွင် ယင်းမာသားကို များသောအားဖြင့် အိမ်ဆောက်ရာ၌ ထုပ်နှင့်လျှောက်များ အတွက် အသုံးချလေ့ ရှိကြသည်။ မုန့်ကူကွက်များ၌ တပ် ဆင်ရန် လှပသော သစ်သားလည်း ဖြစ်သည်။ ပျဉ်ပြား ငယ်များ ခွဲစိတ်၍ရသော သစ်သား ဖြစ်သဖြင့် စည်များ ပြုလုပ်နိုင်သည်။ ထို့ပြင် ပန်းပုထုရန် ကောင်းသော သစ် သားလည်း ဖြစ်ပေသည်။

**ယင်းမာပင်မြို့။** ။ယင်းမာပင်မြို့သည် မုံရွာမြို့အနောက် ဖက် ၁၆ မိုင်ခန့်ကွာသော အရပ်တွင်တည်ရှိ၍ နယ်ပိုင်ရုံးစိုက် ရာ မြို့ဖြစ်သည်။ ယင်းမာပင်နယ်တွင် ကနီ၊ ဆားလင်းကြီး၊ ယင်းမာပင်နှင့် ပုလဲမြို့နယ်များ ပါဝင်သည်။ မြေပြန့် လွင် ပြင်တွင် တည်ရှိ၍ ပူပြင်းသော ရာသီဥတုကြောင့် တမာ၊ ထနောင်း၊ ကုက္ကို၊ မန်ကျည်း စသော သစ်ပင်များသာ ပေါများ၍ ချုံနွယ်ပိတ်ပေါင်းများလည်း ရှိလေသည်။ ငါး ရက်တဈေးဖြင့် အရောင်းအဝယ် ပြုလုပ်ကြသည်။ မုံရွာ တဖက်ကမ်းရှိ ညောင်ပင်ကြီးဆိပ်သို့ရင်း၊ ပုလဲမြို့သို့ရင်း မော်တော်ကားလမ်း ဖောက်လုပ်ထားသည်။ ၁၉၅၃ ခုနှစ် သန်ကောင်စာရင်းအရ လူဦးရေ ၇၉၅ ယောက် ရှိသည်။

**ယောင်ယင်ငှက်။** ။ယောင်ယင်ငှက်ကို အောင်လောင် ငှက် ဟုလည်း ခေါ်တတ်ကြသေးသည်။ ပါဏဗေဒ အလို အရ ဗူကာရော့စ ဗိုင်ကောနစ် ဟု ခေါ်၍ ဗူကာရိုတီဒီ မျိုး ရင်းတွင် ပါဝင်သည်။

ယောင်ယင်ငှက်သည် ငှက်ကြီးမျိုး ဖြစ်သဖြင့် အလျား ၄၂ လက်မမှ ၅၂ လက်မထိ ရှိတတ်သည်။ နှုတ်သီးနှင့် မှလ



ယောင်ယင်ငှက်

အမွေးရောင်များသည် တင်ပါး၏ ဂလင်းမှ ထွက်သော အမှုန့်စေး တမျိုးကြောင့် အဝါရောင် ဖြစ်နေတတ်သည်။ ငှက်ဖို၏ မျက်နက်ဝန်းသည် အနီရောင် ဖြစ်သော်လည်း ငှက်မ၏ မျက်နက်ဝန်းမှာမူ အဖြူရောင် ဖြစ်သည်။

ယောင်ယင်ငှက်သည် ဆူညံစွာ နေတတ်သော ငှက်ဖြစ် သည့်အပြင် ထူးခြားသော အသံများကိုလည်း ပြုလုပ်တတ် သေးသည်။

တောင်ခြေရှိ တောများတွင် ယောင်ယင်ငှက်ကို တွေ့နိုင် ပေသည်။ ယောင်ယင်ငှက်ဖိုနှင့် ငှက်မများသည် ရာသက် ပန် တွဲဖက်၍ နေတတ်ကြသည်ဟု ဆိုသော်လည်း သား ပေါက်ချိန် မဟုတ်သော အခါများတွင် ယောင်ယင်ငှက် များသည် ခြောက်ကောင်မှ တဆဲ့ရှစ်ကောင်အထိ အုပ်ဖွဲ့၍ နေတတ်ကြသည်။ ပျံသန်းရာတွင် တောင်ပံကို ရိုက်ခတ် ကြသော်လည်း ထိုသို့ ရိုက်ခတ်သည့်ကြားတွင် လေဟုန် လည်း စီးတတ်ကြသည်။ ယောင်ယင်ငှက်၏ တောင်ပံရိုက် ခတ်သံသည် အခြား ငှက်များ၏ တောင်ပံရိုက်ခတ်သံထက် ပို၍ ကျယ်လောင်သည်။ သို့သော် အခြား ငှက်များကဲ့သို့ လည်း နိမ့်ချေမြင့်ချေ မဖြစ်ချေ။ ယောင်ယင်ငှက်၏ တောင် ပံ ရိုက်ခတ်သံကို အတော်ဝေးဝေးမှပင် ကြားနိုင်လေသည်။ အချို့ တောင်ပေါ် သားများ အထူးသဖြင့် နာဂလူမျိုးနှင့် ကချင်လူမျိုးတို့သည် သူတို့၏ ဦးခေါင်း တန်ဆာများတွင်

တပ်ဆင်ရန်အတွက် ယောင်ယင်ငှက်များ၏ အမြီးမွေးများကို အတော်လိုလိုချင်ချင် ရှာဖွေကြသည်။ ယောင်ယင်ငှက်သည် အထူးသဖြင့် သစ်သီးများကို စားလေ့ ရှိသော်လည်း ပိုးကောင်၊ ဖွတ်၊ ပုတတ်မျိုးနှင့် မြွေများကိုပါ စားလေ့ရှိသည်။ အစာကို စားရာတွင် ပဌမ အစာကို မြှောက်လိုက်၍ ကျအလာတွင်မှ လည်ကုပ်ကို ဖမ်း၍ ကိုက်စားလေ့ရှိသည်။ သစ်သီးဖြင့် ယောင်ယင်ကို ပစ်လိုက်လျှင် အပစ်ခံရသော ယောင်ယင်ငှက်သည် ပစ်လိုက်သည့် သစ်သီးကို ဖမ်းယူလေ့ရှိသည်။

ဇန္နဝါရီလမှ ဧပြီလ အထိ ယောင်ယင် ငှက်ကလေးများ ပေါက်သည်။ ယောင်ယင်ငှက်သည် အသိုက် တသိုက်တည်းကိုပင် တနှစ်ပြီးတနှစ် ဆက်၍ သုံးလေ့ရှိသည်။

အိန္ဒိယ၊ မြန်မာ၊ ယိုးဒယား၊ အင်ဒိုချိုင်းနား၊ မလ္လာယုကျွန်းဆွယ်နှင့် ဆူမတြားကျွန်းများတွင် ယောင်ယင်ငှက်များကို တွေ့နိုင်သည်။ မြန်မာနိုင်ငံရှိ တောင်ခြေ တောများတွင် ယောင်ယင်ငှက်များကို တွေ့နိုင်လေသည်။ ပေ ၄,၀၀၀ ထိ မြင့်သော နေရာများ၌ပင် ယောင်ယင်ငှက်များကို တွေ့နိုင်လေသည်။

**ယောင်လူမျိုး။** ။ယောင်လူမျိုးသည် မွန်ခမာ အနွယ်ဝင်ဖြစ်၍ မျောင်၊ ယောင်လူမျိုး အုပ်စုခွဲတွင် ပါဝင်သည်။ ၁၉၀၁ ခုနှစ် မြန်မာနိုင်ငံ သန်ကောင်စာရင်းတွင် ယောင်လူမျိုးကိုသော်၎င်း၊ မျောင်၊ သို့မဟုတ် မျောင်စီး လူမျိုးကိုသော်၎င်း မဖော်ပြခဲ့ချေ။ မျောင်စီးလူမျိုးနှင့် ယောင်လူမျိုးတို့သည် တရုပ်နိုင်ငံ အနောက်တောင်ပိုင်းတွင် အနှံ့အပြား နေထိုင်ကြ၍ ကျိုင်းတုံနယ်နှင့် မိုင်းပိန်နယ်တို့၌လည်း ယောင်လူမျိုးတို့ နေထိုင်သော ကျေးရွာအချို့ ရှိခြင်းကြောင့် မြန်မာနိုင်ငံတွင်းသို့ နောက်ကျစွာဝင်ရောက်လာသော လူမျိုးစု ဖြစ်သည် ဟု ဆိုသည်။

ယောင် လူမျိုးတို့သည် ပုံပန်းသဏ္ဌာန်အားဖြင့်သော်၎င်း၊ နေထိုင်ပုံအားဖြင့်သော်၎င်း တရုပ် အမျိုးသားတို့နှင့် နီးစပ်သည်။ တရုပ် ယဉ်ကျေးမှုကိုလည်း မပျောက်ပျက်ရအောင် ထိန်းသိမ်းထားကြသည်။ ယောင် လူမျိုးတို့၏ ကျေးရွာတိုင်းတွင် တရုပ်စာကို သင်ကြားပေးမည့်သူရှိ၍၊ ထိုဆရာအား ရွာသားတို့က ထောက်ပံ့ထားရသည်။ တရုပ်အမျိုးသားဆရာကို မရနိုင်လျှင် ယောင် အမျိုးသားထဲမှ တရုပ်စာတတ် တဦးဦးကို ဆရာအဖြစ် ခန့်ထားလေ့ရှိသည်။ အိမ်တိုင်း၌လည်း တရုပ်စာပေဆိုင်ရာ စာအုပ်တမျိုးမျိုးကို တရိုတသေ ထား၍ ကလေးသူငယ်တို့ကို မကြာခဏ သင်ကြားပေး လေ့ ရှိကြသည်။

ယောင် အမျိုးသားတို့သည် တရုပ် အမျိုးသားတို့ကဲ့သို့ပင် ဝတ်ဆင်ကြသည်။ အမျိုးသမီးတို့ကမူ မိမိတို့ လူမျိုးစု ဓလေ့အတိုင်း ရင်ဖုံးအင်္ကျီနှင့်ထဘီတိုကို ဝတ်ဆင်ကြသည်။ ယောင်အမျိုးသမီးတို့ ခေါင်းပေါင်း ပေါင်းပုံမှာ ထူးခြားသည်။ သုံးထောင့်ချွန် ဝါးဘောင်ပေါ်တွင် သားရေ တ ထပ်ဖုံး၍ အဝတ်နီဖြင့် ရစ်ပတ်ထားသော ခေါင်းပေါင်းကို ဝတ်ဆင်လေ့ ရှိကြသည်။

တောင်ယာ စိုက်ပျိုးလုပ်ကိုင်၍ အသက်မွေးကြသည်။ ဆန်စပါး၊ ဝါ၊ ပြောင်းနှင့် ဘိန်းပင်ကို စိုက်ပျိုးသည်။ ယောင်လူမျိုးတို့သည် မိမိတို့ဖာသာ နေထိုင်လေ့ရှိသည်။ နတ် ကိုးကွယ်သူများ ဖြစ်ကြသည်။ (မျောင်လူမျိုး — လည်း ရှု။)

**ယစ်မျိုးခွန်။** ။ယစ်မျိုးခွန်ဟု ဆိုလျှင် သာမန်အားဖြင့် အစိုးရက ဘိန်းဘင်း၊ ကဇော်၊ လော်စာ၊ အရက် စသော ယစ်မူးစေသည့် ကုန်ပစ္စည်းများပေါ်တွင် စည်းကြပ်ရသော အခွန်ဟူ၍ လူအများသိကြသည်။ စင်စစ်အားဖြင့် ယစ်မျိုးခွန် ဆိုသည်မှာ ပြည်တွင်းဖြစ် ကုန်ပစ္စည်းများပေါ်တွင် စည်းကြပ် ကောက်ခံရသော အခွန်ပင် ဖြစ်သည်။ အစိုးရထံမှ ထိုကုန်ပစ္စည်းများ ထုတ်လုပ်ခွင့် လိုင်စင်အတွက် ပေးရသော အခွန်ငွေသည်လည်း ယစ်မျိုးခွန်ပင် ဖြစ်လေသည်။ ထိုအပြင် အစိုးရက သတ်မှတ်ထားသော ကုန်ပစ္စည်း ထုတ်လုပ်ခွင့် အထူးလိုင်စင်အတွက် ပေးရသော အခွန်ငွေသည်လည်း ယစ်မျိုးခွန်ပင် ဖြစ်သည်။ ထိုကြောင့် ယစ်မျိုးခွန်သည် ပြည်တွင်းဖြစ် ကုန်ပစ္စည်းပေါ်တွင် စည်းကြပ်ကောက်ခံရသော အခွန်ဖြစ်၍ အကောက်ခွန်သည် ပြည်ပမှ တင်သွင်းသော ကုန်ပစ္စည်းပေါ်တွင် စည်းကြပ် ကောက်ခံရသောအခွန်ဖြစ်သည် ဟု ဆိုနိုင်လေသည်။

ထိုအခွန် နှစ်မျိုးစလုံးကို ကုန်ပစ္စည်း ထုတ်လုပ်သူကသော်၎င်း၊ ကုန်ပစ္စည်း တင်သွင်းသူက သော်၎င်း ထမ်းဆောင်ကြရသည်မဟုတ်။ ကုန်ပစ္စည်း တန်ဖိုးပေါ်တွင် ထပ်ဆောင်းထားသည်ဖြစ်၍ ဝယ်ယူ သုံးစွဲသူတို့ကသာ ထမ်းဆောင်ကြရလေသည်။ ယခင်က ယစ်မျိုးခွန် စည်းကြပ်ကောက်ခံနိုင်သော ကုန်ပစ္စည်း အမျိုးအမည်၊ လုပ်ငန်းအမျိုးအမည်တို့သည် ထူးထွေ များပြားခဲ့လေသည်။ ယခုအခါ၌မူကား အဓိကအားဖြင့် စီးကရက်ဆေးလိပ်၊ မီးခြစ်၊ သေရည် သေရက် စသည်တို့ကို ထုတ်လုပ်ခွင့် အတွက်သော်၎င်း၊ ရောင်းချခွင့်အတွက်သော်၎င်း စည်းကြပ်ကောက်ခံသော အခွန်မှာ ယစ်မျိုးခွန်ပင် ဖြစ်လေသည်။ (အခွန်အတုတ် — လည်းရှု။)

**ယဇ်ပူဇော်ခြင်း။** ။စန္ဒီ၊ ပရမီသွာ၊ ငိဿာဆိုး အစရှိသော ဗြဟ္မဏပုဏ္ဏားတို့ ကိုးကွယ်သော နတ်ကြီးတို့ကို အကြီးအမှူးထား၍ အမျိုး မြတ်သော ပုဏ္ဏားတို့၏ အယူဝါဒ

အားဖြင့် ကျင့်ဝတ်သိက္ခာပုဒ်နှင့် ပြည့်စုံသော ပုဏ္ဏားတို့ကို လှူဒါန်း ပူဇော်ပြီးလျှင်၊ တိရစ္ဆာန် သတ္တဝါတို့ကို သတ်၍ လည်ချောင်းသွေးဖြင့် ထိုအကြီးအမှူးထားသော နတ်တို့အား ပူဇော်ခြင်းသည် ယင်မည်၏။ ဤသို့ဖြင့် အပူဇော်ခံရသော နတ်ကြီးတို့ နှစ်သက်၍ အလိုရှိရာအကျိုးကို ပေးနိုင်သည်ဟု ထင်မှားကြကုန်၏။ သာကီဝင်မင်းတို့၏ အဦးအစ ဥက္ကာကရာဇ်မင်းကြီး မဖြစ်မီ ရှေးအခါ၌ (၁) သဿမေဓ – အခွန်အတုတ်ကို ဆယ်ဖို့တဖို့ ခံခြင်းလည်းတပါး၊ (၂) ပုရိသမေဓ – သူရဲသူခက်တို့အား ခြောက်လတကြိမ် ရိက္ခာပေးခြင်းလည်းတပါး၊ (၃) သမ္မာပါသ – ဆင်းရဲသားတို့အား အရင်းဥစ္စာပေး၍ သုံးနှစ်လည်မှ အရင်းအတိုင်းသာ ယူခြင်းလည်းတပါး၊ (၄) ဝါစာပေယျ – ချစ်ဖွယ်သောစကားကို ဆိုခြင်းလည်းတပါး ဟူ၍ သင်္ဂဟ တရား လေးပါး ရှိကုန်၏။ သင်္ဂဟတရားလေးပါး ဟူသည်ကား အကြီးအအုပ်အစိုးရ ပြုလုပ်ကုန်သော သူတို့သည်ရင်း၊ ပြည့်ရှင်မင်းတို့သည်ရင်း မိမိတို့ အုပ်စိုးသော တိုင်းပြည် နိုင်ငံကို စည်ပင်သာယာအောင် စောင့်မကြည့်ရှု ချီးမြှောက် သူကောင်းပြုနည်းပင်တည်း။

ဤကဲ့သို့ မဟာသမ္မတမင်းမှ ဥက္ကာကရာဇ်မင်းတိုင်အောင် ဆင်းသက်၍လာသော သင်္ဂဟတရား လေးပါးဖြင့် လူတို့ စည်းစိမ်ချမ်းသာ ကြီးကျယ်၍၊ ထိုလူတို့၌ရှိသော ဥစ္စာပစ္စည်းတို့ကို အလှူခံလိုသော ယုတ်မာသောပုဏ္ဏားတို့သည် ဥက္ကာကရာဇ် မင်းကြီးထံဝင်၍ ကျွန်တော် ပုဏ္ဏား ပညာရှိတို့ အမျိုးစဉ်ဆက်မှ လာသော လူတိုင်းကိုမပြော မပြရသော ဈေးဝှက်၍ ထားသော အလွန်ကောင်းသော ဗေဒင်နည်းသည် ရှိ၏။ ဤနည်းအတိုင်းပြုလျှင် ကေန် သေသည့်အခြားမဲ့၌ နတ်ပြည်သို့ ရောက်သည်ဟု အကျိုးလိုအောင် ဥက္ကာကရာဇ်မင်းကြီးကို လူရှင်းရာ၌ တိုးတိုးဝင်ရောက်တင်လျှောက်သည်။ ထိုဥက္ကာကရာဇ်မင်းကြီး ယုံကြည်၍ ဤပုဏ္ဏားတို့ ဆိုသည့်အတိုင်း ပြုသဖြင့် အစဉ်အဆက်လာသော သင်္ဂဟတရားလေးပါးပျောက်၍ ယင်ကြီးငါးပါး ဖြစ်သည်။

သင်္ဂဟတရားလေးပါးကို ပျောက်အောင် ဖျက်ပုံကား –

(၁) သဿမေဓ ဆိုသည်မှာ 'သဿမေဓ' မဟုတ် ပါဌ်ပျက်ဖြစ်သည်။ အဿမေဓ ဆိုမှ မှန်သည်။ 'အဿ' ကား မြင်းဟော၊ 'မေဓ' ကား သတ်ခြင်းဟော။ အဆင်းငါးပါးရှိသော မြင်းကို သတ်၍ ယင်ပူဇော်ရမည်။ ပုဏ္ဏားတို့ကိုလည်း များစွာ လှူဒါန်းရမည်။

(၂) ပုရိသမေဓဆိုသည်လည်း ယောကျ်ားကိုသတ်၍ယင်ပူဇော်ရမည်။ ပုဏ္ဏားတို့ကိုလည်း များစွာ လှူဒါန်းရမည်။

(၃) သမ္မပါသ ဆိုသည်ကား ပုဏ္ဏားတို့ကို လှူဒါန်းရန် ယင်ပူဇော်ရန် ဥစ္စာပစ္စည်းတို့ကို လှည်းရထားတို့ဖြင့် များစွာ တင်ယူ၍ သူရဿတီမြစ် မြေကြီးထဲသို့ ဝင်၍ ငုပ်ရာအရပ်သို့ သွား၍၊ ရောက်လျှင် ဝန်စုတို့ကို တိုက်ဆောင်ခဲ့သော လှည်းရထား ထမ်းပိုးကျည်း ကလန့်များကို ချွတ်ပြီးလျှင် သူရဿတီ မြစ်ညာကို ဆန်၍ ပစ်ရမည်။ ထိုထမ်းပိုးကျည်း ကလန့်ကျရာ အရပ်၌ ယင်တိုင်စိုက်၍ ယင်ပူဇော်ရမည်။ "သမ္မာ" သဒ္ဒါ ထမ်းပိုးကျည်း ကလန့်ကို ဟောသည်။ "ပါသ" သဒ္ဒါ ပ ရှေးရှိသော "အပ" ခေတ်၊ ပစ်လွှတ်ခြင်းကို ဟောသည်။

(၄) ဝါစာပေယျ ဆိုသည်ကား စလုံးနှင့်မဟုတ်၊ ဇနှင့် "ဝါဇပေယျ" ဆိုရမည်။ 'ဝါဇ' သဒ္ဒါ ထောပတ်ဟော။ 'ပေယျ' သဒ္ဒါ သောက်ခြင်းဟော။ ကောင်းလှစွာသော ထောပတ်ကို ပုဏ္ဏားတို့အားတိုက်၍ ယင်ပူဇော်ရမည်။

(၅) နိရဂ္ဂဠ ဆိုသည်ကား တံခါးကျည်းမင်းတုပ် မရှိ ဆိုလိုသည်။ ဤယင်ပူဇော်လိုသောသူသည် မိမိအိမ် အစရှိသော ဥစ္စာပစ္စည်းတို့ကို အပိတ်အပင်မရှိ၊ တံခါး ဟင်းလင်းထား ဖွင့်၍ ပုဏ္ဏားတို့အလိုရှိရာ ယူစေရမည်။

ဤသို့ ပုဒ် ပါဌ် အက္ခရာ အနက်အဓိပ္ပါယ်နှင့်တကွ ဖျက်ဆီးပြီးလျှင် တင်လျှောက်သောစကားကို နာယူ၍ ဥက္ကာကရာဇ်မင်းကြီးသည် ဤယင်ကြီးငါးပါးကို ပူဇော်သည်မှစ၍ သင်္ဂဟတရား လေးပါး ပျောက်ပြီးလျှင် ယင် ငါးပါး လောက၌ အထင်အရှားဖြစ်သည်။ ရှေးအထက်က လောကမှာ အနာရောဂါသုံးခုသာရှိသည်။ ဤယင်ကို ပူဇော်သည်မှစ၍ ကိုးဆဲ့ ရှစ်ပါးသော အနာရောဂါတို့ ရောက်လာကုန်သည် ဟူ၍ သုတ္တနိပါတ်၊ ဗြဟ္မဏဓမ္မိကသုတ်၌ လာရှိ၏။

**ယဉ်ကျေးမှု။** ။လူ့နေမှုတိုးတက်ခြင်း — ရှု။

**ယာဉ်။** ။တနေရာမှ တနေရာသို့ လူကိုဖြစ်စေ၊ ကုန်ကိုဖြစ်စေ သယ်ယူ ပို့ဆောင်ပေးသော ကရိယာကို ယာဉ် ဟု ခေါ်သည်။ အထူးသဖြင့် ယာဉ်၌ ဘီးများ များသောအားဖြင့် ပါလေ့ရှိသည်။ ယာဉ်သည် သမိုင်းမတင်မီ ခေတ်ကပင် ပေါ်ပေါက်ခဲ့လေသည်။ ယာဉ်ကို ကုန်းကြောင်း၊ ရေကြောင်းနှင့် လေကြောင်း ဟု သုံးမျိုး ခွဲခြားနိုင်သည်။

ရှေးဦးအစက လူသည် ကုန်များကို ကိုယ်တိုင် သယ်ယူပို့ဆောင်ပေးခဲ့ရသည်။ ထိုသို့ ပြုလုပ်ပေးရာတွင် ကုန်ကို ခေါင်းပေါ်တွင် ဖြစ်စေ၊ ကျောပေါ်တွင်ဖြစ်စေ တင်၍ တနေရာမှ တနေရာသို့ ပင်ပန်းစွာ ပို့ပေးခဲ့ရလေသည်။ ယခုတိုင်လည်း အချို့ တောင်ပေါ်သားများသည် ကုန်များကို တောင်းတွင် ထည့်ပြီးလျှင် ထမ်း၍ဖြစ်စေ၊ ရွက်၍ဖြစ်စေ ပို့ပေးနေရသေးသည်။ ထိုနောက်တွင် ထမ်းပိုးများကို ထွင်လာနိုင်ကြသဖြင့် ကုန်များကို ထမ်းပိုး၏ အစွန်း နှစ်ဖက်တွင် ချိတ်ဆွဲ၍ဖြစ်စေ၊ ထိုအစွန်းနှစ်ဖက်တွင် ချိတ်ဆွဲထား



ရှေးမြန်မာမင်းများလက်ထက် တနေရာမှတနေရာသို့ သွားလာရာ၌ ထမ်းသည့် ဝေါယာဉ်ကို အသုံးပြုကြသည်။

သည့် တောင်းများတွင် ထည့်၍ဖြစ်စေ ထားပြီးလျှင် ထမ်းပိုးကို အလယ်မှ ပခုံးဖြင့် ထမ်း၍ တနေရာမှ တနေရာသို့ ပို့ပေးလာနိုင်ခဲ့ကြသည်။ အချို့ နေရာများတွင် စွတ်ဖားများကို ထွင်လာနိုင်ကြသဖြင့် စွတ်ဖားများဖြင့် ကုန်များကို ပို့ပေးခဲ့ကြလေသည်။

ထိုနောက် ကုန်းပေါ်တွင် သွားလာရာ၌ အသုံးပြုနိုင်ရန် ဘီးများကို ထွင်လာနိုင်ကြပြန်သည်။ ရှေးဦး ဘီးများသည် သစ်ပင်ကြီး တပင်၏ ပင်စည်ကြီးကို သာမန်အားဖြင့် အဝိုင်းလိုက် ကန့်လန့် ဖြတ်ထားခြင်းမျှသာ ဖြစ်သည်။ ပြီးမှ ထိုသစ်ပြားဝိုင်း၏ အလယ်ဗဟိုတွင် အပေါက်ဖောက်ကာ ထိုအပေါက်အတွင်းသို့ ဝင်ရိုးကို တပ်ထားကြသည်။ ထိုသို့ ဘီးကို ထွင်နိုင်ခဲ့ခြင်းမှာ ရှေးနှစ်ပေါင်း လေးငါးထောင် ခန့်ကဖြစ်သည်။ ထိုသို့ ဘီးကိုထွင်နိုင်သောအချိန်တွင် လူသည် နွားနှင့် မြည်းများကိုပါ ယဉ်ကျေးအောင် မွေးမြူလာနိုင်ပြီးဖြစ်သဖြင့် ထိုဘီးတပ်ယာဉ်များပေါ်တွင် လူကိုဖြစ်စေ၊ ကုန်ကိုဖြစ်စေ တင်ဆောင်ကာ တနေရာမှ တနေရာသို့ ပို့ပေးနိုင်ခဲ့ကြသည်။ နွားများအား ယာဉ်များတွင် အသုံးပြုခဲ့ကြောင်းကို အီဂျစ်နိုင်ငံရှိ မှတ်တမ်းများတွင် တွေ့နိုင်ပေသည်။ ထိုသို့ ပြုလုပ်နိုင်ခဲ့သော အချိန်သည် ခရစ်မပေါ်မီ ဘီစီ ၂၇၀၀ ခန့်က ဖြစ်၏။ မြင်းများကို အသုံးပြုနိုင်ခဲ့ကြသည်မှာ ထိုထက် နောက်ကျလေသည်။ အသုံးပြုသောအခါတွင်လည်း အထူးသဖြင့် စစ်များတွင်သာ အသုံးပြုခဲ့ကြကြောင်း တွေ့ရလေသည်။ ပဌမတွင် ဗာဗီလုံးပြည်သားများက ဘီစီ ၂၁၀၀ ခန့်က မြင်းများကို စီတင်၍ အသုံးပြုခဲ့ကြကြောင်း တွေ့ရသည်။ ထိုနောက် နှစ်ပေါင်း ၄၀၀ မျှ ကြာသောအခါတွင် အာရှတိုက်မှ မြင်းများကို အီဂျစ်ပြည်သို့ ယူဆောင်လာကြပြီးလျှင် စစ်ရထားများကို ဆွဲစေခဲ့ကြသည်။ (ဘီး — လည်းရှု။)

လူနှင့် ကုန်များကို တနေရာမှ တနေရာသို့ ပို့ပေးနိုင်ခြင်းသည် လူ၏ တိုးတက်မှု တရပ်ပင် ဖြစ်သည်။ အတွေ့အကြုံနည်းသူများသည် အောက်ကျ နောက်ကျဖြစ်၍ ကျန်ရစ်ခဲ့ကြလေသည်။ ဂရိလူမျိုးများ နေထိုင်ရာတွင် တောင်ကြီးများ ကာရံလျက် ရှိသဖြင့် တဦးနှင့်တဦး တွေ့ကြုံရန် လွန်စွာ ခဲယဉ်းခဲ့ကြသည်။ ရောမမြို့ကြီးကမူ အင်ပါယာချဲ့နိုင်တိုင်း လမ်းများကိုလည်း ဖောက်ပေးခဲ့သဖြင့် လူတဦးနှင့်တဦး တွေ့ကြုံရေးသည် လွယ်ကူခဲ့လေသည်။ ယခုအခါ၌ ထင်ရှားလျက်ရှိသည့် လန်ဒန်၊ ပါရစ်၊ နယူးယော့၊ ကွန်စတန်တီနိုပယ် စသော မြို့ကြီးများကို ကြည့်လျှင် မြို့အတွင်း၌ ယာဉ်အမျိုးမျိုး သွားလာနိုင်သည့် လမ်းမကြီးများရှိနေပြီးလျှင် ထိုမြို့ကြီးများသည်လည်း မြစ်များပေါ်၊ ပင်လယ်ကမ်းရိုးတန်းများ ပေါ်တွင် တည်ရှိ နေကြသဖြင့် သွားလာရာ၌ လွယ်ကူသည့် အပြင်၊ ကုန်များကို ပို့ဆောင်ရာတွင်လည်း လွယ်ကူ၍ စရိတ်သက်သာကြလေသည်။

ကမ္ဘာ့ တိုင်းပြည် အသီးအသီးမှာပင် အိမ်၌ ယဉ်ကျေးအောင် မွေးမြူထားကြသော တိရစ္ဆာန်များကို လူနှင့် ကုန်များအား သယ်ဆောင်ပေးကြရာ၌ အသုံးပြုကြသည်ကို တွေ့ရလေသည်။ သဲကန္တာရ အနီးနေ လူများသည် သယ်ယူ ပို့ဆောင်ရေးအတွက် ကုလားအုပ်များကို အသုံးပြုကြရာ၊ ကုလားအုပ်များကို သဲကန္တာရ သင်္ဘောများ ဟုပင်ခေါ်စမှတ် ပြုကြသည်။ ကမ္ဘာ့ အရှေ့ဖက် နိုင်ငံများတွင် ဆင်များကို ယဉ်ကျေးအောင် မွေးမြူကြပြီးလျှင် လေးလံသည့် ဝန်များကို သယ်ဆောင် စေကြသည်။ မြန်မာနိုင်ငံရှိ သစ်ဆွဲဆင်များကဲ့သို့ ဖြစ်၏။ ထိုအတူ တောင်အမေရိကတိုက်၌ လားမားကောင်များကို ယာဉ်များ ဆွဲစေသည်။ တိဗက်ပြည်တွင် စာမရီကောင်များကို ဝန်ဆောင် တိရစ္ဆာန်များအဖြစ် အသုံးပြုကြသည်။ ဗဲလဂျီယမ်နိုင်ငံတွင်မူ ခွေးများကို လှည်းများ အဆွဲခိုင်းကြသည်။

ချောင်းများ မြစ်များအနီး၌ နေထိုင်ကြသူများကလည်း လူတို့ ဘီးများကို မထွင်နိုင်ကြသေးမီနှင့် မြည်းများကို ယဉ်ကျေးအောင် မပြုလုပ်နိုင်သေးမီကပင်လျှင် သစ်ပင်၏ ပင်စည်ကို ထွင်း၍ဖြစ်စေ၊ တိရစ္ဆာန်၏ အရေအတွင်းသို့ လေသွင်းပြီးလျှင်ဖြစ်စေ ပျဉ်ပြားတချပ်ဖြင့် လှော်ခပ်ပေးလျှင်

လိုသည့် နေရာသို့ သွားနိုင်ကြောင်း သိခဲ့ကြလေသည်။ ထိုသို့ သစ်ပင်၏ ပင်စည်ကို ထွင်းတတ်ကြရာမှ လှေများနှင့် ရွက်သင်္ဘောများကို လုပ်နိုင်သည်အထိ တိုးတက်လာခဲ့ကြသည်။ အီဂျစ်လူမျိုးတို့သည် သူတို့၏ လှေများဖြင့် နိုင်ငံမြစ်အတွင်း သွားလာနိုင်ကြရုံမက မြေထဲပင်လယ်အထိ သွားလာနိုင်သော လှေကြီးများကိုပါ လုပ်နိုင်လာကြသည်။ ဖိနီရှန်တို့ကမူ သူတို့၏ လှေကြီးများနှင့် ရွက်သင်္ဘောများပေါ်တွင် သူတို့တိုင်းပြည်မှ ကုန်များကို တင်ဆောင်ကာ ဂရိလူမျိုးတို့ နေထိုင်ရာသို့ သွားရောက်၍ ရောင်းဝယ်ဖောက်ကားကြသည်။ သို့သော် ထိုစဉ်က ကမ်းမမြင် လမ်းမမြင်သော ပင်လယ် သမုဒ္ဒရာတို့သို့ကား မသွားနိုင်ခဲ့ကြသေးချေ။ ၁၃၀၀ ပြည့်နှစ်တွင်မှ အိမ်မြှောင်ကို အသုံးပြုလာနိုင်ကြကာ ပင်လယ် သမုဒ္ဒရာများသို့ သွားလာနိုင်ခဲ့ကြသည်။ အိမ်မြှောင်ကို မထွင်နိုင်ကြသေးမီက နေ့အခါတွင် ကုန်းပေါ်ရှိ အမှတ်အသားများနှင့် ညဉ့်အခါတွင် ကြယ်များကိုသာ လမ်းညွှန်အဖြစ် အသုံးပြုခဲ့ကြရသည်။ ၁၄၉၂ ခုနှစ်တွင်မူ ကမ္ဘာကျော် ပုဂ္ဂိုလ်ကြီး တဦးဖြစ်သော ကိုလံဗပ်သည် အတ္တလန္တိတ် သမုဒ္ဒရာကြီးကို ဖြတ်ကျော်နိုင်ခဲ့လေသည်။ နောက် နှစ်ပေါင်း ၃၀ ကြာသောအခါတွင် မဂျဲလင် ဆိုသူက ကမ္ဘာကိုပင် ပတ်နိုင်ခဲ့လေသည်။

ကုန်းသန်း သွားလာရေးနှင့် သယ်ယူပို့ဆောင်ရေးသည် ၁၈ ရာစုနှစ် တိုင်သည်အထိ ခဲယဉ်း၍ စွန့်စားမှု တရပ် ဖြစ်ခဲ့သေးသည်။ ထိုရာစုနှစ်သို့ရောက်လာသောအခါတွင်မူ သွားလာရေးနှင့် ပို့ဆောင်ရေးတွင် လွယ်ကူလာသဖြင့် စီးပွားရေးတော်လှန်မှုကြီးလည်း ဥရောပတိုက်နှင့် အမေရိကတိုက်တွင် ဖြစ်ပေါ်ခဲ့လေသည်။

အင်္ဂလန်နိုင်ငံတွင် စီးပွားရေး တော်လှန်မှုကြီးသည် ၁၈ ရာစုနှစ်အလယ်ပိုင်းလောက်တွင် စတင်ဖြစ်ပေါ်ခဲ့လေသည်။ ထိုအချိန်တွင် မြို့တော်ဖြစ်သော လန်ဒန်မြို့မှ ကျောက်လမ်းမကြီးများသည် အဖက်ဖက်သို့ ဖြာထွက်လျက် ရှိသည်ကို တွေ့ရလေသည်။ တူးမြောင်းများကလည်း ဝန်ကျယ်များဖြစ်သည့် ကျောက်မီးသွေးနှင့် သံကဲ့သို့သော ပစ္စည်းများကို ကုန်ချောပြုလုပ်ပေးသည့် စက်ရုံကြီးများရှိရာသို့ စရိတ်သက်သာစွာနှင့် ပို့ဆောင်ပေးနိုင်ကြလေသည်။

၁၉ ရာစုနှစ် အစပိုင်းလောက်တွင် ရေနွေးငွေ့ဖြင့် မောင်းနှင်သော မီးရထား၊ မီးသင်္ဘောများ စသော ကုန်းကြောင်းနှင့် ရေကြောင်း ယာဉ်များ ပေါ်ထွက်လာကြပြန်သဖြင့် ကုန်းသန်းသွားလာရေးနှင့် ကုန်စည်များ ပို့ဆောင်ရေးတွင် ပို၍လွယ်ကူလာရုံမက စရိတ်လည်း ပို၍သက်သာလာသည်။ ထိုကြောင့် နေရာအနှံ့အပြားမှ ကုန်ကြမ်းများကို ကုန်



ယခုအခါ လေကြောင်း သယ်ယူပို့ဆောင်ရေးတွင် ရဟတ်ယာဉ်ကိုအသုံးပြုလျက်ရှိသည်။

ချော ထုတ်လုပ်ရာနေရာများသို့ ပို့ပေးပြီးလျှင် ကုန်ချော ဖြစ်လာသော အခါတွင်လည်း လိုသည့် နေရာများသို့ ပို့ ဆောင် ပေးနိုင်လာလေသည်။

ရေနွေးငွေ့ဖြင့် မောင်းနှင်သော ယာဉ်များ ပေါ်ပြီး နောက်တွင် လျှပ်စစ်ဓာတ်အားဖြင့် ခုတ်မောင်းသော ဓာတ် ရထားနှင့် ထရော်လီ ဘတ်စကားတို့ကိုပါ ထွင်လာကြပြန် သည်။ ဓာတ်ရထားသည် သံလမ်းပေါ်တွင်ပြေး၍ လျှပ်စစ် ဓာတ်အားကို အပေါ်၌သွယ်တန်းထားသော ဓာတ်ကြိုးတ ချောင်းမှ ရရှိသည်။ မြန်မာနိုင်ငံတွင် ရန်ကုန်နှင့် မန္တလေး မြို့တို့တွင် ဓာတ်ရထားများ ရှိခဲ့ဘူးသည်။ ထရော်လီ ဘတ် စကားမှာ လျှပ်စစ်ဓာတ်အားကို အပေါ်၌ သွယ်တန်းထား သည့် ဓာတ်ကြိုး နှစ်ချောင်းမှရ၍ ရိုးရိုးလမ်းမပေါ်တွင် ပြေး နိုင်သည်။ ဒုတိယ ကမ္ဘာစစ်မဖြစ်မီက ရန်ကုန်မြို့တွင် ထရော် လီ ဘတ်စကားများဖြင့် လူများကို သယ်ယူ ပို့ဆောင်ပေးခဲ့ ဘူးလေသည်။

ကုန်းကြောင်းယာဉ်များတွင် မြင်းများကို ဆွဲစေသည့် မြင်းရထားများလည်း အပါအဝင်ဖြစ်သည်။ ယခုအခါတွင် မူ မြင်းရထားများသည် မြို့ကြီးများတွင် ပပျောက်သ လောက် ရှိနေပေပြီ။ မြင်းရထားနှင့် နွားလှည်းများအစား မော်တော်ကားများကိုအသုံးများလျက်ရှိပေသည်။ကိုယ်ပိုင် မော်တော်ကားများကို အဖိုးကြီးပေးကာ ဝယ်၍ စီးနင်း နိုင်ကြသော သူများလည်း ရှိသည်။ သာမန် လုပ်စား ကိုင်စားများကမူ ကိုယ်ပိုင် မော်တော်ကားများကို မစီး နိုင်ကြသည့်တိုင်အောင် မော်တော်ဘတ်စကား များဖြင့် လိုရာသို့ သွားလာနိုင်ကြသည်။ မော်တော်ကားများတွင် အတွင်းမီးအား အင်ဂျင်စက်များကို အသုံးပြုထားသည်။ အတွင်းမီးအားကို ရစေရန်အတွက် ဓာတ်ဆီကို အသုံးပြု ကြရသည်။ ကုန်များကိုမူ လော်ရီကားများဖြင့် တနေရာမှ တနေရာ၊ တမြို့မှတမြို့သို့ သယ်ယူ ပို့ဆောင်ပေးနိုင်ကြလေ သည်။ လူတို့သည် ကုန်းကြောင်းတွင် အသုံးပြုနိုင်သည့် စက်ဘီးများကိုလည်း တီထွင်လာကြပြီးနောက် ဓာတ်ဆီဖြင့် မောင်းနှင်သည့် မော်တော် ဆိုင်ကယ် ခေါ် မော်တော်စက် ဘီးများကိုလည်း တီထွင်လာကြသည်။

၁၈ ရာစုနှစ် အလယ်ပိုင်းလောက်သို့ ရောက်သောအခါ လေကြောင်း သွားလာရေးကို စိတ်ဝင်စား လာကြသဖြင့် ဉာဏ်ကြီးရှင်များက လေကြောင်းသွားလာနိုင်ရေးကို ကြိုး စား၍ ကြံစည်ခဲ့ကြလေသည်။ ကြိုးစားသည့်အတိုင်းလည်း လေယာဉ်များကိုပင် တီထွင်လာနိုင်ကြရာ ယခုအခါ ကမ္ဘာ အရပ်ရပ်သို့ လေယာဉ်များဖြင့် လူနှင့်ကုန်များကို လွယ်ကူ လျှင်မြန်စွာ ပို့ဆောင်ပေးနိုင်နေလေပြီ။




သံလမ်းပြေး ရထားယာဉ်သည် ကုန်ပစ္စည်းကို အများဆုံး သယ်ဆောင်ပို့ပေးနိုင်သော ယာဉ်ဖြစ်သည်။

ယခုအခါ နိုင်ငံအသီးအသီးမှာပင် ဒီဇယ်စက်ဖြင့် မောင်းနှင်သော မော်တော်ကား၊ မီးရထားနှင့် မီးသင်္ဘောများကို တွေ့နေရပေပြီ။ ခေတ်မှီသော မြို့ကြီးများ၌ လျှပ်စစ်မီးရထားများကို အကျိုးရှိစွာ အသုံးပြုနေကြပေပြီ။ သိပ္ပံပညာ၏ လက်ရှိ လျင်မြန်စွာ တိုးတက်နေသော အခြေအနေအရ ကုန်းကြောင်း၊ ရေကြောင်း၊ လေကြောင်း သယ်ယူပို့ဆောင်ရေးတို့၌ အနုမြူအားကို အသုံးပြုသော အနုမြူယာဉ်များကို တွေ့ရမည့်အချိန်ကား မဝေးလှတော့ချေ။

**ယန်ဆီမြစ်။** ။ယန်ဆီမြစ်သည် မိုင်ပေါင်း ၃,၄၀၀ ကျော်မျှ ရှည်လျား၍ တရုပ်နိုင်ငံတွင် အရှည်ဆုံးမြစ် ဖြစ်သည်။ တိဗက်ပြည် ကွန်လွန် တောင်တန်းတွင် မြစ်ဖျားခံပြီးလျှင် ယူနန်၊ ဆီချွမ်၊ ဟူပေ၊ ဟူနန်၊ ကျံယန်ဆီ၊ အန်ဟွီပြည်နယ်များကို ဖြတ်သန်း၍ ပင်လယ်ဝါထဲသို့ စီးဝင်လေသည်။ မြစ်အောက်ပိုင်းလောက်၌သာ ယန်ဆီမြစ် (ယန်ဆီကျန်) ဟု အမည်တွင်၍ ကျန်အပိုင်းများ၌ အမည်အမျိုးမျိုး ရှိလေသည်။ ယန်ဆီမြစ်သည် တရုပ်နိုင်ငံ အလယ်ပိုင်းကို အနောက်ဖက်မှ အရှေ့ဖက်သို့ ဖြတ်၍ စီးဆင်းသဖြင့် လမ်းပန်းဆက်သွယ်ရေးနှင့် ကူးသန်း ရောင်းဝယ်ရေးအတွက် အလွန်အရေးပါ အရာရောက်ပေသည်။ ယန်ဆီမြစ်နှင့်တကွ ယင်း၏ မြစ်လက်တက်များတို့ ဖြတ်သန်း စီးဆင်းသော မြစ်ဝှမ်းဒေသမှာ စတုရန်း မိုင်ပေါင်း ၇၀၀,၀၀၀ နီးပါးမျှ ရှိသည်။

ယန်ဆီမြစ်ဝသည် မိုင် ၃၀ မှ မိုင် ၄၀ အထိ ကျယ်၏။ ပင်လယ်ကူး သင်္ဘောများသည် မြစ်ဝအနီး၌ တည်ရှိသော ရှန်ဟိုင်းမြို့မှ အထက်သို့ မိုင် ၆၂၀ ခန့်ဝေးသော ဟန်ကောင်မြို့အထိ ဆန်တက်နိုင်သည်။ တဖန် ဟန်ကောင်မြို့မှ မြစ်တွင်း ခုတ်မောင်းသော သင်္ဘောဖြင့် အထက်သို့ မိုင် ၅၀၀ ခန့် သွားရောက်နိုင်သေးသည်။ အီချန်မြို့ အထက်ပိုင်း၌မူကား မြစ်ကြောင်းသည် ရေစီးသန်၍ ကျောက်ကြီးများ ရှိခြင်းကြောင့် လှေငယ်တက်စင်းများဖြင့်သာ သွားလာနိုင်လေသည်။

ယန်ဆီမြစ်ဖျားခံရာ ဒေသသည် မြင့်မားသော တောင်တန်းများဖြစ်သောကြောင့် ရေစီးအလွန်သန်၍ မြစ်ကမ်းပါးများသည်လည်း မြင့်သည်။ မြစ်အောက်ပိုင်းတွင်မူ ရေစီးနှေး၍ နုံးထူသည်။ မြစ်တလျှောက်၌ အိုင်များရှိရာ၊ မြစ်ရေလျှံသော အချိန်ကာလတွင် ဟွန်ဟိုမြစ်လောက် လယ်ယာအိမ်ခြေ အပျက်အစီး မများချေ။ မြစ်အတွင်း လှေများပေါ်၌ရင်း၊ မြစ်ဝှမ်းတလျှောက်၌ရင်း တရုပ်အမျိုးသား မြောက်မြားစွာ နေထိုင်ကြသည်။ ယန်ဆီမြစ်ဝှမ်းတွင် ပိုး မွေးမြူခြင်း၊ ဆန်စပါး၊ ဝါနှင့်လက်ဖက်ပင်စိုက်ပျိုးခြင်းလုပ်ငန်းများကို အကြီးအကျယ် လုပ်ကိုင်ကြ၏။

ယန်ဆီမြစ်တလျှောက်ရှိ ထင်ရှားသော မြို့များမှာ ရှန်ဟိုင်းမြို့၊ နန်းကင်းမြို့၊ ကျူကျန်မြို့၊ အန်ကင်းမြို့၊ ဟန်ကောင်မြို့၊ ဝူချန်မြို့၊ အီချန်မြို့နှင့် ချုန်ကင်းမြို့များ ဖြစ်လေသည်။



ယန်ဆီမြစ်သည် နှစ်စဉ်နှစ်တိုင်း ရေလျှံကာ လယ်ယာများကို ပျက်စီးစေခဲ့သည်။ တရုပ်ပြည်သူ့ သမတနိုင်ငံ အစိုးရသည် လယ်ယာများကို ရေဘေးမှ ကာကွယ်ရန် ရေလွှဲတံခါးကြီးကို မြစ်ကိုဖြတ်ကာ တည်ဆောက်ခဲ့သည်။



ယန်ဆီမြစ်၏ မြစ်ကျဉ်းတခု
ယန်ဆီမြစ်သည် တရုပ်နိုင်ငံတွင် အရှည်ဆုံးမြစ်ဖြစ်၍၊ ကမ္ဘာတွင် ပဉ္စမ အရှည်ဆုံးဖြစ်သည်။



အင်္ဂလိပ်လူမျိုး ရူပဗေဒပညာရှင် တောမတ်ယန်း

**ယန်း၊ တောမတ်** (ခရစ် ၁၇၇၃ – ၁၈၂၉)။ ။တောမတ် ယန်းသည် အင်္ဂလိပ်လူမျိုး ရူပဗေဒပညာရှင်တဦးဖြစ်၏။ အီဂျစ် ရှေးဟောင်းပညာဖက်၌လည်း ထူးချွန်သူ ဖြစ်ပေသည်။ အသက်အရွယ် ငယ်စဉ်ကပင် သိပ္ပံပညာနှင့် ဘာသာစကားပညာတို့၌ စိတ်ဝင်စားခဲ့သည်။ လန်ဒန်မြို့၊ ကိမ်းဗရစ်မြို့၊ အက်ဒင်ဗာရာမြို့နှင့် ဂျာမနီနိုင်ငံ ဂေါ့တင်းဂျင်း မြို့များ၌ ဆေးပညာကို သင်ကြားပြီးလျှင် ဂေါ့တင်းဂျင်း တက္ကသိုလ်မှ ဆေးပညာဘွဲ့ကို ရရှိခဲ့လေသည်။

ယန်းသည် ၁၇၇၃ ခုနှစ် ဇွန်လ ၁၃ ရက်နေ့တွင် ဆမ္မာဆက်ခရိုင် မီလဗာတန်မြို့၌ ဖွားမြင်သည်။ ပညာဉာဏ် ထူးချွန်သူဖြစ်၍ အသက်ငယ်စဉ်ကပင် ဂရိဘာသာ၊ လက်တင်ဘာသာ၊ ပြင်သစ်ဘာသာနှင့် အရှေ့တိုင်း ဘာသာရပ်အချို့ကို လေ့လာ ဆည်းပူးခဲ့၏။ သဘာဝ သိပ္ပံပညာနှင့် သင်္ချာပညာရပ်များကိုလည်း သင်ယူခဲ့သည်။

၁၈၀၁ ခုနှစ်တွင် တော်ဝင်ကျောင်း၌ သဘာဝ ယထာဘူတပညာ (ရူပဗေဒ) ပါမောက္ခအဖြစ် ခန့်အပ်ခြင်းခံရလေသည်။ ယန်းသည် မြင်မှုပညာနှင့် စပ်ဆိုင်သော သုတေသနလုပ်ငန်း အတွက်ကြောင့်လည်း ထင်ရှားသည်။ အရာဝတ္ထု အနီးအဝေးကို လိုက်၍ မျက်လုံးမှ လင်းမှန် ပြောင်း

လဲပုံကို တော်ဝင်အသင်းသို့ တင်ပြခဲ့၏။ အလင်းလှိုင်းနှင့် စပ်လျဉ်း၍ ယူဆချက်သစ်များကိုလည်း ထုတ်ဖော်ခဲ့၏။

တောမတ်ယန်းသည် အီဂျစ်နိုင်ငံမှ အင်္ဂလန်နိုင်ငံသို့ ယူဆောင်လာသော ရိုဇက်တာ ကျောက်စာပေါ်ရှိ ဟိုင်ယာရိုဂလစ်ဖစ် ရုပ်ပုံစာကို အစဖော် ဘာသာပြန်ပေးခဲ့လေသည်။ (ရိုဇက်တာ ကျောက်စာ — လည်းရှု။)

တောမတ်ယန်းသည် ၁၈၂၉ ခုနှစ် မေလ ၁၀ ရက်နေ့တွင် လန်ဒန်မြို့၌ ကွယ်လွန် အနိစ္စရောက်သည်။

**ယုန်။** ။ယုန်ကို သာမန်အားဖြင့်သာ သိသူ များသည်။ တမျိုးနှင့်တမျိုးကို ခွဲခြား၍ သိသူကား နည်းသည်။

အမှန်မှာ ယုန် နှစ်မျိုးရှိသည်။ တမျိုးမှာ ကွင်းယုန်ဖြစ်၍ ကျန်တမျိုးမှာ တွင်းယုန်ဖြစ်သည်။ ပါဏဗေဒ အလိုအရ ကွင်းယုန်နှင့် တွင်းယုန် နှစ်မျိုးစလုံးသည် လက်ပိုရီဒီး မျိုးရင်းဝင်များ ဖြစ်ကြ၍ လက်ဂိုမော်ဖား မျိုးစဉ်တွင် ပါဝင်ကြလေသည်။

ကွင်းယုန်သည် ယင်း၏ အမွေးထူခြင်း၊ နားရွက်ရှည်ခြင်းနှင့် လျင်မြန်ခြင်းတို့ကြောင့် လူသိများသည်။ အမှန်မှာ ကွင်းယုန်သည် အလျင်မြန်ဆုံး တိရစ္ဆာန်ငယ်များတွင် ပါဝင်လေသည်။ ဘေးအန္တရာယ်နှင့် တွေ့ကြုံလျှင် ကွင်းယုန်သည် ယင်း၏ လျင်မြန်ခြင်းကိုသာ အားကိုးလေသည်။ ထိုနည်းဖြင့် ကွင်းယုန်သည် ရန်သူများ၏ဘေးမှ လွတ်ကင်းနိုင်လေသည်။

အမေရိကန် နိုင်ငံတွင် ကွင်းယုန်များကို တွင်းယုန်များအဖြစ် ပြောဆိုနေခြင်းသည် စင်စစ်အားဖြင့် မှားလေသည်။ ကွင်းယုန်ကို ကမ္ဘာ့ အနှံ့အပြား၌လိုလိုပင် တွေ့နိုင်သော်လည်း တွင်းယုန်ကိုမူ ဉရောပတိုက်တွင်သာ စ၍ တွေ့ရသည်။ သို့သော် နောက်ပိုင်းတွင် တွင်းယုန်များကို အခြားတိုင်းပြည်များသို့ သယ်ဆောင်သွားကြလေသည်။ တွင်းယုန်သည် ကွင်းယုန်ထက် ကိုယ်ထည်သေးသည့်အပြင် ခြေထောက်များနှင့် နားရွက်များသည်လည်း ကွင်းယုန်လောက် မရှည်ကြချေ။ ကွင်းယုန်သည် မြေပြင်ပေါ်၌ နေထိုင်သော်လည်း တွင်းယုန်ကမူ မြေတွင် တွင်းများ တူး၍ နေထိုင်လေသည်။ တွင်းယုန်သည် ကွင်းယုန်ကဲ့သို့ ပြေးရာတွင် မမြန်ချေ။ ထိုသို့ ဖြစ်သည်မှာ ရန်သူများဘေးမှ လွတ်ကင်းစေရန် ဝေးဝေးမပြေးရဘဲ၊ ယင်းတို့ နေထိုင်ရာ တွင်းများအထိသာ ပြေးရန် လိုခြင်းကြောင့် ဖြစ်ကောင်း ဖြစ်နိုင်ပေသည်။ ထို့ပြင် တွင်းယုန်သည် မွေးဖွားရာ၌ ကွင်းယုန်ကဲ့သို့ မဟုတ်ဘဲ မျက်စိမမြင်ဘဲနှင့် အမွေး လုံးဝနီးပါးမရှိဘဲ မွေးဖွားသည်။

ကွင်းယုန်များသည် ၁၇ လက်မမှ ၂၅ လက်မအထိ ရှည်တတ်သည်။ အမြီးသည် တို၍ အမွေးများမြီးလျှင် အပေါ်သို့ ထောင်လျက် ရှိသည်။ ကွင်းယုန်သည် မြေပြင်တွင် ခုန်လွှား၍ ပြေးသွားသောအခါတွင် ယင်း၏ ဖြူဖွေးသော အမြီးအောက်ပိုင်းကို ထင်ရှားစွာ မြင်နိုင်ပေသည်။ နားရွက်များကို ထောင်လိုက်သောအခါတွင် အမည်း အမှတ်အသားများကို မြင်ရသည်။ ကွင်းယုန်တကောင် မြေကြီးပေါ်၌ ရပ်နေသော အခါတွင် ယင်း၏ အရောင်နှင့် ပတ်ဝန်းကျင် အရောင်တို့သည် တူလှသဖြင့် ကွင်းယုန်ကို မြင်နိုင်ရန် ခဲယဉ်းသည်။ ကွင်းယုန်၏ အသက်ရှူမှုနှင့် ပါးမုန်းမွေးများ၏ လှုပ်ရှားနေမှုကြောင့်သာ ကွင်းယုန်ရှိနေကြောင်း သိနိုင်လေသည်။

ကွင်းယုန်၏ အပေါ်နှုတ်ခမ်းသည် ကွဲနေ၏။ နှာခေါင်းနှင့် နှုတ်ခမ်းတို့သည်လည်း အစဉ် လှုပ်ရှားနေသည် ဟု ထင်ရလေသည်။ အထူးသဖြင့် ကွင်းယုန်ကလေးများတွင် ထိုသို့ ဖြစ်တတ်သည်။ ရှေ့ခြေထောက်တွင် ခြေချောင်းကလေးများ ငါးချောင်းစီ ရှိ၍ နောက်ခြေထောက်များတွင်မူ လေးချောင်းစီသာရှိသည်။ ကွင်းယုန်သည် မလွှဲသာ၍ ရန်သူကို ခုခံရလျှင် ယင်း၏နောက်ခြေများနှင့် ရန်သူကို နာကျင်အောင် ကန်ကျောက်နိုင်လေသည်။ ကွင်းယုန်သည် ယင်း၏ နောက်ခြေများကြောင့် အတော် အလှမ်းကျယ်စွာ ခုန်လွှားနိုင်သည်။ ယင်း၏ ရှေ့ခြေထောက်များကို ရှဉ့်များကဲ့သို့ အစာ စားရာတွင် အသုံးမပြုနိုင်ချေ။ ကွင်းယုန်နှင့် တွင်းယုန် နှစ်မျိုးစလုံးသည် ကြောက်တတ်သော်လည်း မလွှဲသာ၍ သားငယ်ကလေးများအတွက် ခုခံရန် လိုသောအခါတွင် ရဲရင့်စွာ ခုခံတတ်ကြသည်။ ခုခံရာတွင် ယင်းတို့၏ သန်မာသော နောက်ခြေထောက်များကို အသုံး ပြုကြသည်။ တခါက မြွေပါမြီးတို တကောင်နှင့် မြွေတကောင် အား သတ်ထားသည်ကို တွေ့ရဘူးသည်။ အိမ်တွင် မွေးမြူထားသည့် တွင်းယုန်များသည် ယေဘုယျအားဖြင့် ကြောင်များနှင့် သင့်မြတ်အောင် နေထိုင်လေ့ ရှိကြသော်လည်း မလွှဲသာ၍ မသင့်မမြတ် ဖြစ်ကြသောအခါတွင် နိုင်အောင် တိုက်ခိုက်လေ့ ရှိကြသည်။ ရန်သူ၏ဘေးမှ တိမ်းရှောင်ကြရာတွင် လွန်စွာ ပါးနပ်ကြသည်။ လေ့လာသူအချို့ကမူ ရန်သူကို တိမ်းရှောင်ရာ၌ ယုန်များသည် မြေခွေးတို့ကဲ့သို့ပင် ပါးနပ်ကြသည် ဟု ဆိုလေသည်။ ရန်သူက ယုန်ကိုလိုက်သောအခါတွင် ယုန်သည် အားကုန်ပြေးပြီးလျှင် ရုတ်တရက် ရပ်လိုက်တတ်သည်။ ထိုသို့ ရပ်လိုက်ပြီးလျှင် အခြားတဖက်သို့ အလွန် လျင်မြန်စွာ ထွက်ပြေး သွားတတ်လေသည်။

ကွင်းယုန်နှင့် တွင်းယုန်တို့သည် ဟင်းသီးဟင်းရွက်စား တိရစ္ဆာန်များ ဖြစ်ကြသည်။ ထို့ကြောင့် ယင်းတို့ကို သိပ္ပံပညာရှင်များက ရွက်စား သတ္တဝါများ ဟု ခေါ်ကြသည်။ အထူးသဖြင့် ဂေါ်ဘီထုပ် (မုန်လာထုပ်)၊ ပြောင်း၊ ဂျုံ၊ စပါး စသည့် အသီးအနှံများနှင့် သစ်ခေါက်များကို စား



ရန်သူဘေးမှ ကင်းဝေးနိုင်ရန် သဘာဝ ကာကွယ်ရောင်ကို အားထားကာ ပုန်းနေသော ယုန်ငယ်

ကြသည်။ ယုန်တို့သည် များသောအားဖြင့် ညဥ့်ဖက်တွင် လှည့်လည်၍ အစာကို ရှာဖွေ စားသောက်ကြသည်။ နံနက် အရုဏ်တက်ချိန်တွင် နေထိုင်ရာ မြက်ခင်းအတွင်းရှိ တွင်းများ၊ သို့မဟုတ် ကျောက်တုံးကြီးများ အနီးရှိ တွင်းများသို့ ပြန်လာကြသည်။ ညဥ့်အချိန် တွင်းယုန်များ အစာရှာထွက်ကြသောအခါတွင် ဟင်းသီးဟင်းရွက် ဉယျာဉ်များနှင့် လယ်ခင်းများသည် မကြာခဏ ပျက်စီးတတ်ကြသည်။

ကွင်းယုန်များသည် မကြာခဏ သားဖွားတတ်ကြသဖြင့် အပွားမြန်သည်။ခြောက်လအရွယ်သို့ရောက်လျှင် မိတ်လိုက်နိုင်သည်။ တနှစ်တွင် နှစ်ကြိမ် သုံးကြိမ် သားမွေးနိုင်သည်။ မိခင်သည် ကိုယ်ဝန်ကို တလသာ လွယ်သည်။ တကြိမ်မွေးလျှင် ယုန်ကလေး နှစ်ကောင်မှ ငါးကောင်အထိ မွေးတတ်သည်။ တလ၊ သို့မဟုတ် နှစ်လကြာအပြီးတွင် ယုန်ကလေးများသည် ဘာသာဘာဝ နေထိုင် စားသောက်ကြသည်။

အချို့ နေရာများတွင် ကွင်းယုန်တို့၏ သဘာဝ ရန်သူများ ဖြစ်သော မြေခွေး၊ မြွေပါမြီးတို၊ လင်းယုန်၊ သိမ်းနှင့် ခွေးတူဝက်တူများကို လူများက ရှင်းလင်း သုတ်သင်ပေးကြသဖြင့် ကွင်းယုန်များသည် အတိုးပွား မြန်လာပြီးလျှင် စိုက်ခင်းများကိုပင် ဖျက်ဆီးပစ်ကြလေသည်။ ထို့ကြောင့် အချို့ နေရာများတွင် စိုက်ခင်းများ အတွင်းသို့ ကွင်းယုန်များ မဝင်နိုင်အောင် ခြံများကိုပင် ကာထား ကြရလေသည်။ ဩစတြေလီးယားတိုက် ကဲ့သို့သော ကွင်းယုန်၏ အနှောင့်အယှက်ကို ခံကြရသည့် နေရာများတွင်မူ ကွင်းယုန်များကို ကျော့ကွင်းများ၊ ခွေးများနှင့် သေနတ်များ အသုံးပြုကာ ကာကွယ်ပေးကြရသည်။ ထိုသို့ ပြုလုပ်ရုံမျှနှင့် မရသေးလျှင် အချိန်မှန်မှန် ခရိုင်တခရိုင် အတွင်းရှိ ယောကျ်ား ကြီးငယ်များနှင့် တခါတရံတွင် မိန်းမကြီးငယ်များသည် ကွင်းယုန်များ နေထိုင်သော နေရာများကို စတုရန်း တမိုင်ခန့်တိုင်း၍ ကွင်းယုန်များကို ဝင်းခြံတခုအတွင်းသို့ မောင်းသွင်းပြီးလျှင် တုတ်ကြီးများဖြင့် ရိုက်သတ်ကြရလေသည်။ ထိုကဲ့သို့သောအခါမျိုးတွင် တနေ့တည်း၌ပင် ကွင်းယုန်ပေါင်း ၂၀,၀၀၀ ခန့်ကို ရိုက်သတ်နိုင်ကြလေသည်။

ကွင်းယုန်သားသည် ခပ်ထပ်ထပ်ဖြစ်သော်လည်း ထူးခြားသည့် အနံ့ရှိသဖြင့် လူကြိုက်များသည်။ ယုန်၏ အမွေးများကို အထူးသဖြင့် ဆောင်းရာသီ၌ အရောင်ပြောင်းသည့် အမွေးများကို အဖိုးတန်သည့် သားမွေးတု အနေဖြင့် အသုံးများသည်။

တွင်းယုန်တွင် အရိုင်းနှင့် အယဉ် ဟု နှစ်မျိုး ရှိသည်။ တွင်းယုန်တွင် သားမွေးများ ရှိသည့်ပြင် နားရွက်ရှည်များလည်း ရှိသည်။ ကွင်းယုန်လောက် မလျင်မြန်သော်လည်း လျင်မြန်စွာကား ပြေးနိုင်လေသည်။ လူ့အတွက် ကွင်းယုန်နှင့် တွင်းယုန်များက အဝတ်နှင့် အစာကို ဖြည့်တင်းပေး

ကြသည်။ အိမ်၌ မွေးထားလေ့ရှိသော တွင်းယုန်များသည် လူ၏ ချစ်စနိုး တိရစ္ဆာန်များ ဖြစ်ကြလေသည်။ မြောက်အမေရိကတိုက်တွင် ကွင်းယုန်နှင့် တွင်းယုန် အတော်များများ နေထိုင်ကြလေသည်။

ဘီစီ ၅၅၁ မှ ၄၇၇ ခုနှစ်အတွင်း တရုပ်နိုင်ငံ၌ ထင်ရှားခဲ့သော ကွန်ဖူးဇီး ခေတ်တွင် တွင်းယုန်များကို အယူဝါဒဆိုင်ရာ ပွဲလမ်းများတွင် အသုံးပြုခဲ့ကြသည်။ ရှေးခေတ်ဂရိလူမျိုးနှင့် ရောမ လူမျိုးတို့ကလည်း တွင်းယုန်များအကြောင်းကို ရေးသား ခဲ့ကြသည်။ ရှေးခေတ် သဘာဝပညာရှင်များက တွင်းယုန်အကြောင်းကို ရေးကြရာ၌ ကွင်းယုန်နှင့် တွင်းယုန်ကိုပါ ရောနှော၍ ရေးသား ခဲ့ကြသဖြင့် ယခုအခါတွင် အချို့ တွင်းယုန်များကို ကွင်းယုန်များ ဟုခေါ် နေကြလေသည်။ တွင်းယုန်စစ်စစ်များသည် တခါတရံတွင် မိမိကိုယ်တိုင် တူးထားသည့် တွင်းများ အတွင်း၌ သားများကို မွေးဖွားလေ့ ရှိသည်။ တခါတရံတွင်မူ ခွေးတူဝက်တူ၊ သို့မဟုတ် အခြားမြေတွင်းနေတိရစ္ဆာန်တို့၏ တွင်းများတွင် မွေးဖွားလေ့ ရှိသည်။ မွေးစတွင် တွင်းယုန်ကလေးများသည် မျက်စိမှိတ်ထားကြပြီးလျှင် ယင်းတို့၌ အမွေးများ မရှိကြချေ။ ဤအချက်တွင် ကွင်းယုန်နှင့် ခြားနားသည်။ ကွင်းယုန်သည် သားကို တွင်းထဲ၌ မမွေးချေ။ ထို့ပြင် မွေးစ ကွင်းယုန်ကလေးများ၏ မျက်စိများသည် ပွင့်လျက် ရှိကြသည့်ပြင် အမွေးများလည်း ပါကြသည်။ တွင်းယုန်များသည် နေ့အချိန်တွင် အစာရှာ ထွက်လေ့မရှိသော်လည်း ယင်းတို့ကို မကြာခဏ နေ့အချိန်၌ တွေ့ရတတ်သည်။ ယင်းတို့သည် ညဉ့်အချိန်တွင်သာ ထွက်၍ အစာကို ရှာစားလေ့ ရှိကြသည်။ တွင်းယုန်များသည် တကြိမ်လျှင် နှစ်ကောင်မှ ခြောက်ကောင်အထိ မွေးဖွားတတ်၍ တနှစ်အတွင်း ကြိမ်ဖန်များစွာ မွေးဖွားတတ်သည်။

တွင်းယုန်များတွင် ရောဂါ ကျရောက်တတ်ပြီးလျှင် ယင်းတို့မှတဆင့် လူများကို ကူးစက်စေတတ်သည်။ ထိုသို့ ကူးစက်ရာတွင် ရက်သတ္တပတ်ပေါင်း များစွာ၊ သို့မဟုတ် လပေါင်း အတော်ကြာသည်အထိ ခံရတတ်သည်။ ထိုရောဂါရောက်လာလျှင် လူတရာလျှင် သုံးယောက်မှ ငါးယောက်အထိ သေတတ်သည်။

မုဆိုးများ တောလိုက်ရာတွင် တွင်းယုန်ရိုင်းများကိုလည်း လိုက်လံ ဖမ်းဆီးလေ့ ရှိကြသည်။ ထိုအခါတွင် ခွေးများကို အသုံး ပြုကြသည်။ အမေရိကန် တိုင်းရင်းသား များသည်လည်း ရှေးအခါကပင် တွင်းယုန်များကို ဖမ်းဆီးလေ့ ရှိကြသည်။ ထိုသို့ တိုင်းရင်းသားများက ဖမ်းဆီးကြရာတွင် တွင်းယုန် အမြောက်အမြားရှိသော နေရာတဝိုက်တွင် လူအမြောက်အမြားက အင်္ဂလိပ်အက္ခရာ ဗွီ ပုံသဏ္ဌာန်ဖြင့် ဝိုင်းထားပြီးလျှင် လူများသည် တဖြည်းဖြည်း မျက်နှာချင်းဆိုင်ဖက်သို့ ရွေ့လာကြကာ တွင်းယုန်များ၏နေရာကို ကျဉ်းမြောင်း သွားစေပြီးလျှင် နောက်ဆုံးတွင် တုတ်ကြီးများဖြင့် ရိုက်သတ်ကြလေသည်။

အမေရိကန် ပြည်ထောင်စုအတွင်း ရှိရင်းစွဲ တွင်းယုန်များ၏ အမွေးများသည် နူးညံ့၍ သေးပြီးလျှင် အညိုရောင်လိုလိုသာရှိသည်။ အချို့ တွင်းယုန်များ၏ အမွေးများသည် ဆောင်းအခါ၌ ပတ်ဝန်းကျင် အရောင်နှင့် လိုက်လျောစေရန် အဖြူရောင် အဖြစ်သို့ ပြောင်းသွားတတ်သည်။ ထိုအခါတွင် ယင်းတို့ကို ပတ်ဝန်းကျင်တွင် မြင်နိုင်ခဲသည်။ တွင်းယုန်၏ အမွေးများကို အထည်များ၏ အနားကွပ်ရာတွင်ဖြစ်စေ၊ ဦးထုပ် ပြုလုပ်ရန် သက္ကလပ်ကြမ်းအဖြစ် ပြုလုပ်ရာတွင်ဖြစ်စေ အသုံးပြုကြသည်။ အမွေးချွတ်ပြီးသော တွင်းယုန်ရေများကို ကော်များ ပြုလုပ်ရာတွင် အသုံးပြုကြလေသည်။

ပဌမ ကမ္ဘာစစ် အတွင်းတွင် ယုန်သားသည် အတော်ပင် နာမည် ကျော်ကြားခဲ့လေသည်။ ထိုသို့ နာမည် ကျော်ကြားမှုကြောင့် အမေရိကန် ပြည်ထောင်စု အတွင်းရှိ ပြည်နယ် အတော်များများသို့ တွင်းယုန် မွေးမြူခြင်းသည် ပျံ့နှံ့သွားခဲ့လေသည်။ ဒုတိယ ကမ္ဘာစစ် အတွင်းကလည်း တွင်းယုန်သားကို အတော်ပင် လူကြိုက်များခဲ့လေသည်။ အချို့နေရာများတွင် ထိုအသားကို လိုသလောက် မပေးနိုင်အောင်ပင် ဖြစ်ခဲ့လေသည်။ တွင်းယုန်ကို လူကြိုက်များရာတွင် အကြောင်း နှစ်မျိုး ရှိ၏။ ပဌမ အကြောင်းမှာ တွင်းယုန်အမွေးများကို သက္ကလပ်ကြမ်း ပြုလုပ်နိုင်ခြင်းကြောင့်ဖြစ်၍၊ ဒုတိယ အကြောင်းမှာ ယင်းတို့ကို အဖိုးတန်သည့် အမွေးများနှင့် တူအောင် ဆေးဆိုးယူနိုင်ခြင်းကြောင့် ဖြစ်သည်။

တွင်းယုန်များကို မွေးမြူရာတွင် အစာကို ဂရုစိုက်၍ ကျွေးမွေးရန် လိုအပ်ပေသည်။ ရေကောင်း ရေသန့်များများနှင့် ဆားအနည်းငယ်ကိုပါ နေ့စဉ် ကျွေးသင့်သည်။ ယင်းတို့ကို ထားရာ အိမ်များကို မွေးမြူသည့် တိုင်းပြည်၏ ရာသီဥတုနှင့် ကိုက်ညီစွာ ဆောက်လုပ်ရန် လိုပေသည်။ သန့်သန့်ရှင်းရှင်းလည်း ထားရမည်။ နေ့စဉ် ယုန်များ၏ နေရာများကို ရှင်းလင်းပေးပြီးလျှင် ကောက်ရိုး၊ သို့မဟုတ် သစ်ရွက်များကို အသစ် လဲပေးသင့်သည်။ ထို့ပြင် လေကောင်း လေသန့်နှင့် နေရောင်ကိုလည်း ရရှိစေရန် ဖန်တီးပေးရမည်။ သို့မဟုတ်လျှင် တွင်းယုန်များတွင် ရောဂါ ကျရောက်လာတတ်လေသည်။

**ယပ်**။ ။ပူအိုက်သည့်အခါတွင် လူများသည် အအေးကို ရှာကြ၏။ လေမတိုက်သောအခါလေရအောင် တနည်းနည်း ကြံဆောင်ကြ၏။ ယပ်တောင် မပေါ်သေးမီ အလွန် ရှေးကျသည့်အခါက ပူအိုက်လျှင် လူတို့သည် သစ်ရွက် သစ်ခက်

များကို ယပ်တောင်သဖွယ် ခတ်၍ သဘာဝလေအစား တမင် လုပ်ယူရသော လေဖြင့် အအေးဓာတ်ကို ခံယူကြ၏။ ထိုသို့ သစ်ရွက်များဖြင့် ယပ်ခတ်ကြည့်ခြင်းမှ တဖြည်းဖြည်း လူတို့သည် ယပ်တောင် လုပ်ရန် အကြံဉာဏ်များ ရလာကြတော့၏။ ယပ်တောင်သည် ခရစ်မပေါ်မီ နှစ်ပေါင်း သုံးထောင်လောက်ကပင် တရုပ်နိုင်ငံမှ စတင် ပေါ်ပေါက်ခဲ့သည်။ အီဂျစ်၊ တရုပ်နှင့် အိန္ဒိယ နိုင်ငံတို့မှ ရှေးဟောင်း အနုပညာများကို ကြည့်ခြင်းအားဖြင့် ယပ်တောင်များကို ရှေးပဝေဏီ အခါကပင် အရှေ့ နိုင်ငံများ၌ အသုံးပြုခဲ့ကြောင်း သိသာနိုင်၏။ တရုပ်နိုင်ငံနှင့် ဂျပန်နိုင်ငံတို့မှ ယပ်တောင်များသည် ကမ္ဘာကျော် ယပ်တောင်များဖြစ်၏။ တရုပ် ယပ်တောင်သည် ယနေ့ထက်တိုင် အသွင်အပြင် ပုံသဏ္ဌာန် မပြောင်းသေးသည်ကို တွေ့ရ၏။

ရိုးတံမှ လက်ဖြင့် ကိုင်၍ ယပ်ရသော ထန်းလက် ယပ်တောင်များကို အလွန် ရှေးကျသော အဆီးရီးယန်း လူမျိုးနှင့် အီဂျစ်လူမျိုးတို့က စ၍ အသုံးပြုခဲ့ကြ၏။ ထိုယပ်တောင်မျိုးမှာ ကြီးလည်း ကြီးသဖြင့် ယပ်ခတ်ရန် လူတယောက်သက်သက် ထားရ၏။ ချမ်းသာကြွယ်ဝသော သဌေးကြီးများသည် အစေအပါးများကို ဤယပ်တောင်မျိုး ကိုင်ကာ ယပ်ခတ်စေခြင်းဖြင့် ပူအိုက်သည့် အခါများတွင် စည်းစိမ်ယူလေ့ ရှိကြသည်။ ယပ်တောင်သည် လေ ကောင်းစွာ ရစေသည့်ပြင် ခြင်၊ ယင်၊ ပိုးမွှားကောင်ကလေးများကိုလည်း ဖယ်ရှားပေးနိုင်၏။ ရှေးက အသုံးပြုသော ဂရိပန်းအိုးများတွင် လှပသော ယပ်တောင်ပုံကလေးများကို ဆေးရေးထားလေ့ ရှိ၏။ အေဒီ ၃၀၀ လောက်မှ ၁၃၀၀ လောက်ထိ ခရစ်ယန် ဘုရားရှိခိုးကျောင်း အတွင်းရှိ ဘုရားပန်းအိုးများတွင် ပိုးမွှား ခြင်ကောင်ကလေးများ မနားမကပ်ရအောင် ယပ်တောင်ကို အသုံးပြုခဲ့ကြပေသည်။

ရှေးက ယပ်တောင်များမှာ ထိပ်က စက္ကူကပ်ထားသည့် နေရာ၊ ယပ်တောင်ပြားနှင့် လက်ကိုင်ဟူ၍ သုံးပိုင်းရှိ၏။ ထိုသုံးခုပါလျှင် ယပ်တောင်တစင်း ဖြစ်လာ၏။ နိုင်ငံတိုင်းရှိ ယပ်တောင်များမှာ ဤပုံစံအတိုင်းချည်း ဖြစ်၏။ ထိုယပ်တောင်မျိုးကို ကြာယပ်တောင် ဟု ခေါ်သည်။ ခေါက်ယပ်တောင်များမှာ အေဒီ ၇၀၀ လေခက်က ဂျပန်နိုင်ငံမှ စတင် တီထွင် လုပ်ကိုင်လိုက်သော ယပ်တောင်ဖြစ်၏။ တီထွင်သူမှာ လင်းနို့၏ တောင်ပံဖြန့်ပုံ ရိုက်ပုံတို့ကို တွေ့ရှိ၍ ထိုခေါက်ယပ်တောင်မျိုးလုပ်ရန် အကြံ စတင်ရရှိခဲ့လေသည်။ ဂျပန် ယပ်တောင်သည် အလှအပ ပစ္စည်းသာမဟုတ်၊ လူ့ဘဝနှင့် ဆိုင်သော လေးနက်သည့် အဓိပ္ပါယ်များကိုလည်း ဆောင်လျက် ရှိပေသည်။ ယပ်တောင်ကို ဖွင့်လိုက်သော အခါ ဖြာထွက်နေသော အရိုးထံများက လူ့ဘဝ ဖြစ်စဉ်ကို သရုပ်ဖော်ထားပေသည်။

ထိုဂျပန်ယပ်တောင်များကို တောက်ပြောင်သော ဆေးများချယ်ထား၍ ကပွဲများ၌များစွာအသုံးပြုတတ်၏။ ဂျပန်က ခေါက်ယပ်တောင်များ စထွင်ပြီးနောက် မကြာမီ တရုပ်နိုင်ငံက လိုက်သုံးလာသည်။ ခရစ်နှစ် ၁၅၀၀ ချွန့် ရောက်သောအခါ ပေါ်တူဂီကုန်သည်များက အရှေ့တိုင်းမှ ဖြစ်သော ထိုယပ်တောင်များကို ဥရောပတိုက်သို့ ဆောင်ကြဉ်းသွားကြသဖြင့် တစတစ အနောက်နိုင်ငံသို့ ရောက်သွားကြ၏။ ဥရောပအမျိုးသမီးများက လှပစွာ ဆေးရောင်ချယ်ထားသော ယပ်တောင်များကို အလှ ကိုင်ကြ၏။



မြန်မာနိုင်ငံတွင် အသုံးများသည့် ယပ်တောင်အမျိုးမျိုး

ပြင်သစ်နိုင်ငံ ၁၅ ဆက်မြောက် လူဝီဘုရင် လက်ထက်တွင် ယောကျ်ားများပင် သေးငယ်သော ယပ်တောင်ကလေးများကို အလှကိုင်ဆောင်လေ့ ရှိသည် ဟု ဆိုသည်။ သို့သော် မကြာမီပင် ထိုအလေ့ ပပျောက်သွားလေသည်။

ယပ်တောင်ကို ဆေးချယ်သောအတတ်သည် ယပ်တောင်အသုံးပြုသောသူများ နည်းပါးလာသည့်အလျောက် အင်္ဂလန် နိုင်ငံတွင် ယခု တိမ်ကောနေပြီဖြစ်သည်။ ၁၈ ရာစုနှစ်၊ ၁၉ ရာစုနှစ်အတွင်းကမူ ပန်းချီဆရာကြီးများသည် သားရေစက္ကူ၊ ရိုးရိုးစက္ကူနှင့် ပိုးထည်ပေါ်တွင် လှပသော ပုံများရေးချယ်၍ ယပ်တောင်များကို ဈေးကြီးကြီးနှင့် ရောင်းချကြသည်။ ထိုအချိန်က ယပ်တောင် ပန်းချီဆရာများ အလွန်ခေတ်ထခဲ့လေသည်။ ထိုပန်းချီ ဆရာများတွင် ချားကွန်ဒါ ( ခရစ် ၁၈၆၈ – ၁၉၁၀) ဆိုသူသည် ထင်ရှားကျော်စောလေသည်။

အလွန် အဖိုးကြီးသော ယပ်တောင်များမှာ မြည်းသား ရေ၊ ပိုးသားများပေါ်တွင်ဆေးချယ်ထားသော ယပ်တောင် များ ဖြစ်၏။ အချို့ ဇာဖြင့်၎င်း၊ သစ်ကုလားအုပ်မွေးဖြင့် ၎င်း၊ ဥဒေါင်းမြီးဖြင့်၎င်း လှပစွာ ယပ်တောင်များကို လုပ် ကိုင်ကြ၏။ ထိုယပ်တောင်များ၏ လက်ကိုင်ကို ဆင်စွယ် ဖြင့်၎င်း၊ လိပ်ခွံဖြင့်၎င်း၊ လှပသော တိရစ္ဆာန် ဦးချိုဖြင့် ၎င်း၊ နှံသာသားဖြင့်၎င်း လုပ်ထားတတ်၏။ ယပ်တောင် များမှာ အစကနဦးက လေရအောင် ကြံဆောင် လုပ်ထား သောပစ္စည်း ဖြစ်သော်လည်း နောင်သော် အလှကိုင်ပစ္စည်း အဖြစ်သို့ ရောက်သွားလေသည်။ ယခုခေတ်၌ လူအများ သွားလာရာဖြစ်သော ရုံးများ၊ အလုပ်တိုက်များနှင့် ဟော် တယ်များတွင် လျှပ်စစ် ပန်ကာများကို ယပ်တောင်အစား အသုံးပြုနေကြသဖြင့် အကယ်စင်စစ် ယပ်တောင်သည် လေ အေးရမှုအတွက် အသုံးမဝင်တော့ချေ။



ယမ်းကို ပေါက်ကွဲစေသော လက်နက်များ ပြုလုပ်ရာတွင် သုံးသည်။

**ယမ်း။** ။ယမ်းကို မည်သည့် အခါကစ၍ တီထွင်ခဲ့သည်ကို မည်သူမျှ မပြောနိုင်ချေ။ အမှန်မှာ ယမ်းကို မည်သူ တဦး တယောက်ကမျှ မတီထွင်နိုင်ခဲ့ချေ။ အဘယ်ကြောင့်ဆို သော် ယမ်းကို စစ်ဖက်နှင့် အခြားဖက်များ၌ အသုံးမပြုနိုင် မီကပင် နိုင်ငံအသီးအသီး၌ မီးကို ဖြစ်ပေါ်စေသည့် ပစ္စည်း များမှ တဖြည်းဖြည်း တိုးတက်၍ ဖြစ်လာစေခဲ့ခြင်းကြောင့် ဖြစ်ပေသည်။

ရှေးခေတ် တရုပ်လူမျိုးတို့သည် ထိုကဲ့သို့သော မီးလောင် စေနိုင်သည့် သတ္တိရှိသော ပစ္စည်း၏ အကြောင်းကို သိခဲ့ကြ လေသည်။ ခရစ် ၆၇၃ ခုနှစ်တွင် ကွန်စတန်တီနိုယယ်မြို့ကို ကာကွယ်သူများက ဆာရဆင်တို့အား တိုက်ခိုက်ရာ၌ ပဌမ စ၍ အသုံးပြုခဲ့ကြသည့် "ဂရိမီး" သည် မျက်မှောက်ခေတ် ယမ်းနှင့် အတူတူပင်ဖြစ်သည်ဟု ယုံကြည်ကြသည်။ သို့ သော် ထိုစဉ်က ယမ်းကို အမြောက်ဆံ၊ သို့မဟုတ် သေနတ် ကျည်ဆံများကို ပစ်ခတ်သည့် ပစ္စည်းအဖြစ် အသုံးမပြုနိုင် ခဲ့ချေ။ ယမ်းများကို မီးရှို့ပြီးလျှင် နံရံတတိုင်းကြီးများ၏ အောက်ခြေ၌ ဝိုင်းရံထားသော ရန်သူများ အပေါ်သို့ လောင်းချခြင်းကိုသာ ပြုလုပ်နိုင်ခဲ့လေသည်။ ရော်ဂျာ ဗေ ကင် အမည်ရှိ အင်္ဂလိပ်လူမျိုး ဘုန်းကြီးတပါးနှင့် ဗာထိုး ရှဗာ့ အမည်ရှိ ဂျာမန်လူမျိုး ဘုန်းကြီးတပါးတို့က ၁၃ ရာ စုနှစ် နောက်ပိုင်းနှင့် ၁၄ ရာစုနှစ် စောစောပိုင်းတွင် ယမ်း ၌ မည်သည့် ဓာတ်ပစ္စည်းများ ပါဝင်ကြောင်းကို အသီး အသီး ဖော်ပြနိုင်ခဲ့ကြလေသည်။ ယမ်းကို အမြောက်၌ စ တင်၍ အသုံးပြုနိုင်ခဲ့သည်မှာ ၁၃၂၆ ခုနှစ်တွင် ဖြစ်သည် ဟု ဖလော်ရင့်မြို့ မှတ်တမ်းများတွင် တွေ့ရသည်။ သမိုင်းဆရာ တဦးကမူ ကရေးဆီးတိုက်ပွဲ (၁၃၄၆ ခုနှစ်) တွင် အမြောက် များကို အသုံးပြုသည် ဟု ဖော်ပြထားသည်။ သို့သော် ထို အမြောက်များသည် မြင်းများနှင့်လူများကို ခြောက်လှန့်ရုံ သာသာမျှသာ ဖြစ်ပေလိမ့်မည်။

ယမ်းကို အရေးပါစွာ အသုံးပြုနိုင်ခဲ့ခြင်းမှာ ပုန်ကန် လျက်ရှိသော ဗဲရွန်မှူးမတ်များ၏ ရဲတိုက် နံရံကြီးများကို ဖြို ခွဲပစ်ရာတွင် ဖြစ်သည်။ သို့ဖြင့် ပုန်ကန်နေကြသော မှူးမတ် များသည် ရဲတိုက်ကြီးများတွင် ဘေးကင်းစွာ နေထိုင်ကာ ဘုရင်နှင့် တိုင်းပြည်ရှိ လူများကို အာခံ၍ မနေနိုင်ကြတော့ ချေ။ ထိုနောက်တွင် ယမ်းကို လက်နက်ငယ်များတွင် အသုံး ပြုလာနိုင်ခဲ့ကြသဖြင့် သေနတ်တလက်ရှိသော သာမန် လူ တယောက်သည် သံချပ်ကာ အင်္ကျီများ ဝတ်ဆင်ထားသည့် မြင်းစီးသူရဲကောင်းကြီးတဦးထက် စစ်ပွဲတွင် ပို၍ ကြောက် စရာ ကောင်းလာခဲ့လေသည်။

ရှေးခေတ် ယမ်းသည် ယခုခေတ်ရှိ သာမန် ယမ်းမှုန့် အနက်နှင့် မထူးခြားလှချေ။ ထိုယမ်းတွင် ယမ်းစိမ်း (ပို တက်ဆီယမ် နိုက်ထရိတ်)၊ မီးသွေးနှင့် ကန့်တို့ကို ရောစပ် ထားသည်။ ထိုဓာတ်ပစ္စည်းများကို ရောစပ်သည့် အချိုး များသည် တချိန်နှင့် တချိန်တွင် မတူကြချေ။ ယခုအခါ တွင် အသုံးပြုနေကြသည့် အချိုးမှာ ယမ်းစိမ်း ၇၅ ရာခိုင် နှုန်း၊ မီးသွေး ၁၅ ရာခိုင်နှုန်းနှင့် ကန့် ၁၀ ရာခိုင်နှုန်း ဖြစ် သည်။ ထိုဓာတ်ပစ္စည်းများကို ညက်အောင်ကြိတ်၍ သမ အောင် ရောပေးရသည်။ ထိုနောက် အတုံးအခဲ ပြုလုပ်ပြီး လျှင် အခြောက်ခံရသည်။ ထိုနောက် ဒလိမ့်များဖြင့် လို သည့်အရွယ်များဖြစ်အောင် ကြိတ်ခဲ့ထားကြသည်။

ယခုခေတ်တွင် မီးပန်းများနှင့် ပေါက်ကွဲစေသော ပစ္စည်း

များ ပြုလုပ်သောအခါ၌သာလျှင် ထိုယမ်းမျိုးကို အသုံးပြုကြတော့သည်။ စစ်ဖက်တွင် အသုံးပြုသည့် ယမ်းများသည် မီးခိုး မထွက်သော ယမ်းမှုန့်များနှင့် အလွန် ပေါက်ကွဲစေသော ပစ္စည်းများသာ ဖြစ်ကြသည်။ ထို မီးခိုးမထွက်သော ယမ်းမှုန့်ကို ၁၈၈၄ ခုနှစ်တွင် ပြင်သစ် လူမျိုးတို့က စစ်ဖက်တွင် ပဌမ စ၍ အသုံးပြုနိုင်ခဲ့ကြလေသည်။

**ယမ်းစိမ်း။** ။သေနတ်နှင့် အမြောက်များတွင် အသုံးပြုကြသော ရိုးရိုးယမ်းနှင့် မီးကျည်မီးပန်းများတွင် အသုံးပြုကြသော ယမ်းများသည် ထိုယမ်းများတွင် ပါဝင်လျက်ရှိသော ယမ်းစိမ်းကြောင့်သာ ပေါက်ကွဲနိုင်သည့်သတ္တိ ရှိနေခြင်း ဖြစ်သည်။ ဓာတုဗေဒ ပညာရှင် အဖို့တွင် ရိုးရိုး ယမ်းစိမ်းသည် ပိုတက်ဆီယမ်နိုက်ထရိတ်ဖြစ်၍ ဓာတုသင်္ကေတ အဖြစ်နှင့် ထိုပစ္စည်းကို $KNO_3$ ဟု ရေးသည်။ ထို သင်္ကေတကို ကြည့်ခြင်းဖြင့် ထိုပစ္စည်း၌ မည်သည့် ဓာတ်ပစ္စည်းများ ပါဝင်လျက် ရှိသည် ဆိုသည်ကို သိနိုင်လေသည်။ ယမ်းစိမ်းသည် မျက်နှာပြင် ခြောက်မျက်နှာရှိသော အရောင်မဲ့ ပုံဆောင်ခဲ ဖြစ်သည်။ အရသာမှာ အေး၍ ငန်သည်။ ရေတွင် ပျော်ဝင်နိုင်သော်လည်း အယ်လကိုဟောတွင် မပျော်ဝင်နိုင်ချေ။ ယမ်းစိမ်းကို ယမ်းနှင့် မီးကျည်မီးပန်း လုပ်ငန်းတွင်သာမက မြေဩဇာ လုပ်ငန်းနှင့် နိုက်ထရစ်အက်ဆစ် ချက်သည့် လုပ်ငန်းများတွင်လည်း အသုံးပြုနိုင်သည်။ ထို့ပြင် ယမ်းစိမ်းသည် အပုပ်ကို နိုင်သဖြင့် အသားများကို တာရှည်ခံအောင် ပြုလုပ်ရာတွင်လည်း ယင်းကို အသုံးပြုနိုင်သည်။ အချို့ ဆေးဆိုးရာတွင်လည်း ယမ်းစိမ်းကို ထည့်၍ အသုံးပြုကြရသည်။ မီးခြစ်ဆံခေါင်းများတွင်လည်း ထည့်၍ သုံးကြသည်။

ယမ်းစိမ်းကို နိုင်ငံ အမြောက်အမြားတွင် သဘာဝ အလျောက် ရရှိနိုင်သည်။ အထူးသဖြင့် အမေရိကန် ပြည်ထောင်စု နိုင်ငံရှိ ကင်တပ်ကီး ပြည်နယ်၊ ဗာဂျင်းနီးယားပြည်နယ်နှင့် အင်ဒီးယားနား ပြည်နယ်တို့ရှိ ဂူများမှ ရရှိနိုင်သည့်အပြင်၊ စပိန်၊ အီဂျစ်နှင့် အိန္ဒိယ နိုင်ငံတို့တွင်လည်း ရရှိ နိုင်လေသည်။

ရိုးရိုး ယမ်းစိမ်းကို များသောအားဖြင့် တောင်အမေရိက တိုက် ချီလီနိုင်ငံမှ ရရှိသော ယမ်းစိမ်းမှ လုပ်ယူလေ့ ရှိကြသည်။ ထိုနိုင်ငံတွင် ယမ်းစိမ်းများသည် အထပ်လိုက် တည်ရှိနေကြလေသည်။ အချို့နေရာများတွင် အထပ်များသည် ၁၀ ပေမျှပင် ထူကြ၍ အရှည်တွင် မိုင်ပေါင်း ၄၅၀ ပင် ရှည်



ရှေးခေတ်အခါက ယမ်းစိမ်းကို ယမ်းဖြစ်ရန် ဖော်စပ်နေပုံ

ပြီးလျှင် အကျယ်တွင် ငါးမိုင်မှ မိုင် ၄၀ ထိ ရှိလေသည်။ ထို ယမ်းစိမ်းကို ဓာတုဗေဒ အလိုအရ ဆိုဒီယမ် နိုက်ထရိတ် ဟု ခေါ်၍ ဓာတုသင်္ကေတဖြင့် $NaNO_3$ ဟု ရေးသည်။ ထို ယမ်းစိမ်းသည် •လေထု အတွင်းမှ ရေငွေ့ကို စုတ်ယူထား သဖြင့် ယင်းကို ယမ်းပြုလုပ်ရာတွင် အသုံးမပြုနိုင်ချေ။ သို့ သော် ထိုသို့ လေထုအတွင်းမှ ရေငွေ့ကို စုပ်ယူထားခြင်း ကြောင့် ထိုယမ်းစိမ်းသည် မြေဩဇာအဖြစ် အသုံးပြုရာတွင် ပိုမို ကောင်းမွန်လေသည်။

မြေဩဇာအဖြစ်ဖြင့် အသုံးပြုနိုင်သော အခြား ယမ်း စိမ်း တမျိုးလည်း ရှိသေးသည်။ ယင်းမှာ ကယ်လဆီယမ် နိုက်ထရိတ်ဖြစ်၍ ယင်းကိုဓာတုသင်္ကေတဖြင့် $Ca(NO_3)_2$ ဟု ရေးသည်။

ယမ်းစိမ်းများကို ထိုကဲ့သို့ သဘာဝအလျောက် ရရှိနိုင် သည့် အပြင်၊ ဓာတ်စမ်းခန်းများ အတွင်းတွင်လည်း ပြုလုပ် ယူကြသေးသည်။ ပြုလုပ်ပုံမှာ ပိုတက်ဆီယမ် ကလိုရိုက်ကို ဆိုဒီယမ်နိုက်ထရိတ်နှင့် ဓာတ်သဘောအရ ပေါင်းစပ်အောင် ပြုလုပ်ယူခြင်း ဖြစ်သည်။

**ယမ်းဘီလူး။** ။ဒိုင်းနမိုက် —— ရှု။

**ယိမ်း။** ။တကောင်းခေတ် 'နတ်အက'၊ မြင်စိုင်းခေတ် 'ကာအက'၊ ကုန်းဘောင်ခေတ် 'မြေဝိုင်းအက' များမှ တဆင့်တက်၍ အစုအရုံးဖြင့် ကပြရသည့် အကတမျိုး ပေါ်ပေါက်ခဲ့သည်။ ထိုအကသည် ခေါင်း၊ ခါး၊ ခြေ၊ လက် စသည့် ကိုယ်အင်္ဂါ အစိတ်အပိုင်းတို့ကို ဗယ်မှညာ၊ ညာမှ ဗယ်သို့ ညီညီညာညာ ယိမ်းကာနွဲ့ကာ ဆိုင်းချက် စည်း ချက်အလိုက် စနစ်တကျ စုပေါင်းကပြရသည်ကို အကြောင်း ပြု၍ 'ယိမ်း' ဟူ၍ ခေါ်တွင်ခဲ့ခြင်း ဖြစ်ပေသည်။

'ယိမ်း' အကမှာ အရွယ်တူညီသူ အမျိုးသားများ၊ သို့ မဟုတ် အမျိုးသမီးများ စုပေါင်း၍ ကပြခြင်း ဖြစ်သည်။ ကကြိုးခက်သည် လွယ်သည်မှာ ပဓာနမဟုတ်။ လက်၊ ခြေ၊ ခေါင်းနှင့် ခါး အကွေးအညွှတ်၊ အတိမ်းအစောင်း၊ အရွေ့ အပြောင်းတို့တွင် ညီညာမှု ရှိရန်သာ အဓိက ဖြစ်သည်။ တနည်း ယိမ်းဆိုသော စကားသည် အရှေ့မှ အနောက်သို့ တောင်မှ မြောက်သို့ ဦးခေါင်း၊ လက်၊ ခြေတို့ကို ရွေ့ရှား လှုပ်ခြင်းကို ဆိုသည်။

ပုံမှာ တတန်းလျှင် လေးယောက်စီ လေးယောက်တန်း၊ လူပေါင်း ၁၆ ယောက်သည် အရပ်တူ၊ အလုံးတူ၊ အဝတ်တန် ဆာ ဆင်တူ၊ တညီတညွတ်ဖြစ်ခြင်း၊ ဦးခေါင်းလက်မြှောက်၊ ကိုယ်ဟန် ခြေလှမ်း ညီညွတ်ခြင်းကို ယိမ်းကောင်းဟု ခေါ် လေသည်။

ယိမ်းမှာ သံတိုင်သောသူ လိုသည်။ ထိုသူ ညံ့လျှင် ယိမ်း ညံ့၏။ ထိုသူ ကောင်းလျှင် ယိမ်းကောင်း၏။ သို့အတွက် အသံကောင်းကောင်း၊ အသံပြည့်ပြည့်၊ စည်းဝါးကျကျ အ ဆိုတတ်သူကို ခေါင်းဆောင် သံတိုင်ခိုင်းရ၏။

ယယ်သားများက သံတိုင်သော လေပေါက်ကို မှီအောင် ဆိုကြရလေသည်။ သို့အတွက် သံတိုင်သူကို အထူး ရွေး ချယ်ရလေသည်။

ကုန်းဘောင်ခေတ်၌ 'ဟန်ချင်း' ဟူ၍ ပေါ်ပေါက်လာ ခဲ့ပြီးလျှင် ထိုဟန်ချင်းကို တဦးချင်း ဟန်ရေးပြရာတွင်၎င်း၊ စုပေါင်း၍ ဟန်ရေးပြရာတွင်၎င်း သီဆိုလေ့ ရှိခဲ့သည်ဟု ဆို သည်။ အကဆိုသည်မှာလည်း ဟန်အမူအရာများကို စည်း ချက်၊ ဆိုင်းချက်နှင့် လိုက်လျောအောင် ပြုလုပ်ရခြင်းမျိုး ဖြစ်၍ ထိုသို့ ပြုလုပ်ပေးခြင်းဖြင့် ခေါင်း၊ ခါး၊ ခြေနှင့် လက် တို့၏ ပြောင်းလဲလှုပ်ရှားပုံများသည် ကကြိုးကကွက် အသွင် ထင်မြင်လာရသည်။ ထိုသို့ ကပြရာတွင် တဦးချင်း ကပြ သည်ကို 'တပင်တိုင်'၊ အများ စုပေါင်းကာ ညီညီညာညာ ကပြခြင်းကို 'ယိမ်း' ဟူ၍ ရတနာပုံခေတ် နောက်ပိုင်း သဘင်ပညာရှင်များက မှည့်ခေါ်ခဲ့ကြပေသည်။

တော၊ ကျေးလက်တို့တွင် ဘုန်းကြီးပျံ၊ ဘုရားပွဲ၊ စွယ် တော်လှည့်ပွဲ၊ အလှူ၊ ဆွမ်းကြီးလောင်း စသည့် ပွဲများ ကျင်းပသည့်အခါ ရပ်သူရွာသားတို့ အားရဝမ်းသာ စု ပေါင်း ကခုန်ရာမှ အစပြု၍ 'ယိမ်း' အကတို့ ပေါ်ပေါက်လာ ခဲ့သည်။ ဦးစွာ၌ ယောကျ်ားများချည်းသက်သက် ကပြ သည့် ယိမ်းများ ပေါ်ထွက်လာသည်။ ထိုယိမ်းများမှာ သိုင်းအကဟန်များ ပါဝင်ပြီးလျှင် အနည်းဆုံး ရှစ်ယောက် မှ ၁၆ ယောက်အထိ ပါဝင်ကပြလေ့ရှိသည်။ ဝတ်စားဆင် ယင်ပုံမှာ ခါးတောင်းကျိုက်၊ ဖျင်ရင်စိ လက်တို၊ သျှောင် တစောင်းနှင့် လက်ကိုင်ပုဝါ ခေါင်းစည်းထားလေ့ ရှိ သည်။ နောက်ခေတ်များတွင် ကတ္တီပါ ဘောင်းဘီ၊ ပိုးပုဆိုး ခါးတောင်းကျိုက်၊ ထိုင်မသိမ်းများ ဝတ်ဆင်လာကြပြီး လျှင် စားရေး၊ လုံ့ရေးလည်းမဟုတ်၊ ဗန်တိုဗန်ရှည်၊ ဓား သိုင်း၊ တုတ်သိုင်းလည်း မဟုတ်သည့် ယခုခေတ် မင်းသား လတ် ယိမ်းအကနှင့် ဆင်ဆင်တူသော အကများ ခေတ်စား လာခဲ့သည်။ စလေနှင့် ပုပ္ပါးနယ်တို့တွင် ယောကျ်ား ၁၆ ယောက် လေးယောက်စီ တန်းစီပြီးလျှင် အထက်ဖော်ပြပါ အဝတ်အစားများကို ဝတ်ဆင်ကာ ကပြလေ့ ရှိခဲ့သည်ဟု ဆိုသည်။ တူရိယာတို့မှာ ပုံတလုံး၊စည်းတလက်၊ ဝါးလက်ခုပ် တလက်မျှသာ ပါဝင်ပြီးလျှင် တောဘုန်းကြီးပျံများ၊ ဘုရား ပွဲများတွင် သံချပ်ထိုး၍ ကလေ့ရှိခဲ့ကြပေသည်။ ယနေ့ တိုင် မင်းဘူး၊ စလင်း ကျေးလက်များတွင် တွေ့မြင်နိုင်သေး သည့် ဇော်တုံး၊ ဇော်ယိမ်းမှာ ထိုယိမ်းမျိုး ဖြစ်လေသည်။

ရှေးအထက်က ယိမ်းများ ရှိခဲ့သော်လည်း မင်းတုန်းမင်း လက်ထက်မှ စ၍ တိုးတက်လာသည်ဟု ဆိုလေသည်။

နန်းတော်တွင်း နန်းတော်ပြင် သိတင်းကျွတ်လ မြင့်မိုရ် ပွဲတော်တွင် ကိုယ်ရံတော်သား ၁၆ ယောက်သည် အဝတ်ဆင်တူ၊ သျှောင်ထုံး ခေါင်းပေါင်းဖြူ ဖော့လုံး၊ ပုဆိုးဒူးဖုံး အောက်ပိုးကျိုက်၍ လက်ဝါးပေါ်တွင် ဆီမီးခွက်တင်ပြီးလျှင် ထိုဆီမီးခွက် အလယ်တည့်တည့်တွင် ဖယောင်းတိုင်ကို ခိုင်စွာစိုက်ထောင်ရသည်။ ရှေးဦးစွာ ပုဆစ်တုပ်ထိုင်လျက် ဦးသုံးကြိမ်ချသည်မှ စ၍ ဘုရားဂုဏ်တော်ဘွဲ့သီချင်းသီဆိုရသည်။

တယောက်နှင့် တယောက်မှာလည်း သုံးတောင်ခန့်ခြား၍ တဦးလက်နှင့်တဦး၊ လက်ဟန်ချင်း ထိခိုက် မရှုပ်ထွေးစေရန် ထိုင်ရလေသည်။

ရှိခိုးရာမှ ဖြည်းညှင်းသိမ်မွေ့စွာ ရိပ်ရိပ်ကလေး မသိမသာ ဟန်ယူ၍ လက်ဝဲလက်ျာ ဦးခေါင်းငဲ့ခြင်း၊ လက်ဟန်လှုပ်ရှားခြင်း၊ ကိုယ်ကိုကျုံ့ခြင်း၊ နောက်သို့ ယှုံ့ခြင်းတို့ကို ဝိုင်းဝန်းနေအောင် လက်အုပ်ချီခြင်းများစွာဖြင့် ရှေ့တိုးနောက်ဆုတ်ထိုင်ရာမှ တရွေ့ရွေ့ ကြွမှန်းမသိကြွ၍ မတ်တပ်ရပ်သည်အထိ အဆိုနှင့် အတီးအမှုတ် သာယာနာပျော်ဖွယ် ရှိရသည်။

မတ်တပ် ရပ်မိလျှင် ဆီမီးခွက်တွင် စိုက်ထောင်ထားသော ဖယောင်းတိုင်ကို မီးထွန်းကာ ယိမ်းကသူ၏ လက်ဝါးပြင်ပေါ်တွင် တင်ပေးရသည်။

ထိုကမွဲတွင် လက်ဝါးပြင်ပေါ်ရှိ ဖယောင်းတိုင်မီး မသေစေရန်ရင်း၊ ဖယောင်းတိုင် မလဲစေရန်ရင်း၊ ဖယောင်းတိုင်အောက်သို့ မကျစေရန်ရင်း သတိပြုရသည်။ ကခြင်း၊ သီခြင်းလည်း မပျက်စေရပေ။ သို့သော် ယိုးဒယား ကတတ်သော သူများသည် မည်သို့ပင် လှည့်ပတ်၍ ကသော်လည်း လက်ဆစ်သာ လည်၍ လက်ဝါးမှာ ပက်လက် ဖြစ်လေသည်။

ဤသို့သော ယိမ်းအကမျိုးသည် နန်းတွင်းမှ နန်းပြင်၊ မြို့တွင်းမှ မြို့ပြင်၊ တဖြည်းဖြည်း ရပ်ရွာမြို့သုံး ဖြစ်လာသည်။ ထိုနောက် ရပ်ရွာတွင် ရှမ်းယိမ်း၊ ကရင်ယိမ်း၊ ပုဏ္ဏားယိမ်း၊ ရသေ့ယိမ်း၊ ဘီလူးယိမ်း၊ ကိန္နရာယိမ်း၊ မြင်းယိမ်း စသည်တို့ ထွင်လာကြသည်ဟု ဆိုလေသည်။

အမျိုးသမီး ယိမ်းအကများလည်း အမျိုးသား ယိမ်းများနှင့် မရှေးမနှောင်းတွင် စတင်၍ ပေါ်ပေါက်ခဲ့ရာ အမျိုးသမီး ရှစ်ယောက်မှ ၁၆ ယောက် ၂၀ အထိ ထဘီ၊ ပုဝါ၊ ထိုင်မသိမ်းအင်္ကျီ ဆင်တူများဖြင့် ဖျာများပေါ်တွင် ကပြလေ့ ရှိခဲ့ကြပေသည်။ အချို့ ကျေးရွာများတွင် ဗျာပါဆံနှစ်ဖက်ချပြီးလျှင် ပါးစုံနှစ်ဖက် သနပ်ခါး ကွက်ကြားလိမ်းကာ ဆံကို ခွေ၍ ထုံးထားသည့် ဆံထုံးများတွင် ပန်းကုံးများ ပန်ဆင်လျက် ယိမ်းကလေ့ ရှိကြပေသည်။ 'လံစည်အက' တွင် အင်းလေးသူတို့၏ စုပေါင်း ကဟန်မှာ ယိမ်းအသွင် ရှိသဖြင့် 'လံစည်ယိမ်း' ဟူ၍ ခေါ်ဆိုသင့်ပေသည်။

ရတနာပုံခေတ်တွင် ဆင်ဖြူရှင်မင်းလက်ထက်၌ ယိုးဒယားမှ ရရှိသော မူနှင့် မွန်တို့ထံမှ ရရှိထားသော မူများကို မှီး၍ မြန်မာသဘင်ဂီတတို့ ကြွယ်ဝ ထွန်းကားလာခဲ့ရာ ယိမ်း



မင်းသားလတ် ယိမ်း

နှင့် စပ်လျဉ်း၍ ယိုးဒယားဟန်ကို ယူထားသော ယိမ်းနှင့် မြန်မာ ဟန် စစ်စစ် ကပြသော ယိမ်းဟူ၍ နှစ်မျိုးရှိခဲ့သည် ဟု ဆိုသည်။

ဗြိတိသျှခေတ် မြန်မာဇာတ်သဘင်များ စင်ထိုး၍ ကပြသည့်အခါ ပဉ္စမဦးစွာ ဇာတ်ခုံပေါ်တွင် 'အဲ' ထူးသောအလေ့နှင့် စင်တိုင်သော အလေ့များကို သံပြိုင်ပြုခြင်းများ တီထွင်လာကြသည်။ ထို့နောက် အညီအညာ စုပေါင်း ကပြသော အလေ့များ ပေါ်ပေါက်လာခဲ့ပြီးလျှင် ကပြရာတွင် ယိုးဒယား အကဟန်ကို မှီး၍ ကကြသည်။ ထိုသို့ ကပြသည်ကို ထိုခေတ်က 'ယိုးဒယားဝိုင်းသည်' ဟူ၍ ခေါ်ဆို ခဲ့ကြလေသည်။ ထိုအကမျိုးကို ဦးဘိုးစိန်နှင့် ဦးစိန်ကတုံးတို့၏ ဇာတ်ပွဲများတွင် အများဆုံး တွေ့ရသည်ဟု ပြောစမှတ်ပြုကြသည်။ ယိုးဒယားဝိုင်းသည် ဟူသော အကမျိုးမှ တဆင့် အမည်အမျိုးမျိုး၊ အဝတ်အစားအမျိုးမျိုး၊ ဟန်အမျိုးမျိုးဖြင့် အမျိုးသား၊ သို့မဟုတ် အမျိုးသမီးများ ညီညီညာညာ စုပေါင်း ကခုန်လာခဲ့ကြရာမှ မြန်မာဇာတ်သဘင်ပိုင်းတွင် 'ယိမ်း' ဟူသော ကဏ္ဍသစ်တရပ် တိုးပွားလာခဲ့ရာ ယနေ့တိုင်ပင် ဖြစ်သည်။

ယိမ်း အကသည် မြန်မာဇာတ်သဘင်၌ ပါဝင် ကပြရာတွင် ဇာတ်လမ်း ဇာတ်ကွက်နှင့် သက်ဆိုင်သည်လည်း ရှိ၍ မသက်ဆိုင်သည်လည်း ရှိ၏။ ယိမ်းသည် ဇာတ်ပွဲကို ဝေဆာမှိုင်ဆိုင်စေသည်။ တခါတရံ လူငယ် ကာလသားသမီးများ စိတ်ကြည်ရွှင်စေရန် ကြားညှပ်၍ ထည့်သွင်းကပြသော အခန်းတိုတခုမျှသာ ဖြစ်သော်လည်း တခါတရံ ကိန္နရီကိန္နရာယိမ်း၊ နဂါးမယိမ်း၊ နတ်သမီးယိမ်း စသည်ဖြင့် ခင်းကျင်း ကပြသော ဇာတ်လမ်းဇာတ်ကွက်အလိုက် ကပြခြင်းမျိုးလည်း ရှိလေသည်။

၁၂၈၈ ခုနှစ်ခန့်က ယိုးဒယားဒေါ်သိန်းမေ အမှူးရှိသော အမျိုးသမီး ရွှေအိုးစည် ယိမ်းအကတွင် ရွှေအိုးစည်တီးယိမ်းသမတို့၏ အလယ်ဗဟိုတွင် မင်းသမီး ကောလိပ်စိန်သည် ခေတ်အလျောက် ပွပြင်ကြသော ဘီးဆံပတ်ကြီး၌ စပယ်ပန်းတို့ဖြင့် သရဖူပုံ ပန်ဆင်ပြီးလျှင် ကျားမြီးကြီးများ တပ်ထားသော လင်းကွင်းကို ရှေ့နောက် ထက်အောက် ကိုယ်ကိုန့်ကာ တီးလျက် ဗယ်ညာ ပြောင်းလဲ ဒူးထောက်ပြီးလျှင် 'ချက်' ကျအောင် ကပုံမှာ ကြည့်ကောင်း၍ ထိုယိမ်းသည် အလွန်ခေတ်စားသော ယိမ်းတခုဖြစ်လေသည်။



ကျေးလက် ကျောင်းသူကလေးများ၏ ယိမ်းအက

ယောကျ်ားမင်းသမီး အောင်ဗလသည် ဦးဘိုးစိန်နှင့် ခွဲပြီးနောက် ဦးစိန်ကတုံးနှင့် တွဲခဲ့သေး၏။ ထိုအခါကလည်း ပွဲဦးထွက် ယိမ်းများတွင် ရှိုးရိုးအမျိုးသမီးယိမ်းများအပြင် ကိန္နရီယိမ်း၊ နတ်သမီးယိမ်း စသည့် အထူးအဆန်း ယိမ်းများဖြင့်လည်း ညှော်ခဲ့သေးသည်။

ယိမ်းသည် ဇာတ်ပွဲအတွက် သင်တန်းသဖွယ်လည်း ဖြစ်သည်။ ယိမ်းတွင် ကပြယင်း အဆိုအက ကျွမ်းကျင်၍ ဇာတ်ရည် ဝလာကာ မင်းသား မင်းသမီး ဖြစ်လာသူ အများအပြားပင်ရှိသည်။ ကောလိပ်စိန်၊ စိန်မြကြည်၊ ဒေါ်ကြင်ယုံ စသည်တို့မှာ ဦးဘိုးစိန် ဇာတ်၏ အမျိုးသမီးယိမ်းထဲမှ ပေါ်ထွက်လာသော မင်းသမီးများ ဖြစ်ကြသည်။ ခေတ်သစ်စိန်၊ လက်ရုံးစိန်၊ ဗိုလ်လတ်ပြန်ကိုဘလှ စသည်တို့သည်လည်း ဦးဘိုးစိန်ဇာတ် ယောကျ်ားယိမ်းမှ ထိုးထွက် ထင်ရှားလာကြသော မင်းသားများ ဖြစ်လေသည်။

**ယွန်း,စီ၊ဂျီ၊** (ခရစ် ၁၈၇၅-၁၉၆၁)။ ။ကားလ ဂတ်စတေ့ ယွန်းသည် ဆွစ်လူမျိုး စိတ်ပညာရှင်တဦးဖြစ်၍၊ စိတ်ခွဲခြား စိစစ်ရေးပညာ ပါရဂူ ဇီဂမွန် ဖရွိုက်နှင့်အတူ စိတ္တဇရောဂါဆိုင်ရာ အခြေခံ အကြောင်းရင်းများကို ဆည်းပူး လေ့လာခဲ့သူ ဖြစ်သည်။ (စိတ်ခွဲခြား စိစစ်ရေးပညာ — လည်းရှု။) ကားလယွန်းသည် ၁၈၇၅ ခုနှစ် ဇူလိုင်လ ၂၆ ရက်နေ့တွင် ဆွစ်ဇာလန်နိုင်ငံ ဗားလမြို့၌ ဖွားမြင်၏။ ဗားလတက္ကသိုလ်မှ ဆေးပညာဘွဲ့ကို ရရှိပြီးနောက် ပါရစ်မြို့သို့ သွားရောက်၍ ပညာဆက်သင်လေသည်။ ထိုနောက် ဇီဂမွန် ဖရွိုက်ထံ၌ တပည့်ခံ၍ စိတ်ပညာရပ်များကို ဆည်းပူးသည်။

ယွန်းသည် ဆွစ်ဇာလန် နိုင်ငံသို့ ပြန်ရောက်သောအခါ ဇူးရစ်မြို့ရှိ စိတ်ရောဂါကုဆေးရုံ၌ ဆရာဝန်အဖြစ် ဆောင်ရွက်ယင်း၊ ဇူးရစ်တက္ကသိုလ်တွင် စိတ်ရောဂါ ပညာရပ်ကို သင်ကြား ပို့ချရလေသည်။ ထိုသို့ ဆောင်ရွက်နေစဉ် ယွန်းသည် ဖရွိုက်၏ စိတ်ခွဲခြားစိစစ်ရေး နည်းစနစ်ကို အားလုံးလက်မခံနိုင်သဖြင့် နည်းစနစ်သစ်ကို တီထွင်ခဲ့လေသည်။ ယွန်းတီထွင်သော စိတ်ခွဲခြားစိစစ်ရေးနှင့် ဆိုင်သည့် နည်းစနစ်သစ်မှာ အနဲလစ်တစ်ကယ် စိတ်ပညာ ဟု အမည်တွင်လေသည်။

ယွန်းသည် လူတို့ကို အဓိကအားဖြင့် နှစ်မျိုးနှစ်စား ခွဲခြား ပြ၏။ တမျိုးမှာ "အင်ထရိုဗတ်" ခေါ် အတွင်း အသိစိတ်၏ လှုံ့ဆော်မှုကို စွဲ၍ ကျင့်ကြံတတ်သူများ ဖြစ်သည်။ ထိုကဲ့သို့သော လူမျိုးသည် အပေါင်းအသင်း မင်ဆံ့ဘဲ အထီးတည်း နေထိုင် ကျင့်ကြံလေ့ ရှိကြသည်။ အပြင်ပန်းအားဖြင့် စိတ်တွင် ထိခိုက် လှုပ်ရှားဟန် မတွေ့ရချေ။ ကျန်တမျိုးမှာ "အိပ်စထရိုဗတ်" ခေါ် ပြင်ပ ပတ်ဝန်းကျင်အခြေအနေကို လိုက်၍ ကျင့်ကြံတတ်သူများ ဖြစ်သည်။ ထိုကဲ့သို့သော စိတ်မျိုးရှိသူသည် အပေါင်းအသင်း ဝင်ဆံ့၏။ မိမိတို့၏ အတွင်းစိတ်၌ဖြစ်ပေါ်သော စိတ်လှုပ်ရှားမှုကို အလွယ်တကူ ထုတ်ဖော်ပြသတတ်၏။ အာရုံခံစားမှုကို နှစ်သက်၏။

ယွန်းသည် စိတ်ပညာဆိုင်ရာ စာအုပ်များစွာကို ရေးခဲ့သည်။ ဖရွိုက်နှင့်အတူ အပြည်ပြည်ဆိုင်ရာ စိတ်ခွဲခြားစိစစ်ရေး ပညာ အသင်းကို ၁၉၁၁ ခုနှစ်တွင် တည်ထောင်ခဲ့၏။ ယွန်းရေးခဲ့သော စာအုပ်များအနက် ဆိုက်ကို အနဲလစ်ဆစ် (၁၉၁၂)၊ "မသိစိတ်" အကြောင်း (၁၉၁၆)၊ အနဲလစ်တစ်ကယ် ဆိုက်ကိုလိုဂျီ (၁၉၁၇) တို့မှာ ထင်ရှားသော စိတ်ပညာ စာအုပ်အချို့ ဖြစ်သည်။ ၁၉၄၃ ခုနှစ်တွင် ဗားလတက္ကသိုလ်၌ ပါမောက္ခအဖြစ် ခန့်အပ်ခြင်း ခံရသည်။ ကားလဂတ်စတေ့ယွန်းသည် ၁၉၆၁ ခုနှစ် ဇွန်လ ၆ ရက်နေ့တွင် ကွယ်လွန်သည်။

**ယွန်းဆေးနှင့် ချိပ်ဆေး။** ။ယွန်းထည်ကို ပြုလုပ်ရာ၌ အချိန် အလွန်ကြာမြင့်၍ အလွန် တိကျသေချာရ၏။ ကမ္ဘာပေါ်တွင် အရှေ့တိုင်းသားများသာလျှင် ဤလုပ်ငန်းတွင် ကျွမ်းကျင်လိမ္မာကြသည်ဟု ယူဆော် ရသင့်သည်။ တရုပ်လူမျိုးတို့သည် ရှေးနှစ်ပေါင်း ၃,၀၀၀ ခန့်ကပင် ယွန်းထည်များကို ပြုလုပ် သုံးစွဲခဲ့ကြသည်။ နောင်အခါ ဂျပန်တို့သည် တရုပ်လူမျိုးထံမှ ယွန်းထည် ပြုလုပ်နည်းကို အတုယူ၍ လုပ်ကိုင်ခဲ့ရာ၊ အနောက်နိုင်ငံများတွင် ယွန်းထည် လုပ်ငန်းမှာ ဂျပန်ဆေးရောင်တင် လုပ်ငန်း ဟူ၍ အမည်တွင်လောက်အောင် ကျော်ကြားခဲ့လေသည်။ သို့သော် အချို့သော ယွန်းထည် လုပ်ငန်းများတွင် တရုပ်တို့သည် ပြိုင်ဖက်ကင်းအောင် ကျွမ်းကျင်လျက်ပင် ရှိသေးသည်။ အနောက်နိုင်ငံတွင် ဤလုပ်ငန်းကို အတုခိုး၍ ပြုလုပ်ခဲ့သော်လည်း အရှေ့တိုင်းသားများကဲ့သို့ ကျွမ်းကျင် တတ်မြောက်ခြင်း မရှိချေ။ ယွန်းထည်လုပ်ငန်းသည် မြန်မာနိုင်ငံ သထုံမြို့သို့ ယိုးဒယား နိုင်ငံ မြောက်ပိုင်းမှ စတင် ရောက်ရှိလာခဲ့သည်။ သထုံမြို့ကို အနော်ရထာမင်းစော သိမ်းယူ၍ ပုဂံမြို့သို့ တဆင့် ရောက်ရှိလာရာ ထိုအချိန်မှစ၍ ယနေ့တိုင်အောင် ထွန်းကားလျက်ရှိသည်ဟုဆိုသည်။ မုံရွာနယ် ကျောက်ကာရွာနှင့်ညောင်ဦးမြို့တို့သည်လည်း ယွန်းထည်လုပ်ငန်းအတွက် နာမည်ကြီးလေသည်။ (မြန်မာ့ယွန်းထည်လုပ်ငန်း—ရှု။)

ယွန်းထည် ပြုလုပ်ရာ၌ သုံးသည့် သစ်စေးကို ရပ် စ ဗာနီဆီဖာရား ခေါ် အပင်မှ ရရှိသည်။ ဤသစ်စေးသည် အဆိပ် အပျော့စားတမျိုး ဖြစ်၏။ သို့သော် ယွန်းလုပ်ငန်းတွင် တာရှည် လုပ်ကိုင်လာသော အခါ၌မူကား လူကို ဘေးအန္တရာယ် မဖြစ်စေတတ်ချေ။ သစ်စေးကို ထုတ်ယူရာ၌ အသက် ၁၀ နှစ်ခန့်ရှိသော အပင်ကို ရွေးချယ်၍ အခေါက်ကို လှီးဖြတ်ပေးရလေသည်။ အပင်မှ ထွက်စဉ်၌ သစ်စေး

တွင် သကာရောင်ရှိ၏။ သို့သော် မကြာမီ မည်းနက်လာလေသည်။ ဤသစ်စေးတွင် ရေအနည်းငယ် ပါရှိသဖြင့် ထိုရေကို ခန်းခြောက်သွားအောင် မီးဖြင့် အပူတိုက်ပေးကြ၏။ ထိုနောက် လေလုံပိတ်အိုးများတွင် သိုလှောင်ထား၍ အလိုရှိသောအခါ ထုတ်ယူ သုံးစွဲကြသည်။

များသောအားဖြင့် ယွန်းထည်လုပ်ရန်အတွက် သစ်သားဖြင့် ပြုလုပ်သည့် အိမ်ထောင် ပရိဘောဂများကို သုံးကြသည်။ သို့သော် ဂျပန်တို့သည် ပန်းအိုးများ၊ ရွှေထည် ငွေထည်များ၊ သားရေအိတ်များနှင့် အခြား အိမ်တွင်း အသုံးအဆောင် ပစ္စည်းများကိုလည်း အသုံးပြုကြလေသည်။ ယွန်းထည်၏ နှစ်လိုဖွယ်ကောင်းသော ဂုဏ်သတ္တိများမှာ အရောင် ပြောင်လက်နေခြင်းနှင့် ဆေးရောင် ခိုင်ခံ့ခြင်းတို့ပင် ဖြစ်သည်။ ဆေးရောင်မှာ အလွန် ခိုင်ခံ့ရကား ဆားငန်ရေတွင် သင်္ဘောနှင့်အတူ နှစ်မြုပ်လျက်ရှိသည့် ယွန်းထည်များကို နှစ်ပေါင်းများစွာ ကြာပြီးနောက်မှာပင် အကောင်း ပကတိအတိုင်း တွေ့ရှိကြရပေသည်။ ဆေးရောင် ခိုင်ရခြင်းမှာလည်း ဆေးရောင်တင်ပုံနည်း ကောင်းမွန်သောကြောင့် ဖြစ်လေသည်။ ယွန်းထည်တွင် အရောင်တင်ထားသော ဆေးမှာ တထပ်တည်းမဟုတ်ဘဲ အထပ် ၂၀ မှ ၃၀ အထိပင် ရှိတတ်၏။ ဆေးသုတ်လိမ်းပြီးသော ပစ္စည်းများကို ဂူကဲ့သို့ စိုထိုင်းသော နေရာများတွင် အခြောက် ခံယူလေ့ ရှိသည်။ ထိုသို့ပြုလုပ်သည်ကို တိုက်သွင်းသည် ဟု ခေါ်သည်။ ဆေးခြောက်သောအခါ ဆေးသားကို ညီနေအောင် ရေနှင့် မီးသွေးမှုန့်ဖြင့် ပွတ်တိုက်ပေးရလေသည်။ ထိုသို့ ပွတ်တိုက်ပြီးသော ပစ္စည်းများကို တဖန် ထပ်မံ ဆေးသုတ်ပေး၍ မီးသွေးမှုန့်ဖြင့် ပွတ်တိုက်ပေးရပြန်သည်။ ဤနည်းဖြင့် အထည် ပစ္စည်းများကို နေ့ဆက်ရက်ဆက် အရောင်တင်ဆေး သုတ်လိမ်းပေးသည်မှာ ဆေးအထပ်ပေါင်း နှစ်ဒါဇင်ကျော်သို့ ရောက်ရှိလာသည့်အထိပင် ဖြစ်၏။ ယွန်းထည်တွင် အရောင်တင်ဆေး သုတ်လိမ်းပြီးသောအခါ အလွန် ပန်းရလာသော်လည်း လုပ်ငန်းမှာ မပြီးဆုံးသေးချေ။ ဆေးသုတ်ပြီးသော ပစ္စည်းများကို ရွှေရောင်ဆေး၊ သို့မဟုတ် အနီရောင်ဆေးဖြင့် ပန်းခက် ပန်းနွယ်များ ဖော်၍ လှသည်ထက် လှအောင် တန်ဆာဆင်ပေးရသေးသည်။ တခါတရံ သုတ်လိမ်းပြီးသော ဆေးသားများကို အလိုရှိသော အထပ်သို့ ရောက်သည်အထိ ခြစ်ပစ်၍ အောက်ခံ ဆေးသား၏ အရောင်ဖြင့် ပန်းများ၊ အရုပ်များကို ဖော်ယူလေသည်။ ဤသို့ ခြစ်ပစ်ရာ၌ အလွန် တိကျမှန်ကန်မှသာ ယွန်းထည်တွင် မူလ စီစဉ်ထားသည့်အတိုင်း အရုပ်များ ပေါ်လာနိုင်လေသည်။



ဂျပန်နိုင်ငံတွင် ယွန်းဆေးနှင့် ချိပ်ဆေးတို့ဖြင့် မွမ်းမံသော အိမ်သုံးပစ္စည်း အမြောက်အမြားကို အသုံးပြုကြသည်။



ယွန်းထည် ခန်းဆီးများ၌ ရွှေခင်းများ၊ ပန်းခက် ပန်းနွယ်များဖော်၍ လှသည်ထက်လှအောင် တန်ဆာဆင်လေ့ ရှိသည်။

ချိပ်ကို လက်စီဖာ လက်ကာ ခေါ် အင်းဆက်ပိုး (ချိပ်ကောင်)များမှ ရရှိသည်။ ချိပ်ပိုးမျိုးကို ဥရောပတိုက်မှအပ မြောက်နှင့် တောင် အမေရိကတိုက်၊ ဩစတြေးလီးယားတိုက်၊အာရှတိုက်နှင့်အာဖရိကတိုက်များတွင်တွေ့နိုင်သည်။ အိန္ဒိယနိုင်ငံနှင့် မြန်မာနိုင်ငံတို့သည် ကမ္ဘာပေါ်၌ ချိပ်အဓိကထွက်သော နိုင်ငံများဖြစ်၏။ ချိပ်ကောင်သည် အလွန်သေးငယ်၍ ထနောင်း အမျိုးအနွယ်ဝင် အပင်များတွင် တွယ်ကပ်နေထိုင်လေ့ရှိသည်။ ထိုသို့ နေထိုင်ယင်းပင် အပင်မှ သစ်ရည်ကို စုတ်ယူ စားသောက်ကာ ကိုယ်ခန္ဓာမှ အစေးတမျိုးကို စွန့်ထုတ်ပေးသည်။ ထိုအစေးသည် လေနှင့် တွေ့ထိ၍မာလာပြီးလျှင် ချိပ်ကောင်၏ ကိုယ်ခန္ဓာတွင် အခွံ ဖြစ်လာသည်။ ချိပ်ကောင်သည် အချိန်တန် အရွယ်ရောက်သောအခါ ဥများကို အုံ၍ သေဆုံးသွားသည်။ ထိုအခွံသည် ဥများကို ရာသီဥတုဒဏ်မှ ကာကွယ်ပေးသည်။ ဥများမှတဖန် ချိပ်ကောင်များပေါက်လာ၍ ထိုချိပ်ကောင်တို့သည် အပင်ပေါ်တွင် တွယ်ကပ်နေထိုင်ပြီးလျှင် ဥများကို အုကြပြန်သည်။ ဤနည်းဖြင့် ပိုးကောင်များ တဆက်ပြီး တဆက် နေထိုင်ကြခြင်းကြောင့် ကာလ ကြာမြင့်သောအခါ အပင်၏ အကိုင်းအခက်များ အပေါ်တွင် လက်မဝက်ခန့် ထူသော ချိပ်သားများ တက်လာလေသည်။

ချိပ်ကို အပင်များမှ တနှစ်လျှင် နှစ်ကြိမ် ထုတ်ယူလေ့ရှိသည်။ ချိပ်ရိုင်းမှာ ပယင်းနှင့် ခပ်ဆင်ဆင်တူ၏။ ဤချိပ်ကို အညစ်အကြေးများ ကင်းစင်သွားစေရန် အမှုန့်ကြိတ်၍ ဆေးကြောပေးရသည်။ ထိုနောက် ခြည်အိတ်များတွင် ထည့်၍ မီး၏ အပူဖြင့် အရည်ပျော်သွားစေပြီးလျှင် စစ်ယူလေသည်။ ချိပ်လုပ်ငန်းဖြင့် အသက်မွေးဝမ်းကျောင်းသူတို့သည် ချိပ်မျိုးကို တပင်မှ တပင်သို့ ကူးယူလေ့ ရှိကြသည်။ ကူးယူပုံမှာ ချိပ်ကောင်မှ ဥပါရှိသော အကိုင်းကို အခြားသော အပင်များတွင် ချည်နှောင်ထားရ၏။ အချိန်တန်၍ ချိပ်ကောင်များ ပေါက်လာသည့်အခါ ထို ချိပ်ကောင်တို့သည် မိမိတို့ဖာသာ အသိုက်အအုံသစ်များကို ဖွဲ့စည်းလာကြလေသည်။ ချိပ်ကို ချိပ်ချောင်းအဖြစ်ဖြင့်ဖြစ်စေ၊ ချိပ်ကြယ်သီး ခေါ် အဝိုင်းပုံအပြားအဖြစ်ဖြင့် ဖြစ်စေ၊ ချိပ်ကျောက် ခေါ် အတုံးအဖြစ်ဖြင့် ဖြစ်စေ တင်ပို့ရောင်းချလေ့ ရှိကြသည်။

ချိပ်သည် စက်မှုလက်မှုပညာတွင် အလွန် အရေးပါ အရာရောက်သည့် ရက်ဇင် ခေါ် သစ်စေးများအနက် တမျိုးအပါအဝင်ဖြစ်၏။ ကမ္ဘာပေါ်တွင် ထွက်သည့်ချိပ်၏ ၆၀ ရာခိုင်နှုန်းကို ဓာတ်ပြားများ ပြုလုပ်ရာ၌ သုံးသည်။ လျှပ်စစ်ဓာတ်ကာများ၊ သစ်သားနှင့် သတ္တုများကို ထာဝရ ခံအောင် သုတ်လိမ်းရန် ဆေးများ၊ သက္ကလပ် ဦးထုပ်များကိုတောင့်တင်းလာအောင် ပြုပြင်ယူရန် ဆေးများသည် ချိပ်မှ ပြုလုပ်ယူသော ပစ္စည်းအချို့ ဖြစ်ပေသည်။ အိမ်တွင် ကြမ်းပြင်များကို ချိပ်ဆေးဖြင့် စံနစ်တကျ သုတ်ပေးသောအခါ ကြမ်းများမှာ ချောမွတ်ပြောင်လက်လာသည်။ ဆေးမှာ ခြောက်သွေ့လွယ်၍ အကြမ်းခံသဖြင့် လူကြိုက်များသည်။ လျှပ်စစ် ဖန်မီးလုံးများတွင် ဖန်လုံးကို သတ္တုအိမ်တွင် တပ်ဆင်ရန်နှင့် သွားပွတ်တံတွင် အမွေးများကို တပ်ဆင်ရန် ချိပ်ကို အသုံးပြုကြ၏။ အိမ်ထောင်ပရိဘောဂတွင် သုံးသည့် အရောင်တင်ဆေး၊ ဖယောင်းပုဆိုး၊ သားရေနှင့် စက္ကူများတွင် အရောင်တင်ရန် ဆေးများ၊ ဆင်စွယ်အတုများ၊တယ်လီဖုန်း စကားပြောခွက်များ အစရှိသကဲ့သို့သော အလွန် အသုံးဝင်သည့် ပစ္စည်းများကိုလည်း ချိပ်မှ ပြုလုပ်ယူကြလေသည်။



မြန်မာဗျည်း ၃၃ လုံးတွင် ရ သည် ၂၇ ခု မြောက် အက္ခရာ ဖြစ်သည်။ ယ၊ ရ၊ လ၊ ဝ၊ သ၊ ဟ၊ ဠ၊ အ ဟူသော အ ဝဂ်တွင်ပါဝင်၍ ရ အသံ၏ဖြစ်ရာဌာနမှာ မုဒ္ဓဌာန် လျှာထိပ်အရပ်ဖြစ်သည်။ အက္ခရာ၏ ပုံသဏ္ဌာန်ကိုလိုက်၍ ရ ကောက်ဟု အမည်တွင်သည်။ ရ အရေးအသား၏ မူလမှာ ဗြာဟ္မီအက္ခရာ | နှင့်ဖြစ်သည်။ ဗြာဟ္မီ | နှင့်မှ ကုသန ꩻ ဂုတ္တ ꩻ ꩻ ကဒံဗ ꩻ သို့ အဆင့်ဆင့် ပြောင်းလဲလာပြီးနောက်၊ ကျောက်စာများတွင် | ꩻ ꩻ ꩻ နှင့် ပေစာများတွင် ရ ဟု ရေးသားသည်ကို တွေ့ရသည်။ တည့်မတ်စွာ ထောင်နေသော ဗြာဟ္မီ အရေးအသား | နှင့်ကို အထက်စွန်း လက်ဝဲဖက်သို့ ကွေးပြီးလျှင်၊ အောက်စွန်း လက်ျာဖက်သို့ ကွေး၍ ရေးဖန်များသော် မြန်မာအက္ခရာ ရ ဖြစ်ပေါ်လာသည်။ ရအက္ခရာ၏ အဆင့်ဆင့်ဖြစ်ပေါ်လာပုံကို အောက်တွင် အစဉ်အတိုင်း ယှဉ်တွဲ၍ ပြထားသည်။

ရကောက်ပြွန်။ ။ဆိုင်ဖွန် — ရှ။

**ရကန်။** ။ရကန်သည် မြန်မာကဗျာအဖွဲ့အနွဲ့တမျိုးဖြစ်၍ လေးလုံးစပ်သက်သက် မဟုတ်သော်လည်း လေးလုံးစပ်ကာရန်ယူနည်းများကို မှီးသဖြင့် လေးလုံးစပ် ရတုမျိုးမှ ကွဲထွက်လာသော ကဗျာတမျိုး ဖြစ်သည်။ အဖွဲ့အနွဲ့အားဖြင့် သာချင်းနှင့် ဆင်တူသည်။ "ရတု ရကန် အဲအန် ချေင်း" ဟူ၍ငှင်း၊ "ရတုရကန်၊ စာသဝန်၊ ယုံကျန်မရောက်လှာ" ဟူ၍ငှင်း ရတုနှင့် ရကန်ကို တွဲစပ် သုံးနှုန်းလေ့ ရှိသည်။

ရကန်သည် အထူးသဖြင့် ကာရန်ကို လွတ်လပ်စွာ ရွေးချယ်နိုင်၍ ပဒချင်း ဆက်စပ်ရာ၌ငှင်း၊ အပိုဒ်ချင်း အခံ၊ အအုပ် ဟပ်စပ်ရာ၌ငှင်း အသတ်ကို ပမာနမထားလှဘဲ အသံတူရုံလောက်သာ အဓိကထား၍ စပ်ဆိုမြဲ ဖြစ်သည်။ အခံနှင့် အအုပ် ကာရန်မှာ ပဒများစွာ ခြား၍ စပ်သဖြင့် ကာရန်ကို ခွာ၍ ကန်ထားသကဲ့သို့ ရှိသည်။ ထိုကြောင့် ကာရန်ကန် ဟူသော ဝေါဟာရမှ ကာ ပုဒ်ကျေ၍ ရန်ကန်၊ ရန်ကန်မှ ရကန်သို့ ပြောင်းလဲလာဟန် အချို့ မှတ်ယူကြသည်။

အချို့ကမူ "လွန်စွာ ရယ်ရွှင်ခြင်း" အနက်ရသော သက္ကတ ပုဒ်ပျက် ရိဂ်ပုဒ်မှ ရကန် ဖြစ်လာသည် ဟု ယူဆကြသည်။ ရကန်မှာ ရယ်ရွှင်ဖွယ် ကောင်းသော အဖွဲ့အနွဲ့မျိုးကား မှန်ပေသည်။

ရကန် အဖွဲ့အနွဲ့သည် များသောအားဖြင့် စာပြောင်စာလှောင်ကဲ့သို့ ရယ်ရွှင်စေလိုခြင်းနှင့် သူတပါးကို ကျီစယ်ခြင်း၊ ခနဲ့ခြင်း၊ ချီးဖွဲ့ချိတ်ရိပ်ခြင်း၊ ရန်ထောင်ခြင်း၊ သရော်ပြက်ရယ်ပြုခြင်း စသော သဘောများကို ထည့်သွင်းဖော်ပြထားသော ကဗျာပင် ဖြစ်သည်။ ယင်းကြောင့် သူတပါးကို စာသားဖြင့် ရန်ထောင်ခြင်း၊ ထိပါးခြင်း၊ ကန်ခြင်းပြုသဖြင့် မိမိရရ ကန်နိုင်သော ကဗျာကို ရကန် ဟုခေါ်တွင်ဖွယ် ရှိကြောင်းဖြင့်လည်း အချို့က ကြံဆကြသည်။

ရကန်မှာ အကြောင်းအရာနှင့် ကာရန် အချိတ်အဆက်ပါ ကန်သော သဘောရှိသည်မှာကား ထင်ရှားသည်။

(က) အကြောင်းအရာ ကန်ပုံမှာ။ "ရကန်ဥာဏ်၊ စာဆိုဥာဏ်ဖြစ်၊ ရွှေနန်းရန်ဘုန်းပွင့်၊ ထိပ်ခေါင်တင့်ကျွန်၊ တုံးအောက်က တီတွန်လို့၊ ဗုဇွန်က၊ တော်ထူးအောင်၊ ပူးလို့ဘဲလှော်လှော်၊ ရေမော်တွင် လန်လိမ့်မည်၊ ဥာဏ်မော်၊ ဥာဏ်ကျော်ကို နှိမ်နေကျ ဥာဏ်တိမ်ယာဉ်စီးလေ။" (ရာမရကန်)

(ခ) ကာရန်ကန်ပုံမှာ "ဒေါင်းလည်ဆံမျိုး၊ ပိုးပရံကောင်၊ အရောင်မူလ၊ ကတ္တိပါအနက်၊ ဖိတ်လက်မှောင်စို၊ ပြာသိုသဘင်၊ မြင်းခင်းရှင်မှာ၊ ဆင်တော်မူနေကျ"၊ (ရာမရကန်) ဟူ၍ ဖြစ်သည်။ ရကန်ဟူသမျှတွင် ထိုသို့ ပလ္လာ ကြွားဝါချက်၊ ကဲလွန်တင်စားချက်နှင့် ကန်ချက်များ တနည်းနည်း ပါရှိမြဲ ဖြစ်သည်။

ရတုနှင့် ကွဲလွဲပုံမှာ ရကန်တွင် အပိုဒ်ပေါင်းများစွာ အရေအတွက် အကန့်အသတ် မရှိဘဲ ပျို့များကဲ့သို့ တဆက်တည်း ရေးဖွဲ့နိုင်သည်။ အချီအချချင်း တူညီရန် မလိုချေ။ လေးလုံး တပါဒသာမက၊ တပါဒလျှင် ငါးလုံး ခြောက်လုံးအထိ ရေးဖွဲ့နိုင်သည်။ ကာရန် အကန့်ဝေးသဖြင့် နီးရာပဒချင်း ကာရန် မချိတ်ဆက်မိဘဲလည်း ရှိနိုင်သည်။

ရကန်မှာ ညောင်ရမ်းခေတ် (သက္ကရာဇ် ၈၈၀ ပြည့်နှစ်မှ ၁၁၁၀ ပြည့်နှစ်ကျော်အထိ)က စတင် ပေါ်ပေါက်ခဲ့သည်။ ကုန်းဘောင်ခေတ်အလယ်လောက်မှစ၍ ရကန်များ အများအပြား ပေါ်ထွက်လာသည်။

မြန်မာဂန္ထဝင်တွင် တွေ့ရှိရသော ရကန်အချို့မှာ
၁။ ဝါဆိုစဉ် ရကန် (စိန္တကျော်သူ)
၂။ ငွေတောင် ရကန် (ရွှေတောင်နန္ဒသူ)
၃။ မွေ့နွန်း ရကန် (ရွှေတောင်နန္ဒသူ)
၄။ အဝမြို့ဘွဲ့ ရကန် (ရွှေတောင်နန္ဒသူ)
၅။ ရာမ ရကန် (ဦးတိုးနှင့် ဦးရွှဲ)
၆။ လေဆေးနည်း ရကန် (ဦးလန်း)
၇။ မေတ္တာပို့ ရကန် (ဆရာတော် ဦးပုတ်)
၈။ အောင်ခြင်းရှစ်ပါး ရကန် (ဆရာတော် ဦးပုတ်)
၉။ ပဋ္ဌာန် ရကန် (ဦးရွှေနီ)
၁၀။ နေမိ ရကန် (ကင်းဝန်မင်းကြီး ဦးကောင်း)
၁၁။ အင်္ဂလက်ဟောကိန်း ရကန် (ဦးပုည)
၁၂။ နဂါးလှည့်ဟောကိန်း ရကန် (ဦးပုည)
၁၃။ မြေခံဟောကိန်း ရကန် (ဦးပုည)
၁၄။ သစ်လဲကြိန် ရကန် (ဦးပုည)
တို့ဖြစ်သည်။ ယင်းတို့အနက် ရာမရကန်သည် အကျော်ကြားဆုံး ဖြစ်လေသည်။

**ရခိုင်ရိုးမ။** ။အရှေ့ပါကစ္စတန် ပြည်နယ်နှင့် မြန်မာနိုင်ငံ အကြားတွင် မြောက်နှင့်တောင် တန်းလျက်ရှိသော တောင်ကုန်းဒေသ ရှိသည်။ မြန်မာနိုင်ငံ ပထဝီဝင် အလိုအရ ထိုတောင်ကုန်း ဒေသကို အနောက်ဖက် တောင်ကုန်းဒေသဟု ခေါ်တွင်သည်။ ထိုကုန်းမြင့်ပိုင်းတွင် ရခိုင်တောင်ကုန်းဒေသ၊ ချင်းတောင်၊ လူရှေ (လူရှိုင်း) တောင်တို့ ပါဝင်လေသည်။ ရခိုင်ရိုးမ တောင်တန်းသည် ထိုတောင်ကုန်းဒေသမှ တောင်ဖက်သို့ ကမ်းရိုးတန်းနှင့် ယှဉ်၍ ထိုးထွက်လာသော တောင်တန်း ဖြစ်သည်။

ရခိုင် ရိုးမသည် မင်းဘူးခရိုင်၊ သရက်ခရိုင်၊ ပြည်ခရိုင်၊ ဟင်္သာတခရိုင်၊ ပုသိမ်ခရိုင်တို့နှင့် ရခိုင်ဖက်ရှိ စစ်တွေခရိုင်၊ ကျောက်ဖြူခရိုင်၊ သံတွဲခရိုင်တို့ကို ခွဲခြားထားလေသည်။ တောင်တန်း တလျှောက်တွင် ပျမ်းမျှခြင်းအားဖြင့် အမြင့်ပေ ၄,၀၀၀ နှင့် ပေ ၅,၀၀၀ အကြား၌ ရှိသည်။ မြောက်ဖက်တွင် ထိုထက် မြင့်မားသော တောင်တန်းများ ရှိလေသည်။ ရိုးမ တောင်တန်းသည် မတ်စောက်၍ တောထူထပ်သည်။ သို့ရာတွင် ကျွန်းပင်များ မပေါက်ချေ။

ရိုးမတောင်ပေါ်တွင် ချင်းလူမျိုးတို့ နေထိုင်ကြသည်။ တောင်ယာစိုက်စားကြသည်။ ပြောင်းဆန်နှင့် တောင်ပေါ်စပါးတမျိုးကို ရှေးရိုးနည်းအတိုင်း စိုက်ပျိုး လုပ်ကိုင်ကြလေသည်။

ရခိုင်ရိုးမတောင်ကို ဖြတ်ကျော်နိုင်သော တောင်ကြားလမ်းနှစ်ခု ရှိသည်။ ပဌမ တောင်ကြားလမ်းမှာ ကျောက်ဖြူခရိုင် အမ်းမြို့မှ မင်းဘူးခရိုင် ငဖဲမြို့သို့ ပေါက်သော အမ်းတောင်ကြားလမ်း ဖြစ်၍၊ ဒုတိယ တောင်ကြားလမ်းမှာ သံတွဲခရိုင် တောင်ကုပ်မြို့မှ ပြည်မြို့နှင့် တဖက်ကမ်း ရေဝတီမြစ်ပေါ်ရှိ ပန်းတောင်းမြို့သို့ ပေါက်သော တောင်ကုပ်တောင်ကြားလမ်း ဖြစ်သည်။

**ရခိုင်လူမျိုး။** ။ရခိုင်လူမျိုးသည် တိဗက်-မြန်မာ အုပ်စုမှ မြန်မာအစုဝင် ဖြစ်သည်။ မြန်မာ့ ဝေါဟာရ အခေါ်အဝေါ် ဖြစ်သော လူမျိုးတစ်ရာ့တစ်ပါးတွင် "သက်နှင့်ရခိုင်၊ နှိုင်းပြိုင်တောင်သူ၊ ပျူ ကမ်းယံ ယော၊ ထားဝယ် နှောက၊ မျိုးသတ္တ" ဟု မြန်မာ ခုနစ်မျိုးပါဝင်ကြောင်း အဆိုရှိလေသည်။ ထိုတိဗက်-မြန်မာအုပ်စုဝင် မြန်မာအစုကား အေဒီ ကိုးရာစုနှစ် နောက်ပိုင်းတွင်မှ မြန်မာနိုင်ငံတွင်းသို့ ဝင်လာကြဟန်တူသည်ဟု ဆို၏။ ယင်းတို့အထဲတွင် မြန်မာနိုင်ငံအလယ်ပိုင်း ပုဒ္ဓိုက် ချောက်သွေ့သော မြေပြန့်လွင်ပြင်သို့ ရောက်ပြီးနောက်၊ ထိုမှတဆင့် ဆက်လက် ထွက်ခွာသွားသူများလည်း ရှိကြသေးရာ ရခိုင်လူမျိုးလည်း ထိုသူတို့ အထဲတွင် အပါအဝင် ဖြစ်လေသည်။

ယခုအခါ ရခိုင်ပြည် စစ်တွေ၊ မြို့ဟောင်း၊ မင်းပြား၊ ကျောက်တော်၊ ကျောက်ဖြူ၊ သံတွဲ အစရှိသည့် မြေပြန့်ပိုင်းတွင် ရခိုင် အမျိုးသားတို့ နေထိုင်လျက် ရှိကြသည်။ အမျိုးတူသည်ကို လိုက်၍ လူမျိုးစုတို့ကို သတ်မှတ်ခွဲခြားသည့် ဘာသန္တရ သုတေသနနည်း အရဆိုလျှင် ရခိုင်လူမျိုးတို့သည် အသံကွဲ မြန်မာစကားများကို ပြောဆိုကြသော လူမျိုးများတွင် ပါဝင်သည်။ သို့သော် မြန်မာအစုဝင် တောင်ရိုး၊ အင်းသား၊ ထားဝယ်၊ ရခိုင်နှင့်ဓနုစကားများသည် မြန်မာစကားနှင့် အလွန်နီးစပ်လေသည်။

မြန်မာနိုင်ငံ ပြည်မနှင့် ရခိုင်ပြည်အကြားတွင် ရခိုင် ရိုးမခေါ် အနောက် ရိုးမတောင်တန်း တည်ရှိသဖြင့် ရာဇဝင်ချင်း ဆက်စပ်မှုမရှိလှချေ။ ရခိုင်ပြည်သည် ပင်လယ်ကမ်းခြေတလျှောက်တွင် တည်ရှိသောကြောင့် နိုင်ငံခြားနှင့် အဆက်အသွယ် အရောက်အပေါက်ပိုလွယ်သည်။ ရခိုင်ရာဇဝင် အစမှာ အလွန်ရှေးကျ၍ မင်းဆက်ပေါင်း များစွာ ရှိသည်။ ရခိုင်၌ တွေ့ရသော ရှေးကျောက်စာများအနက် အာနန္ဒစန္ဒြ ကျောက်စာ၌ ဘီစီ ၅၁၈ မှ စ၍ အေဒီ ၇၂၀ ထိုင်အောင် မင်းစဉ်မင်းဆက်ကို ဖော်ပြထားသည်ကို တွေ့ရ၏။ စောလွန်းသော မင်းတို့ကို ကေန်မှန်သည်ဟု မယူဆလိုလျှင် ဖြစ်နိုင်သော်လည်း ရခိုင်တွင် မြို့တည်၍ စာပေ အရေးအသားတတ်ကျွမ်းလျက် ဗုဒ္ဓဝါဒီ၊ ဗြာဟ္မဏဝါဒီ ရှိသူတို့သည် ခရစ်နှစ်ဦးမှစ၍ ရှိနေကြသည်ဟု ဆိုလေသည်။ ယင်းတို့သည် ငွေဒင်္ဂါးများ သွန်းလုပ်၍ ရောင်းဝယ်ရာတွင် ပိုက်ဆံအဖြစ် သုံးသည်။ ထိုသူတို့ကား မြန်မာနိုင်ငံ အလယ်ပိုင်းမှ ပျူတို့နှင့် ခေတ်ပြိုင် ဖြစ်လေသည်။ သို့သော် ထိုစဉ်က ပေါ်ပေါက်

ခဲ့သော မင်းတို့ အုပ်ချုပ်သော ပြည်သူတို့ကား မည်သည့် အမျိုးဖြစ်၍ မည်သည့် အခါကပင် ရခိုင်၌ အခြေစိုက်လျက် ပြည်ရွာ ထူထောင်သည်ကိုမူ မပြောနိုင်သေးချေ။

မည်သို့ ဖြစ်စေ ပြည်ထောင်စု တိုင်းရင်းသား လူမျိုးတမျိုး ဖြစ်သော ရခိုင်လူမျိုးသည် ရှေးနှစ်ပေါင်း များစွာကပင် မိမိတို့ကိုယ်ပိုင် အုပ်ချုပ်ရေး၊ ကိုယ်ပိုင် စာပေယဉ်ကျေးမှုဖြင့် အခြေစိုက် တိုးတက်လာသော လူမျိုးဖြစ်ပေသည်။

ရခိုင်စာပေ ယဉ်ကျေးမှုသည် သီးခြား လွတ်လပ်စွာ ထွန်း ပြောင်ခဲ့ပေသည်။ ရခိုင်စာပေနှင့် စပ်လျဉ်းသည့် ကျောက် စာ၊ မော်ကွန်းစာများကို ဓညဝတီခေတ် (ဘီစီ ၅ ရာစုမှ အေ ဒီ ၄ ရာစု)မှစ၍ ရှာဖွေတွေ့ရှိရသည်ဟု ဆိုသည်။ ရခိုင် ရတု၊ လင်္ကာ၊ ဘွဲ့၊ ချောင်းတို့ကိုလည်း ဝေသာလီခေတ် (အေဒီ ၁၅ ရာစုမှ ၁၈ ရာစု)တို့၌ အခိုင်အမာ တွေ့ရှိရလေသည်။ သို့သော် ရခိုင်စာပေသည် အေ ဒီ ၁၇၈၄ ခုနှစ် မြန်မာတို့နှင့် စစ်ဖြစ်ပြီးသော အချိန်နှင့် အေ ဒီ ၁၈၂၄–၂၆ ခုနှစ် ဗြိတိသျှ နယ်ချဲ့တို့ လက်အောက်သို့ ကျရောက်သော အချိန်မှ အစ ပြု၍ တဖြည်းဖြည်း မှေးမှိန်ခဲ့ရလေသည်။

**ရဆင်း၊ ဂျေ ( ခရစ် ၁၆၃၉ – ၁၆၉၉ )။** ။ဇန်းရဆင်း သည် နာမည်ကျော် ပြင်သစ် ပြဇာတ်ရေးဆရာတဦး ဖြစ် သည်။ ၁၆၃၉ ခုနှစ်၌ ဖွားမြင်၍၊ ငယ်စဉ်ကပင် မိဖနှစ်ပါး သေဆုံးသဖြင့် အဖွားဖြစ်သူ လက်ထဲ၌ ကြီးပြင်းခဲ့ ရလေ သည်။ သူသည် ကျောင်းသားဘဝကပင် ရှေးဂရိစာဆိုကြီး များ၏ စာကြီးပေကြီးများထဲမှ အထူးသဖြင့် ပြဇာတ်များ ၌သာ ပျော်မွေ့ခဲ့လေသည်။ နောင် ကြီးပြင်းလာ၍ သူကိုယ် တိုင် ကဗျာ ပြဇာတ်များ ရေးသားသောအခါ ပြင်သစ်လူ မျိုးများက ရဆင်းအား အကောင်းဆုံး ကဗျာပြဇာတ်ရေး ဆရာအဖြစ်ဖြင့် အသိအမှတ် ပြုကြလေသည်။ သူသည် ပြင်သစ် အလွမ်းကဗျာ ပြဇာတ်ကို ပဌမဦးစွာ စတင် ရေး သားခဲ့သော ပြဇာတ်ရေးဆရာ ကော်နေးယီး ထက် ပို၍ တော် မတော် အငြင်းပွားဖွယ် ရှိသော်လည်း သူ၏လက်ရာ သည် မည်သူ့ လက်ရာနှင့်မျှမတူ တမူခြားလျက် ရှိကြောင်း ကိုကား ဝန်ခံကြရပေမည်။

ရဆင်း ဦးစွာ ရေးသားခဲ့သော ပြဇာတ်များတွင် သူ၏ အကောင်းဆုံး လက်ရာများ ဖြစ်သည့် အန့်ဒရိုမက် (၁၆၆၇)၊ ဗြိတန်နီကပ် (၁၆၆၉)၊ ဗဇာဇက် (၁၆၇၂)၊ မစ် သရီဒေး (၁၆၇၃)၊ အီဖီဂျီနီ (၁၆၇၄)၊ ဖီဒရေ (၁၆၇၇) စသော ပြဇာတ်များ ပါဝင်သည်။ ဖီဒရေပြဇာတ်ကို ရေး ခဲ့ပြီးနောက် အတော်ကြာအောင်ပင် ပြဇာတ်များ မရေးဘဲ နေခဲ့သည်။ ထိုသို့ မရေးဘဲ နေသည်မှာ သူ့နာမည်ကြီးလာ သည်ကို မနာလိုသဖြင့် နာမည်ပျက်အောင် မကောင်း ကြံကြသည်ကို စက်ဆုပ်သောကြောင့်၎င်း၊ သူငယ်စဉ်က



ပြင်သစ် ပြဇာတ်ရေးဆရာ ဂျေ၊ရဆင်း

လေ့ကျက် လာခဲ့ရသော အယူဝါဒဆိုင်ရာ ယူဆချက်များ ကြောင့်၎င်း ဖြစ်လေသည်။ သူ၏ ဆွေမျိုးသည် အယူဝါဒ တွင် အထူးပင် လေးစား ကိုင်းရှိုင်းသူများ ဖြစ်၍ ပြဇာတ် များကြည့်ခြင်း၊ ရေးသားခြင်းစသော အပျော်အပါး လိုက် စားမှုများကို မပြုလုပ်ရန် အမြဲပင် တားမြစ်ခဲ့လေသည်။ ၁၆၈၉ ခုနှစ်တွင် ရေးသားခဲ့သော အက်စသာ ပြဇာတ်နှင့် ၁၆၉၁ ခုနှစ်တွင် ရေးသားခဲ့သော အက်ထာလီ ပြဇာတ်တို့ သည် အယူဝါဒဆိုင်ရာ ပြဇာတ်များ ဖြစ်၍၊ ယင်းတို့ သည်လည်း သူ၏ အကောင်းဆုံး လက်ရာများတွင် ပါဝင် ပေသည်။

ရဆင်းသည် ပါရစ်မြို့တွင် နေထိုင်ခဲ့စဉ်က စာပေလောက ၌ ထင်ရှားခဲ့သော ပုဂ္ဂိုလ်များဖြစ်သည့် နစ်ကလက်ဗွာလို၊ လာဖွန်တိန်း၊ မောလျဲ တို့နှင့် ချစ်ကျွမ်းဝင်ခဲ့လေသည်။

ရဆင်းသည် သူ၏ ပြဇာတ် အားလုံးကို ကဗျာလင်္ကာ သွားဖြင့် ရေးသားခဲ့သည်။ သူ့ပြဇာတ်များကို သူမှုနှင့် သူ ဆိုရလောက်အောင် တမျိုးတည်းနှင့် ရေးသားခဲ့သော် လည်း ဇာတ်ကောင်များ၏ သရုပ်ကို ဖော်ရာတွင် ပြတ် သားလှသည့်ပြင်၊ ပြဇာတ်ဂုဏ်နှင့်လည်းပြည့်စုံသည်။အထူး သဖြင့် မိန်းမများ၏ သရုပ်ကို ဖော်ရာတွင်ကား ရဆင်း သည် အထူးပင် ကျွမ်းကျင်လှပေသည်။ သို့သော် သူ၏ ပြဇာတ်များကို ပညာတတ် ပရိသတ်အတွက် ရေးသားခဲ့ ရာ အောက်တန်းစား လူထုကမူ မနှစ်သက်ကြချေ။

**ရတနာကြေးမုံဝတ္ထု။** ။ရတနာကြေးမုံဝတ္ထုသည် ရှေးအကျဆုံး မြန်မာဝတ္ထုဖြစ်၍ အလောင်းမင်းတရား လက်ထက် (မြန်မာ ၁၁၁၅ – ၁၁၂၂ ခုနှစ်) တွင် ရွှေတောင် သီဟသူ က ရေးသား၍ တောင်တွင်းကြီးမြို့ ခုံမင်းဦးသာက ဆက်လက် အဆုံးသတ်သော နန်းတွင်း ဇာတ်ဝတ္ထု ဖြစ်လေသည်။ (ရွှေတောင်သီဟသူ — ရှု။) အဂ္ဂမဟာ သေနာပတိ ဖြစ်သော နေမျိုးသီဟသူက တိုက်တွန်း စေခိုင်းသောကြောင့် ထိုဝတ္ထုကို ရေးသားရကြောင်း သိရသည်။ သို့သော် ထိုစာကို စတင် ရေးသော သက္ကရာဇ်၊ စာပြီးဆုံးသော သက္ကရာဇ်တို့ကိုကား မသိရချေ။ ထိုမျှမက စာရေးဆရာ ရွှေတောင် သီဟသူ၏ မွေးဖွားရာအရပ်၊ မွေးဖွားသည့် ခုနှစ်သက္ကရာဇ်၊ မျိုးရိုးဇာတိတို့ကိုလည်း မသိရချေ။

ရတနာကြေးမုံဝတ္ထုကို နန်းတွင်း ဇာတ်ဝတ္ထု ဟု ဆိုသင့်သော်လည်း ရေးသားပုံများသည် အီနောင်၊ ရာမ၊ ဝိဇယကာရိ စသော နန်းတွင်း ဇာတ်တော်ကြီးများနှင့်လည်း မတူ။ ဦးကြင်ဥ၊ ဦးပုညတို့ ရေးသားထားသော ဒေဝကုမ္ဘန်ပြဇာတ်၊ ဝိဇယပြဇာတ်တို့နှင့်လည်း မတူချေ။ ရာမ၊ အီနောင် စသော နန်းတွင်း ဇာတ်တော်ကြီးများတွင် ဇာတ်ချင်းများနှင့်တကွ ဇာတ်တွင် ပါဝင်သူတို့ တဦးနှင့်တဦး စကားပြောဆိုကြခြင်းဖြင့်သာ ဇာတ်လမ်းကို ထင်ရှားစေသည်။ ထိုသူတို့ ပြောဆိုသော စကားများကိုလည်း လင်္ကာသွားဖြင့်သာ ရေးသားထားသည်။ ဒေဝကုမ္ဘန်၊ ဝိဇယပြဇာတ်များမှာ နန်းတွင်း ဇာတ်တော်ကြီးများလောက် ရှည်လျားခြင်း မရှိသော်လည်း ရေးသားပုံ စီစဉ်ပုံသည် နန်းတွင်း ဇာတ်တော်ကြီးများနှင့် အလားတူပင် ဖြစ်သည်။ ရတနာကြေးမုံ ဝတ္ထုမှာ ဝတ္ထုကြောင်းကို ကာလပေါ် ဝတ္ထုများမှာကဲ့သို့ ရေးသား ဖော်ပြထားသည်။ သို့သော် ဝတ္ထုတွင် ပါဝင်သူတို့ တဦးနှင့်တဦး စကား ပြောဆိုကြသော နေရာတွင်ကား လင်္ကာသွားဖြင့် ရေးသား ဖော်ပြထားသည်။ ဤဝတ္ထု၌ လင်္ကာနှင့်စကားပြေ နှစ်ထွေ ရောစပ်၍ ထားသော အဖွဲ့မျိုးကို တွေ့မြင် ဖတ်ရှုရသည်။ ရတနာကြေးမုံဝတ္ထုသည် အင်းဝခေတ် ရှင်မဟာသီလဝံသ ရေးပါရာယနဝတ္ထု၊ ညောင်ရမ်းခေတ် ဝရာဘိသင်္ဃနာထ ဆရာတော် ရေး မဏိကုဏ္ဍလ ဝတ္ထုတို့နှင့်လည်း ရည်ရွယ်ချက် မှစ၍ ဖွဲ့နွဲ့ပုံများ၌ များစွာ ကွာခြားလေသည်။

အင်းဝခေတ်၊ ညောင်ရမ်းခေတ် ပေါ် ဝတ္ထုများသည် တရားကြောင်း သက်သက်ဖြစ်သော ဘုရားဟော ဇာတ်တော်များကို မြန်မာ စကားပြေဖြင့် တန်ဆာဆင်၍ ရေးသားထားခြင်း ဖြစ်သည့်ပြင်၊ ဤကဲ့သို့ တဦးနှင့်တဦး ပြောသော စကားများကို တိုက်ရိုက် အချင်းချင်း ပြောပုံစကားဖြင့် မရေးသားချေ။ ဝိဇယ၊ ဝဏ္ဏ အစရှိသော ဇာတ်တို့မှာ ဇာတ် ခင်းကျင်းပြသရန် ရည်ရွယ်၍ ရေးသားထားလေသည်။ ရတနာကြေးမုံ ဇာတ်ဝတ္ထုမှာကား ကပြရန် ရေးသားထားသည်မဟုတ်။ ကာလပေါ် ဝတ္ထုများကဲ့သို့ ဖတ်ရန်ရေးသားထားသော ဇာတ်ဝတ္ထုဖြစ်လေသည်။

ဇာတ်လမ်း အတိုချုပ်မှာ ဤသို့ ဖြစ်သည်။ ‘ရမ္မဏိယပြည်၊ မဟာရာဇိန္ဒ မင်းကြီး၏သားတော် ဣန္ဒကုမ္မာရ မင်းသားသည် အခါတပါး၌ ရွှေမြို့တော်အနီးရှိ သီရိဟေမာ ဥယျာဉ်တော်တွင် ပျော်ပါး၍ နေလေသည်။ ထိုအခါ ယမုနာပြည်မှ ရောပထ နဂါးမင်းသည် နဂါးအခြွေအရံနှင့် တောလှည့်ရာ ဂန္ဓမာတောင်ခပန်းသို့ ရောက်၍ တောင်ထိပ်ရှိ သံမြို့ခုနစ်ထပ်ကာသော ဗိမာန်ရှင်ဝေဠုမြတ်စွာ မင်းသမီးကို မြင်လေသည်။ နဂါးမင်းနှင့်တကွ နဂါး အပေါင်းတို့သည် ရှုပါရုံ၌ စွဲငြိကြ၍ ဆောက်တည်ရာမရ ဖြစ်ကြရလေသည်။ ရောပထ နဂါးမင်းသည် ညှိုးနွမ်းလှသဖြင့် အိပ်ပျော်လေ၏။

ထိုအခိုက် ဝိဇ္ဇာမယ ရသေ့ကြီးထံသို့ သိတင်းသီလစောင့်သုံးရန် လာလေ့ရှိသော ဟုရမ္မလ ဂဠုန်မင်းသည် နဂါးမင်းကို ထိုးသုတ်၍ ကောင်းကင်၌ ကစားလေ၏။ နဂါးမင်း၏ အမြီးသည် သီရိဟေမာ ဥယျာဉ်တော်ရှိ ပုန်းညက်ပင်ကို ပတ်မိလေ၏။ ဂဠုန်မင်းသည် နောက်တကြိမ် အသုတ်တွင် ပုန်းညက်ပင်သည် အမြစ်နှင့်တကွ ပါလေ၏။ ဣန္ဒကုမ္မာရ မင်းသားသည် မိမိကို စော်ကားသည်ဟု ထင်မှတ်၍ ဂဠုန်နှင့် နဂါးတို့ကို ဝရဇိန်လက်နက်ဖြင့် ပစ်ရာ၊ နှစ်ကောင်စလုံးပင် မင်းသား၏ခြေတော်ရင်းသို့ ကျလာ၍ မင်းသားထံ၌ ကျွန်ခံကြရလေသည်။

တနေ့သ၌ ရောပထ နဂါးမင်းသည် ဣန္ဒကုမ္မာရမင်းသားအား ဝေဠုမြတ်စွာ၏ လှပ်ာန် ကြော့ဟန်ကို ခြီးမွမ်းပြောဆိုပြီးလျှင် နှစ်ကိုယ်နီးကြစေရန် နဝတတ်အိုင် အနီးရှိ ဆင်စွယ် နန်းတော်သို့ မင်းသားကို ပင့်ခေါ်လေသည်။ ထိုနောက် ဣန္ဒကုမ္မာရမင်းသား၏ လူပျိုတော် ပညာဟာသနှင့် ဝေဠုမြတ်စွာ မင်းသမီး၏ အပျိုတော် ရာသီမုတ္တာတို့ တွေ့ဆုံကြ၍ မိမိတို့၏ သခင် သခင်မ အကြောင်းကို ခြီးမွမ်း ပြောဆိုရာမှ သခင်နှစ်ပါး အကြားတွင် အောင်သွယ်ကောင်းကြီးများ ဖြစ်လာကြလေသည်။ စကားအောင်သွယ် လဲလှယ်ကြပြီးသည်နောက် ဣန္ဒကုမ္မာရ မင်းသားသည် ဝေဠုမြတ်စွာ မင်းသမီး၏ ဗိမာန်သို့ ကိုယ်တော်တိုင်ကြွတော်မူ၍ နှစ်ပါး သင့်မြတ်ကြလေသည်။

ဤဝတ္ထု၌ ဖန်တီး၍ ပြထားသော လောကသည် လူသားတို့၏ လောကမဟုတ်။ နတ်သား၊ နတ်သမီး၊ နဂါး၊ ဂဠုန်တို့၏ လောကသာ ဖြစ်လေသည်။ ဣန္ဒကုမ္မာရ မင်းသားသည် သိကြားမင်းက ဆက်သသော သားရတနာ ဖြစ်သည်။ ငယ်ရွယ်နုနယ်စဉ် အခါက သူရဿတီ နတ်သမီးထံမှ ပညာကို သင်ယူသည်။ မြေလျှိုးမိုးပျံသော အတတ်ကို

တတ်သည်။ ဝရဇိန်လက်နက်ကို ပိုင်စိုးသည်။ သူ့အပါးတွင် နဂါးမင်း၊ ဂဠုန်မင်းတို့ ခစားကြရသည်။ ရတနာအမျိုးမျိုး ဝင်းထိန်လျက်ရှိသော နန်းဆောင်တော်၌ စံစားသည်။ ခေါင်စွယ်နန်း၌လည်း စံစားတတ်သည်။ ကေသရာဇာ ခြင်္သေ့နှင့် ဆဒ္ဒန်ဆင်တို့ကို အရုပ်ကလေးများ သဖွယ်ကစားနိုင်သော အားအင်ရှိသည်။

ဝေဠုမြတ်စွာ မင်းသမီး၏ ဖိုးအေမှာ နတ်မင်း ဖြစ်သဖြင့် သူသည် နတ်သမီးကလေး ဖြစ်သည်။ ယယ်ရွယ်နနယ်စဉ်က အထိန်းအယ အမျိုးမျိုးဖြင့် ပိုးမွေးသလို မွေးခဲ့ကြသည်။ ရွှေတိုက်၊ ငွေတိုက်၊ ပတ္တမြားတိုက်တို့ ခြံရံသော ဗိမာန်၌ စံစားရသူ ဖြစ်သည်။ ပဥ္စင်တူရိယာကို နှစ်သက်သည်။ သူ၏ အသားတော်သည် ပုလဲမုတ္တာ ရတနာအသားနှင့် တထပ်တည်း တူသည်။ တနာရီတွင် ဝတ်လဲတော် ဆယ်ခါလဲလေ့ ရှိသည်။ အသားတော်နုပုံမှာ နေခြည်ပြောက်ယပ်ထပြောက် ခ ရုံမျှဖြင့် ရွှေမျက်နှာတော်တလျှောက် ချွေးပေါက်ပေါက် ယိုလာရှာသည်။ ကိုယ်တော်ကလေး နူးညံ့ပုံမှာလည်း အဆောင်တော်၌ ပျံသန်းနေသော လိပ်ပြာ၏ တောင်ပံခပ်ရုံမျှဖြင့် ပျောင်းအိ နွမ်းခွေသွားရှာလေသည်။

လူပျိုတော်တို့သည် နဝတတ် ရေအိုင် အနီးတွင် ကေသရာဇာခြင်္သေ့၊ ဆဒ္ဒန်ဆင်တို့ကို ဖမ်း၍ သူတို့အချင်းချင်းကိုက်စေ၊ ဝှေ့စေကြသည်။ အပျိုတော်တို့သည် ပတ္တမြားပတီးကို စိပ်ကြသည်။ မသာရကလ်ဘီး၊ ဂေါ်မုတ်ဘီးတို့ဖြင့် ဆံပင်ကို ဖြီးသင်ကြသည်။ ပရမာမှုညွန့် လက်ဖက်ကိုစားမိ၍ ခေါင်းနောက်သည်ကို ပြေပျောက်စေရန် သန္တာညွန့် သလွန်ပေါ်တွင် လဲလျောင်းကြသည်။ ပန်းအိမ်၊ ပန်းနွယ်၊ ခြူးပတ်ခြူးခက် ထုလုပ်သော တံခါး မှန်ရွက်ကိုဖွင့်၍ ဂန္ဓမာပန်း၊ မဥ္ဇူသကပန်း စသော ပန်းတို့ပွင့်ရာ ဥယျာဉ်သာသို့ ဝင်ကြသည်။ ကရဝိတ်သံ၊ ကြိုးကြာသံတို့ကို နားခံကြသည်။ လူပျိုတော် ပညာဟာသနှင့် အပျိုတော် ရာသီမုတ္တာတို့သည် အောင်သွယ်ပီပီ စကား အလှန် တတ်ကြသည်။ တဦးကိုတဦး ပုံသာကေများဖြင့် ခြေပတတ်သည်။ မင်းသားနှင့် မင်းသမီးတို့ကို နားချ သွေးဆောင်ပုံမှာလည်း အလွန် မှတ်သားဖွယ် ကောင်းသည်။

ဇာတ်လမ်းကို ထောက်ခြင်းအားဖြင့် ရတနာကြေးမုံဝတ္ထုသည် ယုံတမ်း ဥာဏ်ကွန့်၍ ရေးသားထားသော ဝတ္ထုဖြစ်သည် ဟု ဆိုသင့်လေသည်။ ထိုဝတ္ထုတွင် မင်းသား မင်းသမီးတို့ကို သွေးဆောင် နားချသည်အထိ ရွှေတောင်သိဟသူ ရေးခဲ့သည်။ မင်းသမီးထံသို့ မင်းသားကြွလာ၍ တွေ့တော်မူခန်းကို ဦးသာ က ဆက်၍ ရေးသားလေသည်။

ရတနာကြေးမုံ ဝတ္ထုမှာ ဇမ္ဗူကုမ္မာရ မင်းသားသည် ဇမ္ဗူဒဝံသ၊ အိနောင် စသော မင်းသားတို့ကဲ့သို့ ကြင်ယာများစွာ မထားဘဲ ဝေဠုမြတ်စွာ မင်းသမီးတပါးကိုသာ စွဲစွဲမြဲမြဲ ချစ်ခင်ကြောင်း ထင်ရှားအောင် စီစဉ်ထားသောကြောင့် ယခုခေတ်ပေါ် ဝတ္ထုမျိုးနှင့် ဆင်ဆင်တူသည်။ ယခုခေတ် သဘောမျိုးနှင့်လည်း လိုက်လျော ညီညွတ်ပေသည်။ အခြား နန်းတွင်း ဇာတ်တော်ကြီးများနှင့် မတူသော အချက်တချက်မှာ ပင်တိုင်ဇာတ် အတွင်းတွင် ဥပမာအဖြစ်ဖြင့် ဝတ္ထုတို ဇာတ်တိုကလေးများကို ချပ်ကာချပ်ကာ ထည့်သွင်းထားခြင်းပင် ဖြစ်သည်။ ဤဝတ္ထုတို ဇာတ်တိုကလေးများသည်လည်း ဒဏ္ဍာရီပုံပြင်ကလေးများသဖွယ် ဖြစ်သောကြောင့် စာဖတ်သူတို့၏စိတ်ကို ငြီးငွေ့ခြင်း ထိုင်းမှိုင်းခြင်းမှ ကင်းကွာစေလေသည်။

**ရတနာပုံ။** ။မန္တလေးမြို့ — ရှု။

**ရတနာသုံးပါး။** ။ရတနာသုံးပါး၌ ရတနာ ဟူသည်ကား သတ္တဝါတို့ကို သာယာစုံမက် နှစ်သက်မြတ်နိုးစေတတ်သော အရာဝတ္ထု ဖြစ်သည်။ ထိုရတနာကား (က) လောကီရတနာ၊ (ခ) လောကုတ္တရာ ရတနာ ဟူ၍ နှစ်မျိုးဖြစ်သည်။ ထိုနှစ်မျိုးတို့တွင် လောကီရတနာများတွင်လည်း စကြာမင်း၏ အသုံးအဆောင်ဖြစ်သော ရတနာကား (၁) စကြာ (၂) ဆင် (၃) မြင်း (၄) ပတ္တမြား (၅) မိဖုရား (၆) သဌေး (၇) သားကြီး ဟူ၍ ခုနစ်ပါး ဖြစ်သည်။

သတ္တဝါတို့ အသုံးအဆောင်ဖြစ်သော ရတနာကား (၁) ရွှေ (၂) ငွေ (၃) ပုလဲ (၄) ပတ္တမြား (၅) ကြောင်မျက်ရွဲ (၆) စိန် (၇) သန္တာ ဟူ၍ ခုနစ်ပါး ဖြစ်သည်။

(တနည်း) သတ္တဝါတို့ အသုံးအဆောင် ဖြစ်သော ရတနာကား (၁) နီလာ (၂) စိန် (၃) ကြောင်မျက်ရွဲ (၄) ပတ္တမြား (၅) မြ (၆) ဂေါ်မုတ် (၇) ဥဿဖယား (၈) သန္တာ (၉) ပုလဲ ဟူ၍ ကိုးပါး ဖြစ်သည်။ ယင်းကိုးပါးကို နဝရတ်ကိုးပါး ခေါ်သည်။ (နဝရတ် — လည်းရှု။)

ဝိနည်း ပိဋကတ်တော်လာ ရဟန်းတို့ သိက္ခာပုဒ်နှင့် ဆက်စပ်သော ရတနာကား (၁) ပုလဲ (၂) မြ (၃) ပတ္တမြားစိမ်း (၄) ကြောင်မျက်ရွဲ (၅) ခရုသင်း (၆) ကျောက်သလင်း (၇) သန္တာ (၈) ရွှေ-ငွေ (၉) ပတ္တမြားနီ (၁၀) ပတ္တမြားပြောက် ဟူ၍ ဆယ်ပါး ဖြစ်သည်။

လောကုတ္တရာ ရတနာကား (၁) ဘုရား (၂) တရား (၃) သံဃာ ဟူ၍ သုံးပါးဖြစ်သည်။ ယင်းသုံးပါးကို သရဏဂုံ သုံးပါးလည်း ခေါ်သည်။ (သရဏဂုံ — လည်းရှု။)

လောကီလောကုတ္တရာ ရတနာနှစ်မျိုးတို့ကို ရတနာခေါ်ဆိုခြင်း အကြောင်းကား (၁) အရိုအသေ ပြုအပ်ခြင်း၊ (၂)အဖိုးများစွာ ထိုက်တန်ခြင်း၊ (၃) အတုမရှိခြင်း၊ (၄) မြင်ရခဲခြင်း၊ (၅) မြင့်မြတ်သော သူတို့ အသုံးအဆောင် ဖြစ်ခြင်း၊ ဤအနက် ငါးမျိုးကြောင့် ဖြစ်သည်။

ထိုသို့ အနက်ငါးမျိုးကြောင့် ရတနာ ဟု ခေါ်ဆိုရသော်လည်း တလောကလုံး၌ ရှိရှိသမျှ လောကီရတနာများကား လောကုတ္တရာ ရတနာများနှင့် အနည်းငယ်မျှ မတူပေ။ သို့အတွက် တလောကလုံး၌ လောကုတ္တရာ ရတနာဖြစ်သော ဘုရား၊ တရား၊ သံဃာတို့သာ အကောင်းဆုံး အမြင့်ဆုံး အမြတ်ဆုံး ရတနာများ ဖြစ်လေသည်။

ယင်းလောကုတ္တရာ ရတနာသုံးပါးတို့ အကြောင်းအရာနှင့် စပ်လျဉ်း၍ ဘုရား၊ တရား၊ သံဃာ အကြောင်းအရာတို့ကိုလည်း ရှုကြစေလိုသည်။ ဦးကြီးဖေ

ရတု။ ။ရတုသည် လင်္ကာ၏ အကိုင်းအခက်တခု ဖြစ်သည်။ (ကဗျာလင်္ကာ — ရှု။) လေးလုံးတပိုဒ် ဖွဲ့သော ကဗျာလင်္ကာ အမျိုးအစားပင် ဖြစ်သည်။ ယခုခေတ်တိုင် မရိုးနိုင်ဘဲ မင်္ဂလာယူဆဲ အသက်ဝင်ဆဲ ကဗျာတမျိုးဖြစ်သည်။ ထိမ်းမြားမင်္ဂလာပွဲများ၊ ရှင်ပြုနားသ ဘိသိက်မင်္ဂလာပွဲများတွင် ရတု မပါလျှင် မပြီးချေ။

ရတု ဟူသော ဝေါဟာရနှင့် စပ်လျဉ်း၍ ပညာရှင်တို့ အမျိုးမျိုး ကြံဆခဲ့ကြသည်။

ညောင်ရမ်းခေတ် မတိုင်မီက ရတုကို ‘ရမန္တိ သတ္တာ ဧတ္ထ တေနာတိ ဝါ ရတု’ ဟူ၍ ဝိဂ္ဂိုဟ်ပြုသူကပြုကြသည်။ သတ္တာ၊ သတ္တဝါတို့သည်။ ဧတ္ထ တေနာတိ၊ ဤသီချင်းဖြင့်။ ရမန္တိ၊ မွေ့လျော်ကြကုန်၏။ ထိုကြောင့် ဝါ ရတု၊ ရတု ဟု ခေါ်၏ဟု ဆိုသည်။ အချို့ကလည်း ‘ရတိ’၊ ဇနေတီတိ၊ ရတု’ လူတို့သည် မွေ့လျော်ကြကုန်သောကြောင့် ရတု ဟုခေါ်၏ ဟု ဝိဂ္ဂိုဟ်ပြုခဲ့ကြသေးသည်။

အချို့ကမူ ရတု ဟူသော စကားသည် သက္ကတဘာသာ ရိတု ဟူသော စကားမှ လာသည်ဟု ဆိုကြသည်။ ရာသီ ဥတု ဟူသော အဓိပ္ပါယ်ရသည်။ တနှစ်တွင် နွေ မိုး ဆောင်း သုံးရာသီ ရှိသကဲ့သို့ ရတု၌လည်း များသောအားဖြင့် သုံးပိုဒ် ဖွဲ့ဆိုလေ့ရှိသည်။ အကြောင်း အရာအားဖြင့် ရာသီဘွဲ့များကို အထူးဖွဲ့ဆိုခဲ့ကြသည်လည်း ဖြစ်သည်။

ရတုသည် ပေါရာဏ စကား ဖြစ်၍ သဘင်၊ အခမ်းအနား၊ အခြေအနေ ဟူ၍ အဓိပ္ပါယ်ရသည်ဟု ယူဆသူကလည်း ယူဆကြသည်။ အများအကြောင်းကို ဖွဲ့ဆိုလျှင်၊ လူများစုနှင့် စပ်ဆိုင်လျှင် သဘင်၊ တဦးတယောက် အကြောင်း၊ ပုဂ္ဂလိက မင်းခမ်း မင်းနားများကို ဖွဲ့ဆိုလျှင် အခမ်းအနား၊ သဘာဝတ္တ ဩကာသလောက တောတောင် ရေ မြေ အခြေအနေကို ဖွဲ့ဆိုလျှင် အခြေအနေဟူသော အဓိပ္ပါယ် သုံးမျိုးထွက်ကြောင်းဖြင့် ကဗျာလင်္ကာ စပ်ဆိုထုံးများကိုထောက်၍ ကောက်ချက် ချမှတ်ကြကုန်ပြန်၏။

ရတုကို မြန်မာဝေါဟာရ အဖြစ် စဉ်းစားကြသူများကမူ ရတုဟူသည် ရ နှင့် တုကို ပေါင်းထားခြင်းဖြစ်၍ မိမိ ရ၍ တုပ ပြိုင်ဆိုင် စပ်ဆိုသော ကဗျာတမျိုး ဖြစ်ကြောင်း ဆိုကြသည်။ အချို့ကမူ ရန့်သည် အန့်ဟူသော စကားနှင့် အတူတူ ဖြစ်သကဲ့သို့ ရတုသည် အတုနှင့် အတူတူဖြစ်သည်။ အတုအပ အပြိုင်အဆိုင် စပ်ဆိုသော ကဗျာတမျိုး ဖြစ်သည် ဟုဆိုကြသည်။

ဤသို့ အားဖြင့် ရတုနှင့် စပ်လျဉ်း၍ ပညာရှင်တို့သည် အနက်လေးချက်ကို အမျိုးမျိုး ကြံဆကြည့်ခဲ့ကြသည်။

ရတုသည် ပျို့ မော်ကွန်း စသော ကဗျာတို့နှင့် မတူ၊ စည်းကမ်းကြီးသော ကဗျာတမျိုး ဖြစ်သည်။ စာဆိုဉာဏ် မည်မျှပင် ထက်သန်သည် ဖြစ်စေ၊ ရတုကို သုံးပိုဒ်ထက် ပို၍ မဖွဲ့ကြချေ။ သုံးပိုဒ်ထက် ပိုသော ကဗျာများကို များသော အားဖြင့် ရတု ဟု အသိအမှတ် မပြုကြချေ။

ရတုတွင် သုံးမျိုး သုံးစား ရှိသည်။

(၁) ကေပိုဒ်ရတု —တပိုဒ်တည်း ဖွဲ့ဆိုထားသော ရတု၊
(၂) အပြည့်ခံရတု—နှစ်ပိုဒ်သာ ဖွဲ့ဆိုထားသော ရတု၊ မူလ စာဆိုမှတပါး အခြား ပညာရှိ တဦးဦးက ဉာဏ်မှီသမျှ ဖြည့်စွက်၍ ဖွဲ့နိုင်ရန် အပြည့်ခံထားသော ရတုမျိုးဖြစ်သည်။
(၃) ပိုဒ်စုံရတု —နွေ မိုး ဆောင်း ရာသီ ဥတုသုံးပါး ရှိသကဲ့သို့ သုံးပိုဒ် ပြည့်ပြည့်စုံစုံ ဖွဲ့ထားသော ရတု၊

ပိုဒ်စုံရတုတွင် အချီအချအသတ်ကာရန် ညီရသည်။ ပုံစံအားဖြင့် ‘မဲဇာတောင်ခြေ’၊ ‘ပွဲခါညောင်ရေ’၊ ‘သဲသာသောင်မြေ’ စသော အချီအညီမျိုး၊ ‘ရွှေပြည် ဌာန ဝေးသောကြောင့်’၊ ‘လေပြည် လာက အေးသောကြောင့်’၊ ‘နေခြည်ဖြာမှ နွေးသောကြောင့်’ စသော အချညီမျိုးများပင် ဖြစ်သည်။

ရတု ဖွဲ့ဆိုရာ၌ လေးလုံး တပိုဒ်၊ ၁၀၈ ပိုဒ် ထက် ပို၍ မဖွဲ့ကြချေ။ ကာရန် ယူရာတွင် သပ်စေနှက် သုံးချက်ညီ၊ ဦးတိုက် စသော လင်္ကာစပ် ခြောက်မျိုးအတိုင်းပင် ဖွဲ့ဆိုလေ့ ရှိကြသည်။

အချို့ပညာရှင်တို့က ရတု ချီနည်း ချနည်း ၂၈ မျိုးရှိသည်ဟု ဆို၍ အချို့က ၄၁ မျိုးရှိသည်ဟု ဆိုသည်။ စကားလုံး အနည်းအများကို လိုက်၍၎င်း၊ အသတ်ကို ခွဲ၍၎င်း အမျိုးအစား ခွဲကြသည်။ ခုနစ်လုံးနှင့် ချမှု ခိုင်ညွန့် ခက်ဖြာ ချနည်း၊ ကိုးလုံးနှင့်ချမှု မဏိဆံကျင် ချနည်း၊ ၁၁ လုံး ချသော် အာသာဝတီဝတ်ဆံချနည်း၊ ၁၅ လုံး ချသော် မဏိဦးပြည်းချနည်း၊ ၁၉ လုံး ချသော် ဇော်တခိုင်လုံး ချနည်း၊ ၂၅ လုံး ချသော် မပြတ်ကေသာ၊ သို့မဟုတ် မြဝတ်ကေသာ ချနည်း၊ ၃၅ လုံး ချသော် ဇမ္ဗူ့သပြေသီးမှည့် ချနည်း

စသည်ဖြင့် ခေါ်၍ အသတ်မပါသော အက္ခရာ၊ အသတ်ပါသော အက္ခရာ ရော၍ အက္ခရာအမျှ ချီချသော် ပေါက်ပြချနည်း၊ '၍' ဟူသော အက္ခရာ မပါ၊ တပါးသော အသတ်ဖြင့်သာ ချီခြင်း ချီခြင်း ပြုသော် ငုံဖူး ချနည်း၊ အသတ်ရောလျက် အချီအချ '၍' ဟူသော အက္ခရာ ပါသော် ပုလဲသွယ်၊ သို့မဟုတ် မုလေးသွယ် ချနည်း စသည်တို့ ရှိကြသည်။

'ရကုချဖွယ်၊ အသွယ်သွယ်၊ ခြောက်ဆယ် ကရိယာ' ဟူသော ကဝိလက္ခဏာ သတ်ပုံ သံပေါက်ပါ စကား အတိုင်း ရတုအချ စကားလုံးပေါင်း ၆၄ မျိုးကိုလည်း တွေ့ရ၏။ ကဝိ ကဏ္ဍ ပါသ ကျမ်းတွင် အောက်ပါ အတိုင်း ကြိယာ ခြောက်ဆယ်လက်ာ ပါရှိလေသည်။

"မဥ္ဇူဘုန်းတော်၊ ပွင့်ချိန်မြော်သည်၊ ဗန်းမော် ခေါင်ထိ၊ တုမရှိသည့်၊ ကဝိကဝေ၊ စောမြူတေ၊ နှစ်ထွေလက်ာ၊ ကျမ်း၌ လာသား၊ နည်းနာနယ၊ ဝိတ္ထာရဖြင့်၊ သုံးတန်ဆင့်၍၊ ဖွင့်သည့်ကဗျာ၊ ကြိယာတွင်၊ သမာသေနု၊ မူလမဏ္ဍေ၊ ကိုသာပေတည့်၊ သံခြေပျံ့ညင်း၊ ကျွန်ုပ်ခင်းပိမ့်၊ ၊(လျှင်) (လျှင်း) (မူကား)၊ (ဝယ်) (သား) (တမင့်)၊ (ချိမ့်) (ဖြင့်) (တွင်) (၏)၊ (ပိမ့်) (လှည့်) (မည်) (အံ့)၊ (လော) (တုံ့) (မို့) (တည့်)၊ (သော်) (ခဲ့) (ဘူး) (သော)၊ (မူလော) (ရကား)၊ (မူ) (အား) (မှ) (က)၊ (လိမ့်စွ) (တုံ့) (လည်း)၊ (တိ) (တည်း) (ချည်း) (ဟု)၊ (ခဲ့) (နည်း) (နိုက်) (လျက်)၊ (ကြောင့်) (ထက်) (မို့) (လည်)၊ (စမ့်) (သည်) (စိမ့်) (နှင့်)၊ (တုံ့) (လိမ့်) (တည့်) (တော့)၊ (ကား) (လော့) (ရွေ) (သို့)၊ (မျှ) (တို့) (ငှါ) (ရှင့်)၊ (တမ့်) (နှင့်) (ကို)၊ ရှင်ပင့်ဉာဏ်တော် ထွန်းပေါ် ကျယ်ချဲ့–ယှဉ်ခဲ့တတ်တော်မူ ဘုရား။"

ရှေးစာဆိုတို့သည် စိတ်ဝင်စားဖွယ် ရတုပုံစံ အမျိုးမျိုး ဖွဲ့ဆိုခဲ့ကြသည်။ အင်းဝခေတ်တွင် ရဟန်းတော် ရှင်မဟာရဋ္ဌသာရသည် ရတု ပုံဆန်းပုံသစ်ကို အထွင်နိုင်တော်မူဆုံးသော စာဆိုကြီး ဖြစ်သည်။

ပိုးတောင့်တဲ ကလေးများ လမ်းလျှောက်သည့်နှယ် ခြေလှမ်း ကြဲချည် စိပ်ချည် အက္ခရာလေးလုံး တပိုဒ်၊ ငါးလုံး တပိုဒ် ဖွဲ့ဆိုသော ရတုကို တောင့်တဲတွန့်ရတု ဟု အမည်သခဲ့လေသည်။ ဆရာတော်သည် 'ဝဏ္ဏပဘာ' ချီ တောင့်တဲတွန့်ရတု၌ 'ဝဏ္ဏပဘာ၊ ကလျာဖူးစသစ်၊ ပျိုမျစ်မျစ်လျှင်၊ ကျစ်လစ်တင့်စံပယ်၊ လှမျိုးကြွယ်သား၊' စသည်ဖြင့် စပ်ဆိုထားလေသည်။

ကြာဝတ်ဆံတိုင် တခုတည်းမှ ပွင့်ချပ်များ ဖြာထွက်သော ပဒုမာကြာပန်း သဏ္ဌာန် ဖွဲ့ဆိုသည့် ပဒုမာကြာဆိုနည်း ရတု ဟူ၍လည်း ထွင်ဆိုတော်မူခဲ့သေးလေသည်။ ဆရာတော်၏ အမြွတ်ငါးဆူ ကေပိုဒ် ရတု၌—

"ငါးဆူ ရွှေကြာ၊ နိမိတ်လာ၍၊ ငါးဖြာမြွာလျက်၊

တပင်နက်တွင်၊ ငါးဆက်ဖူးငုံ၊ ပေါ်လတ်တုံက" စသည်ဖြင့် 'ငါး' ဟူသော စကားတလုံးကို ကြာဝတ်ဆံတိုင်သဖွယ်ပြု၍ ပဒုမာကြာဆိုနည်း ရတုကို စပ်ဆိုခဲ့သည်။ ထို့ပြင် ပုလဲတတန့် သန္တာတတန့် ရတု ဟူ၍လည်း အမည်မှည့်ကာ တီထွင် စပ်ဆိုခဲ့ပုံကို

'မြတ်မျိုးမြင့်မှန်၊ ကြင်ပေတန်၍၊ ရွယ်ရန်ရည်ရင့်၊ ဆင်တိုင်းတင့်သား....' စသော ရတုတွင် ပုလဲလုံးသဖွယ် အက္ခရာ ညီညီတတန်း၊ သန္တာကျောက်သဖွယ် အက္ခရာ မညီသော အပိုဒ်တတန်း ဆစ်၍ဖွဲ့ထားကြောင်း တွေ့ရပေသည်။

အခြား စပ်ဆိုနည်း အဆန်းရတုများမှာ နဝဒေးကြီး၏ 'သီဟတောနှင့် ကျိုက်ပေါမွေ့' ချီ၍၊ 'တွင်မည် ကျိုက်ပေါ သီဟတော' ဟု ချသော ယန္တရား စကြာလည် ရတုများ။ 'ရွယ်ရန်ငွေ့၍၊ ရန်းလေ့ရာသီရဲရဲညီသား' ဟူသောအက္ခရာ တလုံးတည်းကို အပိုဒ်တိုင်းတွင် ရွှဲသီသကဲ့သို့သုံးသော မုတ္တာရွှဲသီရတုများ၊ နဝဘာအင်းဆိုနည်း၊ တံခွန် စာဆိုနည်း၊ သန်လျက် စာဆိုနည်း၊ မြင့်မိုရ်ဆိုနည်း၊ သုံးလွန်းတင်ဆိုနည်း၊ ဥသျှောင်ဆိုနည်း စသည်ဖြင့် စပ်ဆိုကြသည်လည်း တွေ့ရသည်။

အကြောင်း အရာနှင့် စပ်လျဉ်း၍လည်း ရတု ဖွဲ့ဆိုရာ၌ အမျိုးမျိုး ကွဲသည်။ မေ ာင်ဘွဲ့၊ ရာသီဘွဲ့၊ ဘုန်းတော်ဘွဲ့၊ သစ္စာတိုင်၊ ဘုရားတိုင်၊ သိကြားတိုင်၊ နတ်တိုင်၊ ရုက္ခစိုးတိုင်၊ ရှင်ဥပဂုတ်တိုင်၊ ကျေးစေ၊ သာလိကာစေ၊ ခွေးစေ၊ တစ္ဆေစေ၊ စစ်ချီ၊ မိုးတော မိုးတိုင်၊ မိုးကြိမ်း၊ မိုးငေါ့၊ အခံရတု၊ အလိုက်ရတု စသည်ဖြင့် များပြားလှသည်။

ရတု အရေးအသားသည် လက်ာများမှ မြစ်ဖျားခံသည် ဟု မှတ်ယူစကောင်းသည်။ ရတုစစ်စစ် အရေးအသားကိုမူ ပင်းယခေတ်တွင် စတင် တွေ့ရသည် ဟုဆိုရပေမည်။ ဖုံဆူးတွင်းပစ် ဆရာတော် ရှင်နာဂိတအား သင်္ကတကျမ်းတတ် လောကနီတိဆရာ ပင်းယ စတုရင်္ဂဗလ အမတ်ကြီးက ပရမတ္ထအရာ အဘိဓမ္မာနည်းများကို မေးလျှောက်သော "ရွှေဖဝါးတော်အောက်၊ ကျွန်၏ လျှောက်ဖြင့်၊ မလျှောက်ဝံ့၊ လျှောက်ဝံ့ဝံ့တည့်၊ ကြောက်ရွံ့လျက်ပင်၊ စက်ရွှေစင်ကို၊ ထိပ်ပြင်ပန်းနှယ်၊ ဆင်စံပယ်လျက်" အစချီသော ပိုဒ်စုံရတုကဗျာသည် ရတုနယ်တွင် ရတုပီပီသသ အဟောင်းဆုံး ရတုကြီး တပိုဒ် ဖြစ်သည်။ အင်းဝခေတ်သို့ ရောက်သော အခါ ရတုအရေးအသားသည် ပိုမို တိုးတက်လာလေသည်။ မိုးဆမ်းယန်းအသွင်လန်းလန်းရှင်ခဲ့သည်။ ရတုစာဆိုအများအပြား ပေါ်ထွန်းခဲ့သည်။ အင်းဝဘုရင် ပဋ္ဌမ မင်းခေါင်၊ စာဆိုတော် ရှင်သူရဲ၊ ရှင် မဟာသီလဝံသ၊ ရှင် မဟာရဋ္ဌသာရ၊ ရခိုင်သူ မိညို၊ အင်းဝသူ မိဖြူ၊ ရှင်ထွေးနာသိန်စ သူတို့သည်အင်းဝခေတ်ရတုစာဆိုကျော်များဖြစ်ကြသည်။

အင်းဝခေတ်တွင် အရှိန်ရလာသော ရတု အရေးအသားသည် တောင်ငူခေတ်တွင် တံခွန်စိုက်သည် ဟုဆိုရပေမည်။ ပဌမ နဝဒေးကြီးသည် ရတု ပိုဒ်ရေပေါင်း ၃၀၀ ကျော် ၄၀၀ နီးပါးမျှ ဖွဲ့ဆိုခဲ့သည်။ နဝဒေး နောက် နှစ်ပေါင်း ၃၀ ခန့် အကြာတွင် တောင်ငူဘုရင် နတ်သျှင်နောင် ပေါ်ခဲ့ပြန်သည်။ နတ်သျှင်နောင်သည် ချစ်သူ ရာဇဒေဝီကလျာအား အကြောင်းပြု၍ ရတုပိုဒ်ရေ ၆၀ ကျော်ခန့် ဖွဲ့ဆိုခဲ့သည်။ စကားကျစ်လစ် သိပ်သည်း၍ လှပ ပြောင်မြောက်သော အဖွဲ့တို့ဖြင့် မွမ်းမံထားသော ရတုများကြောင့် နတ်သျှင်နောင်အား "ရတုဆိုခြင်း၌ သိမ်မွေ့၏။ ဂမ္ဘီရ ဥဇာဏ်နှင့် ပြည့်စုံ၏" ဟု ဆိုကြခြင်း ဖြစ်သည်။ (နတ်သျှင်နောင် — ရှု။) တောင်ငူခေတ်၏ အခြား ထင်ရှားသော ရတုစာဆိုများမှာ လှော်ကားသုံးထောင်မှူး၊ ရခိုင်စာဆို ဥက္ကာပျံ၊ မင်းဗေယျရန္တမိတ်၊ ရှင်သံခို တို့ဖြစ်ကြသည်။ (လှော်ကားသုံးထောင်မှူး။ ဥက္ကာပျံ။ မင်းဗေယျရန္တမိတ်။ သံခိုရှင်။ — လည်းရှု။)

ညောင်ရမ်း ခေတ်တွင်မူ တောင်ငူခေတ်၌ လောက် ရတု တံခွန်မစိုက်သော်လည်း ရှင်ကရဝိက၊ မြင်းခွာစား မင်းရာဇာ စသော ရတုစာဆိုများ ရှိသေးရာ ရတု အရေးအသားသည် မပြတ်လပ်ခဲ့ချေ။ ညောင်ရမ်း ၁၀ ဆက်မြောက် ဟံသာဝတီရောက်မင်းတရားကြီးသည် အင်းဝပျက်၍ ဟံသာဝတီတွင်နေရစဉ် နတ်ရွာစံခါနီး၌ 'ပုဂ္ဂိုလ်ခြောက်မည်' အစချီသော သုံးချက်ညီ သံဝေဂပိုဒ်စုံ ရတုကို ရေးသားတော်မူခဲ့သည်။

ကုန်းဘောင်ခေတ်၌ ထင်ရှားသော ရတုစာဆိုများမှာ လက်ဝဲသုန္ဒရ ဦးမြတ်စံ၊ တွင်းသင်းတိုက်ဝန် မဟာစည်သူ၊ စိန္တကျော်သူ ဦးဩ၊ ဦးတိုး၊ စဉ့်ကူးမင်းမိဖုရား ရှင်မင်း၊ ဘိုးသူတော် ဦးမင်း၊ ဦးယာ၊ ဝက်မစွတ် နဝဒေး၊ ဦးပုည၊ ကင်းဝန်မင်းကြီး ဦးကောင်း၊ ဆီးပန်းနီ ဆရာတော် စသည်တို့ဖြစ်သည်။ (လက်ဝဲသုန္ဒရ။ ထွန်းညို၊ ဦး၊ တွင်းသင်းတိုက်ဝန် မဟာစည်သူ။ ဩ၊ ဦး။ တိုး၊ ဦး။ နဝဒေး။ ပုည၊ ဦး။ ကောင်း၊ ဦး — လည်းရှု။)

ရတုသမိုင်းတွင် အဟောင်းဆုံး ရတု ဆရာသည် စတုရင်္ဂဗလ၊ အများဆုံး ရတု ဆရာသည် နဝဒေးကြီး ဖြစ်၍ အကောင်းဆုံး ရတု ဆရာသည် နတ်သျှင်နောင် ဖြစ်သည်ဟု စာပေပညာရှင်များက ယူဆကြသည်။

**ရထား။** ။ရှေးအခါက လူတို့သည် ပစ္စည်းများကို တနေရာမှ တနေရာသို့ ပြောင်းရွှေ့လိုလျှင် မိမိတို့ကိုယ်တိုင် ခေါင်းပေါ်၌ ရွက်၍ဖြစ်စေ၊ ကျောပေါ်၌ သယ်ပိုး၍ ဖြစ်စေ ပြောင်းကြရွှေ့ကြရသည်။ ထိုနောက် လေးလံသော ပစ္စည်းများကို သယ်ယူရာ၌ အောက်တွင် သစ်တုံးများကို အခုအခံပြု၍ ထမ်းပိုးတန်းဖြင့် လူကိုယ်တိုင် ဆွဲငင် ပြောင်းရွှေ့ကြသည်။ ထိုမှတဆင့် ခွေး၊ နွား၊ မြည်းတို့ကို ယဉ်အောင် လေ့ကျင့်ပေးပြီးလျှင် ပစ္စည်းများကို ပြောင်းရွှေ့ရာ၌ အသုံးပြုလာကြသည်။

ရှေးနှစ်ပေါင်း ၆,၀၀၀ ခန့်လောက်က မြေထဲပင်လယ် အရှေ့ပိုင်း ဒေသ၌ နေထိုင်သူတို့သည် ယာဉ်ရထားတွင် တပ်ဆင်ရသော ဘီးကို တီထွင်ခဲ့ကြသည်ဟု ခန့်မှန်းကြ၏။ အစအဦးတွင် သစ်ပင်လုံးကို ကန့်လန့်ဖြတ်ထားသော သစ်ပြားဝိုင်းကို ဘီးအဖြစ်အသုံးပြုကြသည်။ ဘီးကို တီထွင်လိုက်သည်နှင့် လူတို့သည် တိရစ္ဆာန်ဆွဲ ယာဉ်အမျိုးမျိုးကို ပြုလုပ်လာကြလေသည်။ဘီစီ ၂၀၀၀ ပြည့်နှစ်ခန့်သို့ ရောက်သောအခါ ဗက်ဗီလုံ လူမျိုးတို့သည် စစ်တိုက်ရာ၌ မြင်းကို အသုံးပြုကြောင်းသိရသည်။ ထိုနောက် နှစ်ပေါင်း ၄၀၀ ခန့် ကြာသောအခါ အီဂျစ်ပြည် ဖာရိုးဘုရင်တို့တွင် မြင်းဆွဲရသောနှစ်ဘီးတပ် စစ်ရထားများ ရှိကြောင်းကိုငင်း၊ အဆီးရီးယန်း လူမျိုး၊ ပါးရှင်းလူမျိုးတို့သည်လည်း စစ်ချီရာ၌ နှစ်ဘီးတပ် စစ်ရထားများကို အသုံးပြုကြောင်းကိုငင်း သိရသည်။ ဂရိလူမျိုးနှင့် ရောမလူမျိုးတို့တွင်လည်း ထိုရထားမျိုး ရှိခဲ့ကြလေသည်။

ဥရောပတိုက်တွင် အလယ်ခေတ်က ယောကျ်ားတို့သည် မြင်းစီး၍ ခရီးသွားကြရသည်။ ခရီးလမ်း မကောင်းသောကြောင့်သော်၎င်း၊ သူခိုးလူဆိုးတို့၏ ရန်ကို ကြောက်ရသောကြောင့်သော်၎င်း အစုအသင်းဖွဲ့၍ သွားလာခဲ့ကြရသည်။ ထိုအခါက မိန်းမများ ခရီးသွားခဲသည်။ ၁၆၃၁ ခုနှစ်သို့ ရောက်သောအခါ အင်္ဂလန်ပြည် လန်ဒန်မြို့ရှိ လမ်းကျဉ်းများပေါ်တွင် မြင်းရထားများ ပေါ်လာသည်။ ထိုနောက် တမြို့မှ တမြို့သို့ ခရီးသည်တင် မြင်းရထားများဖြင့် သွားလာကြသည်။ ထိုအခါက ဒိုဗာမြို့မှ မိုင် ၆၀ နီးပါးမျှ ဝေးသော လန်ဒန်မြို့သို့ မြင်းရထားဖြင့် သုံးရက်နှင့် ရောက်နိုင်ကြောင်းကို သတင်းထူးအဖြစ် ဖော်ပြခဲ့ဘူးသည်။ ယခုအခါ သယ်ယူပို့ဆောင်ရေးဖက်တွင် ခေတ်မှီ ယာဉ်အမျိုးမျိုးဖြင့် တိုးတက်လျက်ရှိရာ၊ မြင်းရထားများကို လယ်ယာစိုက်ပျိုး လုပ်ကိုင်သူတို့ကသာ အသုံးများကြသည်။ ထိုပြင် ဘုရင်များ မင်းခမ်းမင်းနားဖြင့် ထွက်သည့်အခါ၌သာ ရှေးအစဉ်အလာအရ မြင်းဆွဲသည့် ရထားဖြင့် စီးနင်း လိုက်ပါလေ့ ရှိကြသည်။

မြောက်အမေရိကတိုက်သို့ နယ်သစ်တည်ရန် ရောက်လာသူတို့အတွက် အခက်ခဲဆုံး ပြဿနာမှာ သယ်ယူပို့ဆောင်ရေးပင် ဖြစ်သည်။ ထို့ကြောင့် အစအဦးတွင် ကုန်းတွင်းပိုင်းသို့ သွားလိုသူများသည် ခြေလျင်သော်၎င်း၊ မြင်းစီး၍သော်၎င်း သွားကြရသည်။ ၁၆ ရာစုနှစ်အတွင်း၌ ခြေလျှင်လမ်းများကို ချဲ့ထွင်လိုက်ကြသဖြင့် နွား၊ မြင်းတို့ဆွဲသော

ဘီးတပ်လှည်းများကို အသုံးပြုလာကြလေသည်။ ၁၇ ရာစု နှစ်အတွင်းသို့ ရောက်သောအခါ လမ်းများမှာ ပို၍ကောင်း လာသဖြင့် နယူးယော့ကဲ့သို့သော မြို့ကြီးများ၌ အငှါး မြင်း ရထားများ ပေါ်ပေါက်ခဲ့လေသည်။ တဖန် ၁၈ ရာစုနှစ် အ တွင်း၌ မြောက်အမေရိကတိုက်တွင် တမြို့မှ တမြို့သို့ ခရီး သည်တင် မြင်းရထားများဖြင့် သွားလာခဲ့ကြသည်။ နယူး ယော့မြို့၌ နှစ်ထပ် မြင်းရထားများကိုပင် တီထွင် အသုံးပြု ခဲ့ကြသည်။

မြန်မာနိုင်ငံတွင်လည်း မြင်းနှင့် မြင်းရထားတို့သည် စစ် ရေးစစ်ရာ၌သော်၎င်း၊ မင်းခမ်းမင်းနား၌သော်၎င်း၊ ကူးသန်း သွားလာရေး၌သော်၎င်း အထူးပင် အရေး ပါခဲ့လေသည်။ မင်းတုန်းမင်း ကျောက်တော်ကြီးဘုရားသို့ထွက်သော တပ် ထွက် အခမ်းအနားကို ကြည့်လျှင် စစ်ရထားကို ရုပ်ပြသ ဘောလောက် ပါရှိကြောင်း တွေ့ရပေသည်။ ရှေးအခါက စစ်တပ်ဖွဲ့ရာတွင် ဆင်တပ်၊ မြင်းတပ်၊ ရထားတပ်၊ ခြေသည် တပ် ဟူ၍ စစ်အင်္ဂါလေးပါးရှိသည်။ သို့သော် မြန်မာ စစ် အင်္ဂါလေးပါးတွင် ရထားတပ်အစား လှေသင်္ဘောတပ် ပါ လာသည်။ မြန်မာမင်းများ လက်ထက်တော်အခါက ပြာသို လတွင် သေနင်္ဂဗျူဟာ အခမ်းအနားတရပ်ဖြစ်သော မြင်း ခင်းပွဲ ဆင်ခင်းပွဲတို့ကို ဆင်ယင် ကျင်းပရိုး ရှိလေသည်။ (ဆဲ့ နှစ်ရာသီပွဲတော်များ။ မြင်းခင်းသဘင် — ရှု။) စာဆိုတော် ဘုရင် နတ်သျှင်နောင်ကလည်း ယခုကာလ ပိုလိုရိုက်ကစား နည်းနှင့် တူသော ကုလီသဘင် ကစားခြင်းအကြောင်းကို စပ်ဆို ဖော်ပြခဲ့လေသည်။ မြန်မာမင်းတို့သည် ထိုနည်းအား ဖြင့် မင်းညီမင်းသားမှစ၍ မင်းမှုထမ်းတို့ကို မြင်းစီးအတတ်၌ ကျွမ်းကျင်စေသည်။

မဟာဇနက ဇာတ်တော်တွင် မှူးမတ်တို့သည် ပေါလဇန ကမင်း၏ သမီးတော် သီဝလိဒေဝီ မင်းသမီးနှင့် ထိုက်တန်ရာ ကို ရှာကြံ၍ မရနိုင်ကြလတ်သော်၊ မင်းလောင်းရှိရာသို့ အ ဓိဋ္ဌာန်ဖြင့် ဖုတ်သွင်းရထား လွှတ်ကြောင်းကို "ထိုအခါ အ မတ် ပုရောဟိတ်တို့သည် မြို့၌ ပြုရာသမျှ အလုံးစုံကို သုတ် သင်ခင်းကျင်း၍ တန်ဆာဆင်စေပြီးသော် မင်္ဂလာရှိသော ရ ထား၌ ထူးမြတ်ဆန်းကြယ်စွာ မင်းနေရာအခင်းနှင့် မင်း မြောက်တန်ဆာ ငါးပါးကို တင်ထား ခင်းကျင်းကြလျက် ကုမုဒြာကြာပုင့် အဆင်းကဲ့သို့ အဆင်းရှိသော စိုင်လျော် ရွှေမွေး မြင်းလေးစီးတို့ကို ကြိုးက တန်ဆာ ကောင်းစွာဆင် ၍ တည်တစဉ်တည်း ရထား၌ ကပြီးလျှင် ရွှေတုရူလမ်းကို သာ လွှတ်၍ လကျာ်လက်ဝဲ ရှေ့နောက် ဝန်းကျင်တို့၌ ဆင်၊ မြင်း၊ ရထား၊ ခြေသည် စစ်အင်္ဂါလေးပါး ဝန်းရံလျက်.... ဤသို့ အလုံးစုံ ခင်းကျင်းပြီးလျှင် ပုရောဟိတ် ပုဏ္ဏားသည် ရွှေကရားဖြင့် ရထားအဖွဲ့အစပ်တို့ကို၎င်း၊ ရထားဦးကို၎င်း၊ ရွှေနှင်တံကို၎င်း ရေစင်ဖျန်းလျက် ဤ ပြည်စည်းစိမ်ကို ခံ ထိုက်သော ဘုန်းတန်ခိုးရှင်သည် အကြင်အရပ်၌ ရှိအံ့၊ ထို မင်းလောင်းရှိရာသို့ ဤရထား သွားစေသတည်း ဟု ဓိဋ္ဌာန် ခြင်းနှင့်တကွ အဘိသိက်မြောက်ပြီးသော် ဖုဿရထားကို လွှတ်ကြလေ၏။" ဟူ၍ ဖော်ပြပါရှိသည်ကို ထောက်သော် မြတ်စွာဘုရား အလောင်းတော် ဇနကမင်း လက်ထက်တွင် မြင်းကသော ရထားသည် ထီးသုံးနန်းသုံးယာဉ်အဖြစ် မင်း ခမ်း မင်းနား၌ အရေးပါလျက်ရှိကြောင်း သိနိုင်လေသည်။

မော်တော်ကား မီးရထား စသော စက်တပ်ယာဉ်များ မ ပေါ်မီ ခေတ်မှစ၍ မြန်မာနိုင်ငံတွင်း၌ တမြို့မှ တမြို့သို့၎င်း၊ မြို့တွင်း တနေရာမှ တနေရာသို့၎င်း မြင်းရထားကို အငှါး ယာဉ်အဖြစ် အသုံးပြုခဲ့ကြသည်။ ပစ္စည်း ကြွယ်ဝချမ်းသာ သူတို့ကလည်း ကိုယ်ပိုင် မြင်းရထားဖြင့် သွားလာလေ့ ရှိ ကြသည်။ မော်တော်ကား၊ မီးရထား စသော စက်တပ် ယာဉ်များ ရောက်ရှိလာသောအခါ မြင်းရထားကို ခရီးတို အတွက် အသုံးပြုကြလေသည်။ ဒုတိယ ကမ္ဘာစစ်အတွင်း က မော်တော်ကား၊ မီးရထားဖြင့် သွားလာရေးမှာ ရပ်ဆိုင်း ကုန်သောကြောင့် ခရီးဝေးကိုပင် မြင်းရထားဖြင့် တမြို့မှ တမြို့သို့ ဆက်၍ဆက်၍ သွားလာခဲ့ကြရလေသည်။ မြန်မာ နိုင်ငံ နယ်ဖက်တွင် ယနေ့ထက်တိုင် တနေရာမှ တနေရာသို့ ကူးသန်းသွားလာရေး အတွက် မြင်းရထားကို အားကိုး တခု ပြုနေရဆဲ ဖြစ်ကြလေသည်။

**ရမည်းသင်းခရိုင်။** ။ရမည်းသင်း ခရိုင်သည် မန္တလေး တိုင်းတွင် တောင်ဖက်စွန်း အကျဆုံးခရိုင်ဖြစ်သည်။အကျယ် အဝန်းအားဖြင့် ၄,၂၀၁ စတုရန်းမိုင်ရှိ၍၊ ၁၉၅၈ ခုနှစ် သန် ကောင်စာရင်း အရ လူဦးရေ ၅၄၀,၄၀၉ ယောက်ရှိသည်။ ရမည်းသင်း ခရိုင်၏ အရှေ့ဖက်တွင် ရှမ်းပြည်တောင်ပိုင်း၊ တောင်ဖက်တွင် တောင်ငူ ခရိုင်၊ မြောက်ဖက်တွင် မိတ္ထီလာ ခရိုင်နှင့် အနောက်ဖက်တွင် မကွေးခရိုင်နှင့် သရက်ခရိုင်များ ရှိကြသည်။

ရမည်းသင်း ခရိုင်၏ ထူးခြားချက်မှာ မြောက်ပိုင်းနှင့် တောင်ပိုင်း ရာသီဥတုအခြေအနေ ကွဲပြားခြားနားလျက် ရှိ နေခြင်းဖြစ်သည်။ ခရိုင်ကို အရှေ့နှင့်အနောက် ဖြတ်စီးသော ဆင်သေချောင်း၏ မြောက်ဖက်ပိုင်းနှင့် တောင်ဖက်ပိုင်းတို့ သည် ချောင်းနှင့် မိုင်အနည်းငယ်မျှ ကွာဝေးရုံမျှနှင့် ရာသီ ဥတု အခြေအနေချင်း ရုတ်ခြည်းအားဖြင့် သိသိသာသာ ကွာခြားသည်ကို တွေ့ရ၏။

ဆင်သေချောင်း၏ မြောက်ဖက်ရှိ ရမည်းသင်းမြို့နယ်တွင် မိုးခေါင် ရေရှား ရပ်ဝန်း၏ ရာသီဥတုအခြေအနေမျိုး ရှိ၍ ချောင်း၏ တောင်ဖက်ရှိ ပျဉ်းမနားမြို့နယ်၌မူ မြန်မာနိုင်ငံ အောက်ပိုင်း၏ ရာသီဥတု အခြေအနေမျိုးကို တွေ့ရှိရသည်။

ရမည်းသင်း ခရိုင်ကို မြေညီပိုင်း၊ ကုန်းမြင့်ပိုင်း၊ သစ်တော

ပိုင်း ဟူ၍ သုံးပိုင်း ပိုင်းခြား နိုင်သည်။ ဆင်သေချောင်း၏ မြောက်ဖက်ရှိ ရမည်းသင်းမြို့နယ်သည် မိုးပါး၍ ခြောက်သွေ့သောနယ် ဖြစ်၏။

ဆင်သေချောင်း တောင်ဖက်ရှိ ပျဉ်းမနားမြို့နယ်မှာကား မိုးများသော အပိုင်း၌ ကျရောက် နေသဖြင့် ရမည်းသင်း မြို့နယ်ထက် ရာသီဥတု သင့်မြတ်သည် ဟု ဆိုရပေမည်။

ရမည်းသင်း ခရိုင် တခုလုံးတွင် တောင်သူလယ်သမားတို့ စိုက်ပျိုးရေးကို အောင်မြင်စွာ လုပ်ကိုင်ရန် အတွက် မိုးကို စိတ်မချရချေ။ အထူးသဖြင့် ရမည်းသင်းမြို့နယ်တွင် မိုးခေါင်မည်ကို တောင်သူလယ်သမားတို့ စိုးရိမ်ကြောင့်ကြရလေသည်။ ပျဉ်းမနားမြို့နယ် မြောက်ပိုင်းနှင့် ရမည်းသင်းမြို့နယ်တွင် ဆန်စပါး စိုက်ပျိုးရန် အတွက် မိုးရေမှာ မလုံလောက်သဖြင့် လယ်ယာများသို့ ဆည်မြောင်းများဖြင့် ရေသွင်း ဖြည့်တင်းပေးရသည်။

ရမည်းသင်းခရိုင် မြေညီပိုင်းတွင် ဆန်စပါးကို အများဆုံး စိုက်ပျိုး၍ မိုးခေါင်ရေရှား အသီးအနှံများကို ယာများ၌ စိုက်ပျိုးကြသည်။ ခရိုင်မြောက်ပိုင်း အနောက်ဖက်ရှိ ရိုးမတောင်ခြေအရပ်ဒေသများ၌ မိုးခေါင်ရေရှားရပ်ဝန်း သီးနှံပင် သက်သက်ထိုကို စိုက်ပျိုးကြသည်။ ရေရနိုင်သော ချိုင့်ဝှမ်းရပ်များ၌ကား ဆန်စပါးကို စိုက်ကြသည်။

သာဝတ္တိ၊ တပ်ကုန်းမြို့များ၏ စပ်ကြားနှင့် အထူးသဖြင့် ပျဉ်းမနားမြို့အနီးတဝိုက်တွင် ကြံပင်ကို များစွာ စိုက်ပျိုးကြသည်။ ကြံ စိုက်ခင်းများတွင် ကြံ နှင့် နှမ်းကို တလှည့်စီ စိုက်ပျိုးကြသည်။

ရမည်းသင်း ခရိုင်၊ တောင်ငူ ခရိုင်နှင့် ယော်တွင်းကြီး မြို့နယ်တို့ ပါဝင်သော စိုက်ပျိုးရေးနယ်များ အတွက် ဗဟို စိုက်ပျိုးရေး ဥယျာဉ်တခုကို ပျဉ်းမနားမြို့တွင် ဖွင့်လှစ်ထားလေသည်။ ထိုစိုက်ပျိုးရေး ဥယျာဉ်တွင် ကြံပင် စိုက်ပျိုးခြင်းကို အဓိက ထားသဖြင့် ကြံသကာချက် စက်ရုံငယ်တခုနှင့် စိုက်ပျိုးရေး သုတေသနလုပ်ငန်း ဆောင်ရွက်ရန် ဓာတ်ခွဲခန်းတခုကို တည်ဆောက်ထားသည်။ ပျဉ်းမနား စိုက်ပျိုးရေးဥယျာဉ်၏ အဓိကလုပ်ငန်း သုံးရပ်မှာ ကြံပင်နှင့် စပ်လျဉ်းသည့် လုပ်ငန်း၊ ဆန်စပါးနှင့် စပ်လျဉ်းသည့် လုပ်ငန်းနှင့် ဥယျာဉ်စိုက်ပျိုးခြင်း၊ ပြုစုခြင်း လုပ်ငန်းများ ဖြစ်သည်။ ထို့ပြင် ဤ စိုက်ပျိုးရေးဥယျာဉ်မှ မျိုးသန့် အစေ့များနှင့် စိုက်ပျိုးရေး တိုးတက်မှုအတွက် တီထွင်ထားသော ကရိယာ တန်ဆာများကို နယ်အတွင်း၌ ဖြန့်ချိ ဝေငှပေးရသည်။ ရမည်းသင်း ခရိုင် တပ်ကုန်းမြို့တွင်လည်း ကျေးလက် စံပြ စိုက်ပျိုးရေးဥယျာဉ်တခုကို ဖွင့်လှစ်ထားသည်။

ရမည်းသင်းခရိုင် သစ်တောနယ်မှာ ကျယ်ဝန်းလှသဖြင့် ဝေလိုက်ချောင်းကို နယ်ခြား သတ်မှတ်ထား၍ ချောင်း၏ မြောက်ဖက်ကို ရမည်းသင်း သစ်တောနယ်ဟူ၍၎င်း၊ တောင်



ရမည်းသင်းခရိုင်၏ အားထားရာဖြစ်သော ဆစ်ဆုံဆည်ကြီးကို တူးဖော်နေစဉ်



ရမည်းသင်းခရိုင်၏ ထင်ရှားသော ရွှေမြင်တင်တောင်ကို စေတီနှင့်တကွ ဤသို့ ရှုမြင်ရသည်။

ဖက်ကို ပျဉ်းမနား သစ်တောနယ် ဟူ၍ရှင်း သီးသန့် ခွဲခြားထားလေသည်။

သစ်တောမှ သစ်များကို ထုတ်ယူရာတွင် ဆင်များကို အသုံးများသည်။ မီးရထားလမ်းမကြီးနှင့် ဆက်သွယ် ထားသော ပါလမ်းများတလျှောက်မှ သစ်ဆွဲ မီးရထားကလေးများဖြင့်လည်း သစ်များကို ထုတ်ယူကြသည်။

ရမည်းသင်း သစ်တောနယ်တွင် ဆင်သေချောင်းအား ဖြင့်ရှင်း၊ ပျဉ်းမနား သစ်တော နယ်တွင် ရိုးပင်ချောင်း၊ ရေနီချောင်းနှင့် နန်ချို ချောင်းများအားဖြင့်ရှင်း သစ်များကို စစ်တောင်းမြစ်ထဲသို့ မျှောချကြသည်။ ခရိုင် တခုလုံး အနေနှင့် သစ်လုပ်ငန်း၊ လယ်ယာလုပ်ငန်း၊ ကုန်သန်း ရောင်းဝယ်ရေး လုပ်ငန်းတို့တွင် လယ်ယာ လုပ်ငန်းသာလျှင် ပိုမိုကြီးမား လုပ်ဆောင် ကြလေသည်။ ရမည်းသင်းခရိုင် အတွင်း ရန်ကုန်-မန္တလေး မီးရထားလမ်းနှင့် ရန်ကုန်-မန္တလေး မော်တော်ကားလမ်းတို့ ဖြတ်သန်းသွားသဖြင့် ကုန်သန်းသွားလာရေး လွယ်ကူသည်။ ထို့ပြင် တောင်ပိုင်းရှမ်းပြည် ဆင်တောင်၊ ကလောသို့ သွားရောက်နိုင်သော ခြေလျင်လမ်းများနှင့် မကွေးခရိုင်ဖက်သို့ သွားလာနိုင်သော ခြေလျင်လမ်းများလည်း ရှိသည်။

ခရိုင်အတွင်း ထင်ရှားသော စေတီ ပုထိုးများမှာ မင်းနံ့သူဘုရား၊ ရွှေပြည်သာဘုရား၊ ရွှေမုဋ္ဌောဘုရား၊ ရွှေမြင်တင် စေတီ၊ ရန်အောင်မြင်ဘုရား၊ လောကမာရဇိန်ဘုရား၊ လောကရန်ငြိမ် ဘုရား၊ ဖောင်တော်ချက်မ ဘုရား၊ ရွှေစည်းခုံ စေတီ၊ မင်းရာမစေတီ၊ မြသိန်းတန် စေတီ စသည်တို့ ဖြစ်လေသည်။

ရမည်းသင်း ခရိုင်ကို ရမည်းသင်း နယ်နှင့် ပျဉ်းမနားနယ် ဟု နယ်နှစ်နယ် ခွဲ၍ အုပ်ချုပ်သည်။ ရမည်းသင်း နယ်မှာ ရမည်းသင်း ခရိုင်၏ မြောက်ပိုင်းတွင် ဖြစ်၍ ရမည်းသင်းမြို့နယ်နှင့် ပျော်ဘွယ်မြို့နယ်တို့ ပါဝင်သည်။ ပျဉ်းမနား နယ်တွင် ပျဉ်းမနားမြို့နယ်နှင့် လယ်ဝေးမြို့နယ်တို့ ပါဝင်ကြလေသည်။

**ရမည်းသင်းမြို့။** ။ရမည်းသင်း မြို့သည် မြန်မာနိုင်ငံ အထက်ပိုင်း မန္တလေးတိုင်း ရမည်းသင်း ခရိုင်၏ ခရိုင်ဝန်ရုံးစိုက်မြို့ ဖြစ်သည်။ ရန်ကုန် - မန္တလေး မီးရထားလမ်းနှင့် မော်တော်ကား လမ်းပေါ်တွင် ရှိသည်။ ရန်ကုန်မြို့မှ ရန်ကုန် မန္တလေး မော်တော်ကားလမ်း အတိုင်း ၂၉၉ မိုင် ကွာဝေး၍ မီးရထားလမ်းအတိုင်း ၂၇၄ မိုင်ခန့် ကွာဝေးသည်။

ဇာတာတော်ပုံ ရာဇဝင်ကျမ်းအရ ပုဂံခေတ် နောက်ပိုင်း မြန်မာသက္ကရာဇ် ၆၆၅ ခုနှစ်တွင် ရမည်းသင်းမြို့ကို ဆင်ဖြူမယ် မိဖုရား တည်ထောင်ခဲ့သည် ဟု ဆိုသည်။ ထိုသို့ တည်ခဲ့ရာ၌ ကျုံးတော်ကို တူးဖော်ခဲ့ရာ စိမ့်ထွက်လာသော ရေများကို မြည်းစမ်းကြည့်သောအခါ သင့်တင့် လျောက်ပတ်သော

အရသာရှိသည်။ ရေကို မြည်းရာ၌ သင့်သည်၊ ရေမြည်းသင့်ဟူ၍ ခေါ်ရာမှ စကားရွေ့ပြီးလျှင် ရမည်းသင်း ဖြစ်လာသည်ဟု ဆိုသည်။ ထိုမှတပါး ဆင်ဖြူမယ်သည် မြို့တည်မည့်နေရာမှ တောကြီးကို ရှင်းရာတွင် နွားမည်းတသင်း ကျက်စားနေထိုင်သည်ကို တွေ့ရ၍ နွားမည်းတသင်း၊ ယင်းမှ တဆင့် နွားမည်းသင်း၊ ထိုမှတဖန် ရမည်းသင်းဖြစ်လာသည်ဟုလည်း ဆိုကြလေသည်။

ထိုနောက်တွင် ရမည်းသင်း မြို့သည် မြန်မာမင်း အဆက်ဆက် မြို့စားများ ခန့်ထား အုပ်ချုပ်စေခြင်းကို ခံခဲ့ရ၍ ရမည်းသင်းစား သီလဝကား မြန်မာရာဇဝင်တွင် ထင်ရှားသူ ဖြစ်လေသည်။ (သီလဝ၊ ရမည်းသင်းစား — လည်းရှု။)

မြန်မာနိုင်ငံ အထက်ပိုင်း အပူပိုင်း ဒေသတွင် ပါဝင်သော်လည်း နေခင်းထိုင်ခင်း အကောင်းမွန်ဆုံးမြို့ဟု အဆိုရှိသည်။ ရမည်းသင်းမြို့သည် ၁.၈၅ စတုရန်းမိုင် ကျယ်ဝန်း၏။ မြို့၏ မြေမျက်နှာ အသွင်အပြင်မှာ မိုမောက်၍ တဖက်တွင် တောင်စွယ် တောင်တန်းများ၏ အဆက် အစပ် ဖြစ်ပြီးလျှင် ပင်လယ် ရေမျက်နှာပြင် အထက် ပေ ၅၀ မြင့်သော အပိုင်းတွင် တည်ရှိသည်။

ရမည်းသင်းမြို့၏ လူဦးရေမှာ (၁၉၆၇ ခုနှစ် ခန့်မှန်းချက်) ၁၄,၅၁၈ ဖြစ်၍ ဗုဒ္ဓအယူဝါဒီ မြန်မာလူမျိုးမှာ အများစု ဖြစ်လေသည်။

ရမည်းသင်းမြို့တွင် စက်မှုလက်မှုလုပ်ငန်းများထက် လယ်ယာစိုက်ပျိုးရေး လုပ်ငန်းများကိုသာ အဓိကထား၍ လုပ်ကိုင်ခဲ့ကြသည်။ "ရေ စစ်ကိုင်း၊ လှိုင်း ပခန်းငယ်၊ လယ်တောင်တွင်း၊ စပါး ရမည်းသင်း" ဟူသော ရှေးအဆိုနှင့် အညီ မြို့နယ် ထွက်ကုန်များ အနက် စပါးသည် အထင်ရှားဆုံး ဖြစ်သည့်အပြင် ပြောင်း၊ ပဲ၊ ဝါ၊ ပြောင်း၊ နှမ်း၊ မန်ကျည်းစသည်တို့လည်း ထွက်သည်။

ရမည်းသင်းမြို့သည် ရန်ကုန် – မန္တလေး မီးရထားလမ်းနှင့် မော်တော်ကားလမ်းများ ဖြတ်သန်းရာမြို့ ဖြစ်သည့်အတိုင်း လွယ်ကူစွာ ကူးသန်းသွားလာနိုင်သဖြင့် ကူးသန်းရောင်းဝယ်ရေးတွင် မြို့နယ် ခရိုင် လူထုအတွက် အထောက်အကူဖြစ်စေသည်။ ထို့ပြင် တောင်ပိုင်းရှမ်းပြည် ဆင်တောင်၊ ကလောသို့ သွားရောက်နိုင်သော ခြေလျင် လမ်းများနှင့် မကွေးခရိုင် ဖက်သို့ သွားလာနိုင်သော ခြေလျင် လမ်းများလည်း ရှိခြင်းကြောင့် စစ်ရေးတွင် ဖြစ်စေ၊ အုပ်ချုပ်ရေးတွင် ဖြစ်စေ၊ ကူးသန်း သွားလာရေးတွင်ဖြစ်စေ အရေးပါသော မြို့တမြို့ ဖြစ်သည် ဟု ဆိုနိုင်လေသည်။

ရမည်းသင်းမြို့ စည်ပင် သာယာရေးအတွက် ရမည်းသင်း မျူနီစီပယ်က ၁၉၁၁ ခုနှစ်မှ အစပြု၍ စီမံအုပ်ချုပ်သည်။ ထိုနောက်တွင် မြို့မကောင်စီဟူ၍ ပြုပြင် ဖွဲ့စည်းကာ ဒေသန္တရအုပ်ချုပ်မှုကို ဆောင်ရွက်ခဲ့လေသည်။



ရမည်းသင်းမြို့ရှိ မင်းသမီးစေတီ

ရမည်းသင်းမြို့သည် ခရိုင် ရုံးစိုက်မြို့ဖြစ်သည့် အလျောက် နယ်ဖက် အုပ်ချုပ်ရေးအားဖြင့် ခရိုင်အမှုဆောင် ရုံးများ၊ တရားဌာနရုံးများ ရှိလျက် ဒေသန္တရ အဖွဲ့ရုံးများလည်း ရှိသဖြင့် အမှုထမ်း အရာထမ်းများလည်း မြို့ရပ်ကွက်တခု အဖြစ် နေထိုင်ကြရပေသည်။ ထိုအစိုးရရုံးများအပြင် ဆေးရုံ၊ အထက်တန်းကျောင်း၊ အလယ်တန်းကျောင်းနှင့် မူလတန်းကျောင်းများလည်း ရှိသည်။

ရမည်းသင်း မြို့တွင် မြန်မာဘုရင်များခေတ်မှ စ၍ တည်ထား ကိုးကွယ်ခဲ့ကြသော စေတီပုထိုးများနှင့် တကူ ဗြိတိသျှခေတ် ခရစ်ယန် ဘုရားရှိခိုးကျောင်း၊ မွတ်စလင်တို့၏ ပလီဝတ်ကျောင်းများလည်း ထင်ရှား ရှိပေသည်။ စေတီ ပုထိုးများမှာ ရွှေမုဋ္ဌောဘုရား၊ ရွှေပြည်သာဘုရား၊ ရန်အောင်မြင်စေတီ၊ မင်းသမီးစေတီ၊ မင်းနံ့သူဘုရား၊ ရွှေစည်းခုံ စေတီ၊ ရွှေမြင်တင်စေတီတို့ ဖြစ်၏။ မင်းနံ့သူ ဘုရားမှာ အကြောင်းကိစ္စ မှုခင်းတရပ်တွင် အမှန်တရားဖော်ထုတ်နိုင်ရန် သစ္စာပြုရာ ဘုရား ဖြစ်သည်။ ရွှေမြင်တင် စေတီမှာ ရမည်းသင်းမြို့ အရှေ့ဖက် ခြောက်မိုင်ခန့်အကွာရှိ ရွှေမြင်တင်တောင်ပေါ်၌ တည်ရှိသော တန်ခိုးကြီး စေတီတော်တဆူ ဖြစ်၍ နှစ်စဉ် တပေါင်းလတွင် ဘုရားပွဲတော် ကျင်းပသည့် အခါ ခရိုင်အတွင်းမှသာမက မိတ္ထီလာ၊ ကျောက်ဆည်၊ မြင်းခြံ၊ မကွေး ခရိုင်များရှိမြို့ကြီးများမှပင် ဘုရားဖူးများရောက်လာကြလေသည်။ ရမည်းသင်းမြို့တွင် ရှေးဟောင်း စေတီပုထိုးများသာမက ရှေး ကျောင်းကြီးများလည်း ထင်ရှားရှိသေးရာ ယင်းတို့မှာ မင်းသမီးကျောင်း၊ ရွှေကူကျောင်း၊ သိမ်ဦးကျောင်း၊ စံလွတ်ကျောင်းနှင့် ဆင်ကျုံးတောရကျောင်းတို့ ဖြစ်သည်။

ရမည်းသင်းမြို့တွင် နှစ်စဉ် တန်ဆောင်မုန်းလ၌ ကျင်းပလေ့ရှိသော ဘုံကထိန် အလှူပွဲတော်ကြီးကား အယူ ဝါဒ ရေးဆိုင်ရာ အဓိကရပွဲတော်ကြီး ဖြစ်လေသည်။

**ရဝေ ရှင်ထွေး။** ။ရဝေ ရှင်ထွေးသည် ကေတု မတီ တောင်ငူရွှေနန်းတည် မဟာဓမ္မရာဇာမင်း(သက္ကရာဇ် ၉၄၆–၉၇၁ ခုနှစ်)၏ နန်းတွင်း ကိုယ်လုပ်တော်ဖြစ်သည်။ တောင်ငူမြို့ကို အနောက်ဖက်လွန်မင်းတရားကြီး အလိုတော်ပြည့်လျှင် ရဝေရှင်ထွေးကို အင်းဝသို့ ခေါ်ဆောင်သွား၍ အင်းဝတွင် နန်းတွင်းစာဆိုအဖြစ် ခစားရသည်။ ရဝေရှင်ထွေး ဟူသော အမည်သည် အင်းဝသို့ ရောက်မှ ရသောအမည်ဖြစ်သည်။ ရဝေ=နန်း၊ ရှင်ထွေး = မထွေး၊ နန်းတွင်းသူမထွေးဟူ၏။

အချို့ကလည်း စာဆိုသူ မထွေး၏ အမည်မှန်မှာ ရေဝေ ရွာဇာတိ ဖြစ်သည်ကို အစွဲပြု၍ ရေဝေရှင်ထွေး ဖြစ်သည်ဟု ဆိုသည်။ စာဆိုတော် ဦးမင်းသည်လည်း ရေဝေရွာသားပင် ဖြစ်၏။ ရေဝေရှင်ထွေး ဟူသော အမည်သည် စလေ ဦးပုည၊ ကျည်းကန် ရှင်ကြီး၊ ဝံတောင်လယ် ဘုန်းတော်ကြီး တို့ကဲ့သို့ ဇာတိကိုလိုက်၍ တွဲခေါ် မှည့်ဆိုသော အမည်မျှဖြစ်သည်ဟုလည်း ဆိုသည်။

အနောက်ဖက်လွန် မင်းတရားကြီးသည် တောင်ငူမြို့ကို အလိုတော် ပြည့်လျှင် နတ်သျှင်နောင်ကိုပင် လက်အောက် ဘုရင်ခံအဖြစ် ထားခဲ့၍ အင်းဝသို့ ပြန်တော်မူ၏။ နတ်သျှင်နောင်လည်း အနောက်ဖက်လွန် မင်းတရားကြီးသို့ ကောင်းနိုးရာရာ လက်ဆောင်များ ဆက်သမည်ဟု ရှာဖွေရာ မင်းတရားကြီး၏ ညီတော်က သီချင်းအဲအန်များတွင် ကျွမ်းကျင်သူများကို အလိုရှိပါသည်ဆို၍ နန်းတွင်းစာဆိုတော်များထဲမှ ကြိုက်ရာကို ရွေးကောက် ခေါ် ယူသွားစေသည်တွင် ရဝေရှင်ထွေးလည်း အင်းဝသို့ ပါသွားလေသည်ဟု အချို့စာများတွင် ဆိုသည်။

ရဝေရှင်ထွေးသည် အနောက်ဖက်လွန် မင်းတရားကြီး၏ လက်ထက် (သက္ကရာဇ် ၉၆၇–၉၉၀ ပြည့်နှစ်) တွင် အန်ချင်း တပုဒ်ကို စပ်ဆိုသည်။ ထိုအန်ချင်းသည် ရှေးပုဂံမင်းတို့ လက်ထက် အသုံးပြုသော ဥသျှောင်ထုံးနည်း ၅၅ မျိုးကို ကဗျာလင်္ကာဖြင့် ဖွဲ့ဆိုခြင်းပင် ဖြစ်သည်။ (ဆံထုံး။ အန်ချင်း — လည်းရှု။) ထိုအန်ချင်းကို ကြည့်ရှုခြင်းအားဖြင့် ပုဂံခေတ်က ဆံထုံး ထုံးနည်းများကို သိရသည်။ ရှေးခေတ် ရှေးအခါက အပြု အမူများကို မေ့ပျောက်တိမ်မြုပ်၍ မသွားအောင် ယင်းကဲ့သို့ အမှတ်တရ တရှိတသေ ကဗျာလင်္ကာဖြင့် ဖွဲ့ဆိုထားခဲ့သောကြောင့် ယခုခေတ်အဖို့ များစွာ ဗဟုသုတ ဖြစ်ရလေသည်။ စာဆို ရဝေရှင်ထွေးသည် ပုဂံခေတ် ဆံထုံး ထုံးနည်းများ တိမ်ကော ပပျောက်သွားမည် စိုး၍ ကဗျာဖြင့် ဖွဲ့နွဲ့ ထားခဲ့ခြင်း ဖြစ်သည်။ ဆံထုံးနည်း ၅၅ မျိုးကို ပဒ အပို မပါရအောင် စေ့စပ်စွာ ချုံး၍ ဖွဲ့နွဲ့ စပ်ဆိုခဲ့ပေသည်။

**ရဝမ်လူမျိုး။** ။နုံလူမျိုး — ရှု

**ရသ။** ။ပျို့၊လင်္ကာ၊ ကဗျာနှင့်ဇာတ်တို့ကို အလင်္ကာနည်းများနှင့် ညီညွတ်အောင် ဖွဲ့နွဲ့ စီကုံးထားလျှင် ထိုပျို့၊ လင်္ကာ၊ ကဗျာနှင့် ဇာတ်တို့၏ သဘော အနက်ကို ဆင်ခြင်အောက်မေ့သော အခါတို့၌ နှစ်သက်အပ်သော သဘောမျိုး ဖြစ်ပေါ်လာတတ်လေသည်။ ထိုသဘောမျိုးဖြစ်ပေါ်လာခြင်းကို ရသ ဟူ၍ ခေါ်သည်။ တနည်းဆိုလျှင် ပျို့၊ ကဗျာ၊ လင်္ကာနှင့် ဇာတ်တို့ကို အလင်္ကာနည်းများနှင့် ညီညွတ်အောင် ဖွဲ့နွဲ့ စီကုံးထားလျှင် ထိုကဗျာ လင်္ကာစသည်တို့ကို ဖတ်ရှု တွေ့မြင်၊ ဆင်ခြင်အောက်မေ့ နားထောင်ကုန်သော သူတို့၏ အတွင်းစိတ်ခေတ်၌ တဖြတ်ဖြတ် ဖြစ်ပေါ်၍လာသော ပြုံးရွှင်ခြင်း၊ ရယ်မောခြင်း၊ ချစ်ကြိုက်ခြင်း၊သနားကြင်နာခြင်း၊ လွမ်းဆွတ်ခြင်း၊ ကြည်ကဲ့ခြင်း၊ အံ့သြခြင်း စသည့် အကျိုးတရားများကို ရသ ဟု ခေါ်သည်။ ကဗျာ၊ လင်္ကာ စသည်တို့၏ အရသာ ဟု ဆိုလိုလေသည်။

ကဗျာ၊ လင်္ကာ၊ သီချင်း စသည်တို့ကို ရေးသားရာ၌ (၁) ဘာဝ၊ (၂) ဝိဘာဝနှင့် (၃) အနုဘာဝ ဟူသော အချက်ကြီးသုံးချက် ပါရှိအောင် ရေးသားရလေသည်။

(၁) ဘာဝ ဆိုသည်မှာ ချစ်ခင် စုံမက်ခြင်း စသည်ဖြင့် သာယာအပ်သော စိတ်မျိုးတို့ကို ဆိုလိုသည်။

(၂) ဝိဘာဝ ဆိုသည်မှာ ဘာဝ ဖြစ်ခြင်း၌ ထင်ရှားစွာ ဖြစ်ပေါ်လာခြင်းအကြောင်းကို ဆိုလိုသည်။ ထိုဝိဘာဝ၌ အာလမ္ဗဏ – အာရုံပြုရန် အကြောင်းရင်းနှင့် ဥဒ္ဒီပန – အကြောင်းရင်း၏ အခြံအရံဖြစ်သော အကြောင်းများ ဟူ၍ နှစ်မျိုး ရှိသည်ကို သတိပြုရပေမည်။

(၃) အနုဘာဝ ဆိုသည်မှာ ဝိဘာဝကို သိစေတတ်သော ဘာဝ၏အကျိုးကို ဆိုလိုသည်။

တဖန် ဘာဝသည် မေဟာဟူသော ဆတ္တဂုဏ်၊ ရာဂ ဟူသော ရဇဂုဏ်၊ ဒေါသဟူသော ဘမဂုဏ်တို့ကို အစွဲပြု၍ ဖြစ်သဖြင့် ဘာဝကို မဖျက်ဆီးဘဲ ပကတိ သဘောအတိုင်း တည်တတ်သည်ကို ဌာယီဘာဝ ဟု ခေါ်ပြန်သည်။

ထို ဌာယီဘာဝ၌ ၁၀ မျိုးရှိရာ ယင်းတို့မှာ (၁) ရတိ–မိန်းမယောကျ်ားတို့ ချစ်ကြိုက်ခြင်း၊ (၂) ဟာသ–ပြုံးရယ်ခြင်း၊ (၃) သောက–စိုးရိမ်ကြောင့်ကြ သနား ကြင်နာခြင်း၊ (၄) ကောဓ–အမျက်ဒေါသ ကြမ်းကြုတ်ခြင်း၊ (၅) ဥဿာဟ – ရဲရင့်ခြင်း ဟူသော လုံ့လဝီရိယ၊ (၆) ဘယ–ကြောက်လန့်ခြင်း၊ (၇) ဇိဂုစ္ဆာ–စက်ဆုပ် ရွံရှာခြင်း၊ (၈) ဝိမှယ–အံ့ဩခြင်း၊ (၉) သမ–ငြိမ်သက်တည်ကြည်ခြင်းနှင့် (၁၀) ဝလစ္ဆ–တဏှာရာဂ မဟုတ်သော ချစ်ခြင်းတို့ ဖြစ်သည်။ ထိုဌာယီဘာဝ ဆယ်မျိုးကို ရသ ဆယ်မျိုးဟုလည်းခေါ်သည်။

ကဗျာ၊ လင်္ကာ၊ သီချင်း စသည်တို့ကို ရေးသားရာ၌ အလင်္ကာနည်းများနှင့် ညီညွတ်လျှင် အချို့ ပျောက်ကွယ်ခြင်း၊ အချို့ ထင်ရှားပေါ်လာခြင်းတို့ဖြင့် ဆိုခဲ့ပြီးသော ဌာယီဘာဝ ဆယ်မျိုးတို့နှင့် ဆက်ဆံသည့် အခြံအရံ အစိတ် အင်္ဂါမျိုးကို ဗျာဘိစာရီဘာဝ ဟူ၍ ခေါ်သည်။ ထိုဗျာဘိစာရီဘာဝသည် ၃၃ မျိုးရှိရာ ယင်းတို့မှာ(၁)နိဗ္ဗေဒ–ငြီးငွေ့ခြင်း၊(၂) တက္က–ကြံစည်ခြင်း၊ (၃)သင်္ကာ–ယုံမှားခြင်း၊ (၄)သမ–ပင်ပန်းခြင်း၊ (၅)ဓိတိ–ရောင့်ရဲခြင်း၊ (၆)ဇဠတာ–မှိန်းမှိုင်တွေဝေခြင်း၊ (၇) ဒိနတာ–တယောက်တည်း ဆင်းရဲရခြင်း၊ (၈) ဥဂ္ဂ–ကြမ်းကြုတ်ခြင်း၊ (၉)အလသတ္တ–ပျင်းရိခြင်း၊ (၁၀)သုတ္တ–အိပ်စက် ပျော်ခြင်း၊ (၁၁)တာသ–ထိတ်လန့်တုန်လှုပ်ခြင်း၊(၁၂)ဝိလာန–အားမရှိခြင်း၊(၁၃)ဥဿုက္က–လုံ့လထုတ်ခြင်း၊ (၁၄)ဟရိသ–ကြည်ညိုခြင်း၊(၁၅)သတိ–အောက်မေ့ခြင်း၊(၁၆) ဣဿာ–ငြူစူခြင်း၊(၁၇) ဝိသဒ–မလှုပ်ချင်အောင် နွမ်းနယ်ခြင်း၊(၁၈)အဗဟိတ္တ–ဣန္ဒြေဟန်လုပ်ခြင်း၊ (၁၉)စိန္တာ–တည်ကြည်ခြင်း၊(၂၀) ဂဗ္ဗ–မာန်မာန၊ (၂၁) အပမှာရ–တက်ချက်ခြင်း၊ ဝက်ရူးဖမ်းခြင်း၊ (၂၂)မရိသ–ဒေါသဟူသော သည်းမခံခြင်း၊ (၂၃)မဒ–စည်းစိမ်ယစ်မူး၍ မေ့လျော့ခြင်း၊ (၂၄) မတိ–ဉာဏ်ပညာဟူသော သိမြင်ခြင်း၊(၂၅)ဥမ္မာဒ–ရူးသွပ်ခြင်း၊ (၂၆)မောဟ–မိုက်မဲ တွေဝေခြင်း၊ (၂၇)ဝိဗောဓ–မအိပ်စက်နိုင်ခြင်း၊ (၂၈) နိဒ္ဒါ–အိပ်စက်ခြင်း၊ (၂၉) အာဝေဂ–စိတ်အထင်လွဲခြင်း၊ မျက်စိပြာဝေခြင်း၊(၃၀) ဗိဠ–ရှက်ခြင်း၊(၃၁) မရဏ–သေခြင်း၊(၃၂) စပလျ–လျှပ်ပေါ်လော်လည်ခြင်း၊(၃၃) ဗျာဓိ–အနာရောဂါတို့ ဖြစ်သည်။

ထိုဗျာဘိစာရီဘာဝ ၃၃ မျိုးတို့သည် အထက်တွင် ဖော်ပြပြီး ဖြစ်သည့် ဌာယီဘာဝဆယ်မျိုးတို့နှင့် ဆက်ဆံကြသည့် အခါတွင် အချို့သည် ပျောက်ကွယ်သွားပြီးလျှင်၊အချို့သည် ထင်ပေါ်လာလေသည်။ သာဓက အဖြစ် ဖော်ပြရလျှင် စုံနွံသာမှိုင် ရှာပုံကြီးတွင်–'တောသုံးထောင်၊ ဘုန်းမောင်ကြောင့် လျှောက်ခဲ့ရ၊ မြညောက်ကယ်ဒါရှ၊ တွေ့ယင်ဖြင့် ပန်းပါဘု၊ ပင်နန်းသူ'ဟု စပ်ရာတွင် မင်းသမီးသည် မင်းသားအား ချစ်ကြိုက် စွဲလမ်းခြင်း တည်းဟူသော ရတိမည်သော ဌာယီဘာဝ၌ မပင်ပန်းနိုင်ပါဘူးဟူသော သမ မည်သော ဗျာဘိစာရီ ဘာဝသည် ပျောက်ကွယ်သွားလေသည်။ အချို့ ထင်ပေါ်လာပုံ သာဓကမှာ 'တွေ့နိုင်ဘဲဟာမို့၊ လဲလုပြီ' ဆိုသည့် ဝါကျ၌ မင်းသမီးသည် မင်းသားကို ရှာရာ၌ စိုးရိမ်ကြောင့်ကြ သနားကြင်နာခြင်း တည်းဟူသော သောကဌာယီဘာဝ၌ ပင်ပန်းခြင်း သမဗျာဘိစာရီဘာဝသည် ထင်ပေါ်လာပြန်လေသည်။ ထိုပြင် ဌာယီဘာဝ၏ အကျိုးဖြစ်သော သာတွိကာဘာဝဆိုသည်မှာ ဘာဝ၏အကျိုးဖြစ်သော အနုဘာဝသဘော၏အခြေခံကိုပင် ဆိုလိုလေသည်။

သာတွိကာဘာဝ ရှစ်မျိုး ရှိရာ(၁) ထမ္ဘ–မိမိ၏ အစွမ်းဖြင့် ကိုယ်စိတ်ခိုင်ခံ့ခြင်း၊ (၂) ပလယ–ထွက်သက်မျှကြွင်းအောင် မိန်းမောခြင်း၊ (၃)ရောမဥ္စ–ကြက်သီး မွေးညှင်းထခြင်း၊(၄)သေဒ–ချွေးထွက်ခြင်း၊ (၅)အဿု–မျက်ရည်ကျခြင်း၊ (၆) ဝေပထု–ကိုယ်စိတ် တုန်လှုပ်ခြင်း၊ (၇)ဝေဝဏ္ဏ–အဆင်း ဖောက်ပြန်ခြင်းနှင့် (၈)ဝိဿရတာ–အသံပျက်ခြင်းတို့ ဖြစ်သည်။

အဆိုပါ ရှစ်မျိုးတို့ ဖြစ်ကြောင်း ဝိဘာဝနှင့် တွေ့၍ ဖြစ်ခြင်းဘာဝ ဖြစ်ပြီးလျှင် ကိုယ်အင်္ဂါအပြင်သို့ ယိုစီးထွက်ကျခြင်းသည် အနုဘာဝ မည်၏။ ထိုအနုဘာဝ၏ သာဘာဝယုတ္တိတို့မှာ မိန်းမနှင့်ယောကျ်ား နှစ်ဦးတို့ ရှင်မြူးချစ်ကြိုက်မှုကြောင့် မျက်စိနှစ်ခု ဆိုင်၍ ရွှင်လန်းကြည်လင်စွာ ကြိုက်ကြည့် ကြည့်ခြင်း၊ မျက်စ ပစ်ခြင်း၊ မျက်စောင်း ထိုးခြင်း၊ မနေနိုင် မထိုင်နိုင် အမူအရာကို ပြင်ဆင်ခြင်း၊ မေတ္တာစာပေးခြင်း၊ အောင်သွယ်ထား၍ စကားကမ်းလှမ်းခြင်း စသည်တို့ဖြင့် စိတ်ရောကိုယ်ပါ ချစ်ရခြင်းအကြောင်း၏ အကျိုးသည် အနုဘာဝဖြစ်သည်။

အထက်တွင် ဖော်ပြခဲ့သော ဌာယီဘာဝ ဆယ်မျိုးတွင် ချစ်ကြိုက်ခြင်း ဟူသော ရတိသည် လောကီသားတို့ မေ့တာ အထိုင်း တိုးဝှေတတ်သော ဦးချိုနှင့်တူသော ကိလေသာ ရှိသောကြောင့် ထိုရတိဆိုသော ဌာယီဘာဝကို 'သိင်္ဂါရ ရသ' ဟုလည်း ခေါ်သည်။

ထိုရတိမည်သော သိင်္ဂါရ ရသ၏သဘာဝနှင့်ဖြစ်ကြောင်း ဝိဘာဝတို့မှာ မွေ့လျော်ဖွယ်ရှိသော ဥယျာဉ် စသော အရပ်၊ လူလစ်ရာ၊ ဆိတ်ငြိမ်ရာ အရပ်၊ ကခြင်း၊ သီခြင်း၊ တီးမှုတ်ခြင်း၊ တပေါင်း၊ တန်ခူး စသော ဥတုနှင့် ညဥ့်အခါ ဖီးလိမ်း ဝတ်ဆင်သော ပုံပန်း ဟန်ပန်စသည်တို့ကို မှီဝခြင်းကြောင့် လူပျို အပျိုတို့ ချစ်ကြိုက်မှုမျိုးသည် သိင်္ဂါရ ရသ မည်၏။ ထိုသိင်္ဂါရ ရသမျိုးသည် —

(၁) အယောဂ — ယောကျ်ားနှင့်မိန်းမ နှစ်ဦး အချင်းချင်း မြင်ရရုံ၊ စကား ကြောင်းလမ်းရုံ၊ သတင်းကြားရုံ၊ အသံကို ကြားရုံသာ ကြားရခြင်း။

(၂) သမ္ဘောဂ — လူချင်းတွေ့၍ လက်ဆွဲခြင်း၊ ဖက်ယမ်းနမ်းရှုပ်ခြင်း စသည်ဖြင့် ကိုယ်လက် နီးနှောရခြင်းနှင့်

(၃) ဝိပ္ပယောဂ — ပေါင်းသင်းရပြီးမှဖြစ်စေ၊ မပေါင်းသင်းရသေးမီ ချစ်ကြိုက်စက ဖြစ်စေ သေကွဲ ရှင်ကွဲ နှစ်မျိုးတွင် တမျိုးမျိုးနှင့် ကွဲလွဲရခြင်း ဟူ၍ သုံးမျိုးရှိသည်။

ထိုသုံးမျိုးရှိသော်လည်း အချို့ကျမ်းများတွင် အယောဂကို သမ္ဘောဂတွင် သွင်း၍ ထိုသမ္ဘောဂနှင့် ဝိပ္ပယောဂ နှစ်မျိုးကိုသာ ပြထားလေသည်။

ထို ရသ နှစ်မျိုးတို့တွင် —

(၁) သမ္ဘောဂ၏ ဝိဘာဝမှာ — ရေတွင်း ရေကန်၊ မွေ့လျော်ဖွယ် ကောင်းသော တိုက်အိမ်၊ တော ဥယျာဉ်၊ ပန်းမာလ်နံ့သာ၊ ချစ်မှုကြိုက်မှု ဖြစ်သော ကဗျာလင်္ကာ၊ သီချင်းစာ၊ မှာတမ်း၊ မေတ္တာစာ၊ လူပျိုစကား၊ အပျိုစကား၊ ဇာတ်ရုပ်သေး၊ အနုဆေး စသည်တို့ ဖြစ်သည်။

(၂) ဝိပ္ပယောဂ၏ ဝိဘာဝမှာ — ချစ်သောသူကိုမမြင်ရခြင်း၊ မတွေ့ရခြင်း ဖြစ်သည်။

(၁) သမ္ဘောဂ၏ အနုဘာဝမှာ — မျက်စိ၏ ရွှင်လန်းကြည်လင်ခြင်း၊ မျက်စပစ်ခြင်း၊ ပြုံးရယ်ခြင်း၊ စွဲမက်စရာ မူရာလုပ်ခြင်း၊ စိတ်ကို ကြည်လင်စေတတ်ခြင်း၊ ကိုယ်ကို အမွှမ်းတင်ခြင်း၊ ချစ်ကြောင်း ကြိုက်ကြောင်းစကား ပြောခြင်းတို့ဖြစ်သည်။

(၂) ဝိပ္ပယောဂ၏အနုဘာဝမှာ — ကောင်းရာကောင်းကြောင်း ဆုတောင်းခြင်း၊ ကွဲရသောသူ၌သာ အာရုံပြုမိခြင်း၊ ကွဲရသောသူ၏ ဂုဏ်ကို ပြောခြင်း၊ နောင်တရခြင်း၊ ယောင်ယောင် ယမ်းယမ်းနှင့် မြည်တမ်းမိခြင်း၊ ရူးသွပ်ရခြင်း၊ အနာရောဂါရခြင်း၊ မှိန်းမှိုင် တွေဝေရခြင်းနှင့် သေရခြင်းတို့ ဖြစ်သည်။

မိန်းမတို့၏ မာယာမျိုးဖြင့် လင်အနီးမှာ ရှိလျက်နှင့် မိမိ ကြိုက်သည့် အခြားယောကျ်ားကို အရိပ် နိမိတ် သိအောင် ပြုလုပ်မှုမျိုးဟူသော အနုဘာဝ ၄၀ လည်း ရှိသေးသည်။ ယင်းတို့မှာ —

(၁) ကွန့်မြူးစံပယ် တင့်တယ်သော အမူအရာကို ပြခြင်း၊ (၂)ကိုယ်လက် ကျောပြင်ကို မြင်စေခြင်းငှါ ညွတ်၍ ကောက်ခြင်း၊ (၃) သွားခြင်း စသော ဣရိယာပုထ်တို့ဖြင့်၎င်း၊ ဖီးလိမ်း ပြုပြင် တန်ဆာ ဆင်ခြင်းဖြင့်၎င်း တင့်တယ်အောင်ပြုခြင်း၊ (၄) ရှက်ချင်ယောင်ဆောင်ခြင်း၊ (၅) ခြေသည်း၊ လက်သည်း တခုခုဖြင့် ခြေသည်း လက်သည်း တခုခုကို ပွတ်ခြင်း၊ တိုက်ခြင်း၊ (၆) ခြေဖဝါးဖြင့် ခြေဖဝါးကိုနင်းခြင်း၊ (၇) ထင်း၊ တုတ်စဖြင့် မြေကြီးကို ရေးခြစ်ခြင်း၊ (၈) မိမိကလေးကိုဖြစ်စေ၊ သူတပါးကလေးကို ဖြစ်စေ ချီခြင်း၊ မြှောက်ခြင်း၊ (၉) သူတပါးကို ချီစေ၊ မြှောက်စေခြင်း၊ (၁၀) သူငယ်ကို နမ်းခြင်း၊ (၁၁) သူငယ်ကိုနမ်းစေခြင်း၊ (၁၂) ကလေးကို ကစားခြင်း၊ ကလိခြင်း၊ (၁၃) ကလေးကို ကစားစေခြင်း၊ ကလိစေခြင်း၊ (၁၄) ကလေး၏ပါးနား စသည်ကို ပါးစပ်ဖြင့်စုပ်ခြင်း၊ ဖက်ယမ်းခြင်း၊ (၁၅) ကလေးကို အစုပ်ခိုင်းခြင်း၊ အဖက်ခိုင်းခြင်း၊ (၁၆) နိုင်နိုင် စသည်ဖြင့် မိမိက စား၍ပြခြင်း၊(၁၇)ကလေးကိုစားစေခြင်း၊ (၁၈) တခုခုကို ကလေးအား ပေးခြင်း၊ (၁၉) ကလေး၏လက်မှ တခုခုကို တောင်းခြင်း၊(၂၀) ကလေး၏ ပြုမူပုံကို အတုလိုက်၍ပြုခြင်း၊ (၂၁) မြှောက်ပင့်၍ ပြောခြင်း၊ ကျယ်ကျယ်ပြောခြင်း၊ (၂၂) နှိပ်ချ၍ပြောခြင်း၊ တိုးတိုး သက်သာပြောခြင်း၊ (၂၃) ကခြင်းဖြင့်၊ သီဆိုခြင်းဖြင့်၊ တီးမှုတ်ခြင်းဖြင့်၊ ငိုခြင်းဖြင့်၊ တင့်တယ်စံပယ်ခြင်းဖြင့်၊ တန်ဆာဆင်ယင်ခြင်းဖြင့်၊ မဖုံးမကွယ် တိုက်ရိုက်ပြောခြင်း၊ ရစ်သိသမို့ မရှိတရှိ ပြောခြင်း၊(၂၄)အသံကျယ်ကျယ် ပြင်းစွာရယ်ခြင်း၊ (၂၅) စေ့စေ့စပ်စပ်၊ တပ်တပ်မက်မက် တစိန်းစိန်း စိုက်၍ကြည့်ခြင်း၊ (၂၆) ခါးကိုလှုပ်စေခြင်း၊ (၂၇) လျှိုဝှက်အပ်ငြား အတွင်းသားကို ထက်ဝန်းကျင် လှုပ်စေခြင်း၊ (၂၈)ပေါင်ကိုဖွင့်၍ပြခြင်း၊(၂၉)ပေါင်ကိုဖုံးခြင်း၊ ပိတ်ခြင်း၊ (၃၀) သားမြတ်၊ သို့မဟုတ် ရင်ဦးတန်ဆာ ပန်းနှစ်မွှာကို ပြခြင်း၊ (၃၁) လက်ကတီးကိုပြခြင်း၊ (၃၂) ချက်ကိုပြခြင်း၊ (၃၃) မျက်စိကို မှိတ်၍ပြခြင်း၊ (၃၄) မျက်စ ပစ်ခြင်း၊ (၃၅) နှုတ်ခမ်းကို သွားဖြင့်ကိုက်ခြင်း၊ (၃၆) လျှာကို ထုတ်ပြခြင်း၊ (၃၇) ထဘီကို ကျွတ်ဟန်ပြခြင်း၊ (၃၈) ထဘီကို တဖန်ပြင်၍ ဝတ်ခြင်း၊ (၃၉) ဆံထုံးကို ဖြေခြင်းနှင့် (၄၀) ဆံထုံးကို ပြင်၍ ထုံးခြင်းတို့ ဖြစ်သည်။

အထက်တွင် ဖော်ပြထားသော သိစေလိုသည့် ဟိတ်၊ နိမိတ် လက္ခဏာ ၄၀ တို့ကို လောကစိန္တာ အလင်္ကာ ဆရာကြီးတို့ အလိုအားဖြင့် အနုဘာဝ ၄၀ ဟူ၍ ခေါ်ကြ

လေသည်။ သို့သော် ပိဋကတ်တော် အလိုအားဖြင့်မူ ယင်းတို့ကို မာဃာ ၄၀ ဟူ၍ ခေါ်လေသည်။

**ရသာ။** ။အရသာ — ရှု။

**ရသေ့။** ။ရသေ့ ဟူသော အမည်သည် ဣသိမှ ဖြစ်လာသော မြန်မာအမည်ဖြစ်၏။ သို့သော်လည်း တာပသ — ဇဋိလ စသော ပုဒ်များကိုလည်း ရသေ့ဟူ၍ပင် မြန်မာပြန်ဆိုကြသည်။ ထိုရသေ့ကား ပဗ္ဗဇ္ဇ လေးမျိုးတွင် တမျိုးအပါအဝင်ဖြစ်၏။ (ပဗ္ဗဇ္ဇမင်္ဂလာ — ရှု။) ထိုသို့ ဖြစ်သော်လည်း ဗုဒ္ဓသာသနာတွင်း၌ နေရောင်ထွန်းခိုက် ပိုးစုန်းကြူးအရောင် မထွန်းနိုင်သကဲ့သို့ ဂုဏ်သိမ် နိမ့်ကျလျက် တန်ခိုး အာနုဘော် နည်းပါးလှ၏။ သာသနာပ၌ကား ပဗ္ဗဇ္ဇမျိုးဝင် မြင့်မြတ်သော သူတော်စင်ဖြစ်လျက် ဂုဏ်သိမ် မြင့်မား လူအများတို့ အားထား ကိုးကွယ်ရာ ဖြစ်၏။ လူအများတို့ လိမ်မာ ရေးခြားရှိအောင် အသိဉာဏ်ကို ပေးတတ်၏။ လူအများတို့ ကုသိုလ်မျိုးစေ့ စိုက်ပျိုးကြဲချရာ လယ်တာမြေကောင်းသဖွယ်ဖြစ်၏။ အစကို မမြင်နိုင်အောင် အလွန်ရှည်ဝေးသော ကမ္ဘာအဆက်ဆက်က ဖြစ်ပေါ်လာခဲ့၏။ ယင်း ရသေ့ကား —

(၁) သပုတ္တ ဘရိယ ရသေ့ — အိမ်နေ လူဝတ်ကြောင်အလား ပစ္စည်းဥစ္စာ ရှာဖွေ စုဆောင်းလျက် သားမယား မွေးမြူသော ရသေ့။
(၂) ဥဉ္ဆာစရိယရသေ့ — ကောက်နယ်တလင်းသို့ သွားကာ အလှူခံ၍ရသော စပါး၊ ပဲ စသည်တို့ကို ထောင်းထု ချက်ပြုတ်စားသော ရသေ့။
(၃) အနဂ္ဂိ ပက္ကိကရသေ့ — ဆန်၊ ပဲ စသည်တို့ကိုအလှူခံ၍ ချက်ပြုတ်စားသော ရသေ့။
(၄) အသာမပါက ရသေ့ — ရွာ၊ နိဂုံး၊ မြို့သို့ လှည့်လည်ကာ ချက်ပြုတ်ပြီးဆွမ်းကို ခံ၍ စားသော ရသေ့။
(၅) အသ္မမုဋ္ဌိက ရသေ့ — ကျောက်ခဲ စသည်ဖြင့် သစ်ခေါက်တို့ကို ထုခွာ၍ စားသော ရသေ့။
(၆) ဒန္တဝက္ကလိက ရသေ့ — သွားတို့ဖြင့် သစ်ခေါက်တို့ကို ကိုက်ခွာ၍စားသော ရသေ့။
(၇) ပဝတ္တဖလ ဘောဇန ရသေ့ — ခဲ၊ တုတ်၊ လှန်ကန် စသည်တို့ဖြင့် သစ်သီးတို့ကို ပစ်ခတ် ဆွတ်ခူး၍ စားသော ရသေ့။
(၈) ပဏ္ဏု ပလာသိက ရသေ့—အလိုလို ကြွေကျသော သစ်သီး သစ်ပွင့် သစ်ရွက်ရော်တို့ကို ကောက်၍ စားသော ရသေ့ ဟူ၍ ရှစ်မျိုးရှိသည်။

ထို့ပြင် အဋ္ဌက ရသေ့၊ ဝါမက ရသေ့၊ ဝါမဒေဝ ရသေ့၊ အင်္ဂီရသ ရသေ့၊ ဘဂုရ ရသေ့၊ ယမဒဂ္ဂိ ရသေ့၊ ဝါသေဋ္ဌ ရသေ့၊ ဘာရဒ္ဒါဇ ရသေ့၊ ကဿပ ရသေ့၊ ဝေဿာမိတ္တ ရသေ့ စသော ရသေ့တို့သည် ဗေဒင် ကျမ်းတို့ကို ရေးသား ပြုစုခဲ့ကြ၏။ တပည့်တို့ကိုလည်း သင်ကြား ချပို့ခဲ့ကြ၏။ ဆရာအဆက်ဆက် တပည့် အဆက်ဆက်မှ ဆင်းသက်လာသော ဗေဒင်ကျမ်းတို့ကား ယနေ့တိုင်အောင် ထင်ရှား ရှိကုန်၏။ ကမ္ဘာသူ ကမ္ဘာသား လူအများတို့အား အသိအလိမ်မာ ဉာဏ်ပညာကို ပေးကုန်၏။ အတိတ်၊ အနာဂတ်၊ ပစ္စုပ္ပန် ကောင်းဆိုးနှစ်တန်ကို ဝေဖန်၍ ပြကုန်၏။

ထို့ပြင် အမတသာဂရ ရသေ့၊ မာန္ဒဗ္ဗရီ ရသေ့၊ စရက ရသေ့၊ သာရင်္ဂဓရ ရသေ့၊ မာဓဝ ရသေ့၊ ဘာဝမိဿရ ရသေ့၊ စက္ကပါဏိ ရသေ့ စသော ရသေ့တို့သည် ဆေးကျမ်းများကို ရေးသား ပြုစုခဲ့ကြ၏။ တပည့်တို့အား သင်ကြား ချပို့ခဲ့ကြ၏။ ထိုဆေးကျမ်းတို့ကား ကမ္ဘာသူ ကမ္ဘာသားတို့အတွက် အသက်ကို ပေးသော ကျမ်းများ ဖြစ်၍ အလွန်ကျေးဇူးများကုန်၏။ ကျန်းမာရေးအတွက် အားထား မှီခိုရာတို့ ဖြစ်ကုန်၏။ ယနေ့တိုင်အောင် ကုသလျက်ရှိသော ဆေးပညာအရပ်ရပ်တို့ကား ယင်း ဆေးကျမ်းများမှ ဆင်းသက်ပေါက်ဖွားလာသော ပညာများ ဖြစ်ကြ၏။

ထို့ပြင် သုမေဓာ ရသေ့၊ အကိတ္တိ ရသေ့၊ သရဘင် ရသေ့၊ သာရဒ ရသေ့ စသော ပိဋကတ်တော် ဇာတ်တော် နိပါတ်တော်လာ ဘုရားအလောင်း၊ ပစ္စေကဗုဒ္ဓါအလောင်း၊ သာဝကအလောင်း ရသေ့တို့ကား များပြားလှကုန်၏။ ဘုရားဖြစ်ရန်၊ ပစ္စေကဗုဒ္ဓါဖြစ်ရန်၊ သာဝကဖြစ်ရန် သားမယား အိုးအိမ် စည်းစိမ်ဥစ္စာ ပြည်ရွာ တိုင်းကားကို စွန့်လွှတ်ကြ၍ တောထွက်ကာ ရသေ့ပြုလျက် ပါရမီကုသိုလ်ကို ဖြည့်ကျင့်ဆည်းပူးကြ၏။ ထိုရသေ့များကို အစွဲပြု၍ တောထွက်ကာ ရသေ့ ပြုကြသော တိုင်းသူပြည်သားတို့လည်း မရေမတွက်နိုင်အောင် များလှကုန်၏။

ထိုရသေ့တို့တွင် အချို့ရသေ့တို့သည် ကံ၊ ကံ၏ အကျိုးကို ယုံကြည်သော ကမ္မဝါဒီများ ဖြစ်ကြ၏။ အချို့ရသေ့တို့လည်း မိမိ ကြိုက်နှစ်သက်ရာ အယူကို ယူဆကြ၏။ အချို့ရသေ့တို့သည် လောကီ အကျိုးကို ပြုကြ၏။ အချို့ရသေ့တို့သည် လောကီ လောကုတ္တရာ နှစ်ဖြာသော အကျိုးကို ပြုကြ၏။ အချို့ရသေ့တို့သည် ဈာန် အဘိညာဏ်ကို မရကြကုန်။ အချို့ရသေ့တို့သည် ဈာန် အဘိညာဏ်ကိုရ၍ တန်ခိုး အာနုဘော် ကြီးမားကုန်၏။ ဖြစ်ပြီးအတိတ်က ကမ္ဘာလေးဆယ်၊ ဖြစ်လတ္တံ့ အနာဂတ်က ကမ္ဘာလေးဆယ် အားဖြင့် ကမ္ဘာရှစ်ဆယ် အတွင်း အဖြစ်အပျက်ကို မြင်နိုင်ကြ၏။

ဦးကြီးပေ

**ရသေ့တောင်မြို့။** ။ရသေ့တောင်မြို့သည် စစ်တွေခရိုင်အတွင်းတွင် ပါဝင်သည်။ စစ်တွေမြို့မှ အနောက် မြောက်

ယွန်းယွန်း ၃၇ မိုင် ကွာတွင် ရှိ၍ ရသေ့တောင်မြို့နယ် ရုံး စိုက်မြို့ဖြစ်၏။ ရသေ့တောင် မြို့နယ်တွင် သူကြီးပိုင် နယ် ပေါင်း ၇၄ နယ် ပါဝင်၍၊ ၇၁၉ စတုရန်းမိုင်ကျယ်ဝန်းသည်။ ၁၉၆၁ ခုနှစ် မေလ ၃၀ ရက်နေ့တွင် စတင်၍ မေယုနယ်ခြား ခရိုင် အုပ်ချုပ်ရေးကို အကောင်အထည် ဖော်ခဲ့ရာ၊ ရသေ့ တောင် မြို့နယ် အနောက်မြောက်ပိုင်းကိုလည်း မေယုနယ် ခြားခရိုင်အတွင်း သွတ်သွင်းခဲ့သည်။ ရသေ့တောင်မြို့သည် မယူမြစ်ဝမှအထက် ၁၀ မိုင်ကွာ လက်ဝဲဖက်ကမ်း၌ တည်ရှိ ၍ စစ်တွေမြို့မှ ရေလမ်းခရီး အဆက်အသွယ် ကောင်းမွန် သည်။ မြို့၏ ကျောထောက်နောက်ခံနယ်ဖြစ်သော မယူမြစ် ကမ်း တဖက်တချက်တွင် ဆန်စပါး စိုက်ပျိုး လုပ်ကိုင် ကြသည်။ လူဦးရေ ၂,၉၇၃ ယောက် (၁၉၅၃) ရှိသည်။

**ရဟတ်ပံ့။** ။ဟယ်လီကော့ပတာ — ရှု။

**ရဟန်း။** ။ရဟန်းဟူသော အမည်သည် အရဟန္တ ပါဠိ မှ ဖြစ်လာသော ရဟန္တာကို အတိုချုပ်ခေါ်သော အမည် ဖြစ်ဟန်တူသည်။ သို့ရာတွင် ဘိက္ခု၊ သမဏ၊ ပဗ္ဗဇိတ စ သော ပါဠိတို့ကို ပြန်ဆိုထားသော မြန်မာအမည်လည်း ဖြစ်၏။ အသုံးအစွဲလည်း များလှသည်။ ပဗ္ဗဇ္ဇ လေးမျိုးမှ လာသော အလုံးစုံသော ရဟန်းနှင့် ဥပသမ္ပဒါ ရှစ်မျိုးမှ လာသော အလုံးစုံသောရဟန်းကို ရသည်။ (ပဗ္ဗဇ္ဇမင်္ဂလာ — ရှု။)ဗုဒ္ဓသာသနာတွင်း ရဟန်းနှင့် သာသနာပ ရဟန်း နှစ်မျိုးလုံးနှင့်လည်း ဆက်ဆံသည်။ ထိုသို့ ဆက်ဆံသော် လည်း ပဗ္ဗဇ္ဇ လေးမျိုးမှ လာသော ရဟန်းတို့တွင် ဘိက္ခု ပဗ္ဗဇ္ဇမှ လာသော ရဟန်းနှင့် သာမဏေရ ပဗ္ဗဇ္ဇမှ လာသော ရဟန်းကား ဗုဒ္ဓသာသနာတွင်း ရဟန်းသာ ဖြစ်သည်။ တာပသပဗ္ဗဇ္ဇမှ လာသော ရဟန်းနှင့် ပရိဗ္ဗာဇက ပဗ္ဗဇ္ဇမှ လာ သော ရဟန်းကား ဗုဒ္ဓသာသနာတွင်းနှင့် သာသနာပ နှစ် မျိုးလုံးရဟန်း ဖြစ်သည်။ ဥပသမ္ပဒါ ရှစ်မျိုးမှ လာသော ရဟန်းကား ဗုဒ္ဓသာသနာတွင်း ရဟန်းသာ ဖြစ်သည်။

ယင်းဥပသမ္ပဒါရှစ်မျိုးကား အောက်ပါအတိုင်းဖြစ်သည်။

(၁) ဧဟိဘိက္ခုပသမ္ပဒါ — မြတ်စွာဘုရားက ရဟန်း လောင်းအား ရဟန်း လာလှည့်၊ ဝဋ်ဆင်းရဲ အဆုံး ကို ပြုခြင်းငှါ မြတ်သော အကျင့်ကို ကောင်းစွာ ကျင့်လှည့် ဟု ခေါ်တော်မူသော စကားမျှဖြင့် ဖြစ် သော ရဟန်း၊ (ဧဟိဘိက္ခုရဟန်းများ)၊ (ဧဟိ ဘိက္ခု — ရှု။)

(၂) သရဏဂမနူပသမ္ပဒါ—ဗုဒ္ဓံသရဏံ ဂစ္ဆာမိ စသော သရဏဂုံ သုံးပါးကို ခံယူဆောက်တည်ကာမျှဖြင့် ဖြစ်သောရဟန်း၊ (ဉာတ်ကမ္မဝါ မပေါ်မီက ခွင့် ပြုသော ရဟန်းများ)၊ (သရဏဂုံ — ရှု။)

(၃) ဩဝါဒ ပဋိဂ္ဂဟဏူပသမ္ပဒါ — မြတ်စွာဘုရားက ဤ ပုံ ဤနည်း ကျင့်ရမည်ဟု ပေးထားသော အဆုံး အမ ဩဝါဒကို လိုက်နာ ခံယူကာမျှဖြင့် ဖြစ်သော ရဟန်း၊ (အရှင် မဟာကဿပ)

(၄) ပဉှာဗျာကရဏူပသမ္ပဒါ — မြတ်စွာဘုရား၏ အ မေးတော်ကို ဖြေဆိုကာမျှဖြင့်ဖြစ်သော ရဟန်း၊ (ရှင် သောပါက)

(၅) ဂရုဓမ္မ ပဋိဂ္ဂဟဏူပသမ္ပဒါ — ဂရုဓံတရားရှစ်ပါးကို တသက်လုံး ကောင်းစွာ ကျင့်ပါမည် ဟု ဝန်ခံကာ မျှဖြင့် ဖြစ်သောရဟန်း၊ (မိထွေးတော် ဂေါတမီ) (ဂရုဓံတရားရှစ်ပါးကား (၁)ရဟန်းဝါတော် တရာ ရရှိပြီးသော ရဟန်းမိန်းမသည် ယနေ့ ဖြစ်သစ်စ ရဟန်းယောကျ်ားငယ်အား ရှိခိုးခြင်း၊ ခရီးဦး ကြိုဆိုခြင်း၊ လက်အုပ်ချီခြင်း အမှုကို ပြုရခြင်း၊ (၂) ရဟန်းမိန်းမသည် ရဟန်းယောကျ်ားနှင့် ကင်းကွာသောကျောင်း၌ ဝါမဆို ဝါမကပ်ရခြင်း၊ (၃) ရဟန်းမိန်းမသည် လခွဲတိုင်း လပြည့်လကွယ် အဖိတ်နေ့၌ ရဟန်းယောကျ်ားများထံသွား၍ ဤ ဥပုသ်သည် တဆဲ့လေးရက် ဥပုသ်လော၊ တဆဲ့ ငါးရက် ဥပုသ်လော ဟု ဥပုသ်ကို မေးမြန်းရခြင်း နှင့် ဥပုသ်နေ့ ဥပုသ်မပြုမီ ရဟန်းမိန်းမ တဦးကို ရဟန်းယောကျ်ားများထံ စေလွှတ်၍ ရဟန်း မိန်းမများ ဩဝါဒ ခံယူရန် တောင်းပန်ရခြင်း၊ (၄) ရဟန်းမိန်းမသည် ဝါကျွတ်သောအခါ ရဟန်း မိန်းမ သံဃာနှင့် ရဟန်းယောကျ်ားသံဃာ နှစ်ပါး စုံ၌ ပဝါရဏာပြုရခြင်း၊ (၅) သံဃာဒိသေသ် အာ ပတ်သင့်သော ရဟန်းမိန်းမသည် ရဟန်းမိန်းမ သံဃာနှင့် ရဟန်းယောကျ်ားသံဃာ နှစ်ပါးစုံ၌ လခွဲပတ်လုံး မာနတ် ကျင့်ရခြင်း၊ (၆) ရဟန်း မိန်းမလောင်း သေက္ခမာန်မသည် နှစ်နှစ်ပတ်လုံး ကျင့်ဝတ်တရား ခြောက်ပါးကို ကျင့်ပြီးမှ ရဟန်း မိန်းမသံဃာနှင့် ရဟန်းယောကျ်ားသံဃာ နှစ် ပါးစုံ၌ ရဟန်းခံရခြင်း၊ (၇) ရဟန်းမိန်းမသည် မည်သည့် ပရိယာယ် တစုံတခုမျှဖြင့် ရဟန်း ယောကျ်ားကို မဆဲရေးရ၊ မရေရွတ်ရ၊ (၈) ရဟန်း မိန်းမသည်ရဟန်းယောကျ်ားအား မဆုံးမရ၊ရဟန်း ယောကျ်ား၏ အဆုံးအမကိုသာ လိုက်နာရမည်။)

(၆) ဒူတေနူပသမ္ပဒါ.... တမန်စေလွှတ်ကာမျှဖြင့် ဖြစ် သော ရဟန်း၊ (ပြည့်တန်ဆာမ—အဍ္ဍကာသိကာ)

(၇) အဋ္ဌဝါစိကူပသမ္ပဒါ.... ရဟန်းမိန်းမသံဃာ၌ ဉာတ် တကြိမ် ကမ္မဝါ သုံးကြိမ်အားဖြင့် လေးကြိမ်၊ ရ ဟန်းယောကျ်ား သံဃာ၌ ဉာတ်တကြိမ်၊ ကမ္မဝါ

သုံးကြိမ်အားဖြင့် လေးကြိမ်၊ ဤသို့ ဉာတ်-ကမ္မဝါ ရှစ်ကြိမ် ရွတ်ဖတ်ခြင်းဖြင့် ဖြစ်သော ရဟန်း၊ (ရဟန်း မိန်းမများ)

(၈) ဉတ္တိ စတုတ္ထ ကမ္မူပ သမ္ပဒါ.... ရဟန်းယောကျ်ား သံဃာ၌ ဉာတ်တကြိမ်၊ ကမ္မဝါ သုံးကြိမ်အားဖြင့် လေးကြိမ် ရွတ်ဖတ်ခြင်းဖြင့် ဖြစ်သော ရဟန်း (ရဟန်း ယောကျ်ားများ)

ထိုဥပသမ္ပဒါ ရှစ်မျိုးတို့တွင် ဧဟိဘိက္ခူပသမ္ပဒါ၊ သရဏ ဂမဏူပ သမ္ပဒါ၊ ဩဝါဒ ပဋိဂ္ဂဟဏူပ သမ္ပဒါ၊ ပဉှာဗျာကရဏူပ သမ္ပဒါ၊ ဉတ္တိစတုတ္ထ ကမ္မူပ သမ္ပဒါ၊ဤငါးမျိုးကား ရဟန်းယောကျ်ားများနှင့်သာ သက်ဆိုင်သည်။ ဂရုဓမ္မ ပဋိဂ္ဂဟဏူပ သမ္ပဒါ၊ ဒူတေနူပ သမ္ပဒါ၊ အဋ္ဌဝါစိကူပ သမ္ပဒါ၊ ဤသုံးမျိုးကား ရဟန်းမိန်းမများနှင့်သာ သက်ဆိုင်သည်။ အထူးအားဖြင့် ရဟန်းယောကျ်ားများနှင့် သက်ဆိုင်သော ဥပသမ္ပဒါ ငါးမျိုးတွင်လည်း ရှေ့လေးမျိုးကား မြတ်စွာဘုရား လက်ထက်တော်၌သာ ဖြစ်သောကြောင့်၎င်း၊ ရဟန်းမိန်းမများနှင့် သက်ဆိုင်သော ဥပသမ္ပဒါ သုံးမျိုးသည်လည်း ယခုအခါ ရဟန်းမိန်းမများ မရှိသောကြောင့်၎င်း ရဟန်းယောကျ်ားများနှင့် သက်ဆိုင်သော ပဉ္စမမြောက် ဉတ္တိစတုတ္ထကမ္မူပသမ္ပဒါဖြင့် ဖြစ်သော ရဟန်းများသာ ကျန်ရှိတော့သည်။ သို့အတွက် ယခုအခါ ရဟန်းခံကြသည်ကား ဉတ္တိ စတုတ္ထ ကမ္မူပ သမ္ပဒါဖြင့်သာ ရဟန်းခံကြရသည်။

ရဟန်းခံ ဆိုသည်မှာလည်း သိမ်တွင်း၌ ငါးပါး၊ ငါးပါးထက် လွန်သော သံဃာ စည်းဝေး၍ ရဟန်းလောင်းအား မြတ်စွာဘုရား ခွင့်ပြု ပညတ်ထားသော သိက္ခာပုဒ်တို့ကို စောင့်ရှောက် ထိန်းသိမ်းရန် တာဝန်ပေးအပ်ကာ သံဃာဘောင်သို့ သွင်းခြင်းကို ဉာတ်ကမ္မဝါ ရွတ်ဖတ်၍ သံဃာအား သဘောတူ၊ မတူ ပန်ကြားလျှောက်ထားရာ၊ ကန့်ကွက်သူ ရှိလျှင် ကံပျက်၍ ရဟန်းမဖြစ်ဘဲ၊ ကန့်ကွက်သူမရှိလျှင် သဘောတူ သံဃဆန္ဒဖြင့် ရဟန်း အဖြစ်သို့ ရောက်သည်။ ရဟန်းခံခြင်း၏ အဓိက ရည်ရွယ်ချက်မှာလည်း ဝဋ်ဆင်းရဲကုန်ဆုံးရာ အရဟတ္တဖိုလ် နိဗ္ဗာန်သို့ ဆိုက်ရောက်ရန် ဖြစ်လေသည်။

သံဃာက ရဟန်းခံပေးရာ၌လည်း လူမြင်တိုင်း ရဟန်းခံပေးရသည်မဟုတ်။ အပြစ်ဒေါသ လွတ်ကင်း စင်ကြယ်၍ အသက် နှစ်ဆယ်ပြည့်သော သူကိုသာ ရဟန်းခံပေးရသည်။ (၁) ပဏ္ဍက—ပဏ္ဍုက်၊ ဖိုမ လိင်အင်္ဂါ ထင်ရှားမရှိသောသူ၊ (၂) ထေယျသံဝါသက—ကိုယ်တိုင် သင်္ကန်းဝတ်၍ ရဟန်းအသွင်ကို ခိုးယူသောသူနှင့် ရဟန်းစစ် မဟုတ်ဘဲလျက် ရဟန်းစစ်ယောင် ဆောင်ကာ ရဟန်းစစ်တို့နှင့် ပေါင်းသင်းနေထိုင်သောသူ၊ (၃) တိတ္ထိယပက္ကန္တက—ရဟန်းစစ်ဖြစ်လျက် ရဟန်းဘောင်မှ စွန့်ခွာ၍ တိတ္ထိဘောင်သို့ ဝင်ကာ ရဟန်းခံသောသူ၊ (၄) တိရစ္ဆာန—ဗြဟ္မာ၊ နတ်၊ ဂဠုန်၊ နဂါး စသော တိရစ္ဆာန်၊ (၅) မာတုဃာတက—အမိရင်းကို သတ်သောသူ၊ (၆) ပိတုဃာတက—အဖရင်းကို သတ်သောသူ၊ (၇) အရဟန္တဃာတက—ရဟန္တာကို သတ်သောသူ၊ (၈) လောဟိတုပ္ပါဒက—မြတ်စွာဘုရားအား သွေးစိမ်းတည်အောင်၊ သွေးခြည်အုအောင် ပြုသောသူ၊ (၉) သံဃဘေဒက—သံဃာကို ဝိနည်းကံဖြင့် ဂိုဏ်းခွဲသောသူ၊ (၁၀) ဘိက္ခုနိဒူသက—ရဟန်းမိန်းမကို ပေါင်းဖော်ဖျက်ဆီးသောသူ၊ (၁၁) ဥဘတောဗျဉ္ဇနက—ဖိုမ လိင်အင်္ဂါ နှစ်မျိုးပါရှိသောသူ၊ ဤသူ တကျိပ်တယောက်တို့ကား အပြစ် မလွတ်ကင်း၊ မစင်ကြယ်သော အဘဗ္ဗပုဂ္ဂိုလ်များ ဖြစ်၍ ရဟန်း မခံထိုက်၊ ရဟန်း ခံမပေးရ။ သံဃာက မသိ၍၎င်း၊ သိလျက်နှင့်၎င်း ရဟန်းခံပေးသော်လည်း ရဟန်းမဖြစ်။

အပြစ်ဒေါသ လွတ်ကင်း၍ စင်ကြယ်သော ပုဂ္ဂိုလ်ပင် ဖြစ်သော်လည်း ရဟန်းခံရာ၌ (၁) ဝတ္ထုသမ္ပတ္တိ—အဘဗ္ဗပုဂ္ဂိုလ် တကျိပ်တယောက်မှ လွတ်ကင်း၍ အသက် နှစ်ဆယ်ပြည့်သဖြင့် ရဟန်းလောင်း၏ ပြည့်စုံခြင်း၊ (၂) သီမသမ္ပတ္တိ—သိမ်၏ ပြည့်စုံခြင်း၊ (၃) ဉတ္တိသမ္ပတ္တိ—ဉာတ်၏ ပြည့်စုံခြင်း၊ (၄) အနုသာဝန သမ္ပတ္တိ—ကမ္မဝါ၏ ပြည့်စုံခြင်း၊ (၅) ပရိသ သမ္ပတ္တိ—ရဟန်းစစ် ငါးပါး၊ငါးပါးထက် အလွန်ရှိသဖြင့် ပရိသတ်၏ ပြည့်စုံခြင်း ဟူ၍ အင်္ဂါငါးပါး ရှိသည်။ ထိုအင်္ဂါ ငါးပါးနှင့်ပြည့်စုံမှ ရဟန်းဖြစ်သည်။ ထိုအင်္ဂါငါးပါးနှင့် ပြည့်စုံခြင်းကို အကြောင်းပြု၍ ရဟန်းကိုပင် ပဉ္စင်း ဟု ခေါ် ဆိုကြပြန်သည်။ရဟန်းဖြစ်ကြရာ၌ ကောဏ္ဍည ထေရ်သည် ဤဘုရားသာသနာ၌ အစအဦးဆုံး ရဟန်းဖြစ်သော ပုဂ္ဂိုလ်တည်း။

ရဟန်းများမှာ (၁) ကျောင်း၊ (၂) သင်္ကန်း၊ (၃) ဆွမ်း၊ (၄) ဆေး ဟူ၍ မှီရာပစ္စည်း လေးပါးရှိသည်။ ထိုပစ္စည်းလေးပါးကို မှီ၍ သာသနာ၌ ရှည်မြင့်စွာ တရားအားထုတ်နိုင်သည်။ ထို့ပြင် (၁) ခါးဝတ် သင်းပိုင် သင်္ကန်း၊ (၂) ကိုယ်ဝတ် ဧကသီ သင်္ကန်း၊ (၃)နှစ်ထပ် ဒုကုဋ်သင်္ကန်းကြီး၊ (၄) သပိတ်၊ (၅) ပဲခွပ်၊ သို့မဟုတ် သင်ဓုန်းထား၊ (၆) အပ်၊ (၇) ခါးပန်းကြိုး၊ (၈) ရေစစ်-ဓမကရိုဏ် ဟူ၍ ပရိက္ခရာ ရှစ်ပါး ရှိသည်။ (ပရိက္ခရာ — ရှု။)

ထိုပရိက္ခရာ ရှစ်ပါးကို သုံးဆောင်ကာ နေထိုင်ရသည်။ ထို့ပြင် (၁)ရဟန်းယောကျ်ား၊ (၂)ရဟန်းမိန်းမ၊ (၃)သာမဏေယောကျ်ား၊ (၄) သာမဏေမိန်းမ၊ (၅) ရဟန်းမိန်းမလောင်း သေက္ခမာန်မ ဟူ၍ သီတင်းသုံးဖော် ငါးဦးရှိသည်။ ထိုသီတင်းသုံးဖော် ငါးဦးတို့ တဦးကို တဦး အမှီပြုကာ နေထိုင်ရသည်။ ယခုအခါ ရဟန်းယောကျ်ားနှင့် သာမဏေယောကျ်ား နှစ်ဦးသာ ရှိတော့သည်။

ထို့ပြင် ရဟန်းများ၏ ကျင့်ဝတ် သိက္ခာပုဒ်မှာလည်း

အကျဉ်းချုပ်အားဖြင့် ရဟန်းယောကျ်ားများအတွက် နှစ်ရာ့နှစ်ဆယ် ခုနစ်ပါး၊ ရဟန်း မိန်းမများအတွက် သုံးရာတဆဲ့တပါး၊ အကျယ်အားဖြင့် "နေ-နုတ်-ဦး-တိုင်-ဂ-နိုင်-မိုး-နံ-ဟုန်-ယ-ဉ်-ဈာန်၊ မှတ်ရန် သိက္ခာ ဂဏန်းတည်း။" ဟု ရှေးဆရာကြီးများ စပ်ဆိုထားသည့် ပဋိလောမအားဖြင့် ကောက်ယူရသော ပိဋကတ် သင်္ချာ လင်္ကာအရ ကုဋေ ကိုးထောင်- တရာ- ရှစ်ဆယ်- ငါးသန်း- သုံးသောင်း- ခြောက်ထောင် အရေအတွက် ရှိသည်။ ထိုသိက္ခာပုဒ်များကို စောင့်ရှောက် ထိန်းသိမ်း၍ နေရသည်။

ထိုပြင် ရဟန်းများမှာ (၁) ဂန္ထ ဓုရ – ဘုရားဟော ပိဋကတ်ကျမ်းဂန်တို့ကို သင်အံ ပို့ချ ကြည့်ရှု မှတ်သား ဆောင်ရွက်ခြင်း၊ (၂) ဝိပဿနာဓုရ – သမထဘာဝနာ၊ ဝိပဿနာ ဘာဝနာကို အားထုတ် ကြိုးစား ပွားများခြင်း ဟူ၍ အမြဲမပြတ် လုပ်အပ်သော လုပ်ငန်း နှစ်မျိုးသာ ရှိသည်။ ထိုနှစ်မျိုးသော လုပ်ငန်းမှ အလွတ်ဖြစ်သော လုပ်ငန်းများကား ရဟန်းများနှင့် မသက်ဆိုင်။ သာသနာပြင်ပ ဗာဟိရ လုပ်ငန်းများသာ ဖြစ်သည်။

ထိုပြင် ကမ္ဘာလောကကြီး တခုလုံး၌ အရောင်အဝါကို ပေးတတ်သော နေ၊ လ တို့သည် (၁) မိုးတိမ်၊ (၂) ဆီးနှင်း၊ (၃) မီးခိုးနှင့် မြူ၊ (၄) ရာဟု ဤ အညစ်အကြေး လေးပါး တို့နှင့် တွေ့ကြုံသောအခါ အရောင်အဝါ မထွန်းလင်းနိုင်ကုန်၊ မတောက်ပနိုင်ကုန်၊ မတင့်တယ်နိုင်ကုန် သကဲ့သို့၊ ထိုအတူ ရဟန်း ပုဏ္ဏားတို့သည်လည်း (၁) သေအရက်သောက်ခြင်း၊ (၂) မေထုန်မှီဝဲခြင်း၊ (၃) ရွှေငွေကို သာယာကိုင်ခံခြင်း၊ (၄) မှားယွင်းစွာ အသက်မွေးမှုခြင်း ဤအညစ်အကြေး လေးပါးတို့နှင့် တွေ့ကြုံသောအခါ သီလရောင်၊ သမာဓိ ရောင်၊ ပညာရောင် တည်းဟူသော အရောင်အဝါတို့သည် မထွန်းလင်းနိုင်ကုန်။ မတောက်ပနိုင်ကုန်။ မတင့်တယ်နိုင်ကုန်။ ထို့ကြောင့် ရဟန်း ပုဏ္ဏားတို့သည် ယင်းအညစ်အကြေး လေးပါးတို့နှင့် ကင်းလွတ်အောင် စောင့်ရှောက် နေထိုင်ကြရသည်။

ဦးကြီးဖေ

**ရဟန္တာ။** ။အရိယာ ရှစ်ပါး — ရှု။

**ရာဇဌာန်ပြည်နယ်။** ။အိန္ဒိယနိုင်ငံ အနောက်မြောက်ပိုင်းတွင် ရာဇပုတ္တာနနယ် ဟူ၍ ယခင်က ရှိခဲ့သည်။ ၁၉၄၇ ခုနှစ်တွင် အိန္ဒိယနိုင်ငံနှင့် ပါကစ္စတန်နိုင်ငံ ဟူ၍ သီးခြားနိုင်ငံနှစ်ခု တည်ထောင်ပြီးသည့်နောက် ရာဇပုတ္တာန နယ်ရှိ အိန္ဒိယ စော်ဘွားနယ် ၁၉ နယ်နှင့် အကြီးအကဲ အုပ်ချုပ်သော နယ်သုံးနယ်တို့သည် ၁၉၄၉ ခုနှစ် မတ်လ ၃၀ ရက်နေ့၌ စုပေါင်း၍ ရာဇဌာန်ပြည်နယ်အဖြစ် ဖွဲ့စည်းခဲ့လေသည်။ ထိုပြည်နယ်၏ အကျယ်အဝန်းမှာ ၁၃၂,၁၅၂ စတုရန်း မိုင် ရှိ၍ လူဦးရေ ၂၀,၁၅၅,၆၀၂ ယောက် (၁၉၆၁) ရှိသည်။ မြို့တော်မှာ ဂျိုင်ပူမြို့ ဖြစ်သည်။

ရာဇဌာန် ပြည်နယ် အတွင်းတွင် အိန္ဒိယနိုင်ငံ သမတက မဟာမင်းကြီးမှတဆင့် တိုက်ရိုက် အုပ်ချုပ်သော အပ်ဂျမီ အာနယ် ဟူ၍ သီးခြားနယ် ရှိသည်။

ရာဇဌာန် ပြည်နယ်သားတို့သည် များသောအားဖြင့် ဗြာဟ္မဏ အယူဝါဒကို သက်ဝင် ယုံကြည်သူများဖြစ်၍ ဟိန္ဒီ ဘာသာစကားကို ပြောဆိုကြသည်။ ရှေးအခါကတည်းက စစ်သူရဲကောင်းများ ပေါ်ထွက်ရာဒေသအဖြစ် နာမည် ထင်ရှားခဲ့သည်။

အာရဝေလ္လိ တောင်တန်းသည် ပြည်နယ်ကို အရှေ့မြောက်မှ အနောက်တောင်သို့ ဖြတ်သန်းလျက် တည်ရှိသည်။ တောင်တန်း အနောက်မြောက်ဖက်ပိုင်းသည် အရှေ့တောင် ဖက်ပိုင်းထက် ပို၍ ကျယ်ဝန်းသော်လည်း သားသဲကန္တာရ အစပ်ဖြစ်သောကြောင့် ခြောက်သွေ့သည်။ နေထိုင်သူများ သည်လည်း နွားကျောင်း၊ သိုးကျောင်း၊ ကုလားအုပ်ကျောင်း အလုပ်ဖြင့် ရေကြည်ရာ မြက်နုရာသို့ အစဉ် ရွှေ့ပြောင်း နေထိုင်သူများ ဖြစ်သည်။ အရှေ့တောင်ဖက်ပိုင်း၌မူကား လူများသည် နှံစားပြောင်း၊ ဂျုံ၊ မုယော၊ ဝါ၊ ဆေး ဘိုကို စိုက်ပျိုးလုပ်ကိုင်၍ အိုးအိမ် အတည်တကျဖြင့် နေထိုင်သည်။ ထိုအပိုင်းတွင် ချမ်းဗောမြစ်နှင့် ယင်း၏ မြစ်လက်တက်များမှ ရေ ရလေသည်။

**ရာဇဝင်။** ။နိုင်ငံသမိုင်း — ရှု။

**ရာဇဝတ်မှု။** ။ရာဇဝတ်မှု ဆိုသည်မှာ နိုင်ငံတခုခုတွင် ပြဋ္ဌာန်းထားသော တရားဥပဒေနှင့် ဆန့်ကျင်သော အမှုကို ကျူးလွန်ခြင်းဖြစ်၍၊ ထိုကဲ့သို့ ကျူးလွန်သူသည် တရား ဥပဒေအရ အပြစ်ဒဏ် စီရင်ခြင်းကို ခံရသည်။ အိမ်ကို ဖောက်ထွင်း၍ ပစ္စည်းခိုးယူခြင်း၊ တစုံတယောက်ထံမှပစ္စည်း ကို လုယူခြင်း၊ လက်မှတ်လိမ်ဖြင့် ငွေထုတ်ယူခြင်း၊ သူတပါး ပိုင် ငွေကို အလွဲသုံးစားပြုခြင်း၊ လူကိုဖြစ်စေ၊ တိရစ္ဆာန်ကို ဖြစ်စေ ညှဉ်းဆဲခြင်း အစရှိသော ကျူးလွန်မှုတို့သည် ရာဇဝတ်မှုများ ဖြစ်ကြသည်။ လူသတ်မှု၊ နိုင်ငံကို သစ္စာ ဖောက်မှု စသည်တို့သည် အလွန်ကြီးလေးသော ရာဇဝတ်မှုများ ဖြစ်ကြသည်။ ထိုကဲ့သို့ ကြီးလေးသော ရာဇဝတ်မှု မျိုးကို သေဒဏ် စီရင်နိုင်သည်။ သို့ရာတွင် နိုင်ငံတခု၌ ရာဇဝတ်မှု ဟူ၍ ယူဆသော အမှုတစုံတခုသည် အခြားနိုင်ငံ တခုတွင် ရာဇဝတ်မှု ဖြစ်ကောင်းမှ ဖြစ်မည်။ ထို့နည်းတူ နိုင်ငံတခုတွင် ထောင်ဒဏ် အပြစ်ပေးနိုင်သော ရာဇဝတ်မှု တခုသည်လည်း အခြားနိုင်ငံတခုတွင် သေဒဏ်အထိ အပြစ်ပေးနိုင်သော ပြစ်မှု ဖြစ်နိုင်လေသည်။

တနည်းအားဖြင့် ဆိုရသော် တစုံတယောက်သော သူသည် အကျိုးတူ လူစုအတွက် အန္တရာယ် ဖြစ်စေမည့် ကျူးလွန်မှုသည် ရာဇဝတ်မှုပင် ဖြစ်သည်။ လူအချင်းချင်းနှင့်သာ ဆိုင်သော အမှုကိုမူ တရားမမှု ဟု ခေါ်သည်။ ပမာအားဖြင့် ကြွေးမြီကိစ္စ၊ အမွေကိစ္စတို့သည် တရားမမှုများဖြစ်၍ တရားရုံး အနေဖြင့် နှစ်ဦးနှစ်ဖက်ကြားတွင် တရားဥပဒေအရ ဖြေရှင်းပေးခြင်း ဖြစ်လေသည်။

အလွန် ရှေးကျသော ခေတ်က ရာဇဝတ်မှု အားလုံးတို့သည် သက်ဆိုင်သူ အချင်းချင်းနှင့်သာ ဆိုင်သော ကိစ္စဟူ၍ ယူဆခဲ့ကြသည်။ ထိုယူဆချက်အရ လူသတ်မှုကိုပင်လျှင် လူသတ်သမားနှင့် အသတ်ခံရသူဖက်မှ ဆွေမျိုးသားချင်းတို့၏ သီးသန့် ကိစ္စတရပ်ဟု အမှတ်ပြုခဲ့သည်။ အသတ်ခံရသူဖက်မှ ဆွေမျိုးသားချင်းတို့သည် မိမိတို့ သဘောအလျောက် လက်စားချေလိုက လက်စားချေနိုင်သည်။ လျော်ကြေးလက်ခံ၍ ကျေအေးလိုကလည်း ကျေအေးနိုင်သည်။ ထိုနောက် ရာဇဝတ်မှု ဆိုသည်မှာ လူလောကကို ထိခိုက်စေသော ပြစ်မှုဟူ၍ ယူဆလာကြသဖြင့် ရာဇဝတ်မှုဆိုင်ရာ ဥပဒေများကို ပြဋ္ဌာန်းခဲ့ကြလေသည်။ သို့သော်လည်း ရာဇဝတ်မှု ဥပဒေကို ကျူးလွန်သူအား အပြစ်ဒဏ်ပေးရာ၌ လက်စားချေသည့်သဘော ပါလျက်ပင် ရှိသေးသည်။ ထိုနောက်တွင်ကား အခြားသူတို့သည် ထိုပြစ်မှုမျိုးကို မကျူးလွန်စေရန် ဟူသော ရည်ရွယ်ချက်ဖြင့် ရာဇဝတ်မှုကျူးလွန်သူတို့အား ထိုက်သင့်သော အပြစ်ဒဏ်ကို စီရင်ခဲ့ကြလေသည်။

ယခုအခါ၌မူကား ရာဇဝတ်မှု ကျူးလွန်သူကို အပြစ်ဒဏ် ပေးခြင်း၏ ရည်ရွယ်ချက်မှာ ပြောင်းလဲလာပြီ ဖြစ်သည်။ ထို့ကြောင့် ယခုအခါ ရာဇဝတ်မှု ကျူးလွန်သူ တယောက်ကို အပြစ်ဒဏ် စီရင်ရာ၌ ထိုသူသည် နောင်တွင် ထိုပြစ်မှုမျိုးကို မကျူးလွန်စေရန် ပြုပြင်ပေးသည့် ရည်ရွယ်ချက် ထားရှိလာကြလေသည်။ သို့ဖြစ်၍ ရာဇဝတ်မှုများကို လေ့လာသူတို့က ရာဇဝတ်မှု ကျူးလွန်သူတို့သည် မည်သည့်အတွက်ကြောင့် ထိုကဲ့သို့သော ပြစ်မှုကို ကျူးလွန်ရကြောင်းကိုင်း၊ နောက်ထပ် ပြစ်မှု မကျူးလွန်စေရန် ထိုသူအား ပြုပြင်ပေးနိုင်မည့် နည်းလမ်းကိုင်း စူးစမ်း ရှာဖွေကြလေသည်။ ဤသို့အားဖြင့် ရာဇဝတ်မှု ကျူးလွန်သူ တဦးအား လူကောင်းတယောက် ဖြစ်လာအောင် ယိုင်းပင်း ကူညီကြရလေသည်။ ဆင်းရဲခြင်း၊ နေထိုင်ရာရပ်ကွက် မကောင်းခြင်း၊ ပညာ ချို့ငဲ့ခြင်းတို့သည် ရာဇဝတ်မှုကို ကျူးလွန်စေသည့် အခြေခံ အကြောင်းများပင် ဖြစ်ကြလေသည်။

ရာဇဝတ်မှုကို အကြီး၊ အသေး ဟူ၍ ယူဆပုံနှင့် ထိုရာဇဝတ်မှုအတွက် သေဒဏ်ပေးပုံတို့မှာ ခေတ်ကိုင်း၊ ဒေသကိုင်း လိုက်၍ ကွဲပြား ခြားနားသည်။ ရှေးအခါက နိုးမှုအတွက် သေဒဏ်ကိုပင် စီရင်လေ့ ရှိခဲ့ကြသည်။ ယခုအခါ၌မူကား တရားရုံးတော်က ရာဇဝတ်ပြစ်မှု တခုခုအတွက် အပြစ်ဒဏ် စီရင်ရာ၌ အမှုသွား အမလ်ကိုင်း၊ ပြစ်မှုကျူးလွန်သူ၏ အခြေအနေ စသည်တို့ကိုင်း ထည့်သွင်းစဉ်းစားကြလေသည်။ ထို့ကြောင့် မိမိကိုယ်ကို ကာကွယ်ရာတွင် မတော်တဆ လက်လွန်၍ တဖက်သား သေဆုံးရကြောင်းကို အခိုင်အလုံ တင်ပြနိုင်ပါက လူသတ်မှု မဖြစ်ဘဲ၊ လူသေမှု ဖြစ်လေသည်။ စိတ်မနှံ့သူ၊ သို့မဟုတ် အရက်မူးနေသူတို့ ရာဇဝတ်မှု တစုံတခုကို ကျူးလွန်ခဲ့လျှင် တရားရုံးတော်က စီရင်ရာ၌ စိတ်မနှံ့ခြင်း၊ အရက်မူးနေခြင်းတို့ကိုလည်း ထည့်သွင်း စဉ်းစားရလေသည်။

လူသတ်မှု၊ နိုင်ငံကို သစ္စာဖောက်မှုတို့သည် အလွန် ကြီးလေးသော ရာဇဝတ်မှုများ ဖြစ်သောကြောင့် များသောအားဖြင့် သေဒဏ် စီရင်ကြသည်။ အခြား ရာဇဝတ်မှုများအတွက် ထောင်ဒဏ်၊ ငွေဒဏ်၊ ကြိမ်ဒဏ် စသည်တို့ကို ပြဋ္ဌာန်းထားသော တရားဥပဒေအရ စီရင် ဆုံးဖြတ်ကြလေသည်။

**ရာဇသင်္ကြံ။** ။ကဝိလက္ခဏာ သတ်ပုံကျမ်းတွင် "ရာဇသင်္ကြံ၊ ပညာလျှံ၊ ပုဂံ ပြည်လုံးကဲ။" ဟူ၍ အမတ်ကြီး ရာဇသင်္ကြံ၏ ပညာဂုဏ်ရည်ကို ထုတ်ဖော် ချီးကျူးထားသည်။ သခင်မျက်သော် ခံ၊ သခင်ကြည်သာလျှင် အမှုထမ်းပြန်သော ကျန်စစ်သားမင်းသားကဲ့သို့ ကျေးဇူးသစ္စာ စောင့်သိသည့် နှလုံးရည်နှင့် ပြည့်စုံသော အမတ်ကြီးလည်း ဖြစ်ပေသည်။ ထိုမျှသာ မကသေး၊ လက်ရုံးရည်နှင့်လည်း ပြည့်စုံသော စစ်သူကြီးအမတ် ဖြစ်၏။

ပညာရှိ အမတ်ကြီး ရာဇသင်္ကြံသည် ပုဂံခေတ် ဥဇနာမင်း (မြန်မာ ၆၁၂ – ၆၁၇) လက်ထက်မှစ၍ နာမည် ထင်ရှားသော အမတ်ကြီး ဖြစ်သည်။ ဥဇနာမင်း လွန်သော် ရာဇသင်္ကြံ အမတ်ကြီးသည် ဥဇနာမင်း၏ သားတော်အကြီး သီဟသူအား နန်းမအပ်ဘဲ၊ သားတော်အငယ် နရသီဟပတေ့ကို နန်းတင်သည်။ တခါက သားတော်ကြီး သီဟသူသည် မင်းသားဘဝ၌ ရှိစဉ် အမတ်ကြီး ရာဇသင်္ကြံအား မိမိကြွလာသည်ကို မြင်လျက်နှင့် အင်္ကျီလက်ကို မသိမ်းရသလော ဟု အင်္ကျီလက်ပေါ် သို့ ကွမ်းသွေး ထွေးချခဲ့ဘူးလေသည်။ ထို့ကြောင့် ဥဇနာမင်းလွန်သော် အခြားမှူးမတ်များနှင့် တိုင်ပင်၍ သားတော်အကြီး သီဟသူအစားသားတော်အငယ် နရသီဟပတေ့အား နန်းအပ်ခြင်းဖြစ်သည်။ (နရသီဟပတေ့မင်း — လည်းရှု။)

ရာဇသင်္ကြံ အမတ်ကြီး နန်းတင်သော နရသီဟပတေ့မင်းကလည်း နန်းရပြီးလျှင် ရာဇသင်္ကြံကို မေ့လျော့၍ အလေးဂရုမပြုဘဲ ရှိ၏။ ထိုအခါ ရာဇသင်္ကြံသည် စိတ်နာ

သဖြင့် ညီလာခံဝင်ရာတွင် ပန်းကပ်ပဲ့ကို ကိုင်ဆောင်၍ အခစား ဝင်လေသည်။ နရသီဟပတေ့မင်း အကြောင်းကို မေးလျှင် ပန်းပွတ်သည် အမျိုးတို့ ကောင်းစားနေ၍ ပန်းပွတ်မည့်သူ မရှိသဖြင့် ပန်းကပ်ပဲ့ကိုသာ ကိုင်ဆောင်ရကြောင်းကို လျှောက်တင်သည်။ နရသီဟပတေ့မင်း၏ မယ်တော်မှာ ပန်းပွတ်သည်မျိုးဖြစ်၍ မင်းကြီးသည် ထိုစကားကို ကြားလျှင် အမျက်ထွက်၏။ ထို့ကြောင့် အမတ်ကြီး ရာဇသင်္ကြံထံမှ ရာထူး အဆောင်အယောင်များကို ရုပ်သိမ်း၍ ဒလသို့ ပြည်နှင်ဒဏ် ခတ်လေသည်။

ရာဇသင်္ကြံ အမတ်ကြီး ဘုရင့်အပါး၌ မရှိတော့ပြီ ဟု ကြားလျှင် တိုင်းရေးပြည်မှု၌ ကျွမ်းကျင်သူ မရှိပြီဟု မုတ္တမစားသည့်ငရင်း၊ ရခိုင်ပြည်မြောက်ပိုင်း မစ္ဆဂိရိစားသည် ငရင်း ခြားနား ပုန်ကန်ကြလေသည်။ ထိုအခါ နရသီဟပတေ့မင်းလည်း မိဖုရားစောနှင့် တိုင်ပင်၍ မိဖုရားကြီး၏ အကြံပေးချက်အရ ရာဇသင်္ကြံကို ဒလမှ ပြန်ခေါ်၍ အဆောင်အယောင်များ ပြန်လည် အပ်နှင်းပြီးလျှင် မုတ္တမသို့ စေလွှတ်လေသည်။ အစွာင်းသင်းမှူး သရေပစ္စပတေ့ကို မစ္ဆဂိရိသို့ စေလွှတ်သည်။ ရာဇသင်္ကြံ၏ စွမ်းရည်ကြောင့် မုတ္တမကို အလွယ်တကူနှင့် ပြန်လည် ရရှိသည်။ သရေပစ္စပတေ့သည် အအုပ်အချုပ် အကွပ်အကဲ ညံ့ဖျင်းသဖြင့် မစ္ဆဂိရိသို့ မရောက်မီကပင် တပ်ပျက်၍ ဆုတ်ပြေးခဲ့ရသည်။ သရေပစ္စပတေ့၏ အရေး၌လည်း ရာဇသင်္ကြံ အလျှောက်ကောင်း၍ မင်းမျက်မင်းဒဏ်မှ အသက်လွတ်ခဲ့ရသည်။ ထိုနောက် မင်းကြီးသည် အမတ်ကြီးရာဇသင်္ကြံကို မစ္ဆဂိရိသို့စေလွှတ်နှိမ်နင်းစေ၏။ ရာဇသင်္ကြံလည်း ရခိုင်ပြည် မြောက်ပိုင်းကို အောင်မြင်ပြီးနောက် မစ္ဆဂိရိစားနှင့်တကွ ခေါင်းဆောင်တို့ကို ခေါ်ဆောင်ခဲ့သည်။ သို့ရာတွင် ရခိုင်မှ အပြန်တွင် နာမကျန်းဖြစ်၍ ဒလအရောက်၌ ကွယ်လွန်လေသည်။ ယင်းသို့အားဖြင့် နှလုံးရည်၊ လက်ရုံးရည်တို့နှင့် ပြည့်စုံသော အမတ်ကြီးရာဇသင်္ကြံသည် အသက် ၆၂ နှစ်အရွယ်တွင် အနိစ္စရောက်လေ၏။

ရာဇသင်္ကြံတွင် သားနှစ်ယောက် ကျန်ရစ်ခဲ့၏။ နရသီဟပတေ့ မင်းလည်း သားအကြီးအား အနန္တပစ္စည်း၊ သားအငယ်အား ရန္တပစ္စည်း ဟူသော ဘွဲ့များကို အပ်နှင်းချီးမြှောက်တော်မူလေသည်။

ရာဇာဓိရာဇ် (မြန်မာ ၇၁၁–၇၇၃)။ ။ရာဇာဓိရာဇ်သည် ပဲခူးမြို့တွင် နန်းစိုက်သော မုတ္တမဘုရင် ဗညားဦးနှင့် သီရိမာ မိဖုရားတို့မှ ဖွားမြင်သော သားတော်ဖြစ်သည်။ သက္ကရာဇ် ၇၁၁ ခုနှစ် တပို့တွဲလဆန်း ၆ ရက်နေ့တွင် ဖွားမြင်သည်။ ယင်းစဉ် ကပင် မယ်တော် ကွယ်လွန်သဖြင့် ခမည်းတော် ဗညားဦး၏ နှမတော် မဟာဒေဝီမင်းသမီးက ရာဇာဓိရာဇ်ကို ဆက်လက်မွေးမြူသည်။ ရာဇာဓိရာဇ်၏ ငယ်မည်ကား ဗသုန်ဗန်စက်(ခံတွင်း၌ လျှာထွင် စက်ပါသူ)ဖြစ်၏။ နောင်တွင် ခမည်းတော်က ဗညားနွဲ့ ဟူ၍ ဘွဲ့ချီးတော်မူသည်။

အရွယ်ရောက်သော် ခမည်းတော် ဗညားဦးနှင့် စန္ဒာဒေဝီ မိဖုရားတို့မှ ဖွားမြင်သော တလမည်ဒေါ မင်းသမီးနှင့် စုံဖက်သည်။ ရာဇာဓိရာဇ်နှင့် တလမည်ဒေါ မင်းသမီးတို့ သင့်ရာမှ ဗောလောကျန်းတော မည်သော သားတော်ကို ရရှိသည်။ နောင်တွင် အင်းဝမင်းခေါင်၏ သားတော် မင်းရဲကျော်စွာသည် ဤဗောလောကျန်းတော သေ၍ ဝင်စားသည် ဟု အဆို ရှိသည်။ (မင်းရဲကျော်စွာ — လည်းရှု။)

ဗညားဦး လက်ထက်တွင် ရာဇာဓိရာဇ်သည် အရီးတော် မဟာဒေဝီ အကောက်ကြံ၍ ပဲခူးနေပြည်တော်တွင် မနေသာဘဲ ဒဂုန်သို့ထွက်သွား၍ ခြားနားသည်။ သက္ကရာဇ် ၇၄၅ ခုနှစ်တွင် ခမည်းတော်ဗညားဦး နတ်ရွာစံလျှင် ပဲခူးမြို့ကို အလွယ်တကူ သိမ်းယူ၍ မင်းပြုလေသည်။

ရာဇာဓိရာဇ်သည်ကား ဝါရီရူမင်းဆက်တွင် အထင်ရှားဆုံးဘုရင် ဖြစ်သည်။ ရာဇာဓိရာဇ် မင်းဖြစ်စတွင်ပင် ဦးရီးတော် မြောင်းမြမြို့စား လောက်ဖျားက အင်းဝ မင်းကြီးစွာစော်ကဲကို ချီပင့်သဖြင့် အင်းဝနှင့် စစ်ဖြစ်ရသည်။ (မင်းကြီးစွာစော်ကဲ — လည်းရှု။) ထိုအချိန်မှစ၍ မြန်မာရာဇဝင်တွင် ကျော်ကြားသော အနှစ် ၄၀ ကြာ ပဲခူး – အင်းဝ စစ်ပွဲကြီး စတင်လေသည်။ ဤစစ်သည် ရာဇာဓိရာဇ်နှင့်မင်းကြီးစွာစော်ကဲတို့ လက်ထက်တွင် စတင်ဖြစ်ပွားခဲ့လျက်၊ မင်းကြီးစွာစော်ကဲ နတ်ရွာစံလွန်သွားသောအခါ သားတော် မင်းခေါင်သည် စစ်ကို ဆက်လက်ဆင်နွှဲပြန်၏။ ရာဇာဓိရာဇ်နှင့် မင်းခေါင် နတ်ရွာစံပြီးနောက် တိုက်ခိုက်မှုများ ခေတ္တရပ်စဲခဲ့သည်။ ထိုနောက် ရာဇာဓိရာဇ်၏သားတော် ဗညားဓမ္မရာဇာ လက်ထက်နှင့် မင်းခေါင်၏သားတော် ဆင်ဖြူရှင် သီဟသူတို့ လက်ထက်တွင် ဆက်လက်ဖြစ်ပွားသည်။ နောက်ဆုံးတွင် ဗညားဓမ္မရာဇာ၏ ညီတော် ဒဂုန်ကိုစားရသော ဗညားရံကျ ဆင်ဖြူရှင် သီဟသူအား နှစ်မတော် ရှင်စောပုကို ဆက်၍ မဟာမိတ်ပြုလုပ်ကာ စစ်ပြေငြိမ်းလိုက်ရာတွင်မှ အပြီးတိုင်ခဲ့သည်။

မြန်မာတို့က ပဲခူးကို ရသည် မရှိသော်လည်း တိုက်ခိုက်ရာဌာနကား မွန်ပြည်တွင်း ဖြစ်သည်။ အနောက်ဖက်ရှိ ရခိုင်နှင့် သံတွဲသို့လည်း စစ်ဦးလှည့်သည့်အခါ စစ်မြေပြင်ဖြစ်ခဲ့ရလေသည်။ မွန်မြို့တော်သို့ ချီတက်ရာ စစ်ကြောင်းမှာ လှိုင်မြစ်ကြောင်းဖြင့် ဒဂုန်သို့ ဝင်ပြီးမှ ပဲခူးကို ပန်းတိုင်အဖြစ်ထားကာ တိုက်ခိုက်ကြသည်။ တခါတရံ တောင်ငူမှနေ၍ စစ်တောင်းမြစ်ကြောင်းကို အသုံးပြုသည့်အခါလည်း ရှိလေသေးသည်။

ရာဇာဓိရာဇ်သည် မွန် သုံးရပ်ဟု တွင်သော ပုသိမ်၊ မုတ္တမ

နှင့် ဟံသာဝတီတို့ကို ခိုင်မြဲအောင် စည်းရုံးထားသဖြင့် မြန်မာတို့ တိုက်ရန် မလွယ်ချေ။ ရာဇာဓိရာဇ်သည် မင်းကြီးစွာစော်ကဲလက်ထက်၌ ၇၄၇ ခုနှစ်တွင် တကြိမ်၊ ၇၄၉ ခုနှစ်တွင် တကြိမ် နှစ်ကြိမ်တိုင်တိုင်စစ်မက်ပြုရသည်။ မင်းကြီးစွာစော်ကဲ လွန်၍ သားတော်မင်းခေါင် နန်းတက်သောအခါ ၇၆၆ ခုနှစ်တွင် ရာဇာဓိရာဇ်၏ စစ်တပ်များသည် ဧရာဝတီ မြစ်ကြောင်းအတိုင်း အညာသို့ ချီတက်လာရာ ရွှေကြက်ယက်တိုင်အောင် ရောက်သည်။ အင်းဝမင်းခေါင် စေလွှတ်သော ပင်းယစကြို့သူမြတ် ဟောပြော ဆုံးမသဖြင့် ပြန်သည်။ (မင်းခေါင်ဘုရင်များ။ စကြို့သူမြတ် — လည်းရှု။) မင်းခေါင်နှင့် ရာဇာဓိရာဇ်သည် ရှစ်ကြိမ်တိုင်တိုင် စစ်ပွဲများ ဆင်နွှဲခဲ့ကြသည်။ စစ်ပွဲအစတွင် မည်သို့ရှိစေကာမူ အဆုံး၌ မြန်မာတို့သည် မွန်နယ်ကျေးလက်မှ ထွက်ခွာ ပြန်လည်ရသည်ချည်း ဖြစ်သည်။ အင်းဝစစ်သည်တို့ အကြိမ်ကြိမ် တိုက်လာသော်လည်း တွန်းလှန် ဖို့ဖျက်နိုင်သည်သာ များသည်။

သက္ကရာဇ် ၇၇၆ ခုနှစ်တွင် ရာဇာဓိရာဇ်သည် သိင်္ခနှင့်မဟာမိတ်ပြုကာ သိင်္ခစော်ဘွားအား အင်းဝကိုတိုက်စေ၏။ အင်းဝစစ်ပန်းသည့်အခါတွင် ရာဇာဓိရာဇ် ချီတက်တိုက်ခိုက်ရာ ပြည်မြို့အထိ သိမ်းပိုက်နိုင်ခဲ့သည်။ အင်းဝဘုရင် မင်းခေါင်သည် ရာဇာဓိရာဇ်အား နှစ်မတော်ကို ဆက်ပြီးလျှင် ပြည်မြို့ ရွှေဆံတော်ဘုရားတွင် သစ္စာဆိုကာ စစ်ပြေငြိမ်းရသည်။သို့ရာတွင် မင်းခေါင်သည် ဇင်းမယ်နှင့် မဟာမိတ်ပြုကာ ရာဇာဓိရာဇ်အား လက်စားချေတိုက်ပွဲ ဆင်နွှဲပြန်သည်။

စစ်တိုက်ခိုက်ရာ၌ ခြေခင်း လက်ခင်းသာသည့် အချိန်၌သာ တိုက်ခိုက်ကြသည်။ မိုးကျလျှင် ပြန်ကြပြန်သည်။တိုက်ပုံတိုက်နည်းတို့မှာ အခြေအနေအရ သင့်လျော်သလို စီမံသွားကြသည်။ ပြောက်ကျား တိုက်ခြင်း၊ ချောင်း၍ အလစ်တိုက်ခြင်း၊ ခံတပ်ပြုလုပ်၍ တိုက်ခိုက်ခြင်း၊ မြို့ကြီးများကို ပိတ်ဆို့ဝန်းရံ၍ တိုက်ခိုက်ခြင်း၊ ရံဖန်ရံခါ တယောက်ချင်း လှုစွမ်းပြခြင်း၊ စီးချင်းထိုးခြင်း စသည့် တိုက်နည်းတို့ဖြင့်တိုက်ကြသည်။

ရာဇာဓိရာဇ်၏ မိဖုရားများ ငိုယိုသည်နှင့် မိမိတို့ နိုင်လောက်ပြီဆိုရသော စစ်ကို ပြေငြိမ်းလိုက်ခြင်း၊ ရွှေဆံတော်ဘုရားဟင် မင်းနှစ်ပါး သစ္စာပြုပြီးနောက် မကြာမီပင်လျှင် စစ်ဖြစ်ပြန်ခြင်းတို့ကို ထောက်၍ ထိုအခါက စစ်မည်မျှဖြစ်လွယ်သည်ကို ထောက်ချင့်နိုင်သည်။ စစ်ပွဲအတွင်းတဖက်နှင့်တဖက် သွားလာကျေးမွေး ခေါ်ငင်ကြသည်လည်း ရှိသည်။

ထိုစစ်အတွင်း အရှင်၏ သစ္စာကို မှန်ကန်စွာ စောင့်ထိန်း၍ အမှုထမ်းသော သူရဲကောင်းတို့လည်း ရှိသည်။ တဖက်မှ တဖက်သို့ ဝင်စားကြသည်လည်း ရှိသည်။ သူရသတ္တိနှင့်တိုက်ခိုက်ကြသည်ရှိသော်လည်း မင်းရဲကျော်စွာ လဂွန်းအိမ်ကို လှည့်ဖြားသကဲ့သို့ ဉပါယ်တံမျည်ဖြင့် လိမ်လည် လှည့်ပတ်တိုက်ခိုက်ကြသည်လည်း များလေသည်။ တဖက်ရန်သူကို အကောက်ကြံ၍ ပြုလုပ်ကြရာ၌ မင်းတို့ အလိုတူသည်လည်း ရှိသည်။

စင်စစ်သော်ကား အခြားသောနိုင်ငံများ၌ကဲ့သို့ပင် လှုစွမ်းပြလိုခြင်း၊ အနိုင်ရ၍ ဂုဏ်ယူလိုခြင်း၊ လက်စားချေလိုခြင်း စသော ရည်ရွယ်ချက်တို့ကြောင့် စစ်ဖြစ်ရလေသည်။

၇၇၃ ခုနှစ်တွင် အင်းဝဘုရင်မင်းခေါင်နတ်ရွာစံပြီးနောက် စစ်မက်ရေးရာမှာ ငြိမ်သက်သွား၏။

ထို ၇၇၃ ခုနှစ်တွင်ပင် ရာဇာဓိရာဇ်လည်း တော ကစားယင်း ဆင်ဖမ်းရာတွင် ဒဏ်ရာရသဖြင့် ထိုဒဏ်ရာကြောင့်ပင် ကံကုန်လေသည်။

ရာဇာဓိရာဇ်မင်းသည် ဆင်စီး၊ မြင်းစီး၊ စစ်ဆင်၊ စစ်ထိုး၊ အတတ်များကို ကောင်းစွာ တတ်ကျွမ်း၏။ အမတ်ဒိန်မဏိရွတ်၊ ဗိုလ်မင်းဗြာတ်စ၊ လဂွန်းအိမ်၊ သမိန်ဗရမ်း စသော သူရဲကောင်းအမှုထမ်းတို ပေါများသည်။ မှူးမတ် သူရဲကောင်းတို့တိုက်ပွဲတွင် ထိခိုက်ရှုနလျှင် ကိုယ်တော်တိုင် ပြုစုတော်မူတတ်သဖြင့် သက်စွန့်ကြိုးပမ်း အမှုထမ်းသူ ပေါများလှလေသည်။

ရာဇာဓိရာဇ်သည်ကား မြန်မာ့ သမိုင်းတွင် ဝါရီရူ မင်းဆက်၌ အထက်မြက်ဆုံးမင်း၊ သူရဲကောင်းများကို ချစ်ခင်လေးစားတတ်သောမင်း အဖြစ် မှတ်တမ်းတင် ကျန်ရစ်ခဲ့လေသည်။

**ရာဇာဓိရာဇ် အရေးတော်ပုံ။** ။မြန်မာနိုင်ငံသမိုင်း အမှတ်အသားကျမ်းများဖြစ်သော အရေးတော်ပုံ ငါးစောင်ရှိသည့်အနက် ရာဇာဓိရာဇ်အရေးတော်ပုံသည်လည်း တခုအပါအဝင် ဖြစ်သည်။ ထိုအရေးတော်ပုံများတွင် ရခိုင်မင်း၊ မွန်မင်း၊ မြန်မာမင်းများ တိုင်းနိုင်ငံတည်ထောင်ရာ၌ တွေ့ကြုံရသောအတွေ့အကြုံများကို မှတ်တမ်းတင်ထားသည်။ (ဆင်ဖြူရှင် အရေးတော်ပုံ။ ညောင်ရမ်းမင်းတရား အရေးတော်ပုံ။ ဓညဝတီ အရေးတော်ပုံ။ အလောင်းမင်းတရားကြီး အရေးတော်ပုံ။ အရေးတော်ပုံ ငါးစောင်တွဲ — လည်းရှု။) အင်းဝဖက်တွင် ဓမ္မကြောင်း၊ လောကကြောင်းနွယ်သော စာပေများ ထွန်းကားခဲ့သည့် နည်းတူ ဟံသာဝတီဖက်တွင်လည်း ရာဇကြောင်း နိုင်ငံရေးနှင့်သက်ဆိုင်သော စာပေများ ထွန်းကားခဲ့သည်။ ဟံသာဝတီ ဆင်ဖြူများရှင် လက်ထက်တွင် အမတ်ကြီး ဗညားဒလသည် ရှေးဆရာများ မွန်ဘာသာဖြင့် ရေးသားထားရှိခဲ့သော ရာဇာဓိရာဇ် အရေးတော်ပုံကျမ်းကို မြန်မာဘာသာ ပြန်ဆိုရေးသားသည်။ ဟံသာဝတီ ဆင်ဖြူများရှင်လက်ထက် ရေးသည် ဟူ၍ သိရသည်မှတပါး ရေးသက္ကရာဇ်ကို အသေအချာ မသိရပေ။ ပဲခူးဘုရင် ဆင်ဖြူရှင် သားတော် ရာဇာဓိရာဇ်မင်းနှင့် ရတနာပူရအင်းဝဘုရင် မင်း

ကြီးစွာစော်ကဲ၏ သားတော် ပဌမမင်းခေါင်တို့၏ စစ်မက်ရေးရာ အကြောင်းကို ရေးသားထားသော ကျမ်းဖြစ်လေသည်။

ရာဇာဓိရာဇ် အရေးတော်ပုံ ကျမ်းတွင် မြတ်စွာ ဘုရား ဗျာဒိတ်ခံတော်မူသည်မှ အစချီ၍ ဘုရားဖြစ်ပြီးလျှင် ရာဇာယတနတွင် လေးဆဲ့ကိုးရက် စေ့သော နေ့၌ တပုဿ၊ ဘလ္လိက ညီနောင်တို့ ဖူးတွေ့သည့် အကြောင်းနှင့် မြတ်စွာ ဘုရား လက်ထက်တွင် ဂဝံပတိ ရဟန္တာသည် သုမနနတ်ဘီလူးအား မုတ္တမဒေသတွင် ဆင်ဖြူရှင်မင်းဖြစ်မည်ဟု ဗျာဒိတ်ပေးသည်မှ စတင်၍ ထိုသုမနနတ်ဘီလူး ဝင်စားသည်ဆိုသော မွန်မင်း မဂဒူးခေါ် ဝါရီရူမင်းမှ စ၍ မွန်ရာဇဝင်ကို ဖော်ပြထားသည်။

ထိုမင်းမှစ၍ ဗညားနွဲ့နှင့် သမိန်မရူတို့ ရန်ဖက်ဖြစ်ကြပုံနှင့် တိုက်ခိုက်ကြပုံများကို အကျယ်တဝင့်ဖော်ပြထားသည်။ ထိုနောက်မှစ၍ သက္ကရာဇ် ၇၄၅ခုနှစ် တပို့တွဲလဆန်း ၁၂ ရက်နေ့တွင် ဗညားနွဲ့သည် သမိန်မရူကို အနိုင်ယူကာ ရာဇာဓိရာဇ် အမည်ဖြင့် နန်းတက်တော်မူကြောင်းနှင့် မင်းအဖြစ်ရောက်ပြီးသော်၊ အင်းဝဘုရင် မင်းကြီးစွာစော်ကဲသည် ရာဇာဓိရာဇ်၏ဦးရီး မြောင်းမြစား လောက်ဖျား၏ လျှောက်ထားချက်အရ အောက်အရပ်သို့ စုန်ဆင်း၍ အကြိမ်ကြိမ် စစ်ပြုပုံများကို အကျယ်တဝင့် ဖော်ပြထားသည်။

ထိုအရေးတော်ပုံကျမ်းတွင် ရာဇာဓိရာဇ်သည် မင်းမဖြစ်မီ ရန်ကို တွန်းလှန်ခြင်း၊ အင်းဝမြန်မာမင်းတို့နှင့် စစ်ပြိုင်ရခြင်း၊ ရန်စွယ်ရန်ဖက်ဖြစ်သော မွန် မင်းညီမင်းသားများနှင့် မြို့စား ရွာစားများကို သစ္စာခံစေခြင်း၊ အဝမင်းကြီးစွာစော်ကဲ၏ သားတော် အင်းဝ ပဌမမင်းခေါင်နှင့် စစ်ရေးဆက်ဆံခြင်း၊ မင်းရဲကျော်စွာနှင့် တိုက်ခိုက်ရခြင်း စသည်တို့ကို အဓိကအားဖြင့် ဖော်ပြသည်။ မွန်သူရဲကောင်းများအကြောင်းကိုလည်း ဖော်ပြထားသည်။

သက္ကရာဇ် ၇၈၃ ခုနှစ်တွင် ရာဇာဓိရာဇ် နတ်ရွာစံသည် အထိ နှစ်ပေါင်း ၇၀ ခန့်၏ သမိုင်းကို အကျယ်တဝင့်ရေးသား မှတ်တမ်းတင်သော ကျမ်းဖြစ်သည်။ ဤကျမ်းသည် ရာဇဝင်ဆရာများအဖို့ လွန်စွာ အထောက်အပံ့ရသော ကျမ်းဖြစ်သည်။ ပဌမမင်းခေါင်လက်ထက် ဖြစ်ပေါ်သော အရေးကိစ္စ အားလုံးလိုလိုပင် ဤကျမ်း၌ တွေ့မြင်ရသည်။ ဦးကုလား ရာဇဝင်ကြီး၊ မှန်နန်းရာဇဝင်တို့တွင်လည်း မင်းခေါင်၊ မင်းရဲကျော်စွာတို့၏ အတ္တုပ္ပတ္တိများကို ရာဇာဓိရာဇ် အရေးတော်ပုံကျမ်းမှ ကိုးကား ထုတ်နုတ်ဖော်ပြကြသည်။ ထို့ကြောင့် ဤကျမ်းသည် ရာဇဝင်ကျမ်းကြီးတစောင် ဖြစ်ပေသည်။ အမတ်ကြီး ဗညားဒလသည် ဝါကျတိုကလေးများဖြင့် ရှင်းလင်းပြတ်သားစွာ ပြန်ဆို ရေးသား ခဲ့ပေသည်။ (ဗညားဒလ — လည်းရှု။)

**ရာဇတ်၊ ဦး** (ခရစ် ၁၇၉၈—၁၈၄၇)။ ။ ဦးရာဇတ်သည် တိုက်ပိုင် အင်စပိတ်တော် မစ္စတာ အော၊ ရာမန်နှင့် ဒေါ်ငြိမ်းလှတို့မှ မွေးဖွားသော သားသမီး ၁၃ ယောက်အနက် စတုတ္ထသားဖြစ်၍၊ မိတ္ထီလာမြို့တွင် ၁၇၉၈ ခုနှစ် ဇန္နဝါရီလ ၂၀ ရက် တနင်္လာနေ့၌ ဖွားမြင်သည်။

မိတ္ထီလာမြို့မှ မန္တလေးမြို့သို့ မိသားစု အလုပ်အတွက်နှင့် ပြောင်းရွှေ့ရသောအခါ မန္တလေးမြို့ ဝက်စလီယန် မိန်းကလေးကျောင်းတွင် သူငယ်တန်းမှ စ၍ ပညာသင်ကြားခဲ့သည်။ စတုတ္ထတန်း အောင်မြင်သော အခါ ဝက်စလီယန် ယောက်ျားကလေးကျောင်းသို့ ပြောင်းရွှေ့ပြီးလျှင် ပညာကို ဆက်၍ သင်ကြားသည်။ အဋ္ဌမတန်းသို့ ရောက်လျှင် စာသင်တန်းထဲတွင် ထူးချွန်သဖြင့် ဆရာကြီး မစ္စတာ မီး က တက္ကသိုလ်ဝင်တန်းသို့ အတန်းကျော်၍ တင်ပေးသည်။ အချိန်ကျသဖြင့် တက္ကသိုလ်ဝင်တန်း စာမေးပွဲ ဝင်ရောက် ဖြေဆိုစေရာ ကောင်းစွာ အောင်မြင်လေသည်။

ကိုရာဇတ်အား သူ့မိဖများက ရန်ကုန်မြို့ ကောလိပ်သိပ္ပံကျောင်းသို့လွှတ်ကာ ပညာကို ဆက်၍ သင်ကြားစေသည်။ ကိုရာဇတ်သည် တနှစ်တတန်း မှန်မှန်တက်ရပြီးနောက် ဝိဇ္ဇာတန်းသို့ ရောက်လျှင် အင်္ဂလိပ်စာဂုဏ်ထူးယူခဲ့သည်။ ကောလိပ်ကျောင်း၌ ပညာဆည်းပူးနေစဉ် အင်္ဂလိပ် စာစီစာကုံးပြိုင်ပွဲတွင် ဝင်ရောက်ယှဉ်ပြိုင်ရာ ပဌမရရှိသဖြင့် ဘိုင်မြားရွှေတံဆိပ်ကို ဆွတ်ခူးနိုင်ခဲ့သည်။ ကိုရာဇတ်သည် ပညာဖက်



ပညာရေးဝန်ကြီးဟောင်း ဦးရာဇတ်

ထွင်သာ ဗိုလ်ချုပ်ညည် မဟုတ်၊ တင်းနစ်နှင့် ကရစ်ကက်ရိုက်ခြင်း၊ လက်ဝှေ့ထိုးခြင်း၊ ဘောလုံးကန်ခြင်း စသော အားကစားဖက်တွင်လည်း ပြောင်မြောက်သေးသည်။ ထိုကြောင့်လည်း ကိုရာဇတ်သည် ကောလိပ်ကျောင်း ဘောလုံးအသင်းတွင် ပါဝင်ခဲ့လေသည်။

၁၉၂၀ ပြည့်နှစ်တွင် ပဌမကျောင်းသားသပိတ် အရေးပုံကြီး ပေါ်ပေါက်လာသောအခါ ကိုရာဇတ်လည်း သပိတ်မှောက် ကျောင်းသားခေါင်းဆောင်တဦးအဖြစ် ပါဝင်လေသည်။ သပိတ်မှောက် ကောင်စီမှ ဆပိတ်မှောက်ကျောင်းသားငယ်များ ပညာရေးတွင် မနစ်နာစေရန် မြန်မာတနိုင်ငံလုံးရှိ မြို့ကြီးများတွင် အမျိုးသားကျောင်းများ ဖွင့်လှစ်ရန် ဆုံးဖြတ်လိုက်ပြီးသည့်နောက်တွင် ကိုရာဇတ်သည် မန္တလေးမြို့ ဗဟို အမျိုးသားအထက်တန်းကျောင်းကြီး၌ အင်္ဂလိပ်ဘာသာနှင့် ပါဠိဘာသာပြ အထက်တန်းပြဆရာ အဖြစ် ၁၉၂၁ ခုနှစ်မှစ၍ လုပ်ကိုင်ခဲ့သည်။

ထို ၁၉၂၁ ခုနှစ်တွင်ပင် အမျိုးသားပညာရေးကောင်စီမှ ကြီးမှူးကျင်းပသော ဘီအေစာမေးပွဲကို ဝင်ရောက်ဖြေဆိုရာ ကောင်းစွာ အောင်မြင်ခဲ့လေသည်။ ဦးရာဇတ်သည် ဗဟို အမျိုးသား အထက်တန်းကျောင်း၌ ၁၉၂၃ ခုနှစ်မှစ၍ ကျောင်းဆရာကြီး အဖြစ်ဖြင့်၎င်း၊ ကျောင်းအုပ်အဖြစ်ဖြင့်၎င်း ဆောင်ရွက်ခဲ့လေသည်။

ဆရာကြီး ဦးရာဇတ်သည် အင်္ဂလိပ်စာ အရေးအသား အစီအကုံးကောင်း၍ အသနားခံစာ စသည်တို့ကို တပါးသူတို့အတွက် ရေးသားပေးရလေ့ ရှိသောကြောင့် “စေတနာ့ ဝန်ထမ်း လျှောက်လွှာစာရေးကြီး” ဟူ၍ပင် ချစ်စနိုး ခေါ်ဝေါ်ကြ၏။ တခါက အိန္ဒိယ နယူးတိုင်း မဂ္ဂဇင်းသို့ ရှမ်းပြည်၌ အထူး ကျော်ကြားသော ၃၆ ကောင် ထီ အကြောင်းကို ကြေးစန္ဒီနှင့်ရုပ်နှင့် တကွ အတိတ်ပေးပုံ၊ ကပ်တိတ်၊ အနီးတိတ်၊ ပေါက်ကောင်၊ ကိုယ်စားလှယ်ကောင် စသည်တို့ကိုပါ ဖော်ပြပြီးလျှင် ပေးပို့ခဲ့ရာ ပဌမတန်း ဆောင်းပါးဆုကို ရရှိခဲ့ဘူးလေသည်။ ဆရာကြီး ဦးရာဇတ်သည် မြန်မာဘာသာတွင်လည်း ကျွမ်းကျင်သူ ဖြစ်၏။ မြန်မာနှင့် ပါဠိဘာသာရပ်များကို ကျောင်း၌ မသင်ကြားခဲ့ရဘဲ ကျောင်းပိတ်ရက်များ အတွင်း မန္တလေးမြို့ နန်းတော်ရှေ့ တိုက်တော်ကျောင်းတိုက်၊ ခင်မကန်ကျောင်းတိုက်၊ အတုမရှိကျောင်းတိုက် စသည့် ကျောင်းတိုက်များရှိ တိုက်အုပ်ဆရာတော်များထံသို့ သွားကာ သင်ကြားလေ့လာခဲ့ခြင်း ဖြစ်သည်။

ဆရာကြီး ဦးရာဇတ်သည် ဖခင်၏ အစ္စလာမ်အယူဝါဒကို လက်ခံသော်လည်း မိခင်၏ ဗုဒ္ဓအယူဝါဒကိုလည်း မပစ်ပယ်ချေ။ များသောအားဖြင့် ဆရာကြီးသည် ဗုဒ္ဓအယူဝါဒီရဟန်းရှင်လူများနှင့် ခင်မင် ရင်းနှီး ပေါင်းသင်း ဆက်ဆံနေလေ့ရှိသည်။ ထို့ကြောင့်လည်း ဗုဒ္ဓအယူဝါဒကို အထူးလေးစားသော မန္တလေးမြို့ကဲ့သို့သော မြို့ကြီးတမြို့ရှိ အမျိုးသား အထက်တန်း ကျောင်းတွင် ဆရာကြီးနှင့် ကျောင်းအုပ်အဖြစ် ဆောင်ရွက်နိုင်ခဲ့ခြင်း ဖြစ်သည်။

ဦးရာဇတ်သည် မန္တလေး ဗဟိုတန်းမြင့် အမျိုးသားကျောင်းတွင် ကျောင်းဆရာကြီး အဖြစ်ဖြင့်၎င်း၊ ကျောင်းအုပ်အဖြစ်ဖြင့်၎င်း အမှုထမ်းစဉ် ကျောင်းသားများ၏ကိုယ်လက် ကျန်းမာရေးအတွက် ကွင်းဆင်းချိန်၌ ကွင်းမဆင်းသူများနှင့် နံနက်တိုင်း ဘုရားရှိခိုးချိန်တွင် ဘုရားရှိခိုး မတက်သော ကျောင်းသားများကို ကြိမ်လုံးတချောင်းဖြင့် ကြပ်မပေးလေ့ရှိသည်။

ဆရာကြီး ဦးရာဇတ်သည် ဂုဏ်ရည် တူသူများ၊ အထက်တန်းကျသူများနှင့် ဆက်ဆံရာတွင် မျက်နှာထား တည်တည်နှင့် ဆက်ဆံလေ့ ရှိသော်လည်း တပည့်များနှင့် ဆက်ဆံရာတွင်မူ အမြဲလိုလိုပင် ဆေးပေါ့လိပ်ကြီးကိုခဲကာ မဲ့ပြုံးကလေးပြုံး၍ ဆက်ဆံလေ့ ရှိသည်။ ထို့ကြောင့် ကျောင်းသားများက ဆရာကြီးအား အမြဲတစေ ချစ်ကြောက်ရိုသေကြသည်။

ကျောင်းဆရာကြီးနှင့် ကျောင်းအုပ် အဖြစ် ထမ်းဆောင်စဉ် ဦးရာဇတ်သည် ကျောင်းသားများအား ပညာကိုသာမက မျိုးချစ် စိတ်ဓာတ်ကိုပါ သွတ်သွင်းပေးလေ့ ရှိသည်။ ဆရာကြီး၌ မျိုးချစ်စိတ်ဓာတ်ရှိခြင်းကို မလှမ်းဆေးပေါ့လိပ် အတုတ်ကြီးကို အမြဲလိုလို သောက်လေ့ရှိခြင်းဖြင့် ထင်ရှားစေသည်။ ကျောင်းတွင် ကျောင်းသားများကို သမဂ္ဂဖွဲ့စေပြီးလျှင် ထိုစဉ်က ကျောင်းသားခေါင်းဆောင်များ ဖြစ်ကြသော ကိုနု၊ ကိုအောင်ဆန်း၊ မစ္စတာရာရှစ် စသည်တို့နှင့် အဆက်အသွယ် ပြုလုပ်ပေးခဲ့သည်။ ၁၉၃၇ ခုနှစ်တွင် ဒုတိယအကြိမ် ကျောင်းသားကွန်ဖရင့် မန္တလေးမြို့၌ ကျင်းပရာသို့ ကျောင်းသားခေါင်းဆောင် ကိုအောင်ဆန်းတို့ အလာတွင် ဆရာကြီး ဦးရာဇတ် အမှူးပြုသော အမျိုးသား ကျောင်းဆရာများက လက်ဖက်ရည်ပွဲဖြင့် ဧည့်ခံခဲ့လေသည်။

၁၉၃၈ ခုနှစ်တွင် မြန်မာတနိုင်ငံလုံး၌ ကျောင်းသားများ သပိတ်မှောက်ခဲ့ကြသည်။ ထိုအခါ မန္တလေးမြို့ရှိ ဥဇောပတိုက်သား ပညာဝန်နှင့် အရေးပိုင်တို့သည် ဆရာကြီး ဦးရာဇတ်အုပ်ချုပ်သော အမျိုးသားကျောင်းသို့ ရောက်ရှိလာကြသည်။ ထိုနောက် ကျောင်းသားများက ကျောင်းကို သပိတ်မှောက်၊ မမှောက် မေးကြရာ ဆရာကြီးက “ကျုပ်ကျောင်းကို ကျုပ်ကျောင်းသားများက ဘယ်တော့မှ သပိတ်မမှောက်” ဟု ဖြေလိုက်သဖြင့် ဝမ်းသာကာ ပြန်သွားကြသည်။ ထိုနောက် နာရီဝက်ခန့်အကြာတွင် ခေါင်းလောင်းတီးပြီးလျှင် သပိတ်မှောက်သွားကြလေသည်။ ထိုအခါ အထက်ဖော်ပြပါ အရာရှိ နှစ်ဦးသည် ဆရာကြီးထံသို့ ပြန်သွားကြပြီးလျှင် “ဆရာကြီး ညာတယ်-လိမ်တယ်” ဟု ပြောကြသည်။ ဆရာကြီးသည် သူတို့အား မည်သို့မျှ မဖြေကြားဘဲ ကျောင်းသား

များ သမဂ္ဂ ဥက္ကဋ္ဌကို ခေါ် လိုက်သည်။ ဆရာကြီးနှင့် အရာရှိနှစ်ဦး၏ ရှေ့သို့ သမဂ္ဂဥက္ကဋ္ဌ ရောက်လာသောအခါ ဆရာကြီးက "မင်းတို့ ငါ့ကျောင်းကို သပိတ်မှောက်ကြတာလား" ဟု မေးလိုက်ရာ၊ သမဂ္ဂဥက္ကဋ္ဌက "ကျွန်တော်တို့ ဆရာကြီးကျောင်းကို ဘယ်တော့မှ သပိတ်မမှောက်ပါ။ ယခု သပိတ်မှောက်ခြင်းမှာ ပညာရေးစံနစ်ကိုသာ မှောက်ခြင်း ဖြစ်ပါသည်" ဟု ဖြေကြားသည်။ ထိုအခါ အရာရှိနှစ်ဦးသည် သဘောပေါက်ကာ ပြန်သွားကြသည်။

ဆရာကြီး ဦးရာဇတ်သည် မြန်မာအမျိုးသားကိုချစ်ခင်သူဖြစ်သည့်အတိုင်း ဗမာမှတ်ဆလင် ဟူသော အမည်ကို စတင်၍ အသုံးပြုခဲ့လေသည်။ ရမည်းသင်းမြို့တွင် ပြုလုပ်သော ဗမာ မှတ်ဆလင် ညီလာခံ၌ ဆရာကြီးသည် ဥက္ကဋ္ဌ အဖြစ် ရွေးကောက် တင်မြှောက်ခြင်းကို ခံရသည်။ မန္တလေးမြို့ရှိ အပျော်ထမ်းရဲအဖွဲ့ ဖွဲ့ရာတွင်လည်း ဆရာကြီးသည် အုပ်ချုပ်သူ ဗိုလ်ကြီးအဖြစ် ခန့်အပ်ခြင်းခံရလေသည်။ ဂျပန်ခေတ်တွင် ဆရာကြီး ဦးရာဇတ်သည် ထောင်သွင်း အကျဉ်းချထားခြင်းခံခဲ့ရဘူးရာ သူ့အား ရွှေဘိုထောင်မှ မန္တလေးထောင်သို့ အပြောင်းတွင် တပည့်များက မိမိတို့၏အသက်များကို စွန့်လွှတ်ကြကာ လုယူကယ်ဆယ်ရန်ပင် ကြံစည်ခဲ့ကြဘူးသည်။ သို့သော် ဆရာကြီးက ထိုအကြံကို အခွင့်မပြုခဲ့ချေ။

ဦးရာဇတ်သည် မျိုးချစ်စိတ်ထက်သန်သူဖြစ်သည့်အတိုင်း အမျိုးသား ပညာရေးစံနစ်နှင့် အခလွတ်ပညာရေး စံနစ်တို့တွင် အမြဲတစေ စိတ်စောခဲ့သည်။ သူသည် သူ့အကျိုးထက် တိုင်းပြည်၏ အကျိုးကို ငဲ့သူလည်း ဖြစ်သည်။ မျိုးချစ်စိတ်ဓာတ်ကို ကျောင်းသားများအား သွတ်သွင်းပေးခဲ့မှုကြောင့် ယခုအခါတွင် သူ၏ ကျောင်းသားဟောင်းများသည် စစ်ဖက်တွင်၎င်း၊ မြို့ပြ အုပ်ချုပ်ရေးဖက်တွင်၎င်း အမြောက်အမြား ရောက်ရှိကာ တိုင်းပြည်တာဝန်ကို ထမ်းဆောင်နေကြလေသည်။

ဦးရာဇတ်သည် ၁၉၄၅ ခုနှစ်မှ စတင်၍ တည်ထောင်ခဲ့သော မန္တလေးခရိုင် ဖက်ဆစ်တော်လှန်ရေး ပြည်သူ့လွတ်လပ်ရေး အဖွဲ့ (ဖတပလအဖွဲ့) တွင် ပဌမဦးစွာ ဥက္ကဋ္ဌ အဖြစ် ရွေးချယ်ခန့်အပ်ခြင်း ခံရသည်။ တိုင်းပြည်ပြုလွှတ်တော် ရွေးကောက်ပွဲကို ၁၉၄၇ ခုနှစ် ဧပြီလတွင် ကျင်းပသောအခါ ဦးရာဇတ်သည် မန္တလေးမြို့မ အရှေ့ပိုင်းအမတ်အဖြစ် ရွေးကောက်တင်မြှောက်ခြင်း ခံရ၏။ ထို့နောက် ဗိုလ်ချုပ်အောင်ဆန်းခေါင်းဆောင်သော အစိုးရဝန်ကြီးအဖွဲ့တွင် ပညာရေးနှင့် အမျိုးသားစီမံကိန်းဌာန ဝန်ကြီးအဖြစ် ထမ်းဆောင်ခဲ့ရသည်။ ၁၉၄၇ ခုနှစ် ဇူလိုင်လ ၁၉ ရက်နေ့၌ ဆရာကြီး ဦးရာဇတ်သည် ဗိုလ်ချုပ်အောင်ဆန်း အပါအဝင် အခြား နိုင်ငံခေါင်းဆောင်ကြီးများနှင့်အတူ လုပ်ကြံခြင်း ခံရလေသည်။ ထိုအခါက သူ့အား သေနတ်သမားတို့ တက်ရောက်လာသော အခိုက်တွင် ... ထိုအခါက သူ့အား သွေးအိုင်ထဲမှ ပွေ့ပိုက်၍ ထူ မ ပေးသော အခါ "ကျွန်တော်က အရေးမကြီးပါဘူး၊ ဗိုလ်ချုပ်နှင့် သခင်မြတို့က ပိုဆိုးပုံရတယ်၊ သူတို့ကိုသာ ဂရုစိုက်ကြပါ" ဟု ပြောကြားခဲ့လေသည်။

ဆရာကြီး ဦးရာဇတ်သည် ပညာရေး ဝန်ကြီး အဖြစ် ဆောင်ရွက်ခဲ့စဉ်က တက္ကသိုလ်ကျောင်းသားများ သမဂ္ဂခေါင်းဆောင်သည့် ကျောင်းသားအဖွဲ့တခုကို ၁၉၄၇ ခုနှစ် ဇွန်လတွင် အိန္ဒိယနိုင်ငံ မဒရပ်မြို့၌ ကျင်းပခဲ့သော အာရှအရှေ့တောင်ပိုင်း ကျောင်းသားများညီလာခံသို့ စေလွှတ်ခဲ့သည့်အပြင် ကိုယ်တိုင်လည်း ပညာရေးဝန်ကြီး အဖြစ် တက်ရောက်ခဲ့၏။ ၁၉၄၇ ခုနှစ်တွင် မန္တလေး ဥပစာကောလိပ်ကို ဒီဂရီကောလိပ်အဖြစ် တိုးမြှင့် ဖွင့်လှစ်နိုင်ခဲ့သည်မှာလည်း ဦးရာဇတ်၏ ကြိုးပမ်းမှုကြောင့် ဖြစ်လေသည်။ ဦးရာဇတ်သည် ကွယ်လွန်သည့်အချိန်တွင် ပါဠိတက္ကသိုလ်တခု ဖြစ်မြောက်ရေးကို ကြိုးပမ်းနေဆဲ ဖြစ်၏။

ဆရာကြီး ဦးရာဇတ် ကွယ်လွန်သောအခါ ဇနီးဒေါ်ခင်ခင်နှင့် သား နှစ်ယောက်၊ သမီး တယောက်ကျန်ရစ်ခဲ့လေသည်။

**ရာမာယဏ**။ ။သက္ကတစာပေဝယ် ဆူရဲကောင်းစွမ်းရည်ပြ လင်္ကာကြီး နှစ်စောင်ရှိရာ၌ ရာမယဏသည် တစောင်ဖြစ်ပေသည်။ ရာမာယဏဟူသည် ရာမမင်း၏ ခြင်းရာထုံးဖွဲ့တ် ဖြစ်၍ မြန်မာတို့အဖို့မူ နန်းတွင်း ရာမဇာတ်တော်ကြီး ဟု လွယ်လွယ် ခေါ်နိုင်ရာပေသည်။

လင်္ကာကြီးနှစ်ဆူအနက် အခြားတဆူဖြစ်သည့် မဟာဘာရတကဲ့သို့ ရာမာယဏသည် ထင်ရှားလှသော်လည်း အဖက်ဖက်တွင် ကွာခြားသည်ကို တွေ့ရပေသည်။ မဟာဘာရတသည် ရှေးဟောင်းပုံပြင် ပုရာဏ်အသွင် ဖြစ်သော်လည်း ရာမာယဏမှာမူ အကြောင်း အရာထက် အဖွဲ့အနွဲ့နှင့် တန်ဆာဆင်မှုကို အသားပေးသောကာဗျစာရင်းတွင် ပါဝင်ပေသည်။ စင်စစ်သော် ရာမာယဏသည် ကာဗျ အဖွဲ့အနွဲ့များတွင် ရှေးအကျဆုံး ဖြစ်သည့်အလျောက် အာဒိကာဗျ ဟူ၍ပင် အမည်တွင်ရသည့် လင်္ကာဖြစ်ပေသည်။မဟာဘာရတသည် စာဆိုတဦးတည်း၏ လက်ရာမဟုတ်သော်လည်း ရာမာယဏသည် စာဆိုတဦးတည်း၏ လက်ရာဖြစ်သည်။ ထိုစာဆိုမှာလည်း ဝမ္မီကိ ရသေ့ကြီး ဟု အတိအကျသိရှိရသည့်ပြင်၊ ထိုစာဆိုရသေ့ကြီးမှာ အာဒိကဝိ ဟူ၍ပင် အမွှမ်းတင်ခြင်း ခံရသူဖြစ်ပေသည်။ ပမာဏအားဖြင့်ကား ရာမာယဏသည် မဟာဘာရတထက် တိုလှသည်။ မဟာဘာရတတွင် ဂါထာပုဒ်ရေတသိန်းရှိသော်လည်း ရာမာယဏတွင် ၂၄,၀၀၀ မျှသာ ရှိလေသည်။ အကြောင်းအရာအားဖြင့်လည်း ထိုနှစ်စောင်လုံးမှာသူရဲကောင်းတို့၏စွမ်းရည်ကို သီကျူးကြသည်ချည်း ဖြစ်သော်လည်း မဟာဘာရတသည် သူရဲကောင်းစွမ်းရည်ပြ အကြောင်းအရာတို့မှာ လင်္ကာတစောင် လုံး၏

ငါးပို တပုံထက် မပိုဘဲ ကိုယ်ကျင့်တရားများဆိုင်ရာ ဟင်းလေးအိုးပမာရှိနေ၍ ရာမာယဏမှာမူ အချစ် စွန့်စားခန်းများ ပါဝင်သည့် တကယ့်သူရသတ္တိကို မှတ်တမ်း တင်ထားသည့် လင်္ကာဖြစ်ပေသည်။ သို့သော် မဟာဘာရတတွင် လူလူချင်း တိုက်ခိုက်သည့် စစ်ပွဲများအကြောင်း ပါဝင်၍ ရာမာယဏတွင်မူ လူသား၊ မျောက်နှင့် ဘီလူးတို့ တိုက်ခိုက်သည့် စစ်ပွဲများအကြောင်း ပါဝင်ပေရာ၊ မူရင်း တိုက်ပွဲများ အကြောင်းကို မသိရဘဲ တဆင့်စကားဖြင့် ဒဏ္ဍာရီ ပုံပြင်များသဖွယ် ဖြစ်နေပေသည်။ ထိုလင်္ကာကြီးနှစ်စောင်၏ ခြားနားမှုတရပ်မှာ မဟာဘာရတသည် အိန္ဒိယမြောက်ပိုင်းတွင် ပေါ် ထွန်းခဲ့၍ ရာမာယဏမှာမူ ဂင်္ဂါမြစ် အရှေ့မြောက်ဖက်တွင် တည်ရှိဘူးသည့် ရှေးဟောင်း ကောသလတိုင်းတွင် ဖွားသန့်စင်ခဲ့ပေသည်။ (မဟာဘာရတ — လည်းရှု။)

လက်ရှိအသွင်ဝယ် ရာမာယဏသည် ခုနစ်တွဲသာရှိ၍ ပဌမတွဲနှင့် နောက်ဆုံး သတ္တမတွဲ တို့မှာလည်း နောင်းလူတို့ ထည့်သွင်း ဖြည့်စွက်ချက်များသာဖြစ်သည် ဟု သက္ကတ ပညာရှင်တို့ ယူဆကြလေသည်။ မူအားဖြင့်ကား ဗင်္ဂလားမူ၊ ဘုံဘိုင်မူနှင့် အနောက်အိန္ဒိယမူ ဟူ၍ သုံးစောင် ရှိပေရာ ဘုံဘိုင်မူမှာ ရှေးအကျဆုံး ဖြစ်သည် ဟု တွေးထင်ကြရပေသည်။

ရာမာယဏကို ဝမ္မီကိ ရသေ့ကြီးက စီကုံးရေးသားသည်ဟု ဆိုသော်လည်း ဇာတ်လမ်းအနေနှင့်မူ ဝမ္မီကိရသေ့ကြီးမတိုင်မီကတည်းက တည်ရှိပြီး ဖြစ်သည် ဟု အချို့ပညာရှင်တို့က ဆိုလေသည်။ ရာမဇာတ်လမ်းသည် ရှေးပဝေဏီကပင် ရှိခဲ့သော်လည်း ဝမ္မီကိရသေ့ကြီး လက်ထက်ရောက်မှသာ ရသေ့ကြီးက ကဗျာအဖွဲ့အနွဲ့ဖြင့် မွမ်းမံတန်ဆာဆင်ကာ မှတ်တမ်းတင်ခဲ့ခြင်း ဖြစ်သည် ဟု ဆိုလေသည်။ မည်သို့ဆိုစေ ရာမာယဏသည် လင်္ကာတစောင်တဖွဲ့အနေဖြင့် တည်ရှိခဲ့သည်မှာ အနည်းဆုံး နှစ်ပေါင်း ၂,၀၀၀ မျှ ကြာမြင့်ပြီ ဟု ခန့်မှန်းရလေသည်။ မဟာဘာရတနှင့် စာပြန်လျှင်လည်း မဟာဘာရတ လင်္ကာအဖွဲ့အနွဲ့တရပ်အဖြစ်သို့ မရောက်မီ ကာလကပင် ရာမာယဏ၏ မူရင်းတည်ရှိပြီး ဖြစ်သည် ဟု မှတ်ယူကြလေသည်။ ထိုသို့ မှတ်ယူကြရာတွင် ထင်ရှားသည့် အကြောင်းခံတရပ်မှာ မဟာဘာရတ၏ ပုံပြင်များကို ရာမာယဏတွင် မတွေ့ရဘဲ၊ ရာမ၏အကြောင်းအရာအချို့ကို မဟာဘာရတ၌ တွေ့ရခြင်း ဖြစ်ပေသည်။

ရာမဇာတ်ကို မြန်မာတို့ အများအပြားပင် သိရှိကြပြီးဖြစ်သော်လည်း နှိုင်းယှဉ်လေ့လာနိုင်ရန် သက္ကတကဗျာ(မူ)လာ အကြောင်းအရာကို တတ်နိုင်သမျှ အကျဉ်းချုံးကာ ဖော်ပြပေအံ့။

အယုဒ္ဓယပြည် ဒသရထမင်းကြီး၌ ကောသလ္လာ၊ ကေကေယီနှင့် သုမိတ္တာဟူ၍မိဖုရားသုံးပါးရှိသည်တွင် ကောသလ္လာမှ ရာမ၊ ကေကေယီမှ ဘရတနှင့် သုမိတ္တာမှ လက္ခဏနှင့် သတ္တုဃနဟူ၍ မင်းသားလေးပါး ဖွားမြင်လေသည်။ မင်းကြီးသည် သားတော်ကြီး ရာမမင်းသားအား အမြတ်နိုးဆုံးဖြစ်၍ လက္ခဏမင်းသားကလည်း နောင်တော် ရာမမင်းသားကိုပင် အတွယ်တာဆုံး ဖြစ်လေသည်။ သားတော်များ အရွယ်ရောက်လျှင် ဝိဿမိတ္တရသေ့ကြီးသည် ရာမနှင့် လက္ခဏတို့အား ဝိဒေဟတိုင်း ဇနကမင်းကြီးထံခေါ် သွားရာ ဇနကမင်းကြီးသည် သမီးတော် သီတာမင်းသမီးအဖို့ ကြင်ယာရွေးရန် လေးတင်ပွဲကျင်းပနေခိုက် ဖြစ်လေသည်။ လေးတင်ပွဲဝယ် ရာမမင်းသား အနိုင်ရပြီးနောက် သီတာမင်းသမီးကို ရရှိ၍ ပြည်တော်ပြန်လာကာ ပျော်ရွှင်စွာ ပေါင်းသင်းနေထိုင်ကြလေသည်။

ဒသရထဘုရင်ကြီးလည်း ဇရာဒုဗ္ဗလအရွယ်သို့ ရောက်လာပြီဖြစ်သည်နှင့် တနေ့တွင် သားတော်ရာမမင်းသားအား ထီးမွေနန်းမွေအဖြစ် ကျေညာရန် စီစဉ်လေသည်။ သို့သော် ကေကေယီ မိဖုရားသည် မိမိ၏သားတော် ဘရတသာလျှင် မင်းဖြစ်သည်ကို မြင်လိုသောကြောင့် တရံခါက မိမိအား ဒသရထမင်းကြီး ပေးအပ်ထားသည့် ဆုနှစ်ရပ်ကို တောင်းခံလေသည်။ ထိုနှစ်ဆုမှာ ဘရတမင်းသားကို အရိုက်အရာ ဆက်ခံစေရန်နှင့် ရာမမင်းသားကို ပြည်တော်မှ ၁၄ နှစ်ကြာ နှင်ထုတ်ရန်တို့ဖြစ်လေသည်။ အခြားဆုများ တောင်းခံရန် ဘုရင်ကြီးက အမျိုးမျိုး ပန်ကြားသော်လည်း ၊ မရသဖြင့် ရာမမင်းသားအား ခေါ်၍ အကျိုးအကြောင်း ပြောပြရာ ရာမမင်းသားသည် သားတော် အလိမ္မာဖြစ်သည်အားလျော်စွာ မိမိ၏သဘောအလျောက် ကြင်ယာတော် သီတာမင်းသမီး၊ ညီတော် လက္ခဏတို့နှင့်အတူ ဒဏ္ဍကတောသို့ အေးချမ်းစွာပင် ထွက်ခွာသွားလေသည်။ ခမည်းတော်မင်းကြီးလည်း စိတ္တဇဖြင့် နတ်ရွာစံလေသည်။ ဘရတမင်းသားသည်လည်း မိမိ၏ နောင်တော်ကို ကျော်လွန်၍ ဘုရင်မလုပ်လိုသောကြောင့် နောင်တော်အားလိုက်ရှာရာ၊ ဒဏ္ဍကတောတွင် တွေ့ရှိ၍ နေပြည်တော်သို့ ပြန်လည်လိုက်ပါရန် ခေါ်ဆောင်လေသည်။ ရာမမင်းသားလည်း ညီတော် ဘရတ၏ သဘောထား ကြီးမားပုံကို သိရှိရသော်လည်း မိမိ၏ကတိအတိုင်း ခမည်းတော်၏ သြဇာကို နာခံလိုသောကြောင့် နေပြည်တော်သို့ ပြန်မလိုက်ဘဲ ခြေနင်းကိုသာ ပေးအပ်လိုက်လေသည်။ ဘရတမင်းသားလည်း ရွှေခြေနင်းကို ယူကာ ရာဇပလ္လင်ထက်တွင် တင်၍ နောင်တော်၏ ကိုယ်စား တိုင်းပြည်ကို အုပ်ချုပ်လေသည်။

ဒဏ္ဍကတောတွင်းဝယ် ရာမမင်းသည် ကြင်ယာတော်၊ ညီတော်တို့နှင့် အတူ နေထိုင်စဉ် ဘီလူးတို့၏ဘေးမှ ကြောက်လန့်နေကြသူတို့ ခိုဝင်လာကြရာ ရာမမင်းသည် ဘီလူးတို့၏ ရန်ကို တွန်းလှန်ရလေသည်။ သုပ္ပနခါ ဘီလူးမသည် ရာမမင်းကိုမြင်လျှင် တပ်မက်ကြောင်း ထုတ်ဖော်သော်လည်း၊ ရာမ

မင်းသားက လက်မခံသဖြင့် စိတ်နာ၍ မောင်တော် ခရာဘီလူး ကိုခေါ်၍ စစ်သည်တို့ဖြင့် တိုက်ခိုက်လေသည်။ သို့သော် ခရာဘီလူးနှင့်တကွ စစ်သည်တော်တို့သည် ရာမမင်းသား၏ လက်ချက်ဖြင့် ပျက်စီးကြသည်ရှိသော် သုပ္ပနခါဘီလူးမသည် သီဟိုဠ်ကျွန်းသို့ကူး၍ မောင်တော်ဘီလူးမင်း ရာဝဏ (ဒသဂီရိ) ထံ တိုင်တန်းလေသည်။ ရာဝဏ ဘီလူးမင်းလည်း အမျက်ကြီးစွာဖြင့် ဂလဲ့စားချေရန် လိုက်လာပြီးနောက် မိမိ၏ နောက်ပါတဦးအား ရွှေသမင်အဖြစ် ဖန်ဆင်းကာ သီတာမင်းသမီးအား မြူစေလေသည်။ မင်းသမီးလည်း ရွှေသမင် ကိုလိုချင်၍ မောင်တော်အား ပူဆာရာ ရာမမင်းသားသည် ညီတော်နှင့်အတူ သမင်ပမ်း ထွက်ရလေသည်။ ထိုအခိုက် ရာဝဏသည် ရသေ့ယောင်ဆောင်၍ သီတာအား ရထားပျံ ပေါ် တင်ကာ ကောင်းကင်ခရီးဖြင့် ခိုးပြေးလေသည်။ သီဟိုဠ် သို့ရောက်လျှင် ရာဝဏသည် သီတာ၏မေတ္တာကို တောင်းခံသော်လည်း မရသဖြင့် အကျဉ်းချထားလေသည်။ ရာမ မင်းသား ညီနောင်တို့လည်း ရွှေသမင်ကိုလိုက်၍ မရဘဲ ပြန်လာသည်တွင် သီတာမင်းသမီးအား မမြင်သဖြင့် မင်းသမီး အား အရှာထွက်ရပြန်လေသည်။ လမ်းတွင် ခေါင်းပြတ်ဘီ လူးတကောင်နှင့် တွေ့ရှိလေရာ သုဂ္ဂိဝ (သုဂြိတ်) မည် သောမျောက်မင်းနှင့် မိတ်ဖွဲ့၍ ရှာရန် ထိုဘီလူးက အကြံပေး လေသည်။

ရာမသည် သုဂ္ဂိဝနှင့် တွေ့သောအခါ သုဂ္ဂိဝက မိမိမှာ ကြင် ယာနှင့်တကွ ထီးနန်းကိုပါ ညီဖြစ်သူ ဗာလီ၏ လုယက်ခြင်းခံ ရကြောင်းပြောပြကာ မဟာမိတ် ဖွဲ့လေသည်။ ထိုနောက် ရာမသည် ဗာလီအား တိုက်ခိုက်ပြီးသော် သုဂ္ဂိဝအား နန်း ပြန်အပ်လေသည်။ သုဂ္ဂိဝတွင်ရှိသော မျောက်အမတ်များ အနက် ဉာဏ်အရှိဆုံးနှင့် စိတ်အချရဆုံးသောသူကား ဟနု မာပေတည်း။ ထို့ကြောင့် သီတာမင်းသမီးကို ရှာဖွေရာ၌ ဟနုမာအား ရာမမင်းသားက လွှဲအပ်လေသည်။ ဟနုမာ လည်း သီတာမင်းသမီးရှိရာ အရပ်ကို သတင်း ရရှိသဖြင့် မျောက်ဗိုလ်ပါတို့နှင့်အတူ လင်္ကာကျွန်းသို့ ကူးရန် ကြိုးစား လေတော့သည်။

ဟနုမာသည် မဟိန္ဒတောင်သို့ တက်၍ ဝေဟင်ခရီးဖြင့် လေးရက်တိုင်တိုင် ခက်ခက်ခဲခဲကူးခဲ့သည့်နောက်တွင် လင်္ကာ ကျွန်းသို့ရောက်ရှိလေသည်။ ထိုနောက် မြို့တော်ကို အကဲခတ် ပြီးလျှင် မိမိ၏ အရွယ်ပမာဏကို သေးငယ်အောင် ဖန်ဆင်း ကာ မြို့တော်တွင်းသို့ ဝင်လေသည်။ ရာဝဏ၏ နန်းတော်၊ ရထားပျံ၊ မောင်းမမိဿံတို့၏ အဆောင်များ စသည်တို့သို့ တိတ်တဆိတ် လှည့်လည်စုံစမ်းပြီးနောက် သီတာမင်းသမီး အား တောအုပ်တခုအတွင်း၌ တွေ့ရှိလေသည်။ မင်းသမီး အား အကျိုးအကြောင်းပြောပြပြီးသော် ဟနုမာသည် ရာမ ရှိရာသို့ ပြန်လာကာ သီတာမင်းသမီးအား တွေ့ရှိရပြီ ဖြစ် ကြောင်းကို လျှောက်ထား၍ သီတာမင်းသမီး၏ စကား လက်ဆောင်ကို ပါးလေသည်။

ရာမလည်းသီတာမင်းသမီးအား ပြန်လည်ရယူရန်ကြိုးစား လေတော့သည်။ သုဂ္ဂိဝက လင်္ကာကျွန်းသို့ တန်တားသွယ် ပေးလျှင်ပင် မျောက်စစ်တပ်ကြီး ချီတက်လာလေသည်။ ထို အခါ ရာဝဏ၏ညီတော် ဗိဘီသနက သီတာအား ရာမမင်း၏ လက်သို့ ပြန်လည်အပ်နှင်းရန်အကြံပေးလေသည်။ သို့သော် လည်း ရာဝဏက မလိုက်နာရုံမက စော်ကားမှုပြုသည်ရှိသော် ဗိဘီသနသည် ရာမမင်းဖက်သို့ ခိုဝင်လေသည်။ ထိုနောက် စစ်ပွဲကြီးများ ဖြစ်ပွားလေတော့သည်။ ရာဝဏ၏သားတော် သည် လက္ခဏ၏လက်ချက်ဖြင့်၎င်း၊ ရာဝဏကိုယ်တိုင်မှာမူ ရာမမင်း၏လက်ချက်ဖြင့်၎င်း အသက် ဆုံးရှုံးပြီးနောက် ရာမ မင်းအဖို့ အောင်ပွဲ ရရှိလေသည်။ သို့သော် ရာမမင်းသည် သီတာမိဖုရားအား သက်သေမကင်းဖြစ်၍ ကြင်ယာအဖြစ် ပြန် လည်သိမ်းပိုက်ခြင်း မပြုသဖြင့် မီးပုံအတွင်းသို့ ခုန်ဆင်းလေ သည်။ ထိုအခါ မီးလောင်ခြင်း မရှိသဖြင့် သီတာမိဖုရား၏ သစ္စာဖြူစင်ပုံကို သိရှိကာ၊ ရာမမင်းသည် ကြင်ယာတော် အဖြစ် သိမ်းပိုက်၍ အယုဒ္ဓယပြည်ဝယ် တရားနှင့်လျော်စွာ မင်းပြုလေသည်။

သို့သော် ဤမျှနှင့် ဇာတ်လမ်း မဆုံးသေး။ သီတာမင်း သမီးအား ပြန်လည်ဆောင်ယူခြင်းကို တိုင်းသူပြည်သားတို့ က မကျေမနပ်ဖြစ်ကြလေသည်။ ဤသို့ ပြန်လည်ဆောင်ယူ ခြင်းသည် တိုင်းသူပြည်သားတို့အဖို့ ဆိုးရွားသော နမူနာ တရပ် ဖြစ်သည် ဟု ယူဆကြလေသည်။ ထိုအခါ ရာမမင်း လည်း မလွှဲမရှောင်သာသဖြင့် သီတာမိဖုရားအား ခေါ် ဆောင်၍ စွန့်ပစ်ရန် လက္ခဏအား အမိန့်ထုတ်လေသည်။ လက္ခဏသည်း မရီးတော်အား ဂင်္ဂါမြစ်ကမ်းသို့ ခေါ် ဆောင် ကာ အကျိုးအကြောင်းပြောပြလေသည်။ ထိုအခါသီတာ မိဖုရားသည် မိမိတဦးတည်းပင် ဝမ္မီကိရသေ့၏ ကျောင်း သခ်မ်းသို့ သွားရောက်လျှင် ရသေ့ကြီးသည် သီတာမိဖုရား အား မိန်းမဖော်များနှင့် လွှဲအပ်ထားလေသည်။ မကြာမီ သီတာမိဖုရားတွင် ကုသနှင့် လဝ အမည်ရှိသော သားတော် နှစ်ပါး ထွန်းကားလေသည်။ သားတော်များသည် အရွယ် ရောက်၍ ရသေ့ကြီး၏ တပည့်များ ဖြစ်လာကြပြီးနောက် ရသေ့ကြီးနှင့်အတူ ရာမမင်း၏ မြင်းယဇ်ပွဲသို့ လိုက်ပါသွား ကြလေသည်။ မိမိစီကုံးသည့် ရာမာယဏလင်္ကာကို ရသေ့ကြီး က ထိုညီနောင်နှစ်ပါးအား သီဆိုစေရာ၊ ကြားရသူတို့မှာ နှစ် သက် ကြည်နူးကြရလေသည်။ ရာမမင်းသိလျှင် သီတာမိဖု ရားအား ခေါ် ဆောင်စေ၍ ကျမ်းသစ္စာကျိန်ခိုင်းလေသည်။ ရသေ့ကြီးက သီတာမင်းသမီး၌ အပြစ်လုံးဝကင်းစင်၍ ကုသ နှင့် လဝတို့မှာ ရာမမင်း၏ သားတော် အစစ်အမှန်ဖြစ် ကြောင်း ပြောဆိုလေသည်။ ရာမမင်းလည်း ရသေ့ကြီး၏

စကားများကို ယုံကြည်သော်လည်း သီတာအား ကျမ်းကျိန်ခိုင်း၍သာ နေလေသည်။ ထိုအခါ သီတာမိဖုရားက မိမိသည် တပါးသောယောကျ်ားနှင့် ဖောက်ပြန်ရန် စိတ်နှင့်ပင် မပြစ်မှားမိကြောင်း၊ ထိုစကားမှန်ပါက မိမိအားမြေနတ်မယ်သည် ယူဆောင်ပါစေသတည်း ဟု အဓိဋ္ဌာန်ပြုလျှင်ပင် မြေနတ်သည် ထွက်ပေါ်လာကာ သီတာမိဖုရားအား ပွေ့ယူကွယ်ပျောက် လေတော့သည်။ ထိုအခါကျမှ ရာမမင်းလည်း နောင်တရကာ သီတာမိဖုရားအား ပြန်လည် တောင်းယူသော်လည်း ဗြဟ္မာမင်းက နတ်ပြည်တွင် ပေါင်းရမည်ဖြစ်ကြောင်း ပြောပြလေသည်။ ရာမမင်းလည်း မကြာမီ တိုင်းပြည်အား သားတော်များလက်သို့လွှဲအပ်ကာ နတ်ရွာစံလွန်လျှင် ဗိဿကိုးနတ် ဖြစ်လာပြန်တော့သည်။

ဗုဒ္ဓအယူဝါဒီတို့၏ ပါဠိပိဋကတ်တော်လာ ဇာတကကျမ်းတွင်လည်း ဒသရထဇာတ်ဟူ၍ ရှိရာ ထိုဇာတ်ကား ရာမမင်းအား အလောင်းတော်အဖြစ် ပြဆိုထားပေသည်။ ဒသရထမင်းကြီး နတ်ရွာစံသောအခါ နောင်တော်ရာမမင်းသားက ညီတော်များအားနှစ်သိမ့်သည့်စကားများကို ဂါထာ ၁၂ ပိုဒ်ဖြင့် ဖော်ပြထားပေရာ၊ ထိုဂါထာ ၁၂ ပိုဒ်အနက် တပိုဒ်မှာ သက္ကတရာမာယဏ လက်ာကြီးတွင် ပါဝင်သည်ကို တွေ့ရပေသည်။ သို့သော် ဂါထာ ၁၂ ပိုဒ်အနက် တပိုဒ်သာလျှင် တူညီသည်ကို ထောက်သော် ရာမမင်းသားမိန့်ဆိုသော ပါဠိဇာတကလာဂါထာများသည် ရာမာယဏလက်ာကြီးကိုမှီးသည် မဟုတ်ဘဲ၊ ရာမမင်း၏ အကြောင်းအရာကို ဖော်ပြသည့် ရှေးဟောင်း ပုံပြင်တရပ်ရပ်ကို မှီးသည်ဟူ၍သာ ဆိုနိုင်ဖွယ်ရှိပေသည်။ (ပါဠိရာမဇာတ်တော်၌ကား ရာဝဏအကြောင်း ပါဝင်ခြင်းမရှိပေ။) ရာမာယဏ လက်ာကြီးကို ကြည့်ပြန်လျှင်လည်း ဗုဒ္ဓအယူဝါဒ စိုးစဉ်းမျှမတွေ့ရ။ ရာမာယဏလာ မာတြာမှာ ပါဠိဂါထာများ တိုးတက်လာပြီးသည့်နောက်မှ ပေါ်ပေါက်လာဟန် ရှိသည် ဟူ၍ ပညာရှင်အချို့က ဆိုလေသည်။ ဤအချက်ကိုထောက်ပြန်သော် ရာမာယဏ၏ မူရင်းအဖွဲ့အနွဲ့သည် ဗုဒ္ဓအယူဝါဒ ထွန်းကားလာပြီးမှ သာလျှင် ပေါ်ပေါက်ရမည် ဟု ဆိုနိုင်ပြန်လေသည်။

ရာမာယဏသည် အာရှအရှေ့တောင်ပိုင်း နိုင်ငံများတွင် လူသိများသော ဇာတ်လမ်း ဖြစ်ပေသည်။ အင်ဒိုနီးရှား၊ ကမ္ဘောဒီးယား၊ ယိုးဒယား၊ မြန်မာစသော နိုင်ငံများ၏ သဘင်ပညာဖြင့် ရာမဇာတ်လမ်းကို သရုပ်ဖော် ကပြကြသည်မှာ အထူးလူကြိုက်များလှသည်ကို အကျယ်ဖွင့်ဆိုရန် လိုအံ့မထင်ပေ။ ထိုနိုင်ငံများတွင် ကပြကြသော ရာမဇာတ်လမ်းမှာ အသေးစိတ် အကြောင်းအရာများတွင် တမူနှင့် တမူ အနည်းငယ် ကွဲလွဲမှုများ ရှိတန်ရာသော်လည်း ခြုံ၍ဆိုရသော် တသဘောတည်းပင် ဖြစ်ပေမည်။ မြန်မာတို့၏ ရာမဇာတ်လမ်းသည် အိန္ဒိယမှ တိုက်ရိုက်ရောက်ရှိဟန် မတူ၊ ယိုးဒယားမှတဆင့် ရောက်ရှိဟန်တူလေသည်။ တောင်ငူခေတ် ဘုရင့်နောင်လက်ထက်တွင် ယိုးဒယားပြည်အလုံးကို သိမ်းရုံးအောင်မြင်တော်မူ၍ ယိုးဒယားမှ လက်မှုနှင့် အနုပညာသည်များကို မြန်မာနိုင်ငံသို့ ခေါ်ဆောင်လာလေရာ ထိုအနုပညာသည်တို့တွင် ရာမဇာတ်ကို ကပြတတ်ကြသည့် သဘင်ပညာသည်တို့ ပါဝင်ကြမည် ဟု ခန့်မှန်းရပေသည်။ သို့သော် ရာမဇာတ်ကို မြန်မာနိုင်ငံ၌ပို၍လူသိများသည်ကား ကုန်းဘောင်ခေတ် ဘိုးတော်ဘုရားလက်ထက်တွင် ဟု ယူဆနိုင်ဖွယ် ရှိပေသည်။ မြဝတီမင်းကြီးက ယိုးဒယား သီချင်းသွားများကို ယူကာ မြန်မာမှု ပြုရာတွင် ရာမမင်း၏ ဇာတ်လမ်းမှ ဇာတ်ကြောင်းအချို့ကိုပါ ဖွဲ့ဆိုခဲ့လေသည်။ ဦးတိုးကမူ ရကန်သွားဖြင့်ပင်ဖွဲ့ဆိုလေရာ ဦးတိုး၏ရာမရကန် ဟူ၍ ယနေ့တိုင် ကျော်ကြားလျက် ရှိပေသည်။ **ဦးဘလေး**

**ရာမညတိုင်း။** ။မွန်လူမျိုး — ရှု။

**ရာသီ။** ။ရာသီ ဆိုသည်မှာ နေ(တနင်္ဂနွေဂြိုဟ်)၏ သွားရာလမ်းအတိုင်း တပတ်ပြည့်အောင်လှည့်ပတ်သွားလာသော အချိန်ကာလကို အပိုင်းအစု ခွဲခြား သတ်မှတ်ထားသော အချိန်ပိုင်းဖြစ်သည်။ နေသည် ရက်ပေါင်း ၃၆၅ ၁/၄ ရက် ကြာမှ ရာသီစက်ကို တပတ်ပတ်မိရာ၊ ထိုကာလကို ၁၂ ပိုင်းပိုင်း၍ တပိုင်းကို တရာသီ ဟုခေါ်သည်။ တရာသီတွင် နက္ခတ်ခရီးအားဖြင့် ကိုးပါဒ်၊ သို့မဟုတ်(လေးပါဒ်သည် နက္ခတ်တလုံးနှင့် ညီမျှသဖြင့်) နှစ်လုံးတပါဒ် လှည့်ပတ်သည်။ နေတပတ် ပတ်ချိန်ကို တနှစ် ဟု ခေါ်သည်။

နေတပတ် ပတ်ချိန်၏ ကာလအပိုင်းအခြားကို ၁၂ ပိုင်းခွဲ စိတ် မှတ်သားရာတွင် အကြမ်းအားဖြင့် လပြည့်ခြင်းသည် ၁၂ ကြိမ်ရှိ၍ လကွယ်ခြင်းသည် ၁၂ ကြိမ်ရှိသဖြင့် လဆန်းစမှ လကွယ်အထိကာလကို တပိုင်း၊ သို့မဟုတ် တလအဖြစ် သတ်မှတ်ကြသည်။ ၃၆၅ ၁/၄ ရက်ကို ၁၂ ပိုင်းအညီအမျှမပိုင်းချေ။ ထိုကြောင့် လအားဖြင့် တနှစ်လျှင် ရက်စုံ(ရက် ၃၀) ခြောက်လနှင့် ရက်မစုံ (၂၉ ရက်) ခြောက်လဟူ၍ ရက်ပေါင်း ၃၅၄ ရက်သာရှိသဖြင့် နေသွားအတိုင်း တနှစ်သည် လဆန်းသည်မှ ကွယ်သည်အထိ လဝန်းလှည့်ချိန် ၁၂ ကြိမ်ထက် ၁၁ ၁/၄ ရက် ပိုနေသည်။ ထိုပိုသော ရက်များကို စုမှတ်၍ သုံးနှစ်လျှင် တကြိမ် ဝါကြီးထပ်၊ ဝါငယ်ထပ် စသည်ဖြင့် ဒုတိယဝါဆိုလဟူ၍ တလတိုးဖြည့်ကာဖြည့်သွင်းခုနိမ်ရသည်။ ဝါကြီးထပ်လျှင် လေးလရက်စုံ သတ်၍ ကဆုန်၊ နယုန်၊ ပဌမဝါဆို၊ ဒုတိယဝါဆို လေးလလုံး ရက်ပေါင်း ၃၀ စီထားသည်။ ဝါငယ်ထပ်လျှင်မူ နယုန်လအဖို့ ရက်မစုံ ၂၉ ရက်ထားမြဲထားသည်။ ထိုနည်းဖြင့် နေလှည့်ချိန် တနှစ်နှင့် လဆန်းချိန်မှ ကွယ်ချိန်အထိ ၁၂ လကို တပြေးတည်းညီမျှသွားစေသည်။

ဆဲ့နှစ်လ၊ သို့မဟုတ် ဆဲ့နှစ်ရာသီကို မြန်မာအမှတ်အသား အားဖြင့် တန်ခူး၊ကဆုန်၊နယုန်၊ဝါဆို၊ ဝါခေါင်၊ တော်သလင်း၊ သီတင်းကျွတ်၊ တန်ဆောင်မုန်း၊ နတ်တော်၊ ပြာသို၊ တပို့တွဲ နှင့် တပေါင်း ဟူ၍ အစဉ်လိုက် အမည် မှည့်ခေါ် ထားသည်။

ဗေဒင် အလိုအားဖြင့်မူ လဆန်းမှ လကွယ်ချိန်ကို တရာသီ မမှတ်ဘဲ၊ နက္ခတ် ၂၇ လုံး လှည့်ပုံအလိုက် နက္ခတ်လှည့်ချိန် နှစ်လုံး တပါဒ်ကာလကို တရာသီဟု မှတ်ယူသည်။ ထို့ကြောင့် လဆန်းမှ လကွယ်အထိ ဖြစ်သော မြန်မာလနှင့် နက္ခတ်တခွင် တခွင်၌ မကူးပြောင်းမီ တည်ချိန်ဖြစ်သော ဗေဒင်အလို ရာသီ သည် တထပ်တည်း မကျချေ။ ရက်အများဆုံး ထပ်ဆုံတတ် သည့် ရာသီအလိုက် မြန်မာလများကို ဗေဒင်ရာသီနှင့် ယှဉ် တွဲ၍ တန်ခူးကို မိဿ၊ ကဆုန်ကို ပြိဿ၊ နယုန်ကို မေထုန် စ သည်ဖြင့် မှတ်သားကြရသည်။ မြန်မာလကို ဝေါဟာရလ ဟု ခေါ်၍ ဗေဒင်နက္ခတ် အလိုအားဖြင့် သတ်မှတ်သောလကို ရာသီလ ဟု ခေါ် သည်။

အနောက်နိုင်ငံသားတို့၏ အလိုအရ သဘာဝအလျောက် အပူအအေးနှင့် နေ့တာညတာ ပြောင်းလဲခြင်းများကို လိုက် ၍ တနှစ်တည်းဟူသော အချိန်ကို နွေကူးရာသီ၊ နွေရာသီ၊ ဆောင်းကူးရာသီ၊ဆောင်းရာသီဟူ၍ရာသီဥတုလေးပိုင်းခွဲခြား ထားသည်။ မြောက်ကမ္ဘာလုံးခြမ်းတွင် မတ်လ၊ ဧပြီလနှင့် မေလတို့သည် နွေကူးရာသီလများဖြစ်၍ ဇွန်၊ ဇူလိုင်နှင့် ဩ ဂုတ်လများသည် နွေလများ ဖြစ်ကြသည်။ ဆောင်းကူးရာသီ လများတွင် စက်တင်ဘာ၊ အောက်တိုဘာနှင့် နိုဝင်ဘာလ များ ပါဝင်၍ ဒီဇင်ဘာ၊ ဇန္နဝါရီနှင့် ဖေဖွာရီလများသည် ဆောင်းလများ ဖြစ်ကြလေသည်။ တောင်ကမ္ဘာလုံးခြမ်းရှိ ရာသီဥတုများမှာ မြောက်ကမ္ဘာလုံးခြမ်းရှိ ရာသီဥတုများနှင့် လုံးဝဆန့်ကျင်လေသည်။

ရာသီဥတုအပြောင်းအလဲ ဖြစ်ရသည်မှာ ကမ္ဘာကနေကို ပတ်၍ သွားနေခြင်းကြောင့် ဖြစ်သည်။ ကမ္ဘာသည် နေကို တနှစ်တွင် တပတ်ပတ်မိအောင် သွားလျက်ရှိ၍ ထိုသို့သွား နေစဉ် မိမိ၏ သွားရာလမ်းကြောင်းကို ၂၃½° စောင်း၍ သွား နေလေသည်။ ထို့ကြောင့် ကမ္ဘာ့ဝင်ရိုးသည် နေဖက်သို့ စောင်းနေချိန်တွင် မြောက်ကမ္ဘာလုံးခြမ်း၌ နေရောင်ကို ပိုမိုရရှိ၍ နေမှဝေးရာဖက်သို့ စောင်းနေချိန်တွင် ရရှိသော နေရောင်မှာ နည်းပါးသွားလေသည်။မြောက်ကမ္ဘာလုံးခြမ်း ၌ နေရောင် ပိုမိုရရှိနေချိန်တွင် နေ့တာရှည်၍ ညဥ့်တာ တို သည်။ နေရောင် အရနည်းသွားသောအခါ နေ့တာတို၍ ညဥ့် တာ ရှည်လာသည်။

ကမ္ဘာပေါ်ရှိ အရာများအနက် အပင်များသည် ရာသီ အလိုက် အပြောင်းလဲဆုံး ဖြစ်ကြသည်။ နွေကူးရာသီတွင် အပင်ရှိ အရွက်နှင့် အဖူးကလေးများ ထွက်အာကြသည်။ ဝတ်မှုန်များ စပ်ယှက်မှု အောင်မြင်ကြသည်။ အခေါက်၏ အောက်ဖက်၌ အရစ်သစ်များ စတင် ဖြစ်ပေါ် လေသည်။ နွေတာရှည်သည့် နွေရာသီတွင် နေမှ စွမ်းအင်ကို အများဆုံး ရရှိသဖြင့် အရွက်များသည် စတာ့(ကစီ) ကို အများဆုံး ပြုလုပ်ကြသည်။ဆောင်းကူးရာသီတွင် အသီးများ မှည့်ကြ၍ အရွက်များမှာ ဆောင်ရွက်ရန်လုပ်ငန်း ပြီးဆုံး သွားသကဲ့သို့ အရောင်များ ညှိုးပြီးလျှင် ကြွေကျကုန်လေသည်။ ဆောင်း ရာသီသို့ ရောက်သောအခါ အပင်အမြောက်အမြား သေကုန် ကြ၍ ကျန်အပင်အချို့ကအနားယူကြသည်။ အဖူးများတွင် အအေးဒဏ်ကို ခံနိုင်ရန် ဖယောင်းသား တက်လာ၍ အစေ့ များ၌ အခွံမာများ ဖြစ်ပေါ် လာကြလေသည်။

တိရစ္ဆာန်တို့သည်လည်း များသောအားဖြင့်ရာသီအလိုက် အပြောင်းအလဲ ရှိကြလေသည်။ အအေးဒဏ်မှ လွတ်ကင်း စေရန် ငှက်များသည် နယ်ပြောင်းကြသည်။ ဆောင်းရာသီ တွင် သားမွေးရှိ တိရစ္ဆာန်များ၌ သစ်လွင်၍ ထူထဲသော အမွေးများ ပေါက်လာကြသည်။ အချို့ တိရစ္ဆာန်များက တဆောင်းတွင်းလုံး အိပ်၍နေကြသည်။ (ဆောင်းခိုကြ သည်)။ နယ်ပြောင်းခြင်းနှင့် ဆောင်းခိုခြင်း မရှိသော တိရစ္ဆာန်များက အခြားနည်းများဖြင့် အအေးဒဏ်မှအကာ အကွယ် ရှာကြသည်။ နွေကူးရာသီ စတင်လာသောအခါတွင် ငှက်များ၊ ပိုးကောင်များ၊ တွားသွားတိရစ္ဆာန်များနှင့် နို့ တိုက် သတ္တဝါများသည် သားငယ်ကို မွေးဖွားကြသဖြင့် တောများသည် ယင်းတို့၏ အသံများဖြင့် ဆူညံလျက် ရှိ တော့သည်။ ရှိရှိသမျှ တိရစ္ဆာန်များအဖို့ နွေရာသီသည် အ လုပ် လုပ်ချိန်ဖြစ်၍ ဆောင်းကူးရာသီသည် အစာစားချိန် ဖြစ် လေသည်။

လူတို့သည်လည်း ရာသီဥတုအလိုက် ပြင်ဆင်မှုများကို ပြုလုပ်ကြလေသည်။ အဝတ်အမျိုးမျိုးကို ရာသီအလိုက် ချုပ်လုပ်ကြသည်။ကစားခုန်စားဖက်တွင် အမျိုးမျိုးပြောင်း လဲ၍ ကစားကြသည်။ တောင်သူလယ်သမားများကလည်း ရာသီအလိုက် ထွန်ယက်ခြင်း၊ စိုက်ပျိုးခြင်း၊ ရိတ်သိမ်းခြင်း စသည်တို့ကို ပြုလုပ်ကြလေသည်။

**ရာသီခွင်**။ ။တနှစ်တွင် နေသည် အမြင်အားဖြင့်ကောင်း ကင်၌ ရှိသော နက္ခတ် ခေါ် ကြယ်စု ၁၂ ခုကို ဖြတ်ကျော် သွား၍ ထိုနက္ခတ်များတည်နေရာ နယ်နိမိတ်များကို ရာသီ ခွင်များအဖြစ်ဖြင့် ရှေး နက္ခတ်ဆရာများ လက်ထက်ကစ၍ သတ်မှတ် ထားခဲ့ကြသည်။ ရာသီခွင်တခွင်တွင် နက္ခတ်တလုံး (ကြယ်တစု) ရှိ၍ အဆိုပါ ရာသီခွင်တခုစီကို ရုပ်ပုံတခုစီဖြင့် ခွဲခြား သတ်မှတ်ထားသည်။ ထို ၁၂ ရာသီခွင်ကို နေသာမကာ လနှင့် အခြားဂြိုဟ်များလည်း ဖြတ်သန်းသွားလာကြသည်။ လက်တင်အမည်များဖြင့် ခွဲခြားထားသော ၁၂ ရာသီခွင်မှာ အောက်ပါအတိုင်းဖြစ်၍ ရာသီခွင်အတွင်းရှိ နက္ခတ်တို့၏

ရုပ်ပုံများကိုလည်း ယှဉ်တွဲ ဖော်ပြထားသည်။ အဆိုပါ လက်တင်အမည်များသည် ရှေးဂရိလူမျိုးတို့၏ အခေါ် အဝေါ် များမှ ဆင်းသက်လာခြင်း ဖြစ်လေသည်။

၁။ အေးရီး .... သိုးထီးပုံ
၂။ တောရပ် .... နွားသိုးပုံ
၃။ ဂျင်မိနိုင် .... အမြွာပူးလူပုံ
၄။ ကင်ဆာ .... ကနန်းပုံ
၅။ လီယို .... ခြင်္သေ့ပုံ
၆။ ဗားဂိုး .... အပျိုကညာပုံ
၇။ လိုင်ဗရာ .... ချိန်ခွင်ပုံ
၈။ စကော်ပီယို .... ကင်းမြီးကောက်ပုံ
၉။ ဆက်ဂျီတေးရီးယပ် .... လေးသမားပုံ
၁၀။ ကက်ပရီကောနပ် .... ဆိတ်ပုံ
၁၁။ အကွာရီယပ် .... ရေထမ်းသမားပုံ
၁၂။ ပိုက်ဆီး .... ငါးပုံ

ဟိန္ဒူနှင့် မြန်မာ ဗေဒင်ကျမ်းများအရ အေးရီးအစ ပိုက်ဆီးအဆုံးရှိသော ၁၂ ရာသီကို၊ မိဿ၊ ပြိဿ၊ မေထုန်၊ ကြကဋ်၊ သိဟ်၊ ကန်၊ တူ၊ ဗြိစ္ဆာ၊ ဓနု၊ မကာရ၊ ကုံ၊ မိန် ဟူ၍ အစဉ်အတိုင်း ခေါ် သည်။ ပုံများမှာ နှစ်မျိုးစလုံးပင် ထပ်တူ ဖြစ်သင့်သော်လည်း အနည်းငယ် ကွဲလွဲချက်များမှာ ဟိန္ဒူနှင့်မြန်မာ ဗေဒင်ကျမ်းများ၌ မိဿကို ဆိတ်ထီးပုံဖြင့်၎င်း၊ မေထုန်ကို ယောကျ်ားတဦးနှင့် မိန်းမတဦးဖက်၍ ရပ်နေသောပုံဖြင့်၎င်း၊ မကာရကို သမင်ခေါင်းရှိသော မကန်း မည်သော ရေသတ္တဝါပုံဖြင့်၎င်း ပေးထားသည်ကို တွေ့ရလေသည်။ မြန်မာစာပေ၌ ၁၂ ရာသီဆိုင်ရာ နက္ခတ်၊ တာရာ၊ ရာသီ၊ လ စသည်တို့၏ သဘောကို ဖော်ပြပါ ရာသီစက်အားဖြင့် သိမြင်နိုင်ပေသည်။

ရာသီစက်တွင် နက္ခတ် ၂၇ လုံး ရှိသည်အနက် နက္ခတ်စဉ်ကို အဿဝဏီမှ စ၍ ရေဝတီ အဆုံးအထိ ရေတွက်ကြသည်။ နက္ခတ်၂၇ လုံးသည် တာရာကိုးလုံးနှင့်တဖန် တိုက်ဆိုင်နေပြန်၍ ရာသီစက်ပုံကို ကြည့်လျှင် တာရာတလုံးသည် နက္ခတ်သုံး လုံးနှင့် တူညီနေသည်ကို တွေ့ရပေမည်။ တာရာကြီးကိုးလုံးကို ကျိုးတာရာ၊ ဟသ်ာတာရာ စသည်ဖြင့် အသိအမှတ်ပြုထားသည်။ တရာသီမှာ တနှစ်၏ ၁၂ ပုံ တပုံဖြစ်၏။နက္ခတ်တလုံးကို လေးစိတ် စိတ်၍ တစိတ်ကို တပါဒ်ဟုခေါ် သည်။ နက္ခတ် နှစ်လုံးနှင့် တပါဒ်သည် တရာသီဖြစ်သည်။ တနည်းအားဖြင့် ကိုးပါဒ်သည် တရာသီ ဖြစ်သည်။ ရာသီစက်တွင် နှစ်ဦးဖြစ်သော မိဿရာသီတန်ခူးလကို အဿဝဏီ လေးပါဒ်၊ ဘရဏီ လေးပါဒ်၊ ကြတ္တိကာပဌမတပါဒ် ပေါင်း ကိုးပါဒ်နှင့် ညှိ၍ ခွဲထားသည်။ ကျန်ရာသီများကိုလည်း ဤနည်းအတိုင်းပင် ခွဲထားသည်။ ရာသီစက်တွင် တန်ခူး၊ ကဆုန် စသော စန္ဒရမာသ မြန်မာလများနှင့် မိဿ၊ ပြိဿ စသော သူရိယမာသ ရာသီများကို သိမြင်ရလွယ်အောင် တမျိုးတည်း သဘောနှင့်ပင် ဖော်ပြထားသည်။ အမှန်အားဖြင့်ကား သူရိယမာသနှင့် စန္ဒရမာသတို့မှာ တမျိုးတည်း မဟုတ်ကြပေ။ (တာရာကြီးကိုးလုံး။ နက္ခတ် ၂၇ လုံး — လည်းရှု။)



**ရာဟုဂြိုဟ်။** ။ရာဟုဂြိုဟ်သည် ကလိင်္ဂတိုင်းသား ဗန္ဓုလ အနွယ် သီဟိကာ မြေစောင့်နတ်သမီး၏ သားဖြစ်ကြောင်းနှင့် ရာဇမတ္တဏ်၊ ယောဃာတြာ နှစ်ကျမ်းတွင် ဆိုသည်။ ထို ရာဟုဂြိုဟ်ကိုပင် အသုရိန် ဟုလည်း ခေါ် ၏။ ရာဟုဂြိုဟ်သည် ရာသီစက်၌ လှည့်လည်၏ ဆိုသော်လည်း တပါးဂြိုဟ်ကဲ့သို့ ကောင်းကင်၌ တည်သည် မဟုတ်၊ မြင့်မိုရ်တောင်ခြေရင်း ဖြစ်သော အသုရာပြည်၌ တည်သည်ဖြစ်၍ မြေ၌ ကျက်စားသည်။ ဘုရားသခင်သည် သာဝတ္ထိပြည်ဝယ် စံပယ်တော်မူသောအခါ ရာဟု အသုရိန်သည် မြေမှတက်၍ နေလကို ဖမ်းသည်တွင်၊ နေနတ်သား လနတ်သားတို့က ငါတို့အား ဘုရားသခင်သာ ကိုးကွယ်ရာဖြစ်တော့သည် ဟု ဂါထာရွတ်၏။ ထိုအကြောင်းကို ဘုရားသခင်သည် ဂန္ဓကုဋိတိုက်တော်ကပင် ဒိဗ္ဗသောတဖြင့် ကြားတော်မူ၍၊ အချင်းရာဟု လွှတ်လော့ ဟု မိန့်တော်မူလျှင်၊ အသုရိန်လည်း ဖမ်းရာမှလွှတ်၍ ပြေးလေ၏ ဟု သံယုတ္တနိကာယ် ဒေဝတာ သံယုတ် ပါဠိတော်၌ ဟောတော်မူသော အဋ္ဌုပ္ပတ္တိ၌ လာ၏။

ရာဟုအသုရိန်သည် မည်းနက်သော အဆင်း ရှိလျက် ယမမင်းကဲ့သို့ မထင်ရှားဘဲ မြေပြင်၌ လည်တတ်၏။ ဝရဇိန်နှင့် တူသော အစွယ်သုံးချောင်း ရှိလျက် ကြောက်မက်ဖွယ်ကြမ်းကြုတ်၏။ ထိုရာဟုသည် တဆဲ့နှစ်ရာသီစက်၌ ဂြိုဟ်တပါးတို့၏ သွားခြင်းမှ ဖောက်ပြန်သောသွားခြင်းဖြင့် မိဿ၊ မိန်၊ ကုံစသော အစဉ်အားဖြင့် လှည့်ပတ်သွားလာသည်။ ရာဟုအသုရိန် ကောင်းကင်၌လှည့်ရာ နေလတို့နှင့် ခရီး ကြုံကြိုက်သဖြင့် ဖမ်းခြင်းကိုပင် သဗ္ဗကြတ်၊ ထက်ဝက်ကြတ်၊ သုံးစိတ်ကြတ် ဖမ်းသည်ဟု၎င်း၊ သမသတ် ဖမ်းသည်ဟု၎င်း ဟောပြောလေ့ ရှိသည်။ (နေလကြတ်ခြင်း — ရှု။)

ရာဟုအသုရိန်၏ ကိုယ်ကား အယပ်အားဖြင့် ယူဇနာ လေးထောင့်ရှစ်ရာ ရှိ၏။ လက်ကတီးကြားကား ယူဇနာ တရာ့ နှစ်ဆယ်၊ မောင်းလက်ရုံး အလုံးကား ယူဇနာခြောက်ရာ၊ ဦးခေါင်းကား ယူဇနာ ကိုးရာ၊ နဖူးပြင် ယူဇနာ သုံးရာ၊ မျက်မှောင်အကြား ယူဇနာ ငါးဆယ်၊ ခံတွင်း အကျယ် ယူဇနာနှစ်ရာ၊ အစောက်ယူဇနာ သုံးရာ၊ နှာခေါင်း ယူဇနာ သုံးရာ၊ လက်ဖဝါး ခြေဖဝါးအကျယ် ယူဇနာ ခုနစ်ရာရှိ၏။ ထိုရာဟုသည် နေလသွားသော လမ်းဖြင့် သွား၍ နေလရထားကို မြင်လျှင်၊ လက်ခြေကားလျက် ခံတွင်းကို ဟင်းလင်းဖွင့်၍လိုက်၏။ ထိုအခါ နေဗိမာန်၊ လဗိမာန်၌ စောင့်သော နတ်တို့သည် ယူဇနာ သုံးရာနက်သော နရက်ချောက်ကြီးသို့

ကျအုံသကဲ့သို့ ဖြစ်၍ အလွန်ကြောက်ကုန်ရကား အခြံအရံနှင့် တကွ တပ်ပိုင်နက် ငိုကြွေးလျက် ထွက်ပြေးကုန်၏။ ထိုအခါ ရာဟုသည် နေလဗိမာန်ကို ရံခါလည်း လက်ဝါးဖြင့် ဖုံး၏။ ရံခါလည်း မေးအောက်၌ ထား၏။ ရံခါလည်း လျှာဖြင့် လျက်၏။ ရံခါလည်း ပါးစောင်၌ ထား၏။ ယင်းသို့ ငုံနိုင် ဖုံးလွှမ်းနိုင်သော်လည်း နေလတို့၏ သွားသောအဟုန်ကို မတန့်စေနိုင်။ လိုက်၍သာ ကစားရ၏။ အကယ်၍ တန့်စေငြားအံ့၊ ပါးစောင်ဖြင့်ငုံသော် ဦးခေါင်း ပြတ်ရာ၏။ လက်ဖြင့်တားသော် လက်ဝါးပြတ်ဘိရာ၏။ ဖမ်းလိုရင်းမှာ ဗိမာန်ကိုသာ အရောင်အဝါ လုပသောကြောင့် ကစားခြင်းငှာ ဖမ်းလိုသည်။ ဗိမာန် ဖမ်းလျှင် နတ်သားကိုလည်း ဖမ်းရာကျသည်ဟု သံယုတ်ဋီကာ၌ ပြဆိုလေသည်။

**ရာဟုလ မာတာ။** ။ယသောဓရာ — ရှု။

**ရာဟုလာထေရ်။** ။ရာဟုလာထေရ်သည် ဂေါတမမြတ်စွာဘုရား လက်ထက် ထင်ရှားသော ထေရ်တပါး ဖြစ်သည်။ ဂေါတမ မြတ်စွာဘုရားသည် ဘုရား မဖြစ်မီ သိဒ္ဓတ္ထမင်းသားဘဝက ယသောဓရာမင်းသမီးနှင့် ထိမ်းမြားလက်ထပ်ရာမှ ဖွားမြင်သော သားတော်ဖြစ်သည်။ ဘုရားအလောင်းတော်အဖို့ လ ကို ရာဟုဖမ်းသကဲ့သို့ သံယောဇဉ် အနှောင်အဖွဲ့နှင့် တူသည်ဖြစ်၍ ရာဟုလာ အမည်တွင်သည်။

မဟာသက္ကရာဇ် ၁၀၄ ခုနှစ် တပေါင်းလတွင် မြတ်စွာဘုရားသည် ကပိလဝတ်ပြည်သို့ ကြွတော်မူပြီးနောက် ရာဟုလာ၏ မယ်တော် ယသောဓရာမိဖုရားသည် သားတော်ရာဟုလာအား ဖခမည်းတော် ဘုရားထံတွင် ဖွားတော်မူစဉ်က ပေါ် ပေါက်ခဲ့သော ရွှေအိုးကြီးများကို အမွေတောင်းရန် စေလွှတ်သည်။

ရာဟုလာသည် မြတ်စွာဘုရားထံသို့ ရောက်သောအခါ မြတ်စွာဘုရားက လောကီ အမွေထက် မြတ်သော လောကုတ္တရာအမွေကို ပေးရန် ရှင်မဟာမောဂ္ဂလာန်ကို ခေါ်၍ ဆံရိတ်စေသည်။ ထိုနောက် ရှင်သာရိပုတ္တရာအား သရဏဂုံပေးစေလျက်၊ ရှင်မဟာကဿပကို ဩဝါဒဆရာပြုစေကာ သာသနာ့ဘောင်သို့ သွတ်သွင်းတော်မူသည်။

ထိုအချိန်တွင် ရှင်ရာဟုလာမှာ အသက် ခုနစ်နှစ်မျှသာရှိသေးသည်။ မြတ်စွာဘုရားသည် ရှင်ရာဟုလာအား သိက္ခာပုဒ်မြဲစေရန် ရာဟုလောဝါဒသုတ်ဖြင့် ဆုံးမတော်မူသည်။ ရာဟုလာကား သိက္ခာပုဒ်တို့ကို ပို၍ အားထုတ်လိုသောဆန္ဒ ပြင်းထန်လှသည်။ အသက် ၁၈ နှစ်ရွယ်အထိ ပြက်ရယ်ပြုသော စကားကိုမျှ မပြောချေ။ ရှင်ရာဟုလာကိုယ်တော်မှာ သုံးဆဲ့နှစ်ပါးသော လက္ခဏာတော်ကြီး၊ ရှစ်ဆယ်သော လက္ခဏာတော်ငယ်တို့နှင့် ပြည့်စုံသဖြင့် လူအများက တဏှာပေမဖြင့် ချစ်ခင်ကြသောကြောင့် မြတ်စွာဘုရားက မဟာရာဟုလောဝါဒသုတ်ကို ဟောတော်မူသည်။

ရှင်ရာဟုလာသည် အသက် ၁၈ နှစ်ရှိသောအခါ ဥပဇ္ဇင်းပြီ ဖြစ်သဖြင့် မြတ်စွာဘုရားက စူဠရာဟုလောဝါဒသုတ်ကို ဟောတော်မူရာ တရားတော်၏ အဆုံး၌ အရဟတ္တဖိုလ်သို့ ရောက်သည်။

ရှင်ရာဟုလာသည် သိက္ခာကို ထိန်းသိမ်းရာတွင် အလွန်ခိုင်မြဲလွန်ကဲသောကြောင့် သိက္ခာကာမာနံတဒဂ်ဘွဲ့ဖြင့် ချီးမြှောက်တော်မူခြင်း ခံရလေသည်။

**ရားသားဖို့, ဆာ အားနက်** (ခရစ် ၁၈၇၁–၁၉၃၇)။ ။ ဗြိတိသျှလူမျိုးရူပဗေဒပညာကျော်အားနက်ရားသားဖို့သည် ၁၈၇၁ ခုနှစ် ဩဂုတ်လ ၃၀ ရက်နေ့တွင် နယူးဇီလန်နိုင်ငံ၌ ဖွားမြင်၍ ထိုနိုင်ငံ၌ပင် ပညာသင်ကြားခဲ့ပြီးနောက် ကိမ်းဗရစ်သို့ ၁၈၉၄ ခုနှစ်တွင် ရောက်လာပြီးလျှင်၊ ဂျေ၊ ဂျေ၊ သွန်မဆင်နှင့် နှစ်နှစ်တိုင် အလုပ်လုပ်ခဲ့သည်။ ထိုသို့ အလုပ် လုပ်ခဲ့သည့်အတွက် ကနေဒါနိုင်ငံ မွန်းထရီးအော်မြို့ရှိ မဂ္ဂီးတက္ကသိုလ်တွင် ရူပဗေဒ ပါမောက္ခရာထူးကို ရရှိခဲ့လေသည်။ ထိုတက္ကသိုလ်၌ ဖရက်ဒရစ်ဆော့ဒီးနှင့် တွေ့၍ အတူတူ မကြာခဏ အလုပ် လုပ်ကိုင်လာခဲ့ကြရာတွင် ရေဒီယို သတ္တုရှိသော ဒြပ်စင်တို့၏ တခုနှင့်တခု အဆက်အသွယ်ရှိပုံကို စုံစမ်းကြလေသည်။ ထိုသို့ စုံစမ်းခဲ့သောကြောင့် အက်တမ်ထဲတွင် စွမ်းအင်အမြောက်အမြား ရှိမည်ဟု ရားသားဖို့ ထင်မြင်နိုင်ခဲ့ခြင်းဖြစ်လေသည်။ မန်ချက်စတာ တက္ကသိုလ်၌ ရူပဗေဒ ပါမောက္ခအဖြစ်နှင့် လေးနှစ်တိုင်တိုင် လုပ်ကိုင်ခဲ့ပြီးနောက် ၁၉၁၁ ခု



အက်တမ်ထဲ၌ စွမ်းအင်များစွာရှိပုံကို တွေ့ရှိခဲ့သူ
ဆာ အားနက် ရားသားဖို့

နှစ်တွင် အက်တမ် ခန္ဓာအိမ် ဆောက်တည်ပုံအဆိုကို ထုတ်ဖော် ကျေညာခဲ့လေသည်။ ထိုမှတဆင့် ဒြပ်၏ ခန္ဓာအိမ်တွင် လျှပ်စစ်ဓာတ်သဘော သက်ဝင်လျက်ရှိသည်ကို ပြခဲ့လေသည်။ ၁၉၁၉ ခုနှစ်တွင် ကိမ်းဗရစ် တက္ကသိုလ်ကဗင်းဒစ်ဓာတ်စမ်းဌာနၓ ရူပဗေဒဆိုင်ရာ လက်တွေ့စမ်းသပ်မှု ပါမောက္ခအဖြစ်ဖြင့် ဆောင်ရွက်လေသည်။ ယင်းသို့ဆောင်ရွက်နေစဉ် ဒြပ်စင်တို့၏ သဘာဝပြောင်းလဲမှုကို အချိန်များစွာ အကုန်ခံ၍ လက်တွေ့နည်းဖြင့် ပြုလုပ်ကြည့်လေသည်။ ဤသို့ လက်တွေ့စမ်းသပ်ခဲ့ရာမှ အက်တမ်၏နျူကလိယတ်၌ အက်တမ်မှာကဲ့သို့ ရှုပ်ထွေးသော ခန္ဓာအိမ်ရှိသည်ဟု ထင်မြင်ယူဆခဲ့လေသည်။ ရှားသားဖို့သည် ၁၉ဝ၈ ခုနှစ်တွင် ဓာတုဗေဒ ပညာရပ်အတွက် နိုဗဲဆုကို ရခဲ့ပြီးနောက်၊ ၁၉၁၄ ခုနှစ်တွင် ဆာဘွဲ့ကို ရရှိခဲ့သည်။ ၁၉၂၅ ခုနှစ်တွင် အော်ဒါအော့မဲရစ် ဘွဲ့ထူးဖြင့် ချီးမြှင့်ခြင်းကို ခံရပြီးနောက် ၁၉၃၁ ခုနှစ်တွင် လော့ ဘွဲ့ထူးဖြင့် တိုးတက် ချီးမြှင့်ခြင်းကို ခံရပြန်သည်။

ရှားသားဖို့သည် ကမ္ဘာကျော် ရူပဗေဒပညာကျော်တဦး ဖြစ်သည်။ ၁၉၃၇ ခုနှစ် အောက်တိုဘာလ ၁၉ ရက်နေ့တွင် ကွယ်လွန်သောအခါ သိပ္ပံပညာလောကကြီးတွင် ဆုံးရှုံးခြင်းကြီးတရပ် ဖြစ်ရလေသည်။ ရေဒီယမ် ရောင်ခြည်တို့ကို သတ္တုချကြည့်သော သုတေသနလုပ်ငန်းများကြောင့် ထိုပုဂ္ဂိုလ်သည် ကမ္ဘာကျော် သိပ္ပံပညာရှင်ကြီးတဦး ဖြစ်လာရလေသည်။ ထို့ပြင် အက်တမ်၏ နျူကလိယတ် ဆောက်တည်ပုံနှင့် ဒြပ်တို့၏ လျှပ်စစ်ဓာတ်သဘော သက်ဝင်ပုံတို့ကို ရှင်းလင်း ဖော်ပြနိုင်သောကြောင့်လည်း အထူး ကျော်ကြားခဲ့လေသည်။

**ရီဇား့ ဟိုဇေးမာကားဒိုး (ခရစ် ၁၈၆၁ – ၁၉၉၆)။ ။** ဖိလစ်ပိုင် လွတ်လပ်ရေး အာဇာနည် ဒေါက်တာ ဟိုဇေးမာကားဒိုးရီဇားသည် ဆေးပညာရှင်၊ စာဆို၊ ဝတ္ထုရေးဆရာနှင့် ရှပ်လုံးထု ဆရာလည်း ဖြစ်သည်။

ဟိုဇေးရီဇားအား ၁၈၆၁ ခုနှစ် ဇွန်လ ၁၉ ရက်နေ့တွင် ဖိလစ်ပိုင်ကျွန်းစု လာဂူးနာနယ် ကာလမ်ဗာမြို့၌ ဖွားမြင်သည်။ ဖခင်ဖြစ်သူမှာ ဖစ္စည်းဥစ္စာကုံလုံသော ဖရန်စစ္စကို ရီဇား မာကားဒိုး ဖြစ်၍ မိခင်မှာ မနီလာကောလိပ်ကျောင်းထွက် ပညာတတ်အမျိုးသမီးတဦး ဖြစ်သည်။ မွေးချင်း ၁၁ ဦးရှိသည့်အနက် ဟိုဇေးရီဇားသည် ခုနစ်ယောက်မြောက်သားဖြစ်သည်။

ငယ်စဉ်က ဦးလေး အယ်လဗာတိုကျောင်းတွင် ပညာသင်ပြီးနောက်၊ မနီလာမြို့ နာမည်ကျော် အတီနီယိုဂျက်ဇူးအစ်သာသနာပြုကျောင်းသို့ ရွှေ့ပြောင်း သင်ယူသည်။ ထိုကျောင်း၌ ပညာရပ်များကို စပိန်ဘာသာနှင့်ချည်း သင်ယူရသော်လည်း ရီဇားသည် စပိန်အရာရှိ သားသမီးများထက် အောက်ကျသည်ဟူ၍ မရှိရုံမက ဆုများပင် မကြာခဏဆွတ်ခူးခဲ့သည်။ အထက်တန်း ပညာရပ်များကို ဆုံးခန်းတိုင် ထူးထူး ချွန်ချွန် တတ်မြောက်ပြီးနောက် ရီဇားသည် ဆန့်တိုတောမတ် ယူနီဗာစီတီတွင် တက္ကသိုလ် ပညာများကို ဆက်လက်သင်ယူသည်။ ထိုစဉ်အတွင်း အသက် ၁၈ နှစ် အရွယ်တွင် လူကြီးများအတွက် ကျင်းပသော စာပေပြိုင်ပွဲ၌ ‘ဖိလစ်ပိုင် လူငယ်များသို့’ အမည်ရှိ ကဗျာဖြင့် ပဌမဆုကို ဆွတ်ခူးခဲ့သည်။ နောက်ထပ် စာပေပြိုင်ပွဲတခုတွင် ရီဇားသည် အမည်ဝှက်ဖြင့် ကဗျာရေးသား ယှဉ်ပြိုင်ရာ အကောင်းဆုံး ကဗျာတပုဒ် ဖြစ်သော်လည်း ရေးသားသူသည် ဥရောပတိုက်သားမဟုတ်သည့်အတွက် ပဌမဆုနှင့် လွဲခဲ့ရသည်။

ဖိလစ်ပိုင်ရှိ စပိန်အစိုးရ၏ လူမျိုးခွဲခြားသော စံနစ်ကို ရွံမုန်းသော ရီဇားသည် ၁၈၈၂ ခုနှစ်တွင် မနီလာမြို့မှ နာမည်လိမ်ဖြင့် ထွက်ခဲ့၍ စပိန်နိုင်ငံသို့ ရောက်ခဲ့သည်။ စပိန်နိုင်ငံ မဒရစ်ယူနီဗာစီတီတွင် ဆေးပညာ၊ သဘာဝတ္ထုဗေဒနှင့် စာပေ ပညာရပ်များကို ဆည်းပူးသည်။ ၁၈၈၃ ခုနှစ်တွင် ဆေးပညာ အမ်ဒီဘွဲ့ထူးကို ဆွတ်ခူး၍ ၁၈၈၅ ခုနှစ်တွင် သဘာဝတ္ထုဗေဒနှင့် စာပေပညာဆိုင်ရာ ပါရဂူဘွဲ့ထူးများကို ရရှိသည်။ ထိုနောက် ရီဇားသည် ဥရောပတိုက်အနှံ့အပြား လှည့်လည် သွားလာယင်း ပါရစ်၊ ဘာလင်၊ ဟိုက်ဒယ်ဗတ်၊ လိုက်ပဆစ် စသော မြို့များတွင် ဘာသာ စာပေ အမျိုးမျိုးကို လေ့လာ သင်ယူသည်။ ဖိလစ်ပိုင်ကျွန်း၌ နေစဉ်ကပင် တားဂါးလော့စာ၊ စပိန်စာ၊ ဂရိစာနှင့် လက်တင်စာတို့ကို တတ်မြောက်ခဲ့သော ရီဇားသည် ဥရောပတိုက်၌ နေထိုင်စဉ် ပြင်သစ်၊ အင်္ဂလိပ်၊ ဣတာလျံ၊ ကက်တလန်၊ အာရဗီ၊ ဂျာမန်၊ ဟီဗြူနှင့် သက္ကတစာတို့ကို သင်ကြားတတ်မြောက်ပြန်သည်။ မည်သည့် ကျောင်း၌ဖြစ်စေ ရီဇားအား ကျောင်းအာဏာပိုင်များက လူချွန်တယောက်အဖြစ် အသိအမှတ် ပြုရသည်ချည်း ဖြစ်သည်။

၁၈၈၆ ခုနှစ်တွင် ရီဇားသည် သူ၏စာမျက်နှာ ၅ဝဝ ခန့်ရှိ ‘နိုလီမေတန်ဂျ’ ကမ္ဘာကျော် ဝတ္ထုကြီးကို ဂျာမနီ နိုင်ငံ ဘာလင်မြို့၌ ပုံနှိပ်ထုတ်ဝေသည်။ ယင်းဝတ္ထုတွင် ရှေးစပိန်နိုင်ငံ အလေ့အထများ၊ မြေပိုင်ရှင်ရဟန်းများ၏ ဆိုးရွားပုံ၊ အကျဉ်းထောင်များတွင် နှိပ်စက်ပုံ၊ ဖရိုင်ယာရဟန်းတို့၏ တိတ်တိတ်ပုန်း လာဘ်စားပုံ၊ ဆင်းရဲသားများ အပေါ်တွင် အစိုးရညှဉ်းဆဲပုံ၊ မိန်းမသားများ ခိုကိုးရာမဲ့ဖြစ်ပုံ၊ ဖိလစ်ပိုင် အမျိုးသမီးတို့ မိဖသဘောတူသူကို ယူလေ့ရှိပုံ စသည်တို့ပါဝင်သည်။ ထို့ပြင် ဖိလစ်ပိုင်တိုင်းရင်းသားတို့၏ စိတ်နေစိတ်ထား အကျိုးအပြစ် မှန်သမျှကို ကွင်းကွင်းကွက်ကွက် အချက်ကျကျ ထိုဝတ္ထုတွင် ဖွင့်ချထားလေသည်။ ယင်းစာအုပ်ကို ကုန်သေတ္တာကြီးကဲ့သို့ အယောင်ဆောင် ထုပ်ပိုးကာ



ဖိလစ်ပိုင် မျိုးချစ်ခေါင်းဆောင်ကြီး ဒေါက်တာ ဟိုဇေးရီဇားအား သေနတ်နှင့် ပစ်သတ်ရန် ခေါ်ဆောင်လာစဉ်

ဖိလစ်ပိုင်ကျွန်းစုသို့ ထင်ပို့ရာ စာအုပ်များ ရောက်ရှိသည်နှင့် လူအများ အလုအယက် ဝယ်ဖတ်ကြသည်။ ဖိလစ်ပိုင်လူထု ဇာတိမာန်တက်ကြွမှုကို ဖြစ်စေရုံမက အုပ်ချုပ်သူ စပိန်အစိုးရ၏ မတရားပုံကို အကွင်းလိုက်ပေါ်စေသော ရီဇား၏ ထိုစာအုပ်များကို အစိုးရက တွေ့ရာတွင်သိမ်းစေ အမိန့် ထုတ်ရလေသည်။

၁၈၈၇ ခုနှစ် ဩဂုတ်လတွင် ရီဇားသည် နေရင်းဌာနီ ဖိလစ်ပိုင်ကျွန်းစုသို့ ခေတ္တပြန်ကာ၊ မျက်စိ အလင်းမရရှာသော မိခင်ကြီး၏ မျက်စိကို ကိုယ်တိုင် ခွဲစိတ်ကုသပေးခဲ့သည်။ ဖိလစ်ပိုင်ကျွန်းသို့ ရီဇားရောက်သည်နှင့် တပြိုင်နက် စပိန်အစိုးရအာဏာပိုင်များသည် ရီဇား၏ လှုပ်ရှားမှုတို့ကို မျက်ခြည်ပြတ် မခံတော့ချေ။ ဖိလစ်ပိုင်ကျွန်းတွင်နေသမျှ ရီဇား၏ အသက်ကို စောင့်ရှောက်ရန် သက်တော်စောင့်တယောက် ရှိသင့်သည် ဟူသော စကားလုံးဖြင့် အချိုသွေးကာ ရီဇား၏အသွားအလာ အကြံအစည်ကို သိစေရန် အမြဲစုံထောက်ထည့်ပေးလေသည်။ ထိုအတွင်း၌ပင် ရီဇားသည် ဆင်းရဲသားနှင့်လူချမ်းသာတို့ ထမ်းဆောင်ရမည့်အခွန်များကို နှိုင်းရှည့်ဖော်ပြလျက် အခွန်ထမ်းများအား လက်မှတ်ရေးထိုး၍ အစိုးရထံ တင်ပို့ဆောင်ရွက်ပေးသည်။

ဆင်းရဲသားလူထုကို ရှေ့ဆောင်ရှေ့ရွက်ပြုကာ မျက်စိဖွင့်ပေးမှုကြောင့် စပိန်အစိုးရအာဏာပိုင်များသည် ရီဇားအား ဖိလစ်ပိုင်မှ ထွက်သွားရန် အကြံပေးလေသည်။ ယင်းသို့

ယဉ်ကျေးစွာ ပြည်နှင်ဒဏ်ပေးနည်းမျိုး ပေးလိုက်သော အခါ အနုနည်းဖြင့်သာ နိုင်ငံလွတ်လပ်ရေး ဆောင်ရွက်လိုသော ရိဇားသည် အကြံပေးချက်ကို မဖီဆန်ဘဲ လက်ခံကာ ၁၈၈၈ ခုနှစ် ဖေဖွာရီလ ၂၈ ရက်နေ့တွင် ဖိလစ်ပိုင်မှ ထွက်ခွာခဲ့သည်။ ဂျပန်၊ အမေရိကန် စသော နိုင်ငံများဖက်မှ လှည့်၍ အင်္ဂလန်ပြည် လန်ဒန်မြို့သို့ ရောက်ရှိခဲ့သည်။ လန်ဒန်မြို့တွင် နေစဉ် ရိဇားသည် 'သေခြင်းတရားကို အသိတရားဖြင့် အောင်ခြင်း' အမည် တပ်ထားသော ရုပ်လုံး အပါအဝင် ထင်ရှားသော ရုပ်လုံးများထုလုပ်သည်။ ထိုနောက် ၁၈၈၉ ခုနှစ်တွင် ပါရစ်မြို့သို့ပြောင်း၍၊ ထိုမှတဖန် ဗဲလဂျီယမ် နိုင်ငံ ဂင့်မြို့သို့ ၁၈၉၁ ခုနှစ်တွင် ပြောင်းရွှေ့သည်။ ထိုမြို့၌ပင် သူ၏ ထင်ရှား၍ လူကြိုက်များသော 'လောဘ နိုင်ငံ' အမည်ရှိ ဒုတိယဝတ္ထုကြီး ရေးသားပြီးမြောက်၍ ပုံနှိပ်ထုတ်ဝေသည်။ ယင်းစာအုပ်တွင် စပိန်အစိုးရ၏ ကြမ်းကြုတ် ရက်စက်ပုံကို ဝတ္ထုအိမ်ဖွဲ့ကာ ရေးသားထား၍ မျိုးချစ်စိတ်များ တဖွားဖွား ပေါ် ပေါက်စေမည့် စကား အသုံးအနှုန်းတို့ဖြင့် စီကုံးထား လေသည်။

ရိဇား၏ အပြုအမူတို့ကြောင့် စပိန်အစိုးရသည် ဖိလစ်ပိုင် နိုင်ငံရှိ ရိဇား၏ မိဖဆွေမျိုး သားချင်းတို့အား နှိပ်စက်ကလူ ပြုရုံမက ယင်းတို့ပိုင် အဆောက်အအုံမှန်သမျှကို မီးတိုက် လေသည်။ ထိုသတင်းကို ကြားသိသော ရိဇားသည် ဖိလစ်ပိုင် ဘုရင်ခံချုပ်ထံ ဖိလစ်ပိုင်သို့ သူ့အား လွတ်လွတ် လပ်လပ် ပြန်လာခွင့်ပြုရန် စာရေး အကြောင်းကြားလိုက်သည်။ ဘုရင်ခံချုပ်ထံမှ တစုံတရာ ဖမ်းဆီးခြင်း ပြုမည်မဟုတ်၊ ပြန်လာပါ ဆိုသည့် စာနှင့်တကွ နိုင်ငံကူးလက်မှတ်ပါ ရောက်လာသဖြင့် ဖိလစ်ပိုင်သို့ ၁၈၉၂ ခုနှစ် ဇွန်လတွင် ပြန်လာသည်။ အနှိပ်စက်ခံရသော မိဖဆွေမျိုးသားချင်းတို့အတွက် ဘုရင်ခံထံ တိုင်တန်းပြောဆိုသဖြင့် အားလုံးအနှိပ်စက်ခံဘဝမှ လွတ်ကင်းခဲ့ရသည်။ သို့ရာတွင် ရိဇားကိုကား အပြစ်မရ ရအောင် အပြစ်ရှာလျက် ရှိကြသည်။

ရိဇားသည် ဖိလစ်ပိုင်သားတို့ စည်းလုံးညီညွတ်မှုကို ရှေးရှုကာ ဖိလစ်ပိုင်အသင်း ဟူ၍ အသင်းတသင်း ထောင်သည်။ အသင်း၏ ရည်ရွယ်ချက်မှာ အလောင်းအစား၊ သေရည် သေရက်နှင့် ရက်စက်မှုတို့ကို ရှောင်ကြဉ်ရန်၊ဆင်းရဲသားများကို ထောက်ပံ့ရန် ဖြစ်သော်လည်း အစိုးရကမူ သူပုန်အသင်း ဟု ယူဆသည်။ အသင်း အင်အား ကြီးမားလာသည့် အခါ စပိန်ဘုရင်ခံချုပ်သည် ရိဇားအား တစုံတရာ စစ်ဆေး မေးမြန်းခြင်းမရှိဘဲ ဖို့ဆန်တီယာကို ခံတပ်တွင် အကျဉ်းချထားလိုက်သည်။ ထိုနောက် မင်ဒနာအိုကျွန်း ဒါပီးတန်မြို့သို့ အကျယ်ချုပ်နှင့် ပို့လိုက်သည်။ အကျယ်ချုပ်နှင့် နေစဉ်ပင် ရိဇားသည် အခမဲ့ ဆေးပေးခန်းနှင့်စာသင်ကျောင်း ဖွင့်လှစ်ခြင်း၊ ရေပေးလုပ်ငန်း တည်ဆောက်ခြင်း၊ ဥရောပရှိ မိတ်ဆွေ သိပ္ပံပညာရှင်များအတွက် ရှားပါးသော အကောင်နမူနာများ ပေးပို့ခြင်းတို့ကို ပြုလေသည်။

ဒါပီးတန်၌ လေးနှစ်မျှ အကျယ်ချုပ်နှင့် နေရပြီးနောက် ကျူးဗားကျွန်းတွင် ကပ်ရောဂါများ ကျရောက်လာသော အခါ ဝတ်တရားသိသော ရိဇားသည် ဆရာဝန်တဦး အနေနှင့် သွားရောက် အမှုထမ်းခွင့် တောင်းလေသည်။ အခွင့်ရ၍ ၁၈၉၆ ခုနှစ်တွင် ယင်းမှတဆင့် ကျူးဗားသို့သွားရန်အတွက် ဗာစီလိုနာမြို့သို့ ထွက်ခွာခဲ့သည်။ ထိုအတွင်း ဗိုနီဖာစီယို ဆိုသူ ခေါင်းဆောင်သော ကာတီပူနန် သူပုန်မှုကြီး ပေါ်ပေါက်လာရာ အခွင့်ကောင်းကို ရှာနေသော စပိန်အစိုးရ အာဏာပိုင်တို့သည် ဗာစီလိုနာသို့အသွား သင်္ဘောဖြင့် ဆူးအက်မြို့သို့ရောက်လာသော ဒေါက်တာ ရိဇားအား သူပုန် လှုံ့ဆော်သူ ဟု စွပ်စွဲကာ ကြေးနန်းဖြင့် ဖမ်းရန် အမိန့်ပို့လိုက်သည်။ ရိဇားအား ဆူးအက်မြို့တွင် ဖမ်းပြီးလျှင် မနီလာမြို့သို့ ခေါ် ခဲ့ကာ ကာတီပူနန် သူပုန်အသင်းဝင် ဟူသော စွဲချက်ဖြင့် အထူးစစ်ဖက်ဆိုင်ရာရုံးတွင် တရားစွဲဆို စစ်ဆေးသည်။ရုံးတော်မှ တဖက်သတ်စီရင်ချက်ချကာ ထိုနှစ် ဒီဇင်ဘာလ ၂၉ ရက်နေ့တွင် ၂၄ နာရီအတွင်း သေနတ်နှင့် ပစ်သတ်ရန် အမိန့် ချမှတ်လိုက်သည်။

ရိဇားသည် အမှုစစ်စဉ်ကပင် သေဒဏ်ထက်လျော့၍ အပြစ်ပေးရန် အကြောင်း မမြင်ကြောင်း သိသည်နှင့် "ကျွန်ုပ်၏ နောက်ဆုံး နှုတ်ဆက်ခြင်း" အမည်နှင့် ကဗျာတပုဒ်စပ်ခဲ့သည်။ ယင်းကဗျာမှာ အလွန်ကောင်းမွန်၍ အမျိုးသား ဂန္ထဝင် စာပေစာရင်းဝင်ဖြစ်လာသည်။ ၁၈၉၆ ခုနှစ် ဒီဇင်ဘာလ ၃၀ ရက်နေ့ နံနက် ၇ နာရီတွင် မျိုးချစ်ခေါင်းဆောင်ကြီး ဒေါက်တာ ဟိုဇေးရိဇားအား သေနတ်ဖြင့် ပစ်၍ သတ်လိုက်ကြသည်။ ရိဇားကွယ်လွန်ပြီးနောက်နှစ်နှစ်အကြာတွင် ဖိလစ်ပိုင်သည် စပိန်တို့၏ အုပ်ချုပ်မှုအောက်မှ လွတ်မြောက်ခဲ့လေသည်။ (ဖိလစ်ပိုင်နိုင်ငံ — လည်းရှု။)

**ရိနေဆွန်း ခေတ်။** ။ဥဘဏ်သစ်အရေးပုံ — ရှု။

**ရီးဂမြို့။** ။ရီးဂမြို့သည် လတ်ဗီးယား သမတ နိုင်ငံ၏ မြို့တော် ဖြစ်၍ ဒဗီနာမြစ်ဝမှ အတွင်းဖက် ရှစ်မိုင်ခန့် အကွာ ရီးဂပင်လယ်ကွေ့တွင်တည်ရှိသည်။ မူလက ရီးဂမြို့သည် ကုန်ရောင်း ကုန်ဝယ် ပြုလုပ်ရာ ဈေးမြို့ကလေးမျှသာ ဖြစ်သည်။ ၁၉၁၇ ခုနှစ်အထိ ဂျာမနီနိုင်ငံထွက် ကုန်စည်များနှင့် နီးပါးမြစ်ဝှမ်း၊ ဗော်လဂါမြစ်ဝှမ်းထွက် ကုန်စည်များ လဲလှယ် ရောင်းဝယ်ရာ ဗဟိုဌာန ဖြစ်ခဲ့သည်။

၁၇၁၀ ပြည့်နှစ် ရုရှားဘုရင် ပီတာ-သ-ဂရိတ် လက်ထက်က လတ်ဗီးယားပြည်ကို ရုရှနိုင်ငံထဲသို့ သိမ်းသွင်းခဲ့လေသည်။ ၁၉၁၇ ခုနှစ် ရုရှတော်လှန်ရေး ပြီးသည့်နောက်



လတ်ဗီးယားသမတနိုင်ငံ၏ အကြီးဆုံးမြို့ဖြစ်သော ရီးဂမြို့တော်

လတ်ဗီးယားသည် လွတ်လပ်သော သမတနိုင်ငံ ဖြစ်လာသည်။ ၁၉၄၁ ခုနှစ် ဒုတိယ ကမ္ဘာစစ်အတွင်းက ဂျာမန်တို့သည် ရီးဂမြို့ကို သိမ်းပိုက်ခဲ့ရာ ၁၉၄၄ ခုနှစ်သို့ရောက်မှ လွတ်မြောက်သည်။

ရီးဂမြို့တွင် တက္ကသိုလ်ကျောင်းအပြင် လက်မှုပညာသင်ကျောင်းနှင့် အနုပညာသင် ကျောင်းများလည်း ရှိသည်။ မောစကိုမြို့၊ ဘာလင်မြို့၊ ဝါဆောမြို့များနှင့် မီးရထားခရီးဖြင့်ရင်း၊ လေကြောင်းခရီးဖြင့်ရင်း အဆက်အသွယ် ရှိသည်။ ရီးဂမြို့သည် လတ်ဗီးယား နိုင်ငံအတွက် သင်္ဘောဆိပ်မြို့ကြီးလည်းဖြစ်သဖြင့် ရုရှနိုင်ငံထွက် သစ်၊ ဆီးဆေး၊ အထည် အလိပ်၊ ဓာတုဗေဒပစ္စည်း၊ စက်ကရိယာနှင့်စက္ကူတို့ကို တင်ပို့သည်။ လူဦးရေ ၆၅၈,၀၀၀ ယောက်ရှိသည်။

**ရီးအိုဒါဇနရိုမြို့။** ။ရီးအိုဒါဇနရိုမြို့သည် တောင်အမေရိကတိုက်ရှိ ဗရာဇီးနိုင်ငံ၏ မြို့တော်ဟောင်းဖြစ်သည်။ ရီးအိုဒါဇနရို ပင်လယ်အော်၏ အနောက်ဖက်ကမ်းပေါ်တွင် တည်ရှိ၍ အလွန်သာယာသော သင်္ဘောဆိပ်မြို့လည်း ဖြစ်၏။ တောင် အမေရိကတိုက်တွင် ဗွေနိုဆိုင်းရက်မြို့မှ လွဲလျှင် လူဦးရေအများဆုံးမြို့ဖြစ်သည်။

ရီးအိုဒါဇနရို ပင်လယ်အော်သည် ကုန်းတွင်းဖက်သို့ မိုင်ပေါင်းများစွာ ထိုးဝင်ပြီးလျှင် တောင်တန်းများ ဝိုင်းရံလျက်ရှိ၏။ ပင်လယ်အော်ထဲ၌လည်း ကျွန်းငယ်များရှိသည်။အချို့နေရာတို့တွင် တောင်စွယ် တောင်တန်းသည် ပင်လယ်ရေစပ်ထိအောင် သွယ်တန်းလျက်ရှိသဖြင့် သာယာသော ချိုင့်ဝှမ်းများကို မြို့တွင်း၌ပင် တွေ့နိုင်လေသည်။

တမိုင်ကျော် ရှည်သော ရီးအိုဗရန်ကို ခေါ် လမ်းမကြီးသည် မြို့လယ်ကို ဖြတ်သန်း၍ တဖက်တချက်၌ ခေတ်မီ အဆောက်အအုံများရံလျက်ရှိသည်။ လမ်းဘေးတလျှောက်တွင် ထန်းမျိုးဝင် သစ်ပင်များကို စိုက်ပျိုးထား၍ လူသွားလမ်းကိုကျောက်ပြားများဖြင့် အကွက်ဖော်ထားလေသည်။ ပင်လယ်ကမ်း တလျှောက်၌လည်း ဗီးရားမား ခေါ် လမ်းမကြီး ရှိ၏။ ထိုလမ်းမနှစ်သွယ် ဆုံရာ အနီးတွင် မွန်ရိုးနန်းတော်အမည်ရှိ အဆောက်အအုံရှိသည်။ မြို့တွင်း၌ ယန်းခြံများ၊ ဥယျာဉ်များ ရှိ၍ ၁၈၀၈ ခုနှစ်က စတင်စိုက်ပျိုးပြုစုခဲ့သော ရုက္ခဗေဒ ဥယျာဉ်မှာ ကမ္ဘာအရပ်ရပ်မှ အပင်မျိုး စုံလှသည်။ အမျိုးသားပြတိုက်၊ သမတ စံအိမ်၊ မျူနီစီပယ်ဇာတ်ရုံနှင့် အုပ်ချုပ်ရေး ဌာနရုံးများသည် မြို့ကျက်သရေဆောင် အဆောက်အအုံများ ဖြစ်ကြသည်။

ရီးအိုဒါဇနရိုမြို့သည် ၂၀ ရာစုနှစ်မတိုင်မီက ခေတ်နောက်ကျသော ရှေးဟောင်း မြို့တမြို့မျှသာ ဖြစ်၏။ မြို့လမ်းများသည် ကျဉ်းမြောင်း၍ ကျန်းမာရေးနှင့်မညီညွတ်သဖြင့် ရောဂါဘယ ထူပြော၏။ သင်္ဘောဆိပ်ကမ်း၌လည်း ရွှံ့နွံ၊ သဲဖြင့်



ပြည့်လျက်ရှိသဖြင့် သင်္ဘောကြီးများမဆိုက်ကပ်နိုင်ကြချေ။ ကာဖီ တမည်တည်းကို အဓိကထား၍ တင်ပို့ ရောင်းချ၏။ ၂၀ ရာစုနှစ်ထဲသို့ ရောက်လာသောအခါ ငွေပေါင်းမြောက်မြားစွာ အကုန်ခံ၍ မြို့ကွက်နှင့်သင်္ဘောဆိပ်ကို ပြုပြင်ခဲ့ကြလေသည်။ ထို့ကြောင့် ယခုအခါ ရီးအိုဒါဇနရီမြို့သည် အရောင်း အဝယ်ဖြင့် စည်ကားလာရုံမျှမက သင်္ဘောကြီးများ ဝင်ထွက်သွားလာနိုင်သော ခေတ်မှီ ဆိပ်ကမ်းမြို့လည်း ဖြစ်လာလေသည်။

မြို့တွင် နေထိုင်သူတို့မှာ များသောအားဖြင့် ဗရင်ဂျီဂိုဏ်းဝင်များ ဖြစ်သည်။ ဗရာဇီး တက္ကသိုလ်ကို ထိုမြို့တွင် ၁၉၂၀ ပြည့်နှစ်က စတင် တည်ထောင်ခဲ့သည်။ ကက်သလစ် တက္ကသိုလ်ကိုမူ ၁၉၄၁ ခုနှစ်၌ တည်ထောင်သည်။ အခြား စာသင်ကျောင်းများလည်း ရှိရာ ပညာသင်ကြားရေး၌ တိုးတက်လျက် ရှိသည်။

ကာဖီကို အများဆုံး တင်ပို့ရောင်းချလျက်ပင်ရှိ၏။ အခြား ထွက်ကုန်များမှာ သကြား၊ ပီလောပီနံ့ဉ၊ ဆေးရွက်နှင့် ဆေးလိပ်၊ အသားနှင့် သားရေတို့ဖြစ်သည်။ လူဦးရေ ၃,၃၀၇,၁၆၃ (၁၉၆၁) ယောက် ရှိသည်။

ရီးအိုဒါဇနရီမြို့သည် ဗရာဇီးနိုင်ငံ၏ မြို့တော်ဟောင်းဖြစ်၍၊ ခေတ်မှီသော အစိုးရ အဆောက်အအုံတို့ဖြင့် ခမ်းနားစွာ တည်ရှိသည်။



ဗရာဇီးနိုင်ငံ၏ ဆိပ်ကမ်းမြို့လည်းဖြစ်သော ရီးအိုဒါဇနေးမြို့တွင် သာယာ ကြည်နူးဖွယ်ရာ ရှုခင်းများရှိသည်။

# ဆိုဗီယက် ယူနီယံ

ဆိုဗီယက် ယူနီယံဟုရင်း၊ ဆိုဗီယက် ပြည်ထောင်စုဟုရင်း အတိုကောက်အားဖြင့် ခေါ်ဝေါ်နေကြသည့် ဆိုဗီယက် ဆိုရှယ်လစ် ပြည်ထောင်စု သမတနိုင်ငံကို ယခုတိုင် ရုရှနိုင်ငံဟု အချို့က ခေါ်ဝေါ်နေကြသေးသည်။ ကမ္ဘာပေါ်တွင် အကျယ်ဝန်းဆုံး နိုင်ငံဖြစ်၍ ကမ္ဘာ့ကုန်းမြေ၏ ခြောက်ပုံ တပုံရှိသည်။ လူမျိုးပေါင်းလည်း ၁၇၀ ကျော် နေထိုင်လျက် ရှိသည်။ ကမ္ဘာ့ ထိပ်တန်းနိုင်ငံကြီး တခုလည်း ဖြစ်ပေသည်။

**ရုရှနိုင်ငံ။** ။ယခင်က ရုရှနိုင်ငံဟု တွင်ခဲ့သော နိုင်ငံ၏ ရုံးသုံးဝေါဟာရအဖြစ် ပညတ်ထားသော အမည်မှာ ဆိုဗီယက် ဆိုရှယ်လစ် ပြည်ထောင်စုသမတနိုင်ငံ ဖြစ်သော်လည်း အချို့က ယခုတိုင် ရုရှနိုင်ငံဟု ခေါ်ဝေါ်လျက်ပင် ရှိကြသေးသည်။ အမည်သစ်ကို အတိုကောက်အားဖြင့် ဆိုဗီယက် ပြည်ထောင်စု (ဝါ) ဆိုဗီယက်ယူနီယံ ဟုရင်း၊ ယူအက်(စ) အက်(စ) အာ ဟုရင်း ခေါ်သည်။

ဆိုဗီယက် ပြည်ထောင်စု နိုင်ငံသည် ကမ္ဘာပေါ်တွင် အကျယ်ဝန်းဆုံး နိုင်ငံတခု ဖြစ်၍ ကမ္ဘာပေါ်ရှိ ကုန်းမြေ၏ ခြောက်ပုံ တပုံမျှ ရှိ၏။ ဥရောပတိုက် အရှေ့ပိုင်းမှသည် အာရှတိုက် မြောက်ပိုင်း တခုလုံးကို ဖြတ်သန်းလျက် ပစိဖိတ် သမုဒ္ဒရာကမ်းခြေအထိ ကျယ်ပြန့်သည်။ ကမ္ဘာ့ အရှေ့ပိုင်း၊ အနောက်ပိုင်းနှင့် မြောက်ပိုင်းဒေသ အများဆုံး ပါဝင်၍ တောတောင်ရေမြေ အခြေအနေ အမျိုးစုံရှိသည်။ ပြည်ထောင်စုအတွင်း မှီတင်းနေထိုင်ကြသော လူမျိုးများမှာလည်း အမျိုးပေါင်း ၁၇၀ ကျော်ရှိ၍ ဆလဗ်၊ အာမီးနီးယန်း၊ တာတာနှင့် အခြားလူမျိုး များစွာ ပါဝင်သည်။ လူဦးရေအားလုံး၏ လေးပုံ သုံးပုံမျှရှိသော ဆလဗ်လူမျိုးများသည် လူများစု ဖြစ်ကြ၏။

ဆိုဗီယက် ပြည်ထောင်စု၏ မြောက်ဖက်တွင် အာတိတ် သမုဒ္ဒရာတည်ရှိ၍ တောင်ဖက်တွင် တူရကီနိုင်ငံ၊ အီရန်နိုင်ငံ၊ အာဖဂနိစတန် နိုင်ငံ၊ တရုပ်နိုင်ငံ၊ မွန်ဂိုးလီးယားနိုင်ငံနှင့် ဂျပန်နိုင်ငံတို့ ရှိသည်။ အနောက်ဖက်တွင် နော်ဝေး နိုင်ငံ၊ ဖင်းလန်နိုင်ငံနှင့် ဗောလတစ်ပင်လယ်တို့ ရှိပြီးလျှင် အရှေ့ဖက်တွင် ပစိဖိတ်သမုဒ္ဒရာ တည်ရှိလေသည်။

ဆိုဗီယက် ပြည်ထောင်စု တခုလုံး၏ အကျယ်အဝန်းသည်




ရုရှနိုင်ငံ တည်နေရာပြ မြေပုံ



ရုရှနိုင်ငံအား ခေတ်မှီ တိုးတက်သော နိုင်ငံအဖြစ် လမ်းစဖွင့်ပေးခဲ့သူ ပီတာ - သ - ဂရိတ် ဘုရင်ကြီးသည် စက်မှုလက်မှုပညာရပ်များတွင် အထူး စိတ်ပါဝင်စားသည်။

စတုရန်း မိုင်ပေါင်း ၈,၆၅၅,၈၉၀ ရှိ၍ အမေရိကန် ပြည်ထောင်စုနိုင်ငံ၏ သုံးဆနီးနီးရှိပြီးလျှင် အရှေ့မှအနောက် မိုင် ၅,၂၅၀ ကျော်အထိ နှင့် တောင်မှ မြောက် မိုင် ၂,၁၀၀ ကျော်အထိ အသီးအသီး ရှိသည်။

ဆိုဗီယက် ပြည်ထောင်စု၏ မြေမျက်နှာသွင်ပြင်မှာ ယန်နီဆေးမြစ်ကို ဗဟိုပြု၍ ကြည့်လျှင် ထိုမြစ်၏ အနောက်ဖက်ပိုင်းသည် မြေနိမ့်ရပ်ဝန်းဖြစ်၍ အရှေ့ဖက်ပိုင်းသည် ကုန်းမြင့်ရပ်ဝန်းဖြစ်သည်ဟု ဆိုနိုင်သည်။ မြေနိမ့်ရပ်ဝန်းကို ယူရယ်တောင်တန်းက ရုရှလွင်ပြင်ကြီးနှင့် အနောက် ဆိုက်ဗီးရီးယန်း လွင်ပြင်ဟူ၍ နှစ်ပိုင်း ခွဲခြားထားသည်။ ယန်နီဆေးမြစ်နှင့် လီနာမြစ်တို့၏ အကြားတွင် ဗဟိုဆိုက်ဗီးရီးယန်း ကုန်းပြင်မြင့် တည်ရှိသည်။ လီနာမြစ်၏ အရှေ့ဖက်တွင် ယာဗလိုနိုဗီ၊ စတာနိုဗိုအီး၊ ဇွတ်ဂဇား၊ ဗာခိုယန်စကီ၊ ချာစကီး၊ ကိုလီမာ စသည့် တောင်များ အသီးအသီး တည်ရှိသည်။ အမြင့်ဆုံး တောင်များသည် တောင်ဖက်နယ်စပ်တလျှောက် ကျယ်ပြန့်စွာ တည်ရှိရာ ဥရောပတိုက်ဖက်ပိုင်းမှ ကရိုင်းမီးယန်း တောင်များနှင့် ကော်ကေးဆပ် တောင်များတွင် အယ်လဗရုတောင်ထွတ်သည် ၁၈,၄၇၆ ပေအထိ မြင့်၍ အာရှတိုက်ဖက်ပိုင်းမှ ကိုပေးဒတ်၊ ပမီး-အာလေး တောင်တန်း၊ တိယင်ရှန်နှင့် ဆေယန်တောင်များတွင် ပမီး-အာလေး တောင်စဉ်တောင်တန်းမှ စတာလင်တောင်ထွတ်သည် ၂၄,၅၈၅ ပေအထိ မြင့်လေသည်။ ကမ်ချတ်ကားကျွန်းဆွယ်ဒေသတွင် မီးတောင်များရှိ၍ ထိုတောင်များတွင် ကလျူချက်ဗစကာယာဆိုပကာ တောင်သည် ၁၅,၆၆၆ ပေ မြင့်၏။ ပမီး-အာလေး တောင်စဉ်တောင်တန်းတွင် ရေခဲမြစ်ကြီး အမြောက်အမြားရှိရာ ယင်းတို့အထဲတွင် ဖီဒချင်ကို ရေခဲမြစ်သည် ၄၇ မိုင်ရှည်လျားသည်။ ဆိုဗီယက်ပြည်ထောင်စုတွင် အနိမ့်ဆုံးမြေမှာ ပင်လယ်ပြင်အောက် ၇၅ ပေနိမ့်သော ကက်စပျန် ပင်လယ်ကမ်းခြေ မြေနိမ့်ပိုင်း ဖြစ်သည်။

ဆိုဗီယက် ပြည်ထောင်စု၏ အကြီးဆုံး မြစ်များမှာ ဥရောပဖက်ပိုင်းတွင် ဗော်လဂါ၊ ဒွန်၊ နီးပါး၊ ပီခိုရာ၊ မြောက်ပိုင်းနှင့် အနောက်ပိုင်း ဒဗိနာမြစ်တို့ ဖြစ်ကာ၊ ဆိုက်ဗီးရီးယားဖက်ပိုင်းတွင် အော့ဗ၊ ယန်နီဆေး၊ လီနာနှင့် အမူမြစ်တို့ ဖြစ်ပြီးလျှင် အာရှတိုက်အလယ်ပိုင်းတွင် အမူဒါရယာနှင့် ဆားဒါရယာမြစ်တို့ ဖြစ်လေသည်။ ယင်းတို့အထဲတွင် အရှည်ဆုံးမြစ်ကား အမူမြစ်ဖြစ်၍ မိုင်ပေါင်း ၂,၈၀၀ ကျော် ရှည်လျား၏။ ရေအိုင်ကြီးများမှာ ကမ္ဘာပေါ်တွင် အကြီးဆုံးသော ကုန်းတွင်းပင်လယ် ဖြစ်၍ စတုရန်းမိုင် ၁၆၈,၈၉၀ မျှ ကျယ်ဝန်းသော ကက်စပျန်ပင်လယ်နှင့် ယင်း၏ မနီးမဝေးအရပ်ရှိ အေရယ်အိုင်၊ တောင်ဖက်အလယ်ပိုင်းရှိ ပေါ်လခတ်ရှအိုင်၊ အရှေ့

ပိုင်းရှိ ကမ္ဘာပေါ်တွင် အနက်ဆုံး (၅,၇၁၀ ပေ) ဖြစ်သော ဗိုင်ကာအိုင်နှင့် ဥရောပတိုက်တွင် အကြီးဆုံးဖြစ်သော လဒိုဂါအိုင်(စတုရန်းမိုင် ၇,၁၀၀)တို့ ဖြစ်ကြ၏။(ဗော်လဂါမြစ်။ ကက်စပျန်ပင်လယ် — လည်းရှု။)

ဆိုဗီယက် ပြည်ထောင်စုသည် အလွန်ကျယ်ပြန့်လှသောကြောင့် ရာသီဥတု အမျိုးမျိုးရှိလေသည်။ ကုန်းပိုင်းသည် ကျယ်ဝန်းလျက် များသောအားဖြင့် ပင်လယ် သမုဒ္ဒရာတို့မှ ဝေးကွာလှသဖြင့် အခြားသော နိုင်ငံများကဲ့သို့ ပင်လယ်လေများ ကောင်းစွာ မရသောကြောင့် များသောအားဖြင့် ကုန်းတွင်းပိုင်း ရာသီဥတုမျိုးသာရှိ၏။ နွေရာသီနှင့် ဆောင်းရာသီအပူချိန်များသည် ဖာရင်ဟိုက် ဒီဂရီ ၄၀ မှ ၆၃ ဒီဂရီအထိ ကွာခြားနေတတ်သည်။ လီနင်ဂရက် မြို့တွင် နွေရာသီ၌ အပူချိန် ဖာရင်ဟိုက် ၆၄ ဒီဂရီရှိသော်လည်း ဆောင်းရာသီတွင်မူ ၁၅ ဒီဂရီသာရှိသည်။ ဆောင်းရာသီ၌ ဆိုဗီယက်မြို့ကြီးများတွင် မြောက်ဖက်အကျဆုံးဖြစ်သော လီနင်ဂရက်မြို့မှာထက် မောစကိုမြို့တွင် ပိုအေးသည်။ ဥရောပပိုင်းရှိ ဆိုဗီယက်မြို့ကြီးများနှင့် ဆိုက်ဗီးရီးယားရှိ မြို့ကြီးများသည်လည်း ထိုနည်းတူပင်ပိုအေးသည်။ ကရိုင်းမီးယားတောင်ဖက် ကမ်းခြေတလျှောက်တွင် မြေထဲပင်လယ် ရာသီဥတုမျိုးရှိရာ နွေရာသီတွင် ပူပြင်းခြောက်သွေ့၍ ဆောင်းရာသီ၌ မိုးရွာသွန်းသည်။ မိုးရေချိန်မှာ ဆိုဗီယက်ပြည်ထောင်စုအနောက်ပိုင်းတွင် တနှစ်လျှင် ၂၅ လက်မမှ လက်မ ၃၀ အထိ ရွာသွန်းရာမှ အတွင်းဖက်ကျလေလေ နည်းသွားလေလေဖြစ်ရာ အာရှအလယ်ပိုင်းတွင် တနှစ်လျှင် နှစ်လက်မခန့်သာ ရွာသွန်းလေသည်။ ပင်လယ်နက် ကမ်းခြေတိုက်တွင် အပူလျော့ပိုင်း ရာသီဥတုမျိုးရှိ၍ နှစ်စဉ်မိုးရေချိန်လက်မ ၁၀၀ ကျော်အထိ မိုးသည်းထန်၏။ ပစိဖိတ် ကမ်းခြေတလျှောက်တွင် မုတ်သုန် ရာသီဥတုမျိုးရှိရာ နွေရာသီတွင် ပူပြင်း၍ မိုးရွာသွန်းပြီးလျှင် ဆောင်းရာသီတွင် ခြောက်သွေ့၍ အေးသည်။

ဆိုဗီယက် ပြည်ထောင်စု၏ များသောအပိုင်းသည် သဘာဝ အခြေအမြစ်များဖြင့် ပေါကြွယ်ဝသည်။ သို့သော် အာရှတိုက်ဖက်ပိုင်းရှိ ကန္တာရ ဒေသများနှင့် အာတိတ်ဒေသများကဲ့သို့သော အရပ်ဒေသများတွင်ကား ထိုကဲ့သို့ ပေါကြွယ်ဝခြင်း မရှိပေ။ အာတိတ်ဒေသများတွင် သစ်၊ သားမွေးနှင့် ဓာတ်သတ္တု အချို့သာ ထွက်၏။ ဆိုဗီယက် ပြည်ထောင်စု၏ ကျန်အပိုင်းများတွင် ကြက်ပေါင်စေး၊ သံမြှုနှင့် အပူပိုင်းထွက်ကုန်အချို့က လွဲ၍ ခေတ်မှီ စက်မှုလုပ်ငန်းတခုအတွက် လိုအပ်သော ပစ္စည်းအားလုံး လိုလိုကို ထုတ်လုပ်နိုင်သည်ဟု ဆိုလေသည်။ ဆိုဗီယက် ပြည်ထောင်စု၏ အကြွယ်ဝဆုံးသော ရေနံတွင်းများသည် ကက်စပျန်ပင်လယ်ကမ်းခြေရှိ ဗားကူးမြို့ အနီးတဝိုက်တွင် ရှိသည်။ ထိုမျှလောက် အရေးမပါသော ရေနံတွင်းများကား ဂရော့ဇနီနှင့် ကော်ကေးဆပ်မြောက်ပိုင်းရှိ မာအီကော့တွင် ရှိလေသည်။ ကက်စပျန်ပင်လယ် အနီးရှိ အင်ဗာ ဒေသ၊ ယူရယ်တောင်တန်း တောင်ပိုင်း၊ မြောက်ဖက် အဖျားရှိ ပီခိုရာဒေသနှင့် ဆက်ကလင်ကျွန်း မြောက်ပိုင်းတို့တွင်ရှိသော ရေနံတွင်းများသည် အလားအလာ များစွာကောင်းသော်လည်း အနည်းအကျဉ်းမျှသာ တူးဖော် လုပ်ကိုင်ရသေးသည်။

သိပ္ပံပညာရှင် အတော်များများကပင် ဆိုဗီယက် ပြည်ထောင်စုသည် တောင်အာဖရိက နိုင်ငံကလွဲလျှင် ကမ္ဘာပေါ်တွင် ရွှေအထွက်ဆုံးနိုင်ငံ ဖြစ်သည်ဟု ယူဆကြသည်။ များသောအားဖြင့် ရွှေကို ယူရယ်တောင်တန်း၊ လီနာမြစ်ဝှမ်းနှင့် ဆိုက်ဗီးရီးယားနယ်၏ အခြား ဒေသများတွင် တူးဖော် ရရှိသည်။ နှစ်ကယ်သတ္တု အထွက်တွင်လည်း ဆိုဗီယက်ပြည်ထောင်စုသည် ကနေဒါနိုင်ငံ၏နောက် ဒုတိယလိုက်သည်။ ထိုအပြင် ဆိုဗီယက်ပြည်ထောင်စု နိုင်ငံတွင် မန်ဂနိ၊ ကျောက်ဂွမ်း၊ ခဲ၊ သွပ်၊ ကြေးနီ၊ ဗောက်ဆိုက်နှင့် အက်ပတိုက် အခြေအမြစ် အမြောက်အမြားရှိ၍ ဥရောပဆိုဗီယက်ပိုင်းရှိ ဒိုနက် မြစ်ဝှမ်းဒေသ၊ ဆိုက်ဗီးရီးယား အလယ်ပိုင်းရှိ ကုဇနက်စက ဒေသနှင့် အာရှတိုက် အလယ်ပိုင်းရှိ ကာရာဂန်ဒါဒေသ အနီးတဝိုက်တို့တွင် ကျောက်မီးသွေး အခြေအမြစ် အမြောက်အမြားရှိသည်။

ဆိုဗီယက် ပြည်ထောင်စုကို မြေအမျိုးအစားနှင့် သဘာဝ အလျောက် ပေါက်ရောက်သော သစ်ပင်များအလိုက် ခွဲခြားလိုက်လျှင် ဒေသကြီးခြောက်ဒေသခွဲခြားနိုင်သည်။ မြောက်ဖက် အာတိတ် သမုဒ္ဒရာကမ်းခြေတလျှောက်မှာ မည်သည့် အပင်မျိုးမှ မပေါက်ရောက်သော တန်ဒြာဒေသ ဖြစ်သည်။ တန်ဒြာဒေသ၏ တောင်ဖက်တွင် သစ်တောဒေသရှိ၍ ကမ္ဘာတခုလုံးမှ ထွက်သမျှသစ်များ၏ သုံးပုံတပုံခန့်မှာ ထိုဒေသရှိ သစ်တောကြီးများမှ ရသည်ဟုဆို၏။ သစ်တောဒေသသည် တောင်ဖက်သို့ ရောက်လျှင် သစ်ပင်များ တဖြည်းဖြည်း ပါးလာပြီးလျှင် စိုက်ခင်းများ ကြိုးကြားတွေ့ရသည်။သစ်တော-စတက်လွင် ဒေသဟူ၏။ထိုတောင်ဖက်တွင်မူ စတက်လွင်ဒေသ (ဝါ)စတက်လွင် ရပ်ဝန်းကို တွေ့ရလေသည်။ ထိုရပ်ဝန်းတွင် အလွန်မြေသြဇာကောင်းသည့် မြေနက်မျိုးရှိ၍ တခါတရံ မြေနက်ရပ်ဝန်းဟုလည်းခေါ်ဝေါ်၏။ထိုရပ်ဝန်းတွင် ယူကရိန်းနိုင်ငံ၏ များသောအပိုင်း၊ ဒွန်နှင့် ကူဗန်မြစ်ဝှမ်းများနှင့် အာရှတိုက်ဖက်ပိုင်းရှိ ဆိုဗီယက်ပြည်ထောင်စု၏ ဒေသအချို့ပါဝင်လေသည်။ ဆိုဗီယက် ပြည်ထောင်စု တခုလုံး၏ ၁၅ ရာနှုန်းမျှ ကျယ်ပြန့်၍ သဲကန္တာရနှင့် အလွန်ခြောက်သွေ့သော မြေများသာ ပါဝင်သည့် ပဉ္စမဒေသကြီးကား အာရှဖက်ပိုင်းကျသော ဆိုဗီယက် ပြည်ထောင်စုအတွင်း၌သာ လုံးလုံးလျားလျား တည်ရှိ၏။ ဆိုဗီယက်ပြည်ထောင်စု၏ အ




အလုပ်သမား လယ်သမားတို့၏ ရွှေဆောင်ကြီးလီနင်

နောက်တောင်ပိုင်းတွင် တည်ရှိသော ဆဋ္ဌမ ဒေသကြီးကား တစိတ်တဒေသအားဖြင့်အပူပိုင်းဒေသရာသီဥတုမျိုးရှိသည်။

ဆိုဗီယက် ပြည်ထောင်စု၏ မြစ်များကား အမြဲလိုပင် အရေးပါသော ကူးသန်း သွားလာရေး လမ်းကြောင်းကြီး များဖြစ်သည်။ ဗော်လဂါမြစ်သည် အထူးတလည် အရေးပါ၏။ ဗောလတစ် ပင်လယ်နှင့် ပင်လယ်ဖြူတို့ကို ဆက်သွယ်ထားသည့် ဗောလတစ် - ပင်လယ်ဖြူ တူးမြောင်းကဲ့သို့သော တူးမြောင်းသစ်များကို တူးဖောက် ပေးခြင်းအားဖြင့် လှေသမ္ဗန်များဖြင့် ကူးသန်း သွားလာခြင်းမှာ လွယ်ကူလာခဲ့၏။ ဆိုဗီယက် အစိုးရ လက်ထက်တွင် ဗော်လဂါ မြစ်နှင့် မောစကိုမြစ်တို့ကို ဆက်သွယ်ပေးသော မောစကို-ဗော်လဂါတူးမြောင်းကို ဖောက်လုပ်ပေးခဲ့ရာ မောစကိုမြို့သည်လည်း ထိုတူးမြောင်းအားဖြင့် ရေကောင်းစွာ ရရှိသည်။ ဆိုဗီယက် ပြည်ထောင်စုတွင် ကူးသန်းသွားလာ အသုံးပြုလျက်ရှိသော ရေကြောင်းခရီးလမ်း ၈၈,၄၉၂ မိုင်ခန့်ရှိ၏။ ၁၉၆၅ ခုနှစ်တွင် ဆိုဗီယက် ပြည်ထောင်စု၌ မီးရထားလမ်း ၈၀,၂၉၅ မိုင်ခန့်ရှိသည်။ ဆိုဗီယက်အစိုးရလက်ထက် ၁၉၃၀ ပြည့်နှစ်လွန်နှစ်များတွင် ဆိုက်ဗီးရီးယားနှင့် အာရှအလယ်ပိုင်းတို့ကို ဆက်သွယ်ပေးသည့် တာ့ဆစ် မီးရထားလမ်းကို ဖောက်လုပ်ခဲ့၏။ ၁၉၃၇ ခုနှစ်တွင် ကမ္ဘာပေါ်၌ အရှည်လျားဆုံး မီးရထားလမ်းဖြစ်သော ထရန်ဆိုက်ဗီးရီးယန်း မီးရထားလမ်းကို နှစ်လမ်းသွားဖြစ်အောင် ပြုပြင် ဖောက်လုပ်ခဲ့သည်။ ထိုအပြင် တိုင်ရှက်တွင် ခွဲထွက်ကာ ဗိုင်ကာအိုင်၏ မြောက်ဖက်မှ ဖြတ်သန်းသွားသော ထရန် ဆိုက်ဗီးရီးယန်း လမ်းခွဲတခုကိုလည်း ဖောက်လုပ်ခဲ့၏။ မောစကိုမြို့တော်တွင် မီးရထားဘူတာရုံ အများအပြားရှိ၍ မောစကိုမြို့သည် ဆိုဗီယက် ပြည်ထောင်စုနိုင်ငံ အရပ်ရပ်သို့ သွားသော မီးရထားလမ်းများ၏ လမ်းဆုံမြို့ကြီးလည်း ဖြစ်လေသည်။

ကုန်းလမ်းများကား မိုင်ပေါင်း ၂၁၈,၅၉၀ ခန့်ရှိရာ အဓိကအားဖြင့် ဥရောပဖက်ပိုင်းကျသော ဆိုဗီယက် ပြည်ထောင်စုနှင့် မီးရထားလမ်းများ မရှိသော ဆိုက်ဗီးရီးယားနယ် အချို့အပိုင်းများတွင် တည်ရှိ၏။

ဆိုဗီယက် ပြည်ထောင်စုတွင် လေကြောင်းခရီးလမ်း မိုင်ပေါင်း ၂၆၇,၀၃၀ ခန့်ရှိ၍ အဓိက လေကြောင်း ခရီးလမ်းများတွင် တာဗိုပရော့ လေယာဉ်ကြီးများနှင့် ဂျက်လေယာဉ်ကြီးများကို အသုံးပြုလျက် ရှိသည်။ ခေါင်လွန်းသော နေရာအချို့တွင်ရင်း၊ ဆိုက်ဗီးရီးယား တနယ်လုံးလိုလိုတွင်ရင်း လေကြောင်း သွားလာမှုသည် တခုတည်းသော သယ်ယူပို့ဆောင်ရေး နည်းလမ်း ဖြစ်ပေသည်။ အဓိက လေကြောင်းလမ်းများသည် မောစကိုမြို့တော်မှ ဗနုကိုဗို လေဆိပ်မှ ဖြာထွက်သွား၏။ အာရှတိုက်နှင့် ဥရောပ တိုက်ရှိ နိုင်ငံအသီးအသီး၏ မြို့တော်များနှင့်လည်း လေကြောင်းခရီး အဆက်အသွယ်များ ရှိလေသည်။

ဗော်လရှိဗစ် တော်လှန်ရေးကြီး မတိုင်မီက ရုရှနိုင်ငံသည် အဓိကအားဖြင့် လယ်ယာစိုက်ပျိုးရေးနိုင်ငံ ဖြစ်ခဲ့၏။ ဆိုဗီယက်ပြည်ထောင်စုအစိုးရသည် အနှစ် ၂၀ မျှသောအချိန်ကာလအတွင်း စက်မှုနိုင်ငံကြီးတခုအဖြစ်သို့ မြှင့်တင်ပေးခဲ့သည်။

ဆိုဗီယက် အစိုးရသည် ရှိသမျှသော စက်မှုလုပ်ငန်းများ၊

**ရုရှနိုင်ငံ မောစကိုမြို့တော်တွင် ကမ္ဘာ့အလုပ်သမားနေ့ကို ဤသို့ မီးမောင်းများဖြင့် ဂုဏ်ပြုကျင်းပခဲ့သည်။**





ကရင်မလင် နန်းတော်နှင့် ရင်ပြင်နီ

သဘာဝ အခြေအမြစ်များ၊ သတ္တုတွင်းများ၊ ဘဏ်များနှင့် ဆက်သွယ်ရေးနှင့် သယ်ယူပို့ဆောင်ရေး အစီအမံများကို ပိုင်ဆိုင်သည်။ ဤတွင် ထုတ်လုပ်ရေးနှင့် ဖြန့်ချိရေး လုပ်ငန်းများတွင် ပါဝင်သမျှသော လုပ်ငန်းအဆင့်များ အကျုံးဝင်သည်။ အစိုးရက ယင်း၏ စက်ရုံများ၊ သတ္တုတွင်းများ နှင့် အခြား ကုမ္ပဏီများကို ဝန်ကြီးဌာနများမှ တဆင့် ဖြစ်စေ၊ ထိုဝန်ကြီးဌာနများ၏ များပြားလှစွာသော ကိုယ်စားလှယ်အဖွဲ့များ၊ သို့မဟုတ် ဌာနခွဲများမှ တဆင့်ဖြစ်စေ လုပ်ကိုင်ဆောင်ရွက်သွားလေသည်။

ဆိုဗီယက် စက်မှုလုပ်ငန်း လျှင်မြန်စွာ အကောင်အထည်ပေါ်လာရေး အတွက် စနစ်တကျ ငါးနှစ်စီမံကိန်းများ ချကာ လုပ်ကိုင်ခဲ့ရသည်။ ဆိုဗီယက် စက်မှုလုပ်ငန်း အတွက် အကြီးမားဆုံးသော ချွတ်ယွင်းချက်မှာ ကျွမ်းကျင်သားရ လုပ်သားများ ရှားပါးမှုပင်ဖြစ်ခဲ့၏။ ၁၉၂၀ ပြည့်နှစ်လွန် နှစ်များအတွင်း၌၎င်း၊ ၁၉၃၀ ပြည့်နှစ်လွန် နှစ်များအတွင်း၌၎င်း ဆိုဗီယက်ပြည်ထောင်စုတွင် စက်ရုံများနှင့် ဆည်ကြီးများ တည်ဆောက်ရာ၌ ကြီးကြပ် လုပ်ကိုင်သွားရန်အတွက် အမေရိကန်နှင့် အခြားအင်ဂျင်နီယာ ထောင်ပေါင်းများစွာ ငှားရမ်းခဲ့ရ၏။ ယခင်က ရွာကလေးများသာရှိသည့် နေရာဒေသများတွင် မဂ္ဂနီတိုဂေါ့ကဲ့သို့သော စက်မှုလုပ်ငန်း မြို့ကြီးများကို တည်ဆောက်ခဲ့ရ၏။ ဦးစွာ အကောင်အထည် ဖော်ကာ လုပ်ကိုင်ခဲ့သော စက်မှု လုပ်ငန်းများမှာ သံ၊ သံမဏိ၊ ကျောက်မီးသွေးနှင့် အထည်ကြီး စက်ကရိယာလုပ်ငန်းများ ဖြစ်၏။ ထိုလုပ်ငန်းများကား စက်မှုလုပ်ငန်း တိုးချဲ့ရေးအစီအစဉ်အတွက် လိုအပ်သည့်လုပ်ငန်းများ ဖြစ်လေသည်။

ပဉ္စမ ငါးနှစ် စီမံကိန်း (၁၉၅၁ – ၅၅) အရ သံမဏိအထွက် ထူးထူး ခြားခြား တိုးတက်လာအောင် လုပ်ဆောင်ခဲ့ရာ ၁၉၅၄ ခုနှစ်၌ သံမဏိတန်ချိန် ၄၅,၅၀၀,၀၀၀ ခန့် ထွက်ခဲ့သဖြင့် ၁၉၄၀ ပြည့်နှစ် သံမဏိအထွက်၏ နှစ်ဆကျော်ကျော် ဖြစ်သည်။ ဤသို့သော ငါးနှစ်စီမံကိန်းများအားဖြင့် ဆိုဗီယက် ပြည်ထောင်စုသည် ကျောက်မီးသွေး၊ ရေနံ၊ စက်ကရိယာ အသုံးအဆောင် ပစ္စည်းများနှင့် လျှပ်စစ်ဓာတ်အားစသည့် ထုတ်လုပ်ရေးတို့ကိုလည်း တိုးတက်အောင် ပြုလုပ်ခဲ့လေသည်။

ဆိုဗီယက် ပြည်ထောင်စုတွင် စိုက်ပျိုးရေး လုပ်ငန်းကိုလည်း စက်မှုလုပ်ငန်းကဲ့သို့ပင် ပြည်သူပိုင် စနစ်နှင့် စီမံကိန်းချကာ ဆောင်ရွက်သည့် စနစ်တို့ အောက်တွင် ဘောင်ဝင်အံကျ ဖြစ်အောင် ပြုလုပ်ခဲ့၏။ ထိုပြင် ၁၉၂၈ ခုနှစ်မှစ၍ လယ်ယာမြေ စုပေါင်းလုပ်ကိုင်ရေး စနစ်ကို တီထွင်ခဲ့ပြန်၍ စုပေါင်း လယ်ယာခြံကြီးများနှင့် နိုင်ငံပိုင် လယ်ယာခြံကြီးများဟူ၍ ရှိလာခဲ့သည်။ နိုင်ငံပိုင် လယ်ယာခြံကြီးများတွင် လုပ်ကိုင်သူများသည် အခကြေးငွေများ ရကြ၍ စုပေါင်း လယ်ယာခြံကြီးများတွင် လုပ်ကိုင်သူများကား လုပ်ခအဖြစ် ခြံထွက်ပစ္စည်းများကို မိမိတို့လုပ်အားအလိုက် ဝေပုံကျ ရရှိလေသည်။ ဆိုဗီယက်ပြည်ထောင်စုတွင် ၁၉၆၄ ခုနှစ်၌ စိုက်ပျိုးလုပ်ကိုင်သော မြေအကျယ်အဝန်းမှာ ဧက ၅၂၅.၆ သန်း ဖြစ်၏။ ၁၉၆၄ ခုနှစ်၌ စုပေါင်းလယ်ယာခြံကြီးများ ၃၇,၆၀၀ ရှိ၍ နိုင်ငံပိုင် လယ်ယာခြံကြီးများ ၁၀,၀၇၅ ရှိသည်။

ဂျုံနှင့် ရိုင်းစပါးတို့သည် ဆိုဗီယက် ပြည်ထောင်စု၏ အဓိက ကောက်သီး ကောက်နှံများ ဖြစ်၏။ အာရှတိုက် အလယ်ပိုင်းတွင် ဝါခင်းကြီးများ ရှိသည်။ ဘီသွာလျှော်ကို အနောက်မြောက်ပိုင်းတွင် စိုက်ပျိုး၏။ ဆိုဗီယက် ပြည်ထောင်စုဝင် ယူကရိန်း သမတနိုင်ငံကို သကြားမုန်လာ စိုက်ခင်းကြီးများရှိ၍ သကြားချက် စက်ရုံကြီးများလည်း ရှိခြင်းကြောင့် "သကြားအိုး" နယ်ဟုပင် ခေါ်စမှတ် ပြုကြသည်။ ကော်ကေးရှန်း ကမ်းခြေ တလျှောက်ရှိ တောင်သူ လယ်

သမားတို့သည် လက်ဖက်ကို စိုက်ပျိုး လုပ်ကိုင်ကြသည်။ စပျစ်သီး၊ ပန်းသီးနှင့် ရာသီဥတု မျှတသော အပိုင်းထွက် သီးနှံများကို ဆိုဗီယက်ပြည်ထောင်စု တောင်ပိုင်းဒေသများ တွင် စိုက်ပျိုးသည်။ ထို့ပြင် တောင်ဖက်အကျဆုံးဒေသများ တွင် ရှောက်နှင့် ရှောက်မျိုးအဝင်အပါသီးနှံများကို စိုက်ပျိုး လေသည်။

၁၉၆၇ ခုနှစ်တွင် ခန့်မှန်းချက်အရ ဆိုဗီယက် ပြည်ထောင် စု၏ လူဦးရေသည် ၂၃၃.၂ သန်းဖြစ်သည်။ ရုရှလူမျိုး၊ ယူက ရိန်းလူမျိုး၊ ရုရှဖြူလူမျိုး (ဗိုင်လို ရုရှလူမျိုး) စသည်တို့ ပါဝင် သော ဆလဗ်လူမျိုး အုပ်စုကား လူဦးရေအများဆုံး ဖြစ် ၏။ ထိုဆလဗ်လူမျိုးအုပ်စုဝင်များတွင် ရုရှလူမျိုးသည် အ များဆုံးဖြစ်၍ ယူကရိန်းလူမျိုးသည် ဒုတိယ အများဆုံး ဖြစ်သည်။ ဒုတိယ လူဦးရေအများဆုံး လူမျိုးအုပ်စုမှာ တာကို-တာတာ အုပ်စုဖြစ်၍ ထိုအုပ်စုတွင် အာရှ တိုက် အလယ်ပိုင်းတွင် နေထိုင်လျက်ရှိသော လူမျိုးစု အများ အပြား ပါဝင်သည်။ ဗော်လဂါ-ကာမဒေသရှိ တာတာနှင့် ဗက်ကရီးတို့သည်၎င်း၊ အဇာဗိုင်ဂျန်နှင့် ကရိုင်းမီးယားမှ တာတာတို့သည်၎င်း ထိုအုပ်စုဝင်များ ဖြစ်သည်။ တတိယ လူဦးရေအများဆုံး လူမျိုးအုပ်စုမှာ ဖင်းနို-အူဂရီယန် အုပ်စု ဖြစ်သည်။ ထိုအုပ်စုတွင် မော်ဒီဗီနီယန် လူမျိုးများ၊ ချူး ဗတ်ရှလူမျိုးများ၊ အောစတျုတ်လူမျိုးများနှင့် ဗိုဂူးလူမျိုး များ ပါဝင်သည်။ ထို့မှတပါး လူမျိုးအုပ်စု အမြောက်အမြား ရှိသေးရာ ထိုအုပ်စုများတွင် အာရှဖက်ပိုင်းကျသော ဆိုဗီ ယက် ပြည်ထောင်စုမှ မွန်ဂိုလူမျိုးများ ပါဝင်လေသည်။

ဆလဗ် လူမျိုးအုပ်စုဝင်များသည် ဆိုဗီယက် ပြည်ထောင်စု တဝှန်းလုံးတွင် အနှံ့အပြား နေထိုင်ကြသည်။

ဆိုဗီယက် အစိုးရ၏ ရုံးသုံးဘာသာမှာ ရုရှဘာသာ ဖြစ်၏။ ဆိုဗီယက် ပြည်ထောင်စုတွင် ဖွဲ့စည်း အုပ်ချုပ်ပုံ အခြေခံ ဥပဒေအရ နိုင်ငံသူ နိုင်ငံသားတိုင်း မိမိတို့ နှစ်သက် ရာ အယူဝါဒကို လွတ်လပ်စွာ ကိုးကွယ်ခွင့် ရှိသည်။ နိုင်ငံ တွင်း၌ ခရစ်ယန် အယူဝါဒီ (ဂိုဏ်းအမျိုးမျိုး) များ ရှိသကဲ့ သို့ မွတ်စလင်များ၊ ဗုဒ္ဓအယူဝါဒီများ စသည့် အခြားသော အယူဝါဒီများလည်း ရှိ၏။

ဆိုဗီယက် ပြည်ထောင်စုတွင် အသက်အရွယ် ခုနစ်နှစ်မှ ၁၅/၁၆ နှစ်အကြားရှိ ကလေးများသည် စာသင်ကျောင်း များတွင် မသင်မနေရ အခမဲ့ တက်ရောက် သင်ကြားရလေ သည်။ အသက် သုံးနှစ်မှ ခုနစ်နှစ်အရွယ်အထိ ကလေးသူငယ် များအတွက် ကင်ဒါဂါတင်ကျောင်းများလည်း ရှိသေး၏။ ထို ကျောင်းများအပြင် လေးနှစ်သင်ရိုးကျောင်း၊ ရှစ်နှစ်သင်ရိုး ကျောင်းနှင့် ၁၁ နှစ်သင်ရိုးကျောင်းဟူ၍ သုံးမျိုးခွဲခြားထား ၏။ လေးနှစ် သင်ရိုးကျောင်းများကား မူလတန်းကျောင်း များဖြစ်၍ ရှစ်နှစ် သင်ရိုးကျောင်းများမှာ တန်းမပြည့် အ လယ်တန်းများ ဖြစ်ပြီးလျှင် ၁၁ နှစ် သင်ရိုးကျောင်းများ ကား တန်းပြည့် အလယ်တန်းကျောင်းများဖြစ်သည်။ ပညာ ရေးကို လုပ်ငန်းအတတ်ပညာနှင့် ရင်းနှီးစွာဆက်စပ်ထားရာ တန်းမပြည့် အလယ်တန်းကျောင်းများသည်၎င်း၊ တန်းပြည့် အလယ်တန်းကျောင်းများသည်၎င်း လုပ်ငန်း အတတ်ပညာ သင်ကျောင်းများလည်း ဖြစ်ကြ၏။ တန်းပြည့်အလယ်တန်း



ရုရှနိုင်ငံတွင် လယ်ယာကို စက်ဖြင့် ထွန်ယက်ကြသည်။

ကျောင်းများတွင် အထွေထွေ ပညာရေးအတွက်၎င်း၊ စီးပွားရေးနှင့် အနုပညာရပ်တို့၏ တစုံတခုသော အစိတ်အပိုင်းတွင် အသက်မွေး ဝမ်းကျောင်းနိုင်ရေး အတွက်၎င်း သင်ကြားပို့ချပေး၏။ သင်ကြားပို့ချမှုကို ဘာသာပေါင်း တရာကျော်ဖြင့် ပြုလုပ်ပေးသည်။ ၁၉၆၅–၆၆ ခုနှစ်တွင် ဆိုဗီယက်ပြည်ထောင်စု၌ မူလတန်းနှင့် အလယ်တန်းကျောင်းပေါင်း ၂၁၇,၀၀၀ ရှိ၏။ အလယ်တန်းကျောင်းများမှ အောင်မြင်လာသူများသည် အထက်တန်း ပညာရပ်များကို ဆက်လက်ဆည်းပူးနိုင်သည်။ ၁၉၆၅–၆၆ ခုနှစ်တွင် စက်မှုကောလိပ်ကျောင်း ၃,၇၁၇ ကျောင်းနှင့် တက္ကသိုလ်အစရှိသော အခြားအထက်တန်းပညာသင် ဌာနကြီးများမှာ ၇၅၄ ခုရှိသည်။

သိပ္ပံပညာသုတေသနပြုမှုကို ယူအက်(စ)အက်(စ) အာ၏ သိပ္ပံပညာတံခွန်အသင်းကြီးက ကြီးကြပ်အုပ်ချုပ်၏။ အဖွဲ့ဝင်နှင့် အပေါင်းပါအဖွဲ့ဝင် ၅၇၇ ဦး ပါဝင်၍ ယင်း၏အောက်တွင် ပညာချုန် အဖွဲ့ ၁၆၆ ဖွဲ့ရှိသည်။ ဆိုဗီယက် ဆိုရှယ်လစ်ပြည်ထောင်စု အဖွဲ့ဝင်နိုင်ငံ ၁၄ နိုင်ငံတွင်လည်း အလားတူသိပ္ပံ ပညာတံခွန်အသင်းများ ရှိသည်။ သိပ္ပံ ပညာတံခွန်အသင်းကြီး၏ အောက်တွင် ပညာရှင် အသင်းအဖွဲ့များ ၁၉၄ ဖွဲ့ ရှိလေသည်။

ဆိုဗီယက် ပြည်ထောင်စုတွင် လူဦးရေ တသိန်းကျော် ရှိသော မြို့ကြီးပေါင်း ၁၄၇ မြို့ရှိသည်။ မော်စကိုမြို့မှာမြို့တော်ဖြစ်၍ အခြား မြို့ကြီးများမှာ ဗားကူးမြို့၊ ဂေါ်ရကီမြို့၊ ခါးရကပ်မြို့၊ ကီးယက်မြို့၊ လီနင်ဂရက်မြို့၊ တာ့ရှကင့်မြို့၊ တဗီလီဆီမြို့၊ အိုဒက်ဆာမြို့၊ ကူအီးဗီရှက်မြို့စသည်တို့ဖြစ်ကြလေသည်။

ဆိုဗီယက် ပြည်ထောင်စု၏ ထုတ်ကုန်များတွင် သစ်၊ သားမွေး၊ မန်ဂနိ၊ ရွှေ၊ ဂျုံ၊ ဆီ၊ ငါး၊ ဥ၊ ဆေးဖက်ဝင် သစ်ဥသစ်ဖုများ၊ အခြားကုန်ကြမ်း အများအပြားနှင့် အခြားထုတ်ကုန်များ ပါဝင်သည်။ ဝင်ကုန်များတွင် စက်ကရိယာများ၊ စက်လက်နက် ကရိယာများ၊ မီးရထား သံလမ်းများ၊ မီးရထားသံလမ်းဆိုင်ရာ အသုံးအဆောင် ပစ္စည်းများ၊ တာဗိုင်များ၊ အားပေးစက်များနှင့် တိုင်းပြည်တွင် စက်မှုထွန်းကားအောင် ပြုလုပ်ရာတွင် အထောက်အကူပြုမည့် အခြားပစ္စည်းများ ပါဝင်လေသည်။

ဆိုဗီယက် ဆိုရှယ်လစ် ပြည်ထောင်စု သမတနိုင်ငံတွင် သမတနိုင်ငံ ၁၅ ခု ပါဝင်သည်။ ယင်းတို့မှာ ရုရှ ဆိုဗီယက် ဆိုရှယ်လစ် ပြည်ထောင်စု သမတနိုင်ငံ၊ ယူကရိန်းနီးယန်း ဆိုဗီယက် ဆိုရှယ်လစ် သမတနိုင်ငံ၊ ဗိုင်လို ရုရှ (ဗျဲလိုရုရှ) ဆိုဗီယက် ဆိုရှယ်လစ် သမတနိုင်ငံ၊ ဥဇဗက် ဆိုဗီယက် ဆိုရှယ်လစ် သမတနိုင်ငံ၊ ကာဇက် ဆိုဗီယက် ဆိုရှယ်လစ် သမတနိုင်ငံ၊ တူကမင် ဆိုဗီယက် ဆိုရှယ်လစ် သမတနိုင်ငံ၊ တာဂျစ် ဆိုဗီယက် ဆိုရှယ်လစ် သမတနိုင်ငံ၊ ဂျော်ဂျီးယား ဆိုဗီယက် ဆိုရှယ်လစ် သမတနိုင်ငံ၊ အဇာဗိုင်ဂျန် ဆိုဗီယက် ဆိုရှယ်လစ် သမတနိုင်ငံ၊ အက်စတိုးနီးယား ဆိုဗီယက် ဆိုရှယ်လစ် သမတနိုင်ငံ၊ လတ်ဗီးယား ဆိုဗီယက် ဆိုရှယ်လစ် သမတနိုင်ငံ၊ လစ်သွေးနီးယား ဆိုဗီယက် ဆိုရှယ်လစ် သမတနိုင်ငံ၊ အာမီးနီးယန်း ဆိုဗီယက် ဆိုရှယ်လစ် သမတနိုင်ငံ၊ မော်လဒေးဗီးယား ဆိုဗီယက် ဆိုရှယ်လစ် သမတနိုင်ငံနှင့် ကီဂစ် ဆိုဗီယက် ဆိုရှယ်လစ် သမတ နိုင်ငံတို့ ဖြစ်သည်။

ဆိုဗီယက် ပြည်ထောင်စု နိုင်ငံသည် အလုပ်သမားနှင့် တောင်သူ လယ်သမားများ၏ ဆိုရှယ်လစ်နိုင်ငံ ဖြစ်၏။ ထို အလုပ်သမား၊ တောင်သူ လယ်သမားများ၏ နိုင်ငံရေးပါတီယူနစ်များကား လုပ်သားပြည်သူ ကိုယ်စားလှယ်များ ပါဝင်သည့် ဆိုဗီယက်များ ဖြစ်သည်။ ဗဟိုနှင့် ဒေသဆိုင်ရာအာဏာ အားလုံးသည် ဆိုဗီယက်များ၌ တည်သည်။ ဆိုဗီယက် ပြည်ထောင်စုတွင် အကြီးဆုံး အာဏာပိုင်အဖွဲ့သည် ဆူပရင်း ဆိုဗီယက်ခေါ် ဥပဒေပြုအဖွဲ့ ဖြစ်သည်။ ဆူပရင်း ဆိုဗီယက်တွင် ပြည်ထောင်စုဆိုဗီယက်နှင့် လူမျိုးစု ဆိုဗီယက်ခေါ် ဥပဒေပြုလွှတ်တော်နှစ်ရပ်ရှိသည်။ တူညီသော ဥပဒေပြုအာဏာများရှိပြီးလျှင် လေးနှစ်တကြိမ် အသက် ၁၈ နှစ်ပြည့်သူတိုင်းက ရွေးကောက်၍ အသက် ၂၃ နှစ်ပြည့်ပြီးသော ကိုယ်စားလှယ်တော်များ ပါဝင်သည်။ ပြည်ထောင်စု ဆိုဗီယက်တွင် ပါဝင်ရမည့် ကိုယ်စားလှယ်တော်များကို လူသုံးသိန်းလျှင် တဦးကျ ရွေးကောက်တင်မြှောက်၍ လူမျိုးစု ဆိုဗီယက်အတွက်မူ ပြည်ထောင်စုဝင် နိုင်ငံများမှ ၃၂ ယောက်ကျစီ၊ ကိုယ်ပိုင်အုပ်ချုပ်ခွင့်ရ နယ်ကြီးများမှ ၁၁ ယောက်ကျစီ၊ ကိုယ်ပိုင် အုပ်ချုပ်ခွင့်ရ ဒေသကြီးများမှ ငါးယောက်ကျစီနှင့် လူမျိုးစုဒေသများမှ တယောက်ကျစီ အသီးအသီး ရွေးကောက်တင်မြှောက်ရလေသည်။

ဆူပရင်း ဆိုဗီယက် အစည်းအဝေးကို တနှစ်လျှင် တကြိမ်နှစ်ကြိမ်မျှ မော်စကိုမြို့တော်တွင် ဖိတ်ခေါ် ကျင်းပရာ တကြိမ်လျှင် သုံးလေးရက်မျှသာကြာ၏။ ဆူပရင်း ဆိုဗီယက် စည်းဝေးနေချိန်မဟုတ်သည့်အခါမျိုးတွင် ဆူပရင်းဆိုဗီယက်၏ ပရီဆီဒီယမ်အဖွဲ့ (သဘာပတိအဖွဲ့)က တိုင်းပြည်ကို အုပ်ချုပ်သွားလေသည်။ ပရီဆီဒီယမ် အဖွဲ့ကို ဆူပရင်းဆိုဗီယက်ဝင် ဥပဒေပြု လွှတ်တော် နှစ်ရပ်၏ တွဲဖက် အစည်းအဝေးက ရွေးကောက်တင်မြှောက်၍ ဥက္ကဋ္ဌ တဦး၊ အတွင်းရေးမှူး တဦး၊ ဒုတိယ ဥက္ကဋ္ဌ ၁၅ ဦး (ပြည်ထောင်စုဝင် ၁၅ နိုင်ငံမှ တနိုင်ငံလျှင် တဦးကျစီ) နှင့် အမြဲတမ်း အဖွဲ့ဝင် ၁၆ ဦးတို့ ပါဝင်လေသည်။

အုပ်ချုပ်မှုဆိုင်ရာ အကြီးဆုံး အမှုဆောင် အဖွဲ့မှာ ဆူပရင်း ဆိုဗီယက်က ခန့်ထားသည့် ဝန်ကြီးများကောင်စီ ဖြစ်၏။ ထိုကောင်စီတွင် ဥက္ကဋ္ဌ (ဝန်ကြီးချုပ်)၊ ဒုတိယ ဥက္ကဋ္ဌများ၊ ပြည်ထောင်စုဝင် နိုင်ငံများ၏ ဝန်ကြီးချုပ်များ၊ ဗဟို

စာရင်းအင်းဌာန အကြီးအကဲ၊ ဝန်ကြီးများကောင်စီ ပရီဆီဒီယမ် အဖွဲ့ကြီးမှ ကော်မရှင်အဖွဲ့ငယ်များ၏ သဘာပတိများ၊ ပါတီနှင့် နိုင်ငံကြိုးကိုင်အဖွဲ့၏ သဘာပတိ၊ နိုင်ငံတော် စီမံကိန်းကော်မီတီ၏ သဘာပတိနှင့် အခြား နိုင်ငံတော် ကော်မီတီများ၏ သဘာပတိများ၊ ဝန်ကြီးများနှင့် နိုင်ငံတော်ဘဏ်၏ သဘာပတိတို့ ပါဝင်လေသည်။

ပြည်ထောင်စုဝင် ၁၅ နိုင်ငံတွင် အုပ်ချုပ်ပုံမှာ ပြည်ထောင်စုကြီးကို အုပ်ချုပ်ပုံမျိုးပင်ဖြစ်၏။ ထိုနိုင်ငံများတွင်လည်း ဥပဒေပြုအဖွဲ့၊ ဥပဒေပြုရေးဆိုင်ရာ ပရီဆီဒီယမ်အဖွဲ့၊ ဝန်ကြီးများကောင်စီအဖွဲ့ စသည်တို့ အသီးအသီး ရှိလေသည်။ ထိုနိုင်ငံများရှိ အစိုးရအဖွဲ့များသည် ဆိုဗီယက် ပြည်ထောင်စု၏ ဥပဒေများနှင့် အမိန့်များကို ပယ်ဖျက်နိုင်ခွင့် မရှိပေ။

ရုရှနိုင်ငံ တောင်ပိုင်း မြက်ခင်း လွင်ပြင်ကြီးတွင် ဘီ စီ ၆ ရာစု ခေတ်လောက်မှစ၍ ဆစ်သီယန်လူမျိုးများ အခြေစိုက် နေထိုင်ခဲ့ကြသည်။ ထိုနောက် စစ်မက်လိုလားသော လူမျိုးစုများဖြစ်သည့် ဆမာရှန် လူမျိုးများသည်ရှင်း၊ ဂေါ့သ လူမျိုးတို့သည်ရှင်း၊ ဟန်းလူမျိုးတို့သည်ရှင်း ထိုဒေသကြီးတွင် အစဉ်အဆက် နေထိုင်လာခဲ့ကြလေသည်။

ထိုနောက်တွင်ကား ရုရှလူမျိုးတို့၏ ဘိုးဘေးများဖြစ်ကြကုန်သော ဆလဗ် လူမျိုးများသည် ဗစ္စတျူလနှင့် နီးပါးမြစ်နှစ်သွယ်အကြား မြောက်ပိုင်း သစ်တောများတွင် ဝင်ရောက် နေထိုင် လာကြသည်။ တောင်ပိုင်း ဆလဗ် လူမျိုးများ (ဆဗ်နှင့် ဗူလဂေးရီးယန်း လူမျိုးများ) သည် အေ ဒီ တစ်ရာစုနှစ်ခန့်ကပင် ဒန်းညူမြစ်ဝှမ်းသို့ ဝင်ရောက် နေထိုင်ခဲ့ကြ၍ အရှေ့ပိုင်း ဆလဗ်လူမျိုးများသည် အေ ဒီ ၂၀၀ ပြည့်နှစ်များတွင်နီးပါးနှင့်နီးစတာ မြစ်နှစ်သွယ်အကြားရှိ လွင်ပြင်တလျှောက် လှည့်လည် သွားလာနေထိုင်ယင်း တူရကီအနွယ်ဖြစ်၍ သူတို့ကဲ့သို့ပင် လှည့်လည်နေထိုင်လျက်ရှိသော ခါဇာ လူမျိုးများက တိုက်ခိုက်နှိမ်နင်းခြင်းကို ခံခဲ့ရသဖြင့် မြောက်ပိုင်းသစ်တောများတွင် နော့ဗဂိုရော့ တဝိုက်၌ နေထိုင်လျက်ရှိသော အရှေ့ပိုင်း ဆလဗ်လူမျိုးများရှိရာသို့ ဆုတ်ခွာသွားရလေသည်။ ထိုနောက်တွင် နော့သမန်လူမျိုးစု တစုဖြစ်သော ရုစလူမျိုးစု၏ အကူအညီကို ရယူခဲ့ကြရလေသည်။ ထိုအခါတွင်မှ တူရကီအနွယ်ဝင် လူမျိုးတို့၏ရန်ကို ကြံ့ကြံ့ ခံနိုင်ခဲ့ကြလေသည်။

အေ ဒီ ၈၆၀ ပြည့်နှစ်ခန့်တွင် ဆလဗ် လူမျိုးစုတို့ကို ရုစလူမျိုးစုခေါင်းဆောင် ရူးရစ်က စည်းရုံးပြီးနောက် နော့ဗဂိုရော့၌ မင်းဆက်တခုကို စတင် တည်ထောင် အုပ်ချုပ်ခဲ့၏။ ဆယ်ရာစုနှစ်တွင် ကီးယက်နယ်သည် နိုင်ငံရေးရာ အချက်အခြာဌာနတခု ဖြစ်လာကာ ကီးယက်နယ်စားကြီးများသည် ဗိုင်ဇင်းရှမ် နိုင်ငံတော်နှင့် ကူးသန်းရောင်းဝယ်မှု ဆိုင်ရာ အဆက်အသွယ်များ ပြုလုပ်ခဲ့၍ ဗူလဂါလူမျိုးနှင့် ခါဇာ လူမျိုးတို့ကို တိုက်ခိုက်အောင်မြင်ခဲ့ပြီးလျှင် ရုရှနိုင်ငံကို အရှေ့ပိုင်း ခရစ်ယန် သာသနာဂိုဏ်းဝင်အဖြစ် သွတ်သွင်းခဲ့၏။ ပညာရေးကိုလည်း အားပေး၍ တရားဥပဒေ ကျင့်ထုံးများကိုလည်း အတည်တကျ ဖြစ်စေခဲ့သည်။ နောင်အခါ ကီးယက်သည် များစွာ အရေးမပါလှတော့ဘဲ အခြား နိုင်ငံရေးရာ အချက်အခြာ ဌာနသစ်များ ပေါ်ထွက်လာခဲ့ပြန်ရာ ဗလာဒီမာဆူဇဒယ်၊ ဗာလီဆီယာဗိုလီန်၊ ပိုလိုတော့စကနှင့် မင့်စက စသည့် နယ်များသည် ထင်ရှားလာလေသည်။

အလုပ်သမားတို့အား ခေတ်မှီအိမ်များ ဆောက်လုပ်ပေးကာ အလုပ်သမားဘဝကို မြှင့်တင်ပေးခဲ့သည်။





အထက်ပါပုံမှာ မောစကို လိုမိုနိုဆော့ တက္ကသိုလ်ဖြစ်၍ နက္ခတ္တဗေဒ ကျောင်းဖက်မှ ရိုက်ကူးထားခြင်းဖြစ်သည်။

တဆဲ့သုံးရာစုနှစ် ပဌမပိုင်းတွင် မွန်ဂို-တာတာ တို့သည် ရုရှနိုင်ငံကို အောင်နိုင် သိမ်းပိုက်ခဲ့၍ ရုရှနိုင်ငံ၏ စီးပွားရေးရာနှင့် ယဉ်ကျေးမှုဆိုင်ရာ တိုးတက်မှုတွင် ကာလ အတန်ကြာ နှောင့်နှေးခဲ့ရ၏။

ဦးစွာ၌ နော့ဗဂိုရော့မှအုပ်ချုပ်ခဲ့၍ ထိုနောက်တွင် ၁၂၅၂ ခုနှစ်မှ စ၍ ဗလာဒီမာမှ အုပ်ချုပ်ခဲ့သော အယ်လက်ဇန္ဒာနက်ဗစကီသည် ၁၂၄၀ ပြည့်နှစ်တွင် နီဗာမြစ်အနီး၌ ဆွီဒင်လူမျိုးတို့၏ ရန်ကို ဟန့်တားနိုင်ခဲ့ပြီးလျှင် တျူတန်နိုက်သူရဲကောင်းတို့ကို ၁၂၄၂ ခုနှစ်တွင် ပိအီးပတ် အိုင်ကြီးအနီး၌ အောင်မြင်ခဲ့သော်လည်း မွန်ဂို-တာတာတို့၏ လက်အောက်ခံဖြစ်ခဲ့ရသည်။ အိုင်ဗန်ကုလိုတာ (ခရစ် ၁၃၂၅–၄၀)၏လက်ထက်တွင် ဗော်လဂါနှင့် အပ်က မြစ်တို့အကြား၌ တည်ရှိ၍ မတ်စကိုဗီဟုလည်း ခေါ်သော မောစကိုနယ် တန်ခိုး အာဏာ ကြီးမားလာရေး အတွက် အခြေချမိခဲ့ရာ၊ ဒိမီထရီဒွန်စကိုဝီ (ခရစ် ၁၃၅၉–၁၃၈၉) လက်ထက်တွင်ကား ၁၃၆၄ ခုနှစ်တွင် ဗလာဒိမာနယ်ကို အောင်မြင် သိမ်းသွင်းနိုင်ခဲ့၍ ၁၃၈၀ ပြည့်နှစ်တွင် ကူလီကိုဗို လွင်ပြင်၌ မွန်ဂို-တာတာတို့ကို အောင်နိုင်ခဲ့လေသည်။ သို့သော် တာတာတို့ကို အပြီးသတ် ခြေမှုန်းခြင်းမပြုနိုင်သေးမီကပင် မောစကို နယ်စားကြီးများသည် မြောက်ဖက်ရှိ ရုရှနယ်ပယ်များကို အောင်မြင်သိမ်းပိုက်ခဲ့၏။ တတိယအိုင်ဗန် (ခရစ် ၁၄၆၂–၁၅၀၅)၏ လက်ထက် ၁၄၆၃ ခုနှစ်တွင် ယာရိုဆလာဗဲနယ်ကို၎င်း၊ ၁၄၇၄ ခုနှစ်တွင် ရော့စတော့နယ်ကို၎င်း၊ ၁၄၇၈ ခုနှစ်တွင် နော့ဗဂိုရော့ကို၎င်း၊ ၁၄၈၅ ခုနှစ်တွင် တဗာနယ်ကို၎င်း သိမ်းသွင်းခဲ့သည်။ အိုင်ဗန်သည် ၁၄၈၀ ပြည့်နှစ်တွင် မွန်ဂို-တာတာတို့ကို အောင်မြင်စွာ တော်လှန်ခဲ့၍ လစ်သွေးနီးယားကို တိုက်ခိုက်ခဲ့၏။ သူ၏ သားတော် တတိယ ဗက်ဆီလီ (ခရစ် ၁၅၀၅–၁၅၃၃) သည် ပစကော့နယ်(၁၅၁၀)၊စမိုလင့်နယ်(၁၅၁၄)နှင့် ရီယာဇန်နယ် (၁၅၂၃) တို့ကို အောင်မြင် သိမ်းသွင်းနိုင်ခဲ့၏။ ဤသို့အားဖြင့် တတိယအိုင်ဗန်လက်ထက်မှ အစပြုကာ မောစ

ကို တဝိုက်ရှိ ရုရှနယ်ပယ်များကို စည်းရုံး သိမ်းသွင်းလျက် ဗဟိုမှအာဏာချုပ်ကိုင်သည့် ရုရှတို့၏ နိုင်ငံတခုကို ဖန်တီးခဲ့ရာ ထိုနိုင်ငံသည် စတုတ္ထအိုင်ဗန် (ခရစ် ၁၅၄၇—၁၅၈၄)၏ လက်ထက်တွင် အင်အား ပိုမိုကောင်းလာခဲ့၏။ သူသည် ဇာဘုရင်အဖြစ်ခံယူ၍ သူ၏ သက်ဦးဆံပိုင်အစိုးရစံနစ်ကို အတိုက်အခံပြုသော ရုရှမှူးမတ်ကြီးများ၏ တန်ခိုးအာဏာကို ခြေမှုန်းပစ်ခဲ့၏။အိုင်ဗန်သည် တာတာတို့၏လက်တွင်းမှ ခါဇန် (၁၅၅၂) နှင့် အက်စထရာခန် (၁၅၅၆) နယ်ကြီးများကို အောင်မြင်သိမ်းပိုက်နိုင်ခဲ့သဖြင့် ဗော်လဂါမြစ်ဝှမ်း ဒေသသည် ရုရှနိုင်ငံအတွင်း ပါဝင်လာခဲ့သည်။ ထိုဒေသရှိ ဗော်လဂါ တာတာများ၊ မာရီလူမျိုးများ၊ ချူးဗတ်ရှ လူမျိုးများ၊ အွတ်ဒမွတ်လူမျိုးများနှင့် မော်ဒဗာလူမျိုးများသည်လည်း ရုရှနိုင်ငံ၏ အုပ်ချုပ်မှုအောက်သို့ ရောက်လာခဲ့ပြီးလျှင် အရှေ့ဖက်နှင့် အရှေ့တောင်ဖက်သို့ နောက်ထပ် နယ်ချဲ့နိုင်ရေး အတွက်လည်း လမ်း ပွင့်သွားလေသည်။ ထိုခေတ်၏ ယဉ်ကျေးမှုဆိုင်ရာ ထူးခြားချက်တရပ်မှာ ၁၆ ရာစုနှစ် အလယ်ခန့်တွင် မောစကို၌ ပုံနှိပ်ခြင်းအတတ်ကို စတင်အသုံးပြုခဲ့ခြင်းဖြစ်၏။

ကံကျေးချ စံနစ် ပေါ်ပေါက်လာသဖြင့် ၁၆၀၀ ပြည့်နှစ်တဝိုက်တွင် ကျေးကျွန်စံနစ် ပေါ်ပေါက်လာခဲ့သည်။ ၁၆၀၄ ခုနှစ်မှ ၁၆၁၃ ခုနှစ်အတွင်း အချိန်ကာလကို "ဒုက္ခအသွယ်သွယ် ကြုံတွေ့ရသည့် ကာလ"ဟုခေါ် ဆိုခဲ့၍ ထိုအချိန်ကာလအတွင်း မင်းဆက်အရှုပ်အထွေးများနှင့် ပိုလန်နှင့် ဆွီဒင်နိုင်ငံတို့သို့ နယ်မြေ ဆုံးရှုံးမှုများ ဖြစ်ပွားခဲ့ရာ မီဟိုင်းဖျော့ဒေါ် ရိုဗစ်ရိုမန်နော့ (ခရစ် ၁၆၁၃—၄၅) နန်းတက်လာမှသာလျှင် ပြီးဆုံးသွားခဲ့သည်။ ထိုအတောအတွင်း ကော့ဆက် လူစွန့်စားများသည် ၁၅၈၁ ခုနှစ်တွင် ယူရယ်တောင်တန်းများကို ဖြတ်ကျော်ကာ ဆိုက်ဗီးရီးယားအတွင်း ဝင်ရောက် ဖြတ်သန်းသွားပြီးနောက် ၁၆၃၉ ခုနှစ်တွင် ပစိဖိတ်သမုဒ္ဒရာ ကမ်းခြေသို့ ဆိုက်ရောက်သွားလေသည်။

တဆဲ့ခုနစ် ရာစုနှစ်တွင် ကံကျေး-ကျေးကျွန် စံနစ် အင်အား ပိုမိုကောင်းလာ၍ အရင်းရှင်စံနစ်၏ အခြေခံအချက်အလက်များ ပေါ်ပေါက် လာခဲ့ပြီးလျှင် ကုန်စည်များအတွက် ပြည်တွင်းဈေးကွက် ဖန်တီး ဖြစ်ပေါ်လာခဲ့ရာ ကုန်စည်ထုတ်လုပ်မှုကို စတင် ပြုလုပ်ခဲ့သည်။ ထို ရာစုနှစ် အလယ်လောက်တွင် မောစကို၊ ပစကော့နှင့် နော့ဗဂိုရော့တို့တွင် တော်လှန်မှုများ ပေါ်ပေါက်လာခဲ့၍ ၁၆၇၀—၁၆၇၁ ခုနှစ်တွင် စတက်ပန်ရာဇင် ခေါင်းဆောင်သည့် တောင်သူ လယ်သမား ပုန်ကန်မှု ဖြစ်ပွားခဲ့သည်။ ဇာဘုရင် အလက်ဆစ် (ခရစ် ၁၆၄၅ — ၇၆) သည် ပိုလန်နိုင်ငံသို့ ဆုံးရှုံးခဲ့ရသော နယ်မြေများကို ပြန်လည် ရယူနိုင်ခဲ့သည့်ပြင် ၁၆၆၇ ခုနှစ်တွင် ကီးယက်ကိုလည်း သိမ်းသွင်းနိုင်ခဲ့သည်။

သူ၏ သားတော် ပီတာ-သ-ဂရိတ်(ခရစ် ၁၆၇၉—၁၇၂၅) သည် အနောက်နိုင်ငံ ယဉ်ကျေးမှုနှင့် အကျွမ်းတဝင် ဖြစ်အောင်ပြုကာ ပြုပြင်မှုများကို ဆောင်ရွက်ခဲ့သည်။ သူသည် ကုန်သွယ်ရေး၊ စက်မှုလုပ်ငန်းနှင့် ပညာရေးတို့ကို အားပေး၍ သာသနာရေးဂိုဏ်းကို နိုင်ငံတော်၏ ကြီးကြပ်မှုအောက်တွင် ထားရှိပြီးလျှင် အုပ်ချုပ်ရေးကို ဗဟိုမှချုပ်ကိုင်စေသည့်ပြင် မှူးမတ်များ၏ အာဏာများကိုလည်း ကန့်သတ်ပေးခဲ့သည်။ (ပီတာ-သ-ဂရိတ် — လည်းရှု။) ၁၇၀၃ ခုနှစ်တွင် စိန်ပီတာစဗတ်မြို့ကို တည်ထောင်၍ ၁၇၁၂ ခုနှစ်တွင် ယင်းကို



ရုရှနိုင်ငံတွင် ကလေးသူငယ်များ၏ ကျန်းမာရေးကို အထူးဂရုပြုကာ ကလေးဆေးရုံများ သီးခြားဖွင့်လှစ်ထားရှိသည်။

မြို့တော်ပြုခဲ့၏။ ဆွီဒင်နိုင်ငံနှင့် (၁၇၀၀ ပြည့်နှစ်မှ ၁၇၂၁ ခုနှစ်အထိ) စစ်ပွဲတရပ် အောင်မြင်စွာ ဆင်နွှဲခဲ့၍ ရုရှနိုင်ငံကို ဗောလတစ် ပင်လယ်ကမ်းခြေတွင် အခြေချမိအောင် ဆောင်ရွက်ခဲ့သည်။ ဒုတိယ ကက်သရင်းဘုရင်မ လက်ထက်တွင် နယ်မြေ တိုးချဲ့မှုများကိုင်း၊ ပြည်တွင်း ပြုပြင်ရေးလုပ်ငန်းများကိုင်း ဆက်လက်ပြုလုပ်ခဲ့၏။ ထိုဘုရင်မ၏ လက်ထက်တွင် တူရကီတို့အပေါ် အကြီးအကျယ်အောင်ပွဲခံခဲ့ရ၍ ကရိုင်းမီးယားကို သိမ်းပိုက်ရရှိခဲ့သည်။ နောက်ထပ်၍လည်း ပိုလန်နိုင်ငံထံမှ နယ်မြေများ ရရှိခဲ့၍ ရုရှနိုင်ငံသည် ဥရောပတိုက်တွင် အရေးပါသော နိုင်ငံတခု ဖြစ်လာခဲ့လေသည်။ ကက်သရင်း ဘုရင်မကြီးသည် ဒေသန္တရအုပ်ချုပ်ရေးကို ခေတ်မှီအောင် ပြုကာ မှူးမတ်များ၏ အခွင့်အရေးများကို အာမခံခဲ့၏။ သူ၏ လက်ထက်တွင် ကံကျွေး-ကျေးကျွန် စံနစ်၌ အရင်းရှင်စံနစ် အသွင်လက္ခဏာများ ရောယှက် ပါဝင်လာခဲ့သည်။ ၁၈ ရာစုနှစ် အကုန်တွင် ရုရှနိုင်ငံ၌ စက်မှုလုပ်ငန်းပေါင်း ၂,၀၀၀ ကျော် ရှိခဲ့၏။ ၁၇၇၃ – ၇၅ ခုနှစ်တွင် ယီမီလျံ ယူဂါချက်ခေါင်းဆောင်၍ တောင်သူလယ်သမားတို့ အကြီးအကျယ် တော်လှန် ပုန်ကန်ခဲ့ရာ ရက်စက် ကြမ်းကြုတ်စွာ ခြေမှုန်းခြင်း ခံရလေသည်။

ပဋမ အယ်လက်ဇန္ဒာ (ခရစ် ၁၈၀၁ – ၁၈၂၅) ၏ လက်ထက်တွင် ရုရှနိုင်ငံသည် ဖင်းလန်၊ဗက်ဆာရေးဗီးယား၊ ပိုလန်နိုင်ငံ၏ ကျန်အပိုင်းများနှင့် ကော်ကေးဆပ်၏ အချို့သောအစိတ် အပိုင်းများကို ရရှိခဲ့၍ ၁၈၁၂ ခုနှစ်တွင် နပိုလီယန်ချင်းနင်း ဝင်ရောက် တိုက်ခိုက်လာသည်ကိုလည်း တွန်းလှန်နိုင်ခဲ့လေသည်။ (နပိုလီယန် ဘုရင်များ — လည်းရှု။)

အစိုးရ၏ ဝါဒကို တဖြည်းဖြည်း တိုးတက် မကျေမနပ်ဖြစ်နေခြင်းကို ဖော်ပြသည့် ၁၈၂၅ ခုနှစ် ဒီဇင်ဘာလ ထကြွမှုကို ပဋမ နစ်ကလတ် ဘုရင် (ခရစ် ၁၈၂၅ – ၅၅) က နှိမ်နင်းခဲ့သော်လည်း ဗယ်လင်စကီ၊ ဟာဇင်၊ ချာနစ်စကီ၊ ဗစကီ စသည့် နိုင်ငံရေး စာပေသမားများ၏ လှုံ့ဆော်မှုကြောင့် ၁၈၄၀ ပြည့်နှစ်လွန် နှစ်များတွင် ရုရှနိုင်ငံ၌ တော်လှန်ရေး အင်အားစုအသစ်တို့ ပေါ်ပေါက်လာခဲ့သည်။ (နစ်ကလတ် ဇာဘုရင်များ — လည်းရှု။) နစ်ကလတ်သည် ကော်ကေးဆပ်တွင် ရုရှနိုင်ငံ၏ ခြေကုတ်များကို စည်းလုံး ပေးခဲ့၍ ၁၈၃၀ ပြည့်နှစ်တွင် ပိုလန် တော်လှန်မှုကို နှိမ်နင်းနိုင်ခဲ့သော်လည်း ကရိုင်းမီးယားစစ်ပွဲ (၁၈၅၄ – ၅၆) တွင် သူ၏ တပ်များသည် အရေးနိမ့်ခဲ့ရ၏။ ဒုတိယ အယ်လက်ဇန္ဒာ (ခရစ် ၁၈၅၅ – ၈၁) ၏ လက်ထက်တွင် ကျေးကျွန်များကို



ရုရှနိုင်ငံ ယူကရိန်းလူမျိုးတို့၏ တေးဂီတ

လွတ်လပ်ခွင့် ပေးခဲ့၍ (၁၈၆၁) ဒေသန္တရကိုယ်ပိုင်အုပ်ချုပ်ရေးကို စတင် ကျင့်သုံးခဲ့ပြီးလျှင် တရားစီရင်ရေးကို ခေတ်မီအောင် ပြုပြင်ခဲ့သည်။ ၁၉ ရာစုနှစ် အကုန်လောက်တွင် စက်မှုလုပ်ငန်းများ လျင်မြန်စွာထွန်းကားလာခဲ့သော်လည်း စက်မှုအလုပ်သမားများ ဆင်းရဲတွင်း နက်လျက်ပင် ရှိနေခဲ့လေသည်။ထိုအတောအတွင်း ကာဇက်စတန်ကိုရင်း၊အာရှအလယ်ပိုင်းကိုရင်း အောင်နိုင်ခဲ့၍ ၁၈၅၈ – ၆၀ ခုနှစ်တွင် အမူမြစ်ကို ရုရှနိုင်ငံနှင့် တရုပ်နိုင်ငံတို့၏ နယ်ခြားအဖြစ် သတ်မှတ်ခဲ့၏။ ထိုရာစုနှစ် ဒုတိယပိုင်းတွင် ဆိုက်ဗီးရီးယားနှင့် အရှေ့ဖျားတွင် အခြေစိုက်နေထိုင်ခြင်းကို တိုးတက်ပြုလုပ်ခဲ့၏။ ၁၈ ရာစုနှစ်တွင် စတင် အခြေစိုက် နေထိုင်လာခဲ့သော အလာစကာနယ်ကို ၁၈၆၇ ခုနှစ်တွင် အမေရိကန်ပြည်ထောင်စုသို့ ရောင်းချခဲ့၏။

နှစ်ဆယ်ရာစုနှစ် အစလောက်တွင် ရုရှနိုင်ငံ၏ စီးပွားရေးနှင့် နိုင်ငံရေး လောကတို့သည် ကျေးကျွန် စံနစ် ပြန်လည်ပေါ်ပေါက်ရေးနှင့် ဒွေးရောယှက်တင် ဖြစ်နေခဲ့၏။ သပိတ်မှောက်မှုများသည်ရင်း၊ တောင်သူလယ်သမားတို့၏ မကျေနပ်မှုများသည်ရင်း တိုးတက် များပြားလာခဲ့သည်။ မတ်၏သဘောတရားများလည်း ပျံ့နှံ့လာခဲ့၏။ ၁၉၀၄ – ၀၅ ခုနှစ် ရုရှ-ဂျပန် စစ်ပွဲတွင် ရုရှတို့ရှုံးနိမ့်ခဲ့၏။ ရုရှနိုင်ငံ အစိုးရသည် ထိုသို့အရေးနိမ့်မှုကြောင့် နာမည်ပျက်ခဲ့ရ၍ တိုးတက် များပြားလာသည့် မကျေနပ်မှုများနှင့် ရင်ဆိုင်နေရသည့်အပြင် ၁၉၀၅ ခုနှစ် တော်လှန်ရေးက မီးလောင်ရာ လေပင့် ပြုခဲ့သောကြောင့် လူထုဆန္ဒကို လိုက်လျော၍ ကိုယ်စားလှယ်အဖွဲ့(ဒူးမားလွှတ်တော်) တခုကို ဖွဲ့စည်း ပေးခဲ့ရလေသည်။

၁၉၀၇ ခုနှစ်တွင် ရုရှနိုင်ငံသည် အင်္ဂလိပ်-ပြင်သစ် မဟာမိတ်အဖွဲ့နှင့် ပူးပေါင်းခဲ့၍ ၁၉၁၄ ခုနှစ် ပဌမ ကမ္ဘာစစ်ကြီးတွင် မဟာမိတ်တို့ဖက်မှ ပါဝင် တိုက်ခိုက်ခဲ့၏။ စစ်ပွဲအတွင်း ရုရှတို့အရေးနိမ့်မှုများကြောင့်ရင်း၊ ပြည်တွင်း၌ စီးပွားရေး အရှုတ်အထွေးများ တိုးတက် များပြားလာသောကြောင့်ရင်း ၁၉၁၇ ခုနှစ် မတ်လတွင် ဇာဘုရင်ခေတ် ပြိုကွဲပျက်စီးခဲ့ရလေသည်။ နိုင်ငံရေး အယူအဆ အလယ်အလတ်တန်းစားတွင် ရှိနေသူတို့က ယာယီအစိုးရအဖွဲ့ တခုကို ဖွဲ့စည်းခဲ့သော်လည်း လူထုကြီးသည် ဗော်လရှီဗစ်တို့၏ခေါင်းဆောင်ဖြစ်သော လီနင်၏ စစ်မဖြစ်ရေးစီမံကိန်းကို တဖြည်းဖြည်းသဘော ကျသည်ထက် ကျလာလေသည်။ (လီနင် — လည်းရှု။) ၁၉၁၇ ခုနှစ် နိုဝင်ဘာလ ၇ ရက်နေ့တွင် ယာယီအစိုးရ ပြုတ်ကျသွား၍ ဦးစွာ၌ ပီထရိုဂရက် (နောင်အခါ လီနင်ဂရက်) မြို့၌ရင်း၊ နောင်အခါ မောစကိုမြို့၌ရင်း လက်နက်ကိုင်တော်လှန်မှုများ ပြုလုပ်ခဲ့ခြင်းအားဖြင့် ဗော်လရှီဗစ် အစိုးရအဖွဲ့ကို ထူထောင်နိုင်ခဲ့လေသည်။ အစိုးရအဖွဲ့သစ်သည် ရုရှ လူ့ အဖွဲ့အစည်းကို မတ်-ကွန်မြူနစ်ဝါဒသဘောတရား အရ ပြန်လည် ဖွဲ့စည်းခဲ့၏။ ဒေသဆိုင်ရာအာဏာသည် အလုပ်သမားနှင့် တောင်သူလယ်သမားတို့က ရွေးကောက်တင်မြှောက်သောကောင်စီအဖွဲ့များ(ဆိုဗီယက်များ)သို့ ရောက်ရှိသွား၍ မြို့တော်ကိုလည်း မောစကိုသို့ ရွှေ့ပြောင်းသွားသည်။ မြေရှင်နှင့် အရင်းရှင်များထံမှ နိုင်ငံရေးအခွင့်အာဏာများကိုလည်း ရုပ်သိမ်းလိုက်သည်။စက်မှုလုပ်ငန်း၊ ဘဏ်လုပ်ငန်းနှင့်မြေယာများကိုလည်း ပြည်သူပိုင်သိမ်းလိုက်၏။ ဆိုဗီယက် ရုရှသည် စစ်ပွဲအတွင်းမှ ထွက်ခဲ့၍ ဗရက်စ-လီတော့ဗ်၌ ၁၉၁၈ ခုနှစ် မတ်လတွင် သီးခြားစာချုပ်ချုပ်ဆို၍ စစ်ပြေငြိမ်းလိုက်ခြင်းအားဖြင့် အနောက်ဖက်ရှိ နယ်ခြားပိုင်နက်များ အားလုံးကို ဆုံးရှုံးခဲ့ရလေသည်။

၁၉၂၀ ပြည့်နှစ်တွင် ဆိုဗီယက် အစိုးရသည် သုံးနှစ်မျှ ပြည်တွင်းစစ်ပွဲ ဆင်နွှဲခဲ့ရ၍ နိုင်ငံခြားမှ ဝင်ရောက် နှောက်ယှက်မှုကို ခံခဲ့ရပြီးနောက် အောင်ပွဲခံနိုင်ခဲ့သည်။ ၁၉၂၁ ခုနှစ်တွင် စီးပွားရေး စံနစ်သစ်ကို စတင် ကျင့်သုံးခဲ့သည်။ ၁၉၂၁ ခုနှစ်မှ ၁၉၂၅ ခုနှစ်အထိ တိုင်းပြည်၏ စီးပွားရေးကို ပြန်လည် အဖတ်ဆည်နိုင်ခဲ့၍ တစိတ်တဒေသအားဖြင့် ပြန်လည် ထူထောင်နိုင်ခဲ့၏။ ၁၉၂၂ ခုနှစ်တွင် ဆိုဗီယက်ဆိုရှယ်လစ် ပြည်ထောင်စု သမတနိုင်ငံ (ယူ အက်(စ) အက် (စ) အာ) ဟူ၍ ဖွဲ့စည်း တည်ထောင်ခဲ့လေသည်။

၁၉၂၄ ခုနှစ် ဇန္နဝါရီလတွင် လီနင် ကွယ်လွန်ပြီးနောက် လီယွန်ထရော့စကီနှင့် ဂျိုးဇက် စတာလင်တို့ ခေါင်းဆောင်နိုင်မှုအတွက် ယှဉ်ပြိုင်ကြရာ စတာလင် အနိုင်ရရှိခဲ့၏။ (စတာလင်,ဂျိုးဇက် — လည်းရှု။)ထိုနောက်တွင် ငါးနှစ်စီမံကိန်းအဆင့်ဆင့်ကို အခြေခံ၍ စံနစ်တကျစီမံကိန်းပြုကာ ဗဟိုမှ ချုပ်ကိုင်သည့် စီးပွားရေး စံနစ်ကို တည်ထောင်ခဲ့၏။ စက်မှုလုပ်ငန်း ထူထောင်ရေးကိုလည်း ထူးထူး ခြားခြား လျင်မြန်အောင် ပြုခဲ့၏။ အခြေခံ စက်ကရိယာများထုတ်လုပ်ရေးကိုလည်း အဓိက ထားခဲ့သည်။ စုပေါင်း ထွန်ယက်စိုက်ပျိုးမှုကို ဆန့်ကျင်သည့် လူရည်တတ် တောင်သူ လယ်သမားများ (ကုလတ်များ) နှင့် အခြား ပုဂ္ဂိုလ်များကို ဖယ်ရှား၍ လယ်ယာ စိုက်ပျိုးရေးတွင် စုပေါင်းထွန်ယက်စိုက်ပျိုးမှုကို ပြုလုပ်စေခဲ့၏။ နိုင်ငံရေးလောက၊ လူမှုရေးလောကနှင့် ယဉ်ကျေးမှုလောက အားလုံးတွင် အစိုးရပိုင်းမှ ကြီးကြပ်အုပ်ချုပ်မှုကို တိုးတက် ပြုလုပ်ခဲ့သော်လည်း ယဉ်ကျေးမှုကိုအားပေး၍ စာမတတ်သူပပျောက်ရေးကို အထူးတလည် ကြိုးပမ်းအောင်မြင်ခဲ့သည်။

၁၉၂၅ ခုနှစ်ခန့်တွင် ယူ အက်(စ) အက်(စ) အာသည် တိုင်းတပါးအားလုံးလိုလိုနှင့် သံတမန် အဆက် အသွယ်များ ပြုလုပ်ခဲ့၍ ၁၉၃၄ ခုနှစ်တွင် နိုင်ငံပေါင်းချုပ် အသင်းသို့ ပါဝင်ခဲ့၏။၁၉၃၉ ခုနှစ်တွင် ယူအက်(စ)အက်(စ)အာသည် ဂျာမနီနှင့် မကျူးကျော် မတိုက်ခိုက်ရေးစာချုပ်တရပ် ချုပ်

ဆိုခဲ့၍ ၁၉၃၉-၄၀ ခုနှစ်တွင် ဖော်လတစ်ကမ်းခြေရှိ နိုင်ငံငယ်များနှင့် ဖင်းလန်ပိုင် နယ်ပယ်အချို၊ ပိုလန်အရှေ့ပိုင်း၊ ဗူကိုဗီနာမြောက်ပိုင်းနှင့် ဗက်ဆာရေးဗီးယားတို့ကို သိမ်းယူခဲ့၏။

၁၉၄၁ ခုနှစ် ဇွန်လ ၂၂ ရက်နေ့တွင် ဂျာမန်တို့က တိုက်ခိုက်လာသဖြင့် ယူအက်(စ)အက်(စ)အာသည် ဒုတိယကမ္ဘာစစ်အတွင်းပါဝင်လာခဲ့ရ၏။ ဦးစွာ၌ ဂျာမန်တို့သည် ဥရောပတိုက်ဖက်ရှိ ရုရှနိုင်ငံအတွင်းသို့ အတော်ပင် ထိုးဝင်လာနိုင်ခဲ့သော်လည်း စတာလင်ဂရက်တွင် (၁၉၄၂–၄၃) ဆိုဗီယက် တပ်များ၏ အောင်မြင်မှုသည် စစ်ကြီးကို ကပြောင်းကပြန်ဖြစ်စေခဲ့သည်။

၁၉၄၄ ခုနှစ်တွင် ဝင်ရိုးတန်း အဖွဲ့မှ တပ်များကို ယူအက်(စ) အက်(စ) အာ၏ ပိုင်နက်နယ်မြေများမှ မောင်းထုတ်နိုင်ခဲ့၍ ၁၉၄၅ ခုနှစ်တွင် ဥရောပတိုက်အရှေ့ပိုင်းမှ တိုက်ထုတ်နိုင်ခဲ့လေသည်။ ဆိုဗီယက်တပ်မတော်သည် ၁၉၄၅ ခုနှစ် မေလ ၂ ရက်နေ့တွင် ဘာလင်မြို့တွင်း ဝင်ရောက်နိုင်ခဲ့၍ မေလ ၇ ရက်နေ့တွင် ဂျာမနီသည် မဟာမိတ် တပ်ဖွဲ့များထံ လက်နက်ချ အညံ့ ခံခဲ့ရလေသည်။ စစ်ပွဲကြီးအတွင်း ယူအက်(စ)အက်(စ)အာသည် အကြီးအကျယ် ဆုံးရှုံးခဲ့ရ၏။ အမျိုးသား စီးပွားရေးနှင့် မြို့ကြီးပြကြီးများသည် ရန်သူတို့၏ ဖျက်ဆီးခြင်းကို ခံခဲ့ရလေသည်။

၁၉၄၅ ခုနှစ်တွင် စစ်ပြေငြိမ်းပြီးနောက် ပူးပေါင်းထိန်းသိမ်းထားသော နိုင်ငံများ(ဂျာမနီ၊ ဩစတြီးယားနှင့် ကိုရီးယား)၏ ကံကြမ္မာနှင့် စပ်လျဉ်း၍၎င်း၊ ကုလသမဂ္ဂတွင်၎င်း ယူ အက်(စ)အက်(စ)အာနှင့် မဟာမိတ်တို့အကြား ပဋိပက္ခမှုများဖြစ်ပွားခဲ့၍ စစ်အေးပေါ် ပေါက်လာခဲ့၏။ ၁၉၅၃ ခုနှစ် မတ်လ ၅ ရက်နေ့တွင် စတာလင် ကွယ်လွန်ပြီးနောက်၌ ဆိုဗီယက်ကွန်မြူနစ်ပါတီကို ကြိုးကိုင်မှုသည် နီကီတာကရုရှော့ ဦးဆောင်သည့် ခေါင်းဆောင်တစု၏ လက်တွင်းသို့ ကျရောက်သွားလေသည်။ ကရုရှော့သည် ၁၉၅၈ ခုနှစ် မတ်လမှ အစပြု၍ ကွန်မြူနစ်ပါတီ ပဋမအတွင်းရေးမှူး ရာထူးနှင့် ဝန်ကြီးများကောင်စီ၏ ဥက္ကဋ္ဌ (ဝန်ကြီးချုပ်) ရာထူးတို့ကို ပူးတွဲ ထမ်းဆောင်ခဲ့သည်။

၁၉၆၄ ခုနှစ် အောက်တိုဘာလ ၁၅ ရက်နေ့တွင် ကရုရှော့သည် အသက်အရွယ် ကြီးရင့်လာသောကြောင့်၎င်း၊ ကျန်းမာရေး ချို့တဲ့လာသောကြောင့်၎င်း ကွန်မြူနစ်ပါတီ ပဋမအတွင်းရေးမှူး ရာထူးနှင့် ဝန်ကြီးချုပ်ရာထူးတို့မှ အသီးအသီးနုတ်ထွက်လိုက်ရလေသည်။ ကွန်မြူနစ်ပါတီ ပဋမအတွင်းရေးမှူးအဖြစ် လီယိုနစ် ဗရက်ရှညက်က ဆက်ခံဆောင်ရွက်၍ ဝန်ကြီးချုပ်အဖြစ် အယ်လက်ဇီ ကိုဆီဂင်က ဆက်ခံဆောင်ရွက်ခဲ့လေသည်။ ဆိုဗီယက် သိပ္ပံပညာရှင်များနှင့် အင်ဂျင်နီယာများသည် လူသားတို့ အာကာသကို အောင်မြင်ရေးအတွက် ၁၉၅၇ ခုနှစ် အောက်တိုဘာလ ၄ ရက်နေ့တွင် ပဋမဆုံး ဂြိုဟ်တုကို တင်လွှတ်ကာ ၁၉၅၉ ခုနှစ် စက်တင်ဘာလတွင် လသို့ ပဋမဆုံး တုံးပျံပစ်လွှတ်၍ ၁၉၆၁ ခုနှစ် ဧပြီလ ၁၂ ရက်နေ့တွင် ယူရီဂါဂါရင်သည် ဗော့စတော့ ၁ ခေါ် ကမ္ဘာပတ် ဂြိုဟ်တုဖြင့် ပဋမဆုံး အာကာသအတွင်း ပျံသန်းမှုကို ပြုလုပ်ခဲ့ခြင်းအားဖြင့် ကဏ္ဍသစ်တရပ်ကို ဖွင့်လှစ်ပေးခဲ့လေသည်။

**ရှပဗေဒ**။ ။ယခုအခါတွင် လူတို့သည် ညဉ့်ကို နေ့ကဲ့သို့ လင်းစေရန်၊ ခရီးဝေးကို ခရီးနီးဖြစ်စေရန်၊ အဝေးမှလွှင့်လိုက်သော အသံကို အနီးမှ လွှင့်သကဲ့သို့ ကြားရစေရန်၊ လူ၏ ခန္ဓာကိုယ် အတွင်းပိုင်းကဲ့သို့သော သာမန်မျက်စိဖြင့် မမြင်စွမ်းနိုင်သည့် နေရာများကို ကြည့်မြင်နိုင်စေရန် အစရှိသည်ဖြင့် ဆန်းသစ်သော အသိသစ်နည်းများကို အမျိုးမျိုး ကြံစည်ဖန်တီးလျက် ရှိကြပေသည်။

ရှေးအခါက ထိုကဲ့သို့သော တိုးတက်ပြောင်းလဲမှုများကို မြင်ဘူးကြားဘူးဖို့ဝေးစွ၊ အိပ်မက်ပင် မက်ဘူးကြမည်မဟုတ်ပေ။ ရှပဗေဒဟု ဆိုအပ်သော သိပ္ပံပညာရပ်ကို အပတ်တကုတ် ကြိုးပမ်းလေ့လာ လိုက်စားသည့် ပုဂ္ဂိုလ်ကြီးများသာ မရှိခဲ့လျှင် ကျွန်ုပ်တို့ခေတ်သို့ ရောက်သည့်တိုင်အောင် ဤသို့ဆန်းသစ်သော ကြံစည်တွေ့ရှိချက်များ ပေါ်ပေါက်လာနိုင်ဦးမည် မဟုတ်သေးချေ။

ရှပဗေဒ ဆိုသည်မှာ ဖစ်ဆစ်ဆိုသော အင်္ဂလိပ်စကားကို ပြန်ဆိုထားသော ဝေါဟာရဖြစ်၍ ထိုစကားသည် သဘာဝဆိုသည့် ဂရိစကားမှ ဆင်းသက်လာလေသည်။ မြင်ရာမှုနိမ့်ရာသို့ရေစီးပုံ၊ လေထဲ၌ အသံ ဖြတ်သန်းပုံ၊ မီးမှအပူရှိန်ထွက်လာပုံအကြောင်းများကို ရှေးအခါက သဘာဝသိပ္ပံ အဖြစ်ဖြင့်သာ ဖြေရှင်းခဲ့ကြသည်။ တဖန် ထိုထက်တိုးတက်၍ သိလိုသူများ ပေါ် ပေါက်လာကြသဖြင့် ရှာကြံကြသောအခါတွင် ထိုသဘာဝသိပ္ပံမှ နက္ခတ္တဗေဒ၊ ဘူမိဗေဒ၊ ရုက္ခဗေဒ၊ ပါဏဗေဒ စသော ပညာရပ်များ သီးခြား ထွက်ပေါ် လာကြသည်။ ဓာတုဗေဒ ဆိုသည်မှာ ဒြပ်နှင့်သက်ဆိုင်သော ပညာရပ်ဖြစ်၍ ဒြပ်တွင် အက်တမ်များ ဖွဲ့စည်းပုံနှင့် မော်လီကျူးများ ဆက်သွယ်ပုံ၊ ပြောင်းလဲပုံတို့ကို ဖြေရှင်းထားသော ပညာရပ်ဖြစ်သည်။ ရှပဗေဒသည် သဘာဝသိပ္ပံမှ ပေါက်ဖွားလာခဲ့၍ ရှပဗေဒ ပညာကို အမှီပြုနေသော အခြားပညာရပ်များ ရှိသေးသည်။ ထိုပညာရပ်များမှာ အသံပညာ၊ အပူပညာ၊ အလင်းပညာ၊ လျှပ်စစ်ဓာတ်ပညာ၊ သံလိုက်ဓာတ်ပညာတို့ ဖြစ်ကြသည်။ ထို့မှမကသေး ဓာတုဗေဒအရ ပြောင်းလဲမှုများကို ရှပဗေဒ အခြေခံသဘောတရားများဖြင့် ရှင်းလင်းနိုင်ရန် ဖစ်ဆစ်ကယ် ကင်မစ္စထရီခေါ် ရှပ်ပိုင်း ဓာတုဗေဒ ပညာရပ်လည်း ရှိသေးသည်။ ထို့ပြင် သက်ရှိများ၊ သက်ရှိများနှင့်ဆိုင်သောပြဿနာများကို ရှာဖွေစုံစမ်းသော ဗိုင်အို

ဖစ်ဆစ် ခေါ် ဇီဝရူပဗေဒ ပညာရပ်လည်း ရှိပြန်သေးသည်။ အထက်ဖော်ပြပါ ပညာရပ်များသည် တခုနှင့်တခု အလွန်နီးကပ်စွာ ဆက်သွယ်မှုရှိနေကြသည်။ ယခုကဲ့သို့ ပညာရပ်များကို နာမည် သီးခြားပေးထားခြင်းမှာ လွယ်ကူမှု အတွက်သာ ဖြစ်သည်ကို သတိပြုအပ်ပေသည်။

ယခုအခါတွင် သာမန် အရပ်သူ အရပ်သားများ သုံးစွဲကြသော စကားများနှင့် ရူပဗေဒပညာကို လိုက်စားသူများ၏ စကားများသည် ကွဲပြားကြလေသည်။ ပုံမှာ မော်တော်ကား တစီး၏ အသွားကို သာမန်လူများက အသွားနှုန်းဟူ၍ အသုံးပြုလျက် ရှိကြ၏။ ရူပဗေဒပညာ လိုက်စားသူများ အဖို့ဆိုလျှင် တဖက်သို့ တသမတ်တည်း သွားသော အသွားကိုသာလျှင် အသွားနှုန်း ဟုခေါ်လေသည်။ ပုံမှာ မော်တော်ကား တစီးသည် မြောက်အရပ်တည့်တည့်သို့ တနာရီလျှင် မိုင် ၃၀ နှုန်းဖြင့် သွားနေသည်ဟု ဆိုလျှင် ထိုမော်တော်ကား၏ မြောက်အရပ်သွား အသွားနှုန်းမှာ တနာရီလျှင် မိုင် ၃၀ ဖြစ်၏။ သို့ရာတွင် ထိုမော်တော်ကား၏ အရှေ့နှင့် အနောက်ဖက်သို့သွားသော နှုန်းမှာ သုညဖြစ်ရမည်။ ကမ္ဘာမြေကြီးသည် နေကိုလှည့်ပတ်ရာတွင် အသွားမှန်မှန်လောက်ဖြင့် သွားနေသော်လည်း ကမ္ဘာမြေကြီး၏ အသွားနှုန်းမှာ အစဉ်သဖြင့် ပြောင်းလဲလျက်ရှိ၏။ အဘယ်ကြောင့်ဆိုသော် ကမ္ဘာမြေကြီးသည် နေကိုလှည့်ပတ်၍ သွားရာတွင် ဖြောင့်မတ်သော လမ်းကြောင်းအတိုင်း မသွားမူ၍ စက်ဝန်းပုံသဏ္ဍာန်လမ်းကြောင်းဖြင့် သွားနေသောကြောင့် ဖြစ်လေသည်။ ဤအသွားနှုန်း၏ တိုးတက် ပြောင်းလဲခြင်းနှုန်းကို အရှိန်ဟု ခေါ် သည်။ အာကာသ(စပေ့)တွင် ကမ္ဘာမြေကြီး၏ အသွားနှုန်းမှာ မပြောင်းလဲသော်လည်း နေဖက်သို့ သွားသောအသွားနှုန်းမှာကား တိုးလျက် ရှိသည်။ အထက်ဖော်ပြပါ မော်တော်ကား၏ အသွားနှုန်းကို တနာရီလျှင် မိုင် ၃၀ မှ တနာရီလျှင် မိုင် ၄၀ သို့ တိုးစေသောအခါတွင် ထိုမော်တော်ကား၏ မြောက်ဖက်သို့ သွားခြင်းအရှိန်သည် အဘယ်ကြောင့်ဖြစ်ပေါ် လာရသနည်း ဟု မေးလျှင် ရူပဗေဒပညာက အားကြောင့် ဖြစ်ပေါ် သည် ဟု ဖြေပေလိမ့်မည်။ ထိုအားဆိုသည်မှာလည်း အထက်ဖော်ပြပါ မော်တော်ကားကို ရပ်နေရာမှသွားအောင် အပြင်မှပြုလုပ်ပေးမှု၊ သို့မဟုတ် သွားနေသော မော်တော်ကား၏ အသွားနှုန်းကို ပြောင်းလဲသွားအောင် အပြင်မှ ပြုလုပ်ပေးမှုပင် ဖြစ်သည်။ ဘောလုံးကို ကန်ထုတ်လိုက်သောအားကို တိုင်းလိုသောအခါ ရုတ်တရက် ထွက်သွားသော ဘောလုံး၏အရှိန်နှင့် ထိုဘောလုံး၏ အလေးထုတို့ဖြင့် တွက်ယူရလေသည်။

သာမန်လူများအဖို့ ဒြပ်ထုနှင့်အလေးချိန်သည် မထူးခြားသော်လည်း ရူပဗေဒပညာ လိုက်စားသူများ အဖို့မှာ ခြားနားလေသည်။ ရူပဗေဒပညာအရ အလေးချိန်သည် ဒြပ်ထု၏ သဘောတခုမျှသာ ဖြစ်၏။ ဒြပ်တခု၏ အလေးချိန်သည် ထိုဒြပ်အပေါ် တွင် သက်ရောက်သော မြေကြီး၏အားကို အကြောင်းပြု၍ ဖြစ်သည်။ အလေးချိန်သည် အမျိုးမျိုးသော အရာဝတ္ထုတို့၏ ဒြပ်ထုများကို နှိုင်းယှဉ်ခြင်းမျှသာဖြစ်၍ အလေးချိန်ပင် ပြောင်းလဲသော်လည်း ဒြပ်ထုမှာ ပြောင်းလဲခြင်း မရှိနိုင်ပေ။ အဘယ်ကြောင့်ဆိုသော် ဒြပ်ထုသည် ဒြပ်တွင် ပါဝင်သောပစ္စည်း၏ အတိုင်းအဆ ပမာဏဖြစ်ခြင်းကြောင့်တည်း။ ပုံမှာ ဆယ်မိုင်မျှမြင့်သော နေရာတွင်ရှိသော အရာဝတ္ထု၏ အလေးချိန်နှင့် ကမ္ဘာမြေကြီးပေါ် တွင် ရှိသော ထိုအရာဝတ္ထု၏အလေးချိန်သည် တူမည်မဟုတ်ချေ။ သို့ရာတွင် ထိုနေရာနှစ်ခု၌ရှိသော ထိုအရာဝတ္ထု၏ ဒြပ်ထုသည်ကား အတူတူပင် ဖြစ်သည်။ မြင့်သော နေရာများ၌ အလေးချိန်နည်းရခြင်းမှာ အရာဝတ္ထုကို ဆွဲသော ကမ္ဘာမြေကြီး၏ ဆွဲအားသည် နည်းသွားသောကြောင့် ဖြစ်၏။ မြင့်သောနေရာ၌ အရာဝတ္ထုတခုခုပေါ် သို့ ပစ်လိုက်သောအခါ ထိမှန်သော အားသည် မြေပြင်တွင် ပစ်သောအခါ ထိမှန်သောအားနှင့် အတူတူပင် ဖြစ်ကြောင်းကို တွေ့ကြရသည်။ ထိုသို့ ဖြစ်ရသည့် အကြောင်းမှာ ထိုအရာဝတ္ထု၏ အတွင်းရှိ ဒြပ်၏အတိုင်းအဆ မပြောင်းလဲခြင်းကြောင့်ဖြစ်လေသည်။ အလေးချိန်၏ ပြောင်းလဲမှုသည် ကမ္ဘာမြေကြီး၏ မျက်နှာပြင်နှင့် အနီးအဝေးပေါ် တွင် အမှီပြု၍ နေသည်။ မြေကြီးမှ အထက်သို့ တက်လေ အလေးအချိန်သည်လည်း လျော့သွားလေဖြစ်၏။ ထိုနေရာထက် တိုး၍မြင့်အောင် တက်နိုင်ပါလျှင် အလေးချိန် လုံးဝမရှိသော နေရာသို့ပင် ရောက်နိုင်မည် ဖြစ်၏။ ထိုနေရာ၌ အလေးချိန် ပျောက်သွားရခြင်းမှာ ကမ္ဘာမြေကြီး၏ ဆွဲငင်ခြင်းနှင့် နေနှင့် အခြားသောဂြိုဟ်များ၏ ဆွဲငင်ခြင်းတို့ တူညီကြသောကြောင့် ဖြစ်လေသည်။

အင်နားရှား ခေါ် သတ္တိသည် ဒြပ်ထု၏ အခြားအရေးကြီးသော သဘောတခု ဖြစ်သည်။ ဒြပ်တခုတည်ငြိမ်နေစဉ် ထိုဒြပ်ကို ရွေ့သွားအောင် ပြုလုပ်ရာ၌ တွေ့ရသည့် အခက်အခဲမှာ ထိုဒြပ်၏ အင်နားရှားကြောင့် ဖြစ်၏။ ဒြပ်တခုရွေ့ရှားနေစဉ် ထိုဒြပ်ကို ရပ်သွားအောင် ပြုလုပ်ရာ၌ တွေ့ရသည့် ခက်ခဲမှုမှာလည်း အင်နားရှားကြောင့်ပင် ဖြစ်သည်။ အရာဝတ္ထုတခု၏ အသွားနှုန်းကို တိုးစေ၊ လျော့စေအောင် ပြုလုပ်ရာတွင်၎င်း၊ သွားရာ လမ်းကြောင်းကို ပြောင်းလဲအောင် ပြုလုပ်ရာတွင်၎င်း တွေ့ရသည့် အခက်အခဲမှာလည်း အင်နားရှားကြောင့်ပင် ဖြစ်သည်။ အင်နားရှားကို အောင်မြင်နိုင်ရန် အပြင်မှစိုက်ထုတ်ရသောအား လိုလေသည်။ ဒြပ်၏အင်နားရှားကို တိုင်းတာသောအခါ ထိုဒြပ်၏ ဒြပ်ထုဖြင့် တိုင်းတာယူရသည်။

သိပ္ပံပညာရှင်များ၏ ယူဆချက် အရ အခြင်းအရာများသည် သဘာဝအလျောက် ဖြစ်ပျက်နေသည်ဟူသော သာမန်

## ဘီးအသုံးချပုံတစိတ်တဒေသ


ကြိုးလှည့်ဘီးများ


ရဟတ်ဘီး


အားထိန်းဘီး


ပွတ်ခံဘီးများ


တဖက်လှည့်ဘီး


အံထစ်ဘီး


စံပယ်ဖူးဘီး


မော်တော်ယာဉ်ဘီး


နှင်ဘီး

ရှုပဗေဒသိပ္ပံပညာရပ်၏ လက်တွေ့အသုံးကျပုံ သာဓကများ

လူများ၏ ထင်မြင်ချက်သည် မှား၏။ ထိုအခြင်းအရာများ သဘာဝအလျောက် ဖြစ်ပျက်မှုများသည် တခုခုသောစည်းမျဉ်းအရသာ ဖြစ်တန်ရာသည် ဟု ယူဆခဲ့ကြသည်။ ထိုကဲ့သို့ ယူဆခဲ့ကြသည့် အတိုင်းလည်း သဘာဝအလျောက် ဖြစ်ပျက်နေသည် ဟု ထင်မှတ်မှုများကို စိတ်ရှည်စွာဖြင့် ကြံစည်ခဲ့ကြလေသည်။ လူအများ၏လက်ခံခြင်းကို ခံရသော တွေးဆချက်မှာ ဂရက်ဗီတေးယှင်းခေါ် ဒြပ်ဆွဲအား စည်းပင်ဖြစ်၏။ ထိုစည်းကို ယခုအခါတွင် ကမ္ဘာအနှံ့အပြား၌ လက်ခံလျက် ရှိချေပြီ။

ရှုပဗေဒ၏ စည်းတခုတွင် ဒြပ်ထုကို မပြောင်းလဲနိုင်ဟု ဆိုသည်။ ထိုစည်းကို ဒြပ်ထုမြဲမှု စည်း ဟူ၍လည်း ခေါ်ကြသည်။ ထိုစည်းကို ထင်ရှားစေရန်မှာ ကျောက်မီးသွေးတခဲကို မီးမရှို့မီတွင် ချိန်ထားရန်နှင့် မီးရှို့လိုက်သော အခါ အသုံးပြုရသည့် အောက်ဆီဂျင်ဓာတ်ငွေ့၏ ဒြပ်ထုကို ချိန်ထားရန်ပင် ဖြစ်၏။ ထိုသို့ ချိန်ထားမည်ဆိုလျှင် ထိုဒြပ်ထုနှစ်ခုသည် မီးရှို့ပြီးသောအခါတွင် ဖြစ်ပေါ်လာသော ထိုကျောက်မီးသွေးပြာ၏ ဒြပ်ထု၊ အခြားဖြစ်ပေါ်လာသော အရာဝတ္ထုများ၏ ဒြပ်ထုနှင့် လောင်ကျွမ်းရာတွင် ဖြစ်ပေါ်လာသော ဓာတ်ငွေ့အားလုံး၏ ဒြပ်ထုတို့၏ ပေါင်းခြင်းနှင့် တူသည်ကို တွေ့ရမည်ဖြစ်၏။ တနည်းဆိုလျှင် ဒြပ်ကို အဖြစ်အမျိုးမျိုးသို့ ပြောင်းလဲပေးနိုင်သော်လည်း ဒြပ်ကို မဖျက်ဆီးနိုင်ရုံမျှမက ဒြပ်၏ ဒြပ်ထုကိုလည်း တိုးအောင်၊ လျော့အောင် မပြုလုပ်နိုင်ချေ။

မိုမင်တမ် ခေါ် အဟုန်သည် ရွေ့ရှားမှု၏ အတိုင်းအဆဖြစ်၏။ ရွေ့ရှားသော အရာဝတ္ထု၏ ဒြပ်ထုနှင့် ထိုအရာဝတ္ထု၏ အသွားနှုန်းတို့၏ မြှောက်ရကိန်းဖြင့် တိုင်းရ၏။ ပုံပမာ နှစ်ပေါင်လေးသော ခဲတလုံးကို တစက္ကန့်လျှင် ပေ ၂၀ မျှ သွားသောနှုန်းနှင့် ပစ်လျှင် ထိုခဲ၏ အဟုန်သည် ပေါင် ၂၀ လေးသော ခဲတလုံးကို နှစ်ပေရွှေ့ပေးရာတွင် ဖြစ်ပေါ်သော အဟုန်နှင့် အတူတူပင် ဖြစ်သည်။ အဘယ်ကြောင့်ဆိုသော် ထိုနှစ်ခု၏ မြှောက်ရကိန်းသည်တူညီသောကြောင့်ပင်တည်း။ အဟုန်တွင် စွမ်းအင်သဘောသက်ဝင်၏။ ပုံပမာ အမြောက်အတွင်းရှိ အမြောက်ဆံသည် စွမ်းအင်ကို အသုံးမပြုလျှင် အမြောက်မှ ထွက်လာနိုင်အောင် အဟုန်ရှိမည် မဟုတ်ပေ။ ထိုထွက်လာသော အမြောက်ဆံကို ရပ်တန့်စေရာ၌လည်း စွမ်းအင်လိုပေသေးသည်။ နံရံတခုကို ထိမှန်သောအခါ ထို

နံရံကြေပျက်သွားခြင်းသည် ထိုအမြောက်ဆံကို တားဆီးရာ၌ စွမ်းအင်လိုသည့် အကြောင်းကို ပြခြင်းပင် ဖြစ်သည်။

နံရံသည် အမြောက်ဆံ၏ အဟုန်ကို ခံရသဖြင့် အဟုန်သည် ပျောက်ပျက်သွားခြင်း မရှိချေ။ ထိုအကြောင်းသည် အဟုန်၏ မြဲမှုစည်းကို သရုပ်ဖော်ခြင်းပင် ဖြစ်သည်။ နာရီကို သံပတ် တင်းပေးလိုက်သောအခါ နာရီသည် သွား၍ သံပတ်ပြေသွားသောအခါ ရပ်တန့်သည်ကို တွေ့ရမည်။ ထိုအခြင်းအရာသည် အသုံးကျသော စွမ်းအင်အဖြစ်ဖြင့် လွင့်ပျောက်သွားသော စည်းအရပင် ဖြစ်၏။ နာရီ၏ သံပတ်ကား အလိုအလျောက် ပြန်၍မတင်းချေ။

ဒြပ်ကို ဖန်တီးခြင်းငှာသော်၎င်း၊ ဖျက်ဆီးခြင်းငှာသော်၎င်း မတတ်နိုင်သကဲ့သို့ စွမ်းအင်၏ မပြောင်းမှု စည်းအရ စွမ်းအင်၏ ပမာဏသည်လည်း တည်မြဲ၏။ ပုံပမာ ကျောက်မီးသွေး တပေါင်မှ စွမ်းအင်ကို ယူပြီးလျှင် ရေတပေါင်၏ လေးပုံတပုံကို ဆူစေသကဲ့သို့ပင် ဖြစ်၏။ ပူနေသည့် ရေ၊ ပြာနှင့် အခိုးအငွေ့များမှ ကျောက်မီးသွေး ပြန်၍ဖြစ်နိုင်ရန်ကား မတတ်နိုင်ချေ။ ထို့ကြောင့် ဒြပ်၏ အဖြစ်ပြောင်းလဲသကဲ့သို့ စွမ်းအင်၏ အဖြစ်သည်လည်း ပြောင်းလဲသော်လည်း စွမ်းအင်၏ ပမာဏကား မပြောင်းလဲချေ။ ထိုစည်းနှစ်ခုကို လေ့လာကြည့်သောအခါတွင် သာမိုဒိုင်နမစ် ခေါ် ပညာရပ် ဖြစ်ပေါ်လာလေသည်။ ထို ပညာရပ်သည် ဓာတုဗေဒ ပညာရှင်၊ စက် ပညာရှင်နှင့် ရူပဗေဒ ပညာရှင်များ အဖို့ များစွာ အရေးပါ အရာရောက်လေသည်။

ရူပဗေဒသဘောအရ အားနှင့် စွမ်းအင်တို့ ဆက်စပ်လျက်ရှိသကဲ့သို့ အလုပ်နှင့် ပါဝါတို့သည်လည်း ဆက်စပ်လျက်ရှိ၏။ အရာဝတ္ထုတခုကို ရှိသမျှအား စိုက်ထုတ်၍ တွန်းသော်လည်း အကယ်၍ ထိုအရာဝတ္ထု မရွေ့လျှင် အလုပ်ပြီးမြောက်သည် ဟု မဆိုနိုင်ချေ။ တပေါင်လေးသော အရာဝတ္ထုတခုကို မြေကြီးမှယူပြီး လေးပေမြင့်သောစားပွဲပေါ် တွင် တင်ထားနိုင်လျှင် လေးပေပေါင်အလုပ် ပြီးမြောက်သည် ဟု ပြောနိုင်၏။ အကယ်၍ ထိုအလုပ်ကို နှစ်စက္ကန့်တွင် လုပ်လျှင် တစက္ကန့်လျှင် နှစ်ပေပေါင် ပါဝါဖြင့်လုပ်သည် ဟု ဆိုရလေသည်။ ပါဝါ ဆိုသည်မှာ သတ်မှတ်ထားသော အချိန်တွင် အလုပ် ပြီးမြောက်အောင် လုပ်နိုင်သောနှုန်းကို ဆိုသည်။

စွမ်းအင်ကို လေ့လာရာတွင် အပူစွမ်းအင်၊ အလင်း စွမ်းအင်၊ လျှပ်စစ် စွမ်းအင်နှင့် ဓာတုဗေဒစွမ်းအင် စသော စွမ်းအင်များ ပါလာလေသည်။ အမျိုးမျိုးသော စွမ်းအင်များကို၎င်း၊ ထိုစွမ်းအင်များနှင့် ဒြပ်တို့ ဆက်သွယ်မှုများကို၎င်း စုံစမ်း စစ်ဆေး ရှာဖွေကြသောအခါ ခေတ်သစ် ရူပဗေဒနှင့် အခြား ပညာရပ်များ ဖြစ်ပေါ်လာသည်။ ဂျေ၊ ဂျေ၊ သွန်မဆင်ဆိုသူသည် အက်တမ်ကို ခွဲစိတ်၍ ရနိုင်ကြောင်း၊ အက်တမ်တွင် လျှပ်စစ်စွမ်းအင်များ ပါဝင်ကြောင်းကို သိမြင်၏။ ထိုသိမြင်မှုသည် ခေတ်သစ်ရူပဗေဒ၏ ရွှေဆောင် လမ်းပြ သဖွယ် ဖြစ်လေသည်။ သိပ္ပံပါရဂူကြီးများသည် ဝီလဆန်က လောက်ချိမ်းဗား ဆိုသည့် အသုံးအဆောင်ဖြင့် အက်တမ်၏ လျှပ်စစ်စွမ်းအင်ရှိသော မှုန်မှုန်များကို မြင်နိုင်ကြပြီးလျှင် ဓာတ်ပုံပင် ရိုက်ကူးနိုင်ကြလေပြီ။ ထိုတွေ့ရှိမှုများကြောင့် အလင်းရောင်ခြည်သည် လှိုင်းသဘောမျိုး အစဉ်ရှိ၍ အီသာတွင် သွားနေသည်ဆိုသော ယုံကြည်မှုမှာ ပျက်သွားရလေတော့သည်။ ယခုအခါ အလင်းရောင်ခြည်ကို တချိန်တည်း၌ လှိုင်းသဘောလည်းရှိ၊ မှုန်မှုန် သဘောလည်းရှိသော ရောင်ခြည်မျိုး ဟု ယုံကြည်ကြပြန်လေသည်။

ဤအချက်သည် သာမန် လူများကို မဆိုထားဘိ၊ သိပ္ပံပညာရှင်ကြီးများကိုပင်လျှင် ရှုပ်ထွေးစေသည်။ ယခင်က စုံစမ်းရှာဖွေ၍ သိရှိခဲ့သော တိကျသေချာမှု အများပင် ယခုအခါ မတိကျမသေချာမှုများ ဖြစ်နေသည်ကို တွေ့နေကြရပေပြီ။ ယခင်က အက်တမ်ကို မခွဲစိတ်နိုင် ဟု ယူဆခဲ့ကြ၏။ ယခုအခါ အက်တမ်ကို ခွဲစိတ်နိုင်လေပြီ။ ယခင် ပြဿနာများအတွက် တိကျသေချာသောနည်းများပင် ယခုအခါ မသေချာသောနည်းများ ဖြစ်လာကြောင်းကို တွေ့နေကြရလေပြီ။ အက်တမ်၏ အစိတ်အပိုင်းများကိုပင်လျှင် အလင်း၏ လျင်မြန်ခြင်းဖြင့် အာကာသ(စပေ့)တွင် သွားနိုင်စေသည်။ ဒြပ်ကိုလည်း အလင်း၏ လျင်မြန်ခြင်းမျိုးဖြင့် စွမ်းအင်အဖြစ်သို့ ပြောင်းလဲနိုင်ဟန် ရှိပြီ။ ထိုကဲ့သို့ အရာတခုမှ အရာတခုသို့ ပြောင်းလဲနိုင်ငြားသော်လည်း စကြဝဠာတွင် ထိုအရာနှစ်ခု၏ ပေါင်းခြင်းသည် အစဉ် တည်မြဲလျက် ရှိ၏ ဟု သိကြရသည်။ ပညာတံခွန်ကျောင်းကြီးများတွင် ရူပဗေဒဆိုင်ရာဖက်၌ ကျယ်ဝန်းသော သုတေသန လုပ်ငန်းများကို လုပ်လျက် ရှိကြသည်။ လျှပ်စစ်ဓာတ် ကုမ္ပဏီကြီးများကလည်း စိတ်အားထက်သန်စွာ စုံစမ်းရှာဖွေလိုသည့် ရူပဗေဒ ပညာကျော်များကို များစွာပင် လိုလားလျက် ရှိကြသည်။ အစိုးရဌာနများ၌လည်း ရူပဗေဒ ပညာရှင်များအား အလုပ်အကိုင်များပေးကာ ထိုပညာရပ်ကို ပြန့်ပွားအောင် အားထုတ်လျက် ရှိကြသည်။

ရှေးအခါက အီဂျစ် နိုင်ငံရှိ အဂ္ဂိရတ် ဆရာများသည် အသက် ရှည်ရာရှည်ကြောင်းနှင့် ခန္ဓာကိုယ်ကို အစဉ် နုပျိုနေစေမည့် ဆေးများကို ရှာဖွေ လေ့လာခဲ့ကြ၏။ ရူပဗေဒသည် ထိုဆေးများကို မပြုလုပ်နိုင်သော်ငြားလည်း မိုက္ကရိုစကုပ် မှန်ဘီလူး အိပ်စရေးတျူ၊ ရေဒီယမ် "ဗုံး" စသော ပစ္စည်းများကို ပြုလုပ်၍ ရနေပြီ။ ရူပဗေဒကို အသုံးတတ်လျှင် အကျိုးကျေးဇူးများကို ဖြစ်စေနိုင်သော်လည်း အသုံး မတတ်ပါက လူများ၏ အသက်အန္တရာယ်ကို များစွာ ဖြစ်စေနိုင်၏။ ထိုပညာမှ ရအပ်သော အကာအဝေးတိုင်းကရိယာများ၊ လျှပ်စစ်မီးတာများ၊ ဝိုင်ယာလက်များ၊ ရေငုပ်

သင်္ဘောများ၊ လေယာဉ်ပျံများ၊ အင်္ကတမ်ဖုံးများကို အသုံးပြုခဲ့ကြသဖြင့် များစွာသောလူတို့၏ အသက်များသည် သေကြေပျက်စီးခဲ့ရလေပြီ။

လူတို့၏ သေရာသေကြောင်း ကိစ္စရပ်များ၌ ရူပဗေဒကို အသုံးမပြုလျှင် ထိုပညာရပ်သည် လူ၏နေထိုင်မှုကို သာယာကြည်နူး၍ နေချင်စဖွယ်ဖြစ်စေရန် ဖန်တီး၍ ပေးနေရမည် ဖြစ်၏။ မှန်များကိုလည်း ယခုအခါတွင် လိုသလို ဖန်တီးနိုင်ကြပြီ ဖြစ်၍ မျက်စိမှုန်သူများအဖို့ မျက်မှန်များကို အသုံးပြုနိုင်ကြပြီ ဖြစ်၏။ ဓာတ်ပုံရိုက် ကရိယာများနှင့် ထိုကရိယာများကို လျှပ်စစ်ဓာတ်အိုးများ တပ်၍ ထားခြင်းဖြင့် စကားပြောရုပ်ရှင်များကိုပင်လျှင် ကြည့်နိုင်ကြပေပြီ။

ရူပဗေဒမှပေါက်ဖွားလာသော လျှပ်စစ်ဓာတ်ကို အသုံးပြုခြင်းဖြင့် ခရီးဝေးသို့ သွားရန် မလိုတော့ပဲ သံကြိုးဖြင့်၎င်း၊ စကားပြောကြေးနန်းဖြင့်၎င်း ပြောလိုသည့်စကားကို ပြောနိုင်ပြီ ဖြစ်၏။ ထိုမျှမကသေး၊ မိုင်ပေါင်းများစွာ ဝေးကွာသော တိုင်းပြည်ကြီးများရှိ မြို့ကြီးများမှ စကားပြောသည်ကိုပင် ကြားနေကြရပေပြီ ဖြစ်၏။ ရှေးအခါက လူများသည် နေဝင်ခြင်း၊ နေထွက်ခြင်းနှင့် နေ၊ လ ကြတ်ခြင်းများကို မြင်ခဲ့ကြရ၏။ သို့ရာတွင် ထိုစဉ်အခါက ထိုကဲ့သို့ ဖြစ်ပျက်ခြင်းများသည် သဘာဝအလျောက်သာလျှင် ဖြစ်ပျက်ကြသည်ဟု များသောအားဖြင့် ယူဆခဲ့ကြသည်။ ထိုသူများအနက် အကြောင်းအကျိုးကို သုံးသပ်သည့်သူများကား ထိုကဲ့သို့ ပေါ့ပေါ့ဆဆ မယူဆကြပဲ စည်းကမ်းတကျ မှတ်သားခဲ့ကြပြီးလျှင် ထိုကဲ့သို့ စည်းစနစ်ကျနစွာ မှတ်သား လုပ်ကိုင်မှုမှ နက္ခတ္တဗေဒကို ပေါက်ဖွားစေခဲ့သည်။ ထို့ပြင် လူတို့သည် မိမိတို့ သုံးစွဲနေကြသော ပစ္စည်းများ၏ ဖြစ်ပေါ်လာပုံများ၏ အကြောင်းရင်းများကို သိလိုခဲ့ကြလေသည်။ တုတ်ချောင်းတချောင်းကို ထက်ဝက်စီ အကန့်အသတ်မရှိ စိတ်ပိုင်းနိုင်ကြပါမည်လော ဆိုသည့် သိချင်မှုများ ရှိလာခဲ့ကြသည်။

ထိုကဲ့သို့သော အကြောင်း အကျိုးများကို သိချင်မှုများကပင်လျှင် ရူပဗေဒကို ဖြစ်ပေါ် တိုးတက်ပြန့်ပွား၍ ကောင်းမွန်စေခဲ့သည်။ ဘီစီ ၄၅၀ ပြည့်နှစ်ခန့်က ခေါမ သဘာဝသိပ္ပံပညာရှင် ဖြစ်သူ အင်ပယ်ဒိုကလီးက ဒြပ်တွင် မြေ၊ ရေ၊ လေ၊ မီး ဟု ဆိုအပ်သော ဒြပ်စင်များ ပါဝင်မည် ဟု စ၍ ထင်မြင် ယူဆခဲ့လေသည်။ ထိုယူဆချက် ပင်လျှင် ယခုခေတ်တွင် အင်္ကတမ်နှင့် သက်ဆိုင်သည့် အဆို၏ အခြေခံ ဖြစ်လာလေသည်။ အင်ပယ်ဒိုကလီး၏ ယူဆချက်သည် အကြမ်းထည်ပင် ဖြစ်သော်လည်း အခြေခံဖြစ်သောကြောင့် လျူဆစ်ပပ်နှင့် ဒီမော့ကရီးတပ်တို့က အချောကိုင်ကြသည်။ ထိုနောက် ရောမလင်္ကာဆရာဖြစ်သူ လူကရီးရှပ်က တဖန် အချောကိုင်ပြန်သည်။ အယ်ရစ္စတိုတယ် က ထိုယူဆချက် ကိုများစွာ ဖြည့်စွက်ခဲ့လေသည်။

ထိုနောက် အားခီးမိဒီး ဆိုသည့် ကဝိကျော်ကြီးတဦးက ရေတွင် ပေါ်သည့် အရာဝတ္ထုများနှင့် နစ်သည့် အရာဝတ္ထုများကိုလေ့လာရာမှ စက်ကရိယာအတတ်ပညာနှင့် ဆိုင်သော အခြေခံစည်းများကို စုံစမ်း ရှာဖွေခဲ့သည်။ ထို့ပြင် ကုတ်၏ ပြုမူပုံ သဘောနှင့် ချိန်ခွင်၏ အခြေခံကိုလည်း စုံစမ်း ရှာဖွေခဲ့လေသည်။ ထိုပညာရပ်သည် တဖြည်းဖြည်း တိမ်ကောခဲ့ရာ ၁၆၀၀ ပြည့်နှစ်ခန့်ကျမှ ဒီမော့ကရီးတပ်၏ တွေးဆချက်မျှသာဖြစ်သော ပလာနယ်တွင် အားလုံးသော အရာဝတ္ထုများသည် တူညီသောအသွားဖြင့် အောက်သို့ ကျကြသည် ဆိုသည်ကို ဧမ်းသပ် ကြည့်ရှု၍ ထင်ရှား စေနိုင်ခဲ့လေသည်။ ထိုအချိန်လောက်မှ စ၍ ဖရန်ဆစ်ဗေကင်ဆိုသူသည် သုတေသနလုပ်ငန်းကို ကြံဆတွေးတောမှုနှင့်သာ မတင်းတိမ်တော့ဘဲ လက်တွေ့စမ်းသပ်မှုများကိုပါ အားပေးခဲ့လေသည်။ နျူတန် ဆိုသည့် ကဝိအကျော်တဦးသည် အရာဝတ္ထုများ အကြားတွင် အားရှိရမည်ဟု ယူဆပြီးလျှင် စုံစမ်းရှာဖွေခဲ့ပြီးနောက် ထိုယူဆချက်ကို အခြေခံကာ သူ၏ကျော်စောသော ဒြပ်ဆွဲအားစည်းကို ဖြစ်ပေါ်စေခဲ့သည်။ အလင်း၏ ဂုဏ်သတ္တိများကိုလည်း စုံစမ်းလေ့လာခဲ့လေသည်။ ထိုအချိန်လောက်တွင် ဝှိုင်ဂင် ဆိုသူသည် မျက်စိနှင့် ဆိုင်သော ကရိယာတန်ဆာများကို ဆုံးခန်းတိုင်အောင် ပြုလုပ်နိုင်ခဲ့လေသည်။များမကြာမီအတွင်းတွင် အမေရိကန်လူမျိုး ဗင်ဂျမင်ဖရန်ကလင်နှင့် အင်္ဂလိပ်လူမျိုး ဟင်နရီကဗင်းဒစ်တို့သည် သံလိုက်ဓာတ်၊ လျှပ်စစ်ဓာတ်တို့နှင့် စပ်လျဉ်း၍ ပဌမ ဖြစ်ပေါ်လာသော ယူဆချက်များပေါ်တွင် အခြေပြုကာ စုံစမ်း ရှာဖွေခဲ့ကြလေသည်။ ထိုသူများ၏ လုပ်ကိုင် ဆောင်ရွက်ချက်သည် ဂျူး၏ အပူနှင့်လျှပ်စစ် တူရည်ကို တွက်ရာတွင် အခြေခံဖြစ်လေသည်။ ထို့ပြင် ဖားရဒေးအား လျှပ်စစ်ဓာတ်ဒိုင်နမို၏ အခြေခံဖြစ်သော ညှိမှုသဘောကို ရစေပြီးလျှင် အီသာတွင်း၌ လျှပ်စစ်ဓာတ်လှိုင်းများ၏ သဘောကိုပါ ရစေလေသည်။ ထိုမှ ကလပ်မက်ဆွဲအား မြူများ၏လှုပ်ရှားမှုကို တွက်ချက်ရာတွင် အထောက်အပံ့ ရစေခဲ့သည်။ ထို့ပြင် ကလပ်မက်ဆွဲသည် ယခုအခါတွင် ဝိုင်ယာလက်လှိုင်းများ ဟု ခေါ်နေကြသော အဆိုနှင့် စပ်လျဉ်း၍ လုပ်ကိုင်ဆောင်ရွက်ခဲ့သေး၏။ ထိုကိစ္စကို ဟက်ဇသည် ဆဲ့ကိုးရာစုနှစ်အတွင်းတွင် ပြည့်စုံစွာ စုံစမ်းနိုင်ခဲ့လေသည်။နှစ်ဆယ်ရာစုနှစ်တွင် ရူပဗေဒကိုလိုက်စားကြသည့် ပညာရှင်များသည် ထိုပညာရပ်၌ အဖက်ဖက်တွင် တိုးတက်၍ ကောင်းမွန်စွာ စုံစမ်းရှာဖွေ နိုင်ခဲ့ကြသည်။

၁၇၉၅ ခုနှစ်တွင် ရန့်ဂင်း၏ အိပ်စရေးကို တွေ့ရှိမှုသည် သွန်မဆင်အား အင်္ကတမ်တွင် လျှပ်စစ်မှုန်များ ပါဝင်သည် ဆိုသည့် ယုံကြည်ချက်ကို ဖြစ်စေခဲ့လေသည်။ ထိုယုံကြည်ချက်ကို လော့ရားသားဖို့နှင့် ဗိုးဆိုသူတို့က ပြန့်ပွားတိုးတက်

ကောင်းမွန် စေပြီးလျှင် ယခုခေတ်တွင် ရှုပ်ထွေးလျက်ရှိသော အက်တမ်အဆောက်အဦအဆိုကို ဖြစ်ပေါ်စေခဲ့ကြလေသည်။

ဟက်ဇ ပြုလုပ်ဆောင်ရွက်ထားခဲ့သော ဝိုင်ယာလက်လှိုင်းများနှင့်စပ်လျဉ်းသော အကြောင်းများကို ဆာ အော်လီဗာလော့ဂျက ဝိုင်ယာလက်နှင့် အီသာအကြောင်းကို စုံစမ်းရှာဖွေဆောင်ရွက်စဉ် ဆက်၍ စုံစမ်း ရှာဖွေခဲ့လေသည်။ ပလန့်ဆိုသည့် ပညာရှင်တဦး၏ ဆောင်ရွက်မှုဖြစ်သော စွမ်းအင်မျိုးစုံမှ ဖြာထွက်ခြင်း၏ အခြေခံစည်းများသည် ရှေးအခါက အီသာ အကြောင်းနှင့် ထိုနောက်မှ တွေ့ရှိရသော အိုင်စတိုင်း၏ ရယ်လတစ်ဗတီ အဆိုများကို ဆက်သွယ်ပေးခဲ့လေသည်။

ရူပဗေဒပညာရှင်တို့သည် အက်တမ် (အနုမြူ) ၏ ဖွဲ့စည်းပုံကို ဆက်လက်၍ သုတေသနပြုလာခဲ့ကြရာမှ အက်တမ်၏ နျူကလိယတ်ကို ခွဲစိတ်နိုင်လာကြပြီးလျှင် နျူကလိယတ်ဆိုင်ရာ ရူပဗေဒဟူ၍ သီးခြားပညာရပ်တခု ပေါ်ပေါက်လာခဲ့သည်။ ထိုအချိန်တွင် ပညာရှင်အချို့က ရေဒီယိုသတ္တိ ကြွခြင်းဆိုင်ရာ သုတေသန လုပ်ငန်းများကို ဆောင်ရွက်လျက်ရှိကြသည်။ ဒုတိယကမ္ဘာစစ် (၁၉၃၉ – ၄၅ ခုနှစ်)ပြီးခါနီးအချိန်တွင် ကြောက်မက်ဖွယ် ကောင်းလှသော အက်တမ်ဗုံး (အနုမြူဗုံး) ပေါ်ပေါက်လာခဲ့၍ စစ်ပြီးခေတ်သို့ ရောက်သောအခါ ပညာရှင်တို့သည် အနုမြူအင်အားကို ငြိမ်းချမ်းရေး လုပ်ငန်းများ၌ အသုံးချရန် အမျိုးမျိုး ကြိုးစားကြံစည်လျက် ရှိသည်ကို တွေ့ရလေသည်။

# ဒန်းညူမြစ်ဝှမ်း အောက်ပိုင်းမှ လွတ်လပ်သောနိုင်ငံ

**ရူမေးနီးယား ဆိုရှယ်လစ် သမတနိုင်ငံသည် ဥရောပတိုက်တွင် ဆိုဗီယက်ယူနီယံက လွဲလျှင် ရေနံ အများဆုံးထွက်သော နိုင်ငံဖြစ်၏။ အမျိုးသား စီးပွားရေးဖွံ့ဖြိုးမှုအတွက် စီမံကိန်းများ အောင်မြင်စွာ အကောင်အထည်ဖော်နိုင်ခဲ့သည်။ ရူမေးနီးယားနိုင်ငံတွင် ဆိုရှယ်လစ်စံနစ်သည် တောရောမြို့ပါ အသေအချာ အောင်ပွဲခံပြီးဖြစ်၍ ဆိုရှယ်လစ်စံနစ် ထူထောင်မှုတွင် နောက်ဆုံး အခြေသို့ပင် ဆိုက်ရောက်နေလေပြီ။**

**ရူမေးနီးယားနိုင်ငံ။** ။ရူမေးနီးယားနိုင်ငံသည် ဥရောပတိုက် အရှေ့တောင်ပိုင်းတွင် ဒန်းညူမြစ်ဝှမ်း အောက်ပိုင်း၌ တည်ရှိသော ဆိုရှယ်လစ် သမတနိုင်ငံဖြစ်သည်။ အကျယ်အဝန်းအားဖြင့် ၉၁,၇၃၈ စတုရန်းမိုင်ရှိ၍ လူဦးရေမှာ ၁၉.၂ သန်း(၁၉၆၇) ရှိ၏။ ရူမေးနီးယားနိုင်ငံ၏ နယ်နိမိတ်မှာ အရှေ့ဖက်နှင့်မြောက်ဖက်၌ ဆိုဗီယက်ပြည်ထောင်စုနိုင်ငံ၊ အနောက်ဖက်၌ ဟန်ဂေရီနိုင်ငံ၊ အနောက် တောင်ဖက်တွင် ယူဂိုစလားဗီးယားနိုင်ငံ၊ တောင်ဖက်၌ ဗူလဂေးရီးယားနိုင်ငံတို့ အသီးအသီးရှိကြ၏။ထို့ပြင် အရှေ့တောင်ဖက်၌ ၁၅၂ မိုင်ခန့်ရှည်လျားသော ပင်လယ်နက် ကမ်းခြေဒေသလည်း ရှိ၏။

ကာပေသီယန် တောင်တန်းသည် ရူမေးနီးယား နိုင်ငံကို ပထဝီ အနေအထားအရ ကာပေသီယန် အရှေ့ပိုင်းဒေသ၊ ကာပေသီယန် တောင်ပိုင်း ဒေသနှင့် ကာပေသီယန် အနောက်ပိုင်းဒေသ ဟူ၍ သုံးပိုင်း ပိုင်းခြားလျက်ရှိ၏။ ထိုဒေသ သုံးပိုင်းအကြားတွင် ထရန်ဆီလဗေးနီးယန်း ကုန်းပြင်မြင့်ရှိသည်။ ၈,၃၄၇ ပေရှိသော မော်လဒိုဗီယာနူး တောင်ထိပ်သည် အမြင့်ဆုံးတောင်ထိပ် ဖြစ်၏။

ရူမေးနီးယား နိုင်ငံရှိ မြစ်များသည် များသောအားဖြင့် ကာပေသီယန် တောင်တန်း၌ မြစ်ဖျားခံ၍ ဒန်းညူမြစ်ထဲသို့ စီးဝင်ကြသည်။ ဒန်းညူမြစ်သည် နိုင်ငံ၏တောင်ဖက် နယ်နိမိတ်တလျှောက် စီးဆင်းလာပြီးလျှင် မြောက်ဖက်သို့ ကွေ့တက်၍ ပရုမြစ်နှင့် ပေါင်းဆုံကာ ပင်လယ်နက်ထဲသို့ စီးဝင်သည်။ ဒန်းညူမြစ်သည် မြစ်ဝကျွန်းပေါ်ဒေသတွင် ချီလီယာမြစ်၊ စူလီနာမြစ်နှင့် စဖန့်တူး လ ဂီယော်ဂေ (စိန်ဂျော့) မြစ်ဟူ၍ မြစ်သုံးမြွာခွဲလျက် စီးဆင်းသည်။ (ဒန်းညူမြစ် —ရှု။) အခြား ထင်ရှားသော မြစ်များမှာ ကရစ္စမြစ်၊ မူးရက်ရှမြစ်၊ အားဂျက်မြစ်၊ ယားလိုမစ္စမြစ်နှင့် ဆီးရက်မြစ် စသည်တို့ ဖြစ်သည်။ ငါးဖမ်းရာ အိုင်များနှင့် ဆေးစမ်းများလည်း ရှိလေသည်။

ရာသီဥတုမှာ ဆောင်းရာသီ၌ အရှေ့မြောက်ဖက်မှ လေအေးတိုက်ခတ်သဖြင့် အပူချိန်သည် ရေခဲမှတ်အောက်သို့ ကျဆင်း၍ ဒန်းညူမြစ်တွင်း၌လည်း ရေခဲများဖြင့် ပိတ်ဆို့



ရူမေးနီးယားနိုင်ငံ ထည်နေရာပြ မြေပုံ



ဗူးခရက်မြို့တော်ရှိ မရှားဟောင်း ယဉ်ကျေးမှုပြတိုက်

လျက် ရှိ၏။ ဆောင်းရာသီသည် ဒီဇင်ဘာလမှ မတ်လအထိ ကြာရှည်သည်။ နွေရာသီတွင် ပူသော်လည်း မိုးရွာလေ့ရှိသည်။ တောင်ကုန်းဒေသများ၌ မိုးများသည်။ ပင်လယ်နက်ကမ်းခြေတလျှောက်တွင် မိုးနည်းသည်။ ယေဘုယျအားဖြင့်ကား တနိုင်ငံလုံးလိုလိုတွင် စိုက်ပျိုးဖြစ်ထွန်းလောက်အောင် မိုးအလုံအလောက် ရွာသွန်းသည်။

ရူမေးနီးယား နိုင်ငံတွင် လူဦးရေ ၈၅ ရာခိုင်နှုန်းမှာ ရူမေးနီးယန်း လူမျိုးဖြစ်သည်။ ရူမေးနီးယန်းလူမျိုးအပြင် ဟန်ဂေရီ လူမျိုး၊ ဂျာမန်လူမျိုး၊ ယဟူဒီလူမျိုး၊ ယူကရိန်းလူမျိုး၊ ဆဗ်လူမျိုး၊ ရုရှလူမျိုး၊ တာတာလူမျိုး၊ တူရကီလူမျိုးနှင့် ဗူလဂေးရီးယန်း လူမျိုးတို့လည်း ရှိ၏။ ရူမေးနီးယန်း ဘာသာစကားသည် ရိုမန့်ဇဘာသာစကား (လက်တင်နွယ်ဝင်ဘာသာစကား)တမျိုး ဖြစ်သည်။

ရူမေးနီးယား နိုင်ငံသည် ဥရောပတိုက်တွင် ဆိုဗီယက်ယူနီယံမှ လွဲလျှင် ရေနံအများဆုံးထွက်သော နိုင်ငံ ဖြစ်၏။ ရေနံတွင်း အားလုံးလိုလိုပင် နိုင်ငံ၏တောင်ပိုင်း၌ ပလိုယက်စတီ၊ အိုလတီးနီယနှင့် အားဂျက်ဒေသများတွင်၎င်း၊ အရှေ့ပိုင်း၌ ဗကာအူးဒေသတွင်၎င်း တည်ရှိ၏။ ရေနံချက်စက်ရုံအများအပြားပင် ပလိုယက်စတီမြို့တွင် ရှိသည်။ ရေနံလုပ်ငန်းအတွက် အချက်အခြာမြို့ဖြစ်၏။ အွန်နက်စတီ၊ ဇော်ဇက်စတီနှင့် ဗရပ်ရှော့တို့တွင်လည်း ရေနံချက်စက်ရုံသစ်များ ဆောက်လုပ်ပြီး ဖြစ်သည်။ ရေနံကို နိုင်ငံခြားသို့ တင်ပို့ရောင်းချရန်အတွက် ပင်လယ်နက်ကမ်းခြေသို့ ပိုက်လုံးများဖြင့် ပို့ပေးလေသည်။ အခြား ထင်ရှားသော တွင်းထွက်ပစ္စည်းများမှာ သဘာဝ ဓာတ်ငွေ့၊ ဆား၊ ကျောက်မီးသွေးညို၊ သံ၊ ခရိုမီယံ၊ မိုလစ်ဒီနမ်၊ ကြေးနီ၊ သွပ်၊ ဗောက်ဆိုက်၊ ရွှေ၊ ငွေ စသည်တို့ ဖြစ်သည်။

၁၉၄၈ ခုနှစ်တွင် နိုင်ငံ၏ စက်မှုလက်မှုလုပ်ငန်း၊ သယ်ယူပို့ဆောင်ရေး လုပ်ငန်း၊ ဘဏ်လုပ်ငန်းနှင့် အာမခံ လုပ်ငန်းတို့ကို ပြည်သူပိုင် ပြုလုပ်ခြင်းအားဖြင့် အမျိုးသား စီးပွားရေးကို ပြန်လည် ထူထောင်ရန်နှင့် လူနေမှု အဆင့်အတန်းတိုးမြှင့်ပေးရန် ကြိုးပမ်းခဲ့လေသည်။ ပြည်သူ့ ဒီမိုကရေစီခေတ်ကို ပြန်လည် ထူထောင် ပေးပြီးနောက်တွင် စက်မှုလက်မှုလုပ်ငန်းသည် သိသိသာသာ တိုးတက်လာခဲ့သည်။ အမျိုးသားစီးပွားရေး တိုးတက် ဖွံ့ဖြိုးမှုအတွက် ၁၉၄၉ ခုနှစ်နှင့် ၁၉၅၀ ပြည့်နှစ်များတွင် နှစ်ချင်းပေါက် စီမံကိန်းများကို၎င်း၊ ၁၉၅၁ မှ ၅၅ ခုနှစ်ထိ ပဌမ ငါးနှစ် စီမံကိန်း၊ ၁၉၅၆ မှ ၆၀ ပြည့်နှစ်ထိ ဒုတိယ ငါးနှစ် စီမံကိန်းကို၎င်း၊ ၁၉၆၀ ပြည့်

နှစ်မှ ၁၉၆၅ ခုနှစ်အထိ တတိယ ခြောက်နှစ် စီမံကိန်းကိုရှင်း အသီးအသီး ချမှတ် လုပ်ဆောင်ခဲ့ကြသည်။

ထိုသို့ အမျိုးသား စီးပွားရေး ဖွံ့ဖြိုးမှုအတွက် စီမံကိန်းများကို အောင်မြင်စွာ အကောင်အထည် ဖော်နိုင်ခဲ့သော ကြောင့် ၁၉၆၁ ခုနှစ်တွင် စက်မှုလက်မှု လုပ်ငန်းသည် ၁၉၃၈ ခုနှစ်တွင် ထွက်သည်ထက် ၅.၇ ဆ ရှိအောင် ထုတ်လုပ်နိုင်ခဲ့ လေသည်။ ၁၉၆၁ ခုနှစ်တွင် ၁၉၅၀ ပြည့်နှစ်မှာထက် လုပ်ခ များမှာ နှစ်ဆဖြစ်လာ၍ လယ်သမား လူတန်းစား၏ ဝင်ငွေ မှာလည်း လေးဆမျှ တိုးတက်လာခဲ့၏။ ရူမေးနီးယား ဆိုရှယ် လစ် သမတ နိုင်ငံသည် စက်မှုလုပ်ငန်း မှန်မှန်ဖွံ့ဖြိုးတိုးတက် လျက် ရှိက၊ ယန္တရားတပ် ဆိုရှယ်လစ်စိုက်ပျိုးရေးစံနစ်ကို လက်ခံကျင့်သုံးလျက်ရှိသောနိုင်ငံတခု ဖြစ်နေလေပြီ။ ၁၉၆၂ ခုနှစ်မှစ၍ စုပေါင်းထွန်ယက် စိုက်ပျိုးရေးစံနစ်ကို လုံးလုံး လျားလျား အသုံးပြုခဲ့လေသည်။

ဒန်းညူမြစ်သည် ရေကြောင်း သွားလာရေး အတွက် အဓိက လမ်းခရီးဖြစ်သည်။ နိုင်ငံတွင်း၌ မီးရထားလမ်း မိုင် ပေါင်း ၆,၇၀၀ ကျော်ခန့်နှင့် မော်တော်ကားလမ်းမိုင်ပေါင်း ၇,၁၀၀ ကျော်ရှိ၏။ ဗူးခရက်မြို့သည် မီးရထားလမ်းနှင့် မော်တော်ကားလမ်းဆုံမြို့ ဖြစ်သည့်အပြင် လေကြောင်း ခရီး ဗဟိုဌာနလည်း ဖြစ်၏။ ရူမေးနီးယား နိုင်ငံတွင် အသံ လွှင့်ဌာနပေါင်း ၃၀ ခုနှင့် တယ်လီဗစ်ရှင်းဌာန ၂၅ ခု ရှိသည်။

စာမတတ်သူ ပပျောက်ရန်ရည်ရွယ်၍ စာသင်သားအရွယ် ကလေးတိုင်း ရှစ်နှစ်မျှ အခြေခံပညာကို မသင်မနေရ ပြဋ္ဌာန်း ထား၏။ ၁၉၅၅ ခုနှစ်တွင် စာမတတ်သူဟူ၍ လုံးဝမရှိတော့ ဟု ဆိုသည်။ ၁၉၆၂ ခုနှစ်တွင် ပဥ္စမအဆင့်မှ သတ္တမ အဆင့် အထိ ကျောင်းသားသူငယ် အားလုံးကို ကျောင်းသုံးစာအုပ် များ အခမဲ့ပေးဝေသည်။ သက်မွေးဝမ်းကျောင်းပညာနှင့် စက်မှုလက်မှု ပညာသင်ကျောင်းသစ်များကိုလည်း ဖွင့်လှစ် သင်ကြားလျက် ရှိသည်။ ၁၉၆၄–၆၅ ခုနှစ်တွင် တက္ကသိုလ် မဟာဌာနကြီးများ ၁၇၉ ခု ဖွင့်၍ အထက်တန်း ပညာရပ် များကို သင်ကြားပို့ချလျက် ရှိ၏။ ဗူးခရက်၊ ယတ်ဆီ၊ ကလူး ဇ စသည့် ရှေးတက္ကသိုလ် ဗဟိုဌာနများအပြင်၊ ကရယိုးဗ၊ ဗရပ်ရှော၊ ဂလတ်ဆီ၊ တာဂူမူးရက်ရှ၊ တီမိရှွားရား၊ ပိထရိုရှာနီ၊ ကွန်စတင်ဆာ၊ ဗယားမာရီနှင့် ဗကူအူးတို့၌ အထက်တန်း ပညာသင်ဌာနသစ်များ ဖွင့်လှစ်ထားရှိလေသည်။

ရူမေးနီးယန်း တို့သည် ကျွမ်းကျင်သော ရက်ကန်း ပညာ ရှင်များနှင့် သစ်ပန်းပုပညာရှင်များဖြစ်သည်။ မိမိတို့၏လုပ သော အမျိုးသားဝတ်စုံကို ရှေးအခါကနည်းတူ ရက်လုပ်သုံး စွဲလျက်ပင် ရှိ၏။ ဝတ်စုံများ၏ ရောင်စုံအဆင်အသွေးနှင့် ပုံ ပန်း အချိုးအစားသည်လည်း လိုက်ဖက်လှ၏။ ရူမေးနီးယန်း တို့၏ စောင်၊ စားပွဲခင်း၊ ကော်ဇော စသော အိမ်သုံးအထည် များသည်လည်း အသွေးအရောင်အလွန်တောက်ပလေသည်။



ဒုတိယ ကမ္ဘာစစ်ပြီးသည့်နောက် တွေ့မြင်ရသော ဗူးခရက်မြို့တော်၏ သာယာသော ရှုခင်း

ရူမေးနီးယန်းအမျိုးသား တေးဂီတမှာ အလုပ် ရက်အား နေ့၊ ကောက်သိမ်းပွဲ၊ မင်္ဂလာဆောင်ပွဲ၊ နှစ်သစ်ကူးပွဲ စသည် တို့အတွက် စပ်ဆိုသော တေးသီချင်းများဖြစ်၍ သီဆိုကခုန် ယင်း ဒဏ္ဍာရီပုံပြင်များကို ပြောပြတတ်ကြသည်။ အ ကြောင်းအရာ အမျိုးမျိုးပေါ်တွင် အခြေခံ၍ စပ်ဆိုသည့် ရိုးရာ သီချင်း၊ တိုင်းရင်းသား လူမျိုးစုဆိုင်ရာ သီချင်းနှင့် တေးဂီတကဗျာများလည်း ရှိသည်။ အထက်ပါ ရိုးရာ တေး သီချင်းများကို ရှိုးရာအကဟန်ဖြင့်လည်း သရုပ်ဖော်နိုင်ကြ သည်။ ရူမေးနီးယန်း တေးဂီတပညာရှင် ဂျော့အီနက်စကူ (ခရစ် ၁၈၈၁–၁၉၅၅) ဆိုသူက ရူမေးနီးယန်း တေးဂီတ အဆင့်အတန်းကို မြှင့်တင်ပေးခဲ့လေသည်။

ရူမေးနီးယန်း ဘာသာဖြင့် စာပေများကို ၁၆ ရာစုနှစ် ဒုတိယ ပိုင်းတွင် စတင်ပုံနှိပ်ထုတ်ဝေခဲ့သည်။ ထိုစာပေတို့မှာ အယူဝါဒရေးနှင့် ဆိုင်သော ဘာသာပြန် စာပေများသာဖြစ် ၏။ ၁၇ ရာစုနှင့် ၁၈ ရာစုနှစ်များတွင်မူကား သမိုင်းစာပေ များ ထွက်ပေါ်လာသည်။ ၁၉ ရာစုနှင့် ၂၀ ရာစု နှစ်များသို့ ရောက်သောအခါ ရူမေးနီးယန်း အမျိုးသားတို့၏ စရိုက် လေ့တို့ကို ဖော်ပြသည့် စကားပြေအရေးအသားနှင့် ကဗျာ လင်္ကာအရေးအသားများ ထွန်းကားလာလေသည်။

ရူမေးနီးယား ဆိုရှယ်လစ် သမတနိုင်ငံသည် အုပ်ချုပ်ရေး

အာဏာ တောရော မြို့ပါရှိ အလုပ်သမား လူတန်းစားတွင် တည်ရှိသော ဆိုရှယ်လစ်သမတနိုင်ငံဖြစ်၏။ ပြည်သူ့အာဏာ ဆိုင်ရာ အချုပ်အချာ ဖြစ်သော အဖွဲ့အစည်းမှာ အမျိုးသား လွှတ်တော်ကြီးဖြစ်၍ ယင်းက နိုင်ငံတော်ကောင်စီကို ရွေး ကောက်တင်မြှောက်၏။ နိုင်ငံတော်ကောင်စီက အမျိုးသား လွှတ်တော်ကြီး စည်းဝေးချိန် မဟုတ်သည့် ကြားကာလများ တွင် ပြည်သူ့အာဏာကို အသုံးပြု၍ အမျိုးသား လွှတ်တော် ကြီးသို့ တာဝန်ခံရလေသည်။ နိုင်ငံတော်ကောင်စီ၏ ဥက္ကဋ္ဌ သည် နိုင်ငံ၏ အကြီးအကဲ ဖြစ်၏။ အုပ်ချုပ်ရေး ဆိုင်ရာ အချုပ်အချာ အဖွဲ့အစည်းမှာ ဝန်ကြီးများအဖွဲ့ဖြစ်သည်။ ဝန်ကြီးများအဖွဲ့ကို အမျိုးသား လွှတ်တော်ကြီးက ရွေး ကောက်တင်မြှောက်၏။ ဝန်ကြီးများအဖွဲ့သည် အမျိုးသား လွှတ်တော်ကြီးသို့ တာဝန်ခံရ၍ ထိုလွှတ်တော်ကြီး စည်းဝေး ခိုက်မဟုတ်လျှင် နိုင်ငံတော်ကောင်စီသို့တာဝန်ခံရလေသည်။ ပြည်သူ့ကောင်စီများကား သက်ဆိုင်ရာဒေသအလိုက် တိုင်း သူ ပြည်သားတို့က ရွေးကောက်တင်မြှောက်ထားသည့် ဒေ သန္တရ ပြည်သူ့အာဏာဆိုင်ရာ အဖွဲ့အစည်းများ ဖြစ်သည်။

ရုမေးနီးယား ဆိုရှယ်လစ်သမတနိုင်ငံတွင် အယူဝါဒရေးရာ လွတ်လပ်မှု ရှိ၏။ ရုမေးနီးယန်း လူမျိုးတို့သည် များသော အားဖြင့် အရှေ့ပိုင်း အသင်းတော်ဝင် ခရစ်ယန်များ ဖြစ်ကြ လေသည်။

ရှေးအခါက ရုမေးနီးယားသည် ဒေးရှား ဟု အမည်တွင် ခဲ့၍ နှစ်ရာစုနှစ်တွင် ရောမကေရာဇ်ထရေဂျန်၏ လက်အောက် ခံ ပြည်နယ်တခု ဖြစ်ခဲ့၏။ သုံးရာစုနှစ်မှ အစပြု၍ တနေရာမှ တနေရာသို့ လှည့်လည် သွားလာနေတတ်သော လူမျိုးစု အမျိုးမျိုးသည် ဒေးရှားနယ်ကို ဖြတ်သန်းသွားလာခဲ့ကြ၏။ ခရစ်တော် ပေါ်ပြီးနောက် ပဌမအနှစ် ၁၀၀၀ အတွင်း ဒေး ရှန်းလူမျိုးနှင့် ရောမလူမျိုးတို့သွေးနှောသွားကာ၊ ထိုနောက် ဆလဗ်လူမျိုးတို့ပါ ဒွေးရောယှက်တင် ဖြစ်သွားခဲ့ပြီးနောက် တွင် ရုမေးနီးယန်း ဘာသာစကားနှင့် ရုမေးနီးယန်းလူမျိုးဟူ ၍ ပေါ်ပေါက်လာခဲ့လေသည်။ ထိုနောက် ၁၄ ရာစုနှစ်တွင် ဝေါလေ့ကီးယားနှင့် မော်လဒေးဗီးယားဟူသော ပြည်နယ် နှစ်ခုပေါ် ပေါက်ခဲ့လေသည်။ ကိုးရာစုနှစ်လောက်မှ အစပြု၍ ထရန်ဆီလဗေးနီးယား ကုန်းပြင်မြင့်တွင် ရုမေးနီးယန်းနယ် ပယ်ကလေးများ ရှိခဲ့၏။ ကိုးရာစုနှစ်မှ ၁၃ ရာစုနှစ်အတွင်း ဟန်ဂေရီလူမျိုးတို့သည် ထရန်ဆီလဗေးနီးယား အတွင်း ဝင် ရောက်လာ၍ သီးခြားနယ်ကြီးအဖြစ် တည်ထောင်ခဲ့သည်။ ထိုပြည်နယ်များကို မင်းသား တပါးစီ သီးခြား အုပ်ချုပ်ခဲ့ သည်။ သို့ရာတွင် ၁၄ ရာစုနှစ်မှ စ၍ ယင်းပြည်နယ်တို့သည် အော့တိုမန်အင်ပိုင်ယာ၏ နယ်ချဲ့အန္တရာယ်ကို ကြိုးပမ်း ကာ ကွယ်ခဲ့လေသည်။ ဝေါလေ့ကီးယားပြည့်ရှင် မင်းသား မိုက် ကယ်သည် သုံးပြည်ထောင်ကိုစုပေါင်းအုပ်ချုပ်ရန် ကြိုးပမ်း



စက်မှုနိုင်ငံအဖြစ် တည်ထောင်လျက်ရှိသော ရုမေးနီးယားနိုင်ငံ

ခဲ့ရာ တောင်သူလယ်သမားတို့၏ လိုအင်ဆန္ဒများကို မဖြည့်စွမ်းနိုင်ခဲ့သောကြောင့်၎င်း၊ မော်လဒေးဗီးယားနယ်နှင့် ထရန်ဆီလဗေးနီးယားနယ်တို့မှ မှူးမတ်မျိုးနွယ်တို့နှင့် အချင်းများခဲ့သောကြောင့်၎င်း ခေတ္တမျှသာ အောင်မြင်ခဲ့သည်။ နောက်ဆုံးတွင် အော်တိုမန် အင်ပိုင်ယာ၏ လက်အောက်ခံပြည်နယ်များ ဖြစ်သွားလေသည်။ ထိုနောက် ရူမေးနီးယန်းလူမျိုးတို့သည် အမျိုးသားလွတ်မြောက်ရေးအတွက် မကြာခဏ လက်နက်စွဲကိုင် တော်လှန်ပုန်ကန်ခဲ့ကြ၏။ ၁၈၂၁ ခုနှစ်တွင် ဝေါလေ့ကီးယားနယ်တွင် တျူဒေါ် ဗလာဒီမီရက်စကူး ဦးဆောင်၍ အမျိုးသား လွတ်မြောက်မှုအတွက် ကံကျေးစံနစ် ဆန့်ကျင်ရေး တော်လှန်မှုကြီးတရပ် ဖြစ်ပွားခဲ့၏။ ၁၈၄၈ ခုနှစ်တွင် ယင်းသည့် ရူမေးနီးယား သုံးနယ်တွင် တော်လှန်မှုကြီးများ ဖြစ်ပွားခဲ့လေသည်။ လွတ်လပ်ရေးအတွက် တိုက်ပွဲ အဆက်ဆက် ဖြစ်ပွားခဲ့ပြီးနောက်၊ ၁၈၅၉ ခုနှစ်တွင် ဝေါလေ့ကီးယားနှင့် မော်လဒေးဗီးယားတို့သည် မင်းသားကြီး အယ်လက်ဇန်ဒရူယိုအန်ကူဇာ၏ လက်အောက်တွင် ပူးပေါင်းမိလေသည်။ ၁၈၆၂ ခုနှစ်တွင် ထိုသို့ပူးပေါင်းပြီးသော နယ်ပယ်ကြီးကို ရူမေးနီးယား ဟူ၍ ခေါ်ဝေါ်ခဲ့လေသည်။

၁၈၇၇ ခုနှစ်တွင်ဖြစ်ပွားသော ရုရှ-တူရကီ စစ်ပွဲ၌ ရူမေးနီးယားပြည်သည် ရုရှဖက်မှ ကူညီတိုက်ခိုက်ခဲ့ရာ ၁၈၇၈ ခုနှစ်တွင် တူရကီတို့၏ အာဏာစက်အတွင်းမှ လွတ်ကင်း၍ လုံးဝလွတ်လပ်သော နိုင်ငံအဖြစ် ကျေညာခဲ့သည်။ ပဌမ ကမ္ဘာစစ် (ခရစ် ၁၉၁၄ – ၁၈) ဖြစ်ပွားလာသောအခါ ဦးစွာ၌ ကြားနေခဲ့သော်လည်း၊ ၁၉၁၆ ခုနှစ် ဩဂုတ်လတွင် ရူမေးနီးယားနိုင်ငံသည် မဟာမိတ်တို့ဖက်မှ ပါဝင်၍ ဂျာမနီနှင့် ဟန်ဂေရီတို့ကို တိုက်ခိုက်ခဲ့လေသည်။ ၁၉၁၉ ခုနှစ်တွင် ချုပ်ဆိုသော ဗာဆေးစာချုပ်အရ ရူမေးနီးယားသည် ဟန်ဂေရီတို့ထံမှ ထရန်ဆီလဗေးနီးယားပြည်နယ်ကို ရရှိလိုက်၏။



ရူမေးနီးယား နိုင်ငံ၏ ရေနံတွင်းများသည် ကမ္ဘာကျော် ရေနံတွင်းများ ဖြစ်ကြသည်။



ရူမေးနီးယန်း အမျိုးသားနှင့် အမျိုးသမီး

ရူမေးနီးယား နိုင်ငံ၏ ပဌမဦးဆုံးဘုရင် ပဌမ ကာရိုးသည် ၁၈၈၁ ခုနှစ်မှ ၁၉၁၄ ခုနှစ်အထိ အုပ်စိုးပြီးနောက် တူတော် ဖာဒီနန်က ထီးနန်းကိုဆက်ခံသည်။ ၁၉၂၇ ခုနှစ်တွင် ဖာဒီနန်ဘုရင် နတ်ရွာစံသဖြင့် ငါးနှစ်သားအရွယ်ရှိ မြေးတော် မိုက်ကယ်က ဆက်လက်အုပ်စိုးနေစဉ်၊ ယခင်က ထီးနန်းဆက်ခံခွင့်ကို စွန့်လွှတ်ပြီး ဖြစ်သော ဖာဒီနန်၏ သားတော်ဖြစ်၍ မိုက်ကယ်၏ ခမည်းတော်လည်း ဖြစ်သော ကာရိုးက အာဏာကို လုယူကာ ဒုတိယ ကာရိုးဘုရင်အဖြစ် နန်းတက်လာ၏။ ဒုတိယ ကာရိုးဘုရင်သည် ရူမေးနီးယား နိုင်ငံနယ်ခြားဒေသများနှင့်စပ်လျဉ်း၍ ရုရှနိုင်ငံ၊ ဂျာမနီနိုင်ငံတို့နှင့် ပြေလည်အောင် မဖြေရှင်း နိုင်သဖြင့် ၁၉၄၀ ပြည့်နှစ်တွင် ထီးနန်းကို စွန့်လွှတ်ရသည်။ သားတော်မိုက်ကယ် ပြန်လည်နန်းတက်သည်။ ထိုနောက် ဂျာမနီ၏ဩဇာခံ ဗိုလ်ချုပ်အန်တိုနက်စကူးက စစ်အာဏာရှင်စံနစ်ဖြင့် နိုင်ငံကို အုပ်ချုပ်သည်။ ၁၉၄၁ ခုနှစ်တွင် ရူမေးနီးယားသည် ဂျာမနီဖက်မှ ကူညီ၍ ရုရှကိုတိုက်၏။ သို့ရာတွင် ၁၉၄၄ ခုနှစ်၌ ဆိုဗီယက်



ဒန်းညူမြစ်ကမ်းပါးရှိ စိုက်ခင်းများမှာ ရှမေးနီးယား နိုင်ငံ၏ အားထားရာ ဖြစ်သည်။

တပ်မတော်က အောင်မြင်စွာ ထိုးစစ်များ ဆင်နွှဲနေနိုင်သည့် အခြေတွင် ရှမေးနီးယား ကွန်မြူနစ်ပါတီ ဦးဆောင်သည့် မျိုးချစ်အင်အားစုများက လက်နက်ကိုင်တော်လှန်မှုတရပ်ကို ဖန်တီးကာ စစ်အာဏာရှင်အစိုးရကို ဖြုတ်ချလိုက်လေသည်။ ထိုနောက်တွင် ရှမေးနီးယားနိုင်ငံသည် မဟာမိတ်တို့ ဖက်မှ ပါဝင်၍ စစ်ပြီးဆုံးသည်အထိ ဖက်ဆစ်ဂျာမနီကို ပြန်တိုက်ခဲ့လေသည်။

၁၉၄၇ ခုနှစ်တွင် မဟာမိတ်နိုင်ငံများနှင့် ချုပ်ဆိုသော ငြိမ်းချမ်းရေးစာချုပ်အရ ဒုတိယကာရိုးဘုရင် လက်ထက်က ဟန်ဂေရီ နိုင်ငံသို့ ပေးခဲ့ရသော ထရန်ဆီလဗေးနီးယား မြောက်ပိုင်းနယ်ကိုင်း၊ ဗူလဂေးရီးယား နိုင်ငံသို့ ပေးခဲ့ရသော ဒိုးဗရုဂျနယ်ကိုင်း ပြန်လည် ရရှိလေသည်။

၁၉၄၇ ခုနှစ် ဒီဇင်ဘာလ ၃၀ ရက်နေ့တွင် မိုက်ကယ်ဘုရင် နန်းစွန့်ခဲ့ရ၍ ရှမေးနီးယား ပြည်သူ့သမတနိုင်ငံ ထူထောင်ခဲ့သည်။ ထိုနောက်တွင် ဆိုရှယ်လစ်စံနစ် ထူထောင်ရေးကို ကြိုးပမ်းခဲ့ရာ ၁၉၆၂ ခုနှစ်တွင် ရှမေးနီးယားနိုင်ငံ၌ ဆိုရှယ်လစ်စံနစ်သည် တောရော မြို့ပါ အသေအချာ အောင်ပွဲခံခဲ့ပြီး ဖြစ်သည်။ ရှမေးနီးယား ပြည်သူ့သမတနိုင်ငံသည် ဆိုရှယ်လစ်စံနစ် ထူထောင်မှုတွင် နောက်ဆုံးအခြေသို့ ရောက်နေပြီ ဖြစ်၍ ကွန်မြူနစ်စံနစ်ထူထောင်ရေးသို့ တဖြည်းဖြည်း ကူးပြောင်းနေဆဲ ဖြစ်လေသည်။ ရှမေးနီးယားနိုင်ငံသည် ၁၉၅၅ ခုနှစ်တွင် ကမ္ဘာ့ကုလသမဂ္ဂအဖွဲ့ဝင်နိုင်ငံလည်း ဖြစ်လာခဲ့၏။

၁၉၆၅ ခုနှစ်တွင် ရှမေးနီးယား ဆိုရှယ်လစ် သမတနိုင်ငံ ဟု အမည်ပြောင်းခဲ့သည်။ ဗူးခရက်မြို့သည် ရှမေးနီးယား နိုင်ငံ၏ မြို့တော်ဖြစ်၍ လူဦးရေ ၁,၃၇၂,၀၀၀ ယောက် (၁၉၆၄) ရှိသည်။ အခြား ထင်ရှားသော မြို့ကြီးများမှာ ယတ်ဆီ၊ ကလူးဇ၊ တိမိရွှားရား၊ ဂလတ်ဆီ၊ ဗရပ်ရှော့၊ ပလိုယက်စတီ၊ ကွန်စတင်ဆာ စသည့်မြို့များ ဖြစ်သည်။

ရူးဆိုး၊ ဂျေ၊ ဂျေ (ခရစ် ၁၇၁၂–၁၇၇၈)။ ။ ဇန်းဇက် ရူးဆိုးသည် ပြင်သစ် စာရေးဆရာနှင့် ဒဿနိကဗေဒ ပညာရှင်ဖြစ်ပေသည်။ သူသည် ဟျူးဂျနိုး မိဖများမှ ၁၇၁၂ ခုနှစ် ဇွန်လ ၂၈ ရက်နေ့တွင် ဆွစ်ဇာလန် နိုင်ငံ၊ ဂျီနီးဗားမြို့၌ မွေးဖွားသည်။ မိခင်မှာ သူ့ကို ဖွားမြင်ပြီးနောက် အနိစ္စရောက်လေသည်။ ဖခင်သည်လည်း တရပ်တကျေးသို့ ပြောင်းရွှေ့သွားသဖြင့် အဒေါ်ဖြစ်သူ၏ လက်တွင် ကြီးပြင်းလာခဲ့ရသည်။ အသက် ၁၄ နှစ်အရွယ်တွင် ပုံထွင်းဆရာတဦးထံ၌ ပညာသင်အဖြစ် လုပ်ကိုင်ပြီးနောက် အသက် ၁၆ နှစ်အရွယ်တွင် အိမ်မှ ထွက်ပြေးသည်။ ဤသို့ဖြင့် ၁၇၄၁ ခုနှစ်၌ ပြင်သစ်နိုင်ငံ ပါရစ်မြို့သို့ ရောက်လာ၏။

ရူးဆိုးသည် ပြင်သစ်လူမှုရေးစံနစ်တွင် အထက်တန်းစား လူများ၏ ဩဇာလွှမ်းပုံနှင့် ဆင်းရဲသား လူတန်းစားတို့ လူရာမဝင်ပုံတို့ကို သိမြင်လာလေ၏။ ထိုအချက်ကို အခြေပြု၍ "လူမှုပဋိညာဉ်" ခေါ် စာအုပ်ကို ပြုစုရေးသားလေသည်။

ရှူးဆိုးသည် ထိုစာအုပ်တွင် လူအဖွဲ့အစည်း၌ အစိုးရသူဟူ၍ ပေါ်ပေါက်လာပုံကိုင်း၊ အစိုးရအာဏာသည် လူထုထံမှ ဆင်းသက်လာပုံကိုင်း ရေးသားဖော်ပြ၏။ သို့ဖြစ်၍ လူထု သဘောမတူသော တရားဥပဒေသည် မတည်မြဲနိုင် ဟု ဆိုသည်။ ထိုစာအုပ်သည် ပြင်သစ်အမျိုးသားတို့၏ တော်လှန်ရေး စိတ်ဓာတ်ကို သိသိသာသာ လှုံ့ဆော်ပေးလိုက်သည် ဖြစ်သောကြောင့် ၁၇၈၉ ခုနှစ်တွင် ပြင်သစ်တော်လှန်ရေး ဖြစ်ပွားရသော အကြောင်းရင်းတခု ဖြစ်လေသည်။ သူထွင်ခဲ့သော "လွတ်လပ်ရေး၊ သာတူညီမျှရေးနှင့် ချစ်ကြည်ရေး" ဟူသည့် အဆိုမှာ လူတို့၏လွတ်လပ်မှု အခွင့်အရေးကို ထုတ်ဖော်သည့် စကားအသုံးအနှုန်းများဖြစ်၍ နောင်အခါ တော်လှန်ရေး သမားတို့၏ ကြွေးကြော်သံ ဖြစ်လာလေသည်။ "လူမှုပဋိညာဉ်" စာအုပ်ကို မြဒေါင်းညိုက မြန်မာ ဘာသာ ပြန်ခဲ့ဘူးသည်။

ပညာရေးနှင့် စပ်လျဉ်း၍လည်း မိမိ၏ အယူအဆများကို "အီမီး"ခေါ် စာအုပ်၌ ဖော်ပြထားလေသည်။ ရှူးဆိုးက ကျောင်းသားများကို ပညာသင်ကြားရာ၌ ပို၍လွတ်လပ်ခွင့် ပေးရန် ထောက်ခံတင်ပြထားသည်။ ယခုခေတ် ပညာသင်ကြားရေး နည်းစံနစ်သည် ရှူးဆိုး၏ ပညာရေးအယူအဆ အချို့ကို မှီးသည် ဟု ဆိုနိုင်၏။ ထိုစာအုပ်ကို ဒေါ်မမခင်က မြန်မာဘာသာ ပြန်ခဲ့သည်။

ရှူးဆိုးသည် ပြင်သစ်စာပေလောက၌လည်း စိတ်ကူးစိတ်သန်းအသစ်ထွင်၍ ရေးသားခဲ့သူ ဖြစ်ပေသည်။ ဘဝအကျိုးမြင် စာပေ၏ ဖခင် ဟူ၍ပင် အချို့က ဆိုကြလေသည်။ ၁၇၈၄ ခုနှစ်တွင် ပုံနှိပ်ထုတ်ဝေသော ကိုယ်တိုင်ရေး အတ္ထုပ္ပတ္တိမျိုးဖြစ်သည့် "ကွန်ဖက်ရှင်း" ခေါ် စာအုပ်မှာ သူ၏ ထင်ရှားသော စာပေလက်ရာ ဖြစ်သည်။ ရှူးဆိုးသည် လူများကို အသိဉာဏ်တိုးပွားအောင် လမ်းပြခဲ့သော်လည်း ကိုယ်တိုင်မှုကား အပြောနှင့်အလုပ် မညီညွတ်သူ ဖြစ်၏။ သဘာဝ၏ လှပတင့်တယ်ပုံကို အမွမ်းတင်ရေးသားသော်လည်း ကိုယ်တိုင် မြို့ထဲ၌ ကျပ်တည်းကျဉ်းမြောင်းစွာ နေထိုင်သည်က များသည်။ လူတို့၏ တန်းတူအခွင့်အရေးနှင့် လွတ်လပ်မှုကို အရေးဆို တင်ပြခဲ့သော်လည်း ကိုယ်တိုင်မှာမူကား အမြဲ ဆင်းရဲငြိုငြင်စွာ နေထိုင်ရလေသည်။

၁၇၆၂ ခုနှစ်၌ ရှူးဆိုးသည် အယူဝါဒဆိုင်ရာ အယူအဆ များကြောင့် အင်္ဂလန်နိုင်ငံသို့ ရှောင်တိမ်း နေထိုင်ရသည်။ ၁၇၆၇ ခုနှစ်တွင် ပြင်သစ်နိုင်ငံသို့ ပြန်ရောက်သည်။ သို့သော် ကျန်းမာရေး ချူတ်ယွင်းလျက် ရှိရာမှ ၁၇၇၈ ခုနှစ် ဇူလိုင်လ ၃ ရက်နေ့တွင် ပါရစ်မြို့အနီး၌ ကွယ်လွန်လေသည်။

**ရှူးဇဗဲ့၊ အက်(ဖ)၊ ဒီ(ခရစ် ၁၈၈၂–၁၉၄၅)။** ။ဖရန် ကလင် ဒယ်လာနို ရှူးဇဗဲ့သည် ၃၂ ဆက်မြောက် အမေရိကန် ပြည်ထောင်စု သမတဖြစ်သည်။ အမေရိကန် သမတသည် နှစ်ကြိမ်ထက်ပို၍ အရွေးမခံရ ဟူသော အစဉ်အလာတရပ်ရှိသော်လည်း ရှူးဇဗဲ့သည် သမတအဖြစ် လေးကြိမ်တိုင် အရွေးခံရသဖြင့် သက်တမ်းအရှည်ဆုံးသမတ ဖြစ်ပေသည်။ ရှူးဇဗဲ့သည် အမေရိကန် နိုင်ငံတွင် အလွန်ဆိုးရွားသော စီးပွားရေးညှိုးငယ်မှုကပ် ဆိုက်ရောက်နေချိန်၌ငှင်း၊ ဒုတိယ ကမ္ဘာစစ်ကြီးဖြစ်ပွားနေချိန်၌ငှင်း နိုင်ငံကို ခေါင်းဆောင်ခဲ့ရသူ ဖြစ်သည်။ စီးပွားရေး နာလန်ထူနိုင်ရန် ရှူးဇဗဲ့ ချမှတ်သော စီမံကိန်းများ၌ သဘောကွဲလွဲမှု ရှိသည့်နည်းတူ နိုင်ငံခြားရေး ဝါဒ၌လည်း သဘောကွဲလွဲမှု ရှိလေသည်။ သို့ရာတွင် သမတရှူးဇဗဲ့သည် ထူးချွန်သော နိုင်ငံခေါင်းဆောင် ဖြစ်သည်ကိုကား အများကလက်ခံကြသည်။

ဖရန်ကလင် ရှူးဇဗဲ့သည် ၁၈၈၂ ခုနှစ် ဇန်နဝါရီလ ၃၀ ရက်နေ့တွင် နယူးယော့မြို့၊ ဟိုက်ပတ်၌ ဖွားမြင်၍၊ မိဘများ ဖြစ်သော ဆာရာနှင့် ဂျိမ်းရှူးဇဗဲ့တို့၏ တဦးတည်းသောသားဖြစ်၏။ ၂၆ ဆက်မြောက် အမေရိကန်သမတ သီယိုဒိုရှူးဇဗဲ့နှင့် ညီအစ်ကိုဝမ်းကွဲ တော်စပ်သည်။ ငယ်စဉ်က ဂရော့တန် ကျောင်းတွင် ပညာသင်ကြားပြီးနောက် ဟားဗတ် တက္ကသိုလ်မှ ၁၉၀၄ ခုနှစ်၌ ဘွဲ့ရခဲ့သည်။ ထိုနောက် ကိုလမ်ဘီးယား တက္ကသိုလ်တွင် ဥပဒေပညာကို ဆက်လက်သင်ကြားသည်။

နယူးယော့မြို့၌ ရှေ့နေလိုက်နေစဉ် နယူးယော့ပြည်နယ် ဆီးနိတ်လွှတ်တော်သို့ တက်ရန် ဒီမိုကရက်တစ်ပါတီ၏ တိုက်တွန်းချက်အရ ၁၉၁၀ ပြည့်နှစ်တွင် အရွေးခံရာ အနိုင်ရရှိလေသည်။ ထိုပြည်နယ် ဆီးနိတ်လွှတ်တော်မှာ ရီပတ်ဗလစ်ကင် ပါတီဝင်တို့ကြီးစိုးရာဌာန ဖြစ်သည်။ သို့ရာတွင် ထိုပြည်နယ် လူထုက ရှူးဇဗဲ့ကို နိုင်ငံရေး ခေါင်းဆောင်အဖြစ် ကြည်ညို လာကြသောကြောင့် သမတအဖြစ် အရွေးခံမည့် ဝုဒရို ဝီလဆန်အတွက် စည်းရုံးရေးတာဝန် ပေးအပ်ခြင်းခံရလေသည်။ ဝီလဆန် သမတ ဖြစ်လာသော အခါ ရှူးဇဗဲ့ကို ရေတပ်ဆိုင်ရာ လက်ထောက်အတွင်းဝန်ခန့်၏။

ရှူးဇဗဲ့သည် အမေရိကန် ရေတပ်စခန်းများကို အသစ်ပြုပြင်လိုက်သဖြင့် ပဌမကမ္ဘာစစ် ဖြစ်ပွားလာချိန်တွင် အမေရိကန်ရေတပ်သည် ယခင်ကထက် အင်အားတောင့်လျက် ရှိနေခဲ့သည်။ ဒီမိုကရက်တစ် ပါတီကလည်း ရှူးဇဗဲ့အား ဒုတိယ သမတရာထူးအတွက် အရွေးခံရန် ရွေးချယ်ခဲ့သည်။ သို့ရာတွင် ၁၉၂၁ ခုနှစ်၌ သွက်ချာပါဒရောဂါဖြစ်၍လမ်းမလျှောက် နိုင်ချေ။ ထိုကဲ့သို့သော အဖြစ်ဆိုးနှင့် ကြုံရသော်လည်း ရှူးဇဗဲ့သည် စိတ်မပျက် အားမလျှော့ဘဲ ဂျော်ဂျီယား ပြည်နယ်ရှိ ရေပူစမ်းတွင် ရေကူး၍ ခြေထောက်များ သန်စွမ်းလာအောင် ကြိုးစားလေသည်။ ဆင်းရဲ နွမ်းပါးသော သွက်ချာပါဒ ရောဂါသည်များ၏ အကျိုးအတွက် ထိုရေပူစမ်းကို အပြီးအပိုင် ဝယ်ယူသည်။



သက်တမ်းအရှည်ဆုံး အမေရိကန် သမတ အက်(ဖ)၊ဒီ ရူးဇဗဲ့

၁၉၂၄ ခုနှစ်တွင် နိုင်ငံရေးထဲသို့ ပြန်ဝင်ပြီးနောက် ၁၉၂၈ ခုနှစ်၌ နယူးယော့ပြည်နယ် ဘုရင်ခံအဖြစ် ရွေးချယ်ခြင်း ခံရသည်။ ဘုရင်ခံအဖြစ်နှင့် အကျဉ်းထောင် ပြုပြင်ရေး၊ သက်ကြီး ပင်စင်စံနစ်၊ အလုပ်လက်မဲ့ ထောက်ပံ့ရေး၊ လယ်သမားများသက်သာချောင်ချိရေးအစရှိသော လူထုအကျိုးပြုလုပ်ငန်းများကို ဆောင်ရွက်ခဲ့သည်။ ၁၉၃၀ ပြည့်နှစ်တွင် နယူးယော့ပြည်နယ် ဘုရင်ခံအဖြစ် တဖန် အရွေးခံရ၏။ ရူးဇဗဲ့၏ နိုင်ငံရေး ဆောင်ရွက်ချက်များကို အမေရိကန်ပြည်နယ်အများက ထောက်ခံကြသည်။ ဒီမိုကရက်တစ် ပါတီတွင်း၌လည်း သူ၏ သမ္မစိတ္တ အယူအဆများကြောင့် နာမည် ထင်ရှားလာသည်။ သို့ဖြစ်၍ ၁၉၃၂ ခုနှစ်၌ သမတရာထူးအတွက် သမတဟောင်း ဟားဗတ်ဟူးဗားနှင့် ယှဉ်ပြိုင်အရွေးခံရာတွင် ရူးဇဗဲ့ အရွေးခံရလေသည်။

ရူးဇဗဲ့ သမတဖြစ်လာသည့် အချိန်တွင် အမေရိကန် နိုင်ငံသည် ကမ္ဘာ့စီးပွားရေး ညှိုးဖျင်းမှု ကပ်ဆိုးကြီးနှင့် ရင်ဆိုင်နေရသည်။ မဲဆွယ်တရား လှည့်ဟောစဉ်က ထိုကပ်ဆိုးကြီးမှ လွတ်မြောက်အောင် ဆောင်ရွက်မည် ဖြစ်သည် သာမက နောင်အခါ၌လည်း ယင်းကဲ့သို့သော ဘေးအန္တရာယ် မတွေ့ကြုံကြစေရန် စီးပွားရေး အကာအကွယ်များကို စီမံပေးမည် ဟူ၍ ကတိပေးခဲ့လေသည်။ ထို့ကြောင့် သမတ ရူးဇဗဲ့သည် "နယူးဒီး" ဟု အမည်တွင်သည့် စီမံကိန်းဖြင့် ဘဏ်တိုက်များ အခြေခိုင်မြဲတည်တံ့ရေး၊ အလုပ်လက်မဲ့များကို ထောက်ပံ့ရေး၊ ပုဂ္ဂလိကပိုင် ပစ္စည်းကို ကာကွယ်ရေးအပြင် စက်မှုလက်မှုလုပ်ငန်း၊ စိုက်ပျိုးရေးလုပ်ငန်း၊ အိမ်ယာဆောက်လုပ်ရေးလုပ်ငန်းနှင့် သယ်ယူပို့ဆောင်ရေးလုပ်ငန်းတို့တွင် အစိုးရနှင့် ဖက်စပ်ဆောင်ရွက်ခြင်းအားဖြင့် စီမံကိန်းပြု၊ ကြိုးကိုင်ထားသည့် စီးပွားရေးစံနစ် ဖန်တီးရေး စသော အမျိုးသားထူထောင်မှု လုပ်ငန်းများကို စီစဉ်ခဲ့လေသည်။ သမတရူးဇဗဲ့ စီမံကိန်း၏ အခြေခံသဘောမှာ အစိုးရနှင့်လူထု ဆက်ဆံရေး မှန်ကန်မှုပင် ဖြစ်၏။ ထို့ကြောင့် နိုင်ငံအစိုးရသည် လူထုအကျိုးကို ပြုစုရန်တည်ရှိသည်ဖြစ်၍၊ထိုရည်ရွယ်ချက်သို့ရောက်အောင် လိုအပ်သလို ဆောင်ရွက်ပေးရမည် ဟု ဆိုလိုသည်။

လူထုသည် သမတရူးဇဗဲ့၏ စီမံကိန်းကို နှစ်သက်ထောက်ခံသည့် အနေဖြင့် ၁၉၃၆ ခုနှစ်တွင် သမတအဖြစ် ဒုတိယအကြိမ် ရွေးကောက်တင်မြှောက်ကြလေသည်။ သူနှင့် ယှဉ်ပြိုင်အရွေးခံဖက်ကို မဲအပြတ်အသတ်ဖြင့် အနိုင်ရသည်။

၁၉၃၇ ခုနှစ်တွင် ဥရောပတိုက်၌ စစ်ဖြစ်ပွားမည့် အခြေအနေကို ရိပ်စားမိသော သမတရူးဇဗဲ့သည် အမေရိကန်နိုင်ငံ ကုန်းတပ်နှင့် ရေတပ်တို့ကို အင်အားတောင့်တင်းအောင် စီမံခန့်ခွဲလေသည်။ ၁၉၃၉ ခုနှစ်တွင် ဥရောပတိုက်၌ စစ်ဖြစ်ပွားသောအခါ ကွန်ဂရက်လွှတ်တော်က စစ်ထဲသို့ မဝင်လိုသဖြင့် ကြားနေရေးဝါဒကို အက်ဥပဒေများဖြင့် ပြဋ္ဌာန်းအတည်ပြုခဲ့သည်။ သမတကိုယ်တိုင်ကမူ ဝင်ရိုးတန်းနိုင်ငံများနှင့် စစ်ပြိုင်နေသော နိုင်ငံများကို အထောက်အပံ့ ပေးသင့်သည် ဟု ယုံကြည်ခဲ့၏။

၁၉၄၀ ပြည့်နှစ်တွင် ဒီမိုကရက်တစ်ပါတီသည် အစဉ် အလာကို ဖျက်၍ ရူးဇဗဲ့ကိုပင် သမတအဖြစ် အရွေးခံစေသည်။ ရူးဇဗဲ့လည်း သမတအဖြစ် တတိယအကြိမ် ရွေးကောက်တင်မြှောက်ခြင်း ခံရပြန်သည်။ ထိုအချိန်တွင် ဥရောပတိုက် စစ်အန္တရာယ်မှာ ကြီးမားလာပြီ ဖြစ်ရာ အမေရိကန်နိုင်ငံကလည်း စစ်ပြင်ရလေတော့သည်။ အမေရိကန် အစိုးရနှင့် ဗြိတိသျှ အစိုးရတို့ အပြန်အလှန်ကူညီသည့် သဘောဖြင့် ဗြိတိသျှတို့က မိမိတို့၏ စစ်စခန်းများကို အမေရိကန်သို့ နှစ်ရှည် အငှားစာချုပ်ဖြင့် ပေးအပ်၏။ အမေရိကန် အစိုးရက လက်နက်ခဲယမ်း မီးကျောက်နှင့် ဖျက်သင်္ဘောဟောင်း အစင်း ၅၀ ကို ဗြိတိသျှတို့အား ပေး၏။ ထို့ပြင် သမတရူးဇဗဲ့သည် ချေး-ငှား စာချုပ်ဖြင့် ဗြိတိသျှနှင့် ယင်း၏ မဟာမိတ် နိုင်ငံတို့အား စစ်ပစ္စည်း အထောက်အပံ့ကို ပေးလေသည်။

၁၉၄၁ ခုနှစ် ဒီဇင်ဘာလ ၇ ရက်နေ့တွင် ဂျပန်လေတပ်သည် ဟာဝိုင်းယန်းကျွန်း၊ပါးလဟာဗာခေါ် ပုလဲဆိပ်ကမ်းရှိ

အမေရိကန်ရေတပ်စခန်းကို ရုတ်တရက် တိုက်ခိုက်သဖြင့် အမေရိကန်နိုင်ငံလည်း စစ်ထဲသို့ ပါဝင်တိုက်ခိုက်လေသည်။ သမတ ရှူးဇဗဲ့သည် စစ်အောင်နိုင်ရေးအတွက် အစွမ်းကုန် ကြိုးစား၏။ ဗြိတိသျှဝန်ကြီးချုပ် ဝင်စတန်ချာချီနှင့်၎င်း၊ ရုရှခေါင်းဆောင် စတာလင်နှင့်၎င်း စစ်ပရိယယ်နှင့် စပ်လျဉ်း၍ အကြိမ်ကြိမ် တွေ့ဆုံ ဆွေးနွေးခဲ့သည်။

၁၉၄၄ ခုနှစ် ဇွန်လတွင် မဟာမိတ် စစ်တပ်များသည် ဥရောပတိုက် နော်မန်ဒီ ကမ်းခြေပေါ်သို့ တက်မိကြလေသည်။ ထိုနှစ်၌ သမတသက်တမ်း ကုန်ဆုံးသော်လည်း ရှူးဇဗဲ့သည် စစ်ပွဲကို အပြီးတိုင်ကွပ်ကဲလိုသဖြင့် သမတအဖြစ် ထပ်မံ အရွေးခံရာ စတုတ္ထအကြိမ် ရွေးကောက် တင်မြှောက်ခြင်း ခံရလေသည်။ ၁၉၄၅ ခုနှစ် ဖေဖွာရီလတွင် သမတ ရှူးဇဗဲ့သည် ကရိုင်းမီးယား ကျွန်းဆွယ်ရှိ ယော်လတာမြို့၌ ဝင်စတန် ချာချီ၊ စတာလင်တို့နှင့် တွေ့ဆုံပြန်၍ နောင်တွင် ကမ္ဘာ့ ကုလသမဂ္ဂ ဟု အမည်ထင်ရှားသော အပြည်ပြည်ဆိုင်ရာ အဖွဲ့အစည်းတခု ဖွဲ့စည်းရေးအတွက် အစပျိုးခဲ့လေသည်။ ထိုအချိန်တွင် သမတရှူးဇဗဲ့၊ ဗြိတိသျှ ဝန်ကြီးချုပ် ချာချီနှင့် ရုရှခေါင်းဆောင်ကြီး စတာလင်တို့ကို "ကြီးသုံးကြီး" ဟူ၍ ခေါ်တွင်လျက် ရှိသည်။

သမတရှူးဇဗဲ့သည် မဟာမိတ်တပ်များ အောင်ပွဲခံရချိန်ကို မမြင်ရလိုက်ချေ။ ဂျော်ဂျီးယား ပြည်နယ်၊ ရေပူစမ်းတွင် ခေတ္တအနားယူနေစဉ် ၁၉၄၅ ခုနှစ် ဧပြီလ ၁၂ ရက်နေ့၌ အနိစ္စရောက်လေသည်။ ဒုတိယ သမတ ဟယ်ရီ ထရူးမင်းက ထိုနေ့၌ပင် သမတရာထူးကို ဆက်ခံသည်။ သမတ ရှူးဇဗဲ့၏ "လွတ်လပ်မှုလေးချက်" သည်၎င်း၊ ဗြိတိသျှ ဝန်ကြီးချုပ်နှင့် ပူးတွဲကြေညာခဲ့သော "အတ္တလန္တိတ်ချာတာ" သည်၎င်း လွတ်လပ်သော နိုင်ငံတို့၏ ရည်မှန်းချက် ပန်းတိုင်များ ဖြစ်ကြပေသည်။

**ရှူးဗင့်,ပီတာပေါ** (ခရစ် ၁၅၇၇ – ၁၆၄၀)။ ။ပီတာပေါ ရှူးဗင်သည် နာမည်ကျော် ဖလင်းမစ်အမျိုးသား ပန်းချီဆရာ ဖြစ်သည်။ ရှူးဗင်သည် ရီနေဆွန်းခေတ် ဣတာလီနိုင်ငံ ပန်းချီလက်ရာကို ဥရောပမြောက်ပိုင်း ထိပ်တန်းပန်းချီလက်ရာနှင့် ပေါင်းစပ်ပြီးလျှင် ဆေးရောင်ခြယ်ခြင်း၊ ပုံဖော်ခြင်းတို့၌ မိမိဉာဏ်ကွန့်၍ ရေးဆွဲခဲ့သည်။ ထိုကြောင့် ရှူးဗင်ကွယ်လွန်ပြီးနောက် နှစ်ပေါင်း များစွာ ဥရောပတိုက်ရှိ ပန်းချီဆရာတို့က သူ၏လက်ရာကို အတုယူ ရေးဆွဲကြရလေသည်။

ဗဲလဂျီယမ် နိုင်ငံ၊ အန့်တွပ်မြို့ရှိ ရှူးဗင်၏ နေအိမ်သို့ ပန်းချီပညာသင်မြောက်မြားစွာတို့လာရောက်၍ တပည့်ခံကြသည်။ ပုံတူကား ရေးဆွဲရာ၌ နာမည်ကျော်သော ပန်းချီဆရာ ဗန်ဒိုက်မှာ ရှူးဗင်၏တပည့်ဖြစ်သည်။ (ဗန်ဒိုက်,ဆာအန်တိုနီ — ရှု။) ရှူးဗင်ရေးဆွဲခဲ့သော ပန်းချီကားပေါင်း ၁,၂၅၀ ခန့်တွင် ရှုခင်းပုံနှင့် တိရစ္ဆာန်ပုံ ပန်းချီကားများလည်း ပါဝင်၏။ ထုံးဟောင်း ပုံပြင်နှင့် အယူဝါဒ ဆိုင်ရာ ပန်းချီကားများ၊ ပုံတူ ပန်းချီကားများလည်း ပါဝင်၏။ ရှူးဗင်သည် နန်းတော်နံရံတွင် တန်ဆာဆင်ရန် ပန်းချီကားချပ်ကြီးများ၊ ကသီဒရယ်ဘုရားရှိခိုးကျောင်းတွင် တန်ဆာဆင်ရန် ပန်းချီကားချပ်ကြီးများကို ရေးဆွဲရန် အထူးပင် ဝါသနာထုံသည်။ ရှူးဗင်၏ ပန်းချီကားများသည် အသက်ဝင်လျက် ရှိပြီးလျှင် သူ၏ လက်စွမ်းနှင့် စိတ်ကူးဉာဏ်ကို ထုတ်ဖော်ပြသလျက် ရှိပေသည်။

ရှူးဗင်ကို ၁၅၇၇ ခုနှစ် ဇွန်လ ၂၈ ရက်နေ့တွင် ဂျာမနီနိုင်ငံ အနောက်ပိုင်း ဆီးဂျင်းမြို့၌ ဖွားမြင်သည်။ ဖခင်သည် ဗဲလဂျီယမ်နိုင်ငံသား ဖြစ်သော်လည်း အယူဝါဒ အစွဲအလမ်းကြောင့် ပြည်နှင်ဒဏ် ခံနေရသူ ဖြစ်၏။ ရှူးဗင်သည် ဖခင်ကွယ်လွန်ပြီးနောက် မိခင်နှင့်အတူ ဇာတိအရပ် ဖြစ်သော အန့်တွပ်မြို့သို့ ပြောင်းရွှေ့ နေထိုင်ခဲ့ကြသည်။ ၁၅၉၈ ခုနှစ်တွင် ပန်းချီဆရာအသင်းဝင် တဦး ဖြစ်လာပြီးလျှင် နှစ် နှစ်ကြာသောအခါ ဣတာလီနိုင်ငံသို့ သွားရောက်၍ မန်တူအာမြို့စားထံ၌ ခစားသည်။ ရှူးဗင်သည် မြို့စားကြီးအတွက် ပန်းချီကားပေါင်း များစွာ ရေးဆွဲခဲ့ရသည့်အပြင် ရောမမြို့၊ ဂျီနိုးအာမြို့နှင့် ဗင်းနစ်မြို့များ၌ ဣတာလီ ရီနေဆွန်းခေတ်မှ ပန်းချီကျော်တို့၏ လက်ရာများကို လေ့လာခဲ့ရလေသည်။

၁၆၀၈ ခုနှစ်တွင် အန့်တွပ်မြို့သို့ ပြန်လာပြီးနောက် မကြာမီ အဇ္ဇဗဲလားဗရန့်ဆိုသူနှင့် လက်ထပ်သည်။ ၁၆၂၂ ခုနှစ်တွင် ပြင်သစ်ဘုရင် ၁၃ ဆက်မြောက်လူဝိ၏ မယ်တော်က ရှူးဗင်အား ဖိတ်ခေါ်၍ သူ၏ဘဝအဖြစ်အပျက်များကို ပန်းချီကားများဖြင့် သရုပ်ဖော်စေ၏။ ထိုပန်းချီကားများသည် ပါရစ်မြို့၊ လပ်ဇင်ဗူး နန်းတော်၌ တန်ဆာဆင်ရန် ဖြစ်လေသည်။

ပန်းချီကျော် ရှူးဗင်သည် သံတမန်အဖြစ်လည်း အရည်အချင်း ပြည့်သူဖြစ်၏။ ၁၆၂၈ ခုနှစ်တွင် ဖလင်းမစ်ဘုရင်ခံက ရှူးဗင်အား သံတမန်အဖြစ် စပိန်နိုင်ငံ စတုတ္ထဖိလစ်ဘုရင်ထံသို့ စေလွှတ်ခဲ့သည်။ နောက်တနှစ်တွင် စပိန်နိုင်ငံနှင့် အင်္ဂလန် နိုင်ငံတို့ စစ်ပြေငြိမ်းရေး စာချုပ်ကို ချုပ်ဆိုရန် အင်္ဂလန်နိုင်ငံ ပဌမ ချားဘုရင်ထံသို့ ကိုယ်စားလှယ် အဖြစ် စေလွှတ်ခြင်း ခံရလေသည်။ ရှူးဗင်သည် တာဝန်ကို ကျေပြွန်စွာ ထမ်းဆောင်နိုင်သဖြင့် ချားဘုရင်က ဆာဘွဲ့ အပ်နှင်း၍ သူကောင်း ပြုသည်။ စပိန်ဘုရင်ကလည်း ဘွဲ့ထူးဖြင့် ချီးမြှင့်လေသည်။

ထိုနောက် ရှူးဗင်သည် သံတမန်ရာထူးကို စွန့်လွှတ်ပြီးလျှင် အန့်တွပ်မြို့၌ အေးချမ်းစွာ နေထိုင်လေသည်။ ပဌမ ဇနီးသည် ၁၆၂၆ ခုနှစ်တွင် ကွယ်လွန်ခဲ့ရာ ၁၆၃၀ ပြည့်နှစ်၌ ဟယ်လီနာဖိုးမင့်ဆိုသူနှင့် လက်ထပ်ပြန်သည်။ ရှူးဗင်သည် ခန့်ညားထယ်ဝါစွာ နေထိုင်၏။ သူ၏ နေအိမ်ကြီးတွင် ရှေး



ပန်းချီကျော် ပီတာပေါ ရှူးဗင်

ခေတ်နှင့် နှောင်းခေတ် ပန်းချီလက်ရာကျော်များဖြင့် တန်ဆာဆင်ထားသည်။ သူ၏ ပဌမဇနီးနှင့်ကလေးများ ပုံတူပန်းချီကား၊ ဒုတိယဇနီး ပုံတူပန်းချီကားများသည် အနုပညာလက်ရာမြောက်သော ပန်းချီကားများအဖြစ် ထင်ရှားသည်။ မင်းစိုးရာဇာပိုင်းကရင်း၊ အနုပညာရှင်ပိုင်းကရင်း ရှူးဗင်နှင့် မိတ်ဖွဲ့၍ သူ့အိမ်သို့ ဝင်ထွက်သွားလာလေ့ ရှိကြသည်။ ရှူးဗင်သည် ၁၆၄၀ ပြည့်နှစ် မေလ ၃၀ ရက်နေ့တွင် အနိစ္စ ရောက်လေသည်။ (နယ်သာလန် အနုပညာ — လည်းရှု။)

ရှူးဝါးနယ်။ ။ဂျာမနီ နိုင်ငံ အနောက် မြောက်ပိုင်းတွင် ရိုင်းမြစ်၏ လက်တက်ဖြစ်သော ရှူးဝါးမြစ် စီးဆင်းရာ မြစ်ဝှမ်းဒေသ တပိုင်းကို ရှူးဝါးနယ် ဟု ခေါ်သည်။ အကျယ်အဝန်းအားဖြင့် အလျား ၉၅ မိုင်ခန့်နှင့် အနံ ၆၅ မိုင်ခန့်ရှိ၏။ ရှူးဝါးနယ်တွင် ကျောက်မီးသွေး အမြောက်အမြားထွက်သဖြင့် ဥရောပတိုက်၌ စက်မှုလက်မှုလုပ်ငန်း အကြီး အကျယ် ထွန်းကား၍ လူဦးရေ ထူထပ်သောဒေသ ဖြစ်သည်။ မီးရထားလမ်း၊ မြစ်လမ်းနှင့် တူးမြောင်းလမ်းများရှိ၍ လမ်းပန်းဆက်သွယ်ရေး ကောင်းသည်။

ရှူးဝါးနယ်တွင် စက်မှုလက်မှုလုပ်ငန်း အတွက် အချက်အခြာ မြို့ကြီးများမှာ အက်ဆင်မြို့၊ ဒေါ့တမွန်မြို့၊ ဒူဇယ်ဒေါ့မြို့၊ ဒိဇဗုမြို့နှင့် ဗူပါတယ်မြို့များဖြစ်၍ ဂျာမနီနိုင်ငံ၏ လက်နက်ပြုလုပ်ရာဌာန ဖြစ်သည်။ ဒုတိယ ကမ္ဘာစစ်မတိုင်မီက ဂျာမနီနိုင်ငံတွင် အလွန်ကြီးကျယ်သော ကရပ် လက်နက်အလုပ်ရုံများမှာ ထိုဒေသ၌ တည်ရှိလေသည်။

ပဌမ ကမ္ဘာစစ် (၁၉၁၄—၁၈) ပြီးသည့်နောက် ဗာဆေးစာချုပ်အရ ဂျာမန်တို့သည် ရှူးဝါးနယ်ရှိ လက်နက်အလုပ်ရုံများကို အခြားသံထည်ပစ္စည်း ထုတ်လုပ်ရေးအတွက် အသုံးချကြသည်။ ၁၉၃၃ ခုနှစ်တွင် ဟစ်တလာ အာဏာရလာသောအခါ ထိုနယ်ကို လက်နက်အလုပ်ရုံကြီးအဖြစ်သို့ ပြန်၍ ပြောင်းလိုက်လေသည်။ ဒုတိယ ကမ္ဘာစစ်အတွင်းက မဟာမိတ်လေတပ်သည် ရှူးဝါးနယ်ကို သဲသဲမဲမဲဗုံးကြဲတိုက်ခိုက်ခဲ့သည်။ ၁၉၄၅ ခုနှစ် ဧပြီလတွင် မဟာမိတ်တပ်များသည် ထိုနယ်ကို သိမ်းပိုက်မိပြီးလျှင် ဗြိတိသျှ အုပ်ချုပ်ရသော အပိုင်း၌ ထည့်သွင်းထားကြလေသည်။

၁၉၄၉ ခုနှစ်မှ စ၍ အမေရိကန်နိုင်ငံ၊ ဂရိတ်ဗြိတိန်နိုင်ငံ၊ ပြင်သစ်နိုင်ငံနှင့် ဗဲလဂျီယမ်စသော ဥရောပတိုက်ရှိမဟာမိတ်နိုင်ငံတို့ စုပေါင်း၍ အပြည်ပြည်ဆိုင်ရာ ရှူးဝါးအာဏာပိုင်အဖွဲ့ကိုဖွဲ့စည်းကာ ရှူးဝါးနယ်ရှိ သတ္တုတွင်းများ၊ ကျောက်မီးသွေးတွင်းများကို ထိန်းသိမ်းခဲ့ကြသည်။ ၁၉၅၂ ခုနှစ်တွင် အနောက်ဂျာမနီအပါအဝင် ဖြစ်သော အထက်ပါ နိုင်ငံများသည် ထိုနယ်ရှိသတ္တုတွင်းများ ထိန်းသိမ်းရေးအတွက် အသစ်ထပ်မံ ဖွဲ့စည်းလိုက်သော ဥရောပ ကျောက်မီးသွေးနှင့် သံမဏိအဖွဲ့က ထိုအာဏာပိုင်အဖွဲ့၏ လုပ်ငန်းကို လက်ပြောင်းယူလိုက်လေသည်။

ရှူးသွပ်ခြင်း။ ။ရှူးသွပ်ခြင်း ဆိုသည်မှာ ဦးနှောက်က အမှုဆောင်ရွက်ရာတွင် အစီအစဉ်မရှိခြင်းကို ဆိုလိုသည်။ ထိုသို့သော လူတယောက်သည် အပေါင်းအသင်းများနှင့် ဝင်ဆံ့အောင် ဆောင်ရွက်နိုင်စွမ်း မရှိချေ။

စိတ်ကမောက်ကမ ဖြစ်နေသူများအား ကုသသည့်ဆရာများကို စိတ်ရောဂါကုဆရာ ဟု ခေါ်သည်။ စိတ်ရောဂါကုဆရာများက စိတ်အလွန်အကျူး ကမောက်ကမဖြစ်နေသူများကို ချာချာရှူးသူများဟု ပြောလေ့ရှိကြသည်။ ရှူးသွပ်ခြင်းသည် ဦးနှောက်ဆဲများ အမှန်ပင်ထိခိုက်ခြင်းကြောင့်၎င်း၊ အင်္ဂါများနှင့်ဆိုင်ရာတွင် ရောဂါဖြစ်ခြင်းကြောင့်၎င်း ဖြစ်နိုင်သည်။ ဦးနှောက် ဆဲများတွင် ထိခိုက်မှု မရှိသည့်တိုင်အောင် စိတ်ကအမှုဆောင်ရွက်ရာတွင် အစီအစဉ် အတိုင်း မဆောင်ရွက်လျှင် ရှူးသွပ်သည် ဟု ဆိုသဖြင့် ရှူးသွပ်ခြင်းသည် အမှုဆောင်ရွက်ခြင်းနှင့် သက်ဆိုင်နေလေသည်။

စိတ်ကမောက်ကမ ဖြစ်ခြင်းသည် အကြောင်း အမျိုးမျိုးကြောင့် ဖြစ်သော်လည်း ယေဘုယျအားဖြင့် အကြောင်းနှစ်မျိုးကြောင့် ဖြစ်တတ်သည်။ ပဌမအကြောင်းမှာ တင်ကူး

၍ သဘောပါခြင်းနှင့် ဒုတိယအကြောင်းမှာ လှုံ့ဆော်ခြင်းတို့ ဖြစ်သည်။ မျိုးရိုးလိုက်၍ ဖြစ်တတ်ခြင်း၊ အသက်၊ လိင်၊ ပတ်ဝန်းကျင် အခြေအနေ၊ ရာသီဥတုနှင့် ခန္ဓာကိုယ် ကျန်းမာမှုတို့သည် တင်ကူး၍ သဘောပါသည့် အကြောင်းများဖြစ်သည်။ လှုံ့ဆော်ခြင်းအကြောင်းများတွင် ခန္ဓာကိုယ်၌ အဆိပ်ဖြစ်ခြင်းနှင့် ကူးစက်ခြင်း၊ ပန်းလျှခြင်း၊ ဒဏ်ရာများရခြင်းနှင့် ဦးနှောက်နှင့် အခြားအင်္ဂါများတွင် ရောဂါ ဖြစ်ခြင်းများပါဝင်သည်။ စိတ်ဒုက္ခရောက်ခြင်း၊ ပူပန်ခြင်း၊ ထိတ်လန့်ခြင်းနှင့် တုန်လှုပ်ခြင်းများလည်း ပါဝင်သည်။

စွဲလမ်း လွန်ခြင်းနှင့် စိတ်ညှိုးငယ်ခြင်းတို့သည်လည်း ရူးသွပ်ခြင်းတမျိုးပင် ဖြစ်သည်။ စွဲလမ်းလွန်ခြင်းသည် စိတ်လှုပ်ရှားမှုနှင့်ဆိုင်သော လှုပ်ရှားမှု ဖြစ်သည်။ လူတယောက်မမောမပန်းဘဲ လှုပ်ရှားပြောဆိုနေလျှင် သူသည် အလွန်အားကောင်းသည်ဟု ထင်တတ်သည်။ စိတ်ညှိုးငယ်သောအခါတွင် သူ၏ အကြံအစည်၊ စကားပြောခြင်းနှင့် လှုပ်ရှားမှုများသည် နှေးကွေးပြီးလျှင် စိတ်ညစ်၍ လွန်စွာ စိတ်ညှိုးငယ်တတ်သည်။ တခါတရံတွင် ထိုနှစ်မျိုးသည် တလှည့်စီ ဖြစ်တတ်၍ တခါတရံတွင် ထိုလက္ခဏာနှစ်မျိုး ရောစပ်ပြီးလျှင် လှုပ်ရှားသည့်စိတ်သည် ညှိုးငယ်ခြင်း ဖြစ်နေတတ်သည်။

အသက်အရွယ်ကြီးရင့်သူများ သူငယ်ပြန်ခြင်းသည်လည်း ရူးသွပ်ခြင်း တမျိုးပင် ဖြစ်သည်။ ထိုသို့ဖြစ်ရသည်မှာ ဦးနှောက်နှင့် သွေးကြောများတွင် အပြောင်းအလဲများ ဖြစ်ခြင်းကြောင့် ဖြစ်သည်။

သွေးလွှတ်ကြောများ မာလာခြင်း၊ အရက် စွဲမြဲစွာ အလွန်သောက်ခြင်း၊ ဝက်ရူးနာနှင့် လေသင်ဓုန်းတို့ကြောင့်လည်း ရူးသွပ်တတ်သေးသည်။

ဆစ်ဖလစ်ရောဂါ ရင့်ကျက်လာသော အခါတွင်လည်း ဦးနှောက်ဆဲများ ပျက်စီးကာ ရူးသွပ်တတ်သည်။

ယခုအခါတွင် ရူးသွပ်သူများအား သင့်မြတ်မည့် အစာများကို ကျွေးခြင်း၊ ကိုယ်လက် လှုပ်ရှားစေခြင်း၊ စိတ်ကို ရွှင်မြူးပျော်ပါးစေခြင်းများ ပြုလုပ်ပေးခြင်းဖြင့် ကုသပေးကြသည်။ ထိုပြင် စိတ်ကုဆရာဝန်များက စိတ်တွင် ရောဂါ ဖြစ်ခြင်းသည် အခြားကိုယ်အင်္ဂါ အစိတ်အပိုင်းဖြစ်သော နှလုံး၊ ကျောက်ကပ် စသည်တို့တွင် ရောဂါဖြစ်ခြင်းနှင့်မထူးဟု ယူဆကြပြီးလျှင် ပုံပမာ အူအတက်နာ ပေါက်သောအခါတွင် ထိုအနာကို ဖယ်ရှား၍ ကုသပေးသကဲ့သို့ စိတ်ရောဂါဖြစ်ရာတွင်လည်း စိတ်ရောဂါ၏ ဒဏ်ရာဒဏ်ချက်ကို ဖယ်ရှားပေးနိုင်ရန် ကြိုးစားကြလေသည်။

**ရေ**။ ။ထမင်းအသက် ခုနစ်ရက်၊ ရေအသက် တမနက်ဟူ၍ ဆိုရိုးစကား ရှိသည်။ ရေသည် လူနှင့် သက်ရှိ မှန်သမျှအတွက် မရှိလျှင်မဖြစ်သော ပစ္စည်းဖြစ်သည်။ အပင် အားလုံး အတွက်လည်း ရေသည် မရှိလျှင် မဖြစ်ချေ။ မြန်မာနိုင်ငံကဲ့သို့ လယ်ယာကိုင်းကျွန်းပေါ်တွင် အားထားနေရသော နိုင်ငံအဖို့ လယ်ယာ ဖြစ်မြောက်ရေး အတွက် မိုးရေကို လွန်စွာ အားကိုးရလေသည်။

လူသည် ရေကို သောက်သုံးရန်နှင့် ဆေးကြောရန်အတွက် လိုပေသည်။ ရေချိုးရန်နှင့် ထမင်း ဟင်းချက်ရန် အတွက်လည်း လိုသည်။ လူများ ရှူနေကြရသော လေပြီးလျှင် ရေသည် လူ့အတွက် ဒုတိယ အရေးအကြီးဆုံးပစ္စည်း ဖြစ်ကောင်း ဖြစ်ပေလိမ့်မည်။ ရေသာ မရှိလျှင် သက်ရှိမှန်သမျှသည် သေကုန်ကြပေလိမ့်မည်။ သက်ရှိ တိရစ္ဆာန်နှင့် အပင်များတွင် ရေသည် အခြားပစ္စည်းများထက် ပို၍ ပါရှိသည်။ ကုန်များကို တနေရာမှတနေရာသို့ ပို့ဆောင်ပေးရာတွင်လည်း မြစ်ချောင်းများနှင့် ပင်လယ်သမုဒ္ဒရာများရှိ ရေများပေါ်တွင် သွားလာနိုင်ကြသည့် လှေသင်္ဘောများဖြင့် တင်ဆောင်လျှင် စရိတ်မှာ အသက်သာဆုံး ဖြစ်တတ်ပေသည်။ ချောင်းများ၊ မြစ်များ၊ ပင်လယ် သမုဒ္ဒရာများနှင့် အင်းအိုင်များသာ မရှိလျှင် ကမ္ဘာကြီးသည် ငြီးငွေ့ဖွယ်ရာ ဖြစ်ပေလိမ့်မည်။ ချောင်း၊ မြစ်၊ ပင်လယ်၊ သမုဒ္ဒရာနှင့် အင်းအိုင်များဟု ခေါ်နေကြခြင်းမှာလည်း ယင်းတို့ရှိ ရေများကြောင့်သာ ခေါ်နေနိုင်ကြခြင်း ဖြစ်ပေသည်။ ထို့ကြောင့် ရေသည် သက်ရှိအဖို့ လွန်စွာ အရေးကြီးလေသည်။

ဓာတုဗေဒ အလိုအားဖြင့် ရေသည် အဆင်း မရှိသည့် အရည်တမျိုးဖြစ်၍ ရေကို ဓာတုသင်္ကေတဖြင့် $H_2O$ ဟု ရေးရသည်။ ထိုသင်္ကေတအရ ရေမော်လီကျူး တခု၌ ဟိုက်ဒြိုဂျင်အက်တမ်နှစ်ခုနှင့် အောက်ဆီဂျင် အက်တမ်တခု ပါရှိနေကြောင်း သိနိုင်သည်။ ဟိုက်ဒြိုဂျင်သည် အလွန် ပေါ့သော ဓာတ်ငွေ့တမျိုး ဖြစ်၍ ကြက်ပေါင်စေး ပူဖောင်းကလေးအတွင်းသို့ ထိုဓာတ်ငွေ့ကို သွင်းပေးလျှင် ထိုပူဖောင်းကလေး ကောင်းကင်သို့ ပျံတက်သွားသည်ကို တွေ့မြင်ဘူးပေမည်။ အောက်ဆီဂျင်သည် ကျွန်ုပ်တို့ ရှူရှိုက်နေသည့် လေထု အတွင်း၌ ၂၀ ရာခိုင်နှုန်းခန့် ပါရှိ၍ ထိုဓာတ်ငွေ့သာ လေထုအတွင်း၌ မရှိလျှင် သက်ရှိတိုင်းသည် အမှန်ပင် သေကြရပေမည်။ ဟိုက်ဒြိုဂျင်ဓာတ်ငွေ့နှင့် အောက်ဆီဂျင် ဓာတ်ငွေ့တို့ သမအောင် ရောနေကြလျှင် ထိုဓာတ်ငွေ့ရော နှစ်မျိုးကို မီးပွားကလေးတခုဖြင့် ပေါင်းသွားအောင် လုပ်ယူနိုင်သည်။ ထိုဓာတ်ငွေ့နှစ်မျိုး ပေါင်းသွားကြသော အခါတွင် ပေါက်ကွဲမှုဖြစ်ပြီးလျှင် ရေဖြစ်သွားသည်။ ရေတပေါင် ဖြစ်ပေါ်စေရန် ကုဗပေ ၂၀ ခန့်ရှိသော ဟိုက်ဒြိုဂျင် ဓာတ်ငွေ့နှင့် ၁၀ ကုဗပေခန့်ရှိသော အောက်ဆီဂျင် ဓာတ်ငွေ့တို့ကို ပေါင်းစပ်အောင် ပြုလုပ်ပေးရသည်။

၁၈၃၁ ခုနှစ်သို့ ရောက်သောအခါ ရေတွင် အောက်ဆီဂျင်သည် သာမန် ဟိုက်ဒြိုဂျင်နှင့် သော်၎င်း၊ ဟိုက်ဒြိုဂျင် အ

လေးစားနှင့် သော်ရင်း ပေါင်းစပ်၍နေနိုင်ကြောင်းကို ထပ်မံတွေ့ရှိလာကြပြန်သည်။ ဟိုက်ဒြိုဂျင် အလေးစား၏ အက်တမ် တခုသည် သာမန် ဟိုက်ဒြိုဂျင် အက်တမ်နှစ်ခုစာမျှလေးသည်။ ထိုသို့နှစ်ဆလေးသော ဟိုက်ဒြိုဂျင်နှင့် အောက်ဆီဂျင် ပေါင်းနေသည့် 'ရေလေး' ကို ဒျူတီရီယမ်အောက်ဆိုက် $D_2O$ ဟု ခေါ်သည်။ အဆပေါင်း ၅၀၀ မှ ၆,၀၀၀ အထိ ရှိသော သာမန်ရေတွင် ရေလေးတဆ ပါရှိနေတတ်သည်ဟု သိရသည်။ ထိုရေလေးသည် သာမန်ရေထက် ၁၁ ရာခိုင်နှုန်းမျှ ပို၍ လေးသည်။ ထိုရေလေးကို ရေငွေ့ပျံစေခြင်းဖြင့်ဖြစ်စေ၊ လျှပ်စစ်ဓာတ်ခွဲနည်းဖြင့်ဖြစ်စေ ခွဲထုတ်နိုင်သည်။ ထိုရေလေး၏ သိပ်သည်းခြင်း၊ ရေဆူမှတ်နှင့်ရေခဲမှတ်တို့သည် သာမန်ရေထက် ပို၍ မြင့်ကြသည်။

ရေခဲဆိုသည်မှာ ခဲနေသော ရေပင် ဖြစ်သည်။ မည်သည့်ပစ္စည်းမျိုးကိုမဆို အပူချိန်နည်းသည်ထက် နည်းအောင် လျှော့ချနိုင်လျှင် ထိုပစ္စည်းသည် ခဲသွားလိမ့်မည်။ သို့သော် ရေခဲတွင် ရှိသည့် ထူးခြားချက်တခုမှာ ရေလောက် မသိပ်သည်းခြင်း ဖြစ်၏။ ထိုအချက်ကြောင့် ရေခဲသည် ရေပေါ်၌ ပေါ်၍ နေနိုင်သည်။ တနည်းဆိုလျှင် ရေသည် ခဲသွားသောအခါ၌ ပို၍ ပြန့်ကားသွားလေသည်။

အေးသည့်နိုင်ငံများ၌ ပြတင်းပေါက် မှန်များတွင် တွယ်ကပ်နေကြသည့် နှင်းပေါက်ခဲကလေးများသည်လည်း လေအတွင်းရှိ ရေငွေ့များမှ ဖြစ်လာသော ပုံဆောင်ခဲ ကလေးများသည် ပါးလွှာသော အလွှာ ဖြစ်နေခြင်းမျှသာ ဖြစ်သည်။ ထို့ကြောင့် နှင်း၊ မိုးနှင်းနှင့် မိုးသီးများသည် ခဲနေသော ရေ၊ သို့မဟုတ် ရေခဲကလေးများပင် ဖြစ်ကြသည်။ ထိုရေခဲကလေးများသည် တိမ်အတွင်းရှိ ရေပေါက်ကလေးများ အေး၍ ခဲသွားရာမှ ဖြစ်လာကြခြင်း ဖြစ်ပေသည်။

အပူ တိုက်ပေးရာတွင် ရေသည် အခြားပစ္စည်းများထက် ပို၍ အပူလိုသည့်အပြင် အအေးဓာတ်ဖြင့် တိုက်ပေးရာတွင်လည်း အအေးကို ပို၍ လိုလေသည်။ ထို့ကြောင့်လည်း ရေနွေးအိတ်၊ သို့မဟုတ် ရေနွေးပုလင်းသည် အပူကို အခြားပစ္စည်းများထက် ပို၍ ပေးနိုင်ခြင်း ဖြစ်သည်။ တနည်းဆိုလျှင် ရေနှင့် အရွယ်တူပစ္စည်း တမျိုးမျိုးကို အပူအချိန်တူပေးထားလျှင် ထိုပစ္စည်းထက် ပို၍ ရေကို အပူပေးရလေသည်။ သိပ္ပံပညာရှင်များက ထိုကဲ့သို့သော အရည်အချင်းမျိုးရှိခြင်းကို "အပူဆ" ပို၍ ရှိသည်ဟု ဆိုကြသည်။ ဥဒါဟရဏ်အဖြစ် ပြရလျှင် ရေတပေါင်နှင့် မြေခြောက်တပေါင်ကို အပူချိန် တစ် ဒီဂရီထက်လာစေရန် အပူတိုက်ပေးလျှင် ရေကို အပူ တိုက်ပေးရခြင်းသည် မြေခြောက်ကို အပူတိုက်ပေးရသည်ထက် ကယ်လိုရီ (အပူကေမူ) ပေါင်း ငါးဆ ပို၍များသည်။ ပို၍ ရှင်းအောင် ပြောရလျှင် နေသည် ကုန်းမြေနှင့် ရေပြင်ကို အတူတူပင် အပူတိုက်ပေးနေသော်လည်း သတ်မှတ်ထားသည့် အပူချိန်တခုသို့ ရောက်လာစေရန်အတွက် ရေကို အပူတိုက်ပေးရသည့် အချိန်သည် ကုန်းမြေကို အပူတိုက်ပေးရသည့် အချိန်ထက် ငါးဆမျှ ပို၍ ကြာလေသည်။

ထို့ကြောင့်နွေရာသီတွင် ကုန်းပေါ်၌ ပူအိုက်နေသောအခါ ရေပြင်တွင် အေးလျက်သာ ရှိသေးသည်။ ထို့ကြောင့် အေးသည့် 'လေပြည်'များသည် ရေပြင်များမှ ကုန်းပေါ်သို့ တိုက်ခတ်လာခြင်းဖြစ်သည်။ နွေရာသီကုန်ဆုံးသွားသော အခါတွင်မူ ရေပြင်မှ ရေများသည် အပူကို စုဆောင်းပြီးသား ဖြစ်နေသဖြင့် ဆောင်းရာသီတွင် အပူကို တဖြည်းဖြည်းထုတ်လွှတ်ပေးလေသည်။ ထိုနည်းဖြင့် ရေပြင်ကျယ်ကြီးများဖြစ်ကြသောပင်လယ် သမုဒ္ဒရာကြီးများက ယင်းတို့၏ အနီးရှိ ကုန်းမြေများ၏ ရာသီဥတုဆိုးရွားမှုကို တားဆီးပေးနိုင်ခြင်း ဖြစ်ပေသည်။

အရည်များတွင် 'မျက်နှာပြင်တင်းအား' ရှိသည်။ ထိုသို့ဖြစ်ရသည်မှာ အရည်တို့၏ မျက်နှာပြင်များရှိ မော်လီကျူးများသည် အချင်းချင်း ပူးကပ်နေစေရန် တွယ်ကပ်၍ နေကြခြင်းကြောင့်ဖြစ်သည်။ ရေရှိ မော်လီကျူးများသည် ရေကို မိုးပေါက်ကလေးများကဲ့သို့ အလုံးကလေးများ ဖြစ်နေစေရန် ပူးကပ်၍ နေကြလေသည်။ ထိုသို့ မျက်နှာပြင်တင်းအား ရှိနေခြင်းကြောင့် ဖန်ခွက်တခုတွင် ထည့်ထားသည့် ရေမျက်နှာပြင်ပေါ်သို့ သံမဏိဖြင့် ပြုလုပ်ထားသည့် အပ်တချောင်းကို အလျားလိုက် ဂရုတစိုက်ချကြည့်လျှင် အပ်သည်ရေထက် အဆပေါင်းများစွာ သိပ်သည်းသော်လည်း ရေပေါ်၌ ပေါ်နေသည်ကို တွေ့ရခြင်း ဖြစ်သည်။ ထိုသို့ အပ်ပေါ်နေသည့်နေရာကို သေချာစွာကြည့်လျှင် ရေမျက်နှာပြင်ရှိ အမြှေးပါးကလေးသည် အပ်၏ အောက်ဖက်တွင် အပ်၏ အလေးချိန်ကြောင့် နိမ့်ကျနေသည်ကို တွေ့ရပေမည်။

ရေ၏ မျက်နှာပြင်တွင် မော်လီကျူးများသည် အချင်းချင်း ပူးကပ်အောင် တွယ်နေကြသဖြင့် ရေတခွက်အတွင်းရှိ ရေသည် ငြိမ်သက်နေသည်ဟု ထင်ရပေသည်။ သို့သော် ထိုသို့ကား မဟုတ်ချေ။ အမှန်မှာ ရေသည် လှုပ်ရှား၍သာ နေပေသည်။ မျက်နှာပြင်ရှိ ရေမော်လီကျူး မြောက်မြားစွာသည် ရေမှ ပတ်ဝန်းကျင်ရှိ လေထုအတွင်းသို့ ထွက်ခွာလျက် ရှိကြလေသည်။ ထိုသို့ လွတ်ထွက်ကုန်ကြသည့် ရေမော်လီကျူးများသည် ရေငွေ့အဖြစ်သို့ပြောင်းလဲကုန်ကြလေသည်။ ရေတခွက်ကို သာမန် အပူချိန်ရှိသည့် အခန်းအတွင်း၌ ရက်ပေါင်းများစွာ ထားလျှင် ရေခွက် အတွင်းရှိ ရေအားလုံး ပျောက်ကွယ်သွားသည်ကို တွေ့ရလိမ့်မည်။ ထိုရေအားလုံးသည် ရေငွေ့အဖြစ်သို့ ပြောင်းလဲကုန်ကြလေသည်။ ရေငွေ့ဖြစ်ကုန်သဖြင့်လည်း ယင်းတို့ကို မမြင်နိုင်တော့ချေ။

ရေထည့်ထားသည့် အဆိုပါ ရေခွက်ကိုပင် နေပူထဲ၌ ထားလျှင် ရေသည် ပူလာမည် ဖြစ်ပြီးလျှင် ရေအားလုံးသည် မကြာမီအတွင်း၌ အငွေ့ဖြစ်၍ ပျံကုန်ကြလိမ့်မည်။ ထိုအ

ချက်မှ အပူချိန် တိုးမြင့်လာလျှင် ရေငွေ့ပျံခြင်းသည်လည်း ပို၍ လျင်မြန်လာကြောင်းကို သိနိုင်ပေသည်။ နွေးလာသောအခါ၌ ရေမော်လီကျူးများသည် အေးနေစဉ်ကထက် ပို၍ မျက်နှာပြင်မှ ထွက်ခွာရန် ဖိလာကြသည် ဟု လည်း တနည်းအားဖြင့် ဆိုနိုင်ပေသည်။ ရေမျက်နှာပြင်မှ ဖြစ်ပေါ်လာသော ရေမော်လီကျူးတို့၏ ဖိအားကို အငွေ့ဖိအား ဟု ခေါ်သည်။

ရေထည့်ထားသော ရေနွေးကရားတခုကို မီးဖိုပေါ်တွင် တင်ထားလျှင် ရေသည် မကြာမီအတွင်း၌ ပူလာလိမ့်မည်။ ထိုနောက် တအောင့်လောက် ကြာသောအခါ ရေနွေးငွေ့ ခေါ် ရေငွေ့ပူဖောင်းကလေးများသည် ရေအတွင်း၌ ထလာသည်ကို မြင်ရလိမ့်မည်။ ထိုအခါ ရေဆူပြီ ဟု ဆိုကြသည်။ ရေဆူခြင်းသည် ရေ၏ အငွေ့ဖိအားနှင့် ရေမျက်နှာပြင်ပေါ်ရှိ လေထု၏ဖိအား တူညီသောအခါ ဖြစ်ပေါ်လာသည်။ ထိုအခါ ရေငွေ့သည် ရေမျက်နှာပြင်ပေါ်ရှိ လေအားလုံးကို တွန်းထုတ်ပစ်နိုင်သည်။ ရေမျက်နှာပြင်ပေါ်ရှိ ဖိအားသာ နည်းမည်ဆိုလျှင် ရေဆူရန် အပူချိန်သည်လည်း နည်းပေလိမ့်မည်။ လေထု၏ ဖိအားသည် ပင်လယ်မျက်နှာပြင်တွင် စတုရန်း တလက်မအပေါ်၌ ၁၄.၇ ပေါင်နှင့် ဖိထားသည်နှင့် ညီမျှသည်။ ထိုကဲ့သို့သော နေရာမျိုးတွင် ရေသည် ဖာရင်ဟိုက် ၂၁၂ ဒီဂရီ(၂၁၂°F)၌ ဆူပေလိမ့်မည်။ ပေတသောင်း မြင့်သည့် တောင်ပေါ်တွင်မူ လေထု၏ ဖိအားသည် စတုရန်း တလက်မလျှင် ၁၀ ပေါင်သာရှိသဖြင့် ရေသည် ၁၉၄°F ခန့်တွင် ဆူလေသည်။ ထိုအချက်ကြောင့် ကြက်ဥတလုံးကို ကြက်အောင် ပြုတ်ရာတွင် တောင်ပေါ်၌ ပြုတ်ခြင်းသည် တောင်ခြေ၌ ပြုတ်ခြင်းထက် ပို၍ အချိန်ကြာမြင့်လေသည်။

ရေကိုအပူချိန်၂၁၂°Fထက် ပိုသည့်အပူဖြင့် အပူတိုက်ပေးလျှင် ရေငွေ့၏ ဖိအားသည် သာမန်လေထု၏ ဖိအားထက် ပို၍ များသည်။ ထိုအချက်ကို ဗွိုင်လာအိုးများတွင် အသုံးပြုထားကြလေသည်။ မျက်မှောက်ခေတ်တွင် အသုံး ပြုနေကြသည့် အချို့ ဗွိုင်လာအိုးများအတွင်းရှိ ဖိအားသည် ဗွိုင်လာအိုး၏ ပြင်ပရှိ ဖိအားထက် အဆပေါင်း ၁၅၀ မျှ ပိုမိုလေသည်။

ရေသည် သာမန် ဖိအားဖြင့် ၃၂°F (စင်တီဂရိတ် ဒီဂရီ သုညနှင့် ညီမျှသည်) တွင် ခဲ၍၊ ခဲရာမှ အရည်ပြန်ပျော်နေသည့်အချိန်၌လည်း ပြဒါးချိန်အမှတ်သည် မပြောင်းလဲချေ။ ရေအဖြစ်မှ ခဲသွားစဉ်တွင် အပူကိုထုတ်ပယ်၍ ခဲရာမှရေပြန်ဖြစ်စဉ်တွင် အပူကိုစုတ်ယူခြင်းသာ ခြားနားလေသည်။ ရေခဲမှုံလုပ်ရာတွင် ရေခဲကို ဆားနှင့်ရော၍ မွှေပေးခြင်းမှာ ရေခဲကို အရည်ပျော်စေလိုသည့်အတွက် ဖြစ်သည်။ ရေခဲအရည်ပျော်သည့်အခါ အပူကို စုတ်ယူသွားသဖြင့် မှုံသည် အေးပြီးလျှင် ခဲသွားလေသည်။

ယခုအခါတွင် မြင်နေကြရသည့် ကမ္ဘာမြေကြီး ပေါ်ရှိ အစိုင်အခဲများသည် ရှေးအခါက အရည်ပူများသာ ဖြစ်ခဲ့ကြလေသည်။ ထိုနောက်မှ နှမ်းဖတ်ကျောက်ကဲ့သို့သော ကျောက်များအဖြစ်သို့ ပြောင်းလဲ ကုန်ကြသည်။ ထိုမူလ ကျောက်ခဲများမှ မြေဩဇာကောင်းမွန်သော မြေဆီလွှာအဖြစ်သို့ ပြောင်းလဲပေးသည့် အရာများမှာ အဓိကအားဖြင့် ရေနှင့် ရေခဲတို့၏ အားများသာ ဖြစ်ကြလေသည်။ ရေနှင့် ရေခဲတို့သည် တောင်နှင့် တောင်ကုန်းများကို တိုက်စားကြကာ လျှိုများ ဖြစ်စေရာမှ တဖြည်းဖြည်း မြေဩဇာကောင်းမွန်သည့် မြေဆီလွှာများ ဖြစ်လာကြလေသည်။ ထိုကဲ့သို့သော တိုက်စားမှုသည် ကမ္ဘာပေါ်၌ ရေရှိနေသရွေ့ ကာလပတ်လုံး ဖြစ်၍သာ နေပေလိမ့်မည်။ မိုးရေက ကမ္ဘာမြေကြီးရှိ ပစ္စည်းအချို့ကို ပျော်ဝင်စေပြီးလျှင် အောက်ဖက်သို့ သယ်ဆောင်သွားလေသည်။ အချို့ပစ္စည်းများကိုမူ တွန်းယူသွားသည်။ထိုသို့ သယ်ယူသွားရာမှ လျှို၊ သို့မဟုတ် မြစ်သို့ရောက်သွားသောအခါတွင် ရေစီးသည် နှေးသွားသဖြင့် ထိုပစ္စည်းများသည် အနည်အဖြစ်နှင့်ကျဆင်းသွားကြပြီးလျှင် နောက်ဆုံးတွင် မြေဆီလွှာ ဖြစ်ကုန်ကြလေသည်။

ထိုသို့ ရေက ပြုလုပ်ပေးသည့် မြေဩဇာ ကောင်းမွန်သော မြေဆီလွှာများကို ရေကပင်ပြန်၍ သယ်ဆောင်သွားခြင်းဖြင့် ပျက်စီးသွားစေပြန်သည်။ အဘယ်ကြောင့် ဆိုသော် မိုးများ သည်းထန်စွာ ရွာသွန်းသောအခါတွင် မိုးရေများက မြေဩဇာကောင်းမွန်သည့် မြေဆီလွှာ၏အပေါ် ထပ်များကို သယ်ဆောင်သွားကြခြင်းကြောင့် ဖြစ်သည်။ ထိုသို့ သယ်ဆောင်သွားကြသည်ကို ရေနောက်များအဖြစ် စီးဆင်းလျက် ရှိကြသော မြစ်များကို ကြည့်ခြင်းဖြင့် သိနိုင်လေသည်။

ရေသည် ပစ္စည်းအမြောက်အမြားကို 'ပျော်ဝင်စေနိုင်၏'။ ထိုသို့ ပစ္စည်းများ ပျော်ဝင်လျက်ရှိသော ရေကို 'ပျော်ဝင်ရည်' ဟု ခေါ်သည်။ ရေသည် ပစ္စည်းတိုင်းကို မပျော်ဝင်စေနိုင်သော်လည်း အမြောက်အမြားကိုမူ ပျော်ဝင်စေနိုင်လေသည်။ထိုကြောင့် မြေမျက်နှာပြင်ပေါ်တွင် ရေစီးသွားသောအခါ၌ ဖြစ်စေ၊ မြေကြီး အတွင်းသို့ ရေစိမ့်ဝင်သွားသောအခါ၌ ဖြစ်စေ ရေသည် ပစ္စည်းအချို့ကို ပျော်ဝင် စေပြီးလျှင် သယ်ဆောင်သွားလေသည်။ နောက်ဆုံးတွင် ထိုရေများသည် ပင်လယ်သမုဒ္ဒရာသို့၎င်း၊ ပြည်တွင်းရှိ အိုင်များသို့၎င်း ရောက်ကုန်ကြသည်။ ထိုနေရာများ၌ နေပူက ရေကို အငွေ့ပျံစေသောအခါ ယခင်က ပျော်ဝင်လျက် ရှိကြသော ပစ္စည်းများသည် ကျန်ရစ်ခဲ့ကြသည်။ ထိုကြောင့် ပင်လယ်သမုဒ္ဒရာရေနှင့် အချို့ပြည်တွင်းအိုင်များမှ ဆားများကို ရနိုင်ခြင်း ဖြစ်သည်။ ထိုသို့ ဖြစ်ရသည်မှာ ကုန်းပေါ်ရှိ ဆားများကို ရေများက ပျော်ဝင်စေပြီးလျှင် ထိုနေရာများသို့ ရေများက သယ်ဆောင်သွားကြခြင်းကြောင့် ဖြစ်လေသည်။

ထိုနည်းအတူ မြေကြီးထဲသို့ စိမ့်ဝင်သွားသော ရေများတွင် ဖြစ်စေ၊ မြေမျက်နှာပြင်ပေါ်တွင် စီးသွားသည့် ရေများတွင် ဖြစ်စေ 'တွင်းထွက်များ' ပျော်ဝင်သွားကြလေသည်။ ထိုတွင်းထွက်များသည် ကယ်လဆီယမ်၊ သို့မဟုတ် မက်ဂနီဇီယမ်ဆာလဖိတ်များသော်၎င်း၊ ကလိုရိုက်များသော်၎င်း၊ ဗိုင်ကာဗွန်နိတ်များသော်၎င်း ဖြစ်ကြလျှင် ထိုတွင်းထွက်များ ပါရှိနေသည့် ရေသည် ဆပ်ပြာနှင့် ထိတွေ့သည့်အခါ အမြှုပ်များ ထွက်နိုင်မည် မဟုတ်ချေ။ ထိုရေမျိုးကို 'ရေစေး' ဟု ခေါ်သည်။ ဆပ်ပြာနှင့် ထိတွေ့ရာတွင် အမြှုပ်များများထွက်သောရေကို 'ရေသွက်' ဟု ခေါ်သည်။ ရေစေးကို ရေသွက်ဖြစ်လာစေရန် အဝတ်လျှော်ဆိုဒါကို ထိုရေတွင် ထည့်ပေးခြင်းဖြင့်၎င်း၊ ထိုရေစေးကို ဆူလာသည်အထိ အပူတိုက်ပေးခြင်းဖြင့်၎င်း လုပ်ယူနိုင်ပေသည်။

လုံး၀ သန့်စင်သည့် ရေသည် အလွန် ရှားပါးသည်။ အဘယ်ကြောင့် ဆိုသော် အထက်တွင် ဖော်ပြခဲ့သည့်အတိုင်း ရေသည် ပစ္စည်းအမြောက်အမြားကို ပျော်ဝင်စေနိုင်ခြင်းကြောင့် ဖြစ်သည်။ အညစ်အကြေးအဖြစ် ရေတွင် ပါဝင်လေ့ရှိသော ပစ္စည်းများမှာ များသောအားဖြင့် ဆိုဒီယမ်၊ ကယ်လဆီယမ်၊ မက်ဂနီဇီယမ်နှင့် အိုင်းယန်း (သံ) တို့၏ ဒြပ်ပေါင်းများ ဖြစ်ကြသည်။ ထိုပစ္စည်းများသာ ရေတွင် အနည်းအကျဉ်း ပါဝင်လျှင် လူကို ဥပဒ်မဖြစ်စေနိုင်ချေ။ သို့သော် တိုက်ဖွိုက်(အူရောင်ဖျား)၊ ကာလဝမ်းနှင့် ဝမ်းကိုက်ရောဂါပိုးများကဲ့သို့သော ရောဂါပိုး အမြောက်အမြားလည်း ရေတွင် ပါရှိနေတတ်သည်။ ထိုမျှသာမကသေး၊ မြေစေးနှင့် သဲအနည်များလည်း ရေတွင် ပါရှိနေတတ်သေးသည်။ ထိုပြင် လူနှင့် မသင့်လျော်သော တိရစ္ဆာန်ကလေးများပင် ရေတွင် ပါရှိနေတတ်ပေသည်။

ရောဂါပိုးများနှင့် မလိုလားအပ်သည့် အနည်များသည် ရေကန်၊ မြစ်နှင့် တွင်းရေများ၌ ပါရှိနေတတ်သဖြင့် ထိုရေကို သန့်စင်အောင် ပြုလုပ်ပေးရန် လိုအပ်လေသည်။ ရေကို သန့်စင်အောင် ပြုလုပ်ရာတွင် လုပ်လေ့ရှိသော နည်းတနည်းမှာ ထိုရေကို သဲမှုန့်ကလေးများနှင့် မီးသွေးမှုန့်များတွင် စိမ့်၍ စီးဆင်းစေသည့်နည်းဖြစ်သည်။ ထိုသို့ ပြုလုပ်သည်ကို ရေစစ်ပေးသည် ဟု ဆိုသည်။ ရောဂါပိုးများနှင့် အနည်မှုန့်ကလေးများသည် သဲမှုန့်ကလေးများတွင် တွယ်ကပ် ကျန်ရစ်ခဲ့သဖြင့် သန့်စင်သည့် ရေသည် တဖက်သို့ ရောက်သွားလေသည်။

မြို့ကြီး အမြောက်အမြားတွင် လုပ်ပေးလေ့ရှိသော နည်းတနည်းမှာ ကလိုရင်းဓာတ်ငွေ့ အနည်းငယ်ကို ရေတွင် ထည့်ပေးခြင်းဖြစ်သည်။ ရေတွင်ပါရှိနေသော ရောဂါပိုးများသည် ထိုဓာတ်ငွေ့ကြောင့် သေကုန်ကြလေသည်။ တခါတရံတွင်မူ အထက်ဖော်ပြပါ နည်းနှစ်မျိုးလုံးကိုပင် အသုံးပြုကြသည်။

ရေသည် မြင့်ရာမှ နိမ့်ရာသို့ သာ စီးဆင်းလေ့ ရှိသည်။ ရေလွှမ်းမိုးချိန်၌ မြစ်တမြစ်၏ ရေစီးသည် မည်မျှအထိ ဖျက်ဆီး ပစ်နိုင်ကြောင်းကို မြင်ဘူးသူတိုင်းက ဝန်ခံပေလိမ့်မည်။ သို့သော် ထိုရေကိုအသုံးဝင်အောင်လည်း အသုံးချ၍ရနိုင်ပေသည်။ ခေတ်မှီသော နိုင်ငံများတွင် ရေအားမှရရှိသော လျှပ်စစ်ဓာတ်အားကိုအမြောက်အမြားအသုံးပြုနေကြပေသည်။

အပင် တပင်သည် စ၍ ဖြစ်ထွန်းလာသည့် အချိန်မှစ၍ သေသွားသည့်တိုင်အောင် ယင်း၏ အမြစ်များဖြင့် မြေကြီးအတွင်းရှိ ရေများကို စုတ်ယူလျက် ရှိပေသည်။ ထိုရေများကို အရွက်များ၏ အောက်ဖက်မှ ပြန်၍ အငွေ့ပျံစေသည်။ ကျွဲနွားများ စားသည့် အပင်များ ရေမည်မျှ အသုံးပြုခဲ့သည်ကို စဉ်းစားကြည့်လျှင် ကျွဲနွားတို့၌ အလေးချိန် တပေါင်မျှသော အသား ဖြစ်ထွန်းရန်အတွက် ဆဲ့ငါးတန်မကသော ရေကို အသုံးပြုခဲ့ရကြောင်း တွေ့ရလေသည်။

လုပ်ငန်းရပ်ကြီးတိုင်းတွင်လည်း ရေအမြောက်အမြားကို အသုံးပြုလျက် ရှိကြသည်။ သံချက်ရုံကြီး တရုံတည်းကို ကြည့်လျှင်ပင် ရေမည်မျှ လိုသည်ကို သိနိုင်ပေသည်။ သံပါသော တွင်းထွက် ပစ္စည်းရိုင်းများမှ သံထုတ်ယူရန်အတွက် မီးဖိုကြီးများတွင် တွင်းထွက် ပစ္စည်းရိုင်းများကို ကျိုယူရာ မီးဖိုကြီးများ၏ နံရံများကို အေးနေစေရန် ရေအမြောက်အမြားကို အသုံးပြုကြရပေသည်။ ထိုနည်းအတူ အခြားလုပ်ငန်းရပ်ကြီးပေါင်း များစွာတွင်လည်း ရေအမြောက်အမြားကို အသုံးပြုကြရပေသည်။

**ရေကရားပင်။** ။ပစ်ချားပလန့် ခေါ် ရေကရားပင်သည် မြန်မာနိုင်ငံ အပါအဝင် အာရှတိုက်အပူပိုင်းဒေသများအပြင် ဖိလစ်ပိုင်ကျွန်းစု၊ ဩစတြေးလီးယားတိုက် မြောက်ပိုင်းနှင့် မက်ဒါဂက်စကား ကျွန်းတို့တွင် ပေါက်သည်။ အထူးသဖြင့် ဗော်နီယိုကျွန်းတွင် ပေါများသည်။ ရေကရားပင်သည် နီပင်သေးစီအီး မျိုးရင်းတွင် နီပင်သီး မျိုးစု၌ ပါဝင်၍ မျိုးစိတ်ပေါင်း ၆၀ ခန့်ရှိသည်။ ရေကရားပင်သည် နွယ်ပင်မျိုး ဖြစ်၍ ချုံဖုတ်များကို နွယ်ပတ်၍ ပေါက်သည်။ ရေကရားပင် ဟု ခေါ်ဆိုရခြင်းမှာ အရွက်များ၌ ရေကရားပုံရှိသော ထူးဆန်းသည့်အရွက်အိတ်ကလေးများ တွဲလျားကျနေသောကြောင့် ဖြစ်သည်။

ရေကရားပင်ကို သားစားပင် (သို့မဟုတ် ပိုးကောင်စားပင်) ဟုလည်း ခေါ်ဆိုနိုင်သည်။ အဘယ်ကြောင့် ဆိုသော် အဆိုပါ အရွက်အိတ်ထဲသို့ ဝင်မိသော ပိုးကောင်များသည် ထောင်ချောက်တွင် မိနေသကဲ့သို့ ဖြစ်၍ ထွက်မလာနိုင်တော့သောကြောင့် ဖြစ်သည်။

ရေကရားပုံ ရွက်အိတ်ကလေးများသည် အပင်မျိုးစိတ်ကို လိုက်၍ ပုံအမျိုးမျိုးနှင့် အရွယ်အမျိုးမျိုး ရှိသည်။ အချို့



ရေကရားပင်၏ အပွင့်နှင့် အရွက်များ

သည် လက်ညှိုးလောက်သာ ရှိ၍ အချို့သည် အစိတ်ဝင် ပုလင်းလောက်အထိ ကြီးမားသည်။ အရောင်မှာလည်း အဝါမှ အစိမ်းပုပ်အထိ အမျိုးမျိုးကွဲလွဲ၍ အချို့တွင်အနီစင်းများ ပင် ပါတတ်သေးသည်။ ရွက်အိတ်တွင် အဖုံးများလည်း ပါရှိ၍ ယင်းတို့သည် ရွက်အိတ်နုနယ်စဉ် အချိန်တွင် ပိတ်နေလျက် ကြီးရင့်လာသောအခါကျမှ ပွင့်သွားလေသည်။

ရွက်အိတ်တိုင်းသည် အထက်တွင် ဖော်ပြခဲ့သည့် အတိုင်း ပိုးကောင် ထောင်ချောက် ဖြစ်၏။ ထိုထောင်ချောက် အတွင်း၌ ပိုးကောင်များကို သွေးဆောင်နိုင်သော အချိုရည် ထွက်လျက် ရှိသည်။ ပိုးကောင်များသည် ထိုအချိုရည်ကို စားသောက်ရန် အပေါက်ဝမှ အထဲသို့ဝင်ကြသည်။ ထိုအခါ ဝင်လမ်းသာရှိ၍ ထွက်လမ်းမရှိသော ရွက်အိတ်ထဲတွင် ပိုးကောင်တို့သည် အချိုရည်များနှင့် ရောသွားပြီးလျှင် သေကြေ ပျက်စီးသွားကြလေသည်။ တနည်းဆိုလျှင် အပင်က ပိုးကောင်များကို ဝါးမျို ချေဖျက်လိုက်လေသည်။ ထိုသို့ ချေဖျက်လိုက်ခြင်းဖြင့် အပင်၏ အသက်ရှင်ရေးအတွက် လိုအပ်သော နိုက်ထြိုဂျင်ဓာတ်ကို ရရှိသွားလေသည်။

**ရေကသစ်ပင်**။ ။ကသစ်ပင် — ရှု။

**ရေကာတာ**။ ။တာတမံ — ရှု။

**ရေကာတန်တိုင်း**။ ။ပင်လယ်ကမ်းရိုးတန်း ရှိသော နိုင်ငံတွင် သင်္ဘောဆိပ်ကောင်းများ ရှိဖို့ လိုအပ်သည်။ နိုင်ငံရပ်ခြားနှင့် ကုန်စည်ကူးသန်းရောင်းဝယ်ရေးတွင် ပင်လယ်ကူး သင်္ဘောများ ခိုလှုံဆိုက်ကပ်နိုင်ရန် သင်္ဘောဆိပ်ကောင်းရှိခြင်းသည် တိုင်းပြည်၏ စီးပွားရေးအခြေခံ ဖြစ်သည်ဟု ဆိုရပေမည်။

လှိုင်းလေ ထန်နေချိန်တွင် ပင်လယ်ကူး သင်္ဘောများသည် ပင်လယ်ပြင်တွင် ရောက်ရှိနေလျှင် ကမ်းခြေနှင့် နီးကပ်နေသည်ထက် ပို၍ စိတ်ချရ၏။ ထို့ကြောင့် ကမ်းခြေနှင့် တမိုင်နှစ်မိုင်အကွာသို့ သင်္ဘော ရောက်ရှိနေစဉ် လှိုင်းလေ ပြင်းပြင်းထန်ထန် မိလာလျှင် သင်္ဘောကို ကမ်းနှင့် ဝေးနိုင်သမျှ ဝေးအောင် ဆုတ်ခွာ သွားရလေသည်။ အဘယ်ကြောင့် ဆိုသော် သင်္ဘောသည် ကမ်းနှင့် နီးကပ်နေလျှင် လှိုင်းလေအရှိန်ကြောင့် ကမ်းခြေရှိ ကျောက်ဆောင်များနှင့် တိုက်မိဆောင့်မိမည်ကို အထူးပင် စိုးရိမ်ရသောကြောင့် ဖြစ်လေသည်။ သို့ဖြစ်၍ သင်္ဘောများ ဆိုက်ကပ် ခိုလှုံနိုင်ရန် သင်္ဘောဆိပ်ကောင်းများရှိဖို့လိုအပ်သည်မှာ ထင်ရှားသည်။

အချို့သင်္ဘောဆိပ်များမှာ သဘာဝအလျောက် ကျွန်း၊ သို့မဟုတ် ကျွန်းဆွယ်များ ဝန်းရံကာဆီးလျက်ရှိသဖြင့် ပင်လယ်ဖက်မှ လေပြင်းမုန်တိုင်းနှင့် လှိုင်းတံပိုးများကို အလိုအလျောက် ကာကွယ်ထားပြီး ဖြစ်သည်။ ထိုကဲ့သို့သော သင်္ဘောဆိပ်မျိုးတွင် သင်္ဘောများ အချိန်အခါမရွေး ကမ်းသို့ ဆိုက်ကပ်နိုင်ကြလေသည်။ သို့ရာတွင် ထိုကဲ့သို့ သဘာဝအလျောက်လုံခြုံလျက်ရှိသော သင်္ဘောဆိပ်ကမ်းကောင်းတို့ကား ရှားပါး၏။ ရှိလျှင်လည်း ရှိသင့်သည့် အရပ်တွင် မရှိဘဲဖြစ်တတ်သည်။ ထို့ကြောင့် လူတို့သည် မိမိတို့ အလိုရှိရာ အရပ်တွင် သင်္ဘောဆိပ်ကောင်း ဖြစ်ပေါ်လာစေရန် ကြံစည်ဖန်တီးကြရလေသည်။

သင်္ဘောဆိပ်ကမ်းကောင်း တခု ဖြစ်ပေါ်လာအောင် ပြုလုပ်ရာ၌ အချိန် အနည်းငယ်အတွင်း ပြုလုပ်ပြီးစီးနိုင်သည် မဟုတ်။ နှစ်ပေါင်းများစွာကြာမြင့်အောင် တည်ဆောက်ကြရသည်။ တပိုင်းတစ ပြီးစီးခါမှ လေပြင်းမုန်တိုင်း ကျရောက်သဖြင့် ဆောက်လုပ်ထားသော အကာအကွယ်များ မကြာခဏ ပျက်စီးရတတ်သည်လည်း ရှိလေသည်။

သင်္ဘောဆိပ်ကောင်းတခု ဖြစ်ပေါ်လာရန် ပဌမ ဦးဆုံး အရေး ကြီးသော အချက်မှာ ရေကာတန်တိုင်း ဆောက်လုပ်ရခြင်း ဖြစ်သည်။ ထိုရေကာတန်တိုင်းများရှိလျှင် ပင်လယ်မှ တိုက်ခတ်လာသော လေကို တားဆီးနိုင်မည် ဖြစ်၏။ တန်တိုင်းအောက်ခြေခံအတွက် ပင်လယ်ထဲသို့ ကျောက်တုံးကျောက်ခဲများစွာတို့ကို သွန်ချရလေသည်။ ထိုနောက် တန်

တိုင်း အောက်ခြေခံကို ပင်လယ်ထဲ အလိုရှိရာဖက်သို့ တိုးချဲ့ဆန့်ထုတရသည်။သန့်ချလိုက်သော ကျောက်တုံးကျောက်ခဲတို့သည် တဖြည်းဖြည်း မြင့်တက်လာ၍ ရေပြင်ပေါ်တွင် ကျောက်တန်း ပေါ်လာသည်။ အခြေခိုင်မြဲရအောင် တန်တိုင်းအောက်ခြေပိုင်းမှာ ကား၍ အထက်သို့ ခပ်ရှူးရှူး ပိရမစ်ပုံ တက်သွားရသည်။ သို့သော် တန်တိုင်းထိပ်မှာ ပြန့်ရသည်။ ထို့နောက် ကျောက်တန်တိုင်း ဘေးနှစ်ဖက်ကို အင်္ဂတေ ကိုင်၍သော်၎င်း၊ အလွန်မာသော ကျောက်တုံးကြီးများ ချ၍သော်၎င်း မံပေးရလေသည်။ အောက်ခြေကို စိတ်ချရလောက်အောင် ခိုင်မြဲစေရန် ရေငုပ်သမားများဖြင့် တန်တိုင်း၏ ဘေးနှစ်ဖက်ကို အင်္ဂတေ ကိုင်ခြင်း၊ သို့မဟုတ် ကျောက်တုံးချခြင်းတို့ကို ပြုလုပ်ရသည်။

ရေကာတန်တိုင်းများသည် ပင်လယ်ဖက်ဆီမှ လေပြင်းမုန်တိုင်း တိုက်ခတ်လာသဖြင့် လှိုင်းလုံးများ ရိုက်ပုတ်သည့်ဒဏ်ကို ခံနိုင်ရည်ရှိရပေမည်။ ထို့ကြောင့် သင်္ဘောဆိပ် အတွက် ရေကာတန်တိုင်း မဆောက်လုပ်မီ လေကြောင်း၊ ရေကြောင်း၊ ဒီရေပြည့်အမှတ်၊ ဒီရေစစ်အမှတ်မှ စ၍ အခြားလိုအပ်သော အချက်အလက်တို့ကို ဦးစွာသိရှိထားရလေသည်။ သို့မှသာလျှင် သင်္ဘောများအတွက် စိတ်ချရသော ဆိပ်ကမ်းဖြစ်နိုင်ပေမည်။

ရေကာတန်တိုင်းများ ဆောက်လုပ်ထားသဖြင့် ကမ္ဘာပေါ်တွင် သင်္ဘောဆိပ်ကောင်းများစွာ ပေါ်ပေါက်လာခဲ့လေသည်။ အင်္ဂလန်ပြည်ရှိ ပို့တလန်မြို့ သင်္ဘောဆိပ်တွင် ရေကာတန်တိုင်း နှစ်ခုရှိ၍ ထိုဆိပ်တွင် ရေတပ်တခုလုံးပင် ဝင်ရောက် ဆိုက်ကပ်ထားနိုင်သည်။ ပို့တလန် ရေကာ တန်တိုင်း နှစ်ခုပေါင်း၏ အလျားမှာ ပေ ၇,၀၀၀ မျှရှိသည်။ အောက်ခြေတွင် ပေ ၃၀၀ ထုအကျယ်ရှိ၍ ရေအောက်မြေပြင်မှ ထိပ်အထိ ပေတရာမြင့်သည်။ ထိုမျှ ထုထယ်ကြီးမားခိုင်ခံ့သော ရေကာတန်တိုင်းနှစ်ခုကို ၂၅ နှစ်နီးပါးမျှဆောက်လုပ်ရလေသည်။

ပြင်သစ်နိုင်ငံ မြောက်ဖက် ရှားဗု သင်္ဘောဆိပ်ကမ်းမြို့ရှိ ရေကာတန်တိုင်းသည် အလျား ပေပေါင်း ၁၂,၀၀၀ မျှရှိသဖြင့် အရှည်ဆုံးသော ရေကာတန်တိုင်းတခုပင်ဖြစ်သည်။ ထိုရေကာတန်တိုင်း၏ အောက်ခြေထု အကျယ်မှာ ၂၆၇ ပေရှိ၍ ထိပ်တွင် ၂၁ ပေ ကျယ်သည်။ အဆိုပါ ရေကာတန်တိုင်းကို နှစ်ပေါင်း ၇၀ မျှ ကြာအောင် ဆောက်လုပ်ခဲ့ရသည်။

အင်္ဂလန်ပြည် ပလင်းမတ်မြို့ရှိ ရေကာ တန်တိုင်းကို ၁၈၁၂ ခုနှစ်တွင် စတင် ဆောက်လုပ်ခဲ့ရာ ၃၄ နှစ်ကြာမှ ပြီးမြောက်သည်။ ရွှေဒင်္ဂါး ပေါင်ပေါင်း တသန်းငါးသိန်းမျှကုန်ကျသည်။ ထိုရေကာတန်တိုင်း၏ ထူးခြားချက်မှာ ဒီရေပြည့်သည့်အခါ တန်တိုင်းထိပ်သည် ရေပြင်အပေါ် တပေနှစ်ပေခန့်သာ မြင့်တက်နေ၏။ ထို့ကြောင့် လေပြင်းတိုက်လာလျှင် လှိုင်းလုံးများသည် တန်တိုင်းပေါ်သို့ ကျော်လွှမ်းသည့်တိုင်အောင် ရိုက်ခတ်နိုင်လေသည်။

ထိုရေကာတန်တိုင်း၏ အစွန်း တဖက်တွင် မီးအချက်ပြရုံ၊ အခြား တဖက်တွင်ကား မီးပြတိုက်ရှိလေသည်။ ထိုရေကာတန်တိုင်းသည် အလျား တမိုင်ခန့် ရှိ၍ အောက်ခြေထုအကျယ် ပေ ၃၀၀ ခန့်ရှိသည်။ ထိပ်အကျယ် ၄၅ ပေမျှ ရှိ၏။ ထိုရေကာတန်တိုင်းကြီးကို တည်ဆောက်ရာတွင် ကျောက်တန်ချိန်ပေါင်း လေးသန်းမျှ ကုန်လေသည်။

အင်္ဂလန်ပြည် ဒိုဗာမြို့ ဆိပ်ကမ်းတွင် ရေကာတန်တိုင်းကြီးနှစ်ခုအပြင် အက်ဒမီရယ်လတီ ပီးယား ခေါ် ဆိပ်ခံတန်တိုင်းရှည်လည်း ရှိလေသည်။ အတွင်းဖက်ကျသော ရေကာတန်တိုင်းမှ အရှေ့ဖက်နှင့် အနောက်ဖက်သို့ လက်တံနှစ်ခု ဖြာထွက်လေသည်။ အက်ဒမီရယ်လတီဆိပ် ခံတန်တိုင်းရှည်သည် အနောက်ဖက် လက်တံတွင် ပါဝင်သည်။ အနောက်ဖက်တန်း ရေကာတန်တိုင်းသည် ပေ ၄,၁၀၀ ရှည်လျား၍ အရှေ့ဖက်တန်းမှာ ပေ ၂,၉၀၀ မျှ ရှည်လျားသည်။

အပြင်ဖက်ကျသော ရေကာတန်တိုင်းသည် ပေ ၄,၂၀၀ မျှရှည်လျား၍ ကမ်းခြေမှ တမိုင်နီးပါးခန့် ကွာဝေးသည်။ ထိုတန်တိုင်းကြီးများကို အင်္ဂတေတုံးများဖြင့်ဆောက်လုပ်ထားရာ တန်ချိန် ၄၀ စီးသော အင်္ဂတေတုံးပေါင်း ၆၀,၀၀၀ မျှ အသုံးပြုရလေသည်။ ရေကာတန်တိုင်း၏ ထိပ်အကျယ်မှာ ၄၅ ပေရှိ၍ ရေအောက်မြေပြင်မှ အမြင့် ၇၅ ပေ ရှိလေသည်။

ရေကူးခြင်း။ ။ရေကူးခြင်းသည် အလွန် ရှေးကျသော ကိုယ်လက် လှုပ်ရှားနည်း တနည်းဖြစ်၏။ ရှေးခေတ် ရောမနှင့် ဂရိ နိုင်ငံများတွင် စစ်သူရဲများအတွက် လေ့ကျင့်ခန်းအဖြစ် ရေကူးစေခဲ့ကြသည်။ သို့ရာတွင် အလယ်ခေတ်က ဥရောပတိုက်၌ ပြင်ပတွင် ရေးကူးခြင်းမှာ ရောဂါ ကူးစက်နိုင်သည်ဟု အယူရှိကြသဖြင့် တိမ်ကောလုမတတ် ဖြစ်ခဲ့သည်။ ၁၉ ရာစုနှစ်နောက်ပိုင်းသို့ရောက်ရှိလာခါမှ ဗြိတိန်နိုင်ငံတွင် ရေကူးပြိုင်ပွဲများ စတင်ပြုလုပ်ခဲ့ကြလေသည်။ ရေကူးခြင်းကို ကာယပညာတရပ် အဖြစ်၎င်း၊ အသက်ဘေးမှ ကာကွယ်နိုင်သည့် အတတ်အဖြစ်၎င်း သိရှိလာကြသောအခါ စာသင်ကျောင်းနှင့် အသင်းအဖွဲ့ အသီးအသီးတို့တွင် ထိုအတတ်ကို အားပေးသင်ကြားစေကြသည်။

ရေကူးရာတွင် ကိုယ်ခန္ဓာအစိတ်အပိုင်းတို့ကို လှုပ်ရှားအသုံးပြုရလေသည်။ ရေကူးကျင်လျင်ခြင်းသည် အလွန်အမင်း အားအင်စိုက်ထုတ်နိုင်ခြင်းပေါ်တွင် မတည်ဘဲ ညင်သာစွာ လှုပ်ရှားပေးတတ်သော ကျွမ်းကျင်မှုပေါ်တွင် တည်သည်။ ရေကူးသည့်အခါ ခေါင်းဖျားမှ ခြေဆုံးအထိ ခန္ဓာကိုယ်တခုလုံးအား လှိုင်းလုံး ရေလုံးကလေးများက ထိပါးပုတ်ခတ်တိုးဝှေ့နေကြသဖြင့် စိတ်ကြည်နူးရွှင်လန်းလာသည်

နှင့် အမျှ ရေကူးပြီးသည့် အခါ တကိုယ်လုံးရှိ အကြောအခြင်များ လျော့သွားသဖြင့် ကိုယ်လက်ပေါ့ပါး လန်းဆန်းလာသည့် အကျိုးထူးများကြောင့် ရေကူးခြင်းကို ကျန်းမာရေးအတွက် လူကြိုက်များလေသည်။

ထိုအကျိုးထူးကို ယောကျ်ား၊ မိန်းမ၊ လူကြီး၊ လူငယ်မရွေး ညီတူညီမျှ ခံစားနိုင်ကြပေသည်။ ထိုသို့ ဆိုရာ၌ ရေကူးခြင်းအတတ်သည် လွန်စွာလွယ်ကူသောကြောင့် မဟုတ်၊ နည်းလမ်းမှန်ကန်စွာ သင်ကြား လေ့ကျင့်လျှင် ခွန်အားဗလ များစွာသန်စွမ်းရန် မလိုဘဲ တတ်မြောက်နိုင်သောကြောင့် ဖြစ်လေသည်။

လူတို့သည် ဖျံ၊ ငါးတို့ကဲ့သို့ မွေးကတည်းက ရေတွင် ကြီးပြင်းလာကြသူများ မဟုတ်သဖြင့် ရေနက်ထဲတွင် အလို အလျောက် အချိန်ကြာမြင့်စွာ နေနိုင်ရန် လွန်စွာခဲယဉ်း၏။ ထိုအတွက် လူတိုင်းလူတိုင်းပင် ရေကူးခြင်းအတတ်ကို တမင်လာ သင်ကြားလေ့ကျင့်မှ တတ်မြောက်နိုင်သည်။ သို့ရာတွင် မြင်း၊ ခွေး အစရှိသော တိရစ္ဆာန်များသည် လူတို့ကဲ့သို့ပင် ရေထဲ၌ ကျက်စားသော သတ္တဝါများ မဟုတ်ကြသော်လည်း ရေကူးခြင်းကို မသင်ဘဲနှင့် အလိုအလျောက် တတ်မြောက်နေကြသည်ကို အံ့ဩစွာတွေ့ရှိရသည်။ ထိုအချက်ကို လက်တွေ့ သဘောပေါက်ကာ သိရှိလိုပါက မွေးကတည်းက တကြိမ်တခါမျှ ရေမကူးဘူးသေးသော ခွေးကလေး တကောင်ကို ယူပြီးလျှင် ရေချိုးကန်တခုတွင် ရှဲတရက် နှစ်လိုက်ပြီးနောက် ချက်ခြင်း ပြန်၍ မ ထားလိုက်ပါ၊ ထိုအခါ ခွေးကလေး၏ ခြေထောက်လေးချောင်းသည် ရေကူးနေသကဲ့သို့ လေထဲတွင် လှုပ်ရှားနေသည်ကို တွေ့ရပေလိမ့်မည်။ ထိုထက် သေချာလိုသေးလျှင် ထိုခွေးကလေးကို ရေကူးကန်ထဲသို့ ပစ်ချလိုက်ပါ။ ထိုအခါ ခွေးကလေးသည် ကမ်းစပ်သို့ ကျွမ်းကျင်စွာ ကူးခတ် ရောက်ရှိသွားသည်ကို အံ့ဩစွာ တွေ့မြင်ရပေမည်။

ခွေးကလေးသည် ရေကူး မသင်ဘဲနှင့် အဘယ်ကြောင့် အလိုအလျောက် တတ်မြောက်နေသနည်း ဆိုသော် ယင်း၏ ကိုယ်ခန္ဓာအနေအထားသည် ကုန်းပေါ်တွင် လမ်းလျှောက်သည့်အခါ၌ရှင်း၊ ရေထဲတွင် ရေကူးသည့်အခါ၌ရှင်း ထူး၍ ပြောင်းလဲခြင်း မရှိသောကြောင့် ဖြစ်လေသည်။ လူတို့ကား လမ်းလျှောက်သည့်အခါ ခြေနှစ်ချောင်းပေါ်တွင် မတ်တတ်ရပ် လျှောက်ရ၍၊ ရေကူးသည့်အခါတွင်ကား မှောက်လျက်ဖြစ်စေ၊ ပက်လက်ဖြစ်စေ ကိုယ်ကို အလျားလိုက် ထားကာ ကူးခတ်ရသောကြောင့် ဖြစ်၏။ သို့ဖြစ်၍ ရေကူးတတ်ရန် တမင်လာ သင်ကြား လေ့ကျင့် ယူကြရလေသည်။ ရေတခါမျှ မကူးဘူးသော သူငယ် တယောက်သည် ပဌမ အကြိမ်



ရေကူးကစားခြင်းသည် ကြံ့ခိုင်မှုကို အားပေးသည်။



ရေကူးရာတွင် ကိုယ်နေဟန်ထားသည် အရေးကြီးသည်။

ရေသို့ ဆင်းလိုက်သည့်အခါ ရေထဲတွင် ကိုယ်ကို မတ်တည်နေစေရန်သာ ကြိုးစားနေပေလိမ့်မည်။ ရေသည် နက်၍ ထောက်မမှီခဲ့သော် ဆွဲမိဆွဲရာ ဆွဲကိုင်အားပြုကာ ကိုယ်ကို မတ်မတ် တည်နေစေရန် ဆက်လက် ကြိုးစား နေပေလိမ့်မည်။ ထိုသို့မတ်မတ်တည်နေရန် ကြိုးစားလေ အနစ်မြန်လေ ဖြစ်မည်ကား မလွဲချေ။

စင်စစ်မှာ ထိုသူငယ်သည် သူ၏ကိုယ်ကို ရေပေါ်တွင် သစ်တုံးကဲ့သို့ အလျားလိုက် ဖြစ်စေရန်သာ ကြိုးစား သင့်ပေသည်။ ထိုအလေ့အကျင့်ကို ရရှိနိုင်စေရန် မကြောက် မရွံ့ သင်ယူလိုက်လျှင် ရေကူးတတ်ရန် မခဲယဉ်းလှတော့ချေ။

## ရေ ကြောက်တတ်သလား

လူတိုင်းလိုပင် ပင်ကိုယ်အားဖြင့် ရေ ကြောက်တတ်ကြ၏။ သို့ရာတွင် ထိုရေကြောက်စိတ်ကို ပပျောက်သွားရန် ပြုလုပ်နိုင်ပေသည်။ ရေကြောက်စိတ်ကို ပပျောက်အောင် လုပ်ရန်မှာ ရေကူးသင်ရာတွင် ပဌမဦးဆုံး လိုက်နာရမည့် သင်္ခန်းစာဖြစ်သည်။ ရေကြောက်စိတ်ကို အချို့လူတို့သည် အမြန် ပယ်ဖျောက်နိုင်ကြ၍ အချို့မှာ အတန်ကြာသည့်တိုင်အောင် မပယ်ဖျောက်နိုင်ကြချေ။

ရေနှင့် နီးစပ်ကာ ရေကြောက်စိတ် ပျောက်သွားစေရန် ရှေးဦးစွာ ဒူးဆစ်ခန့် နက်သော ကမ်းစပ်တွင် ခြေနှင့်ထောက်၍ ဟိုမှသည်မှ သွားလာလှုပ်ရှား ကစားနေပါ။ မကြာမီ ရေထဲတွင် နေသားကျကာ ယခင်ကထက် စိတ်ရဲလာသည်ကို တွေ့ရပေမည်။

ထိုအခါ ခါးလောက်နက်သော နေရာအထိ တိုး၍ သွားပါ။ ထိုနောက် ကမ်းဖက်သို့ မျက်နှာမူကာ မြေကြီးကို လက်နှစ်ဖက်ဖြင့် ကုန်း၍ထောက်ပြီးလျှင် ခြေထောက်နှစ်ချောင်းစလုံးကို ရေထဲတွင်ဖြည်းဖြည်းခြင်း မ ပေးပါ။ အားစိုက်ကာ တောင့်မထားမိရန် သတိပြုလျက် မကြောက်မရွံ့သာ ပြုလုပ်ပါ။ ထိုအခါ လက်ဖျားကလေးများဖြင့် အသာအယာ ဖေးမ ထားသည်မှတပါး ကိုယ်ခန္ဓာတခုလုံးကို ရေတွင်ဖော့ထားနိုင်သည်ကို တွေ့လာပေလိမ့်မည်။ ထိုသို့ ပြုလုပ်နိုင်လျှင် ရေကူး စတင်လေ့ကျင့်ရန် သင့်လျော်ပြီ ဖြစ်သဖြင့် ရေထဲတွင် မည်ကဲ့သို့ ခြေနှင့်လက်များ လှုပ်ရှားရမည်ကိုသာ သင်ယူရန် လိုတော့သည်။ ဤအဆင့်တွင် ရေကူးသင်သူတိုင်းလိုပင် စိတ်တုန်လှုပ်ကာ ရွံ့သွားတတ်ကြပေသည်။ စင်စစ်မှာလည်း ရေကူးအတတ်သည် နှုတ်ပြော လွယ်သလောက် လက်တွေ့လုပ်ရာတွင် ခက်ခဲသည်မှာ ယုံမှားဖွယ် မရှိချေ။

ရေကူးသင်ရာတွင် စနစ်တကျ မှန်ကန်စွာ အသက်ရှူတတ်ရန်မှာ လွန်စွာ အရေးကြီး၏။ ရေကူးသမားများသည် ပါးစပ်မှလေကို ရှူသွင်း၍ နှာခေါင်းမှ ဖြစ်စေ၊ ပါးစပ်မှ ဖြစ်စေ၊ သို့မဟုတ် နှစ်ခုစလုံးမှဖြစ်စေ လေကို ရှူထုတ်လေ့ရှိကြ၏။ လေကို လျင်မြန်စွာ လေးလေးပင်ပင် ရှူသွင်း၍ ခပ်ညှင်းညှင်း ထုတ်တတ်ရန်မှာ ရေကူးသင်သူတို့အတွက် အရေးကြီးသော အချက်တခု ဖြစ်ပေသည်။

ထိုနည်းကို ကျင့်သားရစေရန် ခါးအထိ နက်သော ရေထဲသို့ ဆင်းပြီးလျှင် လေကို ပါးစပ်မှ အားပါးတရ ပဌမ ရှူသွင်းလိုက်ပါ။ ထိုနောက်ကုန်း၍ ဒူးနှစ်ဖက်ကို လက်နှင့်ထောက်ထားပြီးလျှင် မျက်နှာကို ရေထဲနှစ်လျက် အသက်အောင့်ကာ တစ်မှ တဆယ်အထိ ရေတွက်ပါ။ ထိုနောက် မျက်နှာကိုဖော်၍ အသက်ရှူထုတ်လိုက်ပါ။ ထိုနည်းအတိုင်း ကျင့်သားရလာ၍ တစ်မှ ဆဲ့ငါးအထိ ရေအောက်တွင် မခဲယဉ်းဘဲ အသက်အောင့်နေနိုင်လာလျှင် ရေအောက်တွင်ပင် အသက်ရှူထုတ်ရန် ဆက်လက်၍ လေ့ကျင့်ပေးပါ။ ထိုမှတဖန် ကျင့်သားရလာပြန်လျှင် မျက်နှာကို ရေမှမဖော်တော့ဘဲ ခေါင်းကို ဘေးသို့ စောင်းကာ အသက်ရှူသွင်း၊ ရေအောက်တွင် လေရှူထုတ်၊ ပြီးလျှင် အခြားတဖက်သို့ စောင်းကာ လေရှူသွင်း စသော အလေ့အကျင့်ကို ထပ်တလဲလဲပြုလုပ်ပေးခဲ့သော် ရေကူးရာတွင် မှန်ကန်စွာ အသက်ရှူတတ်လာမည်ဖြစ်၏။

ကမ်းစပ်ရေတိမ်တွင် ကိုယ်ကို ဖော့ထား နိုင်ခြင်းနှင့် အသက်ရှူခြင်းတို့ကို လေ့ကျင့်ပြီးသောအခါ ခြေခတ်ခြင်း၊ လက်ယက်ခြင်းတို့ကို တဆင့်တက်၍ လေ့ကျင့်နိုင်ပြီ ဖြစ်၏။

ရေထဲတွင် ခြေခတ်ခြင်းကို လေ့ကျင့်ရန် အကောင်းဆုံးနည်းမှာ ကမ်းစပ်တွင် ကိုင်တွယ်စရာတန်းတခု ပြုလုပ်ထား၍ အလျားမှောက်ကာ ထိုတန်းကို တံတောင်ဆစ်ကွေးချ၍ လက်နှင့် ကိုင်ထားပြီးလျှင် ခြေထောက်များကို ဆန့်တန်းကာ အထက်အောက် တဖက်တလှည့်စီ လှုပ်ရှား ပုတ်ခတ်ပေးခြင်းပင် ဖြစ်၏။ ထိုသို့ လေ့ကျင့်သည့်အခါ ခြေထောက်များ၏ အနေအထားသည် ရေကူးသည့် အခါတွင်ရှိမည့် အနေအထားအတိုင်း ဖြစ်နေရန် လိုပေသည်။

ထိုသို့ ရေထဲတွင် မှောက်လျက် ခြေခတ်တတ်လာသည့်အခါ လက်နှင့် တန်းကို မကိုင်ဘဲ ရေကူးခြင်းကို စတင်လေ့ကျင့်နိုင်ပေသည်။ စတင်ကူးသည့်အခါ လက်နှစ်ချောင်းကို ရှေ့သို့ ဆန့်တန်းလျက် လက်ဖဝါးနှစ်ဖက်ကို ထိစေပြီးလျှင် လက်ချောင်းများကို စုထားရလေသည်။ ခြေထောက် နှစ်ချောင်းကိုလည်း ဆန့်တန်း၍ ဖနောင့်နှစ်ခုကို ထိထားပြီးလျှင် ခြေဖျားများကို ဘေးဖက်သို့ အတန်ငယ် ကားနေစေရလေသည်။ ထိုနောက် ဆန့်ထားသော လက်နှစ်ချောင်းကို ခွဲကာ လက်ဖဝါးကို ဘေးသို့ လှည့်ပေး၍ နောက်ဖက်သို့ ပခုံးနှင့် တပြေးညီညာ လာသည့်တိုင်အောင် ယက်ပေးရလေသည်။ နောက်တကြိမ် ယက်ရန် လက်ဖဝါးနှစ်ဖက်ကို မျက်နှာအောက်သို့ ပြန်၍ သိမ်းယူလိုက်သည့်အခါ ခြေထောက်များကို ဖနောင့်ချင်း ထိကပ်ထားယင်း ကွေးယူလိုက်ရလေသည်။ ထိုနောက်မှ တဖန် ဘေးဖက်သို့ ကန်ထုတ်ဆန့်တန်းလိုက်ပြီးလျှင် ချက်ခြင်း ပြန်၍ စုပေးလိုက်ရလေသည်။ ဤနည်းမှာ ဖားကူး ကူးနည်းပင် ဖြစ်၏။ ဖားကူးကူးနည်းဖြင့် ရေကူးတတ်လာသောအခါ အခြားကူးနည်းများကို အလွယ်တကူ သင်ယူနိုင်လာပေမည်။ ဖားကူး ကူးနည်းအပြင် အခြား လွယ်ကူသော ရေကူးနည်းတို့မှာ ပက်လက် ဖားကူး ကူးနည်းနှင့် ဘေးတိုက် လက်ယက်ကူးနည်းများ ဖြစ်ကြသည်။ အမြန်ဆုံးနှင့် အသုံးအဝင်ဆုံးသော ရေကူးနည်းမှာ လက်ပစ်ကူးနည်း ဖြစ်လေသည်။

အထက်ဖော်ပြပါ ရေကူးနည်းများအပြင် လိပ်ပြာရေကူးနည်း ဟူ၍လည်း ရှိသေးသည်။ ဤနည်းတွင် လက်များကို ရေထဲ၌ ရှေ့သို့ဆန့်တန်း၍ မထုတ်တော့ဘဲ ရေပေါ်မှ ရှေ့သို့ ယူသွားရလေသည်။ ဤသို့ ပြုလုပ်နိုင်ရန် ရေကူးသူသည် သူ၏ ကိုယ်အရှေ့ပိုင်းကို ရေပေါ်တွင် ပေါ်သွားအောင် ပြုလုပ်ရသည်။ လက်များကို ရှေ့သို့ယူသည့်အခါ၌ တခုနှင့်တခုကို ရှစ်လက်မ (စင်တီမီတာ ၂၀) ခန့် အကွာတွင် ရှိစေပြီးလျှင် ရေထဲသို့ ကျရောက်စေကာ အားစိုက်၍ တင်ပါးဆီသို့ ကြွယူရလေသည်။

သို့သော် ဤရေကူးနည်းသည် လွန်စွာပင်ပန်းသော နည်း



ရန်ကုန်မြို့ ဦးဝိစာရလမ်းရှိ အမျိုးသားရေကူးကန်တွင် ရေကူးပြိုင်ပွဲ ကျင်းပနေစဉ်

ဖြစ်သည့် အပြင် ခန္ဓာကိုယ်၏ အတက်အကျ လှုပ်ရှားမှုများ ကြောင့် ကြည့်၍ မကောင်းလှချေ။

ရေကူးတတ်လာသည်နှင့် တပြိုင်နက် ရေကူးနည်းကောင်း တို့ကို အလျင်အမြန် လေ့ကျင့် သင်ယူ အပ်ပေသည်။ အ ကြောင်းကား နည်းညံ့တို့ဖြင့် ကြာရှည်စွာ ကူးခတ်နေခဲ့ သော် ထိုအလေ့အကျင့်ကို ဖျောက်ပစ်ရန်မှာ လွယ်ကူသည် မဟုတ်သောကြောင့် ဖြစ်သည်။

ရေကူးတတ်စ သူများသည် ရေကူး မကျင်လျှင်မီ အ ကြောင်းမသိသေးသော နေရာတို့တွင် ရေကူးခြင်း၊ ရေနက် ဖက် ထွက်ကူးခြင်း၊ လှိုင်းစီးခြင်း စသော အတင့်ရဲမှုများကို ရှောင်ကြဉ် အပ်ကြ၏။ ထမင်းစားပြီး နှစ်နာရီ အတွင်း ရေမကူးခြင်းနှင့် ချမ်းလာသည့်တိုင်အောင် ရေမကူးခြင်းတို့ မှာလည်း ကောင်းသော သတိထားမှု ကလေးများ ဖြစ်ပေ သည်။ ချမ်းလာသည့် တိုင်အောင် ရေကူးလျှင် ကြွက်တက် ကာ ရေနစ်တတ်၏။

ရေကူးပြိုင်ပွဲများကို ကမ္ဘာ့အရပ်ရပ်ရှိ နိုင်ငံအသီးအသီး တို့တွင် နှစ်စဉ်နှစ်တိုင်း ပြုလုပ်ကြ၏။ လေးနှစ်တကြိမ် ပြုလုပ် သော ကမ္ဘာ့အိုလင်းပစ် ကစားပွဲများတွင်လည်း ရေကူးပြိုင် ပွဲများကို ထည့်သွင်းကျင်းပကြလေသည်။ ၁၉၆၄ ခုနှစ်တွင် တိုကျိုမြို့၌ ကျင်းပခဲ့သော ကမ္ဘာ့အိုလင်းပစ် ကစားပွဲတွင် အမေရိကန် ပြည်ထောင်စုနိုင်ငံမှ စတိကလတ် ဆိုသူသည် မီတာ ၁၀၀ ရေကူးပြိုင်ပွဲကို စံချိန်သစ်ပြု၍ ၅၂.၉ စက္ကန့်နှင့် အနိုင်ယူကာ တံခွန်စိုက်ခဲ့လေသည်။ ပြည်ထောင်စု မြန်မာ နိုင်ငံတွင်လည်း ရေကူးအသင်းအဖွဲ့များရှိရုံမက ရေကူးပြိုင်ပွဲ များလည်း ကျင်းပလျက်ရှိလေသည်။

## ဂျမ်းပစ်ထိုးငုပ်ခြင်း

ရေကူးခြင်းနှင့် ဆက်သွယ်လျက် ရှိသော ကစားနည်းမှာ ဒိုင်ဗင် ခေါ် ရေထဲသို့ ဂျမ်းပစ်ထိုးငုပ်ခြင်း ဖြစ်လေသည်။ ဂျမ်းပစ် ထိုးငုပ်ခြင်းသည် ကျွမ်းကျင်မှု အတတ်တခု ဖြစ် သည့် အလျောက် ကျင်လျင်စွာ ကစားနိုင်ခြင်းမှာ အလေ့ အကျင့် ပေါ်တွင်သာ တည်နေလေသည်။ ဂျမ်းပစ်ထိုး ငုပ် လိုက်သည့်အခါ ကိုယ်သည် ရေထဲသို့ ကျောက်ခဲတလုံးကို မြှောက်၍ ပစ်ချလိုက်သည့်အတိုင်း ရှောကနဲ ကျသွားရန် လိုပေသည်။ လက်နှစ်ဖက်ကို ဦးခေါင်းထက်တွင် မြှောက်၍ ဆန့်တန်းထားပြီးလျှင် လက်ဖဝါးနှစ်ခုကို ယှဉ်ကာ လက်မ ချင်း ထိအောင် ထားရလေသည်။ လက်ဖဝါး နှစ်ခုကို ယှက် ကာ စုမထားရချေ။ ကိုယ်လုံးသည် ရေထဲသို့ ဝင်ရောက်သည့် အခါ ညင်သာစေရန် ကိုယ်ကို ဖြောင့်ထားပြီးလျှင် ခြေဦး များကိုလည်း နောက်ဖက်သို့ ဆန့်ထားရသည်။ ကိုယ်လုံး ထက်ဝက်ခန့်သည် ရေထဲသို့ ရောက်သွားသည့်အခါ လက်တို့ ကို အထက်ဖက်သို့ ကော့ပေးလိုက်ရသည်။ ယင်းမှာ ဦး



အမျိုးသမီးတဦး၏ ဒိုင်ဗင်အလှ

ခေါင်းကို ရေပြင်ပေါ် သို့ အမြန်ပေါ် ထွက်လာစေရန်အတွက် ဖြစ်၏။ ထိုအခါ အသက်ကို ဝအောင် ရှူနိုင်လေသည်။ အ ချို့တို့သည် ဂျမ်းထိုးပျဉ်ပြားပေါ် မှနေ၍ ဂျမ်းပစ်ထိုး ငုပ် ကစားကြ၏။ အချို့မှာမူ လွန်စွာမြင့်မားသော နေရာမှ ဂျမ်းပစ်ထိုး ငုပ်ကစားကြ၏။ အချို့မှာမူ လွန်စွာ မြင့်မား သော နေရာမှ ဂျမ်းသုံးလေးပတ် လည်စေလျက် ရေထဲသို့ ဂျမ်းပစ်ထိုး ငုပ်ကစားကြလေသည်။ ဂျမ်းပစ်ထိုး ငုပ်က စားခြင်းတွင် တပတ်ဂျမ်း၊ နှစ်ပတ်ဂျမ်း၊ ဝက်အူရစ်ဂျမ်း၊ ပျံလွှားဂျမ်း၊ ငန်းဂျမ်း အစရှိသည်ဖြင့် ကစားနည်း အမျိုး မျိုး ရှိလေသည်။

## အသက်ကယ်ဆယ်ခြင်း

ရေနစ် သေဆုံးကြသည့် သတင်းများကို ရံဖန်ရံခါ ကြား ကြရပေသည်။ ရေနစ်နေသူကို မြင်လျက်နှင့် သွားရောက် ကယ်ဆယ်နိုင်သူ မရှိသောကြောင့် လူ့အသက်တချောင်း အဆုံး ခံရခြင်းသည် အသည်းနာဖွယ်ရာ ကောင်းလှတော့ သည်။ သို့ဖြစ်၍ ရေကူးတတ်သူတိုင်းသည် ရေနစ်သူအား ကယ်ဆယ်သောနည်းကို နားလည် တတ်မြောက်ထားသင့် ကြပေသည်။

ရေနစ်နေသူတို့သည် ကြောက်စိတ်မွှန်နေသဖြင့် မိရာကို စွဲမြဲစွာ ဆွဲယူ ဆုပ်ကိုင် ထားတတ်ကြ၏။ ရေနစ်နေသူအား သူ၏ ရှေ့ဖက်သွား၍ အမှတ်မဲ့ကယ်ဆယ်ရန် ကြိုးစားခဲ့သော်

ရေနစ်နေသူ၏ ဖက်ယက် ဆုပ်ကိုင်ထားမှုကြောင့် ကယ်ဆယ်မည့်သူပါ အတူတကွ နစ်သွားတတ်သည်ကို သတိပြုရပေမည်။ နည်းမှန်ကောင်းမွန်သော ကယ်ဆယ်နည်းမှာ ကယ်ဆယ်မည့်သူသည် ရေနစ်သူအား နောက်ဖက်မှ အသာအယာ ကပ်ပြီးလျှင် မေးစေ့ကို တတောင်ဆစ်ကွေးဖြင့် ချိတ်ယူ၍ နောက်ပြန် ဆွဲယူပြီးနောက် အားနေသော လက်တဖက်နှင့် ခြေထောက်များကို အသုံးပြုကာ ပက်လက် ဖားကူးကူးနည်းဖြင့် ကမ်းဖက်သို့ ကူးခတ်လာခြင်း ဖြစ်လေသည်။

**ရေကြက်။** ။ရေကြက်သည် အမည်နှင့် လိုက်အောင် ရေတွင် ကျက်စားသော ငှက်မျိုး ဖြစ်ပြီးလျှင် ရယ်လီဒီးမျိုးရင်းတွင် ပါဝင်သည်။ ယင်းကို ပါဏဗေဒ အလိုအရ ဂယ်လီနျူလာ ကလိုရိုပတ် ဟူ၍ ခေါ်သည်။

ရေကြက်သည် ကိုယ်အလျား ၁၂ လက်မရှိ၍ ရေကူးရာတွင် ခေါင်းကို ညိတ်ကာညိတ်ကာ ကူးလေ့ရှိသည်။ အမြီးကိုလည်း အဆက်မပြတ် ပင့်တင်လေ့ ရှိသည်။ ထိုကြောင့် အမြီး၏ အောက်ဖက်ရှိ အဖြူကွက်များကို မြင်နိုင်လေသည်။ အစိမ်းရောင်ရှိသော ခြေထောက်များတွင် အနီရစ်ရှိခြင်းနှင့် အနီရောင် နှုတ်သီးဖျားတွင် အဝါရောင် ရှိခြင်းတို့သည် ရေကြက်၏ ထူးခြားသော လက္ခဏာများ ဖြစ်သည်။

ရေကြက်၏ အော်သံသည် ကျယ်လောင်စူးရှ၍ ရုတ်တရက် လန့်ဖျပ် အော်လိုက်သည်နှင့် တူသည်။ အော်သံကို အတော် ဝေးဝေးမှပင် ကြားနိုင်လေသည်။

ရေအစဉ်မပြတ်ရှိ၍ ကိုင်းပင်များ ထူထပ်စွာ ပေါက်နေသော နေရာမျိုးတွင် နေလေ့ရှိသည်။ ရေကြက်သည် ထုံးအိုင်များတွင် နေလေ့ ရှိသော ငှက်မျိုးဖြစ်သဖြင့် မြန်မာနိုင်ငံတွင် အင်းလန်ပြည်မှာကဲ့သို့ မဟုတ်ဘဲ၊ မြစ်များနှင့် ချောင်းများတွင် တွေ့ရခဲသည်။ ရေတွင် ပေါက်ရောက်နေသော အပင်များကြားတွင် ရေကြက်သည် သွားလာလျက် ဟင်းသီး ဟင်းရွက်များ၊ ရေပိုးရေမွှားများကို စားနေလေ့ရှိသည်။ ရေကြက်သည် ရေကူးကျင်လျှင်ပြီးလျှင် ရေတွင်လည်း ကောင်းစွာ ငုပ်နိုင်သည်။ သို့သော် ဘေးအန္တရာယ်နှင့် ကြုံသောအခါတွင်မှသာ ရေတွင် ငုပ်လေ့ ရှိပုံရသည်။ ရေစပ်ရှိ ကုန်းပေါ်သို့လည်း တက်၍ အစာ ရှာစားလေ့ ရှိသည်။ ကုန်းပေါ်သို့ တက်၍လည်း သွားလာလေ့ရှိသည်။ သစ်ပင်များပေါ်တွင်လည်း ရေကြက်သည် နားလေ့ ရှိသည့် အပြင် သစ်ကိုင်းများကို တကိုင်းပြီးလျှင် တကိုင်း ကျင်လျှင်စွာ ကူးသွား နိုင်လေသည်။ ပျံရာတွင် လေးလံပြီးလျှင် အားထုတ်၍ ပျံရပုံ ရှိသည်။ ပျံသောအခါ ရေပြင်နှင့်ကပ်၍ ပျံလေ့ရှိပြီးလျှင် လည်တံနှင့် ခြေထောက်များကို ဆန့်တန်း၍ ပျံလေ့ရှိသည်။

ရေကြက်သည် မြန်မာ နိုင်ငံ အလယ်ပိုင်း၊ တောင်ပိုင်းနှင့် ရှမ်းပြည်နယ်များရှိ သင့်တော်သော ထုံးအိုင်များတွင် မိုးဥတုအတွင်း၌ သားပေါက်လေ့ရှိသည်။ အသိုက်ကိုရေတွင် ပေါက်သည့် ဆွေးမြည့်နေသော အပင်များ၏ ပင်စည်ရိုးများ၊ အရွက်များနှင့် ပြုလုပ်လေ့ ရှိသည်။ ရေကြက်၏ အသိုက်များကို ချုံများပေါ်တွင်ရင်း၊ သစ်ပင်များပေါ်တွင်ရင်း၊ ရေပေါ်၌ မျောနေကြသည်ကိုရင်း တွေ့နိုင်ပေသည်။ တမြုံလျှင် ခြောက်ဥမှ ကိုးဥအထိ တွေ့ရလေ့ရှိသည်။ တခါတရံတွင်မူ ၁၄ ဥအထိပင် ရှိတတ်သည်။ ဥ၏အရောင်မှာ အညိုပျော့ရောင်ဖြစ်ပြီးလျှင် နီညိုရောင်နှင့် ခရမ်းရောင် အပြောက်များ ပါရှိသည်။ ရေကြက်သည် ဗြိတိသျှ ကျွန်းစုတွင် အထူးပေါများ၍ ဩစတြေးလီးယားတိုက်မှ တပါး အခြားတိုက်ကြီးများအားလုံးတွင် တွေ့ရသည်။ မြန်မာနိုင်ငံတွင်လည်း ရေကန် ထုံးအိုင်ရှိရာ ဒေသများတွင် ရေကြက်ကို တွေ့နိုင်သည်။ အထက် မြန်မာနိုင်ငံတွင် ဆောင်းရာသီ၌ တွေ့နိုင်သော်လည်း မိုးရာသီ၌မူ ရှိပုံ မရချေ။ သားလည်း ပေါက်ပုံ



ရေစပ်စပ် ကိုင်းပင်များ ထူထပ်ရာ၌ နေလေ့ရှိသည့် ရေကြက်

မပေါ်ချေ။ ရှမ်းပြည်နယ်ရှိ အတော်ကြီးသည့် ရေအိုင်များတွင် ရေကြက်များကို တွေ့နိုင်လေသည်။

**ရေကြက်ဒုံ။** ။ရေကြက်ဒုံကို သဘော်ရေကြက်ဟုလည်း ခေါ်သည်။ ပါဏဗေဒ အလိုအရ ရေကြက်ဒုံကို ဖူလီကာ အက်ထရာဟုခေါ်သည်။ ထိုငှက်သည် ရယ်လီဒီးမျိုးရင်းတွင် ပါ၏။ ရေကြက်ဒုံ၏ ကိုယ်အလျားသည် ၁၆ လက်မရှိ၏။ ငှက်ငယ်များ၏ ကိုယ်အပေါ်ပိုင်းသည် ညို၍ အောက်ပိုင်းသည် အရောင်ဖျော့ကာ အဖြူရောင်များနှင့် ရောနေသည်။

ရေကြက်ဒုံ၏ အသံမှာ စူး၍ ကျယ်သော 'ကရော-ကရော' ဟူသည့် အသံ ဖြစ်သည်။ သို့သော် အချင်းချင်း သိနားလည်အောင် ပြောဆိုသည့်အသံ မြောက်မြားစွာ ရှိသေးသည်။



ရေကြက်ဒုံ နှင့် ရေပေါ်အသိုက်

အခြား ရေကြက်မျိုးထက် ပို၍ ရေကို ကြိုက်နှစ်သက်သဖြင့် ကြီးမားသည့် ထုံးအိုင်များတွင် ရေကြက်ဒုံသည် အနေများ၏။ နွေခင်းပိုင်းတွင် ရေထဲ၌ ကူးခတ်နေပြီးလျှင် အစာ အတွက် ရေတွင် ငုပ်နေကြသော ရေကြက်ဒုံများကို မြင်နိုင်ပေသည်။ နံနက်နှင့် ညနေပိုင်းများတွင်မူ ကွင်းပြင်များသို့ သွားတတ်ကြပြီးလျှင် ပိုးကောင်၊ ခရု၊ ပက်ကျိနှင့် အပင်ငယ်များကို ရှာဖွေ စားသောက်ကြသည်။ ရေကြက်ဒုံ



ရေကြက်ဒုံ

ငှက် ပျံသောအခါ လေးလံသည့် ခြေထောက်ကြီးများကို နောက်သို့ ပစ်၍ ပျံသန်းတတ်သည်။

ရေကြက်ဒုံသည် ဥရောပတိုက်၊ အာရှတိုက်၊ ဟိမဝန္တာ တောင်၏ မြောက်ဖက်ရှိ ဒေသများ၊ အာရေဗျ၊ ဆဟားရား သဲကန္တာရ၏ မြောက်ဖက်ရှိ အာဖရိကတိုက်၊ အာရှတိုက်နှင့် ဥရောပတိုက်တို့၏ အာတိတ်ဒေသများတွင် နေထိုင်သော ငှက်မျိုးဖြစ်သည်။ ဆောင်းရာသီတွင် ရေကြက်ဒုံတို့သည် အပူလျော့ပိုင်း ဒေသများသို့ ပြောင်းရွှေ့ကာ နေထိုင်ကြသည်။ အေးသည့်ရာသီတွင် သင့်တော်သော ထုံးအိုင်များတွင် ရေကြက်ဒုံငှက်များကို အတွေ့ရများသော်လည်း သားပေါက်သည့် အထောက်အထားကိုမူ မတွေ့ရချေ။ လူရှိုင်းနယ်ခြားအနီး ချင်းတောင်များရှိ ရေအိုင်တခုတွင် သားပေါက်တတ်သည် ဟူ၍ကား ငှက်ပါရဂူတဦးက ယူဆလေသည်။ ထို့ပြင် မန္တလေးခရိုင်၊ မောင်းမကန် ထုံးအိုင်၌ ရေကြက်ဒုံများကို တနှစ်ပတ်လုံး တွေ့ရသည် ဟု ဆိုလေသည်။

**ရေကြက်မ။** ။ကလူကွက်ငှက် — ရှု။

**ရေကြောင်းမှတ်။** ။ဖော်ယာ — ရှု။

**ရေကြောင်း သွားလာခြင်း။** ။ရှေးခေတ်လူများသည် အလွန်ရိုင်းစိုင်း ရက်စက်ကြ၍ တစိမ်းတရံစာ လူမှန်လျှင် ရန်

သူမှတ်ထင်ကာ သတ်ဖြတ် တတ်ကြလေသည်။ ထိုအခါက လူတို့ ခရီးသွားလာရန်အတွက် ကုန်းလမ်းဟူ၍ မည်မည်ရရ မရှိသည့်ပြင် သားရဲ တိရစ္ဆာန်များ၊ ဆူးငြောင့် ခလုတ်များ၊ လူသား ရန်သူများ စသည့် ဘေးအန္တရာယ်အသွယ်သွယ်တို့ အလွန် ထူပြောလှပေသည်။ ရေကြောင်း ခရီးမှာ ကြောက်မက်ဖွယ်အန္တရာယ်များတွေ့ကြုံရတတ်သော်လည်း ကုန်းလမ်းထက် ပို၍ မဆိုးရွားနိုင်ဟု ယူဆလာကြသော အခါ၌ လူတို့သည် ရေကြောင်းခရီးကို စတင်၍ စမ်းထွက်ခဲ့ကြလေသည်။

သမိုင်းအရ လူတို့သည် လွန်ခဲ့သည့် နှစ်ပေါင်း ခြောက်ထောင်ကျော် ယဉ်ကျေးစကတည်းက ပင်လယ်ရေကြောင်း ခရီးဖြင့် ကူးသန်း သွားလာခဲ့လေသည်။ ထိုသို့ သွားလာသည့် လူမျိုးများအနက် အီဂျစ်၊ ဖီနီရှန်၊ ဂရိလူမျိုးတို့သည် ပဌမဆုံး ရေကြောင်း သွားလာခဲ့ကြသူများ ဖြစ်သည်ကို တွေ့ရပေသည်။

ဦးစွာ၌ ပင်လယ် ရေကြောင်းခရီး သွားသူတို့သည် ပင်လယ်ရေပြင်ကျယ်သို့ မထွက်ဝံ့ကြ ဘဲ ကမ်းခြေတလျှောက်၌သာ သွားလာဝံ့ကြ၏။ ပင်လယ် ရေပြင်ကျယ်သို့ ပဌမဆုံး ရဲရဲဝံ့ဝံ့ လွှင့်ခဲ့ကြသူများတွင် အရှေ့တိုင်းသားများ ပါဝင်ကြပေလိမ့်မည်။ မုတ်သုန်ရာသီအတွင်း၌ လေကြောင်းမှာ မှန်ကန်စွာ တဖက်သတ် တိုက်ခတ်နေ၍ ပင်လယ်ကူး သင်္ဘောများသည် မိမိသွားလိုရာ အရပ်သို့ ဖြောင့်ဖြောင့် မတ်မတ် သွားရောက် နိုင်ကြပေသည်။

ပဌမဆုံး ပင်လယ်ခရီး သွားသူများသည် ညဉ့်အခါတွင် ဓူဝံကြယ်ကို အမှတ်အသား ထား၍ မိမိတို့ သွားလိုရာ အရပ်သို့ မျက်နှာမူကာ မှန်းဆပြီးလျှင်သွားလာခဲ့ကြရလေသည်။ ထို့နောက်တွင် သင်္ဘောတည်နေရာ လတ္တီတွဒ်ကို အကြမ်းဖျင်းအားဖြင့် ခန့်မှန်းနိုင်မည့် ကရိယာများကို ပြုလုပ်သုံးစွဲခဲ့ကြလေသည်။ ထိုကရိယာကို ကြက်ခြေခတ် ကရိယာ ဟုခေါ် လေသည်။ ထိုကရိယာထဲတွင် အလျားတကိုက်မျှ ရှည်သော တုတ်ချောင်း၌ ထိုထက် အနည်းငယ် တိုသော တုတ်ချောင်းကို ထောင့်မှန်ကျအောင် ကြက်ခြေခတ်ထားသည်။ တုတ်အငယ်ကို တုတ်ချောင်း အရှည်တလျှောက် ရွှေ့ပေးနိုင်ရန် စီမံ ထားသည်။ သင်္ဘော အရာရှိသည် ထိုတုတ်ချောင်းကို နေ၊ သို့မဟုတ် ကြယ်တခုနှင့် မိုးကုပ်စက်ဝိုင်း အကြား အလည်တည့်တည့်လောက်ဆီသို့ ဦးတည့်ပြီးလျှင် အစွန်းနှစ်ဖက်ကို တဖက်ကမိုးကုပ်စက်ဝိုင်း အစပ်သို့၊ တဖက်က နေ၊ သို့မဟုတ် ကြယ်ကို ထိနေသကဲ့သို့ မြင်ရသည် အထိ ရွှေ့ပေးလေသည်။ ထို့နောက် တုတ်ချောင်း အရှည်ပေါ်တွင် မှတ်သားထားသော အမှတ်အသားများအရ နေ၊ သို့မဟုတ် ကြယ်၏ အမြင့် (တနည်း) စောင်းနေသည့်ထောင့်ကို သိရှိပြီးလျှင် လတ္တီတွဒ်ကို ထပ်မံတွက်ချက်ယူလေသည်။ သို့သော် ထိုကရိယာဖြင့် လတ္တီတွဒ် အမှန်ကို ရရန် လွန်စွာခဲယဉ်းသည်။ ထို့နောက် အက်စတြိုလေ့ခေါ် ကရိယာတမျိုးကို တီထွင်နိုင်ခဲ့ကြလေသည်။ ထိုကရိယာမှာ ကြေးဝါ၊ သို့မဟုတ် ကြေးညို အဝိုင်းပြားတခုပေါ်တွင် အလယ်တည့်တည့်၌ အယ်လစ်ဒိဒ် ခေါ် လက်တံတခုထားသည်။ လူတယောက်က ထိုကရိယာကို ထောင်လျက် ကိုင်ထားပြီးလျှင် အခြားတယောက်က လက်တံကို နေ၊ သို့မဟုတ် ကြယ်ဆီသို့ ညွှန်ပြစေရန် ရွှေ့ပေးရသည်။ ထို့နောက် ကြေးပြားဝိုင်းပေါ်တွင် မှတ်သားထားသော အမှတ်အရ နေ၊ သို့မဟုတ် ကြယ်၏ စောင်းနေသည့်ထောင့်ကို သိနိုင်ပေသည်။ ထိုကရိယာသည် လတ္တီတွဒ်ကို တွက်ချက်ရာ၌ ကြက်ခြေခတ် ကရိယာထက် များစွာ ပိုမိုတိကျစေသည့်အပြင် ပက္ခဒိန်နှင့် ယှဉ်တွဲအသုံးပြုခြင်းဖြင့် ရောက်ရာဒေသ၏ အချိန်ကိုပါ သိရှိစေနိုင်သည်။

ထို့နောက် လမ်းပြအိမ်မြှောင်ကို ၁၃ ရာစုနှစ်အတွင်း၌ တီထွင် အသုံးပြုလာ နိုင်ကြလေသည်။ ၁၈ ရာစုနှစ်တိုင်အောင် လောင်ဂျီတွဒ်ကိုမူ မရှာဖွေနိုင်ကြဘဲ ရှိကြသေးသည်။ သင်္ဘောလွှင့်ရာ၌ စက်ဝိုင်းကြီးလမ်း လွှင့်နည်းသည် အလွန် အရေးကြီးလှပေသည်။ ဤနည်းကို စက္ကူချပ်ပေါ်ရှိ မြေပုံထက် ကမ္ဘာလုံးပေါ်ရှိ မြေပုံဖြင့် ပိုမိုလွယ်ကူစွာ ရှင်းလင်းပြနိုင်ပေမည်။ အဓိကအချက်မှာ ကမ္ဘာမြေပေါ်ရှိ နေရာနှစ်ခု၏အကြား အနီးဆုံး အကွာအဝေးသည် ထိုနေရာ နှစ်ခုကို ဖြတ်သွားသော စက်ဝိုင်းကြီး၏ အပိုင်းသာ ဖြစ်



ရေကြောင်းသွားလာရေးတွင် အရေးကြီးသော ကရိယာများ



ရေကြောင်းသွား သုတေသနအဖွဲ့

သည် ဟူသော အချက် ဖြစ်၏။ စက်ဝိုင်းကြီး ဆိုသည်မှာ ကမ္ဘာလုံးကို ရစ်ပတ်ကာ နှစ်ခြမ်းခြမ်းလိုက်သည့် စက်ဝိုင်းကို ဆိုလိုပေသည်။ ပုံစံအားဖြင့် အီကွေတာ၊ သို့မဟုတ် မီရီဒီယန် (မွန်းတည့်မျဉ်း)တခုခုသည် စက်ဝိုင်းကြီးပင်ဖြစ်လေသည်။

ယခုခေတ်တွင်ကား နေရာ တကာတွင် ကော့ဒရန့် ခေါ် ဝိုင်းခြမ်းဝက် ကရိယာ၊ ဆက္ကစတန့်၊ ဂျိုင်ရိုစကုပ်၊ ဝိုင်ယာလက် ခေါ် ကြိုးမဲ့ကြေးနန်း၊ ရေ အတိမ်အနက်ကို လျှပ်စစ်ဓာတ်ဖြင့် တိုင်းတာသည့် အက်ကိုးဂီယာ ခေါ် ပဲ့တင်သံကို အသုံးပြုထားသော ကရိယာနှင့် မှူထုများ ရှိနေသောအခါ မျိုးတွင် အသုံးပြုနိုင်သည့် ရေဒါကဲ့သို့သော စက်များကို အသုံးပြုနိုင်ပြီ ဖြစ်သဖြင့် ရေကြောင်းခရီး သွားလာခြင်းသည် ဝေးသလောက် ခက်ခဲခြင်း၊ အန္တရာယ်များခြင်း မရှိတော့ချေ။

ရေခဲ။ ။သန့်စင်သည့် ရေစစ်စစ်သည် သာမန်ဖိအားသာ ရှိလျှင် အပူချိန် စင်တီဂရိတ် သုည ဒီဂရီ၊ သို့မဟုတ် ဖာရင်ဟိုက် ၃၂ ဒီဂရီသို့ ရောက်သောအခါတွင် ရေခဲအဖြစ်သို့ ပြောင်းသွားသည်။ ဆားပါသည့်ရေ ဖြစ်လျှင် ထိုအပူချိန်၌ မခဲသေးဘဲ စင်တီဂရိတ်နှစ်ဒီဂရီမျှ အောက်သို့လျော့ကျသွားမှ ခဲသည်။ အကယ်၍ ရေကို ခွက်တခုထဲ၌ ထည့်၍ အပေါ်မှ ဆီလောင်းထားကာ ခွက်ကို ငြိမ်သက်စွာ ထားလျှင် ဖာရင်ဟိုက် ၁၀ ဒီဂရီသို့ရောက်သွားသည့်တိုင်အောင် ရေမခဲဘဲနေသည်ကို တွေ့ရ၏။ သို့သော်ခွက်ကိုအနည်းငယ်လှုပ်ပေးလိုက်ရုံနှင့် ရေခဲသွားသည်ကို တွေ့ရမည်။ ရေခဲခြင်းမှာ ရေသည် အရည်အဖြစ်မှ ပုံဆောင်ခဲများအဖြစ်သို့ ပြောင်းလဲ၍ ထိုပုံဆောင်ခဲကလေးများ သိပ်သည်းစွာ စုစည်း ပေါင်းစပ်ကြခြင်းပင် ဖြစ်သည်။ ရေခဲ၏ ပုံဆောင်ခဲများသည် အပ်ချောင်း ပုံသဏ္ဍာန် ရှိပြီးလျှင် ခြောက်မြောင့် ရှိကြသည်။

အခြား အရာဝတ္ထုတို့နှင့် မတူသော ရေခဲ၏ ထူးခြားကွဲပြားသည့် အချက်မှာ အခြားအရည်တို့သည် ခဲသွားသည့်အခါ၌ သိပ်သည်းသွားကြသော်လည်း ရေမှာမူ ခဲသွားသည့်အခါမှ ကြွထလာသောအချက်ဖြစ်သည်။ ရေ၏ အသိပ်သည်းဆုံး အပူချိန်မှာ စင်တီဂရိတ် လေးဒီဂရီ ဖြစ်သည်။ ရေသည် ခဲသွားသည့် အခါ၌ ရေ၏ အရွယ်ထုထက် ၁၁ ပုံ တပုံမျှ ကြွထလာ၍ ရေထက် ပေါ့သွားသဖြင့် ရေပေါ်၌ ပေါလောပေါ်နေသည်။

ရေခဲကို သဘာဝ အလျောက်သာ ရရှိနိုင်သည် မဟုတ်၊ စက်ကရိယာတို့ဖြင့်လည်း လုပ်ယူနိုင်ပေသည်။

ရေကို စက်ကရိယာတို့ဖြင့် ခဲစေရာ၌ ရေသန့်သန့်ကို ထောင့်မှန် စတုဂံ သတ္တုခွက်များတွင် ထည့်ပေးရသည်။ သတ္တုခွက်များ၏ အရွယ်မှာ အမျိုးမျိုး ဖြစ်နိုင်သည်။ ထိုခွက်များတွင် အဖုံးများ မပါရှိစေရပေ။ ပြီးလျှင် ထိုသတ္တုခွက်များကို ဆားရည်တွင် ချပေးရသည်။ ထိုနောက် ဆားရည်အတွင်းသို့ အမ်မိုနီယာရည်များကို ပိုက်များဖြင့် သွင်းပေးရသည်။ အမ်မိုနီယာ ရည်သည် လွန်စွာ အေးသဖြင့် ဆားရည်မှ အပူများကို စုတ်ယူပြီးလျှင် အမ်မိုနီယာရည်ကို ဆူစေကာ အမ်မိုနီယာကို ဓာတ်ငွေ့ အဖြစ်နှင့် ပျံသွားစေသည်။ ဆားရည်၏ အပူချိန်သည် ဖာရင်ဟိုက် ခြောက်ဒီဂရီနှင့် ၁၈ ဒီဂရီအတွင်း၌ ရှိသည်။ သတ္တုခွက်များတွင် ထည့်ထားသော ရေများသည် ဘေးဖက်များမှ စ၍ ခဲကြသည်။ ထို့ကြောင့် ရေခဲအဖြစ်နှင့် ကြွတက်သောအခါတွင် အပေါ်ဖက်သို့သာ ကြွတက်လေသည်။ သတ္တုခွက်များအတွင်းရှိ ရေများ ခဲသွားပြီးသောအခါ ထိုခွက်များကို စက်ဖြင့် မ ယူပြီးလျှင် ရေနွေးတွင် ချပေးသည်။ ထိုအခါ ရေခဲတုံးများသည် သတ္တုခွက်များအတွင်းမှ ကျွတ်ထွက်လာနိုင်ကြလေသည်။

**ရေခဲခေတ်။** ။လွန်ခဲ့သည့်နှစ်ပေါင်းတသန်းခန့်က ကမ္ဘာ၏ မြောက်ပိုင်း တပိုင်းလုံးသည် ရေခဲပြင်အတိ ဖုံးလွှမ်းလျက်ရှိလေသည်။ ကမ္ဘာကြီးသည် အဘယ်ကြောင့် ထိုမျှလောက် အေးခဲ့သည်ကိုမူ မည်သူမျှ တပ်အပ်သေချာ မပြောနိုင်ချေ။ မိုင်ပေါင်း များစွာ ကျယ်ပြန့်သော ရေခဲပြင်ကြီးသည် ဥရောပတိုက်နှင့် မြောက်အမေရိကတိုက်မြောက်ပိုင်းတို့ကို ဖုံးလွှမ်းခဲ့လေသည်။ ထိုရေခဲပြင်ကြီးသည် တဖြည်းဖြည်း တောင်ဖက်သို့ လျှောဆင်းလာခဲ့ရာ တချိန်ကမူ ရေခဲဖုံးလွှမ်းသော မြေအကျယ်အဝန်းမှာ စတုရန်းမိုင် ရှစ်သန်းခန့်ပင် ရှိခဲ့လေသည်။ ထိုသို့ ရေခဲပြင်ကြီး ဖုံးလွှမ်းလျက် နေခဲ့သည့်ခေတ်ကို ရေခဲခေတ် ဟူ၍ ခေါ် ကြသည်။

ရေခဲခေတ်တွင် နွေရာသီမှာ တိုတောင်း၍ အေး၏။ ရေခဲပြင်ကြီးလည်း တောင်ဖက်သို့ တဖြည်းဖြည်း ရွေ့ဆင်းကျယ်ပြန့်လာသည်။ မြောက်အမေရိကတိုက်တွင်မူ ကနေဒါနိုင်ငံတခုလုံးနှင့် မစ်စစ်စပီ မြစ်ဝှမ်းအထက်ပိုင်းသည် ရေခဲအတိ ဖုံးလွှမ်းလျက်ရှိသည်။ အာရှတိုက် မြောက်ပိုင်း၊ ရုရှနိုင်ငံအထက်ပိုင်း တပိုင်းလုံးသည်လည်း ရေခဲပြင်ကြီး ဖြစ်နေသည်။ ထိုအတွင်း၌ ရာသီဥတုသည် ပူလိုက်အေးလိုက်နှင့် အမျိုးမျိုး ပြောင်းလဲလျက် ရှိသည်။ ကမ္ဘာမြေကြီး တစတစ ပူလာလျှင် ရေခဲပြင်ကြီးသည် မြောက်ဖက်သို့ ပြန်ဆုတ်သွားလေသည်။ ယခင်က ရေခဲပြင်ရှိသည့် နေရာတွင် မြက်ပင်များ ပေါက်လာ၍ တိရစ္ဆာန်များလည်း မြောက်ဖက်သို့ စွန့်စားကာ သွားရောက်ကျက်စားကြပြန်သည်။ တဖန် ရာသီ ဥတုသည် ပြန်လည်အေးမြလာလျှင် ရေခဲပြင်ကြီးလည်း တောင်



ရေခဲခေတ်အတွင်းက တိရစ္ဆာန်ကြီးများ

ဖက်သို့ လျှောဆင်းလာပြန်သည်။ ယင်းသို့ ဆုတ်လိုက်၊ ဆင်းလိုက်နှင့် ပြောင်းလဲခဲ့သည်မှာ လေးကြိမ်၊ ငါးကြိမ်ခန့် ပင် ရှိလိမ့်မည် ဟု မှန်းဆကြလေသည်။

ထိုကဲ့သို့ ရေခဲပြင်ကြီး ဆုတ်လိုက်၊ဆင်းလိုက်နှင့်အမျိုးမျိုး ပြောင်းလဲခဲ့ခြင်း အကြောင်းရင်းကို မည်သူမျှ ကောင်းစွာ မသိရှိကြချေ။ သိပ္ပံပညာရှင် အချို့ကမူ ယခု ကျွန်ုပ်တို့သည် ရေခဲခေတ်၏ ကြားကာလတွင် နေထိုင်လျက် ရှိကြသည်။ နောင်နှစ် ရာပေါင်းများစွာကြာရှိသည့်အခါ ရာသီဥတုသည် တဖန် အေးမြလာပြီးလျှင် ကမ္ဘာသည် ရေခဲပြင်ကြီး ပြန် လည် ဖုံးလွှမ်းခြင်းကို ခံရလိမ့်ဦးမည် ဟု ယုံကြည်ကြလေ သည်။ရေခဲခေတ်တခေတ်နှင့်တခေတ်စပ်ကြားတွင်နှစ်ပေါင်း



ရေခဲခေတ်ဘတွင်းက ဝမ်းရေးအတွက် လူတို့ ဤသို့ရှာဖွေခဲ့ကြရသည်။

ငါးသိန်းမျှ ကြာသည် ဟူသော တွက်ကိန်းကို ထောက်လျှင် အထက်ပါ ယုံကြည်ချက်မှာ ယုတ္တိတန်လေသည်။

ရေခဲပြင်ကြီးသည် အရည် ပျော်ကျသွားသော အခါ ချိုင့် ဝှမ်းမြေနိမ့်ဒေသတို့တွင် အင်းအိုင်များ ဖြစ်ပေါ်လျက် ကျန် ရစ်ခဲ့လေသည်။ ထို့ပြင် အမှိုက်သရိုက် ကျောက်ခဲကျောက် တုံးများသည်လည်း ဟိုနေရာ သည်နေရာတွင် စုပုံ ပြန့်ကြဲ လျက် ကျန်ရစ်ခဲ့သည်။ သို့ဖြစ်ရာ ရေခဲပြင်ကြီးသည် မြေ မျက်နှာပြင် အနေအထားကို များစွာ ပြောင်းလဲ သွားစေ လေသည်။

ရေခဲပြင်ကြီးသည် ယခင်က ပူအွေးသော ဒေသသို့ ရွေ့ လျား ကျဆင်းလာသောအခါ ထိုဒေသတွင် နေထိုင် သွား လာကျက်စားလျက် ရှိကြကုန်သော သတ္တဝါတို့ကို များစွာ အခက်အခဲနှင့်တွေ့စေသည်။အချို့သော တိရစ္ဆာန်များသည် အအေး၏ဒဏ်ကို မခံနိုင်ဘဲ လုံးဝ ပျက်စီးပျောက်ကွယ်သွား ကြလေသည်။ အချို့ကား နေပူသည့် တောင်ဖက်သို့ ပြေး လွှား ပြောင်းရွှေ့ခဲ့ကြရလေသည်။

**ရေခဲတောင်။** ။ပင်လယ် သမုဒ္ဒရာ ကြီးများ၏ ရေမျက် နှာပြင်ထက်တွင် တောင်ငယ်ကလေး တလုံးပမာ ပေနှစ်ရာ သုံးရာ နီးနီး မြင့်ပြီးလျှင် နေရောင် ဟပ်သောအခါ တပြောင် ပြောင် တလက်လက် အရောင်အမျိုးမျိုး ထွက်လေ့ရှိသော ရေခဲတုံးကြီးများသည် အမြင်အားဖြင့် ကြည့်ရှု၍ ကောင်း သလောက် လူတို့အား ဒုက္ခပေးတတ်သဖြင့် ပင်လယ်သွား သင်္ဘောကြီးများသည် အထူးသဖြင့် သတိပြုကြရလေသည်။

ကမ္ဘာ၏ အစွန်အဖျားဖြစ်သော အအေးပိုင်းများသည် ရေခဲပြင်ကြီးများဖြင့် ဖုံးလွှမ်းလျက်ရှိနေရာ ထိုရေခဲပြင်ကြီး များမှ ပဲ့ထွက်တတ်သော ရေခဲတုံးကြီးများသည် အခြား သော ပင်လယ် သမုဒ္ဒရာများအတွင်းသို့ သက်ဆင်း မျောပါ သွားလေ့ရှိလေသည်။ အထူးအားဖြင့် မြောက်ဝင်ရိုးစွန်းဖက် ရှိ အာတိတ်သမုဒ္ဒရာ၏ရေခဲပြင်ကြီးများမှ ရေခဲတုံးကြီးများ သည် အတ္တလန္တိတ် သမုဒ္ဒရာကြီးအတွင်းသို့ သက်ဆင်း မျောလာလေ့ ရှိကြ၏။ ထိုမှ တောင်ဖက်သို့ တရွေ့ရွေ့ ရောက်လာကာ နေရောင်အပူဓာတ်တို့နှင့် တွေ့သောအခါ အရည်ပျော်ပြီးလျှင် ပျောက်ပျက်သွားလေသည်။ အရည် မပျော်မီတွင်ကား ခရီးမိုင်ပေါင်းများစွာ မျောပါလာတတ် လေသည်။

တောင်ငယ်တမျှ ကြီးမားလှသော ဤရေခဲတောင်ကြီး များသည် ကိုးပုံလျှင် တပုံသာ ရေမျက်နှာပြင်ထက်တွင် ပေါ် နေ၍ ကျန် ရှစ်ပုံမှာ ရေအောက်တွင် နစ်မြုပ်နေလေသည်။

ရေခဲတောင်ကြီးများကြောင့် မည်မျှလောက် ပျက်စီး သည်ကို ရှေးအခါက ကောင်းစွာ သတိမထားမိကြချေ။ ၁၉၁၂ ခုနှစ်က တိုင်တန်နစ်ခေါ် သင်္ဘောကြီးသည် ရေခဲ တောင်နှင့် တိုက်မိသဖြင့် ပျက်စီး နစ်မြုပ်သွားသည့် အ ကြောင်းကို ကျွန်ုပ်တို့ ကြားကြရသောအခါ ကမ္ဘာတဝှန်း လုံးကပင် အထူး အံ့ဩဝမ်းနည်းကြရလေသည်။ ထိုအခါက အကြီးဆုံးဖြစ်သော အဆိုပါ သင်္ဘောကြီးသည် အင်္ဂလန် ပြည် ဆောက်သမ္ပတန်မြို့မှ အမေရိကတိုက်သို့ ပဌမအကြိမ် ခုတ်မောင်းသွားစဉ် ကြီးမားလှသော ရေခဲတောင်ကြီးနှင့် တိုက်မိသောကြောင့် နစ်မြုပ်ပျက်စီးရလေရာ ပါလာသော ခရီးသည်ပေါင်း ၂,၃၀၀ အနက် ၇၀၆ ယောက်ကိုသာ အ သက်ရှင်လျက် ကယ်ဆယ် ရရှိလေသည်။

အတ္တလန္တိတ်မြောက်ပိုင်း၌ တွေ့ရသော ရေခဲတောင်များ မှာ များသောအားဖြင့် ဂရင်းလန်း ကျွန်းကြီးရှိ ရေခဲပြင်



ရေခဲတောင်တို့သည် ပင်လယ်ရေကြောင်း သွားလာရေးတွင် ဘေးအန္တရာယ်ပြုကြသည်အတွက် ဤသို့ ဗိုင်းနမိုက်ဖြင့် ဖြိုခွဲပေးရသည်။

ကြီးမှ ပဲ့ကျသော ရေခဲအစိုင်အခဲကြီးများဖြစ်၍ တောင်ဖက်သို့တဖြည်းဖြည်း မျောပါလာပြီးလျှင် ပြေ၊ မေ၊ ဇွန် လများလောက်တွင် အတ္တလန္တိတ် သမုဒ္ဒရာမြောက်ပိုင်း သင်္ဘောလမ်းဆီသို့ ချဉ်းကပ်လာတတ်လေသည်။

သို့ဖြင့် ရေခဲတောင်များ၏ အန္တရာယ်ကို ကာကွယ်ရန် ယခုအခါ အတ္တလန္တိတ်သမုဒ္ဒရာ မြောက်ပိုင်းတွင် သွားလာနေသော ပင်လယ်ကူးသင်္ဘောပိုင်ရှင် ကုမ္ပဏီများက စုပေါင်းပြီးလျှင် သမုဒ္ဒရာကြီးတလျှောက် ကင်းထောက် သင်္ဘောများ စေလွှတ်ကာ လူစီးသင်္ဘောနှင့် ကုန်တင်သင်္ဘောများအား ပင်လယ်တွင် မျောပါလျက်ရှိသော တွေ့သမျှ ရေခဲတောင်ကြီးများ၏ နေရာနှင့် ယင်းတို့ မျောလာမည် ထင်ရသည့် လမ်းကြောင်းကို ဝိုင်ယာလက်ဖြင့် သတင်းပို့ရန် စီမံထားရ၏။ ထိုပြင် သင်္ဘောများ ခုတ်မောင်းရာလမ်းကိုလည်း ဆောင်းရာသီတွင် ရေခဲတောင်ပေါ်ရာ မြောက်ဖက်လမ်းမှ ဝေးနိုင်သမျှဝေးရာ တောင်ဖက်သို့ဆုတ်လျက် ခုတ်မောင်းစေလေသည်။

တောင်ဖက် ကမ္ဘာ လုံးခြမ်းတွင်လည်း ရေခဲတောင်များ မျောနေသည့်ဒေသများ ရှိသည်။ ထိုရေခဲတောင်များသည် အန္တာတိတ်ရေခဲပြင်မှ ပဲ့၍ မျောလာကြခြင်း ဖြစ်သည်။ ထိုကဲ့သို့ မျောနေကြသော ရေခဲတောင်များအနက် အချို့သည် အတ္တလန္တိတ် သမုဒ္ဒရာမြောက်ပိုင်းတွင် တွေ့ရသော ရေခဲတောင်ကြီးများထက်ပင် အဆပေါင်းများစွာ ကြီးမား ကြလေသည်။

**ရေခဲမြစ်။** ။အလွန်အေးသော ဒေသများတွင် မြင့်မားသော တောင်များပေါ်၌ ဆောင်းရာသီ နှင်းများ အကျများသဖြင့် နွေရာသီတွင်ပူသည့် နေ၏အပူရှိန်သည် ထိုနှင်းများအားလုံးကို အရည်မပျော်စေနိုင်ချေ။ ထိုနည်းအတိုင်း တနှစ်ပြီးတနှစ် လွန်လာသောအခါ တောင်ရှိ ချိုင့်ဝှမ်း၏ ထိပ်ပိုင်းတွင် နှင်းထုကြီးသည် လွန်စွာ ကြီးမားလာလေသည်။ တနှစ်ပြီးတနှစ် နှင်းများ အရည်မပျော်ဘဲ တည်ရှိသော ဒေသကို နှင်းကွင်းပြင် ဟု ခေါ်သည်။ နွေရာသီ၌ နေပူသော အခါတွင် နှင်းကွင်းပြင်၏မျက်နှာပြင်သည် နေပူဒဏ်ကြောင့် အရည်ပျော်ပြီးလျှင် အောက်ဖက်သို့ ရောက်ရှိ သွားလေသည်။ ထိုအခါတွင် ခဲသွားပြီးလျှင် နှင်းမှ ရေခဲအဖြစ်သို့ ပြောင်းလဲခြင်းကို အကူအညီ ဖြစ်စေသည်။ အပေါ်ရှိ နှင်း၏ အလေးချိန် ဖိအားကြောင့် နှင်းမှ ရေခဲဖြစ်ခြင်းသည်လည်း ဆက်၍ ဖြစ်ပေါ်နေလေသည်။ ထိုနည်းအတိုင်း အစဉ်တစိုက် ဖြစ်ပေါ်နေခြင်းကြောင့် နှင်းကွင်းပြင်သည် တဖြည်းဖြည်း နှင်းအဖြစ်မှ ရေခဲအဖြစ်သို့ ပြောင်းလဲသွားလေသည်။ ထိပ်ဖက်ပိုင်း နှင်း၏ အောက်ဖက်ရှိ ရေခဲသည် မမာလှသော်လည်း အောက်ဖက် အတော်ကျသော နေရာတွင် ရှိသည့်

ရေခဲများမှာမူ အစိုင်အခဲကြီး ဖြစ်နေလေသည်။ ထိုကြောင့် နှင်းကွင်းပြင် ဆိုသည်မှာ အမှန်အားဖြင့် နှင်းများဖုံးလွှမ်းနေသော ရေခဲကွင်းပြင်သာ ဖြစ်လေသည်။

ရေခဲထပ် အတော် ထူလာသောအခါတွင် တောင်၏ ဆင်ခြေလျှောတွင် ထိုရေခဲကွင်းပြင်ကြီးသည် ကမ္ဘာ့ဆွဲအားကြောင့် လျှောဆင်းစ ပြုလေသည်။ တောင်တတောင်၏ ချိုင့်ဝှမ်းတွင် လျှောဆင်းသည့် ရေခဲမြစ်ကို ချိုင့်ဝှမ်းရေခဲမြစ် ဟုခေါ်သည်။ မြစ်နှင့် တူသော်လည်း ရေခဲမြစ်သည် မြစ်ကဲ့သို့ ရေစီးမမြန်ချေ။ တနေ့လျှင် လက်မအနည်းငယ်၊ သို့မဟုတ် ပေအနည်းငယ်မျှသာ ရွေ့ရှားလေသည်။ နှေးကွေးလွန်းသဖြင့် တခါတရံ စီးဆင်းနေကြောင်းကိုပင် မသိနိုင်ချေ။ ရေခဲမြစ် လျှောဆင်းသောမျက်နှာပြင် မညီညာလျှင် ရေခဲမြစ်တွင် အက်ကွဲကြောင်းများ ရှိလာတတ်သည်။ အချို့ အက်ကွဲကြောင်းများတွင် နှင်းများရှိနေတတ်၍ ယင်းတို့ကို မြင်ရန် ခဲယဉ်းသည်။ ထိုကြောင့် ရေခဲမြစ်များကို ဖြတ်ကူးရန်မှာ တခါတရံတွင် ဘေးအန္တရာယ်နှင့် မကင်းချေ။

ရေခဲမြစ်သည် အေးသည့်အပိုင်းမှ ပူသည့်အပိုင်းသို့ စီးဆင်း ရောက်ရှိလာသည့်အခါ ရေအဖြစ်သို့ ပြောင်းလဲကာ မြစ်ကဲ့သို့ လျင်မြန်စွာ စီးဆင်းသွားသည်။ အချို့သော နေရာများတွင် အရည်မပျော်မီ ပင်လယ်နှင့် တွေ့သဖြင့် ကျိုးပဲ့ကွဲအက်ပြီးလျှင် ပင်လယ်ထဲသို့ ကျဆင်းကာ ရေခဲတောင်ကြီးများ အဖြစ်ဖြင့် ပင်လယ်ရေပြင်ပေါ်၌ ပေါ်နေတတ်သည်။ အချို့သော ရေခဲတောင်များသည် တန်ချိန် ထောင်ပေါင်းများစွာပင် လေးလံလေသည်။ (ရေခဲတောင် — လည်းရှု။)

တောင်ပေါ်မှ တောင်အောက်သို့ တအိအိ လျှောကျစီးဆင်းလာသော ရေခဲမြစ်ကို ကြည့်ရသည်မှာ ကော်ရည်ပျစ်ပျစ်ကို လောင်းချလိုက်သည့် အခါ စီးဆင်းပုံနှင့် တူသည်။ အပေါ်ပိုင်းနှင့် အလယ်ပိုင်းမှ ရွေ့ရှားမှုများသည် လျင်မြန်၍ ဘေးနှင့် အောက်ပိုင်းက နှေးသည်။ ထိုသို့ ဖြစ်ရသည်မှာ အောက်ဖက်နှင့် ဘေးဖက်တို့သည် ချိုင့်ဝှမ်း၏ အောက်ဖက်နှင့် ဘေးဖက်များကို ပွတ်တိုက်သွားရခြင်းကြောင့် ဖြစ်သည်။ ရေခဲမြစ်တခု စီးဆင်းသည့် အချိန်ကို ယင်း၏ မျက်နှာပြင်ပေါ်တွင် ပါလာသော အရာဝတ္ထု တခုကို ကြည့်ခြင်းဖြင့် သိနိုင်ပေသည်။ အချို့သည် တနေ့လျှင် လက်မ အနည်းငယ်ခန့်သာ ရွေ့ရှား၍ အချို့သည် ပေပေါင်းများစွာ ရွေ့ရှားကြသည်။ တခါတရံ တနှစ်ပတ်လုံး တနေရာတည်းမှာပင် ဝပ်၍ နေတတ်လေသည်။

ရေခဲမြစ်သည် စီးသွားရာ လမ်းတလျှောက်တွင် မြေကြီး၊ ကျောက်ခဲ၊ အမှိုက်သရိုက်များကို ပွတ်တိုက်၍ ဆောင်သွားတတ်သည်။သို့ဖြစ်ရာ ရေခဲမြစ်စီးဆင်းရာလမ်းကြောင်းတွင် နက်ရှိုင်းသော ချိုင့်ဝှမ်းကြီးများ ပေါ်ထွန်းနေတတ်



ဥရောပတိုက်တွင် နာမည်အကျော်ကြားဆုံး ရေခဲမြစ်ဖြစ်သော ပြင်သစ်နိုင်ငံမှ ရှာမွန်နစ် ရေခဲမြစ်



ဂရင်းလန်းကျွန်းရှိ ရေခဲမြစ်ကို သင်္ဘောငယ်ဖြင့် သုတေသနပြုစဉ်



တဖြည်းဖြည်းရွေ့ရှားစီးဆင်းနေသည့် ရေခဲမြစ်

ပေသည်။ အချို့ နေရာများတွင် ရေခဲမြစ်၏ တိုက်စားခြင်းကို ခံရသဖြင့် "ပ"သဏ္ဌာန် ချိုင့်ဝှမ်းကြီးများ ဖြစ်နေသည်ကို တွေ့နိုင်ပေသည်။ ဥရောပတိုက်၏ အနောက် မြောက်ဖက်ပိုင်းနှင့် မြောက်အမေရိကတိုက် မြောက်ဖက်ပိုင်းရှိ အင်းအိုင်များသည် များသောအားဖြင့် ရေခဲမြစ်များ ရွေ့ရှားမှုကြောင့် ချိုင့်ငှမ်းကြီးများ ဖြစ်ပေါ်ကာ နောင်တွင် ရေများ စုလာရာမှ ဖြစ်ပေါ်လာကြခြင်း ဖြစ်ပေသည်။

ကမ္ဘာပေါ်၌ ထင်ရှားသော ရေခဲမြစ်များကို ဥရောပတိုက်ရှိ အဲလပ တောင်တန်း၊ အလာစကာ ကျွန်းဆွယ်၊ ကနေဒါ၊ အမေရိကန်ပြည်ထောင်စု အနောက်ပိုင်းရှိ တောင်တန်းများနှင့် ဟိမဝန္တာတောင်တန်းတို့တွင် တွေ့ရှိရပေသည်။

**ရေငုပ်သင်္ဘော။** ။ရေငုပ် သင်္ဘောသည် ရေတပ်များတွင် အလွန်အရေးပါ အရာရောက်သော လက်နက်တခု ဖြစ်လျက် ရှိသော်လည်း ခေတ်မှီ ရေငုပ်သင်္ဘော ပေါ်ပေါက်လာသည်မှာကား မကြာလှသေးပေ။ အိုင်ယာလန် ပြည်ဖွား အမေရိကန်လူမျိုး ဂျွန်၊ ပီ၊ ဟော်လန်ဆိုသူသည် အမေရိကန် ရေတပ်အတွက် ရေငုပ်သင်္ဘောကို ကြံစည်ဆောက်လုပ်ရာမှ ကိုးခုမြောက်ပုံစံဖြစ်သော ဟော်လန်အမှတ် ၉ တွင် ထမြောက် အောင်မြင်လေသည်။ ထိုရေငုပ်သင်္ဘောမှာ ပဌမ သေချာစွာ အောင်မြင်ခဲ့သော ရေငုပ်သင်္ဘောပင် ဖြစ်သည်။ ထိုရေငုပ်သင်္ဘောကို ပြီးမြောက်သော နှစ်ကား ၁၈၉၈ ခုနှစ် ဖြစ်၏။ ၁၉၀၀ ပြည့်နှစ်၌ အမေရိကန် ရေတပ်က ထိုရေငုပ်သင်္ဘောကို ဝယ်ယူ အသုံးပြုလေသည်။

အမှန်အားဖြင့် ခေတ်မှီ ရေငုပ်သင်္ဘောကို ဖြစ်မြောက်အောင် ပြုလုပ်နိုင်ခဲ့သည်မှာ မကြာလှ သေးသော်လည်း ရေငုပ်သင်္ဘောကို ၁၇ ရာစုနှစ်ကတည်းကပင် ကြံစည်စိတ်ကူးမိခဲ့ကြလေသည်။ ၁၆၂၀ ပြည့်နှစ်တွင် ဒပ်ချလူမျိုး ကော်နဲလီယပ် ဗန် ဒရက်ဗဲဆိုသူသည် အင်္ဂလန်ပြည့်ရှင် ပဌမ ဂျိမ်းဘုရင်အတွက် ရေငုပ်သင်္ဘောသုံးစင်း ဆောက်လုပ်ပေးခဲ့ဘူးလေသည်။ ထိုရေငုပ်သင်္ဘောတို့ကို သစ်သားနှင့် ဆောက်လုပ်၍ ကုန်းပတ်ကို ရေလုံစေရန် အမဲဆီသုတ်လိမ်းသော သားရေနှင့် ဖုံးလွှမ်းထားသည်။ ယင်းတို့သည် ခတ်လှေများပင် ဖြစ်ကြသော်လည်း ရေအောက် ၁၂ ပေမျှ အနက်၌ သွားလာနိုင်ပြီးလျှင် နာရီပေါင်းမြောက်မြားစွာကြာအောင် ရေအောက်တွင် နေနိုင်ကြပေသည်။ ရေအောက်၌ လှေသားများ ကြာရှည်စွာ အသက်ရှင်လျက် နေထိုင်နိုင်ရန် ဒရက်ဗဲသည် မည်သို့ ကြံစည် စီမံ ပေးခဲ့သည်ကိုကား ယခုတိုင် မသိနိုင်ချေ။

အမေရိကန် တော်လှန်ရေးစစ်ပွဲ အတွင်း ယေးတက္ကသိုလ်ကျောင်းသား ဒေးဗစ် ဗွတ်ရှနဲ ဆိုသူသည် ခေတ်သစ် ရေငုပ်သင်္ဘော၏ အခြေခံဖြစ်သော ရေငုပ်သင်္ဘောတစင်းကို ကြံစည် ဆောက်လုပ်ခဲ့သော်လည်း လက်တွေ့စမ်းသပ်ရာ၌ အထမမြောက်ခဲ့ပေ။ ထိုနောက် အခြား အမေရိကန်တဦးဖြစ်သော ရောဗတ် ဖူလတန် ဆိုသူသည် နပိုလီယန်အား ရေငုပ်သင်္ဘောတည်ဆောက်ရန် စီမံကိန်းတခုကို တင်ပြခဲ့လေသည်။ နပိုလီယန်က ထိုစီမံကိန်းကို ပယ်ချခဲ့၏။ အကယ်၍သာ နပိုလီယန်သည် ဖူလတန်၏ စီမံကိန်းကို မငြင်းခဲ့လျှင် ထရာဖဲလဂါတိုက်ပွဲ အပြီးသတ်ပုံသည် တမျိုးတဖုံပြောင်းလွဲသွားနိုင်စရာ အကြောင်း ရှိပေသည်။

၁၈၉၈ ခုနှစ်၌ ဟော်လန်သည် ရေငုပ်သင်္ဘောကို ဖြစ်မြောက်အောင် ဆောက်လုပ်ခဲ့ပြီးနောက် အင်္ဂလန်ကဲ့သို့သော နိုင်ငံကြီးများကလည်း ရေငုပ်သင်္ဘောများကို မှာယူကြ၍ မိမိတို့တိုင်းပြည်များ၌ ရေငုပ်သင်္ဘောများကို ဆန်းသစ်အောင် ကြံစည်ပြုလုပ်ခဲ့သည်။ ထိုသို့ ရေငုပ်သင်္ဘောပုံစံများကို ကြံစည်ခဲ့သူများထဲတွင် ဆိုင်မွန် လိတ်သည် အထင်ရှားဆုံးဖြစ်၍ ဟော်လန်နှင့် အပြိုင်အဆိုင် ဖြစ်ခဲ့လေသည်။ ဟော်လန်လုပ်ကိုင်ခဲ့သည့် ရေငုပ်သင်္ဘောများသည် အလျားပေ ၅၀ မျှသာ ရှည်၍ တန်ချိန် ၂၀၀ ခန့်သာ လေးသည်။ ဒုတိယကမ္ဘာစစ်ကြီးအတွင်း ဂျပန်တို့၏ ရေငုပ်သင်္ဘောများတွင် တန်ချိန် လေးထောင်ကျော်အထိ ရှိသော အကြီးစားများအပြင် နှစ်ယောက်စီး အငယ်စားကလေးများလည်း ပါဝင်ပေသည်။

ရေငုပ်သင်္ဘောသည် အခြားသာမန်သင်္ဘောများနှင့်မတူ ရေပေါ်၌ရင်း၊ ရေအောက်၌ရင်း သွားလာရသောကြောင့် တမျိုးတဖုံ ထူးခြားဆန်းပြားရ၏။ ရေပြင်ပေါ်၌ သွားလာခိုက်တွင် ဒီဇယ် အင်ဂျင် စက်များကို အသုံးပြု၍ ရေအောက်တွင်မူကား အင်ဂျင်စက် အတွက် လိုအပ်သော လေကို မရနိုင်သဖြင့် ထိုစက်ကို ရပ်ထားပြီးလျှင် လျှပ်စစ်မော်တော်စက်ကို အသုံးပြုရသည်။ ဓာတ်ဆီကို ရေငုပ်သင်္ဘော၏ဝမ်းတွင်း၌ ပေါက်ကွဲမည့်ဘေးကို စိုးရိမ်ရသဖြင့် အသုံးမပြုချေ။ ရေအောက်၌ မော်တော်စက်လည်ရန် အတွက် လျှပ်စစ်ဓာတ်ကို ဗက်ထရီအိုးများမှ ရနိုင်၍ ဗက်ထရီအိုးများကို ရေပြင်ပေါ် ရောက်သောအခါများတွင် ဒီဇယ်စက်နှင့် အားဖြည့်ပေးရသည်။ ထိုသို့ ဗက်ထရီအိုးများကို ရေပြင်ပေါ်၌သာ အားဖြည့်တင်း ပေးနိုင်ခြင်းသည် ရေငုပ်သင်္ဘောအား ရေအောက်၌ ကာလရှည်ကြာစွာ ငုပ်၍ မနေနိုင်စေသည့် အကြောင်းရင်းတရပ် ဖြစ်ပေသည်။

ရေငုပ်သင်္ဘော ပုံသဏ္ဌာန်မှာ ဆေးပြင်းလိပ် ပုံသဏ္ဌာန်နှင့်တူ၍ ရေအောက်၌နေစဉ် ပတ်ဝန်းကျင်မှ ရေထု၏ဖိအားကို ခံနိုင်ရည် ရှိစေရန် ခိုင်မာသော သတ္တုများဖြင့် တည်ဆောက်ရသည်။ သင်္ဘောဝမ်းမှာ လုံးဝန်းသောသဏ္ဌာန်ရှိ၍ အချို့မှာ တထပ်သာဖြစ်သော်လည်း များသောအားဖြင့်နှစ်ထပ် ဖြစ်တတ်ကြသည်။ ထိုဝမ်းနှစ်ထပ်အကြား နေရာလပ်

များတွင် အသုံးအဆောင်ပစ္စည်းများ သိုမှီးရာ အခန်းငယ်များနှင့် တိုင်ကီခန်း အကန့်အကန့်များကို စီစဉ် ပြုလုပ်ထားသည်။ သင်္ဘောကို ရေအောက်သို့ နှစ်မြုပ်လိုသောအခါ တိုင်ကီခန်းများထဲသို့ အပြင်မှ ရေကို ဝင်ရောက်စေခြင်းဖြင့် သင်္ဘောအား လေးလံစေကာ နစ်မြုပ်စေသည်။ သင်္ဘောကို အထက်သို့ ပြန်လည်ပေါ်စေလိုသောအခါတွင် တိုင်ကီခန်းထဲမှရေကို ဖိနှိပ်ထားသောလေဖြင့် မှုတ်ထုတ်ပစ်ရသည်။

ရေငုပ် သင်္ဘောကို ပြုလုပ်ရာတွင် လွယ်ကူမည်ဟု ထင်ရသော်လည်း လက်တွေ့ပြုလုပ်ရာ၌ကား အခက်အခဲ များစွာ ရှိပေသည်။ သင်္ဘောငုပ်သောအခါ၌ ငြိမ်သက်စွာ ငုပ်မသွားဘဲ ဂျမ်းထိုးမှောက်ခုန် ဖြစ်ကာ နစ်မြုပ် မသွားရအောင်၎င်း၊ ပင်လယ်အောက်ခြေအထိ နစ်မြုပ်မသွားရအောင်၎င်း ထိန်းကြပ်ပေးရန် လိုအပ်ပေသည်။ ထို့ကြောင့် သင်္ဘောကို တည်ငြိမ်နေစေရန် သင့်လျော်သောနေရာများ၌ တိုင်ကီခန်းများကို ထားပေးရသည်။ ထို့ပြင် သင်္ဘောကို ထိန်းပေးသည့် ဟိုက်ဒရိုပလိန်းခေါ် မှန်ပြင်ညီတက်မများကိုလည်း တပ်ဆင်ပေးရသည်။ သင်္ဘောကို လိုအပ်သောအနက် အထိသာ နစ်မြုပ်သွားနိုင်အောင် လုံလောက်ရုံမျှသော အလေးချိန်ကို ဖြစ်စေရသည်။ ထိုအလေးချိန် ဖြစ်စေရန်မှာ တိုင်ကီခန်းထဲသို့ ရေသွင်းရာ၌ ကန့်သတ်၍ သွင်းပေးရသည်။ ရေငုပ်သင်္ဘောသည် ရေအောက်သို့ လျင်မြန်စွာ ငုပ်နိုင်သဖြင့် ရန်သူသင်္ဘောမျက်မှောက်မှ ရုတ်တရက် ကွယ်ပျောက်သွားနိုင်ပေသည်။

ရေပြင်ပေါ်၌ ရေငုပ်သင်္ဘော အုပ်ချုပ်စီမံပုံမှာ အခြားရိုးရိုး သင်္ဘောများ အုပ်ချုပ် စီမံပုံနှင့် အလားတူပင် ဖြစ်သည်။ ရေအောက်တွင်မူ ရေငုပ်သင်္ဘောအား အုပ်ချုပ် စီမံပေးမည့် ကရိယာအပိုများကို အသုံး ပြုရပေသည်။ ရေငုပ်သင်္ဘော၌ သင်္ဘော၏ တည်နေပုံ အနေအထားကို ပြသော ကရိယာနှင့် ရေအနက် မည်မျှတွင် ရောက်ရှိနေသည်ကို ပြသော ကရိယာတို့ကို တပ်ဆင်ထားသည်။ ရေငုပ်သင်္ဘောရှိ ကရိယာအားလုံးတွင် ပဲရစ္စကုပ် ခေါ် ပတ်လည်ကြည့် မှန်ပြောင်းသည် အရေးကြီးဆုံး ဖြစ်၏။ ပဲရစ္စကုပ်သည် သင်္ဘော ရေအောက်မြုပ်နေစဉ်တွင် ရေပြင်အထက်သို့ သုံးလက်မမျှသာ ရှည်ထွက်နေသဖြင့် အခြားနေရာမှ မြင်နိုင်ရန် ခဲယဉ်းသည်။ ရေအောက်တွင် ရေငုပ်သင်္ဘော ရှိနေစဉ်အခါ၌ အုပ်ထိန်းခန်းအတွင်းရှိ ပဲရစ္စကုပ်ဖြင့် အရာရှိများသည် ရေပြင်ပေါ်၌ သွားလာနေသော သင်္ဘောများကို တွေ့မြင်နိုင်ပေသည်။ ထို့ကြောင့် ရန်သူ သင်္ဘော လေယာဉ်ပျံတို့ကို မိမိကသာ တွေ့မြင်နိုင်၍ မိမိအား ရန်သူ သင်္ဘော လေယာဉ်ပျံတို့က မတွေ့မြင်နိုင်ချေ။ (ပဲရစ္စကုပ် — လည်းရှု။)

ရေငုပ်သင်္ဘောကို စတင် ကြံစည်စဉ်က ဆိုင်မွန်လိတ်သည် ရေငုပ်သင်္ဘောအား ရေအောက်သို့ လျှိုးဝင်သွားနိုင်ခြင်းဖြင့် ရေခဲဝိုင်းနေသော ဆိပ်ကမ်းများသို့ ဝင်ရောက်ရန်သော်၎င်း၊ ပင်လယ်အောက်၌ ဆုံးရှုံးသွားရသော ပစ္စည်းများအား ရှာဖွေရန်သော်၎င်း အသုံးပြုနိုင်လိမ့်မည် ဟု ရည်ရွယ်ခဲ့၏။ သို့သော် ရေငုပ်သင်္ဘောသည် စစ်အတွက် အဖိုးမဖြတ်နိုင်လောက်အောင် အသုံးကျသဖြင့် စစ်ဖက်၌ အသုံးပြုရန် အတွက် ရေငုပ်သင်္ဘောကို လက်နက်များ တပ်ဆင်ထားကြသည်။ ကုန်းပတ်ပေါ်က ပဲ့ထိန်းမျှော်စင်ရှေ့၌ လေးလက်မ အမြောက်တခုကို တပ်ဆင်ထား၍ တော်ပီဒိုများကို သင်္ဘောဝမ်းတွင်း၌ ဆောင်ယူသည်။ ဤလက်နက်နှစ်ခုကား ရေငုပ်သင်္ဘော၏ အချက်အခြာ လက်နက်များ ဖြစ်ကြသည်။



ရေအောက်တွင် ရေငုပ်သင်္ဘောရှိနေစဉ် ရေပြင်ပေါ်၌ သွားလာနေသော သင်္ဘောများကို ကြည့်ရန် ပဲရစ္စကုပ်ကို တပ်ဆင်ထားသည်။

အမြောက်မှာ အသုံးပြုရာ၌ လွယ်ကူသော်လည်း အခြား တိုက်သင်္ဘောများရှိ အမြောက်ကြီးများနှင့်စာလျှင် လွန်စွာ သေးနုပ်လျက် ရှိသဖြင့် တော်ပီဒိုကိုသာ အဓိက အားထား ရပေသည်။ တော်ပီဒိုမှာ များစွာ အဖိုးတန်သဖြင့် ထိမှန်မည် ဟု သေချာစွာ သိနိုင်တော့မှသာ ရန်သူသင်္ဘောကို ပစ်ခတ် ကြသည်။ထို့ကြောင့်ပင် ကိုက် ၃၀၀ ထက်ဝေးသော သင်္ဘော အား တော်ပီဒိုနှင့် မပစ်ခတ်ရ ဟု ဂျာမန် ယူဗုတ်များကို အမိန့်ထုတ်ထားလေသည်။

ရေငုပ် သင်္ဘော၌ ကရိယာ တန်ဆာ ပလာများကို ရေ ပေါ်အတွက်တမျိုး၊ရေအောက်အတွက်တမျိုး တပ်ဆင်ထား ရှိရသည့်ပြင် သင်္ဘောဝမ်းမှာလည်း ကျဉ်းမြောင်းစွာ တည် ဆောက်ရသည့်အလျောက် ပစ္စည်းကရိယာများကို နေရာ တ ကျ သိုသိပ်စွာ စီစဉ်ထားရသည်။သင်္ဘော၏ စတုရန်းလက်မ တိုင်းသည် အသုံးဝင်သော အပိုင်းချည်းသာ ဖြစ်လေသည်။

ရေငုပ်သင်္ဘော၏ အမြောက်ကို ပဌမတွင် ပင်လယ်ရေနှင့် ထိ၍ ချေးမတက်စေရန် သင်္ဘော ရေအောက် နစ်မြုပ်သော အခါများ၌ အတွင်းသို့ သွင်းထားရသည်။ နောက်မှ ဂျာမန် တို့သည် အမြောက်ကို ချေးမတက်စေရန် အမဲဆီ သုတ်လိမ်း သည့်ပြင် အခြား သတ္တုအဖုံးနှင့် ဖုံးအုပ်ထားကြလေသည်။ တော်ပီဒိုများကို တော်ပီဒို ပြွန်များမှ နေ၍ ဖိနှိပ်ထားသော လေအားနှင့် ပစ်ထုတ်ရသည်။ ထိုသို့ ပစ်လွှတ်ရာ၌ ပဲရစ္စ ကုပ် မှန်ပြောင်းမှနေ၍ ရန်သူသင်္ဘောအား ချိန်ပြီးပစ်ခတ် ရသည်။ ရှေးက ရေငုပ်သင်္ဘောများ၌ တော်ပီဒို ပြွန်နှစ်ခု သာ ပါဝင်သော်လည်း ယခုအခါ ပြွန်ပေါက် ၁၀ ပေါက်အထိ ပါဝင်ကြသည်။

ရေငုပ်သင်္ဘောများသည် အစပဌမတွင် အတော်ပင် နှေး ကွေးသော်လည်း ခေတ်မှီသင်္ဘောများမှာမူ ရေအောက်၌ တနာရီလျှင် ရေမိုင် ၁၀ မိုင်နှုန်းမျှနှင့် ခုတ်မောင်းနိုင်ကြ သည်။ ရေငုပ်သင်္ဘော၌ လုပ်ကိုင်ရသော ရေတပ်အမှုထမ်း များသည် ကောင်းမွန်စွာ လေ့ကျင့် ထားသူများ ဖြစ်ကြရ သည်။ ထိုသူများသည် အခြား ရေတပ်အမှုထမ်းများထက် လစာငွေ ပိုမိုရရှိကြလေသည်။

ရေငုပ်သင်္ဘော၏ ရေတပ်သားတိုင်းတွင် ဆာ ရောဗတ် ဒေးဗစ် တီထွင်ခဲ့သော အသက်ကယ် တန်ဆာပလာမျိုး ရှိ ရသည်။ထိုတန်ဆာပလာတွင် ပါးစပ်၌ တပ်ဆင်ထားရသော ပြွန်ငယ်တခုသည် ဖိနှိပ်ထားသော အောက်ဆီဂျင်သိုမှီးထား သည့် ဆလင်ဒါပုံသဏ္ဍာန် ဗူးငယ်တခုကို ထွက်သက်မှ ကာဗွန် ဒိုင်အောက်ဆိုက်ကို စုတ်ယူသည့် ကျည်တောင့်တခုနှင့် ဆက် သွယ်ထား၏။ ရေအောက်တွင် ဘေးဥပဒ် တစုံတခု ဖြစ်ပွား သောအခါ၌ ရေတပ်သားသည် ထို တန်ဆာပလာဖြင့် သင်္ဘောမှ လွတ်မြောက်နိုင်ပေသည်။

ရေငုပ် သင်္ဘောများသည် ရေအောက်၌ ပုန်းကွယ်၍ ရန် သူအား တိုက်ခိုက်ရန်အတွက် အသုံးဝင်သည့် အပြင် ရန်သူ့ခရီးလမ်း၌ ရေမြုပ်ဗုံးများ လိုက်လံ ချထားရန်အ တွက်လည်း အထူးအသုံးဝင်သည်။ ယခုအခါ ရေငုပ်သင်္ဘော များသည် ရေအောက်၌ ရက်ပေါင်း ၇၀ ကြာအထိ နေနိုင် ကြသည်ဖြစ်၍ ပင်လယ်ရေပြင်အထက်မှ လေသန့်ကို ပြွန်နှင့် သွင်းပေးရသည်။ ပြီးခဲ့သော ကမ္ဘာစစ်ကြီး နှစ်ခုအတွင်းက ဂျာမန်ရေငုပ်သင်္ဘောများသည် တန်ချိန် သန်းပေါင်း များ စွာသော မဟာမိတ်သင်္ဘောများကို ဖျက်ဆီး နိုင်ခဲ့လေ သည်။ ရေအောက်၌ ပေါက်ကွဲသော ဗုံးများနှင့် ရေငုပ် သင်္ဘောများအား လွယ်ကူစွာ ရှာဖွေတွေ့ရှိနိုင်သော ရေဒါ




ဆမ္မာတွင် ပဌမဦးဆုံးတည်ဆောက်သော နော့တီးလပ် အနုမြူ ရေငုပ်သင်္ဘော နယူးယောက်မြို့ ဆိပ်ကမ်းသို့ ဝင်ရောက်လာစဉ်

တို့ ပေါ်ပေါက်လာသောအခါကျမှ ထိုသင်္ဘောများက ပြု သော ဘေးရန်မှာ နည်းပါးသွားလေသည်။

စစ်ပြီးခေတ်တွင် အမေရိကန်တို့က "နော့တီးလပ်" အ မည်ဖြင့်၎င်း၊ ဗြိတိသျှတို့က "ဒရက်နော့" အမည်ဖြင့်၎င်း အနုမြူအားဖြင့် ခုတ်မောင်းသော ရေငုပ်သင်္ဘောများကို အောင်မြင်စွာ တီထွင်လာနိုင်ကြလေသည်။ယင်းတို့တွင် အ နုမြူဓာတ်အားကို တကြိမ်ထည့်ထားလျှင် အချိန်ကြာမြင့် စွာ အသုံးပြုနိုင်ရုံမက ရေအောက်၌လည်း ရက်ပေါင်းများ စွာ နေနိုင်ရာ ယင်းတို့သည် အနာဂတ်ကာလ အနုမြူစစ်ပွဲ များ၌ များစွာ အသုံးဝင်လိမ့်မည် ဟု ရေတပ်ဖက် ဆိုင်ရာ ပါရဂူကြီးအချို့က ယုံကြည်လျက် ရှိပေသည်။

**ရေငုံဆရာတော်။** ။ဆရာတော်များ — ရှု။

**ရေငုံး။** ။ရေငုံးသည် ရယ်လိဒီး မျိုးရင်းတွင် ပါဝင်၍ ပါဏဗေဒ အလိုအားဖြင့် ပေါ်ဇာနာ ဖွတ်စက ပေကာရီဟု ခေါ်သည်။ ရေငုံးသည် လူမြင် မခံတတ်သော ငှက်မျိုး ဖြစ်၏။

ယင်း၏ ကိုယ်ထည်အလျားသည် ခုနစ်လက်မခန့်ရှိသည်။ အပေါ်ပိုင်းသည် ညို၍ အောက်ပိုင်းမှာ နီသည်။ ရေငုံး ၏ ခြေထောက်များမှာ နီမြန်းနေ၍ ပျံသန်းစဉ်တွင် ထင် ရှားစွာ မြင်နိုင်သည်။ ပျံသန်းရာ၌ ဖြောင့်ဖြောင့် တန်း တန်း အလွန်လျင်မြန်စွာ ပျံသန်းနိုင်သည်။ ရေငုံး၏ အသံ မှာ သာယာ ညင်းပျောင်း၏။ ဆိတ်ငြိမ်စွာ နေတတ်၍ သားပေါက်ချိန်၌ပင် မဆူညံကြချေ။

ရေငုံးသည် တနေ့ပတ်လုံး ကိုင်းတောထဲတွင် နေပြီးလျှင် နံနက်နှင့် ညနေအချိန်၌သာ အပြင်ထွက်၍ လယ်ကွင်းများ ၌ အစာရှာဖွေသည်။ အလွန် ပုံးလျှိုးကွယ်လျှိုး နေတတ် လေသည်။

မိုးရာသီတွင် သားပေါက်၍ အသိုက်ကို မြေပေါ်၌ မြက် ဖြင့် ပြုလုပ်သည်။ တမြုံလျှင် ငါးဥမှ ရှစ်ဥအထိ ရှိသည်။ ဥအရောင်မှာ ဖြူ၍ အညိုကွက်များ ရှိသည်။

အရှေ့ပိုင်း နိုင်ငံများတွင် ရေငုံးကို အနှံ့အပြား တွေ့ရ သည်။ မြန်မာနိုင်ငံ ရာသီဥတု သင့်လျော်သော ဒေသ များ၌တွေ့ရသည်။ ရေငုံးသည် မြန်မာနိုင်ငံ၌ အမြဲနေသည့် ငှက် ဖြစ်သည်၊ သို့မဟုတ် နွေအခါမှ လာရောက်သော ငှက် ဖြစ်သည်ကိုမူ အသေအချာ မသိရသေးပေ။

**ရေစကြိုမြို့။** ။ပခုက္ကူခရိုင် ရေစကြိုမြို့နယ်၏ ရုံးစိုက်မြို့ ဖြစ်၍ ချင်းတွင်းမြစ် အနောက်ဖက် ကမ်းပေါ်တွင် တည်ရှိ သည်။ ရေစကြိုမြို့နယ်၏ အကျယ်အဝန်းမှာ ၃၈၄ စတုရန်း မိုင်ရှိ၍ သူကြီးပိုင်နယ်ပေါင်း ၉၈ ခု ပါဝင်လေသည်။ရေစကြို မြို့သည် ပခုက္ကူမြို့၏ အထက် ၂၆ မိုင်အကွာတွင်ရှိ၍ ပခုက္ကူ မြို့နှင့် မော်တော်ကားလမ်းဖြင့်လည်း ဆက်သွယ် ထား သည်။ ဧရာဝတီမြစ်နှင့် ချင်းတွင်း မြစ်ကြောင်းအားဖြင့် လည်း လှေသင်္ဘောတို့ ကူးသန်းသွားလာနိုင်သည်။ ကူးသန်း ရောင်းဝယ်မှု အတန်ဖြစ်ထွန်း၍ ရေစကြိုထန်းလျက်မှာ ထင် ရှားသော ထွက်ကုန် ဖြစ်သည်။

မြို့ပိုင်ရုံးစိုက်မြို့ဖြစ်၍ မြို့ပေါ်တွင် အစိုးရရုံးများ၊ အစိုးရ တန်းမြင့်ကျောင်းနှင့်မူလတန်းကျောင်းများရှိသည်။ ၁၉၅၃ ခုနှစ် သန်ကောင်စာရင်းအရ လူဦးရေမှာ ၇,၂၇၅ ယောက် ဖြစ်လေသည်။

**ရေဆေး ခြယ်နည်း။** ။ပန်းချီဆေးရေးအတတ်တွင် နည်း စံနစ်အမျိုးမျိုးရှိရာ ရေဆေးဖြင့် ရေးဆွဲသည့် နည်းလည်း တခု အပါအဝင် ဖြစ်၏။ သို့သော် ရေဆေးသည် ရေးဆွဲရာ တွင် မြန်မြန် ခြောက်သွေ့လွယ်သဖြင့် လိုနေသည့် နေရာကို ပြုပြင်ရန် အခက်အခဲတွေ့ရလေသည်။ ထိုပြင် ရေဆေး၏ အခြား ချွတ်ယွင်းချက်တခုမှာ ဆီဆေးလောက် အရောင် မတောက်သည့်ပြင် မြန်မြန် မှိန်လွယ်ခြင်းပင် ဖြစ်သည်။ ပန်း ချီဆရာသည် ပန်းချီကားတွင် အလင်းရောင် များများသွင်း လိုသောအခါ ရေဆေးကို အသုံးပြုရစမြဲ ဖြစ်သည်။

ရေဆေးသည် ဆီဆေးလောက် သုံးရာ၌ မလွယ်ကူသော် လည်း ပန်းချီပညာ သင်ခါစလူငယ်များသည် ရေဆေးဖြင့် ရှေးဦးစွာ သင်ယူကြရသည်။ အဘယ်ကြောင့် ဆိုသော် ရေဆေးသည် စားရိတ်ကုန် သက်သာသောကြောင့် စုတ်တံ နှင့် ဆေးခြယ်ပေးရာတွင် အလေ့အကျင့်များများ လုပ်နိုင် သည်။ စာသင်ကျောင်းများတွင် ပုံဆွဲဆရာတို့က ကျောင်း သားကျောင်းသူများကို ပုံဆွဲအတတ် သင်ပေးသည့်အခါ ရေဆေးကို အသုံးမခိုင်းမီ ရောင်စုံခဲတံ၊ ရောင်စုံ မြေဖြူ စသည်တို့ကို ရှေးဦးစွာ အသုံးပြုစေတတ်ကြသည်။

ရေဆေးသည် များသောအားဖြင့်အရည်မဟုတ်၊အရောင် အမျိုးမျိုးရှိသော ဆေးခဲများ ဖြစ်၍ ဆေးရောင်မြဲစေရန် ကော်ရည်နှင့် ရောစပ်ထားသည်။ ရေးဆွဲသူသည် စုတ်တံကို ရေထဲ၌ နှစ်ပြီးနောက် ရေကို အနည်းငယ်ခါချပြီးလျှင် လို သော အရောင် ရှိသည့် ဆေးခဲပေါ်တွင် သုတ်လိမ်း၍ စက္ကူ ပေါ်တွင် ရေးခြယ်ရသည်။

ရေဆေးသည် ရေးရခက်သဖြင့် ပန်းချီဆရာတိုင်း နိုင်နိုင် နင်းနင်း မရေးဆွဲနိုင်ကြချေ။ အချို့သော ကမ္ဘာကျော် ပန်းချီကားကြီးများမှာ ရေဆေးဖြင့် ရေးခြယ်ထားသော ပန်းချီကားများပင် ဖြစ်သည်။

အီဂျစ်၊ တရုပ်၊ ဂရိ စသည့် ရှေးကျသော နိုင်ငံများတွင် ရေဆေးကို ရှေးပဝေဏီကပင် အသုံးပြုလာခဲ့ကြသော်လည်း ၁၇ ရာစုနှစ်လောက်ဆီသို့ ရောက်မှသာ ဗြိတိန် အစရှိသော

နိုင်ငံများတွင် အနှံ့အပြား အသုံးများလာခဲ့လေသည်။ ကမ္ဘာတွင် ထင်ရှားခဲ့သော ရေဆေး ပန်းချီဆရာကြီးများ အနက် အချို့တို့မှာ ရမ်းဗရန့်၊ ရူးဗင်၊ ဒျူရာ၊ ဂီယာတင်၊ တားနား စသည်တို့ ဖြစ်ကြလေသည်။

**ရေဆင်နှာမောင်း။** ။ပင်လယ်ရေပြင်ပေါ်၌ဖြစ်စေ၊ အင်းအိုင်ရေပြင်ပေါ်၌ဖြစ်စေ လေဆင်နှာမောင်း ဖြစ်ပေါ်သည့်အခါ ရေပြင်ပေါ်မှ တိမ်တိုက်ထိအောင် အထက်သို့ ထိုးတက်နေသော နှာမောင်းသဏ္ဍာန် ရေလုံးကို ရေဆင်နှာမောင်းဟု ခေါ်သည်။ ရေဆင်နှာမောင်းသည် အထက်သို့ ပြင်းထန်စွာတက်သော လေစီးကြောင်းကြောင့် ဖြစ်လာသည်။ လျင်မြန်စွာ လေပွေမှေ၍ တက်ရာ၌ ရေဆင်နှာမောင်း အတွင်းတွင် လေဖိအား နည်းရာအရပ် ဖြစ်ပေါ်လာသည်။ ရေဆင်နှာမောင်းထဲရှိ ရေသည် ရေငန်မဟုတ်၊ ရေချို ဖြစ်သည့်အချက်ကို ထောက်၍ နှာမောင်းသဏ္ဍာန် ရေလုံးသည် လေထဲရှိ အငွေ့ရည်ဖွဲ့ခြင်းဖြစ်ကြောင်း သိရသည်။

ရေပြင်ပေါ်၌ သွားလာကြသော လှေ၊ သင်္ဘောတို့သည် လေပွေမှေသော အရှိန်ကြောင့် တိမ်းမှောက် နစ်မြုပ်နိုင်၏။ ရေဆင်နှာမောင်းသည် အပူပိုင်းဒေသရှိ ရေပြင်တွင် ဖြစ်ပေါ်လေ့ ရှိသည်။ တခါတရံ ရေဆင်နှာမောင်းသည် အမြင့်ပေ ၁,၅၀၀ အထိ တက်၍ ၁၀ မိနစ်မှ မိနစ် ၃၀ အထိ အချိန်ကြာမြင့်လေသည်။



ပင်လယ်ရေပြင်ပေါ်မှ တိမ်တိုက်ထိအောင် အထက်သို့ ပြင်းထန်စွာ ထိုးတက်နေသော ပေ ၇၀ မြင့်သည့် တရုပ်နိုင်ငံ ကမ်းခြေလွန်မှ ရေဆင်နှာမောင်းကြီး



ရေဆင်နှာမောင်းကျစဉ် ပင်လယ်တွင်း၌ ငြိမ်သက်နေလေ့ရှိသည်။

ရေညှိပင်။ ။ရေညှိပင်ကို ရုက္ခဗေဒ အလိုအရ မတ်ဆိုင်း ဟုခေါ်သည်။ ရေညှိပင် အုပ်စုတစုသည် ရေချိုတိမ်တိမ်တွင် ပေါက်၍ အခြားအုပ်စုတစုသည် စိုစွတ်သည့် မြစ်နှင့်ချောင်း ကမ်းပါးများတွင် ပေါက်ရောက်ကြသည်။ ကျောက်များနှင့် သစ်ပင်များပေါ်တွင် ပေါက်ရောက်သော ရေညှိပင်အုပ်စု လည်း ရှိသေးသည်။ ရေညှိပင်ကို စိုစွတ်သည့် ရာသီဥတုတွင် မည်သည့်အပူချိန်၌မဆို တွေ့နိုင်ပေသည်။ ပေါက်ရောက်ရာ ၌ အမြင့်ကိုလည်း မရွေးချေ။ သွေ့ခြောက်၍ နွေးသော ဒေသများတွင် ပေါက်ရောက်သော ရေညှိပင်မျိုးလည်း ရှိ သေးသည်။

ကမ္ဘာမြေကြီး ဖြစ်ပြီးစက ကုန်းပေါ်၌ ပဌမ စတင်၍ ပေါက်ရောက်သော အပင်များတွင် ရေညှိပင်လည်း ပါနိုင် စရာ ရှိသည်။

ရေညှိပင် တပင်ကို နှုတ်၍ကြည့်လျှင် ပင်စည်ကလေး၏ ပတ်လည်၌ အရွက်ငယ်ကလေးများ ထွက်နေကြသည်ကို တွေ့ရပေလိမ့်မည်။ ဆံခြည်မျှင်ကဲ့သို့သော အမြစ်ကလေး များသည်လည်း ပင်စည်ကလေး၏ အောက်ခြေတွင် ထွက် နေကြလေသည်။ ထိုအမြစ်ကလေးများကို ရိုင်းဇွိုက် ဟု ခေါ်သည်။

ရေညှိပင်တွင် အဖိုဆဲနှင့်အမဆဲဟူ၍ ဆဲနှစ်မျိုးရှိရာ ယင်း နှစ်မျိုး တွေ့ဆုံကြသောအခါ လိင်ဖြင့် မျိုးပွားခြင်း ဖြစ် ပေါ်လာသည်။ အဆိုပါ ဆဲများသည် ပင်စည်၊ သို့မဟုတ် အကိုင်းတခု၏ထိပ်ရှိ အင်္ဂါတမျိုးစီတွင် ဖြစ်ပေါ်ကြသည်။ အဖိုလိင်အင်္ဂါကို အန်သာရီဒီယမ် ဟု ခေါ်၍ အမလိင်ကို အာခီဂိုနီယမ်ဟု ခေါ်သည်။ အန်သာရီဒီယမ် ကြီးပြင်း၍ စိုထိုင်းလာသော အခါတွင် ပေါက်ကွဲသွားပြီးလျှင် အဖို ဆဲကလေးများသည် လွတ်ထွက်ကုန်ကြသည်။ ထိုသို့ လွတ် ထွက်ကုန်ကြရာတွင် အချို့သည် အာခီဂိုနီယမ်ထံသို့ ရောက် သွားနိုင်၍ အာခီဂိုနီယမ်တွင် ပြွန်အတွင်းသို့ ရောက်သွား ကာ ဥနှင့် တွေ့နိုင်ဇလသည်။ ဆဲ နှစ်မျိုးသည် အတူတကွ ကြီးပြင်းလာကြပြီးလျှင် အိုအိုစပိုးခေါ် ဥစပိုးဖြစ်သွားသည်။ ထိုအိုအိုစပိုးသည် ခြည်မျှင်ကဲ့သို့သော ပင်စည် အဖြစ်သို့ ကြီးထွားသွားသည်။ ထိုပင်စည်၏ ထိပ်တွင် အလုံးကလေး တလုံး ရှိသည်။

လိင်ဖြင့် မျိုးမပွားသောအခါတွင် အဆိုပါ အလုံးကလေး အတွင်း၌ အပင်သစ်ကလေး တပင် စတင်၍ ပေါက်လာ သည်။ အချို့ ဆဲကလေးများသည် ထိုနေရာတွင် ကွဲသွား ကြပြီးလျှင် မျိုးမှုန်များ ဖြစ်သွားကြသည်။ ထိုမျိုးမှုန်များ က မျိုးစေ့များသဖွယ် ပြုမူကြသည်။ ရေညှိပင်ရှိ အလုံးက လေးများတွင်များသောအားဖြင့် အဖုံးပါသောပါးစပ်ကဲ့သို့ သော အပေါက်ကလေး ရှိသည်။ မျိုးမှုန်များ ကြီးပြင်းလာ ကြသောအခါတွင် အဖုံးသည် အောက်သို့ ကျသွားလေ သည်။ ထိုအခါ သွားကလေးတစုံက မျိုးမှုန်များ ပြန့်ကြဲ မသွားစေရန် ထိန်းသိမ်းပေးသည်။ ထို့ပြင် ထိုသွားကလေး များဖြင့်ပင် လေအတွင်းမှ ရေကို စုတ်ယူကြသည်။

မျိုးမှုန်များမှ ခြည်မျှင်ကဲ့သို့သော ပရိုတိုနီမာ အဖြစ် ဖြာထွက်လာနိုင်သည်။ ပရိုတိုနီမာရှိ အဖုးများမှ ရေညှိပင် အသစ်ကလေးများသည် အရွက်များ အမြစ်များနှင့် အတူ ဖြစ်ပေါ်လာသည်။

မျိုးမှုန် အမြောက်အမြားသည် အနီး အဝေးသို့ ပြန့်ကြဲ သွားကြလေသည်။ စိုထိုင်းပြီး နွေးသောနေရာတိုင်း၌လည်း ပရိုတိုနီမာများ ဖြစ်လာကြသည်။ နေပူသော အခါတွင် အချို့ရေညှိပင်များ၏ အရွက်များသည် တွန့်လိမ်သွားကြ လေသည်။ ထိုနည်းဖြင့် နေပူသည့် အခါတွင် သွေ့ခြောက် ခြင်းမှ ကာကွယ်ယူကြသည်။ ထိုသို့ တွန့်လိမ်နေသော ရေ ညှိပင်များသည် ညို၍ သေပြီ ဟု ထင်ရသော်လည်း ရေ၊ သို့မ ဟုတ် အအေးဓာတ်နှင့် တွေ့ထိသော အခါတွင် စိမ်းလန်းစို ပြည်၍ လာကြပြန်သည်။ အချို့ရေညှိပင်များ၏ အရောင် များသည် လေထုအတွင်းရှိ ရေငွေ့အနည်းအများကို လိုက်၍ အရောင် ပြောင်းလဲတတ်ကြသည်။

ရေညှိပင်များက မြေဆီလွှာကို ဖြစ်ပေါ်စေ၏။ ယင်းတို့ ၏ အမြစ်ကလေးများက ကျောက်ကို တဖြည်းဖြည်း ခွဲချ ကြသည်။ ကြာသောအခါတွင် ကျောက်တုံးသည် တူဖြင့် ထုသောအခါ၌ ကြေကုန်သကဲ့သို့ ကြေသွားလေသည်။ တ ဖန် ရေညှိပင်၏ အရွက်ကလေးများက လေအတွင်းမှ ဖုံမှုန့် ကလေးများကို စုယူကြသည်။ ထိုဖုံမှုန့်ကလေးများနှင့် အ ပင်သေတို့၏ တစ်ရှူးများ ရောစပ်မိသောအခါတွင် မြေဆီ လွှာ ဖြစ်သွားလေသည်။

ရေညှိပင်သည် များသောအားဖြင့် မိုးရေကို ထိန်းသိမ်း ထားနိုင်လေသည်။ ရေညှိပင်ပေါက်ရာ မြေကြီးသည် စိုထိုင်း လျက်ရှိသဖြင့် အခြားအပင်များ ပေါက်ရောက်နိုင်ကြသည်။ ရေညှိပင်များက မြေဆီလွှာအတွင်းရှိ ရေကို ထိန်းသိမ်းထား ခြင်းဖြင့် ရေလွှမ်းမိုးခြင်းကိုလည်း ကာကွယ်ပေးနိုင်သည်။

စိမ့်များတွင် တွေ့ရလေ့ရှိသော သစ်ဆွေး မီးသွေးတွင် ပေါက်သော ရေညှိပင်မျိုးလည်းရှိသေးသည်။ ရေညှိပင်များ သည် သေနေသော ရေညှိပင် အထပ်များပေါ်တွင် ပေါက် လျက် ရှိကြသည်။ သေနေသော ရေညှိပင်များသည် ကြာ သောအခါ ဆွေးမြည့်ပြီးလျှင် သစ်ဆွေးမီးသွေးအဖြစ်သို့ ပြောင်းလဲ သွားကြသည်။ သစ်ဆွေးမီးသွေးကို လောင်စာ အဖြစ်နှင့် အသုံးပြုနိုင်သည့်အပြင် မြေသြဇာအဖြစ်နှင့်လည်း အသုံး ပြုနိုင်သည်။ သစ်ဆွေးမီးသွေးကို ထောင်းပြီးလျှင် မြေဆီလွှာနှင့်ရောစပ်ပေးက မြေဆီလွှာ၏ မြေသြဇာသည် ပို၍ကောင်းမွန်လာသည်။ ထိုသစ်ဆွေးမီးသွေးက ရေငွေ့ကို ပို၍ ထိန်းသိမ်း ထားနိုင်လေသည်။

အိုင်ယာလန်၊ ဂျာမနီ၊ ဆွီဒင်၊ နယ်သာလန်နှင့် အမေရိကန်နိုင်ငံများရှိ အချို့အစိတ်အပိုင်းများတွင် သစ်ဆွေး မီးသွေးညွန်အိုင်များ ရှိသည်။ သစ်ဆွေးမီးသွေးတွင် ပေါက်သော ရေညှိပင်သည် ခရီးဝေးသို့ အပင်များကို တင်ပို့ရာ၌ ထုပ်ပိုးရန်အတွက် အလွန်ကောင်းသည်။ ပဌမ ကမ္ဘာစစ်အတွင်းက လူများကို ခွဲစိတ်ကုသပေးရာတွင် ခွဲစိတ်ပြီးလျှင် အနာများကို ထိုရေညှိပင်မျိုးနှင့် စည်းပေးလေ့ ရှိခဲ့ဘူးသည်။ ရေညှိပင်ဖြစ်ပေါ် နေပုံသည် စပန်းရေမြှုပ်နှင့်တူသဖြင့် သွေ့ခြောက်သည်ဟု ထင်ရသော်လည်း ရေအမြောက်အမြားကို သယ်ဆောင်ထားနိုင်လေသည်။

အချို့ အနောက်နိုင်ငံများတွင် မွေးရာများ ပြုလုပ်ရာ၌ တန်ဖြာသမင်၏ အမွေးများနှင့် ရေညှိပင်များကို ရော၍ အသုံးပြုလေ့ ရှိကြသည်။ အချို့ ငှက်များကလည်း သူတို့၏ အသိုက်များတွင် ရေညှိပင်များကို ကပ်ထားလေ့ ရှိကြသည်။ မြောက်အမေရိကတိုက် နယ်ခြားဒေသများ၌ နေထိုင်ခဲ့ကြသူများသည် မိမိတို့ သစ်လုံး အိမ်များတွင် သစ်လုံးများအကြားရှိ အက်ကြောင်းများကို ရေညှိပင်များနှင့် ဖာထေး ထားခဲ့ကြသည်။

ရေညှိပင်အစစ် မျိုးစိတ်ပေါင်း ၅,ဝဝဝ ခန့် ရှိကြောင်းသိရ၍ ယင်းတို့သည် ကမ္ဘာအနှံ့အပြား၌ ပေါက်ရောက်လျက် ရှိကြပေသည်။

**ရေညှောင့်ကောင်။** ။ရေညှောင့်ကောင်ကို ပါဏဗေဒ အလိုအရ ထရင်ဂါ အော့ခရိုပပ် ဟု ခေါ်သည်။ ထိုငှက်သည် စကိုလိုပါစီဒီး မျိုးရင်းတွင် ပါဝင်၏။

ရေညှောင့်ကောင်၏ ကိုယ်အလျားမှာ ကိုးလက်မခွဲခန့် ရှိသည်။ ပျံသန်းရာ၌ ထိုငှက်၏ အတောင်မည်းများကို ဖြူဖွေးနေသော တင်ပါး၊ အမြီးနှင့် ရင်ပတ်တို့ကြောင့် ထင်ရှားစွာ မြင်နိုင်လေသည်။ ထို့ပြင် တကောင်တည်း နေထိုင်တတ်သဖြင့် ထူးခြားသည်။ ပျံနေစဉ် လန့်သောအခါ ပဌမတွင် တဆစ်ချိုး ပျံတတ်ပြီးလျှင် ထိုနောက်တွင် အပေါ်သို့ မြင့်သည်ထက် မြင့်အောင် ပျံတက်သွားတတ်သည်။ သို့မဟုတ် ကောင်းကင်ပြင်တွင် စနိုက်ငှက်ကဲ့သို့ ပတ်၍ ပျံနေ တတ်လေသည်။

လန့်သောအခါ၌ အော်လေ့ရှိသော အသံမှာ နားထောင်၍ ကောင်းသည့် 'တလူစီ-တလူစီ' ဟူသည့်အသံ၊ သို့မဟုတ် 'ကလူစစ်' ဟူသည့် အသံမျိုးဖြစ်ပြီးလျှင် ပဌမအသံကို ဆွဲ၍ အော်တတ်သည်။

ရေညှောင့်ကောင်သည် ဒေသပြောင်းသော အခါ၌ တခါတရံတွင် အအုပ်အသင်းကလေးများ ဖွဲ့၍ ပျံသန်းတတ်သော်လည်း သာမန် အချိန်တွင် တကောင်တည်း နေထိုင်တတ်လေသည်။ မည်သည့် ရေအိုင်စပ် အနီး၌မဆို နား၍ အစာကို ရှာဖွေစားလေ့ရှိခြင်းနှင့် မည်မျှပင် သေးငယ်သော ကျွဲလူးအိုင်၏ အနီး၌ဖြစ်စေ နားပြီးလျှင် အစာကို ရှာဖွေ စားလေ့ ရှိခြင်းတို့သည် ထိုရေညှောင့်ကောင်၏ ထူးခြားချက်တရပ်ဖြစ်သည်။ ထို့ပြင် ထုံးအိုင်များနှင့် ရေလွှမ်းမိုးသည့် နေရာများတွင်လည်း ရေညှောင့်ကောင်ကို တွေ့ရတတ်သည်။ သို့သော် လဟာပြင်များနှင့် ဒီရေအတက်အကျ ရှိသော ချောင်းမြောင်းများ၏ ကမ်းပါးများတွင်မူ ရေညှောင့်ကောင်ကို တွေ့ရခဲသည်။ လမ်းလျှောက်ရာတွင် ဖျတ်လတ်သည့်အပြင် ဦးခေါင်းကိုလည်း ညိတ်တတ်သည်။ ထို့ပြင် အမြီးကိုလည်း မြှင့်ချည်နှိမ့်ချည် လုပ်တတ်သေးသည်။ မြန်မာနိုင်ငံ၌ ရာသီဥတုသင့်တော်သောဒေသများတွင် ရေညှောင့်ကောင်ကို တွေ့ရ၏။ အထူးသဖြင့် ပဲခူး ရိုးမရှိ သစ်တောများ၏ ချောင်းများတလျှောက်တွင် ရေညှောင့်ကောင်များကို အတွေ့ရများသည်။

ရေညှောင့်ကောင်သည် မြန်မာနိုင်ငံ၌ အမြဲ နေထိုင်သော ငှက် မဟုတ်သော်လည်း ဆောင်းရာသီတွင် မြန်မာနိုင်ငံ တဝှမ်းလုံးသို့ လာရောက် နေထိုင်တတ်သည်။



ရေအိုင်စပ်တွင် ကျက်စားလေ့ရှိသည့် ရေညှောင့်ကောင်

**ရေတာရှည်မြို့။** ။ရေတာရှည် မြို့သည် တောင်ငူ ခရိုင် ရေတာရှည်မြို့နယ် ရုံးစိုက်မြို့ဖြစ်၍ တောင်ငူမြို့၏ မြောက်ဖက်တွင် မန္တလေးသွား မီးရထားလမ်းပေါ်၌ တည်ရှိသည်။ ရေတာရှည် မြို့နယ်သည် တောင်ငူခရိုင်၏ အနောက်မြောက်ဖျားတွင် ရှိ၍ ၉၉၆ စတုရန်းမိုင် ကျယ်ဝန်း၏။ ရေတာရှည်မြို့သည် တောင်ငူမြို့နှင့် ကားလမ်းအားဖြင့်၎င်း၊ မီးရထားလမ်းအားဖြင့်၎င်း အဆက်အသွယ်ကောင်းသော မြို့ကလေးဖြစ်သည်။ တောင်ငူမြို့မှ မီးရထားလမ်းအတိုင်း ၁၇ မိုင်ဝေး

သည်။ မြို့အနောက်ဖက်ရှိ လယ်ကွင်းနှင့် ရွာစဉ်များသည် ပဲခူးရိုးမတောင်ခြေအထိ ရောက်သည်။

မြို့ပိုင် ရုံးစိုက်သော မြို့ဖြစ်၍ အစိုးရရုံးများ၊ အစိုးရ အထက်တန်းကျောင်း၊ သစ်စက်နှင့် ဆန်စက်များရှိ၏။ ၁၉၅၃ ခုနှစ် သန်ကောင်စာရင်းအရ လူဦးရေ ၄,၉၂၂ ယောက် ရှိလေသည်။

ရေတက်ရေကျ။ ။ဒီ — ရှု။

**ရေတပ်။** ။လွန်ခဲ့သည့် နှစ်ပေါင်း နှစ်ထောင်ကျော်က တည်းကပင် လူမျိုးစု တစုနှင့် တစုသည် ကုန်းပေါ်တွင် သာမက ရေ၌လည်း စစ်ပွဲများ ဆင်နွှဲခဲ့ကြကြောင်းကို ကမ္ဘာ့ သမိုင်းမှ သိကြရပေသည်။ ဘီ စီ ၄၈၀ ပြည့်နှစ်က အာတီမစ် ဆီယမ်နှင့် ဆာလာမစ်အရပ်တို့၌ ဂရိသင်္ဘောများနှင့် ပါးရှင်း သင်္ဘောတို့ တိုက်ခိုက်ကြရာတွင် ပါးရှင်းတို့ အရေးရှုံးနိမ့် သွားကြလေသည်။ ထိုစစ်ပွဲအတွင်း အသုံးပြု ကြသော သင်္ဘောများမှာ သစ်သားနှင့် လုပ်သော လှေများဖြစ်၍ ခတ်တက်များဖြင့် ခတ်၍ သွားလာကြရလေသည်။ ရောမ လူမျိုးများ တန်ခိုးထွားခဲ့စဉ် အခါကလည်း ခတ်တက်ခတ် လှေကြီးများကိုပင် သုံး၍ လှေခတ်သူများ အဖြစ် စစ်သုံ့ ပန်းများ၊ ရာဇဝတ်ကောင်များ၊ ရာသက်ပန် ကျွန်များကို အတင်းအကြပ် စေခိုင်းခဲ့ကြလေသည်။

ထိုစဉ်က လှေတစင်းတွင် တဖက်လျှင် ခတ်တက် ငါးတက်စီမျှ ရှိ၍ အထပ် ငါးထပ် ပါဝင်ပြီးလျှင် တထပ်ပေါ် တထပ် ဆင့်ထားလေသည်။ ၁၅၇၁ ခုနှစ်တွင် ရောမ၊ ဗင်းနစ်နှင့် စပိန် နိုင်ငံတို့က ခေါင်းဆောင်၍ တူရကီရေတပ်နှင့် တိုက်ခိုက် ခဲ့သည့် သမိုင်းတွင် ထင်ရှားခဲ့သော လီပန်တို တိုက်ပွဲမှာ ခတ် လှေကြီးများဖြင့် နောက်ဆုံး အကြီးအကျယ် တိုက်ခိုက်ခဲ့ သော ရေတပ်တိုက်ပွဲပင် ဖြစ်ပေသည်။ အမှန်စင်စစ် ခတ် လှေကြီးများမှာ လှိုင်းလေ ငြိမ်သက်သည့် မြေထဲ ပင်လယ် ကဲ့သို့သော ဒေသမျိုးတွင်သာ သင့်လျော် လေသည်။ ရွက်လှေမှာ ခတ်လှေထက် များစွာ ပိုမို ကောင်းမွန်သည်ကို တွေ့ရသောအခါ နိုင်ငံအသီးအသီးတို့သည် တဖြည်းဖြည်း ရွက်လှေကိုသာ စစ်တိုက်ရန် အသုံးပြုလာကြလေသည်။

ဦးစွာ၌ ဟော်လန် ပြည်သည် ရေကြောင်း ဖက်တွင် ဗိုလ်ဆွဲခဲ့လေသည်။ ၁၅၈၈ ခုနှစ်၌ ဗြိတိသျှ ရေတပ်သည် စပိန်ရေတပ်ကြီးကို အောင်မြင်လိုက်သည်မှစ၍ အင်္ဂလန်ပြည် ၏ ရေတပ်အင်အားသည် အကြီးမားဆုံး ဖြစ်လာလေသည်။ (စပိန် ရေတပ်ကြီး — လည်းရှု။) ၁၈ ရာစုနှစ်တွင် ပြင်သစ် ရေတပ်နှင့် အင်္ဂလိပ်ရေတပ်တို့သည် နှစ်ပေါင်းရှည်ကြာစွာ တိုက်ခိုက်ခဲ့ကြသည်။ ၁၈၀၅ ခုနှစ်တွင် ထရာဖဲလဂါ တိုက်ပွဲ ၌ အင်္ဂလိပ်ရေကြောင်း ဗိုလ်ချုပ်ကြီး နယ်လဆင်သည် ပြင်သစ် ရေတပ်ကို အပြီးသတ် အောင်မြင်လိုက်လေသည်။ (ထရာဖဲလဂါတိုက်ပွဲ — လည်းရှု။) ထိုနောက်တွင် အင်္ဂလန် ပြည်၏ ရေတပ်အင်အားသည် ကြီးမားသည်ထက် ကြီးမား လာပြီးလျှင် ဗြိတိသျှ အင်ပါယာကြီးကိုလည်း ရေတပ်အင် အားဖြင့် ချဲ့သည်ထက် ချဲ့လာခဲ့လေသည်။

၁၈၁၅ ခုနှစ် နှင့် ၁၈၆၁ ခုနှစ်အကြားတွင် ရေတပ် တိုက်ပွဲ များ မရှိဘဲ အထူးငြိမ်သက်လျက် ရှိလေသည်။ ယင်းသို့ ငြိမ် သက်လျက် ရှိခြင်းမှာ အခြားကြောင့် မဟုတ်၊ သင်္ဘောတည် ဆောက်သည့် လုပ်ငန်း တိုးတက် ပြောင်းလဲလာမှုကြောင့် ဖြစ်၏။ ထိုအချိန် မတိုင်မီက စစ်သင်္ဘောများကို သစ်ဖြင့် သာ ဆောက်လုပ် ခဲ့ကြ၍ သင်္ဘော၌ ပါသည့် အမြောက် များမှာလည်း ကျည်ဆန် အလုံးကြီးများကိုသာ သုံးလေ သည်။ ရေနွေးငွေ့ အင်ဂျင်စက်များ ပေါ်ပေါက်လာသော အခါတွင် ရွက်များကို လုံးဝ ဖယ်ရှားလိုက်ပြီးသော် မီး သင်္ဘောများကို အသုံး ပြုလာကြသည်။ အမြောက်များ မှာလည်း ပိုမို ကြီးမားလာလျက် ယခင်ကကဲ့သို့ ကျည်ဆန် အလုံးအစား ကျသည့်နေရာ၌ ပေါက်ကွဲစေသော ကျည်ဆန် များကို အသုံးပြုလာနိုင်ကြလေသည်။

ထိုအခါ သင်္ဘောများကို သစ်ဖြင့် တည်ဆောက် မည့် အစား အမြောက်ဒဏ်ကို ခံနိုင်ရည် ရှိမည့် သံဖြင့် တည် ဆောက်လာခဲ့ကြလေသည်။ ထိုအချိန်၌ အမေရိကန် ပြည် ထောင်စုတွင် ပြည်တွင်းစစ် ဖြစ်ပွားနေချိန် ဖြစ်သည်။ တောင်ပိုင်း ပြည်နယ်တို့၏ 'မယ်ရီမက်' နှင့် မြောက်ပိုင်းပြည် နယ်တို့၏ 'မော်နီတာ' တို့ တိုက်ခိုက်သည့် တိုက်ပွဲမှာ သံထည် နှင့် တည်ဆောက်သော သင်္ဘောနှစ်စင်းတို့ ပဌမဆုံး တိုက် ခိုက်သော တိုက်ပွဲဖြစ်လေသည်။ ၁၈ ရာစုနှစ်မှ ၁၉ ရာစုနှစ် အတွင်း သင်္ဘောများကို သံထက် ပိုမိုတောင့်တင်းသော သံမဏိဖြင့် တည်ဆောက် လာနိုင်ကြလေသည်။ ထိုနောက် တွင် ရေနွေးငွေ့ အင်ဂျင်စက်များအစား ပိုမို ကောင်းမွန် သော မာတ်ဆီသုံး အင်ဂျင်စက်များကို အသုံးပြုလာကြ လျက် အမြောက်များကိုလည်း ပြင်းထန်သည်ထက် ပြင်းထန် အောင် ကြံစည် လုပ်ကိုင် လာခဲ့ကြလေသည်။

၁၉၀၆ ခုနှစ်တွင် ဗြိတိသျှတို့သည် ရှေးသင်္ဘောများထက် များစွာ ပိုမို ကြီးမား၍ အမြောက်ကြီးများ တပ်ဆင်ထား သော သင်္ဘောကြီးများကို တည်ဆောက်ကာ ကမ္ဘာ တခုလုံး ကို ခြိမ်းခြောက်ခဲ့လေသည်။ ထိုသင်္ဘောများကို ဗိုလ်မထား ဟူသော အမိပွါယ်နှင့်'ဒရက်နော့'ဟု အမည်ပေးခဲ့လေသည်။ အခြား နိုင်ငံတို့ကလည်း အားကျမခံ ထိုထက် ကြီးမားသော သင်္ဘောများကို ကြံစည် ဆောက်လုပ်ခဲ့၍ ထိုသင်္ဘောတို့ကို ဗိုလ်တကာ့ ဘုရင် ဟူသော အဓိပ္ပါယ်မျိုးနှင့် 'ဆူပါဒရက် နော့'ဟု အမည်ပေးခဲ့ကြလေသည်။

သင်္ဘောများကို တမျိုးထက်တမျိုး ပိုမိုကြီးမား[illegible]ပြီးလျှင်

ကြောက်စရာ ကောင်းသည်ထက် ကောင်းအောင် ကြံစည် တည်ဆောက်ခဲ့ကြရာ တိုးတက် ပြောင်းလဲခြင်းမှာ လွန်စွာ လျင်မြန်လေသည်။ တကြိမ်က ကောင်းလှပါသည် ဆိုသည့် ပဌမတန်း စစ်သင်္ဘောကြီးသည် ငါးနှစ်မျှ မကြာမီပင် သူ့ထက် ပိုကောင်းသော သင်္ဘောအသစ်အား နေရာဖယ်၍ ပေးရသည့်အခြေသို့ ဆိုက်ခဲ့လေသည်။အထက်ပါ'ဒရက်နော့' အမျိုးအစား စစ်သင်္ဘောများသည် ယခုခေတ် စစ်သင်္ဘောများကို ရင်ဆိုင်ဝံ့ကြမည် မဟုတ်၊ မြင်ရုံနှင့်ပင် လွတ်ရာသို့ ထွက်ပြေးကြရမည် ဖြစ်သည်။

ဗြိတိသျှ အင်ပါယာကြီးမှာ ကမ္ဘာတဝှန်းလုံး၌ အနှံ့အပြား တည်ရှိနေသဖြင့် ထိုအင်ပါယာကြီးကို ကာကွယ်ရန် အလွန် အင်အားကြီးမားသော ရေတပ်ကို လိုအပ်ခဲ့လေသည်။ ထို့ကြောင့် ရေတပ်အင်အားကို အနည်းဆုံးအခြားနိုင်ငံကြီး နှစ်နိုင်ငံပေါင်းထားသည့် ရေတပ်အင်အားနှင့် ညီမျှစေရန် ကြိုးစား၍ပြုစုပေးခဲ့ရလေသည်။ထို့ကြောင့်ပင် ပဌမကမ္ဘာစစ်အစတွင် ဗြိတိသျှရေတပ်၌ ဂျာမန်နှင့် အမေရိကန် ရေတပ် နှစ်ခုပေါင်း၍ရသည့် စစ်သင်္ဘော အရေအတွက်ထက် များစွာ ပိုမိုများပြားသော စစ်သင်္ဘောများ ရှိခဲ့လေသည်။ ပဌမကမ္ဘာစစ်တွင် ဂျာမနီကို ဗြိတိသျှတို့က အောင်မြင်ခဲ့ရာတွင် ရေတပ် အင်အားကြီးမားခြင်းသည် အကြောင်းရင်း တရပ်ဖြစ်လေသည်။ ပဌမ ကမ္ဘာစစ်အပြီးတွင်လည်း ဗြိတိသျှတို့သည် ရေတပ်ကို အဓိက ထားကာ အားကြီးမာန်တက် ကြီးကျယ်သည်ထက် ကြီးကျယ်လာစေရန် ကြိုးစားလျက် ဂျီဗရော်တာ၊ စင်္ကာပူ စသော အချက်အခြာ နေရာများတွင် ခိုင်ခံ့တောင့်တင်းလှသည့် ရေကြောင်း ခံတပ်စခန်းကြီး များကို တည်ဆောက် ထားလေသည်။ သူတို့သည် ကမ္ဘာပေါ်တွင် သူတို့၏ ရေတပ် အင်အားမှာ အကြီးမားဆုံး ဟူ၍ ဝင့်ဝါဂုဏ်ယူခဲ့ကြလေသည်။

ပဌမ ကမ္ဘာစစ် ပြီးဆုံးခဲ့သည့်နောက် အမေရိကန် ပြည်ထောင်စု၏ သမတကြီး ဟာဒင်းသည် ရေတပ် အင်အားပြိုင်ဆိုင်မှုမှ ပေါ်ပေါက်လာမည့် စစ်ဘေး အန္တရာယ်ကို ကြိုတင်သိမြင်သဖြင့် ၁၉၂၁ ခုနှစ်တွင် ဝါရှင်တန်မြို့၌ ဗြိတိန်၊ ဂျပန်၊ ပြင်သစ်၊ ဣတလီ နိုင်ငံတို့မှ ကိုယ်စားလှယ်တော်များနှင့် မျက်နှာစုံညီ တွေ့ဆုံ၍ ရေတပ်လက်နက် လျှော့ပေါ့ရေး အတွက် ဆွေးနွေးခဲ့လေသည်။ ထိုဝါရှင်တန် ညီလာခံမှ ဆုံးဖြတ် သဘောတူခဲ့ကြသော စာချုပ်အရဆိုလျှင် ဗြိတိန်၊ အမေရိကန်နှင့် ဂျပန်တို့သည် ၅း၅း၃ အချိုးအစားအားဖြင့်သာ သင်္ဘောကြီးများကို ဆောက်လုပ်ကြရန် ဖြစ်သည်။



ရေတပ်တွင် စစ်သင်္ဘောကြီးများအပြင် ကမ်းခြေကို ကင်းလှည့်ရန် အမြန်သွား မော်တော် ရေယာဉ်များကိုလည်း အသုံးပြုသည်။

ပြင်သစ်နှင့် ဣတာလီနိုင်ငံတို့မှာ ၁-၆၇ အချိုးအစား အရမျှသာ သင်္ဘောကြီးများကို ဆောက်လုပ်ခွင့် ရကြလေသည်။

၁၉၃၄ ခုနှစ်တွင် ဂျပန်နိုင်ငံသည် ထိုစာချုပ်မှ နုတ်ထွက်လိုက်၍ ထိုနှစ် မတ်လ၌ ဗြိတိန်၊ အမေရိကန်နှင့် ပြင်သစ် သုံးနိုင်ငံတို့ကလည်း မိမိတို့၏ ရေတပ်အင်အားကို ခြောက်နှစ်အတွင်း နှစ်စဉ် အချင်းချင်း အသိပေးကြရန် စာချုပ်တခုကို ထပ်မံချုပ်ဆိုကြလေသည်။ ၁၉၃၅ ခုနှစ် ဇွန်လ ၁၈ ရက်နေ့တွင်ဗြိတိန်နိုင်ငံသည် ဂျာမနီနိုင်ငံနှင့် စာချုပ်တခုကို ချုပ်ဆိုခဲ့သည်။ ထိုစာချုပ်အရ ဂျာမန် ရေတပ်အင်အားသည် ဗြိတိသျှဓနသဟာယ နိုင်ငံအားလုံး ပေါင်းစပ်ထားသော ရေတပ်အင်အား၏ ၃၅ ရာခိုင်နှုန်းသာ ရှိရမည် ဖြစ်သည်။ သို့သော် ထိုစာချုပ်ကို ဂျာမန်တို့သည် ဖောက်ဖျက်ခဲ့၍ ဂျပန်တို့ကလည်း ၁၉၃၇ ခုနှစ်တွင် သူတို့၏ရေတပ်အင်အားကိုဖော်ပြရန် ငြင်းဆန်လိုက်သဖြင့် ဗြိတိသျှနှင့် အမေရိကန်တို့ကလည်း မိမိတို့၏ရေတပ်အင်အားအသီးအသီးကို တိုးချဲ့ရန်စီစဉ်ကြရလေသည်။ ထို့နောက် ဒုတိယကမ္ဘာစစ် ဖြစ်ပေါ် လာလေသည်။

ယခုခေတ် ရေတပ်၌ စစ်သင်္ဘော အမျိုးမျိုး ပါဝင်၏။ အကြီးဆုံး အမျိုးအစားမှာ စစ်သင်္ဘောကြီး ဖြစ်၏။ ထိုစစ်သင်္ဘောကြီးမှာ တန်ချိန် ၃၀,၀၀၀ မှ ၄၅,၀၀၀ အထိ ရှိ၍ အလေးဆုံးသင်္ဘော ဖြစ်လျက် ၁၆ လက်မ ထုသော သံမဏိပြားနှင့်ဆောက်လုပ်ထားသည်။ ၁၆ လက်မ အဝရှိသော အမြောက်ကြီးများအပြင် အမြောက်အငယ်စား အများအပြားနှင့် လေယာဉ်ပျံပစ် အမြောက်များလည်း တပ်ဆင်ထားသောကြောင့် မိုင် ၂၀ ကျော်တွင်ရှိ ရန်သူစခန်းကို ပြင်းထန်စွာ ခြေမှုန်း ပစ်နိုင်လေသည်။

ဒုတိယ ကမ္ဘာစစ် ဖြစ်ပွားစ အချိန်က အချို့ အကဲခတ်ပုဂ္ဂိုလ်ကြီးတို့က လေတပ် အင်အား တိုးတက်လာမှုကြောင့် စစ်သင်္ဘောကြီးများသည် အကုန်အကျ များ သလောက် အသုံးမဝင် အရာမရောက် ဖြစ်ချိမ့်မည်ဟု ထင်ကြေး ပေးခဲ့ကြ၏။ ဤအချက်မှာ မှန်ပေသည်။ ဂျွမ်းစိုက် ဗုံးကြဲလေယာဉ်ပျံ တစီးသည် စစ်သင်္ဘောကြီး တစင်းကို ဖျက်ဆီးပစ်နိုင်ပေသည်။ သို့သော် စစ်သင်္ဘောကြီး တစင်းသည် လေယာဉ်ပျံများ၏ အစောင့်အရှောက်ကို ခံယူ၍ ရန်သူ၏ အချက်အခြာ စခန်းများကို ဖျက်ဆီးရာ၌ အဖိုးမဖြတ်နိုင်သော အကျိုးကျေးဇူးကို ဖြစ်ပေါ် စေနိုင်သည်။

လေယာဉ်ပျံတင် သင်္ဘောမှာ ဒုတိယ ကမ္ဘာစစ်ကြီးမကိုင်မီကမှ အသစ် ပေါ်ပေါက်လာခဲ့သည့် စစ်သင်္ဘော အမျိုးအစားဖြစ်သည်။ လေယာဉ်ပျံတင် သင်္ဘောမှာ ရေပေါ်တွင် ပေါလောပေါ်ကာ ရွေ့သွားနိုင်သည့် လေယာဉ်ပျံကွင်းပင် ဖြစ်သည်။ လေယာဉ်ပျံ ပြင်ဆင်ရန် ရုံများ၊ ဓာတ်ဆီရုံများ ပါရှိပြီးလျှင် သင်္ဘောကုန်းပတ်တပြင်လုံးကို လေယာဉ်ပျံကွင်းအဖြစ်ဖြင့် အသုံးပြုနိုင်လေသည်။

ကရူဇာ တိုက်သင်္ဘောသည် စစ်သင်္ဘောကြီးလောက် မကြီးချေ။ ထိုသင်္ဘောမျိုးသည် စစ်သင်္ဘောကြီးထက် ပေါ့ပါး၍ လျင်မြန်သည်။ စစ်သင်္ဘောကြီးထက် လက်နက်အင်အား သေးငယ်သော်လည်း အလွန်လျင်မြန်လှ၍ ကင်းထောက်ရန်နှင့် မိမိဖက်သား အခြားသင်္ဘောများကို စောင့်ရှောက်ရန်အတွက် အသုံးပြုနိုင်ပေသည်။ ထိုတိုက်သင်္ဘောများသည် မိမိဖက်သား သင်္ဘောများကို ကာကွယ်ရာ၌၎င်း၊ ရန်သူစခန်းများကို တိုက်ခိုက်ရာ၌၎င်း ရဲဝံ့စွာ တိုက်ခိုက်နိုင်ကြသည်။ အကြီးစား ကရူဇာ တိုက်သင်္ဘောသည် တန်ချိန် တသောင်းကျော်ရှိ၍ မြန်သည်။အမြောက်များကို လျင်မြန်စွာ ပစ်ခတ်နိုင်သဖြင့် ရေတပ်တွင် အားကိုးရသော သင်္ဘောမျိုး ဖြစ်သည်။

ဖျက်သင်္ဘောများမှာ တော်ပီဒို တင်ဆောင်သော ကရူဇာ သင်္ဘော အသေးစားများ ဖြစ်သည်။ ထိုသင်္ဘောတို့သည် အလွန်လျင်မြန်လှ၍ တော်ပီဒိုများဖြင့် မည်သည့် သင်္ဘောကို မဆို တိုက်ခိုက် ခြေမှုန်းနိုင်သည့်ပြင် ရေငုပ်သင်္ဘောတို့ကို တိုက်ခိုက်ရာ၌လည်း လွန်စွာ အသုံးဝင်သောကြောင့် အခြား သင်္ဘောများ ချီတက်ရာ၌ စောင့်ရှောက် လိုက်ပါ ကြရလေသည်။ ဖျက်သင်္ဘောမှာ ရေငုပ်သင်္ဘော၏ သေမင်းပင် ဖြစ်၍ ရေငုပ်သင်္ဘောများသည် ထိုဖျက်သင်္ဘောမျိုးကို အလွန် ကြောက်ကြလေသည်။

၁၉၁၆ ခုနှစ်၌ အမေရိကန် ပြည်ထောင်စု အစိုးရသည် စစ်သင်္ဘောကြီးများ၊ ကရူဇာ တိုက်သင်္ဘောများနှင့် အခြား စစ်သင်္ဘောအမျိုးမျိုးတို့ ဆောက်လုပ်ရန် ဒေါ်လာငွေ သန်းပေါင်း ၅၀၀ ခန့် ကုန်ကျမည့် စီမံကိန်းတခုကို ရေးဆွဲပြီးလျှင် အကောင်အထည်ဖော်ကာ လုပ်ကိုင်ခဲ့လေသည်။ ၁၉၁၇ ခုနှစ်တွင် အမေရိကန်တို့ စစ်ထဲဝင်လာသောအခါ ထိုစီမံကိန်းကို တမျိုးတဖုံ ပြောင်းလဲလိုက်လေသည်။ ထိုအချိန်တွင် ဂျာမန် ရေငုပ် သင်္ဘောတို့၏ အန္တရာယ်ကြောင့် မဟာမိတ်တို့သည် စစ်သင်္ဘောကြီးများအစား ဖျက်သင်္ဘောတို့ကိုသာ အများအပြား အလိုရှိနေကြပေသည်။ ထို့ကြောင့် ဖျက်သင်္ဘောများကို အပြင်းအထန် ကြိုးစားတည်ဆောက်ခဲ့ရာ စစ်ကြီးအပြီးအထိ အစင်းပေါင်း ၂၆၀ မျှ ပြီးစီးလေသည်။ ဖျက်သင်္ဘောများ၏ အစောင့်အရှောက်ဖြင့် အမေရိကတိုက်မှ ဥရောပတိုက်သို့ ခဲယမ်း မီးကျောက်များအပြင် စစ်သားပေါင်း နှစ်သန်းကျော်မျှကို ဘေးကင်းစွာဖြင့် သယ်ယူပို့ဆောင်ပေးနိုင်ခဲ့လေသည်။

ရေငုပ် သင်္ဘောများသည် ကင်းထောက်ရန်နှင့် ရန်သူသင်္ဘောကို တော်ပီဒိုနှင့်ပစ်ခွင်းရန်အတွက် ဖြစ်သည်။ ထို့ပြင် စစ်သားများကို သယ်ယူပို့ဆောင်ရန်နှင့် ရန်သူ့နယ်မြေသို့ နီးကပ်စွာ သွားရောက်တိုက်ခိုက်ရန်အတွက်လည်း ဖြစ်သည်။ နောက်ဆုံး တည်ထားသော ရေငုပ် သင်္ဘောများမှာ များ



ရေတပ်သားတို့သည် အခြားသော တပ်သားများကဲ့သို့ပင် စစ်ဝတ်စုံကို သပ်ရပ်စွာ ဝတ်ဆင်ကြရသည်။

သော အားဖြင့် တန်ပေါင်း ၁,၅၅၀ မျှသာ လေးပြီးလျှင် ရေအောက်တွင် လိုအပ်သည့် ထင်းမီးအား ထပ်၍ မဖြည့်ဘဲ လပေါင်းများစွာပင် နေနိုင်ပေသည်။ (ရေငုပ်သင်္ဘော — ရှု။)

ရေတပ်များတွင် အထက်ပါ ပင်လယ်ကူး စစ်သင်္ဘောအမျိုးအစားများအပြင် ကမ်းခြေနှင့် မြစ်တွင်း၌ လွန်စွာအသုံးကျသော သင်္ဘောငယ် များလည်း ရှိသေး၏။ ထိုသင်္ဘောတို့မှာ ရေမြှုပ်ဗုံးချ သင်္ဘောများ၊ ရေမြှုပ်ဗုံးရှင်းသင်္ဘောများ၊ တော်ပီဒိုတင် သင်္ဘောငယ်များ၊ ဂန်းဗုတ်ခေါ် အမြောက်တင် သင်္ဘောငယ်များ ဖြစ်ကြသည်။ ရေတိမ်သွား မော်နီတာ ခေါ် သင်္ဘောကြီးများသည် သံချပ်ကာများ ထူထဲစွာ ကာရံထား၍ အလွန် ကြီးမားလှသည့် အမြောက်ကြီးများ ပါသောကြောင့် ရန်သူကမ်းခြေကို ဖျက်ဆီးပြီးလျှင် မိမိဖက်မှ စစ်သားများ ကမ်းပေါ်သို့ တက်ရောက်ရာ၌ များစွာ အကူအညီ ပေးနိုင်လေသည်။ ရေတပ်များတွင် စစ်တိုက်ရန် သင်္ဘောများသာ မက ခဲယမ်း မီးကျောက် သယ်ယူရန် သင်္ဘောများ၊ ဆေးရုံသင်္ဘောများ၊ ဆီလှောင် သင်္ဘောများလည်း ပါဝင်သေးသည်။ စစ်ဖြစ်၍ အရေးကြီးလာသော အခါ၌ ကုန်သင်္ဘောများကိုလည်း သင့်လျော်သလို ပြင်ဆင် မွမ်းမံ၍ အသုံးချကြရလေသည်။

ဒုတိယ ကမ္ဘာစစ် အပြီးတွင် အမေရိကန် ပြည်ထောင်စု၏ ရေတပ်သည် ကမ္ဘာပေါ်တွင် အကြီးဆုံး ဖြစ်လာလေသည်။ ယခုအခါတွင် အမေရိကန် ပြည်ထောင်စု၌ ရေတပ်ဌာနဟူ၍ ဌာနတခု သီးသန့် ထားပြီးလျှင် ထိုဌာနလက်အောက်၌ သုံးပိုင်းခွဲခြားကာ အုပ်ချုပ် စီမံသည်။ ထိုဌာနခွဲတို့တွင် ဆောင်ရွက် လုပ်ကိုင်သော လုပ်ငန်းများမှာ (၁) တိုက်ခိုက်ရေးနှင့် စပ်ဆိုင်သော ပြင်ဆင်မှုများ၊ (၂) ရေတပ်နှင့် စပ်လျဉ်း၍ လိုအပ်သမျှသော ကိစ္စအရပ်ရပ်များ၊ (၃) သင်္ဘောကျင်း၊ သင်္ဘောစခန်း၊ ဆေးရုံ စသော ဆိပ်ကမ်းဖက်ဆိုင်ရာ ကိစ္စအရပ်ရပ်များ ဖြစ်ကြသည်။

နိုင်ငံကြီး အသီးအသီးတို့၏ ရေတပ်တိုင်းလိုလိုတွင် ရေတပ် စစ်သူကြီးတဦးသည် ရေတပ်သေနာပတိချုပ် အဖြစ် ဆောင်ရွက်ရ၍ သမုဒ္ဒရာကြီး အသီးအသီးတွင် ခွဲဝေဖြန့်ထားသော ရေတပ်ခွဲကြီးများကို ရေတပ်ဗိုလ်ချုပ်မှူးများက အုပ်ချုပ်ရသည်။ ထိုဗိုလ်ချုပ်မှူးတို့ လက်အောက်တွင် ရေတပ်စုများ ခွဲဝေထား၍ ထိုရေတပ်စုတို့ကို ရေတပ်ဗိုလ်ချုပ်ကြီးများက အုပ်ချုပ်ရသည်။ ထိုရေတပ်ဗိုလ်ချုပ်တို့ လက်အောက်တွင်မှ တဖန် ရေတပ်သင်္ဘော အုပ်စုငယ်များကို ရေတပ်ဗိုလ်ချုပ်များက အုပ်ချုပ် ရသည်။ သင်္ဘောတစင်းစီကိုမူ

သဘော်၊ အကြီးအငယ်အလိုက် အခြား အရာရှိကြီးငယ်တို့က အုပ်ချုပ် စီမံခန့်ခွဲကြရသည်။

ယခုခေတ် ရေတပ်များတွင် လေတပ် အစောင့် အရှောက်များ မပါဝင်က ထိုရေတပ်သည် အင်အား ကြီးမား တောင့်တင်းသော ရေတပ် ဖြစ်လိမ့်မည် မဟုတ်ချေ။ လေယာဉ်ပျံများကို သင်္ဘော၏ ရှေ့ပြေး ကင်းထောက်ရန်သာ မက၊ သင်္ဘောများကို စောင့်ရှောက် ကာကွယ်ပေးရန် အတွက်လည်း အသုံးပြုကြရသည်။ ထိုပြင် ရန်သူ သင်္ဘောများကိုလည်း လေယာဉ်ပျံများက သွားရောက် ဗုံးကြဲတိုက်ခိုက်နိုင်ပေသည်။ လေယာဉ်ပျံများကို လေယာဉ်ပျံတင် သင်္ဘောများပေါ်တွင်သာ မက အခြား စစ်သင်္ဘော အမျိုးမျိုးတို့တွင်လည်း တင်ဆောင်၍ ဂျက်လောက်လွှဲများဖြင့် ကောင်းကင်သို့ လွှတ်တင် ပေးကြရသည်။ ထိုလေယာဉ်များမှာ များသော အားဖြင့် ရေယာဉ်ပျံများသာ ဖြစ်၍ ပြန်ဆင်းသောအခါ၌ သင်္ဘောအနီး၌ ဆင်းသက်ပြီးလျှင် သင်္ဘောပေါ် သို့ ဝန်ချီစက်ဖြင့် ဆွဲတင်ရလေသည်။

လေယာဉ်ပျံတင် သင်္ဘော၌ ပါဝင်သော လေယာဉ်ပျံအမျိုးအစားတို့မှာ ဗုံးကြဲလေယာဉ်ပျံများ၊ တိုက်လေယာဉ်ပျံများ၊ တော်ပီဒိုလွှတ် လေယာဉ်ပျံများ ဖြစ်သည်။ ရေတပ်၏ ဗုံးကြဲလေယာဉ်ပျံတို့မှာ များသောအားဖြင့် ဂျွမ်းစိုက်ဗုံးကြဲလေယာဉ်ပျံများ ဖြစ်ကြသည်။ ရေတပ်၏ လေယာဉ်ပျံများမှ လေသူရဲတို့မှာ အထူးစွန့်စားကြရ၍ လေယာဉ်ပျံများမှာလည်း အကြမ်းဒဏ်များကို ခံနိုင်ရန် ပိုမို ခိုင်ခံ့စွာ ဆောက်လုပ် ထားရပေသည်။ ယခုခေတ် ရေတပ်ကြီးများ၌ ဂျက်လေယာဉ်ပျံများကို အသုံးပြုလျက် ရှိသည်။ ရေငုပ်သင်္ဘောကို တိုက်ခိုက်ရာတွင် အသစ် ပေါ်ပေါက်လာသော ရေဒါမှာ လွန်စွာ အသုံးဝင်လေသည်။ ရေတပ်တွင် မရင်းခေါ် ကမ်းတက်တပ်သားများလည်း ရှိသည်။ ထိုကမ်းတက်တပ်သားများကို ရန်သူ ကမ်းခြေသို့ တက်ရောက်သိမ်းပိုက်ရန် အတွက် အထူးတလည် လေ့ကျင့်ထားရသည်။ ထိုကမ်းတက်တပ်သားတို့သည် ရာထူး အဆင့်အတန်းအားဖြင့် ကုန်းတပ်တံဆိပ်ကို တပ်ဆင်ကြရ၍ ယူနီဖောင်းကိုမူ တမျိုးသီးခြား ဝတ်ဆင်ကြရပေသည်။

ရေတပ်သို့ အရာရှိအဖြစ် ဝင်ရောက် လိုသူတို့သည် အင်္ဂလန်ပြည်၌ ဖြစ်လျှင် ဒါ့တမတ်မြို့ဘုရင်မရေတပ်တက္ကသိုလ်သို့ ဝင်ရောက်ခွင့် ရရန် လျှောက်ထားရသည်။ ကျောင်းဝင်ရန် အရွေးချယ် ခံရသောအခါ ကျောင်း၌ လေးနှစ်မျှ သင်ကြားရသည်။ စာမေးပွဲများ အောင်မြင်ပြီးသောအခါ ရေတပ်၌ အရာရှိ ဗိုလ်ကလေးအဖြစ်ဖြင့် စတင် အမှု ထမ်းရလေသည်။ အမေရိကန် ပြည်ထောင်စုတွင် ဝက်စပွိုင့် အရပ်ရှိ ရေတပ် တက္ကသိုလ်သို့ ဝင်ရောက် လိုသူတို့သည် မည်သည့်တပ်တွင်အမှုထမ်းရသည် မဆို အရွယ် ရောက်ပြီးလျှင် မူလတန်းပညာ အခြေခံ ရှိ၍ လိုအပ်သော ကာယဗလနှင့် ပြည့်စုံလျက် မျက်စိကောင်းမွန်ပါက ဝင်ရောက် အမှုထမ်းခွင့်ကို ရနိုင်လေသည်။ ရေတပ်တွင် ရာထူး တိုးမြှင့်ပေးခြင်းကို နေရာလစ်လပ်တိုင်း ရွေးချယ် တိုးမြှင့် ခန့်ထားပေးသည်။ ရေတပ်သားတဦးသည် အကျင့်စာရိတ္တ ကောင်းမွန်၍ အလုပ်ဝတ်တရား ကျေပြွန်ပါက အငြိမ်းစား မယူမီအတွင်း အနည်းဆုံး အရာခံ ဗိုလ်ကလေး ဖြစ်နိုင်ပေသည်။ စက်မှုလက်မှုဆိုင်ရာ ဌာနများလည်း ရှိသဖြင့် ဝါသနာအလျောက် စက်ဖက်ဌာနများတွင် ဝင်ရောက် အမှုထမ်းသော သူများလည်း ရှိလေသည်။

**ရေတံခွန်။** ။မည်သည့် မြစ်ချောင်းတွင် မဆို ရေသည် မြင့်သည့် နေရာမှ နိမ့်သည့်နေရာသို့ ရုတ်တရက် ထိုးဆင်းလာလျှင် ရေတံခွန်ဖြစ်ပေါ်လာ၏။ မြစ်၊ သို့မဟုတ် ချောင်းရှိ ရေသည် ယင်း၏ အောက်ခြေကို တိုက်စား၍ စီးဆင်းရာတွင် ပို၍ ပျော့သော ကျောက်ထပ်များကို တွေ့ရမည်ပင် ဖြစ်သည်။ အပေါ်ဖက်ရှိ ကျောက်လွှာသည် အောက်ဖက်မှ ကျောက်လွှာထက် ရေစီးကြောင်း၏ တိုက်စားခြင်းကို ပို၍ လျင်မြန်စွာ ခံရမည်။ ထိုအခါ ရေတံခွန် စ၍ဖြစ်လာလေတော့သည်။ တခါတရံတွင် ရေစီးဆင်းသော ကျောက်မာအထပ်သည် မတ်စောက်သည့် ကမ်းပါးစောက်၏ အစွန်းဖြစ်နေတတ်၏။ ထိုအခါ စီးဆင်းသည့် ရေ၏ ထုထည် မကြီးမားလှလျှင် ရေတံခွန်လျှော ဖြစ်ပေါ်လာ၍ စီးဆင်းသည့် ရေ၏ ထုထည်ကြီးမားလျှင် ရေတံခွန်ကြီး ဖြစ်လာလေသည်။ ကနေဒါနိုင်ငံနှင့် အမေရိကန် ပြည်ထောင်စုကြားရှိ နိုင်အဂ္ဂရာ ရေတံခွန်ကြီးသည် ဒုတိယအကြောင်းကြောင့် ဖြစ်ပေါ်လာခြင်း ဖြစ်ပေသည်။ အာဖရိကတိုက်ဇမ်ဗီဇီမြစ်ရှိ ဝိတိုရိယရေတံခွန်ကြီး၊ တောင်အမေရိကတိုက် ပါရာနာမြစ်အနီးရှိ အစ်ဂွာဆုနှင့် လာဗရာဒေါ် ကျွန်းဆွယ်မှ ဟယ်မီလတန်မြစ်ရှိ ဂရန်း ရေတံခွန်ကြီးများသည်လည်း ထင်ရှားသော ရေတံခွန်ကြီးများ ဖြစ်ကြလေသည်။ သို့သော် တောင်ထုထပ်ရာမှ ရုတ်တရက် နိမ့်ဆင်းသွားသော ရေစီးကြောင်းတွင်ရှိသည့် ရေမော်အစဉ်အဆက်များကိုသာ များသောအားဖြင့် ရေတံခွန်ကြီး ဟု ခေါ်လေ့ ရှိကြသည်။ ရေမော်ဆိုသည်မှာ သေးငယ်ပြီးလျှင် တဖြည်းဖြည်း စီးဆင်းသော ရေတံခွန်များကို ဆိုလိုသည်။ ထိုကဲ့သို့သော ရေတံခွန်ကြီးများကို နိုင်းမြစ်နှင့်အော်ရင်နိုးကိုးမြစ်တို့ တွင် တွေ့နိုင်သည်။ မြောက်အမေရိကတိုက်ရှိအထင်ရှားဆုံး ရေမော် အချို့ကို ဆူးဆန့်မာရီမြစ် အတွင်း၌ တွေ့နိုင်လေသည်။ ထိုမြစ်သည် ဆူပီးရီးယားအိုင်၏ ထွက်ပေါက်တွင်ရှိသည်။ ထို့ပြင် စိန်လောရင့်မြစ်ရှိ ရေမော်များသည်လည်း ကျော်ကြားကြလေသည်။

ရေတံခွန်ကလေးများ၊ သို့မဟုတ် ရေတံခွန်လျှောများ သည် များသောအားဖြင့် အလွန်မြင့်ကြသည်။ ကာလီဖိုးနီးယား ပြည်နယ် ယိုဇင်မိတီး ရေတံခွန်လျှော အထက်ပိုင်း သည် ပေပေါင်း ၁,၄၃၀ မြင့်၍ နယူးဇီလန်ကျွန်း ဆတ်သာလင် ရေတံခွန်လျှောသည် ပေပေါင်း ၁,၉၀၄ မြင့်လေသည်။ အဲ့လပတောင်တန်းရှိ စတော့ဗက် ရေတံခွန်လျှောသည် ပေပေါင်း ၉ဂ၀ မြင့်သည်။ အချို့ ရေတံခွန်များမှာ မမြင့်လှကြချေ။ သို့သော် ယင်းတို့၏ လှပမှုကြောင့် ထင်ရှားကြလေသည်။ ထိုရေတံခွန်များတွင် ကိဗက်မြို့ အနီးရှိ မွန်မိုရင်စီ၊ ဩရိဂန်ပြည်နယ် ကိုလမ္ဘီးယားမြစ်အတွင်းရှိ မာလတိနိုမာ ရေတံခွန်များလည်း ပါဝင်သည်။ ရေ့ကီးနှင့် ဆဲလကတ် တောင်တန်းရှိ ရေတံခွန် အမြောက်အမြားနှင့် ယဲလိုးစတုန်း အမျိုးသားဥယျာဉ် အတွင်းရှိ အထက်နှင့် အောက် ရေတံခွန်လျှောများသည်လည်း လှပသော ရေတံခွန်လျှောများပင် ဖြစ်ကြသည်။

ရေတံခွန်များသည် များသောအားဖြင့် တောင် ထူထပ်သော တိုင်းပြည်များတွင် ဖြစ်ပေါ်လေ့ရှိကြသည်။ သို့သော် တခါတရံတွင် မြစ်များ၊ သို့မဟုတ် ချောင်းများသည် ရေလွှမ်း လွင်ပြင်သို့ စီးဆင်းရာတွင်လည်း ဖြစ်ပေါ်တတ်သေးသည်။ မြစ်ချောင်း အမြောက်အမြား စုပေါင်းပြီးလျှင် ရေပြင်တခုတည်းအဖြစ် ထို ရေလွှမ်းလွင်ပြင်သို့ စီးဆင်းသော နေရာကို ရေတံခွန်ကုန်းတန်းဟု ခေါ်သည်။ အတ္တလန္တိတ် သမုဒ္ဒရာ အတွင်းသို့ စီးဝင်သော ချက်ဆာပိ ပင်လယ်အော်၏ တောင်ဖက်တွင် ထိုကဲ့သို့သော မြစ်များ၏ ရေတံခွန်ကုန်းတန်းရှိရာ ထိုကုန်းတန်း၌ ကုန်အမြောက်အမြား ထုတ်လုပ်သော မြို့ကြီးများ ဖြစ်ပေါ်လာတတ်သည်။ ထိုသို့ မြို့ကြီးများ ဖြစ်ပေါ်နေခြင်းမှာ ရေအားနှင့် နီးခြင်းကြောင့် ဖြစ်သည်။ ထိုသို့ ရေအားနှင့် နီးခြင်းကြောင့် ရေအားသုံး လျှပ်စစ်စက်များပင် ထိုမြို့ကြီးများတွင် ရှိလာနိုင်လေသည်။ ထိုကဲ့သို့သော မြို့ကြီးများမှာ အမေရိကန် ပြည်ထောင်စု၊ ဗာဂျင်းနီးယား ပြည်နယ်ရှိ ရစ်ချမွန်မြို့၊ ကယ်ရိုလီးနား ပြည်နယ် မြောက်ပိုင်းရှိ ရိုလီမြို့၊ ဂျော်ဂျီးယား ပြည်နယ်ရှိ အိုဂတ်စတာမြို့နှင့် ကိုလံဗတ်မြို့များ ဖြစ်ကြလေသည်။

### ကမ္ဘာပေါ်ရှိ ထင်ရှားသော ရေတံခွန်များ

| | | |
|---|---|---|
| အိန်ဂျယ် | — ဗင်နီဇွဲးလားနိုင်ငံ — | စုစုပေါင်း ၃,၂၁၂ ပေ |
| တူဂီလာ | — တောင်အာဖရိကပြည်ထောင်စု | ၃,၁၁၀ ။ |
| ယိုဇင်မိတီး | — ကာလီဖိုးနီးယားပြည်နယ် (သုံးဆင့်) — | ၂,၇၂၅ ။ |
| ကူကင်နမ် | — ဗင်နီဇွဲးလားနိုင်ငံ — | ၂,၀၀၀ ။ |



ကမ္ဘာပေါ်တွင် အလှပဆုံးသော ရှုခင်းတရပ်ဖြစ်သည့် နိုင်အဂ္ဂရာ ရေတံခွန်ကြီး။ အမေရိကန်ပြည်ထောင်စုနှင့် ကနေဒါနိုင်ငံတို့ကို ပိုင်းခြားသတ်မှတ်ထားသော နိုင်အဂ္ဂရာ မြစ်ထဲတွင် ရှိသည်။

| | | | |
|---|---|---|---|
| ရော်ရိုင်းမား | —ဂူယားနားနိုင်ငံ | — | ၂,၀၀၀ ပေ |
| ဆတ်သာလင် | —နယူးဇီလန်ကျွန်း(သုံးဆင့်) | စုစုပေါင်း | ၁,၉၀၄ ״ |
| ဂါဗာနီ | —ပြင်သစ်နိုင်ငံ | — | ၁,၃၇၅ ״ |
| ကရင်းမဲ | —ဩစတြီးယားနိုင်ငံ | — | ၁,၂၅၀ ״ |
| စတော့ဗက် | —ဆွစ်ဇာလန်နိုင်ငံ | — | ၉၇၀ ״ |
| ထရမ်းမဲလဗက် | — ״ | — | ၉၅၀ ״ |
| ဗက်တစ် | —နော်ဝေနိုင်ငံ | — | ၇၅၀ ״ |
| ဂါဆုံးပါး | —မိုက်ဆိုနယ် အနောက်မြောက်ပိုင်း | — | ၇၃၀ ״ |
| ယဲလိုးစတုန်း | —ဝိုင်အိုးမင်ပြည်နယ် (နှစ်ဆင့်) | စုစုပေါင်း | ၄၁၇ ״ |
| ဝိတိုရိယ | —ရိုဒီးဇီးယားနိုင်ငံ | — | ၃၅၄ ״ |
| ဂရန်း | — လားဗရာဒေါ်ကျွန်းဆွယ် | — စုစုပေါင်း | ၃၁၆ ״ |
| မွန့်မိုရင်စီ | — ကွီဗက်ပြည်နယ် | — | ၂၆၅ ״ |
| အစ်ဂွါဆု | — ဗရာဇီးနိုင်ငံ | — | ၂၁၀ ״ |
| နိုင်အဂ္ဂရာ | — နယူးယော့ပြည်နယ် | — | ၁၆၇ ״ |

**ရေဒါ။** ။ရေဒါဆိုသည်မှာ အမေရိကန်ရေတပ်ဗိုလ် တဦးက တီထွင်ခဲ့သည့် ဝေါဟာရ ဖြစ်သည်။ "ရေဒီယိုဒီတက်ရှင်းအင်ရိန်းဂျင်း" ဟူသော အင်္ဂလိပ်စကားကို အတိုချုံးယူခြင်းဖြင့် ရေဒါ ဟူသော ဝေါဟာရကို ရရှိခဲ့ခြင်း ဖြစ်ပေသည်။ မူရင်းအဓိပ္ပါယ်အရဆိုလျှင် ရေဒါဆိုသည်မှာ အကွာအဝေးနှင့် နေရာကို စုံစမ်းသည့် ရေဒီယိုသဘောပါဝင်သော ကရိယာ ဖြစ်သည်။ ရေဒါသည် စစ်အတွင်းက အသုံးများခဲ့သော ကရိယာဖြစ်သော်လည်း အကယ်စင်စစ် အမေရိကန်မှ စမ်းသပ်စစ်ဆေးသူ တယောက်သည် ၁၉၂၂ ခုနှစ်ကတည်းက စတင်တွေ့ရှိခဲ့ပေသည်။ ရေဒါတွင် ရေဒီယို၏ မူအမျိုးအပြားနှင့် ရေဒီယိုတွင် ပါဝင်သော ပစ္စည်း အမျိုးအပြားကို အသုံးပြုထားသည်။ ထိုပြင် အခြား မူများနှင့် ပစ္စည်းများကိုလည်း အသုံးပြုသေးသည်။ ရေဒါမှ လွှတ်သော ရောင်ခြည်သည် မိုးတိမ်၊ နှင်းထု၊ လေမုန်တိုင်းစသည်တို့ကို ထွင်းဖေါက်သွားနိုင်ပေသည်။ ထွင်းဖေါက်သွားပုံမှာ သာမန်လေထုကို အလင်းဖြတ်သန်း သွားသည်နှင့်မခြား ဖြစ်ပေသည်။ ကျွန်းဆွယ်၊ ကျောက်ဆောင်၊ သင်္ဘော၊ သင်္ဘော၊ လေယာဉ်ပျံ စသည့် အရာဝတ္ထုတခုခုနှင့် တွေ့သောအခါ ရေဒါရောင်ခြည်သည် ပြန်ဟပ်ပြီးလျှင် ရောင်ခြည်အချို့သည် မူလနေရာသို့ တဖန်ပြန်လာသည်။

ရေဒါ အဟောင်းနှင့်အသစ်တို့ကို တွေ့မြင်နိုင်ပေသည်။ လကျ်ာဖက်မှ ရေဒါမှာ အဟောင်းဖြစ်၍ ဒိုင်ခွက်တွင် ပုံများ မထင်မရှား ဖြစ်နေသည်။ လက်ဝဲဖက်မှ ရေဒါမှာမူ နောက်ဆုံးပေါ် ရေဒါဖြစ်၍၊ ဒိုင်ခွက်တွင် အမှတ်အသားများ ထင်ရှား ပြတ်သားစွာ တွေ့ရသည်။



အချုပ်အားဖြင့် ရေဒါ၏သဘောသည် ပဲ့တင်သံကို အခြေပြုထားသောသဘောဖြစ်သည်။အသံသည်တစက္ကန့်လျှင် ပေ ၁,၁၀၀ မျှသွား၏။တစက္ကန့်လျှင် ပေ ၁,၁၀၀ နှုန်းခန့်နှင့် သွားနေသော အသံလှိုင်းသည် တစုံတရာအတိုက်အခံနှင့်တွေ့သောအခါ ပြန်ဟပ်လာသည်။ ယင်းသို့ ပြန်ဟပ်ခြင်းကို ပဲ့တင်ထပ်သည် ဟု ခေါ်သည်။ အသံသည် တစက္ကန့်လျှင် ပေ ၁,၁၀၀ ခန့် သွားသည် ဟူသော အချက်နှင့် အသံသည် ပြန်ဟပ်သည် ဟူသော အချက်နှစ်ချက်ကို သိရလျှင် ပဲ့တင်သံလာရာအရပ်၏ အကွာအဝေးကို စိတ်ဖြင့် တွက်ချက်နိုင်ပေသည်။တွက်ကြည့်ရန်နည်းမှာ အသံတခုကို ပြုလိုက်ပြီးသော် ပဲ့တင်သံ မည်သည့်အချိန်တွင် ပြန်လာသည်ကို မှတ်ထားရမည်။ အသံ ပြန်လာရန်မှာ အကွာအဝေးတခုကို အသွားတခေါက် အပြန်တခေါက် ပေါင်း နှစ်ကြိမ် သွားရသောကြောင့် နှစ် စက္ကန့်အတွင်း၌ ပဲ့တင်သံကို ကြားရလျှင် ပဲ့တင်သံ လာရာအရပ်သည် ပေ ၁,၁၀၀ ဝေးကွာသော နေရာ၌ ရှိရမည် ဟု သိနိုင်ပေသည်။

ပဌမ ကမ္ဘာစစ်အတွင်းက ဤနည်းရိုးကလေးကို လက်တွေ့ အသုံးပြုခဲ့ကြသည်။ ပဲ့တင်သံကို နားထောင်ကာ တွက်ချက်ခြင်းဖြင့် ပဌမဦးစွာ ရေကြောင်းဖက်တွင် ရေအတိမ်အနက်တိုင်းတာခြင်းကို စမ်းသပ်ပြုလုပ်ရာ အောင်မြင်ခဲ့လေသည်။ သိပ္ပံပညာ ထွန်းကားသော ခေတ်တွင် ခလုတ်လှည့်လိုက်ရုံမျှနှင့် သမုဒ္ဒရာအောက်မြေပြင်အထိ ရေအတိမ်အနက်မည်မျှ ရှိသည်ကို တခါတည်း တိုင်းတာပြီးသား သိနိုင်ပေသည်။ရေဒါကို ဆိုခဲ့သောပဲ့တင်သံ၏သဘောအတိုင်း တီထွင်

ထားခြင်း ဖြစ်သည်။ လက်ဦးတွင် ရေဒါကို ရေကြောင်းဖက်တွင်သာ အသုံးများကြသောကြောင့် လေကြောင်းဖက်ဆိုင်ရာတွင်လည်း အသုံးဝင်ကြောင်းကို သိသူ နည်းပါးလှပေသည်။ခရီးမဝေးလွန်းမမြင့်လွန်းပါက ရေဒါကို လေကြောင်းဖက်တွင်လည်း အောင်မြင်စွာ အသုံးပြုနိုင်ပေသည်။ ညဥ့်အခါ၌ သွားလာလေ့ရှိသော လင်းနို့သည် ဤသဘောကို ကောင်းစွာ ကျင့်သုံးသည်။ မှောင်မိုက်နေသော ညဥ့်အချိန်များတွင် စူးရှစွာ အော်လိုက်သော လင်းနို့၏ အသံမှာ အချည်းနှီး အော်လိုက်သောအသံ မဟုတ်ချေ။ ဤအသံကို အကြောင်းပြု၍ ရှေ့နောက် ဝဲယာ အထက် အောက်တွင် မည်သည့် အရာဝတ္ထုများရှိသည်ကို ချက်ခြင်း သိနိုင်ရန် အော်လိုက်ခြင်း ဖြစ်သည်။ အလင်းမရှိဘဲလျက် လင်းနို့သည် ဤနည်းဖြင့် လိုရာခရီးကို အခက်အခဲမရှိဘဲ သွားနိုင်လေသည်။

ဒုတိယ ကမ္ဘာစစ် စတင် ဖြစ်ပွားစဉ်က အင်္ဂလန်ပြည် ဘုရင့်လေတပ်မတော်သည် ရေဒါကို စစ်ဦးကပင် အစပြု၍ သုံးစွဲခဲ့သည်။ ရေဒါ၏ အစွမ်းဖြင့် ဂျာမနီနိုင်ငံ လေတပ်ဌာနချုပ်မှ ဂျာမန် ဗုံးကြဲလေယာဉ်ပျံများ ထွက်ခွါလာသည်နှင့် တပြိုင်နက် အင်္ဂလန်ပြည်မှ ကြိုတင် သိရှိနေပြီး ဖြစ်လေသည်။ ထို့ကြောင့် တိုက်လေယာဉ်ပျံများသည် အချိန်မီတက်ရောက်ကာ ရန်သူလေယာဉ်ပျံများ ကွဲပြားပျက်စီးသွားအောင် ထိုးစစ်ဆင်နိုင်လေသည်။ ဂျာမန်တို့က တုံးပျံ ဗုံးများကို အသုံးပြုတိုက်ခိုက်သည့် အခါတွင်လည်း ထိုတုံးပျံဗုံးများ မရောက်မီ အဝေးကပင် သိနေသဖြင့် ကြိုတင်၍ ပြင်ဆင်မှုများ ပြုလုပ် နိုင်ခဲ့ပေသည်။ ပါး ဟားဗါးခေါ် ပုလဲ ဆိပ်ကမ်းကို ဂျပန်တို့ ရုတ်တရက် ဝင်ရောက်တိုက်ခိုက်စဉ်က အမေရိကန် စစ်သား တဦးသာ ၁၃၅ မိုင်အကွာကပင် ပျံသန်းလာသော ဂျပန် လေယာဉ်ပျံများကို ရေဒါ၏အစွမ်းအားဖြင့် တွေ့မြင်ပြီးလျှင် လေယာဉ်ပျံ အစင်းရေကိုပါ မှတ်သားနိုင်သည် ဟု ဆိုလေသည်။

ရေဒါကို ဒုတိယ ကမ္ဘာစစ် အတွင်းက ကောင်းစွာ အသုံး ချခဲ့ကြသည်။ အဝေးမှ လာနေသော ရန်သူ လေယာဉ်ပျံနှင့် မိမိတို့တပ်မှ လေယာဉ်ပျံတို့ကို အလွယ်တကူ ခွဲခြား၍ သိနိုင်ခဲ့ကြသည်။ မိတ်ဆွေနှင့် ရန်သူ ခွဲခြားနိုင်ရုံသာမက အဝေးမှ လာနေသည့် လေယာဉ်ပျံသည် ဗုံးကြဲလေယာဉ်ပျံဖြစ်သည်၊ သို့မဟုတ် တိုက်လေယာဉ်ပျံဖြစ်သည် ဆိုသည်ကိုပင် ခွဲခြား သိနိုင်ကြပေသည်။ မှောင်ထဲတွင် ခရီးသွားနေသော သင်္ဘောတစီးအဖို့ ရှေ့၌ မည်သည့် အတားအဆီး ရှိသည်ကို ကြိုတင် သိထားရန်မှာ များစွာ အရေးကြီး၏။ သာမန်မျက်စိဖြင့် မမြင်နိုင်သော အတားအဆီးများကို ရေဒါကို အသုံးပြု၍ ကောင်းစွာ သိနိုင်ပေသည်။ ဆီးနှင်းထူထပ်နေသောအခါ သင်္ဘောတစီးနှင့် တစီးသည် အလွန်နီးကပ်လာသည့်တိုင်အောင် မသဲ မကွဲ မှုန်မှိုင်းမှိုင်းသာ တွေ့ကြရ၍ မကြာခဏ တိုက်မိကာ နစ်မြုပ် သွားတတ်ကြသည်။ ဤအခက်အခဲမျိုးနှင့် ကြုံသောအခါ ရေဒါကိုယုံကြည်စိတ်ချစွာ အသုံးပြုနိုင်ပေသည်။ ရာသီဥတု အခြေအနေ ဆိုးရွားပြီးလျှင် လှိုင်းလေ ပြင်းထန်သောအခါများတွင်လည်း သင်္ဘောသည် အင်ဖရာရက် တယ်လီဗစ်ရှင်း ကင်မရာ ခေါ် ဓာတ်ပုံရိုက်ကရိယာ တမျိုး၏ အကူအညီဖြင့် ဆိပ်ကမ်းသို့ ချောမောစွာ ဝင်ရောက်နိုင်ပေသည်။ ရေဒါပါသော တယ်လီဗစ်ရှင်းနှင့် ဆိုင်သည့် စက်မှုကရိယာတို့၏ အကျိုးကျေးဇူးကြောင့် လာမည့်ခေတ်တွင် သင်္ဘောသာမဟုတ်၊ လေယာဉ်ပျံများပင် ကြည့်၍ မမြင်နိုင်အောင် ထူထပ်နေသော နှင်းတောထဲ၌သော်၎င်း၊ မှောင်မိုက်နေသော ညဥ့်အချိန်များတွင်သော်၎င်း ချောမောစွာ သွားလာ ပျံသန်းနိုင်ပေလိမ့်မည်။ နောင်တခေတ်တွင် ရေဒါသည် ရှေ့တွင် ကာဆီးလျက်ရှိသော ဆီးနှင်းထုမိုးတိမ် စသည်တို့ကို ဖောက်ထွင်းတွေ့မြင်နိုင်မည်သာမက၊ အုတ်နံရံများကိုပင် ဖောက်ထွင်း၍ မြင်နိုင်လိမ့်မည် ဟု သိပ္ပံပညာရှင်များက ယူဆကြသည်။

တယ်လီဗစ်ရှင်းရေဒါ ခေါ် ရုပ်မြင်သံကြား ရေဒါကို စစ်ကြီး အတွင်းက သင်္ဘောနှင့် သံချပ်ကာကား တပ်များအတွက် အသုံးပြုခဲ့သည်။ တယ်လီဗစ်ရှင်းရေဒါ၏ သတ္တိဖြင့် လူတယောက်ကို အနီးကပ်၍မတွေ့ထိနိုင်သော်လည်း အဝေး



အမေရိကန် ပြည်ထောင်စုနိုင်ငံ လေကြောင်း ကာကွယ်ရေးတွင် အသုံးပြုသည့် ရေဒါမျှော်စင်ကြီး



အမြောက်ပစ်စခန်းမှ ပစ်ကွင်းကို ပစ်ခွင်းပြီးနောက် ထိ-မထိ မှတ်သားရသည်။




ရေဒါဖြင့် ပေးပို့သော **သတင်း**ကို မြေပုံတွင် **မှတ်ကာ** အစမြောက်ပစ် စခန်းသို့ သတင်းပို့ရသည်။

မှလှမ်းမြင်ကာ စကားပြောနိုင်စေသည်။ယခုခေတ်တွင် တစုံတခုသောပြဿနာ ပေါ်ပေါက်က ဆွေးနွေးတိုင်ပင်ရန် နိုင်ငံရေးခေါင်းဆောင်ကြီးများ၊ စီးပွားရေး ပါရဂူများသည် မိုင်ပေါင်း ရာထောင်ချီ၍ ဝေးကွာသောအရပ်မှ တပင်တပန်း လာရောက်ကာ တွေ့ဆုံကြရ၏။ တယ်လီဗစ်ရှင်းရေဒါ တိုးတက် ထွန်းကားလာသော အခါတွင်ကား ကမ္ဘာအနှံ့အပြားတွင် ရှိကြသော ခေါင်းဆောင်ကြီး အသီးအသီးတို့သည် မိုင်ပေါင်းများစွာ ကွာဝေးကြသော်လည်း တစားပွဲတွင် အတူထိုင်၍ ပြောဆိုဆွေးနွေးရသကဲ့သို့ မိမိတို့ နေရာ အသီးအသီးမှ နေ၍ ပြောဆို ဆွေးနွေးနိုင်ကြပေလိမ့်မည်။

**ရေဒီယေးရှင်း။** ။ရှေးက ကျွန်ုပ်တို့သည် အလင်း၏ ရောင်ခြည် ဖြာထွက်ပုံတခုတည်းကိုသာ တွေ့ရသောကြောင့် မျက်စိဖြင့် မြင်ရသော အလင်းရောင် တခုတည်းသာလျှင် ရောင်ခြည်အဖြစ်ရှိသည် ဟု ထင်မိခဲ့ကြသည်။သို့ရာတွင်မျက်စိဖြင့်မြင်နိုင်သော အလင်းအပြင်၊ မျက်စိဖြင့် မမြင်ရသော်လည်း အလင်းနည်းတူ ဖြစ်ပေါ်ရာနေရာမှ ပတ်ဝန်းကျင်သို့ ဖြာထွက်တတ်သော အခြား ရောင်ခြည်များ တသီတတန်းကြီး ရှိသေးကြောင်းကို သိပ္ပံပညာရှင်ကြီး အသီးအသီးတို့၏ ကြိုးစားမှုကြောင့် ယခုအခါ တွေ့ရှိလာလေပြီ။ ထိုရောင်ခြည်များမှာ ဝိုင်ယာလက်၊အပူ၊ ခရမ်းဘေးရောင်ခြည်၊ အိပ်စရေး၊ ဂမ်မာ၊ ကော့စမစ် စသောရောင်ခြည်များပင်တည်း။ ရေဒီယေးရှင်း ဆိုသည်မှာ ထိုရောင်ခြည်များ ဖြာထွက်ခြင်းကို ဆိုလိုသည်။

၁၈၀၀ ပြည့်နှစ်တွင် ဆာ ဝီလျံ ဟာရှယ်သည် အလင်း၏ ရောင်စဉ်၌ အနီရောင်ရှိသည့် အစွန်းဖက်တွင် ခရမ်းရောင် ရှိသည့် အစွန်းဖက်မှာထက် အပူချိန်ပို၍ များပြီးလျှင် အနီအောက် ရောင်ခြည်ဖက်၌ သာ၍ပင် အပူချိန် များသေးကြောင်းကို လက်တွေ့ပြသခဲ့လေသည်။ ထိုလက်တွေ့ ပြသမှုက မျက်စိဖြင့် မြင်နိုင်သည့် ရောင်စဉ်အပြင်ဖက်၌ ရောင်ခြည် ဖြာထွက်မှုရှိကြောင်းကို ဖော်ပြသည်။ ထိုနောက် နှစ်နှစ်ခန့် ကြာသောအခါ ရောင်စဉ်တွင် ခရမ်းဘေး ရောင်ခြည်ဖက်၌လည်း အလားတူ မျက်စိဖြင့် မမြင်ရသော ရောင်ခြည်တမျိုးရှိသေး၍ ထိုရောင်ခြည်သည် မျက်စိဖြင့် မြင်ရသော ခရမ်းရောင်အလင်းထက်ပင် ပို၍ ဆီလဗာကလိုရိုက် အပေါ်တွင် သတ္တိပြမှု အားကြီးသေးသည်ကို အခြား သိပ္ပံပညာရှင်ကြီးများက တွေ့ရပြန်လေသည်။

သိပ္ပံပညာတွင် အထက်ပါ ခရမ်းဘေး ရောင်ခြည်ကို အာလတြာ ဗိုင်အိုလက်ရောင်ခြည် ဟူ၍၎င်း၊ အနီအောက်ရောင်ခြည်ကို အင်ဖရာ ရက် ရောင်ခြည် ဟူ၍၎င်း ခေါ်ကြသည်။

၁၈၇၃ ခုနှစ်တွင် သင်္ချာနှင့် ရူပဗေဒ ပညာရှင်ကြီး တဦးဖြစ်သော ဂျိမ်း ကလပ်မက်ဆွဲသည် "လျှပ်စစ်ဓာတ်နှင့် သံလိုက်ဓာတ်" ခေါ် ကျမ်းတစောင်ကို ရေးသား ထုတ်ဝေကာ လျှပ်စစ်ဓာတ်၊ သံလိုက်ဓာတ်တို့နှင့် သက်ဆိုင်သော သီအိုရီများကို ဖော်ထုတ်လိုက်လေသည်။ထိုကျမ်းတွင် လျှပ်စစ်ဓာတ်နှင့်သံလိုက်ဓာတ်တို့သည် လှိုင်းများအဖြစ်ဖြင့် ဘာမျှ မရှိ ဟု ထင်ရသော အာကာသကို မည်ကဲ့သို့ ဖြတ်သန်းကြပုံ၊ အဆိုပါ လှိုင်းအမျိုးမျိုးနှင့် သက်ဆိုင်သော ကိစ္စများကို သင်္ချာနည်းနှင့် တွက်ယူနိုင်ပုံ၊ လျှပ်စစ်လှိုင်းတို့၏ အသွားနှုန်းနှင့် အလင်းလှိုင်း၏ အသွားနှုန်းတို့ တူညီပုံတို့ကို ရှင်းပြထားလေသည်။ တဖန် လျှပ်စစ်လှိုင်းနှင့် အလင်းလှိုင်းတို့ထက် 'တုန်ကြိမ်' (တစက္ကန့်တွင် တုန်လှုပ်သည့် အကြိမ်ပေါင်း) နည်း၍၊ 'လှိုင်းအလျား' (လှိုင်းထိပ်တခုနှင့် တခု အကွာအဝေး) ရှည်သည့်လှိုင်းမျိုး ရှိမည်ဆိုပါက ထိုလှိုင်းတို့သည် ခရီးဝေးသို့ ဖြတ်သန်းကာ လျှပ်စစ်ဓာတ်တန်ခိုးကို သက်ရောက်စေလိမ့်မည် ဟူ၍လည်း မက်ဆွဲက ကြိုတင်၍ ဟောကိန်း ထုတ်ခဲ့လေသည်။

အထက်ပါ ယူဆချက်မှာ မက်ဆွဲ မသေမီက ခန့်မှန်း ရမ်းဆပြီး ပြောဆိုခဲ့သော အချက်များသာ ဖြစ်သော်လည်း နောင်သော် သူမှန်းဆခဲ့သည့်အတိုင်း မှန်ကန်နေသည့် အတွက် ထိုအယူအဆကို သိပ္ပံသမိုင်းတွင် အမှန်ဆုံး မှန်းဆချက်ဟူ၍ပင် တခါတရံ ပြောဆိုကြလေသည်။ ၁၈၈၆ ခုနှစ်မှ ၁၈၈၈ ခုနှစ် အကြားတွင် ဟိုင်းနရစ် ဟာက်ဇဆိုသူသည် မက်ဆွဲ မှန်းဆခဲ့သည့် လျှပ်စစ်၏ တန်ခိုး သက်ရောက်မှုများကို ပဌမ စတင်၍ တွေ့ရှိလေသည်။

ဟာက်ဇ၏ လှိုင်းများကို အခြေပြု၍ အခြား သိပ္ပံပညာရှင်ကြီးများသည် ဝိုင်ယာလက် အထိ တိုးတက် ဖြစ်မြောက်လာအောင် ကြံစည် ဖန်တီး နိုင်ခဲ့ကြပေသည်။ သို့သော် သိပ္ပံပညာ၏ အဓိက အောင်မြင်မှုမှာ ဝိုင်ယာလက် မဟုတ်ပေ။ လျှပ်စစ် သံလိုက်ရောင်စဉ် အဖြစ်ဖြင့် ရောင်ခြည် လှိုင်းများ တသီတတန်းကြီး ရှိသည့် အချက်ကို တွေ့ရှိလာခြင်းသည်သာလျှင် အဓိက အောင်မြင်မှုကြီး ဖြစ်လေသည်။

ရောင်ခြည်များ ဖြာထွက်ခြင်း ကိစ္စတွင် လှိုင်းအလျားအလွန်အလွန်တိုသော လျှပ်စစ် သံလိုက် လှိုင်းများသည် အလင်းကို ဖြစ်ပေါ်စေသည်ဟု သိပ္ပံပညာရှင်ကြီးများကယုံကြည်ထားပြီးဖြစ်သည်။ထိုနောက် ဟာက်ဇတွေ့ရှိသောလှိုင်းအလျား မိုင်ပေါင်းများစွာရှည်သည့် လှိုင်းများနှင့် မာကိုနီ တွေ့ရှိသော လှိုင်း အလျား မိုင်ပေါင်း များစွာ ရှည်သည့် လှိုင်းများသည် ဝိုင်ယာလက် လှိုင်းများ ဖြစ်ကြောင်းကို တဖန် သိလာ ကြပြန်သည်။ ထိုသို့ ဖြစ်လျှင် အဆိုပါ လှိုင်းတိုနှင့် လှိုင်းရှည်တို့၏ စပ်ကြားတွင် မည်သည့် လှိုင်းမျိုး ရှိရမည်နည်း။ ဤအချက်ကို သိပ္ပံပညာရှင်ကြီးများက စိတ်ဝင်စားစွာ လေ့လာကြလေသည်။ အဆိုပါ စပ်ကြားတွင် ရှိသောလှိုင်းများကား အခြားမဟုတ်၊အနီအောက်ရောင်ခြည်

ခေါ် အပူလှိုင်းများပင် ဖြစ်သည်။ ထိုနောက် တဖန် အိပ်စရေး၊ ဂမ်မာရေး၊ကော့စမစ်ရေး ဟု ဆိုအပ်သော ရောင်ခြည်တို့တွင် အလင်းလှိုင်းထက်ပင် လှိုင်းအလျား တိုသေးသည့် လှိုင်းများ ရှိသေးကြောင်း ကို တွေ့လာကြပြန်သည်။

အဆိုပါ လှိုင်းအားလုံးသည် လှိုင်းအလျားအတိုအရှည်နှင့် တန်ခိုး သက်ရောက်ပုံချင်းသာ ကွဲပြားကြသည်။ ထိုလှိုင်းအားလုံးသည် အာကာသအတွင်း၌ မက်ဆွဲ ပြောသကဲ့သို့ လျှပ်စစ် သံလိုက်လှိုင်းများအဖြစ်ဖြင့်သာ လှုပ်ရှားသွားလာကြသည်။ ထိုလှိုင်းများကို လှိုင်းအလျားအလိုက် အမျိုးအစား ခွဲထား၍၊ ထိုလှိုင်းအားလုံး တသီတတန်းကြီး ပါဝင်သည့် အစီအစဉ်တခုလုံးကို လျှပ်စစ်သံလိုက်ရောင်စဉ် ဟူ၍ ခေါ်ကြလေသည်။ ပြာ၊ စိမ်း၊ ဝါ၊ နီ အစရှိသည်ဖြင့် မျက်စိဖြင့် မြင်နိုင်သော အလင်း၏ ရောင်စဉ်မှာ ထိုရောင်စဉ်၏ တစိတ်တဒေသမျှသာ ဖြစ်ပေသည်။

၁၉၀၀ ပြည့်နှစ် လွန်မြောက်၍ ၂၀ ရာစုနှစ် အစဆီသို့ ရောက်သော အခါ၊ အဆိုပါ လှိုင်းအားလုံးတို့သည် ဒြဗ်မှုန်သမျှတို့တွင် ပါဝင်သော ပရိုတွန်နှင့် အီလက်ထရွန်တို့ လှုပ်ရှားမှု အပေါ် တွင် အခြေတည်ကြောင်းနှင့် ထိုအခြေခံ လှုပ်ရှားမှုကို လိုက်၍ လှိုင်းအတိုအရှည် ကွဲပြားကြောင်းတို့ကို သိပ္ပံပညာရှင်ကြီးများက ယုံကြည်လာကြလေသည်။ တဖန် အဆိုပါ လှိုင်းအားလုံးတို့သည် တစက္ကန့်လျှင် ၁၈၆,၂၈၄ မိုင်နှုန်း ထမျိုးတစားတည်းဖြင့် ရွေ့ရှားကြောင်းကိုလည်း တွက်ချက် တွေ့ရှိကြပြန်သည်။

လှိုင်းအလျား အရှည်ဆုံးအမျိုးမှ အတိုဆုံး အမျိုးသို့ ကြီးစဉ် ငယ်လိုက် ဖော်ပြရလျှင် ဝိုင်ယာလက် (ရေဒီယို) လှိုင်းများ၊ အနီအောက်ရောင်ခြည် လှိုင်းများ၊ ခရမ်းဘေး ရောင်ခြည်လှိုင်းများ၊ အိပ်စရေး ရောင်ခြည်လှိုင်းများနှင့် ကော့စမစ် ရောင်ခြည် လှိုင်းများ ဖြစ်လေသည်။ ထိုလှိုင်းများသည် တုန်ကြိမ်နည်းလျှင်လှိုင်းအလျားရှည်၍၊တုန်ကြိမ်များလျှင် လှိုင်းအလျား တိုစမြဲ ဖြစ်သည်။ တုန်ကြိမ်အနည်းဆုံး အစွန်းဖက်တွင် ကျရောက်သည့် လှိုင်းများသည် တစက္ကန့်လျှင် တုန်လှုပ်သည့် အကြိမ်ပေါင်း ၁၀၀ ပင် မပြည့်ဘဲ လှိုင်းအလျားမှာ ၄၅ မိုင်ထက်ပင် ပို၍ ရှည်လေသည်။ တုန်ကြိမ်အများဆုံး အစွန်းဖက်ရှိ လှိုင်းများ၏ တစက္ကန့်အတွင်း တုန်ကြိမ်ပေါင်းမှာ တသန်းကို တသန်းနှင့်မြှောက်၊ နောက်ထပ် တသန်းနှင့်မြှောက်၊ ထိုနောက် တရာနှင့်မြှောက်၍ ရသည့် ဂဏန်း(တစ်နောက် သုည ပေါင်း ၂၀ ရှိသည့် ကိန်းဂဏန်း)မျှ များပြားသည်။လှိုင်းအလျားမှာ တလက်မအတွင်း လှိုင်းအရေအတွက်အားဖြင့် သန်းပေါင်း တသောင်း (တစ်နောက် သုည ၁၀ လုံးရှိသည့် ကိန်းဂဏန်း) ဝင်ဆံ့နိုင်သည့် အထိ တိုလေသည်။

လှိုင်းအလျား အရှည်ဆုံးအစားဖြစ်သည့် ဝိုင်ယာလက် (ရေဒီယို) လှိုင်းများတွင် မိုင်ပေါင်းများစွာ ရှည်လျားသော လှိုင်းများမှ တမီလီမီတာ၏ ၁၀ ပုံ တပုံအထိ တိုသော လှိုင်းများ ပါဝင်သည်။ ပင်လယ်သမုဒ္ဒရာအတွင်း၌ အလွန်ပြင်းထန်သော လေတိုက်ခတ်မှုကြောင့် လှိုင်းအလျားရှည်သော လှိုင်းကြီးများ ဖြစ်ပေါ်လာကြသည့်နည်းတူ၊ ဤဝိုင်ယာလက် လှိုင်းများမှာလည်း အသံလွှင့်စက်အတွင်း အထူးစီမံထားသော ကရိယာတွင် အလွန်တရာ များပြားသည့် အီလက်ထရွန်တို့၏လှုပ်ရှားမှုကြောင့် ဖြစ်ပေါ်လာကြသည်။

ဒုတိယ လှိုင်းအလျား အရှည်ဆုံးအမျိုးဖြစ်သော အနီအောက် ရောင်ခြည်လှိုင်းများသည် ယင်းတို့နှင့် ထိတွေ့သော အရာဝတ္ထုများကို အပူဓာတ်ပေးကြသဖြင့် ထိုလှိုင်းတို့သည် အမှန်အားဖြင့် အပူလှိုင်းများ ဖြစ်ကြသည်။ ကျွန်ုပ်တို့ စကြဝဠာ တခွင်လုံးက အားကိုး အားထား ပြုနေရသည့် နေလုံးကြီးသည် အဆိုပါ အပူလှိုင်းများကို အခါမလပ် ထုတ်လွှတ်လျက် ရှိပေသည်။ အနီအောက် ရောင်ခြည် အပူလှိုင်းများသည် အပူဓာတ်ဖြစ်ပေါ်ရာ အရာဝတ္ထုအတွင်းရှိ မော်လီကျူးများ၏ ပြင်းထန်စွာ လှုပ်ရှားမှုကြောင့် ဖြစ်ပေါ်လာပြီးလျှင် ယင်းတို့နှင့် ထိတွေ့သည့် အရာဝတ္ထုများအတွင်းရှိ မော်လီကျူးများအားလည်း တိုး၍ လှုပ်ရှား ထကြွစေခြင်းဖြင့် အပူဓာတ်ကို ဖြစ်ပေါ်စေသည်။ လှိုင်းအလျား အရှည်ဆုံးသော အနီအောက်ရောင်ခြည်သည် အတိုဆုံးသော ဝိုင်ယာလက် လှိုင်းနှင့် ဟပ်မိပြီးနောက် တဖြည်းဖြည်း တိုသွားသောအခါ အောက်ဖက်ရှိ အလင်းလှိုင်းများနှင့် ဆက်၍ သွားလေသည်။

အနီအောက် ရောင်ခြည်လှိုင်းများထက် လှိုင်းအလျား တိုသော နောက်လှိုင်းများမှာ မျက်စိဖြင့် မြင်နိုင်သည့် အလင်းလှိုင်းများဖြစ်သည်။ အလင်းလှိုင်းတို့၏ လှိုင်းအလျားမှာ တလက်မကို အစိတ်ပေါင်း တသန်းစိတ်၍ရသော သန်းစိတ်တစိတ်၏ လေးပုံ တပုံမှ ရှစ်ပုံ တပုံအထိ ရှိသည်။ ထိုလှိုင်းတို့သည် အက်တမ်များအတွင်း၌ အီလက်ထရွန် လှည့်ပတ်သွားရာ လမ်းကြောင်းများကို ကူးပြောင်းခြင်းကြောင့် ဖြစ်ပေါ်လာကြသည် ဟု ဆိုသည်။

အလင်းလှိုင်း အောက်တွင် ခရမ်းဘေး ရောင်ခြည်လှိုင်းများရှိ၍၊ ထိုလှိုင်းတို့သည် ကျန်းမာရေးနှင့် စက်မှုလုပ်ငန်းများအတွက် များစွာအသုံးကျ၏။ ထိုရောင်ခြည်၌ ရောဂါပိုးနှင့် ဗက်တီးရီးယားများကို သေစေနိုင်ခြင်း၊ ဗီတာမင် ဒီ ဓာတ်ကို ဖြစ်ထွန်းစေနိုင်ခြင်း၊ စက်မှုလုပ်ငန်းများတွင် ဓာတ်ဆေးအများအပေါ် ၌ ပြင်းထန်စွာ တန်ခိုး သက်ရောက်စေနိုင်ခြင်း၊ အချို့သော အရာဝတ္ထုများကို ထိုရောင်ခြည်နှင့် ပြပြီးနောက် အမှောင်ထဲ၌ထားလျှင် အရောင်ထွက်ပြီး လင်းစေနိုင်ခြင်း၊ စာချုပ်စာတမ်း၊ ငွေစက္ကူ၊တံဆိပ်၊ ပန်းချီကားစသည်များကို အတု အစစ် ခွဲခြားနိုင်ခြင်း၊ ဖန်ရိုးရိုးကို မ

ဖောက်ထွင်းနိုင်သော်လည်း ကျောက်သလင်းကို ဖောက်ထွင်းနိုင်ခြင်း စသော သတ္တိထူးများ ရှိလေသည်။ အထူးသဖြင့် ထိုရောင်ခြည်တွင် ချည့်နဲ့ပျော့ပျောင်း နာမကျန်းသူများကို ကျန်းမာ သန်စွမ်းစေနိုင်သည့် သတ္တိရှိသဖြင့် ယခုအခါ လူမမာကုရန် ခရမ်းဘေး ရောင်ခြည် ခေါ် နေရောင်ခြည်တုကို ထုတ်လွှတ်နိုင်သည့် ဓာတ်မီးအမျိုးမျိုးကို တီထွင်အသုံးပြုလျက် ရှိပေပြီ။ ခရမ်းဘေး ရောင်ခြည်နှင့် အိပ်စရေး ရောင်ခြည်နှစ်မျိုးစလုံးပင် ပုံဖမ်း ဓာတ်ပုံကော်ပြားအပေါ်၌ တန်ခိုး သက်ရောက်နိုင်ကြသည့် အတိုင်း ထိုရောင်ခြည်များဖြင့်လည်း ကျောက်သလင်း မှန်ဘီလူးတပ် ဓာတ်ပုံရိုက် ကရိယာကို သုံးကာ ဓာတ်ပုံ ရိုက်ယူနိုင်ပေသည်။

လျှပ်စစ် သံလိုက် ရောင်စဉ်တွင် ခရမ်းဘေး ရောင်ခြည်နှင့် အိပ်စရေး ရောင်ခြည်တို့သည် ထက်အောက် ဆက်နေကြ၍၊ ခရမ်းဘေး ရောင်ခြည်လှိုင်းများ၏ လှိုင်းအလျားသည် တလက်မ၏ သန်းစိတ် တစိတ်၏ ရှစ်ပုံ တပုံမှ ၃၂ ပုံ တပုံထိ ရှိကြသည်။

အိပ်စရေး ရောင်ခြည်ရှိ အတိုဆုံး လှိုင်းများက ရေဒီယိုသတ္တိရှိသော ပစ္စည်းများမှ ထုတ်လွှတ်သည့် ဂမ်မာရောင်ခြည်လှိုင်းများနှင့် တဖန် ထပ်နေပြန်၍ ထိုလှိုင်းများ၏ အတိုဆုံး လှိုင်းအလျားသည် တလက်မ၏ သန်းစိတ်တစိတ်၏ အပုံပေါင်း နှစ်သောင်းတွင် တပုံခန့်မျှသာ ရှိသည်။

အားလုံးသော လှိုင်းများအောက် အတိုဆုံး လှိုင်းမှာ ကော့စမစ် ရောင်ခြည်လှိုင်းများ ဖြစ်သည်။ ထိုလှိုင်းများသည် တိုလှန်းအားကြီးသဖြင့် ယခုတိုင်အောင် မည်သို့သော ကရိယာမျိုးနှင့်မျှ တိုင်းတာရန် မဖြစ်နိုင်သေးပေ။ အချို့သော ကော့စမစ်ရောင်ခြည်များသည် ၁၈ ပေ ထူသည့် ခဲထုကို ဖောက်ထွင်းနိုင်သည်အထိပင် သတ္တိ ပြင်းထန်သည်။ ထိုရောင်ခြည်ရှိကြောင်းကို ၁၉၀၃ ခုနှစ်တွင် စတင် တွေ့ရှိရသည်။ ထိုရောင်ခြည်များသည် ကြယ်များအတွင်း၌ ဖြစ်စေ၊ ကြယ်များတည်ရှိရာ အာကာသအတွင်း၌ ဖြစ်စေ အက်တမ်များ အကြီးအကျယ် ပြောင်းလဲကြရာမှ စတင် ဖြစ်ပွား ပေါ်ပေါက်လာဟန်တူသည် ဟူ၍၎င်း၊ ဤပြောင်းလဲမှုများမှာလည်း ဒြပ်ဝတ္ထုတို့ ကြေပျက်ရာမှဖြစ်စေ၊ ဒြပ်ဝတ္ထုသစ်တို့ ဖြစ်ပေါ်ရာမှဖြစ်စေ ပေါ်ပေါက်လာနိုင်စရာ အကြောင်းရှိသည် ဟူ၍၎င်း ရူပဗေဒ ပညာရှင်ကြီးအများက ယုံကြည်ကြသည်။

ထိုသို့တခေတ်ပြီးတခေတ် မှန်ကန်သော အသိသစ် အတွေ့သစ်များ တိုးတက် များပြားလာသည်နှင့်အမျှ သိပ္ပံ ပညာတွင် ယုတ္တိတန် မတန် သံသယ ဖြစ်ဖွယ် ကျန်နေသေးသော အချို့သော ယုံကြည်ယူဆချက်များသည် မကြာမီအတွင်း၌ အမှန်နှင့်အမှား ကွဲပြား ပြေရှင်းသွားလိမ့်မည်ဟူ၍ မျှော်လင့်ရပေသည်။

ရေဒီယို။ ။ဝိုင်ယာလက် — ရှု။

ရေဒီယမ်နှင့် ရေဒီယိုသတ္တိ ကြွခြင်း။ ။ဟင်နရီဗက္ကရဲ ဆိုသူ ပြင်သစ်လူမျိုး သိပ္ပံပညာရှင်ကြီး တဦးသည် ယူရေနီယမ်ဓာတ်ဆားမှ အိပ်စရေးကဲ့သို့သော ရောင်ခြည် တမျိုးကို ၁၈၉၆ ခုနှစ်တွင် တွေ့ရှိခဲ့ လေသည်။ ထိုရောင်ခြည်သစ်ကို တွေ့ရှိပုံမှာ အိပ်စရေးကို တွေ့ရှိပြီးသည့်နောက် ကမ္ဘာအရပ်ရပ်ရှိ သိပ္ပံပညာကျော်တို့သည် အိပ်စရေး အကြောင်းနှင့် စပ်လျဉ်း၍ သုတေသန လုပ်ငန်းများကို အသီးအသီး ကြံစည် လုပ်ကိုင်ကြရာတွင် ဟင်နရီဗက္ကရဲသည် ယူရေနီယမ် ဓာတ်ဆားတမျိုးကို ကံအားလျော်စွာ စမ်းသပ်ကြည့်ရှုမိလေသည်။ ဗက္ကရဲသည် ဓာတ်ပုံရိုက်ကူးသော မှန်တချပ်ကို စက္ကူစဖြင့်ထုပ်၍ ထိုအထုပ်ပေါ်တွင် ကြက်ခြေအမှတ် ပစ္စည်းတခုကို တင်ထားပြီးလျှင် ထိုပစ္စည်းပေါ်၌ တဖန် ယူရေနီယမ်ဓာတ်ဆားကို ထပ်၍တင်ကာ နေရောင်တွင် ပြလေသည်။ ထိုနောက် ဓာတ်ပုံရိုက်ကူးသော မှန်ချပ်ကို ထုတ်ယူပြီးလျှင် ဓာတ်ပုံဆေးနည်းဖြင့် ဆေးကြည့်သောအခါ ကြက်ခြေအမှတ်ပုံ ပစ္စည်း၏အရိပ် ထင်နေသည်ကို တွေ့ရလေသည်။



ရေဒီယမ်ဖြင့် ဆေးကုသပေးမှုကို ယခုအခါ ခေတ်မီသော ဆေးရုံကြီးများတွင် တီထွင် ဆောင်ရွက်လျက် ရှိကြသည်။

တဖန် အထက်ပါ စမ်းသပ်နည်းအတိုင်း စက္ကူမဲဖြင့် ထုပ်ထားသော ဓာတ်ပုံမှန်ချပ်ပေါ် က ကြက်ခြေအမှတ်ပုံ ပစ္စည်းပေါ် တွင် ယူရေနီယမ် ဓာတ်ဆားကို ထပ်၍ တင်ပြီးလျှင် နေရောင်တွင် မပြတော့ဘဲ စားပွဲ အံဆွဲတွင် ထည့်ထားလိုက်၏။ ရက်အတန်ကြာသောကာလ အံဆွဲကို ဖွင့်၍ ဓာတ်ပုံမှန်ချပ်ကို ထုတ်ပြီးလျှင် ဓာတ်ပုံဆေးနည်းဖြင့် ဆေးကြည့်သောအခါ ကြက်ခြေအမှတ်ပုံ ပစ္စည်း၏အရိပ် ထင်နေသည်ကို တွေ့ရပြန်လေသည်။ ထို့ကြောင့် ယူရေနီယမ် ဓာတ်ဆားကို နေရောင်တွင် ပြသည်ဖြစ်စေ၊ မပြသည်ဖြစ်စေ ဓာတ်ပုံမှန်ချပ်ပေါ် တွင် အရိပ် ထင်နိုင်သဖြင့် ထိုယူရေနီယမ်ဓာတ်ဆားမှ အိပ်စရေးကဲ့သို့သော ရောင်ခြည်တမျိုးသည် အစဉ်မပြတ် ထွက်နေကြောင်းကို ဗက္ကရဲ စတင်သိရှိခဲ့လေသည်။

ထိုကဲ့သို့ အသစ်အဆန်း တခုကို ဗက္ကရဲက တွေ့ရှိပြီးသည့်နောက် ပီယဲကျူုရီနှင့် ဇနီး မာရီကျူုရီတို့သည် ယူရေနီယမ် ဓာတ်ဆားမှ ထွက်သော ရောင်ခြည်သစ်၏ အကြောင်းနှင့် စပ်လျဉ်း၍ အခြား မည်သည့်ပစ္စည်းမျိုးမှ ထိုရောင်ခြည်မျိုး ထွက်သေးသည်ကို ထပ်မံ စမ်းသပ်ကြည့်ရှုကြလေသည်။ ပစ္စည်းအမျိုးမျိုးတို့ဖြင့် အကြိမ်ကြိမ် အဖန်ဖန် စမ်းသပ်ပြီးသောအခါ မာရီကျူုရီသည် သိုရီယမ်ဓာတ်ဆားများမှလည်း ယူရေနီယမ် ဓာတ်ဆားမှ ထွက်သော ရောင်ခြည်မျိုး ထွက်သေးကြောင်းကို သိရှိပြန်လေသည်။ မာရီကျူုရီသည်ဤကဲ့သို့စမ်းသပ်ကြည့်ရှုရာ၌ပစ်ချဗလင်း ဟုခေါ်သော ယူရေနီယမ်ပါသည့် ပစ္စည်းရိုင်းမှ ရောင်ခြည်ထွက်ခြင်းသည် ယူရေနီယမ် ဓာတ်စစ်စစ်မှ ထွက်သည်ထက် လေးဆခန့်မျှ ပိုများသည်ကို တွေ့ရှိလေသည်။ ထို့ကြောင့် ဗက္ကရဲနှင့် ကျူုရီဇနီးမောင်နှံတို့သည် ပစ်ချဗလင်းထဲ၌ ယူရေနီယမ်စစ်စစ်မှ ထွက်သော ရောင်ခြည်ထက် လေးဆခန့်မျှ ပိုသော ရောင်ခြည်ထွက်စေသည့် ဒြပ်စင်တမျိုး ရှိဦးမည်ဟု တထစ်ချ ယူဆကြလေသည်။ ယင်းသို့ ယူဆသည့်အတိုင်း ကျူုရီ ဇနီးမောင်နှံတို့သည် ထိုဒြပ်စင်သစ်ကို စတင် ရှာဖွေကြရာ ပစ်ချဗလင်း ခေါ် ယူရေနီယမ် ပစ္စည်းရိုင်း အချိန်တတန်လောက်ထဲမှ ထိုဒြပ်စင်သစ် အနည်းငယ်လောက်ကို သာ ရှာတွေ့ကြ၍ ထိုဒြပ်စင်သစ်ကို ရေဒီယမ် ဟု အမည်ပေးကြလေသည်။ ထိုရေဒီယမ် ဒြပ်စင်သစ်တွင် ဂုဏ်ထူး သတ္တိများ ရှိကြောင်းကိုလည်း သိကြလေသည်။ ရေဒီယမ်သည် အပူကို ဖြစ်စေနိုင်သည့်ပြင် ပတ်ဝန်းကျင် လေကို လျှပ်စစ်ဓာတ်သွင်းပေးနိုင်ခြင်း၊ ရေဒီယမ် အနီးသို့ ယူလာသော အခြားပစ္စည်းများကို စုန်းတောက်သကဲ့သို့ ဝင်းဝင်းတောက်စေနိုင်ခြင်း၊ ဗက်တီးရီးယားနှင့် အလားတူ သက်ရှိများကို ဖျက်ဆီးပစ်နိုင်ခြင်းကဲ့သို့သော သတ္တိ ရှိသည့်အပြင် ထူးခြားသောအချက်တချက်မှာ ရေဒီယမ်မှ အပူနှင့် ရောင်ခြည်များ အစဉ်မပြတ် ထွက်နေခြင်းပင် ဖြစ်သည်။

၁၈၉၉ ခုနှစ်တွင် ဆာ ရားသားဖို့သည် ရေဒီယမ်မှ ထွက်သော ရောင်ခြည်များကို ခွဲစိတ် စမ်းသပ် ကြည့်ရှုလေသည်။ ထိုအခါ ရေဒီယမ်မှထွက်သော ရောင်ခြည်များမှာ သုံးမျိုးဖြစ်ကြောင်း တွေ့ရှိရ၍၊ ယင်းတို့ကို (၁) အာလဖာ ရောင်ခြည်၊ (၂) ဗီတာ ရောင်ခြည်၊ (၃) ဂမ်မာ ရောင်ခြည် ဟူ၍ ဂရိဘာသာ အက္ခရာအမည်များဖြင့် မှည့်ခေါ်ထားလေသည်။ ဂမ်မာရောင်ခြည်မှာ အိပ်စရေး ရောင်ခြည်ကဲ့သို့ပင် လှိုင်းများ ဖြစ်သော်လည်း လှိုင်းအလျား အလွန်တို၏။ ဗီတာရောင်ခြည်မှာ လျှပ်စစ်အမဓာတ်ကို ဆောင်သော အီလက်ထရွန်တို့ဖြစ်၏။ အာလဖာ ရောင်ခြည်မှာမူ လျှပ်စစ်အဖိုဓာတ် ဝင်နေသော မြူမှုန်များ ဖြစ်၏။ ထိုအာလဖာ ရောင်ခြည်၏ လျှပ်စစ်အဖိုဓာတ်ဝင်နေသော မြူမှုန်များသည် လျှပ်စစ်အမဓာတ်ကိုဆောင်သော အီလက်ထရွန်တို့ထက် လေး၍အသွားနှေးသည် ဟု ဆိုရသော်လည်း တစက္ကန့်လျှင် မိုင်ပေါင်း ၆,၀၀၀ မှ ၁၂,၀၀၀ အထိ ရှိသော နှုန်းဖြင့် ထွက်လျက် ရှိကြသည်။ ဗီတာ ရောင်ခြည်မှာမူ အလင်းသွားနှုန်း (တစက္ကန့်လျှင် မိုင်ပေါင်း ၁၈၆,၂၈၄) နှင့် တူညီ နီးပါး ရှိသောနှုန်းဖြင့် ထွက်လျက် ရှိသည်။ အာလဖာ ရောင်ခြည်ကို စပက်ထရိုစကုပ် မှန်ပြောင်းဖြင့် စုံစမ်းကြည့်သောအခါ အာလဖာ မြူမှုန်များသည် ဟီလီယမ်ဓာတ်ငွေ့ ဖြစ်နေကြောင်းကို သိရှိရလေသည်။ (ရားသားဖို့၊ ဆာ အားနက် — လည်းရှု။)

ရေဒီယမ်နှင့် ယူရေနီယမ် ဒြပ်စင်တို့၏ အကြောင်းနှင့် စပ်လျဉ်း၍ ရားသားဖို့ ထပ်မံ စမ်းသပ်ကြည့်၍ သိရှိသော အချက်မှာ ယူရေနီယမ်အတွင်းမှ အာလဖာ ရောင်ခြည်နှင့် ဗီတာ ရောင်ခြည်တို့ ထွက်သွားသောအခါ ယူရေနီယမ် အဖြစ်မှ ရေဒီယမ်အဖြစ်သို့ ပြောင်းလဲသွားသောအချက် ဖြစ်လေသည်။ ရေဒီယမ် အဖြစ်သို့ ပြောင်းလဲသွားပြီးသောအခါ၌လည်း ရေဒီယမ်မှ အာလဖာရောင်ခြည်နှင့် ဗီတာ ရောင်ခြည်တို့သည် ဆက်လက်၍ ထွက်နေကြခြင်းကြောင့် နောက်ဆုံး ရေဒီယမ် အဖြစ်မှ တဖြည်းဖြည်း ခဲအဖြစ်သို့ ပြောင်းလဲ သွားသည်ကိုလည်း ထပ်မံ၍ သိရှိပြန်လေသည်။ အလယ် ခေတ်လောက်က ခေတ်စားလာခဲ့သော အဂ္ဂိရတ် ဆရာတို့သည် ခဲကဲ့သို့သော သတ္တုအပေါစားများကို ရွှေငွေ ဖြစ်အောင် ကြံစည် အားထုတ် ခဲ့ကြသည်ကို မဖြစ်မြောက်နိုင်သော အကြံအစည်များ ဟု ယခုခေတ် သိပ္ပံပညာရှင်များက ပြက်ရယ်ပြုကြ၏။ သို့သော် ယူရေနီယမ်မှ ရေဒီယမ် အဖြစ်သို့၎င်း၊ တဖန် ရေဒီယမ်မှ ခဲအဖြစ်သို့၎င်း သဘာဝ အလျောက် ပြောင်းလဲလျက်ရှိသော အချက်ကိုမူ ယခုအခါ မည်သူမျှ မငြင်းနိုင်တော့ချေ။

ရေဒီယမ်မှ အစဉ်ထွက်နေသော မြူမှုန်တို့သည် တစက္ကန့်လျှင် မရေမတွက်နိုင်အောင် များပြားသော်လည်း အောင်စ

ဝက် အလေးချိန်ရှိသော ရေဒီယမ်သည် နှစ်ပေါင်း ၁,၀၀၀ ကြာမှ ကုန်ခန်းနိုင်ပေသည်။ ယူရေနီယမ် ဒြပ်စင်သည် ရေဒီယမ် ဒြပ်စင်ထက်ပင် မြူမှုန်တို့ ထွက်သွားသည့်အတွက် အလေးချိန်လျော့ရာ၌ အချိန်ကြာပေသေးသည်။

ရေဒီယမ်မှ အစဉ် ထွက်လျက် ရှိသော အာလဖာ၊ ဗီတာနှင့် ဂမ်မာရောင်ခြည်တို့အနက် အာလဖာရောင်ခြည်၊ သို့မဟုတ် အာလဖာ မြူမှုန်တို့သည် ဟီလီယမ် ဓာတ်ငွေ့သာ ဖြစ်၍ ထိုးဖောက်နိုင်သောသတ္တိ မရှိလှချေ။ စက္ကူတချပ် ခံထားသည်ကိုမျှ ထိုးဖောက်၍ မသွားနိုင်ချေ။ ဗီတာရောင်ခြည်မှာမူ အလျူမီနီယမ် သတ္တုချပ်ပါးပါးကို ထိုးဖောက်သွားနိုင်လောက်အောင် ထက်မြက်သည်။ ဂမ်မာရောင်ခြည်မှာကား အထက်မြက်ဆုံး ဖြစ်သောကြောင့် ခြောက်လက်မ၊ ခုနစ်လက်မ ထူသော သံမဏိကိုပင် ထိုးဖောက်၍ သွားနိုင်သည်။

ယူရေနီယမ်နှင့် ရေဒီယမ် တို့ကဲ့သို့ ရေဒီယိုသတ္တိ ကြွသော အခြား ဒြပ်စင်များမှာ ပိုလိုနီယမ်၊ သိုရီယမ်၊ အက်တင်နီယမ်၊ ပရိုတိုအက်တင်နီယမ်၊ ရူဗီဒီယမ်နှင့် ပိုတက်ဆီယမ်တို့ ဖြစ်ကြလေသည်။

**ရေနေပင်များ။** ။အပင်ဆိုလျှင် ကုန်းပေါ်၌သာ ပေါက်ရောက်နိုင်သည် ဟု ထင်ကြ၏။ ရေထဲ၌ ပေါက်ရောက်သော အပင်များကို တွေ့မြင်ရသည့်အခါ ယင်းတို့ မည်သည့်နည်းနှင့် ကြီးထွားနေကြသည်ကို အံ့ဩကြပေလိမ့်မည်။ ရေထဲတွင်ပေါက်သော အပင်များအနက် ရေအောက် မြေပြင်တွင် အေးချမ်းစွာနေသည့် သစ်ပင်ကြီးငယ်တို့သည် အထူးတလည် မာကျောရန် မလိုချေ။ သို့သော် ရေစီးထဲတွင်ပေါက်သောအပင်တို့သည် အတော်မာကျောရန် လိုပေသည်။ ရေနေအပင်များနှင့်စပ်လျဉ်း၍ အခြားထင်ရှားသောလက္ခဏာတရပ်မှာ လေရှူရန် အခေါင်းများ ရှိခြင်း ဖြစ်လေသည်။

များသောအားဖြင့် ရေထဲ၌ ပေါက်သော အပင်များတွင် အမြစ် အလွန်နည်းသည်။ အချို့တွင် အမြစ် ဟူ၍ လုံးဝမပါရှိတတ်ချေ။ အမြစ်များရှိသည့် တိုင်အောင် ထိုအမြစ်များသည် ကုန်းပေါ်က အပင်များ မှာကဲ့သို့ အစာထုတ်ယူရန်မဟုတ်ဘဲ အပင်မြဲမြံမှုအတွက် ကျောက်ဆူးသဖွယ် အကုပ်အတွယ် ရရန်သာဖြစ်သည်။ သေချာစွာ အမြစ်တွယ်ထားခြင်း မရှိသော အပင်များသည် လေရှူရန် အခေါင်းကြောင့် ရေပေါ်၌ ပေါလောပေါ်၍ နေနိုင်သည်။ အချို့ရေနေပင်များသည် ထာဝစဉ် ပေါလောပေါ်၍သာ နေသည်ကို တွေ့ရလေသည်။

အရွက်များ အကျိုးပြုလိုက်လျောမှု ဖြစ်နေပုံမှာလည်း အထူး အံ့ဩစရာကောင်းလေသည်။ ရေထဲတွင် စိမ်နေရ



မင်ထယ်ရေပြင်အောက် အံ့ဩဖွယ်ရာ ပေါက်နေသော ရေနေပင်များ



ကြာမင်မှာ လူသိများသော ရေနေပင် ဖြစ်သည်။

သော အရွက်အခက် များတွင် ကုန်းပေါ်ရှိ အရွက်များမှာကဲ့သို့ လေရှုပေါက်များ မပါရှိချေ။ များသောအားဖြင့် ရေထဲက အရွက်များသည် အစိတ်စိတ်ကွဲလျက် ရှိရာ ရေစီးကိုငင်း၊ ရေစီး၌ပါသော အရာဝတ္ထုများကိုငင်း အတိုက်အခံများစွာ မဖြစ်စေဘဲ အလိုက်သင့် ဖြစ်နေသည်ကို တွေ့ရပေသည်။ ရှည်လျားသေးသွယ်သော အရွက်များသည် ရေပြင်ပေါ်သို့ ထိုးထွက်ကာ အစာကို ရယူလေ့ ရှိကြသည်။ အချို့အပင်များတွင် ရေစိမ်နေရသော အရွက် ဟူ၍ပင် အလျဉ်းမရှိသည်ကို တွေ့ရသည်။ ရေထဲ၌ ပေါက်ရောက်သော အပင်များအနက် ရေစီးကို လိုက်၍ စုံချီ ဆန်ချီ ပေါလောပေါ်နေသော ဗေဒါပင်မျိုးကို သတိပြု မှတ်သားသင့်ပေသည်။

ကြာဖြူကြာနီကဲ့သို့သော ရေနေအပင်များ၏အရွက်သည် ပြားချပ်၍ ဝန်းလျားလျား ပုံသဏ္ဌာန်ရှိသည်။ ရေထဲ ပေါ်လောပေါ်၍နေစေရန်အတွက် လေရှုသည့် ခေါင်းပွကလေးများရှိသည်။ ပင်စည်ကလေးများမှာလည်း ရေစီးအပြောင်းအလဲဒဏ်ကို ခံနိုင်ရန် သေးသွယ် ပျော့ပျောင်းလှပေသည်။ ထိုအရွက်များ၏ အပေါ်ဖက်မျက်နှာတွင်မူ အသက်ရှူရန် လေပေါက်ကလေးများကို တွေ့ရသည်။ ပန်းတွင် ဖြစ်စေ၊ သို့မဟုတ် အသီးတွင် ဖြစ်စေ ရေအောက်သို့ ကျရောက်နေလင့်ကစား အပေါက်ငယ်များ ပါရှိတတ်သည်။ ယင်းတို့၏ ဝတ်မှုန်များသည် ရေစီးဖြင့် တပင်မှ တပင်သို့ လွယ်ကူစွာရေထဲတွင် မျောပါပြီးလျှင် ဆက်သွယ်မိကြလေသည်။ သို့သော်များစွာသော ရေနေပင်များ၌ လေပေါက်များကြောင့်ငင်း၊ ပင်စည်က မြှင့်တင်ထားခြင်းကြောင့်ငင်း ပန်းသည် ရေမျက်နှာပြင်ပေါ်၌ ပေါလောပေါ်၍ နေတတ်ပေသည်။ ထိုမှ ဤမှ ကူးသွားပျံသန်းလေ့ ရှိကြသော ပိုးကောင်များနှင့် လေပြည်လေညှင်းတို့က ပန်းဝတ်မှုန်များကို နေရာ အနှံ့အပြားရောက်အောင် ဆောင်ကြဉ်း ပေးကြသည်။ များစွာသော ရေနေပင်တို့သည် ယင်းတို့၏ အစေ့၊ သို့မဟုတ် အသီးတွင် ရေမစိုစေရန် အိတ်ကလေးများ ပါရှိတတ်သည်။ ထိုအိတ်ကလေးများ ပါရှိခြင်းဖြင့် အသီးများ ကြွေကျသောအခါ ရေပေါ်တွင် ကောင်းစွာ ပေါ်လျက် မျောသွားနိုင်လေသည်။ အသီးနှင့် သေးငယ်သော အပင်ကလေးများသည် တခါတရံ ရေငှက်တို့၏ နှုတ်သီး၊ ရွှံ့ပေနေသော ခြေထောက်နှင့် အမွေးအတောင်တို့တွင် တွယ်ကပ်၍ ပါသွားတတ်ကြလေသည်။

ရေနေပင်များတွင် အဓိကအားဖြင့် သုံးမျိုးရှိသည်။ ပဌမ အမျိုးတွင် ရေထဲ၌ အမြဲနေပြီးလျှင် မိမိဖာသာသော်ငင်း၊ ရေစီးကြောင်း အားဖြင့်သော်ငင်း ရွေ့ရှားသွားလာနေသော အပင်မျိုးအားလုံး အကျုံးဝင်သည်။ ထိုအမျိုးထဲတွင် အယ်လဂျေပင်၊ ဘဲစာပင်များ ပါဝင်၏။ ဒုတိယ အမျိုးမှ အပင်သည် ရေပေါ်၌ ပေါ်နေသော်လည်း အောက်ဖက်တွင် ကျောက်ဆူးကြိုးချထားသကဲ့သို့ အကုပ်အတွယ်ရှိသော အပင်များ ဖြစ်သည်။ ထိုအမျိုးတွင် ပင်လယ် ကျောက်ပွင့်မျိုးများ ပါဝင်၏။ ပင်လယ် ကျောက်ပွင့်မျိုးမှာလည်း အစားစားရှိသည်။ အချို့ကို ရေအတိမ်အနက်ကို လိုက်ကာ အမျိုးမျိုး တွေ့ရတတ်သည်။ အခြားအမျိုးမှာ ကြာပန်းအပါအဝင်ဖြစ်သော အုပ်စုဖြစ်ပြီးလျှင် ရေပေါ်၌ ပေါ်သော အရွက်ပြန့်များ ပါရှိတတ်သည်။ ရေအိုင်ထဲမှ အပင်များမှာမူ အရွက်သည် ရေထဲတွင် လုံးဝမြုပ်၍ နေတတ်ကြသည်။ တတိယ အမျိုးဝင် ရေနေပင်တို့၏ အမြစ်သည် ရေထဲ၌သော်ငင်း၊ ရေများစွာပါရှိသော မြေသြဇာထဲ၌သော်ငင်း တွယ်၍ နေပြီးလျှင် အရွက်ထွက်သည့် ရိုးတံသည် ရေမျက်နှာပြင်ပေါ်သို့ ထိုးထွက်နေတတ်သည်။ ယင်းတို့တွင် ကိုင်းပင် ကျူပင်များနှင့် အလားတူအပင်များ ပါဝင်သည်။ ထို့မှတပါး ရေထဲ၌ ပေါက်ရောက်သော အပင်ငယ်များလည်း ရှိသေးသည်။

အချို့ အပင်များတွင် အမြစ်သည် ရေပေါ်၌ ပေါ်၍ အောက်ဆီဂျင် ဓာတ်ကို ယူလေသည်။ ဆိုက်ပရက် ခေါ် အပင်တမျိုးသည် ထိုအမျိုးထဲက ဖြစ်လေသည်။

# မြေဆီမှ ရွှေရည်

**စက်မှုလက်မှု ထွန်းကားသောခေတ်တွင် လေယာဉ်ဆီ၊ ဓာတ်ဆီ၊ ရေနံဆီ၊ ဓာတ်မြေသြဇာ၊ အဝတ်အထည် စသော ရေနံမှ ထုတ်လုပ်နိုင်သည့် လူသုံး၊ စက်သုံး ကုန်ပစ္စည်း မြောက်မြားစွာတို့သည် လူ့နေမှု အဆင့်အတန်းကို အများဆုံး အကျိုးပြုနိုင်သည်။ ရေနံ လုပ်ငန်းသည် ကမ္ဘာ့ အရပ်ရပ်တွင် အရေးပါသော စီးပွားရေး မဏ္ဍိုင်တခု ဖြစ်သည်။ ထို့ကြောင့် ရေနံကို ''မြေဆီမှ ရွှေရည်'' ဟု တင်စား ခေါ်ဝေါ်ကြသည်။**

**ရေနံ**။ ။ရေနံ၊ သို့မဟုတ် ရေနံစိမ်းကို မြေကြီးအတွင်းမှ ရရှိ၏။ ရေနံစိမ်းသည် စေးပျစ်ပျစ် အရည်ဖြစ်၍ အဖြူရောင် နီးပါးမှ ပယင်းရောင်၊ ညိုစိမ်းရောင်နှင့် အမည်းရောင်အထိ အမျိုးမျိုး ရှိသည်။ ထိုရေနံစိမ်းမှ ပစ္စည်းအမျိုးမျိုးကို ရရှိနိုင်သည်။ ထိုပစ္စည်း အမျိုးမျိုးအနက် အချို့ကို ယခုခေတ် ယာဉ်များတွင် အပါအဝင် ဖြစ်သော မော်တော်ကားနှင့်



ရေနံတွင်းသစ် (ချောက်မြို့)

လေယာဉ်ပျံ စသည့်ယာဉ်များ သွားလာနိုင်စေရန် အသုံးပြုနိုင်သည်။ ထို့ပြင် ယာဉ်များ၏ စက် အစိတ်အပိုင်းများ ပွတ်တိုက်မှုတွင် နည်းပါးနိုင်သမျှ နည်းပါးစေရန် ချောဆီများအဖြစ်နှင့်လည်း အသုံးပြုနိုင်သည်။ ထိုမျှ မကသေး၊ ရေနံစိမ်းတွင် ပါဝင်လျက် ရှိသော ပစ္စည်းအမြောက်အမြား အနက်မှလည်း လမ်းမကြီးများ ခင်းရာတွင် အသုံးပြုသော ကတ္တရာကိုပင် ရရှိနိုင်လေသည်။ အမှန်မှာ ရေနံစိမ်းသည် ယခုခေတ်ကဲ့သို့သော စက်ခေတ်တွင် အသက်သွေးကြောပင် ဖြစ်သည်။ ရှေးခေတ်က ဓာတ်ငွေ့ဖြင့် မောင်းနှင်သော စက်များသည် တမိနစ်လျှင် အပတ်ပေါင်း ၁၅၀ မှ ၂၅၀ အထိသာ လည်နိုင်ကြသည်။ ထိုထက်ပို၍ လည်ကြလျှင် စက်များသည် ပွတ်တိုက်မှုကြောင့် လောင်ကျွမ်းကုန်လိမ့်မည်ဟု အင်ဂျင်နီယာကြီးများက ပြောဆိုခဲ့ကြသည်။ ယခုအခါတွင်မူ ရေနံစိမ်းမှ ရရှိသည့် ချောဆီများ၏ စွမ်းရည်သတ္တိကြောင့် စက်များသည် တမိနစ်လျှင် အပတ်ပေါင်း ၆,၀၀၀ မက စိတ်ချစွာ လည်နိုင်ကြပေသည်။

ယခုအခါတွင် ပစ္စည်းများကို ထုပ်ပေးလေ့ ရှိကြသော ဖယောင်းစက္ကူများရှိ ဖယောင်းသည် ရေနံစိမ်းမှ ရရှိသော ပစ္စည်းတမျိုး ဖြစ်သည်။ ထိုမျှမကသေး ပလပ်စတစ်များ၊



အမေရိကန်ပြည်ထောင်စုနိုင်ငံ တက်ဆက်ပြည်နယ်ရှိ ရေနံတွင်းများ



ရေနံရိုင်းကို တူးယူပြီးနောက် ဤသို့သော စက်ရုံကြီးများတွင် ဆီအမျိုးမျိုးရအောင် ချက်ယူရသည်။

ပေါက်ကွဲ စေတတ်သော ပစ္စည်းများ၊ ကြက်ပေါင်စေး တိုင်ယာများနှင့် ပုံနှိပ်မင်များသည်လည်း ရေနံစိမ်းမှ ရရှိသော ပစ္စည်းများ ဖြစ်ပေသည်။

မည်သည့် ပစ္စည်းမှ ရေနံစိမ်း ဖြစ်ပေါ်လာသည် ဆိုသည်ကို မည်သူမျှ အတိအကျ မပြောနိုင်သေးချေ။ သို့သော် လူသမိုင်းကို မရေးသားနိုင်သေးမီကပင် လူတို့သည် ရေနံစိမ်းကို တွေ့ရှိကြပြီးလျှင် အသုံးပြုခဲ့ကြပေသည်။

ရေနံစိမ်းကို ကမ္ဘာ့မြေကြီး၏ ပဌမဆုံးအထပ်နှင့် နောက်ဆုံး အထပ်မှ လွဲလျှင် အထပ်တိုင်းလိုလိုတွင် တွေ့နိုင်သော်လည်း နေရာတိုင်းတွင် အမြောက်အမြားကား မတွေ့ရှိနိုင်ချေ။ ရေနံစိမ်းအမြောက်အမြားကို အဓိကအားဖြင့် ဒီဗိုနီယန်နှင့် ကာဗွန်နီယက်များအတွင်းက ဖြစ်ပေါ် ခဲ့သော ကမ္ဘာ့မြေ အထပ်များမှ ရရှိနိုင်ပေသည်။ ထိုပြင် တတိယကပ်အတွင်းက ဖြစ်ပေါ် ခဲ့သော ကမ္ဘာ့မြေအထပ်မှလည်း ရရှိနိုင်သည်။ ရေနံစိမ်းကို များသောအားဖြင့် အပေါက်ငယ်ကလေးများရှိသော သဲကျောက်များတွင် စိမ့်ထွက်နေသည်ကို တွေ့ရတတ်သည်။

ရေနံစိမ်းကို အချို့ နေရာများတွင် တွင်းနက်နက် တူးရန်မလိုဘဲ ရရှိနိုင်သော်လည်း အချို့နေရာများတွင်မူ တွင်းကို နက်နက်တူးမှ ရရှိနိုင်လေသည်။ ရုရှနိုင်ငံအတွင်းရှိ ဗာကူးမြို့မှ ရှေးခေတ် ရေနံတွင်းများသည် လက်ဖြင့်တူးယူသောတွင်းများ ဖြစ်ပြီးလျှင် ပေငါးဆယ်ပင် မနက်ကြချေ။ အမေရိကန်ပြည်ထောင်စုအတွင်းရှိ ရေနံတွင်းများကိုမူ စက်များဖြင့်တူးယူကြသည်။ ထိုတွင်းများမှာ ပေ ၃,၀၀၀ မှ ၄,၅၀၀ အထိ နက်ကြလေသည်။

ကမ္ဘာပေါ်တွင် ရေနံစိမ်း အထွက်ဆုံး နိုင်ငံမှာ အမေရိကန် ပြည်ထောင်စု ဖြစ်၍ ဒုတိယ အထွက်ဆုံးနိုင်ငံမှာ ဆိုဗီယက် ရုရှနိုင်ငံဖြစ်သည်။ ဒုတိယ ကမ္ဘာစစ်အတွင်းက မ



ရေနံချောင်းမြို့တွင် ရှေးအခါက လက်တွင်းတူးရာ၌ ဤသို့ ဖင်ပန်းစွာ လုပ်ကိုင်ခဲ့ကြရသည်။



ချောက်မြို့ ပြည်သူ့ ရေနံတွင်းကို ဤသို့ ခေတ်မှီစက်ကြီးဖြင့် တူးစဉ်

ဟာမိတ်တပ်များတွင် အသုံးပြုခဲ့သော ဓာတ်ဆီများအနက် အမေရိကန် ပြည်ထောင်စုမှ ဓာတ်ဆီ ၇၅ ရာခိုင်နှုန်းကို အသုံး ပြုခဲ့ကြသည်။

ရေနံစိမ်းသည် အဓိကအားဖြင့် ဟိုက်ဒြိုဂျင်နှင့် ကာဗွန် ဒြပ်စင် နှစ်မျိုးပါဝင်လျက် ရှိသော ဒြပ်ပေါင်းများသာ ဖြစ်သည်။ ဟိုက်ဒြိုဂျင်နှင့် ကာဗွန် အက်တမ်များသည် ဟိုက်ဒြိုကာဗွန် မော်လီကျူး အမျိုးမျိုးအဖြစ်သို့ အချိုး အမျိုးမျိုးဖြင့် ပေါင်းလျက် ရှိကြလေသည်။ ထိုဟိုက်ဒြိုကာဗွန် အမျိုးမျိုးတို့သည် ရေနံစိမ်းတွင် အချိုးအမျိုးမျိုးဖြင့် ပါဝင်လျက် ရှိကြလေသည်။

သိပ္ပံ ပညာရှင်များက ရေနံစိမ်းကို လေ့လာကြည့်ကြသော အခါတွင် ယင်း၌ အပူချိန် အမျိုးမျိုးတွင် အငွေ့အဖြစ်သို့ ပြောင်းလဲနိုင်စွမ်း ရှိသည်ကို တွေ့ကြလေသည်။ ထို့ကြောင့် ရေနံစိမ်းကို အဆင့်ဆင့် ပေါင်းခံနည်းဖြင့် ခွဲယူကြလေသည်။ ပဌမအဆင့်တွင် အငွေ့ပျံရာမှ ဓာတ်ဆီကို ရရှိသည်။ ထိုနောက် ဆက်၍ အပူတိုက်ပေးသော အခါတွင် ရေနံဆီကို ရရှိလေသည်။ ထိုနောက် ဆက်၍ အပူတိုက်ပေးသောအခါတွင် ဒီဇယ်ဆီများနှင့် ချောဆီများကို ဖြစ်စေမည့် ကုန်ကြမ်းများကို ရရှိသည်။ နောက်ဆုံး အချိန်တွင် ရရှိသော ပစ္စည်းများမှ ပါရဖင်ဖယောင်းကို ရရှိလေသည်။

မြန်မာ နိုင်ငံတွင် ရေနံချောင်းနှင့် ချောက်မြို့များ ရှိရာ ဒေသတဝိုက်၌ ရေနံစိမ်းများကို တူးယူရရှိသည်။ ဒုတိယ ကမ္ဘာစစ်မဖြစ်မီက ရေနံချောင်းဖက်မှ ရရှိသော ရေနံစိမ်းများကို ပိုက်လိုင်းကြီးဖြင့် ရန်ကုန်တဖက်ကမ်းရှိ သံလျင်မြို့သို့အရောက် သွယ်ယူပြီးလျှင် ထိုမြို့ရှိ ရေနံချက် စက်ရုံများ၌ ဓာတ်ဆီနှင့် ဖယောင်းများကို ချက်လုပ် ယူကြလေသည်။ (မြန်မာနိုင်ငံ ရေနံလုပ်ငန်း — လည်းရှု။)

သို့သော် ဒုတိယ ကမ္ဘာစစ်အတွင်းက မြေလှန်စံနစ် အရ ထိုပိုက်လိုင်းကြီးပျက်စီးခဲ့သဖြင့် ယခုအခါ ချောက်နှင့် ရေနံချောင်း ရေနံမြေများမှ ရေနံစိမ်းများကို ပြည်တွင်း ရေကြောင်း သယ်ယူပို့ဆောင်ရေး အဖွဲ့ပိုင် ရေနံတင် တွန်းသင်္ဘောများဖြင့် သံလျင်မြို့ရှိ ရေနံချက် စက်ရုံများသို့ သယ်ယူ ပို့ဆောင် ပေးလေသည်။

မြန်မာနိုင်ငံ ရေနံလုပ်ငန်းကို ၁၉၆၃ ခုနှစ် ဇန္နဝါရီလ ၁ ရက်နေ့မှ အစပြု၍ ပြည်သူပိုင် လုပ်ပြီးနောက် ၁၉၆၄ ခုနှစ်မှ စတင်ကာ အစမ်း ရေနံတွင်းများ တူးဖော်ခဲ့ရာ မြန်အောင်၊ ပြည် ဒေသတို့၌ ရေနံ စမ်းသပ်ရှာဖွေ တွေ့ရှိခဲ့သည်။ ၁၉၆၇ ခုနှစ်တွင် မြန်အောင် ရေနံမြေရှိ ရေနံတွင်း ၂၃ တွင်းမှ တနေ့လျှင် ပျမ်းမျှ အမေရိကန်စည် (တစည်လျှင် ၄၂ ဂါလံရှိသည်။) ပေါင်း ၅,၀၀၀ ထွက်ရှိနေ၍၊ ပြည် ရေနံမြေရှိ ရေနံတွင်း ရှစ်တွင်းမှ တနေ့လျှင် ပျမ်းမျှ အမေရိကန်စည်ပေါင်း ၇၀၀ ထွက်ရှိနေသည်။

## ရေနံချောင်းမင်းကြီး (မြန်မာ ၁၁၆၅ – ၁၂၅၇)။ ။

ရေနံချောင်းမင်းကြီးသည် ရေနံတွင်းရိုးတွင်းစား၊ ရွှေတိုက် စာရင်းဝင် ရေနံချောင်းမြို့နေ ဦးအင်း၊ မယ်အိတို့၏သား ဖြစ်သည်။ ဘိုးတော်မင်းတရားကြီး လက်ထက် သက္ကရာဇ် ၁၁၆၅ ခုနှစ် သီတင်းကျွတ် လတွင် ဖွားမြင်သည်။ ဖွားရက်၊ ဖွားနေ့မှာ သီတင်းကျွတ်လ ၁၀ ရက်၊ တနင်္ဂနွေနေ့ ဟုသိရသော်လည်း လဆန်း ၁၀ ရက်ဖြစ်သည်၊ သို့မဟုတ် လဆုတ် ၁၀ ရက် ဖြစ်သည်ဟူ၍ကား အတိအကျ မသိရချေ။ အမည်မှာ ဦးစို ဖြစ်သည်။

မိဖနှစ်ပါး တို့က မိမိတို့၏ သားငယ်ကို ယင်းတော မင်းကြီးထံ၌ အပ်နှံထားလေသည်။ ဦးစိုသည် ထိုယင်းတောမင်းကြီး၏ ပုရပိုက်ထမ်း နောက်ပါစာရေးအဖြစ် လိုက်ပါရ၍ သင်ကြား ပြသသော နည်းနာ ဥပဒေသများကို ကျိုးနွံစွာ ခံယူ မှတ်သားခဲ့ရလေသည်။ ယင်းတောမင်းကြီးကလည်း ဦးစိုသည် လက်ရေးလက်သား ကောင်း၍ စာရေးစာပတ် တတ်မြောက်သည်ကို သိတော်မူသဖြင့် တဆင့်တဆင့် ကြီးမြင့်စေရန် ဆန္ဒရှိသည်အတိုင်း စာရေးတော်ခေါင်းအောက် စာရေးငယ် အဖြစ်နှင့် ဖြတိုက်စာရေး၊ လွှတ်တော်စာရေး၊ သံတော်ဆင့် ရာထူးတိုင်အောင် မစ ခဲ့လေသည်။

ထိုနောက် အမရပူရမြို့ ပုဂံရွှေနန်းရှင် လက်ထက်တွင်



ရေနံချောင်းမြို့စား ဝန်ကြီး သတိုး မင်းကြီး မဟာ မင်းထွေ မင်းခေါင်ကျော် ဘွဲ့ခံ ဦးစို

မြစ်စဉ်ဝန်၊ ကိုးခရိုင်ဝန်၊ ရမည်းသင်းဗိုလ်၊ ရမည်းသင်း ဗိုလ်မှူးကြီးအဖြစ်နှင့် သူကောင်းပြုတော်မူခြင်းကို ခံရလေသည်။ ဒုတိယ အင်္ဂလိပ် မြန်မာ စစ်ပွဲအတွင်းက တောင်ငူ၊ စစ်တောင်း၊ ဘီးလင်း၊ မုတ္တမ၊ မင်းလှတပ်တို့တွင် အမှုတော်ထမ်းရွက်ခဲ့ရလေသည်။

တဖန် ရတနာပုံမြို့တည် ပဥ္စမသင်္ဂါယနာတင် မင်းတရားကြီး လက်ထက်တွင် ရှမ်းပြည် သိန္နီကြောင်း စစ်ဗိုလ်မှူးကြီးအဖြစ်နှင့် ချီတက်၍ သူပုန်များကို နှိမ်နင်းတိုက်ခိုက်ရသည်။

သက္ကရာဇ် ၁၂၂၈ ခုနှစ်တွင် မြင်ကွန်းမြို့စား မင်းသားညီနောင်တို့အရေး ဖြစ်ပေါ်လာရာ မင်းတရားကြီးက စိုးရိမ်တော်မူသဖြင့် ဗိုလ်မှူးကြီးအား အကျယ်ချုပ် ချထားလေသည်။ ၁၂၃၁ ခုနှစ်သို့ ရောက်သောအခါ ဗိုလ်မှူးကြီးအား ရွှေတော်သို့ ဝင်ရောက်ခစားစေပြီးလျှင် အရှင်၏ ကျေးဇူးသစ္စာတော်ကို စောင့်သိရိုသေသော ဂုဏ်ကို နှစ်သက်အားရတော်မူသဖြင့် မြစ်စဉ်ဝန်၊ မြင်းဝန်၊ ရမည်းသင်းဗိုလ်မှူးမင်းကြီး မဟာမင်းလှမင်းခေါင်ကျော်ဘွဲ့ တံဆိပ်နှင့် ရေနံချောင်းမြို့စား ဝန်ကြီးရာထူးဖြင့် ခြီးမြှောက်ခန့်ထား သနားတော်မူလေသည်။ ထိုအခါမှစ၍ ရေနံချောင်းမင်းကြီးဦးစို ဟူသော အမည်ဖြင့် ထင်ရှားလာလေသည်။

ပုဂံ ရွှေနန်းရှင် လက်ထက် မြစ်စဉ် ဝန်အဖြစ် အမှုထမ်းစဉ်က အမရပူရမြို့မှ မြစ်ကြောင်း စုန်ဆင်းလာရာ ရေနံချောင်းမြို့ကို မစားရသောကြောင့် မြို့အနီးသို့ရောက်လျှင် ကျောခိုင်း၍ လှေတော်ကို အောက်သို့တောက်လျှောက် စုန်စေပြီးနောက်၊ မြို့နှင့်ဝေးရာ ဆိပ်ကမ်းတွင် စခန်းချနားသည်ဟု ဆိုသည်။ ရေနံချောင်းမြို့စား ဝန်ကြီး ရာထူးကို ရသောအခါ ရည်ရွယ်ချက်အတိုင်း ဆုတောင်းပြည့်သည်ဟူ၍ ဝန်ကတော်နှင့် သားသမီးကျေးကျွန်တို့ကို ဝမ်းမြောက်ဝမ်းသာ ပြောပြသည် ဟု ဆိုလေသည်။

သီပေါမင်းတရားလက်ထက်၌လည်း ရာထူးရင်းတွင် အမှုထမ်းရသည်။ သို့ရာတွင် ၁၂၄၂ ခုနှစ်၌ ညောင်ရမ်းမင်းသားညီနောင် နှစ်ပါးတို့ထံသို့ လက်ဆောင်ပဏ္ဏာ ဆက်သကြောင်း ရွှေနားတော် ပေါက်ကြားသဖြင့်ဘုရင်အမိန့်တော်နှင့် ရွှေတော်သို့ ဝင်ရောက်ခစားရန် ဆင့်ခေါ်ခြင်းခံရလေသည်။ ရေနံချောင်း မင်းကြီးကလည်း မုသား မပြောလိုသဖြင့် မှန်ရာကိုသာ ဝန်ခံမည်၊ အဆုံးစီရင်သော် အသေခံမည် ဟု ဆို၍ ဝန်ကတော်ကြီးနှင့်တကွ သားသမီး၊ ကျေးကျွန်ရင်းတို့ကို လွတ်ရာသို့ ပြေး၍ ပုန်းလျှိုး နေစေလေသည်။ ရွှေတော်မှောက်သို့ အခစား ရောက်သောအခါ ရေနံချောင်းမင်းကြီးက ကျေးဇူးရှင် သခင်များ၏ ကျွန်ချည်းအမှန်ဖြစ်ပါသောကြောင့် ကျေးဇူးရှင်များ၏ သားစဉ်မြေးဆက် ကျေးဇူးတော်မြတ်ကို မမေ့အပ်သဖြင့် နောင်တော်တို့ထံ လက်ဆောင်ပဏ္ဏာ ဆက်သရကြောင်း မကွယ်မထောင့်လျှောက်တင်လေသော် ဘုရင်လည်း မျက်တော်မူ၍ ဝန်ကြီးရာထူးမှ နုတ်ပယ်လိုက်လေသည်။

၁၂၄၆ ခုနှစ်သို့ရောက်လျှင် ဘုရင်မင်းမြတ်က မင်းကြီးအား သတိရသောကြောင့် ဆင့်ခေါ်တော်မူ၍ မူလ ရေနံချောင်းမြို့စား ရာထူးကို ပြန်လည် ပေးအပ်သည့်အပြင်၊ ကျောက်စီ တောင်ဝှေးတော်ကိုလည်း သနားတော်မူမည်ဟု မိန့်ကြားလေသည်။ ထိုအခါ မင်းကြီးက အသက်အရွယ်ကြီးရင့်အိုမင်းပြီ ဖြစ်ပါ၍ အမှုတော်ကို မထမ်းရွက်နိုင်ကြောင်း လျှောက်တင်လျက် ရာထူးကို လက်မခံခဲ့ချေ။

တဖန် ၁၂၄၇ ခုနှစ်တွင် နိုင်ငံတော်အရေး ပေါ်ပေါက်လာသဖြင့် ဘုရင်မင်းမြတ်က မင်းကြီးအား စစ်ရေး စစ်ရာအတွက် တာဝန်ပေးအပ်ပြန်ရာ၊ အိုမင်းမစွမ်းရှိသောကြောင့် အမှုတော်ကို သက်စွန့်ကြိုးပမ်း မထမ်းရွက် နိုင်ကြောင်း လျှောက်တင်၍ ငြင်းပယ်ခဲ့လေသည်။

ရေနံချောင်း မင်းကြီးသည် တည်ကြည် ခိုင်မာသောစိတ်ရှိသည်ဟု ဆိုသည်။ ကဗျာသီချင်းတို့၌ ဝါသနာပါသည်။ တောတောင်၊ ဆဲနှစ်ရာသီတို့နှင့်ဆိုင်သော တေးထပ်၊ ရှစ်ဆယ်ပေါ်၊ လေးချိုးကြီး၊ ပတ်ပျိုးကြီး၊ ယိုးဒယား၊ ဘောလယ်၊ ရာမရကန်မှ သဇင်ပန်းချိုး၊ ရာဇမှတ် သရက်သီးချိုး၊ ညောင်ဗုဒ္ဓဟေချိုး အခန်းများကို နှုတ်ရဆောင်သည် ဟုလည်း ပြောထုံး တွင်လေသည်။

ရေနံချောင်း ဝန်ကြီးမင်းသည် ၁၂၅၇ ခုနှစ် နယုန်လဆုတ် ၂ ရက်နေ့ အသက် ၉၂ နှစ်အရွယ်တွင် အနိစ္စရောက်လေသည်။ ဝန်ကြီးကတော်နှစ်ဦးမှာ ဒေါ်သီလှနှင့် ဒေါ်ချိုဖြစ်၍၊ ဒေါ်ချိုသည် ဦးစို ရေနံချောင်းမင်းကြီး မဖြစ်မီက အနိစ္စရောက်လေသည်။ ဝန်ကြီးကတော် ဒေါ်သီလှတွင် မမယ်ကလေး ခေါ် မခင်ကလေး၊ မောင်မောင်ကင်း၊ မောင်မောင်ဝင်း ဟူ၍ သားသမီး သုံးယောက် ရှိသည်။ ဝန်ကြီးကတော် ဒေါ်ချိုတွင် ကြေးမြင် မိဖုရား မမခင်နှင့် မြေနန်းဝန် မောင်မောင်ကလေး ဟူ၍ သားသမီး နှစ်ယောက်ရှိရာ၊ ပျဉ်းမနားကိုယ်တော်ကြီးသည် ကြေးမြင်မိဖုရား၏ သားတော် ဖြစ်လေသည်။

**ရေနံချောင်းမြို့။** ။ရေနံချောင်း မြို့သည် မကွေး ခရိုင်၊ ရေနံချောင်းခရိုင်ခွဲနှင့် ရေနံချောင်းမြို့နယ်တို့၏ ရုံးစိုက်မြို့ ဖြစ်သည့် အပြင် စစ်ပြီးခေတ်၌ မကွေးတိုင်းမင်းကြီးနှင့် မကွေးခရိုင်ဝန်တို့ ယာယီရုံးစိုက်ရာ မြို့လည်း ဖြစ်ခဲ့သည်။ ဧရာဝတီမြစ် အရှေ့ဖက်ကမ်းပေါ်တွင်တည်ရှိ၍ မကွေးမြို့ အထက် ၂၉ မိုင်ခန့် ကွာဝေးသည်။ ရှေးအခါက ဆိပ်သာကွန်းထောက်မြို့၊ ထိုမှ တဖန် ရေနံ့သာမြို့ ဟု တွင်ခဲ့၍ ထိုနောက်တွင် ရေနံချောင်းမြို့ ခေါ်တွင်သည် ဟု ဆိုလေသည်။ ရေနံချောင်းမြို့၏သူဦးရေမှာ ၁၉၆၆ ခုနှစ် ခန့်မှန်းသန်ကောင်



ရေနံချောင်းမြို့ရှိ စနေနံဘုရား

စာရင်းအရ ၂၆,၁၅၃ ဖြစ်သည်။ မြို့သည် မညီညာသော ကုန်းမြင့်ပေါ်တွင် တည်ရှိသောကြောင့် မြို့ထဲရှိ လမ်းများမှာ အတက်အဆင်း အလွန်များလေသည်။

ရေနံချောင်းမြို့သည် မြန်မာ နိုင်ငံ၌ ရေနံ အများဆုံးထွက်သော မြို့ဖြစ်၍ ရေနံလုပ်ငန်းများ ရှိသောကြောင့် မကွေးခရိုင်တွင် အစည်ကားဆုံးမြို့ ဖြစ်လေသည်။ ရေနံတွင်းများကို မြို့နှင့် သုံးမိုင်ခန့်ဝေးသော တွင်းကုန်းနှင့် ဘေးမဲ့အရပ်တို့တွင် အများဆုံး တွေ့ရသည်။ နိုင်ငံတော် အစိုးရက ရေနံချောင်း ရေနံမြေဟု စတုရန်းမိုင် ၈၀ ခန့် ရှိသော မြေကွက်ကို သတ်မှတ်ထားသော်လည်း ရေနံမြေအစစ်မှာ စတုရန်းမိုင် နှစ်မိုင် သုံးမိုင်ခန့်သာ ရှိသည်။ ရေနံ အများဆုံးထွက်သော ဧရိယာမှာကား ၁ ½ စတုရန်း မိုင်ခန့်သာ ရှိလေသည်။ ရေနံလုပ်ငန်းကို ကာလရှည်ကြာစွာ ဘီ၊ အို၊ စီ ကုမ္ပဏီ အမည်ရှိသော နိုင်ငံခြားအရင်းရှင် ကုမ္ပဏီကြီးများက လက်ဝါးကြီးအုပ်ကာ လုပ်ကိုင်လာခဲ့ရာ ၁၉၅၄ ခုနှစ်တွင် ပြည်ထောင်စု မြန်မာနိုင်ငံ အစိုးရနှင့် ဘီ၊ အို၊ စီ ကုမ္ပဏီတို့ ဖက်စပ်လုပ်ငန်းကြီးတရပ် အဖြစ် လုပ်ကိုင်လာခဲ့သည်။ သို့သော် ပြည်ထောင်စုမြန်မာနိုင်ငံ တော်လှန်ရေးအစိုးရသည် ရေနံလုပ်ငန်းဆိုင်ရာ နိုင်ငံခြား ကုမ္ပဏီများ၏ ပိုင်ဆိုင်ခွင့် အရပ်ရပ်ကို တရားနည်းလမ်းအရ ဆွေးနွေးညှိနှိုင်းကာ ဝယ်ယူခဲ့သဖြင့် ထိုကုမ္ပဏီများသည် ၁၉၆၃ ခုနှစ် ဇန္နဝါရီလ ၁ ရက်နေ့မှ အစပြု၍ မြန်မာတိုင်းရင်းသားများလက်သို့ လုံးလုံးလျားလျား ပြန်လည် ရောက်ခဲ့လေသည်။

ရေနံများကို ယခင်က ရေနံချောင်းမှ ရန်ကုန် တဖက်ကမ်းရှိ သံလျင်မြို့သို့ ဓာတ်ဆီချက်လုပ်ရန် ပိုက်လုံးကြီးများဖြင့် ပို့ပေးခဲ့လေသည်။ သို့သော် ယခုအခါ တံသမွန်ကြီးများတွင်ထည့်၍ တွန်းသင်္ဘောများဖြင့် သယ်ယူပို့ဆောင်ရလေသည်။ ရေနံချောင်းမြို့သည် သင်္ဘောဆိပ်ကမ်းမြို့ ဖြစ်သည့် အပြင် မကွေး၊ ချောက်၊ ဂွေးချို မြို့များနှင့်လည်း မော်တော်ကားလမ်းများဖြင့် ဆက်သွယ်ထားလေသည်။

ရေနံထွက်ရာ ဗဟိုဌာန ဖြစ်သည့်အားလျော်စွာ ရေနံလုပ်ငန်းဆိုင်ရာ အဆောက်အအုံကြီးများ၊ အစိုးရရုံးများ၊ ကျောင်းများ၊ ဆေးရုံ စသည်တို့ ရှိလေသည်။

ရေနံချောင်း မြို့ပေါ်တွင် ထင်ရှားသော ဘုရားစေတီများမှာ စနေနံဘုရား၊ ရွှေဘုံသာစေတီနှင့် ပင်းစက္ကလံပြ စေတီ (ပင်းဘုရား)တို့ဖြစ်လေသည်။

ရေနံချောင်း ခရိုင်ခွဲတွင် မကွေးမြို့နယ် ရေနံချောင်းမြို့နယ်နှင့် ချောက်မြို့နယ်တို့ ပါဝင်သည်။

**ရေနွေးငွေ့။** ။ရေနွေးငွေ့ဆိုသည်မှာ အရည်ဘဝမှ အငွေ့ဘဝသို့ ပြောင်းလဲသွားသော ရေပင်ဖြစ်သည်။ ရေနွေးငွေ့သည် အမှန်စင်စစ်အရောင်မရှိသည့်အတွက် မျက်စိဖြင့်မမြင်

နိုင်ချေ။ ရေနွေးငွေ့ကို မမြင်နိုင် ဟု ဆိုသဖြင့် အချို့က အံ့ဩမိပေမည်။ ရေဆူလျက်ရှိစဉ် ရေနွေးကရား နှုတ်သီးမှ ထွက်နေသော အဖြူရောင် အခိုးအငွေ့များသည် ရေနွေးငွေ့များ မဟုတ်ကြပေ။လေအေးနှင့်တွေ့၍ အရည်ပြန်ဖြစ်သွားသော ရေမှုန် ကလေးများသာ ဖြစ်ကြပေသည်။ ရေနွေးကရား နှုတ်သီးကို အသေအချာ ကြည့်လျှင် အဖြူရောင်ရေနွေးငွေ့တို့သည် နှုတ်သီးဖျားမှစတင်ဖြစ်ပေါ်ခြင်းမဟုတ်ဘဲ၊တလက်မခန့်ကွာသည့် နေရာသို့ ရောက်မှ ဖြစ်ပေါ်ခြင်း ဖြစ်သည်ကို တွေ့ရပေမည်။ နှုတ်သီးဖျားနှင့် အဖြူရောင် ရေငွေ့တို့၏ စပ်ကြားတွင်ကား မျက်စိဖြင့် မြင်နိုင်သည့် အရာဟူ၍ မရှိချေ။ သို့သော် တခုခု လှုပ်ရှားလျက်ရှိသည်ကိုမူ သိရ၍ ထိုတခုခုမှာ ရေနွေးငွေ့ အစစ်ပင် ဖြစ်လေသည်။

ရေဆူခြင်းကြောင့် ဖြစ်စေ၊ ရေငွေ့ပျံခြင်းကြောင့် ဖြစ်စေ ရေနွေးငွေ့သည် ဖြစ်ပေါ်ရ၏။ ရေသည် သာမန် အပူချိန်များ၌လည်း အငွေ့ပျံလျက် ရှိပေသည်။ ရေဆူရာမှ ဖြစ်ပေါ်လာသော ရေနွေးငွေ့သည် ဆူနေသည့်ရေနှင့် အပူချိန်ချင်း တူညီသည်။ ထိုကြောင့် အလွန်ပူ၏။ ရေငွေ့ပျံရာမှ ဖြစ်ပေါ်လာသော ရေငွေ့မှာ မပူချေ။ သို့သော် ယေဘုယျအားဖြင့် ရေနွေးငွေ့ ဟု ဆိုရာ၌ ပူသောရေနွေးငွေ့ကိုသာ ဆိုလိုကြပေသည်။

ရေဆူချိန်အမှတ်နှင့် ရေပေါ်၌ ကျရောက်ဖိနှိပ်ထားသော လေထုဖိအားတို့သည် တခုနှင့်တခု တိုက်ရိုက် ဆက်သွယ်လျက်ရှိသည်။ လေထုဖိအားများလျှင် ရေသည် အပူချိန် အတော်မြင့်မှဆူ၍၊ ဖိအားနည်းလျှင် အဆူမြန်သည်။ တနည်းအားဖြင့် လေထုဖိအားများလျှင် ရေဆူချိန်အမှတ် မြင့်၍၊ ဖိအားနည်းလျှင် ရေဆူချိန်အမှတ် နိမ့်လေသည်။ ထိုကြောင့် ရေသည် သာမန်အားဖြင့် လေထုဖိအားများသော ပင်လယ်ပြင်ညီအရပ်၌ စင်တီဂရိတ် ဒီဂရီ ၁၀၀ (သို့မဟုတ် ဖာရင်ဟိုက် ဒီဂရီ ၂၁၂) တွင် ဆူသော်လည်း တောင်ထိပ်စသော မြင့်မားသည့် အရပ်တို့၌ ဖိအားနည်းသည့်အတွက် ရေဆူချိန်အမှတ်သည် လျော့သွားသည်။ သို့ဖြစ်၍ မြင့်မားသော အရပ်များ၌ ဟင်းသီးဟင်းရွက် သားငါးများကို ချက်ပြုတ်သောအခါ အချိန် ကြာကြာ ချက်ပြုတ်ရလေသည်။

အပူချိန် မြင့်မြင့်နှင့် ချက်ပြုတ်ရသော စားစရာ သောက်စရာများတွင် အနံ့အရသာ ပြောင်းလဲ ပျက်စီး သွားတတ်သည်။ ထိုကြောင့် နို့ဆီနှင့် နို့စိမ်းများ ပြုလုပ်ရာတွင် ပလာနယ်ဒယ်ဟု ခေါ်သော ဒယ်တမျိုးဖြင့် ကျိုချက်လေ့ ရှိကြသည်။ ပလာနယ်ဒယ်တွင် ရှိမြဲဖိအားထက် လျော့အောင် တမျိုးတဖုံ စီမံထားရာ ထိုဒယ်မျိုးဖြင့် ကျိုချက်သောအခါ အပူချိန် နည်းနည်းနှင့်ပင် ရေခန်းခြောက်သွားသည့် အတွက် အနံ့အရသာကို ထိခိုက်စေခြင်း မရှိချေ။

ရေသည် ဆူချိန်ရောက်ပြီးနောက် ရေနွေးငွေ့ ဖြစ်သွားသောအခါ အပူငုပ် ဟု ခေါ်သော အပူစွမ်းအင်ကို သယ်ဆောင်သွား၍၊ ရေနွေးငွေ့ အဖြစ်မှ ရေအဖြစ်သို့ ပြန်ပြောင်းသောအခါ ထိုအပူကို ပြန်၍ ပေးသည်။ ရေနွေးငွေ့ပိုက်များဖြင့် အိမ်ယာအဆောက်အအုံများကို နွေးအောင် ပြုလုပ်ထားသောသဘောမှာ ဆိုခဲ့သည့်အတိုင်း မီးဖိုများ၊ ဗွိုင်လာများမှ ရယူခဲ့သော အပူစွမ်းအင်ကို ပြန်လည် ထုတ်ပေးစေခြင်းပင် ဖြစ်လေသည်။

ဆူနေသည့် ရေနှင့်စာလျှင် ဖြစ်ပေါ်လာသော ရေနွေးငွေ့သည် အရွယ်ထုအားဖြင့် အဆပေါင်း ၁,၆၇၀ မျှကြီးမားလာသည်။ ထိုရေနွေးငွေ့ကို ထပ်မံအပူတိုက်ပေးလျှင် ထိုထက်ပင် အရွယ်ထု ပိုပြီး ကြီးမားလာနိုင်ပေသည်။ တနည်းအားဖြင့်ဆိုသော် ရေနွေးငွေ့၌ ကြီးထွား ကားထွက်နိုင်သည့် အရည်အချင်းရှိ၍ ရေနွေးငွေ့စက်တို့ဆောက်လုပ်ထားပုံမှာ ဤအချက်ကို အခြေပြု၍ ဆောက်လုပ်ထားခြင်းပင် ဖြစ်သည်။

**ရေနွေးငွေ့အား အင်ဂျင်စက်။** ။ရေနွေးငွေ့အား အင်ဂျင်စက် (မီးထိုးအင်ဂျင်စက်) သည် ရေနွေးငွေ့ကို အသုံးပြုထားသော အပူအင်ဂျင်စက်တမျိုး ဖြစ်၍ အပူအင်ဂျင်စက်ဆိုသည်မှာ ဓာတ်ငွေ့အား အင်ဂျင်စက်၌ ဓာတ်ငွေ့၏ အပူစွမ်းအင်ကိုဎင်း၊ ရေနွေးငွေ့အား အင်ဂျင်စက်၌ ရေနွေးငွေ့၏ အပူစွမ်းအင်ကိုဎင်း စက်အလုပ်သို့ ပြောင်းလဲ ပေးသည့်စက်ကို ဆိုလိုသည်။ လွယ်လွယ် ပြောရလျှင် ရေနွေးငွေ့အား အင်ဂျင်စက်သည် ရေနွေးငွေ့ဖြင့် ခုတ်မောင်း အလုပ်လုပ်သည့် စက်ပင် ဖြစ်လေသည်။

ရေနွေးငွေ့တွင် အားရှိပုံကို ကျွန်ုပ်တို့ အလွယ်တကူ စမ်းသပ်ကြည့်နိုင်သည်။ ဗူးလွတ်တလုံးတွင် ရေတော်ရုံ ထည့်၍ အလုံပိတ်ပြီးလျှင် မီးဖြင့် ကျိုက်ကျိုက်ဆူအောင် ကျိုပါ။ ရေဆူလာသောအခါ ဗူးတွင်းရှိ ရေသည် ရေနွေးငွေ့ ဖြစ်လာမည်။ ဗူးထဲ၌ ရေနွေးငွေ့ အဆမတန် များလာသည့် အခါ ဗူးသည် ရေနွေးငွေ့ ဖိအားကို မခံနိုင်ဘဲ ပေါက်ကွဲသွားသည်ကို တွေ့ရမည်။ ဗူးထဲ၌ ရေနွေးငွေ့ဖိအား များပြားလာရခြင်းမှာ ရေသည် ရေနွေးငွေ့ အဖြစ်သို့ ပြောင်းလဲသွားသောအခါ မူလအရွယ်ထုထက် အဆပေါင်း ၁,၆၇၀ ကြီးမားလာခြင်းကြောင့် ဖြစ်၏။ ဗူးထဲတွင် ရေနွေးငွေ့သည် များသည်ထက် များလာသောအခါ နေရာကျယ်ကျယ် လိုလာသည်။ သို့သော် ဗူးထဲရှိနေရာမှာ အလွန် ကျဉ်းနေရကား ရေနွေးငွေ့ များလာလေ ဖိအားတိုးလာလေ ဖြစ်ပြီးလျှင် နောက်ဆုံး၌ ဗူးထဲရှိ ဖိအားသည် အလွန် ကြီးမားလာသည့်အတွက် ဗူးသည် ထိုဒဏ်ကို မခံနိုင်ဘဲ ပေါက်ကွဲသွားရသည်။ ရေနွေးငွေ့၏ အဆိုပါ ဖိအားကို အခြေပြု၍ ရေနွေးငွေ့အား အင်ဂျင်စက်များကို ဆောက်လုပ်ယူကြခြင်း ဖြစ်ပေသည်။

ရေနွေးငွေ့ဖြင့် လည်သော စက်တလုံးကို အကျဉ်းပြည်

အယ်လက်ဇန္ဒြီးယားမြို့မှ ဟီရို ဆိုသူ ပုဂ္ဂိုလ်တဦးက ဘီစီ ၁၃၀ ပြည့်နှစ်လောက်တွင် ရှေးဦးစွာ စမ်းသပ် ကြံစည်ခဲ့ဘူးသည် ဆို၏။ သို့သော် လက်တွေ့လုပ်ငန်းတွင် အသုံးပြုနိုင်သည့် ပဌမဦးဆုံး စက်ကိုမူ ၁၆၉၈ ခုနှစ်တွင် တောမတ်ဆေဗရီ အမည်ရှိသော အင်္ဂလိပ်လူမျိုး တဦးက စတင်၍ ဆောက်လုပ်ခဲ့လေသည်။ ဆေဗရီ၏စက်မှာ ရေစုတ်စက်ဖြစ်၏။ သို့ရာတွင် ထိုစက်၌ ယခုခေတ် စက်များမှာကဲ့သို့ ဆလင်ဒါနှင့် ပစ္စတန် (ပြွတ်တံခေါင်း)များ မပါရှိချေ။ ရေနွေးငွေ့ကို ရေပြန်ဖြစ်အောင် ပေါင်းစုစေပြီးနောက် ဖြစ်ပေါ်လာသော ပလာနယ်ဖြင့် ရေကို စုတ်တင်ပေးခြင်း ဖြစ်သည်။ ၁၇၀၅ ခုနှစ်တွင် ပြင်သစ်လူမျိုး ပေပင် ဆိုသူက ပဌမဆုံး ဆလင်ဒါနှင့် ပစ္စတန် (ပြွတ်တံခေါင်း) ပါသည့် ရေစုတ်စက်ကိုပြုလုပ်၍ ထိုနှစ်တွင်ပင် တောမတ် နျူကိုမင်ဆိုသူ အင်္ဂလိပ်လူမျိုး တဦးကလည်း အလားတူ စက်တလုံးကို တီထွင်သည်။ ယင်း စက်နှစ်မျိုးစလုံးမှာပင် ရေနွေးငွေ့အားဖြင့် ပြွတ်တံခေါင်းကို ရှေ့တိုးနောက်ငင် လှုပ်ရှားအောင် စီမံထားသည်။ နျူကိုမင် စက်က ပေပင်၏ စက်ထက် ယခုခေတ် စက်မျိုးနှင့် ပို၍ နီးစပ်၏။ သို့သော် ခေတ်မှီသော စက်ကားမဟုတ်သေးချေ။ ဂျိမ်းဝပ် ဆိုသူ စကော့လူမျိုး တဦး၏ လက်ထက်သို့ ရောက်မှ ခေတ်မှီသော ရေနွေးငွေ့အား အင်ဂျင်စက်များ စတင်၍ ပေါက်ဖွားလာသည်။ ခေတ်မှီ၍ တကမ္ဘာလုံးက အားထားရသော စက်မျိုးကို အစပျိုးပေးခဲ့သူ ဖြစ်သဖြင့်လည်း သူ၏ အမည်မှာ ယနေ့တိုင်အောင် ကျော်ကြားခဲ့ပေသည်။ (ဝပ်၊ဂျိမ်း — လည်းရှု။)

ဂျိမ်းဝပ်သည် ဂလပ်စဂို တက္ကသိုလ်အတွက် ကရိယာတန်ဆာ ပလာများ ပြင်ဆင် ပြုလုပ်ပေးရသည့် အလုပ်ကို လုပ်ကိုင်လျက်ရှိစဉ်၊ ၁၇၆၃ ခုနှစ်၌ တနေ့တွင် နျူကိုမင်၏ ရေစုတ်စက်ကလေးတလုံးကို ပြင်ဆင်ရန် တာဝန်ပေးအပ်ခြင်း ခံရသည်။ ထိုစက်ကို ပြင်ရာမှ ရေနွေးငွေ့ အကုန်များသလောက် အလုပ် မလုပ်နိုင်သည့် ချွတ်ယွင်းချက်ကိုတွေ့မြင်ပြီးလျှင် တိုးတက်ကောင်းမွန်အောင် ပြုပြင်ပေးနိုင်မည့် အကြံအစည်များ ထွက်ပေါ်လာသည်။ ဝပ်သည် ဆလင်ဒါထဲသို့ ဝင်ရောက်လာသည့် ရေနွေးငွေ့ကို ပူနိုင်သမျှ ပူနေစေရန် ကွန်ဒင်ဆာ ခေါ် ရေနွေးငွေ့မှ ရေအဖြစ် ပြန်လည် ပေါင်းစုလာအောင်ပြုလုပ်ပေးမည့်အိုးတလုံးကိုသီးခြားတပ်ဆင်ပေးသည်။ ကွန်ဒင်ဆာတွင် ပလာနယ် ဖြစ်နေအောင် လေစုတ်ဗုံဗိုင်တခုကို တပ်ပေးသည်။ ထိုနောက် ဆလင်ဒါကို အမြဲတမ်း ပူနေစေရန် ဆလင်ဒါအပြင်ဖက်၌ အိမ်တခုဖြင့် ထပ်ငုံပေး၍ ထိုအိမ်ထဲသို့ ရေနွေးငွေ့ကို သွင်းပေးသည်။ ဤရည်ရွယ်ချက်ဖြင့်ပင် ပွင့်နေသော ဆလင်ဒါ ပြွန်ဝကို ပိတ်၍ ပြွတ်တံခေါင်းမောင်းတံကို အပြင်ဖက်သို့ ထုတ်ပြီးလျှင် ရေနွေးငွေ့ကို ပြွတ်တံခေါင်း၏ အထက်နှင့်အောက် နှစ်ဖက်လုံးမှ ဝင်စေသည်။ ဝပ်သည် အမျိုးမျိုး စမ်းသပ်ပြီးနောက် ၁၇၆၉ မှ နှစ်တွင် သူ၏စက်ပုံစံကို မူပိုင်ခွင့် မှတ်ပုံ တင်လိုက်သည်။ ဝပ်၏ ပဌမတီထွင်ချက်များမှာ အလွန် အရေးကြီး၍ အဖိုးတန်၏။ သို့သော် ထိုစက်မှာ နျူကိုမင်စက်ထက် သာလွန်ကောင်းမွန်သော ရေစုတ်စက်သာလျှင် ဖြစ်သေး၍ အခြားကိစ္စများအတွက် ခုတ်မောင်း အသုံးပြုနိုင်သည့် စက်မျိုး မဟုတ်သေးချေ။

ဝပ်သည် မိမိ၏ စက်ကို ကောင်းသည်ထက် ကောင်းအောင် ကြံစည် ကြိုးစားယင်း အခါအခွင့်အားလျော်စွာ စက်ပုံစံများကို အကြိမ်ကြိမ် မှတ်ပုံ တင်ခဲ့သည်။ ၁၇၈၁ ခုနှစ်၌ ဒုတိယအကြိမ် မှတ်ပုံတင်ရာတွင် စက်ကို အရှိန်မှန်မှန်နှင့် ပြေပြေပြစ်ပြစ်စွာလည်စေရန် အားပေးဘီးဖြင့် ဝင်ရိုးကို လည်စေခြင်းနှင့် တကွ အခြားစီမံချက်များ ပိုလာသည်။ ဤစီမံချက်မှာ ရေနွေးငွေ့အား အင်ဂျင်စက်နှင့် ရေစုတ်သည့် အလုပ် တခုတည်းကိုသာမက အခြား အလုပ်များကိုပါ လုပ်ကိုင်နိုင်အောင် လမ်းစ ဖွင့်ပေးလိုက်ခြင်းပင် ဖြစ်သည်။ ၁၇၈၂ ခုနှစ်တွင် တတိယအကြိမ် မှတ်ပုံတင်ရာ၌ အလွန်အရေးကြီးသည့် တိုးတက်မှုနှစ်ရပ် ထပ်တိုးလာပြန်သည်။ တိုးတက်မှု တခုမှာ ပြွတ်တံခေါင်း၏ တဖက်တချက်၌ ရေနွေးငွေ့နှင့် ပလာနယ်ကို တလှည့်စီ အသုံးပြုခြင်းဖြစ်၍၊ အခြား တိုးတက်မှုမှာ ရေနွေးငွေ့၏ ပြန့်ထုက်တတ်သည့် သတ္တိကို အသုံးပြုခြင်း ဖြစ်လေသည်။ အသုံးပြုပုံမှာ ပြွတ်တံခေါင်းသည် ဆလင်ဒါအတွင်း တပိုင်းခန့်ခုတ်မိသောအခါ ရေနွေးငွေ့ကို ပိတ်ပေးလိုက်၏။ ထိုအခါ ကျန်သော တပိုင်းကို ဆလင်ဒါအတွင်း ရောက်နေသည့် ရေနွေးငွေ့က ပြန့်ထွက်သွားယင်း သူ့ဖာသာသူ ခုတ်ယူသွားသည်။ ဤစီမံချက်သည် ထင်းမီးနှင့် ရေနွေးငွေ့ အကုန် အကျကို သက်သာစေ၏။ ထို့မှတပါး စက်၏ အနှေးအမြန်ကို ထိန်းပေးရန် ဂါဗာနာ၊ ရေနွေးငွေ့၏ အဝင်နှုန်းကို ထိန်းပေးရန် သရော်တယ်ဗာ့ ခေါ် အဆို့ရှင်၊ ဆလင်ဒါအတွင်း ရေနွေးငွေ့ဖိအားနှင့် ပြွတ်တံခေါင်း၏လှုပ်ရှားမှုတို့ ဆက်စပ်နေပုံ ဇယားကို အလိုအလျောက် ရေးဆွဲပေးသော အင်ဒီကေတာခေါ် ပုံဆွဲကရိယာ၊ ရေနွေးငွေ့အဝင်အထွက်ကို ထိန်းပေးရန် ရေနွေးငွေ့လွှဲ အဆို့ရှင်လျှောများကိုလည်း တီထွင်ခဲ့သည်။

ဝပ်၏ တီထွင်ချက်များသည် ရေနွေးငွေ့အား အင်ဂျင်စက် သမိုင်းတွင် အလွန်အရေးကြီး တန်ဖိုး ရှိသော်လည်း ထိုတီထွင်ချက်များကို သူသည် ရက်ပိုင်းလပိုင်းအတွင်း လွယ်ကူစွာနှင့် ကြံစည်တွေ့ရှိခဲ့သည်ကား မဟုတ်ပေ။ ရှေ့ဆောင်ပုဂ္ဂိုလ်ကြီးများ တွေ့ကြုံရမြဲဖြစ်သည့်အတိုင်း စိတ်ပျက်စရာ ဆင်းရဲဒုက္ခ အခက်အခဲ အမျိုးမျိုးကို နှစ်ပေါင်း များစွာ ရင်ဆိုင် ခဲ့ရပေသည်။ နမူနာ စက်ကလေးကို ကြံစည်စဉ် အောင်မြင်၍ စက်ကြီး တည်သောအခါ မှန်းခြေမကိုက်ဘဲ

ပျက်စီးခဲ့ရသည့် အခါများလည်း ရှိသည်။ နောက်ဆုံးတွင် ဗာမင်ဂမ်မြို့မှ မက်သယူးဗူလတန်ဆိုသူ၏ အကူအညီကို ရ၍ ထိုသူနှင့် အလုပ် စပ်တူ ပြုလုပ်သည့်အခါတွင်မှ လက်တွေ့ အောင်မြင်သော ခေတ်မီ ရေနွေးငွေ့အား အင်ဂျင်စက်ကို ပဌမဦးစွာ တည်ဆောက် နိုင်ခဲ့လေသည်။

နောင်သော် ဝပ်၏ရေနွေးငွေ့အား အင်ဂျင်စက်ကို အခြေပြုကာ နောက်ပေါ် သိပ္ပံပညာရှင်ကြီး အသီးအသီး၏ ကြိုးစားချက်ကြောင့် တခေတ်ထက် တခေတ် ပိုမို ခေတ်မီသော စက်များ ပေါ်ပေါက်လာသည်။ ရှေးက မဆိုစလောက်သော ရေနွေးငွေ့ ဖိအားကိုသာ ပေးနိုင်သည့် ဗွိုင်လာအိုးမျိုးမှ ဖိအား ပေါင်ချိန် ၁,၀၀၀ အထိ ပေးနိုင်သော ဗွိုင်လာအိုးမျိုးပေါ် ပေါက်လာသည်။ ခေတ်မီသောဗွိုင်လာအိုးတွင် ရေနွေးငွေ့ဖိအား ကြီးလာက သူ့အလိုအလျောက် လွတ်ထွက်သွားနိုင်သော ဘေးကင်းအဆို့ရှင် ပါရှိသဖြင့် ပေါက်ကွဲမည့်ဘေးကို မစိုးရိမ်ရပေ။ ဆလင်ဒါတလုံးတပ် စက်မျိုးမှ ဆလင်ဒါနှစ်လုံးတပ် စက်မျိုး ထွက်ပေါ်လာသည်။ တနေရာတည်းတွင် အသေတပ်ဆင်ထားရသော စက်မျိုးမှ မီးရထား၊ မီးသင်္ဘောစသည့် ယာဉ်များတွင် တပ်ဆင်နိုင်သည့် စက်မျိုးကို တီထွင် နိုင်လာကြသည်။ သာမန် စက်မှာ တမိနစ်တွင် အပတ်ပေါင်း ၁၅၀ ခန့်လည်အောင် ခုတ်မောင်းနိုင်၍ ထိုထက်နှေးလျှင် အနှေးခုတ်စက် ဟူ၍၎င်း၊ ထိုထက်မြန်လျှင် အမြန်ခုတ်စက် ဟူ၍၎င်း ခေါ် ဆိုကြရလေသည်။

မြင်းကောင်ရေအား ဟု ခေါ်တွင်သော နိုင်းယှဉ် တိုင်းတာစရာ ခုကိန်း ပေါ်ပေါက်လာသည်မှာ ရေနွေးငွေ့အားဖြင့် ခုတ်မောင်းသော ရေစုတ်စက်များ ပေါ်ပေါက်ခဲ့သည့် ခေတ်က ဖြစ်၏။ ထိုအချိန်က ကျောက်မီးသွေးတွင်းများမှ ရေကို မြင်းများဖြင့် ထုတ်ပစ်လေ့ရှိရာ၊ ရေစုတ်စက်များ ပေါ်ပေါက်လာသောအခါ မြင်းအစား ဆောင်ရွက်နိုင်သည့် အရည်အချင်းကို လိုက်၍ စက်၏အင်အားကို မြင်းအားဖြင့် ပြောစမှတ် ပြုလာကြသည်။ မြင်းတကောင်အား ရှိသည့် စက်မှာ ပေါင်ချိန် ၃၃,၀၀၀ ရှိသောဝန်ကို တမိနစ်တွင် တပေ အမြင့်သို့ တင်နိုင်ရမည် ဟု ထိုအချိန်ကစ၍ သတ်မှတ် သုံးစွဲလာခဲ့ကြလေသည်။

ရေနွေးငွေ့အား အင်ဂျင်စက်များသမိုင်းတွင် လုံး၀ ဆန်းသစ်၍ အရေးလည်းကြီးသော အခြား တီထွင်ချက်တခုကား တာဗိုင် ရဟတ်စက်ပင် ဖြစ်၏။ ပဌမ ရေနွေးငွေ့ တာဗိုင် ရဟတ်စက်ကို ဆာချားပါဆင်ဆိုသူ အင်္ဂလိပ်လူမျိုး အင်ဂျင်နီယာတဦးက ၁၈၈၄ ခုနှစ်တွင် ရှေးဦးစွာ တီထွင်ခဲ့သည်။ တာဗိုင် ရဟတ်စက်တွင် ဒလက်များ တပ်ဆင်ထားသော ရဟတ်ဘီးများ ပါရှိ၍ ထိုရဟတ်ဘီးများကို ရေနွေးငွေ့က အရှိန်ပြင်းစွာနှင့် တိုးထွက်မှုဖြင့် ရဟတ်ဘီးများကို လည်စေသည်။ တမိနစ်တွင် အပတ်ပေါင်း နှစ်ထောင်ခန့် အထိ လျင်မြန်စွာလည်နိုင်၏။ ယခုအခါ အဆိုပါ တာဗိုင်စက်မျိုးကို အထူးသဖြင့် ပင်လယ်ကူးသင်္ဘောကြီးများနှင့် လျှပ်စစ်အားပေး စက်ရုံကြီးများတွင် အကျိုးရှိစွာ တပ်ဆင် အသုံးပြုလျက် ရှိကြပေသည်။ (တာဗိုင်ရဟတ်စက် — လည်းရှု။)

**ရေပူစမ်း။** ။ရေပူစမ်းနှင့် မီးတောင်သည် သဘောတွင် တူလေသည်။ မီးတောင်တွင် အရည်ပျော်နေသော ကျောက်များ ပန်းထွက်လာ၍ ရေပူစမ်းတွင် တွင်းထွက်ပစ္စည်းများ ပျော်ဝင်ပါရှိသည့် ရေပူများ ပန်းထွက်လာသည်။ ရေပူစမ်း



မြေမှ မြင့်စွာ ပန်းထွက်လျက်ရှိသော ရေပူစမ်း

များသည် မီးတောင်များ ရှိခဲ့ဘူးသော နေရာမျိုးတွင် ရှိတတ်သည်။ ထိုနေရာမျိုးတွင် မြေမျက်နှာပြင် အနီး၌ အပူရှိန် အတော်များများ ရှိနေသေးသည်။ များသော အားဖြင့် ရေပူစမ်းများသည် မြစ်များနှင့် အိုင်များ အနီးအနားတွင် ဖြစ်ပေါ် တတ်သည်။

မြေမျက်နှာပြင်၏ အောက်ဖက် အတော် နက်ရှိုင်းသော နေရာတွင် ရေသည် မြေကြီးအတွင်း စီးဆင်းနေ၏။ မြေမျက်နှာပြင်မှ မြေကြီးအတွင်း အတော်ပင် နက်သည့်အထိ အခေါင်းတခုလည်း ဖြစ်ပေါ် နေ၏။ ရေအေးများသည် ဤအခေါင်း တလျောက်မှ စိမ့်ဝင်သွား၍ အလွန် ပူနေသော

ကျောက်များရှိရာသို့ရောက်သွားသည်။ ထိုနောက် အခေါင်းမှာ ရေပြည့် သွား၏။ အောက်ဖက်ကျသော ရေသည် ကျောက်များ၏ အပူရှိန်ကြောင့် ပူလာလေသည်။ သို့သော် အပေါ် ဖက်ရှိ ရေထုကြောင့် ဆူတက် မလာနိုင်ပေ။

တဖြည်းဖြည်းနှင့် အောက်ဖက်ရှိ အပူချိန် ရေဆူမှတ် လွန်သည် အထိ ပူလာသော အခါတွင် မေနွေးငွေ့များ ဖြစ်လာကာ ရေပွက်များက အခေါင်းရှိ ရေအချို့ကို မြေမျက်နှာပြင်ရှိ ထွက်ပေါက်အပြင်သို့ ပင့်တင်ပေးလိုက်၏။ ဤသို့အားဖြင့် ရေထုသည် ပေါ့လာ၍ ရေအတော်များများ ရေနွေးငွေ့အဖြစ် ပြောင်းလဲသွားသည်။ ထိုအခါ ရေထုကို ပိုမို ပင့်တင်ပေးလိုက်ပြန်၍၊ ထိုနောက်တွင် အခေါင်း အောက်ပိုင်းနားရှိ ရေအားလုံး ရုတ်ခြည်း ရေနွေးငွေ့များ ဖြစ်သွားပြီးလျှင် ကျန်ရေများကို ရေနွေးငွေ့အဖြစ် ပန်းထွက် စေလေသည်။ ထိုသို့ ရေပူနှင့် ရေနွေးငွေ့များ ပန်းထွက်ပြီးလျှင် ရေသည် အေးသွားပြန်၍ မြေကြီးအတွင်း အခေါင်းသို့ ရောက်သည် အထိ စိမ့်ဝင်သွားလေသည်။

ရေပူစမ်းများသည် ရေပူများကို ပန်းထုတ်ကြရာ၌ အချိန်မှန်မှန် ပန်းထုတ်ကြသည်လည်း ရှိ၏။ တကြိမ်နှင့် တကြိမ် အချိန်ချင်း မတူကြသည်လည်း ရှိ၏။ အချို့သည် တနာရီအတွင်း အကြိမ်ပေါင်းများစွာ ပန်းထွက်နေတတ်၏။ အချို့ကား တကြိမ်နှင့် တကြိမ် နာရီပိုင်း ရက်ပိုင်းသာမက လပိုင်းနှင့်ပင် ချီ၍ ကွာခြားပြီးလျှင် ပန်းထွက်တတ်လေသည်။ ထို့ပြင် အချို့ရေပူစမ်းများသည် ပေအနည်းငယ်မျှသာ မြင့်လျက် ပန်းထွက်နေတတ်၍ အချို့မှာမူ ပေ ၂၀၀ ခန့် မြင့်သည် အထိ ရေပူများ ပန်းထွက်နေတတ်လေသည်။

ရေပူစမ်းတွင် မြေမျက်နှာပြင်သို့ တက်လာသော ကတော့ပုံသဏ္ဌာန် "မီးတောင်ထိပ်ဝ" မျိုး ရှိတတ်သည်။ ထိုအပေါက်မှ အချိန်မှန်မှန်လိုပင် ရေပူနှင့် ရေနွေးငွေ့များ ပန်းထွက်နေလေ့ ရှိသည်။ အချို့ ရေပူစမ်းများက ရွံ့များကို ပန်းထုတ်တတ်လေသည်။ အချို့ ရေပူစမ်းများတွင် ကြက်ဥကိုပင် ပြုတ်နိုင်အောင် ရေပူသည်။

ရေပူစမ်း၏ ပတ်ဝန်းကျင်တွင် တွင်းထွက်ပစ္စည်းများ အစုအပုံ ဖြစ်နေသည်ကို တွေ့ရတတ်သည်။ ထိုသို့ ဖြစ်ရသည်မှာ ရေပြန်အေးသွားခြင်းနှင့် အငွေ့ပျံခြင်းတို့ကြောင့် သာမက အထူးသဖြင့် အယ်လဂျေခေါ် အပင်ငယ်ကလေးများက ရေအတွင်းရှိ ဆီလီကာနှင့် အခြား တွင်းထွက်ပစ္စည်းများကို စုတ်ယူကြခြင်းကြောင့် ဖြစ်သည်။ ထို "အစုအပုံများ" ၏ လှပသော အရောင်များမှာလည်း ထိုအပင် ငယ်ကလေးများ ရှိနေကြခြင်းကြောင့် ဖြစ်လေသည်။

ရှေးအခါက အိုက်စလန်ကျွန်း၌သာ ရေပူစမ်း အများအပြား ရှိသည် ဟု ထင်မှတ်ခဲ့ကြ၏။ သို့သော် အမေရိကန် ပြည်ထောင်စု ဝိုင်အိုးမင်ပြည်နယ်၊ ယဲလိုးစတုန်း အမျိုးသားဥယျာဉ်အတွင်း၌ ရှိသော ရေပူစမ်းများသည် ကျန်ကမ္ဘာပေါ်ရှိ ရေပူစမ်းများထက်ပင် အရေအတွက်အားဖြင့် များပြားသေးသည်။ နယူးဇီလန် ကျွန်းတွင်လည်း ရေပူစမ်း အများအပြား ရှိသည်။

ပြည်ထောင်စုမြန်မာနိုင်ငံ အနှံ့အပြားတွင် အထူးသဖြင့် ရှမ်းပြည်နယ်တွင်လည်း ရေပူစမ်းများ ရှိသည်။ ပန်းထွက်လာသည့် ရေပူများတွင် များသောအားဖြင့် ဓာတ်ဆားများ ပါလာလေ့ ရှိသည်။ ပါလာသည့် ဓာတ်ဆားများအနက် လိုင်းဆာလဖိတ်နှင့် မဂ္ဂနီရှာ ဆာလဖိတ်တို့က များ၍ အယ်လကာလီ များလည်း အနည်းအကျဉ်း ပါလာတတ်သည်။ ထိုအယ်လကာလီ များတွင်လည်း ပိုတက်အယ်လကာလီသာ အပါ များလေသည်။ ထိုရေပူစမ်းများသည် များသောအားဖြင့် ဂေါက်နာနှင့် ရှုမက်တစ်ဇင် ရောဂါ တခုခုစွဲကပ်နေသူများအတွက် များစွာ အကျိုးဖြစ်ထွန်း စေနိုင်သည်ဟု ဆိုလေသည်။

ရေပြင်ညှိဆည်။ ။အချို့သောတူးမြောင်းများ၌ ရေပြင်ညှိ ဆည်များ တပ်ဆင်ထားသည့် အကြောင်းကို ကြားဘူးကြပေမည်။ ရေပြင်ညှိဆည် ဆိုသည်မှာ တူးမြောင်းအတွင်း



အချို့ ရေပြင်ညှိ ဆည်တို့တွင် ရေသွင်း ရေထုတ်ရန် တံခါးကို ဆောတိုက် အံဖွင့်မဟုတ်ဘဲ စက်သီးကြိုးဖြင့် ဆွဲကာ အတင်အချ ပြုလုပ်ရန် စီစဉ်ထားသည်။

မြင့်ရာမှနိမ့်ရာသို့ ဖြစ်စေ၊ နိမ့်ရာမှ မြင့်ရာသို့ ဖြစ်စေ သင်္ဘောများ တက်ဆင်းသွားလာနိုင်အောင် ရေမျက်နှာပြင်ကို နိမ့်ပေး၊ မြှင့်ပေးနိုင်သော စီမံချက်ဖြင့် ဆောက်လုပ်ထားသည့် သေတ္တာပုံသဏ္ဌာန် ရေကန် အရှင်ပင် ဖြစ်၏။ ရေကန်ပေါင်နှင့် အောက်ခံများကို ကွန်ကရစ်ဖြင့် ပြုလုပ်ထား၍ အထက်ဖက်နှင့် အောက်ဖက်တွင် ဖွင့်နိုင်ပိတ်နိုင်သော သံမဏိတံခါး အရှင်ကြီးများ တပ်ဆင်ထားသည်။ ရေသွင်းရေလွှတ်ပေါက်များကိုလည်း တပ်ဆင်ထားသည်။

ရှေးကဆိုလျှင် တူးမြောင်းများကို နေရာတိုင်း၌ ဖောက်ချင်သလို မဖောက်နိုင်၊ မြေမျက်နှာပြင်ညီသော ဒေသများ၌သာ ဖောက်လုပ်နိုင်ခဲ့ပေသည်။ တိုးတက်လာသော အင်ဂျင်နီယာပညာ၏ ကျေးဇူးကြောင့် ၁၄ ရာစုနှစ်၊ သို့မဟုတ် ၁၅ ရာစုနှစ်လောက်တွင် ရေပြင်ညှိဆည်များ ဆောက်လုပ်သည့် အတတ်ကို တတ်ကျွမ်း နားလည်ပြီးသည့် နောက်တွင်ကား တူးမြောင်းဖောက်လုပ်သည့် လုပ်ငန်းသည် အဆပေါင်းများစွာ လွယ်ကူလာပေတော့သည်။

ကမ္ဘာကျော် ပနားမား တူးမြောင်းကြီးတွင် တနေရာ၌ သင်္ဘောများကို ပေ ၈၀ အမြင့်သို့ တဆင့်ပြီးတဆင့် တင်ပေးရသော တာဝန်ကို ထမ်းဆောင်ရသည့် ဂါတွန်း ရေပြင်ညှိဆည်များ ရှိသည်။ အလျား ပေ ၁,၀၀၀၊ အနံ ပေ ၁၁၀၊ အနက် ၈၁ ပေ ရှိကာ ကွန်ကရိ ကုဗကိုက်ပေါင်း နှစ်သန်းဖြင့် ဆောက်လုပ်ထားခြင်းကို ထောက်၍ မည်မျှ ကြီးမားသည့် ရေပြင်ညှိဆည်ကြီး ဖြစ်မည်ကို ခန့်မှန်းနိုင်လောက်ပေသည်။ ကမ္ဘာပေါ်ရှိ အကြီးဆုံး သင်္ဘောကြီးပင် လွယ်ကူချောင်ချိစွာ ဖြတ်သန်း သွားလာနိုင်အောင် ကြီးမားပေသည်။ ထိုရေပြင်ညှိ ဆည်ကြီးတွင် ရေကို ဖွင့်ပိတ်ပေးနိုင်သည့် ဧရာမ သံမဏိ တံခါးကြီးများ တပ်ဆင်ထားသည့်အနက် တံခါးတခုမှာ ခြောက်ထပ်တိုက်မကမြင့်၍ အထူ ခုနစ်ပေ၊ အကျယ် ၆၅ ပေရှိရကား တန်ချိန် ၅၀၀ ခန့် အလေးစီးသည် ဟု ဆို၏။ ထိုမျှ ကြီးမားလေးလံသော်လည်း ထိုတံခါးကြီးများကို လျှပ်စစ်ဓာတ်အားဖြင့် အလွယ်တကူပင် ဖွင့်နိုင် ပိတ်နိုင်ပေသည်။ ရေသွင်း ရေလွှတ်ပေါက်ပေါင်းမှာ ၁၀၅ ခု ရှိလေသည်။

သင်္ဘောတစီးသည် ထိုရေပြင်ညှိ ဆည်ကြီးကို အနိမ့်မှ အမြင့်သို့ ကျော်ဖြတ်လိုသောအခါ ရေပြင်ညှိဆည်၏ အထက်ဖက်ရှိ တံခါးများကို ပိတ်ထားပြီးလျှင် အောက်ဖက်ရှိ တံခါးများကို ဖွင့်ထားရသည်။ ပြီးလျှင် ကမ်းနဖူးတလျှောက်တွင် ခုတ်မောင်းသော မီးရထား ခေါင်းတွဲမှ ကြိုးများဖြင့် ထိုသင်္ဘောကို ပဌမဆင့် ရေပြင်ညှိ ဆည်ထဲသို့ ဆွဲသွင်းပေး



ပနားမား တူးမြောင်းရှိ ရေပြင်ညှိဆည်ကြီးသည် ကမ္ဘာတွင် အကြီးဆုံးသင်္ဘောပင် လွယ်ကူချောင်ချိစွာ ဖြတ်သန်းသွားနိုင်သည်။



ရေတံခါးကို ဘေးတိုက်ဖွင့်ကာ ရေသွင်းရသည့် ရေပြင်ညှိဆည်

သည်။ ထိုနောက် သံမဏိ တံခါးများကို ပိတ်၍ ဒုတိယဆင့် ရေပြင်ညှိ ဆည်နှင့် ရေမျက်နှာပြင်ချင်း ညီလာသည့်တိုင်အောင် ရေ သွင်းပေးရသည်။ ထိုနောက် ပဌမနှင့် ဒုတိယ ဆည်အကြားရှိ သံမဏိတံခါးကို ဖွင့်၍ သင်္ဘောကို ဒုတိယ ဆည်အတွင်းသို့ခုတ်မောင်းစေပြီးလျှင် တတိယဆည်အတွင်း ရှိရေနှင့် ရေမျက်နှာပြင်ချင်း ညီအောင် ရေသွင်းပေးရပြန်သည်။ ဤနည်းဖြင့် သင်္ဘောသည်တနာရီအတွင်း ပေ ၈၀ မျှ အမြင့်သို့တဆင့်ပြီးတဆင့်မြင့်တက်လာပြီးသော် တူးမြောင်း တလျှောက် ဆက်လက်၍ ခုတ်မောင်း သွားနိုင် လေသည်။ ထူးခြားချက် တခုမှာ အဆိုပါ ရေပြင်ညှိ ဆည်ကြီးတွင် အတက်အဆင်း သင်္ဘောနှစ်မျိုးစလုံး အတွက် ရအောင် တံခါးနှစ်ထပ် သဘောဖြင့် စီမံထားသောကြောင့် သင်္ဘောအချို့က နိမ့်ရာမှ မြင့်ရာသို့ တက်နေသည့် အချိန်မှာပင် အမြင့်မှ အနိမ့်သို့ဆင်းသည့် သင်္ဘောများကလည်း ဆင်းနေနိုင်ပေသည်။

ဂျာမနီနိုင်ငံကို ဖြတ်၍ မြောက် ပင်လယ်မှ ဗောလတစ် ပင်လယ်အရောက် ဖောက်လုပ်ထားသည့် ကီးတူးမြောင်း တဖက်တချက်တွင် ရှိသော ရေပြင်ညှိဆည်ကြီးများမှာ ပနားမား တူးမြောင်းရှိ ရေပြင်ညှိ ဆည်တို့ထက်ပင် ကြီးသေးသည် ဟု သိရသည်။ ထိုတူးမြောင်းကို ၁၈၈၇ ခုနှစ်တွင် စတင်၍ ဆောက်လုပ်ပြီးလျှင် ၁၈၉၅ ခုနှစ်တွင် အပြီးသတ်သည်။ မကြာသေးသော နှစ်များအတွင်းက ထိုတူးမြောင်း

ကို ပြန်လည် ပြုပြင်ခဲ့ရာ ယခုအခါတွင် ထိုတူးမြောင်း၏ အ တိမ်ဆုံး နေရာသည် ၃၆ ပေ နက်၍ တူးမြောင်း၏ အောက် ဖက်တွင် ၁၄၄ ပေ ကျယ်သည်။ အပေါ် မျက်နှာပြင်အကျယ် မှာ ၃၃၅ ပေ ဖြစ်သည်။ အဆိုပါ တူးမြောင်းသည် ၆၁ မိုင် ရှည်လေသည်။ အင်္ဂလန်နိုင်ငံရှိ မန်ချက်စတာ တူးမြောင်း သည် ၃၅½ မိုင်သာ ရှည်သော်လည်း တူးမြောင်းများတွင် အထူးခြားဆုံးဟု ဆိုနိုင်ပေသည်။ ရေပြင်ညီဆည် အစုံပေါင်း ငါးစုံရှိသည်။ ထိုရေပြင်ညီ ဆည်များဖြင့် ရေပြင်ကို ပြုပြင် ပေးနိုင်၍ မန်ချက်စတာမြို့နှင့် ပင်လယ်ကမ်းခြေတို့၏ မျက် နှာပြင်အနိမ့်အမြင့် ခြားနားချက် ၅၈½ ပေသည် ပပျောက် သွားပြီးလျှင် မန်ချက်စတာမြို့ကို ပင်လယ် ဆိပ်ကမ်းမြို့ ဖြစ်စေလေသည်။ ဆွီဒင်နိုင်ငံရှိ ယားတာ တူးမြောင်း တွင်လည်း ရေပြင်ညီ ဆည်ပေါင်း ၅၈ ခုမျှ ရှိ၏။ ဆူးအက် တူးမြောင်းတွင်မူ ရေပြင်ညီဆည် ဆို၍ တခုမျှမရှိချေ။

**ရေဖိအားစက်။** ။ရန်သူမျိုး ငါးပါး၌ တပါး အပါအဝင် ဖြစ်သော ရေသည် အသုံးမချတတ်လျှင် ရန်သူ ဖြစ်တတ် သော်လည်း အသုံးချတတ်ပါမူ ကျွန်ုပ်တို့အဖို့ အကျိုးများ စွာ ဖြစ်ထွန်းစေနိုင်သည့် ကျေးဇူးရှင်လည်း ဖြစ်တတ် ပေသည်။

သာမန်အားဖြင့် ရေကို ပေါ့သည့်ပစ္စည်းဟု ထင်ရသည်။ သို့သော် ရေအောက်သို့ ၁၀ ပေခန့် ဆင်းသက်မိပါမှ "ရေ သည် လေးပါတကား" ဟု ငြီးတွားရမည်မှာ သေချာသည်။ ရေအောက် ၁၀ ပေခန့် နက်သောနေရာတွင် စတုရန်း တ လက်မရှိသော ရေိယာအပေါ်၌ ဖိလျက်ရှိသည့် ရေထု၏ အလေးချိန်၊တနည်း ရေ၏ဖိအားသည် ပျမ်းမျှခြင်းအားဖြင့် ငါးပေါင်ခန့်ရှိသည်။ ထိုကြောင့် လူတကိုယ်၏ အပေါ်ယံ ရေိယာသည် စတုရန်း လက်မ ၂,၀၀၀ ခန့်ရှိသည် ဟု ယူဆရ သော် ရေအောက် ၁၀ ပေ၌ လူတကိုယ်ပေါ်တွင် ဖိထား သော ရေ၏ အလေးချိန်သည် ပေါင် ၅×၂,၀၀၀ = ပေါင် ၁၀,၀၀၀၊ သို့မဟုတ် အလေးချိန် ၄ ½ တန် နီးပါးမျှ ရှိလေ သည်။ ထို့ကြောင့်လည်း မည်သည့်ရေငုပ်သမားမျှ လူချည်း သက်သက် ရေအောက် ပေ ၄၀၀ ခန့်ထက်ပို၍ ငုပ်ရန်မဖြစ် နိုင်ချေ။ ထို့ထက် အောက်ကျအောင် ငုပ်မည်ဆိုပါက ထိုသူ သည် အပေါ်သို့ ပြန်မတက်နိုင်တော့ဘဲ ရေ၏ ဖိအားဖြင့် ပိ၍ အသက် ဆုံးရှုံးသွားဖွယ်ရာ အကြောင်းရှိလေသည်။

ရေ၏ဖိအား ကြီးမားပုံကို သိကြရပေပြီ။ ရေနှင့် တကွ အရည်အားလုံးတို့၌ အခြား ထူးခြားသော အချက် တရပ် ရှိသေး၍ ထိုအရည်တို့၏ သဘာဝစည်းကို ၁၇ ရာစုနှစ် အ တွင်း ပတ်စကဲဆိုသူ ပြင်သစ်လူမျိုး ရူပဗေဒပညာရှင် တဦး က တွေ့ရှိခဲ့လေသည်။ ထိုပုဂ္ဂိုလ်ကြီး တွေ့ရှိသော အချက် မှာ "အရည်ထဲကို ယေဘုယျအားဖြင့် ကျုံ့သွားအောင် ချုံ့ ယူ၍ မရနိုင်၊ ထိုအပြင် အလုံပိတ်ထားသော ခွက်ထဲ၌ ထည့် ထားသော အရည်တခုကို တနေရာရာမှ ဖိနှိပ် လိုက်ပါက ထိုဖိအားသည် အရည် အတွင်းရှိ ကျန်နေရာ အားလုံးသို့ အညီအမျှ ပျံ့နှံ့သွားသည်" ဟူသောအချက် ဖြစ်လေသည်။

ရေဖိအားစက်မှာ အထက်ပါ သဘာဝစည်းကို မှုတည်၍ တီထွင်ထားသော စက်ဖြစ်ရာ ထိုစက်တွင် ပြွတ်တံခေါင်းတခု အပေါ်၌ အနည်းငယ်မျှသော အားဖြင့် ဖိနှိပ်ပေးလိုက်ရုံမျှ နှင့် အဆပေါင်းများစွာ ကြီးမားသော ဖိအားကို ရရှိနိုင်လေ သည်။ ထိုစက်ကို ပြုလုပ်ထားပုံ သဘောမှာ ဤသို့ ဖြစ် သည်။ ပြောင်းလုံးသဏ္ဍာန် ပြွန်အကြီးနှင့်အငယ် နှစ်ခုကို အောက်ဖက်မှ တခြားပြွန်ငယ် တခုဖြင့် ဆက်သွယ် ထား၍ လက်ဦး ပြွန်နှစ်ခုတွင် အရွယ်တော် ပြွတ်တံခေါင်းများ တပ် ဆင်ထားသည်။ ပြွတ်တံခေါင်းအငယ်၏ ရေိယာ အကျယ် အဝန်းမှာ စတုရန်း တလက်မရှိ၍ ပြွတ်တံခေါင်းအကြီး၏ ရေိယာမှာ စတုရန်း လက်မ ၁၀၀ ရှိသည် ဆိုပါစို့။ ထိုအခါ အကယ်၍ ပြွတ်တံခေါင်း အငယ်ပေါ်သို့ ပေါင် ၁၀၀ အလေး ချိန်နှင့် ညီမျှသော ဖိအားဖြင့် ဖိနှိပ်လိုက်ပါက ပြွတ်တံခေါင်း အကြီးသည် ပေါင် ၁၀,၀၀၀ အလေးချိန်နှင့် ညီမျှသော ဖိအားဖြင့် အပေါ်သို့ တက်လာလေတော့သည်။ အဘယ် ကြောင့် ဆိုသော် ပတ်စကဲ တွေ့ရှိသော သဘာဝစည်းအရ ပြွတ်တံခေါင်းအငယ်တွင် စတုရန်း တလက်မပေါ်သို့ ဖိနှိပ် ပေးလိုက်သော ပေါင် ၁၀၀ ဖိအားသည် စတုရန်း လက်မ ၁၀၀ ရှိသော ပြွတ်တံခေါင်းရှိ စတုရန်း တလက်မစာ နေရာ တိုင်းသို့ ညီမျှသောဖိအားကို တဆင့်ပေးပို့သဖြင့် ပြွတ်တံ ခေါင်းအကြီး၌ သက်ရောက်သော ဖိအားသည် ပေါင် ၁၀၀×၁၀၀=ပေါင် ၁၀,၀၀၀ အလေးချိန်နှင့် ညီမျှသော ကြောင့် ဖြစ်လေသည်။

ဤရေဖိအား စက်မျိုးကို ဝါဂွမ်းကို ကျစ်ကျစ်ပါအောင် ဖိနှိပ်ထိုးပေးခြင်း၊ စက္ကူ၊ သက္ကလတ်၊ သံပြား၊ ကြေးပြား စသည်တို့ကို ညှပ်ပုံဖြင့် ညှပ်ခြင်း၊ နှမ်းစေ့ဝါစေ့များမှ ဆီ ကြိတ်ယူခြင်း စသော လုပ်ငန်းများတွင် အသုံးပြုခဲ့ကြလေ သည်။ ထိုစက်မျိုးသည် နှေးကွေး၍ ယခုအခါ၌ ထိုစက်များ အစား လျှပ်စစ်ဓာတ်အားသုံး စက်များကို အများအစား အသုံးပြုလာကြပေပြီ။ သို့သော် အချို့ လုပ်ငန်းများတွင်မူ ယခုထက်တိုင် ရေဖိအားစက်များကိုပင် ဆက်လက်၍ အသုံး ပြုဆဲ ဖြစ်လေသည်။

အမှန်စင်စစ် ရေ၏ ဖိအားသည် ကမ္ဘာမြေ၏ ဆွဲအား ကြောင့် ဖြစ်သော ရေ၏ အလေးချိန်ပင် ဖြစ်သည်။ မြစ်တို့ ၌ မြင့်ရာမှ နိမ့်ရာသို့ စီးတတ်သည့်သဘော ရှိခြင်းမှာ ရေ၏ ဖိအား၊ သို့မဟုတ် အလေးချိန်ကြောင့်ပင် ဖြစ်လေသည်။ နယူးယော့မြို့သို့ ရေပေးသော ရေလှောင်ကန်များအနက် အချို့မှာ မိုင် ၁၀၀ ကျော်မျှပင် ဝေးကွာသော တောင်ကုန်း

တောင်မြင့်များပေါ်၌ တည်ရှိကြပေသည်။ ထိုမျှ ခရီးဝေးသော်လည်း မြင့်မားသည့်အရပ်မှ လာသောရေ ဖြစ်သောကြောင့် အဆောက်အအုံကြီးများရှိ အထပ်ထပ်သို့ တိုင်အောင် ရေရောက်နိုင်ခြင်း ဖြစ်လေသည်။ သို့သော် နယူးယော့မြို့ရှိ အဆောက်အအုံ များစွာတို့မှာ ရေလှောင်ကန်ရှိရာ တောင်ကုန်းထက်ပင် မြင့်မားနေသေးသဖြင့် အပေါ်ဆုံးထပ် အထိ ရေမရောက်နိုင်ပေ။ ထိုအခါ ရေဖိအားသုံးစုတ်စက်များကို အသုံးပြုပြီးလျှင် ရေကို ထိုအထပ်များသို့ တင်ယူရလေသည်။

ရေဖိအားသည် စက်မှု လက်မှု လုပ်ငန်းများ၌ များစွာအသုံး ဝင်လေသည်။ ထိုဖိအားကို စရိတ်သက်သာစွာနှင့် ရရှိနိုင်သဖြင့် ရေဖိအားစက် အမျိုးမျိုးကို တီထွင် လုပ်ကိုင်ခဲ့ကြလေသည်။ ရေ၏ ဖိအားသည် ရေရဟတ်များကို လည်စေ၍ တဖန် ရေရဟတ်များက ဒိုင်နမိုတို့ကို လည်စေကာ လျှပ်စစ်ဓာတ်အားကို ထုတ်ယူဖြန့်ချိပေးနိုင်ပေသည်။

ရေ၏ဖိအား၊ တနည်း ရေ၏ ရွေ့ရှားမှုနှင့် သက်ဆိုင်သော သိပ္ပံပညာရပ်ကို ဟိုက်ဒြောလစ် (ရေအားပညာ)ဟု ခေါ်လေသည်။

**ရေဖူးမြို့။** ။ရေဖူးမြို့သည် ထားဝယ်ခရိုင် ရေဖူးမြို့နယ်၏ ရုံးစိုက်မြို့ဖြစ်၏။ ထားဝယ်မြို့၏ အထက် ၁၀ မိုင်ခန့်အကွာ ထားဝယ် မြစ်ကမ်းပေါ်တွင် တည်ရှိသည်။ ရေဖူးမြို့နယ်မှာ ထားဝယ်ခရိုင်၏ မြောက်ဖက်အကျဆုံး မြို့နယ်ဖြစ်၍ ၁,၅၇၂ စတုရန်းမိုင် ကျယ်ဝန်းသည်။ သူကြီးပိုင်နယ်ပေါင်း ၃၅ ခု ပါဝင်သည်။ ၁၉၅၆ ခုနှစ် ခန့်မှန်း သန်ကောင်စာရင်းအရ လူဦးရေ ၃၄,၁၆၅ ရှိသည်။

ရေဖူးမြို့နယ်သည် ထားဝယ်မြို့၏ ကျောထောက်နောက်ခံနယ်တနယ်ဖြစ်၍ ဆန်စပါး၊ ကျွန်းသစ်နှင့် သတ္တုများထွက်သည်။ နယ်အတွင်း၌ အဓိက အလုပ်အကိုင်မှာ ဆန်စပါးစိုက်ပျိုးခြင်း ဖြစ်သည်။ ရေဖူးမြို့၏ လူဦးရေမှာ ၁၉၅၃ ခုနှစ် သန်ကောင်စာရင်းအရ လူဦးရေ ၇၂၈ ယောက်ရှိသည်။

**ရေဖြန်းဂိုဏ်း။** ။အင်္ဂလိကန်အသင်းတော် — ရှု။

**ရေဗလုံငှက်။** ။ပါဏဗေဒ အလိုအရ ရေဗလုံငှက်ကို ဟယ်လီယိုပေး ပါဆွန်နာတာဟု ခေါ်သည်။ ထိုငှက်သည် ဟယ်လီအော်နီသီဒီး မျိုးရင်းတွင်ပါဝင်၏။ အလွန် တွေ့မြင်ရခဲ၍ ရေဗလုံငှက်ကိုလူသိနည်းသည်။ ရေထဲသို့ ပြွန်ချောင်းတခုဖြင့် လေမှုတ်သွင်းရာ၌ ရေပွက်များ ထကာ မြည်သောအသံကဲ့သို့သော ယင်း၏အသံကို စွဲ၍ ရေဗလုံငှက် ဟု ခေါ်ခြင်းဖြစ်သည်။ သို့သော် အသံစူးသည်။

ရေဗလုံငှက်၏ ကိုယ်ထည်သည် အလျား ၂၄ လက်မ ရှိ



အလွန်တွေ့မြင်ရခဲ၍ လူသိနည်းသော ရေဗလုံငှက်

သည်။ လည်တိုင်သည် ငန်း၏လည်တိုင်နှင့် တူသည်။ အဖိုနှင့် အမ ပုံသဏ္ဌာန်ချင်း မတူချေ။ ရေဗလုံငှက် အမများ၏ မေး၊ လည်ပင်းနှင့် လည်တိုင် အရှေ့ဖက်ပိုင်းများသည် ဖြူ၍ ပတ်လည်တွင် အမည်းရောင် ရှိသည်။ အဖိုများ၌မူ အနားဖက်၌ အဖြူရောင်များ ထပ်၍ ပါရှိသည်။ ငှက်ဖိုနှင့် ငှက်မများ၏ မျက်လုံးအရောင်မှာ အဝါဖြစ်သည်။ အဖိုများ၌ သားပေါက်ချိန်တွင် နှုတ်သီးရင်းတွင် အသားပိုကလေးတခု ထောင်လျက် ရှိသည်။ မိုးကုန်ချိန်တွင်မူ ထိုအသားပိုကလေးသည် တွန့်လိမ်သွား၍ ပျောက်ကွယ်သွားသည်။ အမများ၌ ဤကဲ့သို့သော အသားပိုမျိုး မရှိချေ။ ငှက်ကလေးများသည် အမများနှင့် တူသော်လည်း ဦးခေါင်းထိပ်သည် မမည်းချေ။

ရေဗလုံ ငှက်တို့ကို သားပေါက်ချိန်၌ ရေလျှံသစ်တော ဒေသများ၊ မြစ်ချောင်းများ၊ ရွှံ့နွံထူထပ်သော နေရာများတွင် တွေ့ရလေ့ရှိသည်။ သာမန်အချိန်များတွင်မူ ရေတက်ရေကျ ရှိသော ချောင်းများနှင့် အမြစ်မိမ်း တောများအနီးရှိ ချောင်းများတွင် တွေ့ရတတ်သည်။ ရေဗလုံငှက်သည် လျင်မြန်စွာ ရေကူး ရေငုပ်နိုင်သည်။ ဘေးအန္တရာယ်နှင့် တွေ့ကြုံသောအခါ ကုန်းပေါ်သို့ ပြေးတက်၍ ပုန်းအောင်း တတ်သည်။ မထိတ်လန့်လျှင် ရေမှထ၍ ပျံသန်းတတ်ကြသည်။ ကြောက်လန့်လာလျှင် ရေထဲသို့ တကိုယ်လုံးငုပ်၍ ဦးခေါင်းနှင့် လည်တိုင့်ကိုသာ ရေပေါ်တွင် ဖော်ထားတတ်ကြသည်။ ရေပြင်မှ ထ၍ ပျံသန်းရာတွင် ရေကြက်ဒုံနှင့် တူသည်။ သို့သော် ပဌမတွင် ရေပြင်နှင့် ယင်း၏ တွဲလျားကျနေသော ခြေထောက်များ ထိနေတတ်သည်။ အရှိန် ရလာသောအခါတွင်မူ လျင်မြန်စွာ ပျံသန်းနိုင်သည်။ ကောင်းမွန်စွာလည်း လမ်းလျှောက်နိုင်၍ ကိုယ်ကို ခပ်စောင်းစောင်း ထားတတ်သည်။ ယင်း၏အစာမှာ ခရု၊ ပိုးကောင်နှင့် အသီးအရွက်များ ဖြစ်သည်။

အသိုက်များကို မှောင်ပိတ်နေသော နွယ်ပင်များ ကြားတွင် သစ်ကိုင်းကလေးများကို တခုနှင့်တခု ထပ်၍ ပြုလုပ်ကြသည်။ ကျီးကန်း အသိုက်များနှင့် တူ၍ ခပ်ဝိုင်းဝိုင်း ဖြစ်ပြီးလျှင် အချင်း ၁၅ လက်မခန့် ရှိတတ်သည်။ ဥများ အုသည့် နေရာကမူ အချင်း ခုနစ်လက်မခန့် ရှိတတ်သည်။ ဥများသည် မလိုင်ရောင် ဖြစ်ပြီးလျှင် အညိုနှင့် ခရမ်းရောင် အပြောက်များ ပါရှိသည်။ အသိုက်များကို ရေမျက်နှာပြင်နှင့် လက်မအနည်းငယ်မှ ကိုးပေ အထိ မြင့်သောနေရာများတွင် လုပ်တတ်သည်။ တမြုံလျှင် ဥပေါင်း ငါးလုံးမှ ခုနစ်လုံးအထိ ရှိသည်။

ရေဗလုံငှက်တို့ကိုအိန္ဒိယနိုင်ငံဗင်္ဂလားပြည်နယ်နှင့်အာသံပြည်နယ်တို့မှ မြန်မာနိုင်ငံကို ဖြတ်၍ ဆုမတြားကျွန်း အထိ တွေ့နိုင်သည်။မြန်မာနိုင်ငံအတွင်း၌ ရေဗလုံငှက်များကို သာယာဝတီခရိုင် မြစ်မခမြစ်နား တဝိုက်တွင် တွေ့ရသည်။ ဗန်းမော်ခရိုင် ရွှေကူမြို့နှင့်မျက်နှာချင်းဆိုင် အင်းတော်ကြီးဒေသတွင်လည်း ရေဗလုံငှက်အချို့ကိုတွေ့နိုင်သည်။ထိုဒေသနေလူများက ရေဗလုံငှက်များသည် ထိုဒေသ၌ မိုးဥတုတွင် သားပေါက်ကြသည်ဟုဆိုသည်။ကသာခရိုင်ဆိပ်သာအနီး၌လည်း ထိုငှက်များကို တွေ့ရသည်။ ရှောတီမြစ်ဝကျွန်းပေါ် ဒေသဖြစ်သော မြောင်းမြမြို့အနီးတွင်လည်း တွေ့နိုင်သည်။ ထိုပြင် ပဲခူးခရိုင် အင်းတကော်ဖက်တွင်လည်း ထိုငှက်များကို တွေ့နိုင်သည်။ ရေဗလုံ ငှက်သည် မြန်မာနိုင်ငံ၌ အမြင်ရနည်းသော်လည်း နေရာ အနှံ့အပြားတွင် နေလေသည်။

**ရေမြင်း။** ။အာဖရိကတိုက်၌သာ တွေ့ရ၍၊ ကမ္ဘာပေါ်ရှိ ကုန်းသတ္တဝါထဲတွင် အကြီးဆုံးဖြစ်သော ဆင်မှ လွဲလျှင် ရေမြင်းသည် အကြီးဆုံးနှင့် အရုပ်အဆိုးဆုံး သတ္တဝါ ဖြစ်လေသည်။

ကိုယ်လုံးကိုယ်ထည်မှာ များသောအားဖြင့် ၁၂ ပေမှ ၁၄ ပေခန့်အထိရှိ၍ အရပ်မှာ ငါးပေခန့်မြင့်ရကား ဆင်ပေါက်ကလေးတမျှ ရှိ၏။ ယင်း၌ တိုတုတ်ကြွခိုင်သော ခြေထောက်များ၊ ဝက်၏ မျက်စိကဲ့သို့သော မျက်စိ၊ ပြား၍ ကျယ်ပြန့်သော နှာတံ၊ နှာရိုးကျယ်ဝန်း၍ ကြောက်မက်ဖွယ်ကောင်းသော ပါးစပ်ရှိပြီးလျှင် ပါးစပ်ကြီးကို ဟလိုက်သောအခါ နီရဲသော တွင်းကြီးသဖွယ် ဖြစ်ပြီးလျှင် ကြီးလှသော သွားများနှင့် အစွယ်များကို အထင်းသား မြင်နိုင်လေသည်။ တကိုယ်လုံး တလက်မသာသာခန့်ရှိ ထူထဲသောအရေဖြင့် ဖုံးအုပ်ကာ အမွေးအမှင် မရှိ၊ အမြီးဖျား၌သာ အမွေးအနည်းငယ် ရှိ၏။ ခြေထောက်တွင် ခြေချောင်း လေးချောင်းရှိသည်။ ခြေထောက်သည် မြေပြင်၌ ပြားလိုက် တည်ရှိသည်။ အချို့ ရေမြင်းတွင် နှာတံပေါ်၌ အမွေးကြမ်း အနည်းငယ် ရှိပြီးလျှင် ဦးခေါင်း၊ လည်ပင်း၊ နားရွက်နှင့် အမြီးတို့တွင် လည်း အမွေးများ ရှိတတ်သည်။ အရောင်မှာ အညိုရင့်ရောင်မှ ပြာလဲ့လဲ့ အရောင်ထိ ရှိတတ်သည်။ ရေမြင်းမများသည် အထီးထက် အတန် ငယ်ပြီးလျှင် အရောင်တွင်လည်း များသောအားဖြင့် ပို၍ ဖျော့တတ်သည်။

ဤမျှလောက် ကိုယ်လုံးကိုယ်ထည် ကြီးမားသော်လည်း ရေမြင်းသည် ရေကူးနှင့် ရေငုပ် ကျင်လျှင်၍ ရေ၌သာ အနေများလေသည်။ ရေထဲတွင် ကိုယ်ကိုဖော့၍လည်း နေနိုင်၏။ အချိန် အတန်ကြာမျှ ရေထဲတွင် ငုပ်၍နေနိုင်သည်။ရေပေါ်သို့ ပေါ်လာသောအခါတွင် ဝေလငါးကဲ့သို့ ရေများကို မှုတ်ထုတ်တတ်သည်။

ယင်းတို့သည် အကောင် ၂၀၊ ၃၀ ခန့် စုရုံးကာ အအုပ်နှင့် အသင်းနှင့် နေတတ်ကြ၍ တခါတရံ မြစ်ကမ်းဘေးရှိ လယ်ယာ၊ကိုင်းကျွန်းများသို့တက်ကာ၊ ဂျုံပင်၊ စပါးပင်၊ ပြောင်းပင် စသော ကောက်ပဲသီးနှံများကို ဖျက်ဆီးတတ်ကြ၏။

ကိုယ်အနေအထားသည် အဆင်မပြေသော်လည်း ကုန်းပေါ်တွင် ခရီးဝေးဝေး သွားနိုင်သည့်အပြင် အုံ့ဩဖွယ် ကောင်းလောက်အောင် လျင်မြန်စွာလည်း ဒုန်းပြေးနိုင်သည်။

တိုင်းရင်းသား လူရိုင်းများသည် ရေမြင်းများကို လိုက်လံသတ်ဖြတ်ပြီးလျှင် ယင်းတို့၏အသားကို စားသောက်ကြလေသည်။သွားများမှာမူ ဆင်စွယ်ထက်ပင် မာကျောလေသည်။

ရေမြင်း၏ အစာသည် ထူးထူးထွေထွေ မရှိလှ၊ မြစ်ကမ်းပါးတွင် ပေါက်ရောက်သော မြက်ပင်၊ကိုင်းပင်၊ရေညှိပင်များကိုသာ စားသောက်တတ်၏။ နေ့အခါ ရေထဲ၌နေ၍ ညဥ့်အခါများတွင် အစာရှာထွက်တတ်၏။ ရေထဲ၌ နေချိန်တွင် ယင်း၏ နားရွက်နှင့် မျက်စိများကိုသာ ရေပေါ်တွင် ဖော်ထားလေ့ရှိသည်။

သဘာဝအားဖြင့် လူကို လိုက်လံ ရန်မူတတ်ခြင်း မရှိသော်လည်း စိတ်အနှောင့်အယှက် ဖြစ်သောအခါတွင် ရေအောက်မှ ငုပ်၍ လာပြီးလျှင် လူပါသောလှေကို မှောက်၍ ပစ်တတ်လေသည်။

ရေမြင်း အငယ်စားမျိုး တမျိုးကို အာဖရိကတိုက် အနောက်ဖက် ကမ်းခြေတလျှောက်နှင့် လိုက်ဗီးရီးယား သမတနိုင်ငံတွင် တွေ့ရှိရ၍ ယင်းတို့သည် အလျား ခြောက်ပေခန့် ရှည်၍ နှစ်ပေခွဲခန့်သာ မြင့်လေသည်။

ရေမြင်းများသည် ကြောက်ရွံ့၍ စိတ်တုန်လှုပ်သည့်အခါ မျိုး၌ သူတို့၏ ကိုယ်ပေါ်တွင် နီသော အရည်တမျိုးကို တွေ့ရတတ်၍ တချို့က ရေမြင်းများသည် "ချွေး" အစား "သွေး" ထွက်သည် ဟု အယူရှိကြ၏။ သို့သော် ထိုနီသော ချွေးရည် တမျိုးသည် အမှန်အားဖြင့် သွေးနှင့် ဟစ်စုံတရာ ဆက်သွယ်ခြင်း မရှိချေ။

ရေမြင်းမတကောင်မှ တကြိမ်လျှင် သားတကောင်မွေးတတ်သည်။ ရေမြင်းကလေးကို မွေးပြီး၍ မကြာမီအတွင်း၌ ရေသို့ ခေါ်ဆောင် သွားပြီးလျှင် မိခင်၏လည်တံပေါ်တွင် နေစေသည်။ ထိုသို့ နေစေခြင်းသည် ရေမြင်းကလေး ရေကူး မတတ်မခြင်း ဖြစ်သည်။ ခြောက်နှစ်ကြာသည်အထိ ရေမြင်းသည် ကြီးထွားလာသည်။ ရေမြင်း၏ ပျမ်းမျှသက်တမ်းသည် အနှစ်သုံးဆယ်ခန့် ဖြစ်သည်။

ရေမြင်းများကို ယခင်က အီဂျစ် နိုင်ငံတွင် အများအပြားတွေ့ရှိရသော်လည်း ယခုအခါ၌မူ အာဖရိကအလယ်အပူပိုင်း ဒေသများ၌သာ တွေ့ရှိရတော့၏။

အမျိုးအနွယ်အားဖြင့် ရေမြင်းသည် တောဝက် အမျိုးအနွယ်ဖြစ်၍ ရုတ်တရက်ကြည့်လိုက်လျှင် ဝက်နှင့်၎င်း၊ မြင်းနှင့်၎င်း တူသည်။

နို့တိုက် ကုန်းသတ္တဝါများထဲတွင် ရေမြင်းထက်ပို၍ အရုပ်ဆိုးသော သတ္တဝါကိုသော်၎င်း၊ ဆင်မှ လွဲ၍ ယင်းထက် ပို၍ကြီးသော သတ္တဝါကိုသော်၎င်း မတွေ့ရချေ။



ကိုယ်ထည်ကြီး၍ ခြေထောက်တိုသည့် ရေမြင်း

ရေမြင်းသည် ဟစ်ပိုပိုတေးမီးဒီးမျိုးရင်းတွင် ပါဝင်သည်။ ပါဏဗေဒ အလိုအရ သာမန်ရေမြင်းမျိုးစိတ်ကို ဟစ်ပိုပိုတေးမတ် အမ်ဖီးဗီးယပ် ဟုခေါ်သည်။ ရေမြင်းပုကိုမူ ဟစ်ပိုပိုတေးမတ် လိုက်ဗီရီယန်ဆစ် ဟူ၍ ခေါ်သည်။

**ရေမြင်း (ငါး)။** ။ပါဏဗေဒ အလိုအားဖြင့် ဟစ်ပိုကမ်းပတ် အန်တီကိုရမ် ခေါ် ရေမြင်းကို တခါတရံ ရေနဂါး ဟုလည်း ခေါ်ကြသည်။ ထိုငါးသည် ဆင်နတ်သီးဒီး မျိုးရင်းတွင် ပါဝင်လေသည်။ ရေမြင်းသည် ထူးခြားသည့် ပုံသဏ္ဍာန် ရှိသော ငါးကလေးဖြစ်သည်။ မြင်းကလေး တကောင်၏ ဦးခေါင်းနှင့် ထိုငါးကလေး၏ ဦးခေါင်းသည် တူသဖြင့် ယင်းအား ရေမြင်းဟု အမည်ပေးကြခြင်း ဖြစ်သည်။ အပူပိုင်းနှင့် သမပိုင်း ဒေသရှိ ပင်လယ်သမုဒ္ဒရာများတွင် ရေမြင်းမျိုးစိတ်ပေါင်း လေးဆယ်ခန့် ရှိသည်ကို တွေ့ရသည်။

ရေမြင်း၏ ကိုယ်လုံးသည် နဂါး၏ ကိုယ်နှင့် တူခြင်းကြောင့် ရေနဂါး ဟုလည်း ခေါ်ဝေါ်ကြခြင်း ဖြစ်သည်။ ကိုယ်ပေါ်၌ အရိုးကဲ့သို့ မာကျောသော အခွံနှင့် ဆူးများရှိသည်။ ရေမြင်း၌ ရှည်လျားသော နှုတ်သီးနှင့် အဖျား၌ သေးငယ်သောပါးစပ် ရှိသည်။ ထို့ပြင် ရေမြင်း၌ စူ၍ ထွက်နေသော မျက်စိများလည်း ရှိသည်။

ရေမြင်း၏ အရွယ်သည် နှစ်လက်မမှ နှစ်ပေအထိ ရှည်၍ သွယ်ပြောင်းသော အမြီးဖြင့် ရေထဲ၌ ပေါက်သော ပင်လယ်ကျောက်ပွင့် အပင်များတွင် ရစ်ပတ်ကာ မတ်မတ်နေတတ်သည်။ အမြီး၌ ဆူးတောင်မရှိချေ။ ကျောဆူးတောင်၊ ရင်ဆူးတောင် များဖြင့်သာ ကူးလူး သွားလာသည်။ ရေကူး မသန်ချေ။ အင်္ဂလန်ပြည် လန်ဒန်မြို့ တိရစ္ဆာန်ဥယျာဉ်အတွင်း၌ ထိုကဲ့သို့ ထူးခြားသော တိရစ္ဆာန်များကို မွေးမြူရန် အထူးပြုလုပ်ထားသည့် ကန်များရှိသည်။ အဖိုသည် မိမိအမြီးအောက်ဖက်၌ရှိသော အိတ်ထဲတွင် ဥများကို သယ်ယူကာ ထိုအိတ်ထဲ၌ပင် သား ပေါက်စေသည်။ ရေမြင်း၏ အရောင်၊ ဆူးနှင့် အခွံမာများသည် မှော်ပင်များနှင့် တူသဖြင့် ယင်းအား ရုတ်တရက် မမြင်နိုင်ချေ။

ရေမြင်းသည် အနီးအနား၌ ဖြတ်သန်း သွားလာသော ရေသတ္တဝါ ငယ်ကလေးများနှင့် အခြား ငါးမျိုးများ၏ ဥများကို စုတ်ယူ၍ စားသောက်လေသည်။ ကင်းဝန်မင်းကြီးသည် မြန်မာသက္ကရာဇ် ၁၂၃၆ ခုနှစ်တွင် ပြင်သစ်နိုင်ငံသို့ သံတော်အရာရှိကြီးအဖြစ် သွားရောက်စဉ်အခါ ပါရစ်မြို့ရှိ ဗူးလွန်းဥယျာဉ်သို့ အလှည့်အပတ် အကြည့်အရှု သွားရောက်သည့် အကြောင်း ပြင်သစ်နိုင်ငံသွား နေ့စဉ်မှတ်တမ်း စာတမ်းတွင် ဖော်ပြရာ၌ –

"…. ၎င်း ဥယျာဉ်အတွင်း တိုက်ကြီးတခုနှင့် လှောင်၍ မွေးထားသည့် ငါးအမျိုးမျိုးများကို တွေ့မြင်ရသည်မှာ အရှည် တညှိုခန့် တထွာခန့် နဂါးရုပ်ငယ်ကဲ့သို့ ကျောက်ကုန်း လယ်တွင် ဆူးတောင်ကို လှုပ်လျက်၊ ဉကျွင်းကို အထက် အမြီးကိုအောက် ထား၍ ရေထဲတွင် မတ်ရပ် သွားသည့် ရေမြင်းခေါ်သည့် ငါး၊…. ဆိုခဲ့သည့် ရေ တိရစ္ဆာန် မျိုးများတွင် ရေမြင်းခေါ်သည့် တိရစ္ဆာန်ကို ငါတို့ မြန်မာနိုင်ငံ ရွှေတိုက်တွင် နဂါးသေခြောက် အမှတ်အသားနှင့် တွေ့မြင်ဘူးသည်။" ဟု ရေမြင်းအကြောင်း ပါရှိလေသည်။

**ရေမွှေး။** ။ရေမွှေးကို ရှေးပဝေဏီကပင် တရုပ်၊ အိန္ဒိယနှင့် အီဂျစ်နိုင်ငံများတွင် အသုံးပြုခဲ့ကြသည်။ သို့သော် ထိုစဉ်က မွှေးကြိုင်သောအရွက်၊ အခေါက်နှင့် သစ်သားတို့ကိုသာ မီးထွန်း၍ ဘုရားကျောင်းများတွင် ပူဇော်သက္ကာရ ပြုခဲ့ကြသည်။ ထိုသို့ မီးထွန်း၍ ပူဇော်သည့်အခါတွင် မီးခိုးများထွက်သဖြင့် ပန်းနံ့သာ အခေါက် အရွက်တို့မှ မွှေးကြိုင်သော အရည်အဖြစ်သို့ ပြောင်းလဲရန် ကြံဆခဲ့ကြလေသည်။

ရှေးနှစ်ပေါင်း ၅,၀၀၀ ခန့်ကပင် အီဂျစ်နိုင်ငံ၌ ရေမွှေး အသုံးပြုခဲ့သည့် အထောက်အထားများကို ယင်းတို့၏ ဘုရင်မင်းချိုင်းကို တူးဖော်ရာမှ အမွှေးနံ့သာခဲများကို အမွှေးထည့်သည့် ခွက်များတွင် ထည့်ထားသည်ကို တွေ့ရခြင်းဖြင့် သိနိုင်ပေသည်။ ထို့ပြင် ရှေး အီဂျစ်လူမျိုးများသည် မိမိတို့



သဘာဝ အမွှေးဆီ ကြယ်ဝသည့် ရေစမုံ

အိမ်သို့ ရောက်ရှိလာကြသော ညှော်သည်များအား ရှေးဦးစွာ ဦးခေါင်းကို ရေမွှေးလောင်း၍ ခရီးဦးကြို ပြုလုပ်တတ်ကြလေသည်။

ရှေး ဂရိလူမျိုးနှင့် ရောမလူမျိုးတို့သည် ကိုယ်လက်အင်္ဂါ လှုပ်ရှားကစားမှုများ ပြီးစီးသည့် အခါ၌ငှင်း၊ ရေချိုးသန့်စင်ပြီးသောအခါ၌ငှင်း ယင်းတို့၏ ကိုယ်ကို ရေမွှေးဖြင့် သုတ်လိမ်းလေ့ ရှိသည် ဟု သိရပေသည်။

မြန်မာလူမျိုးများသည် ရှေးအခါကပင် တရုပ်နှင့် အိန္ဒိယ နိုင်ငံတို့နှင့် အဆက်အဆံရှိခဲ့ကြသဖြင့် ရေမွှေးနှင့် အခြား အမွှေးနံ့သာများ အသုံးပြုကြပုံကို ထိုနိုင်ငံသားများထံမှပင် အတုရခဲ့ဟန်တူသည်။ ပုဂံခေတ်ကျောက်စာများ၌ စန္ဒကူးဖြူ၊ စန္ဒကူးနီတို့ဖြင့် ပြုလုပ်ထားသည့် ကြုတ်တို့ဖြင့် သရီရ ဓာတ်တော်များကို ထည့်၍ ဌာပနာထားကြောင်း အဆိုရှိလေသည်။

အင်းဝခေတ်တွင်မူ နံ့သာမျိုးကိုသာမက ကတိုးရည်များကိုပါ အသုံးပြုခဲ့ကြသည် ဟု သိရပေသည်။ ကုန်းဘောင်ခေတ်တွင်ကား ပြည်တွင်းဖြစ် အမွှေးနံ့သာရည်များသာမက နိုင်ငံခြားဖြစ် ရေမွှေးများကို ဖန်ပုလင်းများ၌ ထည့်၍ အသုံး ပြုခဲ့ကြလေသည်။

မဃဒေဝ အဘိဓာန်၌ နံ့သာလေးမျိုး ရှိကြောင်း ဖော်ပြထားလေသည်။ ယင်းတို့မှာ (၁) ကုံကုမံ၊ (၂) လေးညှင်း၊ (၃) ကမျဉ်းနှင့် (၄) တောင်စလပ် ဖြစ်သည်။ မြန်မာ ဆေးကျမ်းတို့၌မူ နံ့သာမျိုး ငါးပါး ဟု ဖော်ပြထားသည်။ ထိုငါးမျိုးမှာ (၁) နံ့သာဖြူ၊ (၂) နံ့သာနီ၊ (၃) ကရမက်၊ (၄) အကျော်နှင့် (၅) စမ္ဗာ တို့ ဖြစ်သည်။ မြန်မာဆေးကျမ်းတို့၌ နံ့သာဆီမွှေးတို့၏ အကျိုးအာနိသင်ကို လေးနက်စွာ ဖော်ပြထားလေသည်။ ယောအတွင်းဝန် ဦးဘိုးလှိုင် ပြုစုသော ဥတုဘောဇနသင်္ဂဟကျမ်း၌ "ပန်းတို့ဖြင့် ထုံအပ်သော ဆီမွှေး၊ နံ့သာဆီဖြူ၊ ကရမက် အစရှိသော ဆီမွှေးတို့ဖြင့် ကိုယ်လက် အင်္ဂါတို့ကို လိမ်းနယ်ခြင်းသည် လေနာ၊ သလိပ်နာ၊ နှလုံးနာ၊ ပင်ပန်းခြင်းတို့ကို ငြိမ်းစေနိုင်၏။ အားကြီး၏၊ ချမ်းသာ၏။" စသည်ဖြင့် ဖော်ပြထားသည်ကို တွေ့ရလေသည်။

အာရပ် လူမျိုးတို့သည် ရှစ်ရာစုနှစ်ခန့်တွင် နှင်းဆီပွင့်ချပ်တို့ကို ပေါင်းတင်၍ နှင်းဆီအမွှေးရည်ကို စတင်ပြုလုပ်ခဲ့ကြသည်။ ကိုးရာစုနှစ်ခန့်တွင် ပါးရှင်းလူမျိုးတို့သည် နှင်းဆီရည်ကို တိုးချဲ့၍ လုပ်တတ်ခဲ့ကြသည်။ ထိုမှ တစတစ ကြံစည်စမ်းသပ်ခြင်းဖြင့် ခေတ်မီ ရေမွှေးများပေါ် ထွက်လာလေသည်။

ရေမွှေးပြုလုပ်သူများသည် ရှေးအခါကပင် ရေမွှေး အကောင်းဆုံးသည် မည်သည့်နည်းနှင့်မျှ တမျိုးတည်းမှ မရနိုင်ကြောင်းကို သိခဲ့ကြလေသည်။ ပစ္စည်းပေါင်း မြောက်မြားစွာမှ ရရှိသော ရေမွှေးများကို ကျွမ်းကျင်စွာ ရောစပ်ခြင်းဖြင့်သာ ပြုလုပ်လေ့ ရှိကြသည်။ ယနေ့တိုင်ပင် ရေမွှေးကောင်းများကို အမြောက်အမြား မပြုလုပ်နိုင်ကြသေးချေ။ တစတစ တိုးတက် ကောင်းမွန်လာသည်အထိ ပြုပြင်လာရသော အတတ်ဖြစ်သဖြင့် လွယ်လွယ်နှင့် ရေမွှေးကောင်း ဖြစ်လာအောင် စပ်ယူနိုင်မည် မဟုတ်ချေ။ နှစ်ပေါင်းများစွာ လေ့လာမှတ်သားလာခဲ့သူ၊ ကျွမ်းကျင်သည့် ရေမွှေးစပ်သူများကသာ ရေမွှေးကောင်းဖြစ်လာအောင် ရောစပ်ပေးနိုင်လေသည်။ ထိုရေမွှေး ရောစပ်သူများက တိရစ္ဆာန်၊ အပင်နှင့် ဓာတုဗေဒနည်းဖြင့် လုပ်ယူသည့် ရေမွှေးအမျိုးမျိုးကို ရောစပ်ယူကြသည်။ ရေမွှေးအမျိုးမျိုး ဖြစ်အောင် ထိုအခြေခံ ရေမွှေးများကို အချိုးအမျိုးမျိုးဖြင့် စပ်ယူ နိုင်ပေသည်။ ရေမွှေးအကောင်းဆုံးတွင် တိရစ္ဆာန်မှ ရရှိသည့် အမွှေးအကြိုင် အများဆုံးပါသည်။ အကောင်းဆုံး ရေမွှေးကို များသောအားဖြင့် ပြင်သစ်နိုင်ငံတွင် ပြုလုပ်သည်။

ယခုအခါတွင် ရေမွှေးကို သွားတိုက်ဆေးများ၊ ကိုယ်နှင့် မျက်နှာလိမ်း ပေါင်ဒါများ၊ နှုတ်ခမ်းမွှေးနှင့် မုတ်ဆိတ်မွှေးရိတ် ဆပ်ပြာများ၊ ခေါင်းလိမ်းဆီများနှင့် ဆပ်ပြာများတွင်ပါ ထည့်၍ အသုံးပြုကြလေသည်။

တိရစ္ဆာန်များမှ ရရှိသည့် အမွှေးအကြိုင်များသည် အနံ့ပြင်း၍ ထိရောက်ပြီးလျှင် တာရှည်ခံသဖြင့် လွန်စွာတန်ဖိုးရှိကြလေသည်။ ထိုတိရစ္ဆာန်အဆီများကို များများသုံးလျှင် မူးနောက်နောက် ဖြစ်စေသော်လည်း အနံ့ပျော့သည့် ပန်းများမှ ရရှိသော အမွှေးအကြိုင်များတွင် အနည်းငယ် ထည့်ပေးလျှင် အနံ့ပျော့ခြင်းမှ အနံ့ပြင်းလာနိုင်ပြီးလျှင် တာရှည်လည်း ခံလာတတ်သည်။ တိရစ္ဆာန်များမှ ရရှိသည့် အမွှေးအကြိုင်များကို အရက်ပြန်နှင့် ရောပြီးလျှင် ရေမွှေးများတွင် စပ်လေ့ရှိကြသည်။

တိရစ္ဆာန်များမှ ရရှိသည့် အချို့ အမွှေးအကြိုင်များမှာ ဗီဗာဖျံမှ ရရှိသည့် ကက်စတာ ခေါ် ဆီတမျိုး၊ ကြောင်ကတိုး မှ ရရှိသည့် ဆီတမျိုးနှင့် ကတိုးတွင် အထူးအိတ်က လေး၌ရှိသည့် ကတိုးဆီများ ဖြစ်သည်။

ကြောင်ကတိုးမှ ရရှိသည့် အမွှေးအကြိုင်ကို မျက်နှာနှင့် ကိုယ်လိမ်းပေါင်ဒါများတွင် ထည့်ပေးလေ့ ရှိကြသည်။ အလွန်ကောင်းမွန်သည့် ရေမွှေးများတွင် ကတိုးဆီသည် ပါစမြဲဖြစ်၏။ တရုပ်နိုင်ငံမှရရှိသည့် တုန်ကင် ကတိုးသည် ကတိုးတွင် အကောင်းဆုံး ဖြစ်ပြီးလျှင် ဈေးလည်း အကောင်းဆုံးဖြစ်၍ တိရစ္ဆာန်မှ ရရှိသည့် အမွှေးအကြိုင် ဖြစ်သည်။ ကက်စတာဆီကို အရက်ပြန်နှင့် ခပ်ပျော့ပျော့ ရောစပ်ထားပြီးလျှင် ရေမွှေးအမြောက်အမြားတွင် အသုံးပြုလေ့ ရှိကြလေသည်။

မွှေးကြိုင်သည့် အပင်များတွင် အမွှေးအကြိုင်များကို အိတ်ငယ်ကလေးများတွင် သိုလှောင်ထားလေ့ ရှိကြသည်။ ထိုအမွှေးအကြိုင်မှာ ဆီဖြစ်၍ ရေမွှေးလုပ်သူများက ထိုဆီ



ရေမွှေးထုတ်လုပ်ယူရသည့် လာဗင်ဒါခေါ် ရေမွှေးပင်

ကို အရေးကြီးသည့်ဆီ ဟု ခေါ် လေ့ရှိကြသည်။ အပင်အမျိုးမျိုးတွင် နေရာအမျိုးမျိုး၌ အရေးကြီးသည့်ဆီ ရှိကြလေသည်။ အနံ့ပြေပြစ်သည့် ရေမွှေးများသည် များသောအားဖြင့် ပန်းပွင့်များမှ လုပ်ယူကြခြင်းဖြစ်သည်။ ရေမွှေးပြုလုပ်သူများသည် အရေးကြီးသည့် ဆီများကို ပန်းပွင့်များမှ နည်းအမျိုးမျိုးဖြင့် ထုတ်ယူကြလေသည်။

မွှေးကြိုင်သည့် ပန်းပွင့်များ၏ ပွင့်ချပ်များကို ရေနှင့် ပြုတ်လိုက်သောအခါ ပွင့်ချပ်များရှိ အရေးကြီးသည့် ဆီသည် ခိုးငွေ့အဖြစ်သို့ လျင်မြန်စွာ ပြောင်းလဲသွား၏။ ထို့နောက်မှ ခိုးငွေ့များကို အအေးခံ၍ အရည်အဖြစ်သို့ ပြန်၍ ပြောင်းလဲသွားစေသည်။

အခြား တနည်းဖြင့် အရေးကြီးသည့်ဆီကို ထုတ်ယူရာတွင် မှန်ချပ်များကို အနံ့မရှိသောဆီများ သုတ်၍ ပန်းပွင့်တို့၏ ပွင့်ချပ်များကို ထိုမှန်များပေါ်တွင် တဖန် ဖြန့်ပြီးလျှင် အခြားဆီသုတ်ထားသည့် မှန်ချပ်များဖြင့် ဖိပေးပြန်သည်။ ထိုနည်းဖြင့် ဆီများက ပန်းပွင့်ချပ်များရှိ အရေးကြီးသည့် ဆီကိုစုတ်ယူလေသည်။ တဖန် အရေးကြီးသည့်ဆီကို ဆီများမှ ထုတ်ယူရပေဦးမည်။ ထုတ်ယူရာတွင် ဆီများကို အရက်ပြန်နှင့် ရော၍ ပိတ်ထားသည့် အိုးတလုံးတွင် ထည့်ကာ အပူတိုက်ပေးသည်။ အရက်ပြန်သည် အရေးကြီးသည့် ဆီနှင့် ရောပြီးလျှင် အပေါ် သို့ တက်လာသည်။ ထိုအခါ ထိုသို့တက်လာသော အရေးကြီးသည့်ဆီနှင့် အရက်ပြန်ကို ခတ်ယူကြလေသည်။

ရှောက်နှင့် လိမ်မော်တို့ကဲ့သို့ အသီးများတွင် အရေးကြီးသည့် ဆီသည် အသီး၏အခွံတွင် ရှိနေသဖြင့် ထိုအရေးကြီးသည့် ဆီကို ညှစ်ယူကြလေသည်။

ပူဒီနာပင်တွင်မူ အရေးကြီးသည့်ဆီသည် အရွက်နှင့် ပင်စည်တို့တွင် ရှိနေလေသည်။ သစ်ကြံပိုး တွင်ကား အရေးကြီးသည့်ဆီသည် အခေါက်များတွင် တည်ရှိနေသည်။ သစ်နီ၊ ဆီဒါထင်းရှူး မျိုးနှင့် စန္ဒကူးတို့တွင် အရေးကြီးသည့်ဆီသည် သစ်သား၌ပင် ရှိနေလေသည်။ လေးညှင်း၊ ဇာဒိပ္ဖိုလ်နှင့် စမုန်စပါးတို့၌ အရေးကြီးသည့်ဆီသည် အစေ့များတွင် ရှိနေသည်။ မွှေးကြိုင်သည့် အစေးများကို ယူရန်အတွက်ကိုမူ အပင်များကို ဓားနှင့်ထစ်၍ ယူကြရသည်။

အရေးကြီးသည့်ဆီကို မည်သည့်ပစ္စည်းမျိုးမှ ရယူသည်ဖြစ်စေ လုပ်သက်ရှည်ပြီးလျှင် အလွန်ကျွမ်းကျင်သူမှသာ ထိုအရေးကြီးသည့်ဆီကို ထုတ်ယူ နိုင်လေသည်။ ထိုဆီကို ထုတ်ယူရာတွင် အနည်းငယ်မျှ လွဲမှားခြင်းကြောင့် လိုသည့် အနံ့ကို မရနိုင်ဘဲ အခြားအနံ့တမျိုးမျိုးကို ရရှိတတ်သည်။ အထူးသဖြင့် ပန်းပွင့်များမှ အရေးကြီးသည့်ဆီကို ထုတ်ယူရာတွင် လွန်စွာ အရေးကြီးလေသည်။ ပန်းပွင့်များကို အနေတော်တွင် ခူးယူရပြီးလျှင် အရေးကြီးသည့်ဆီကို ဂရုတစိုက် ထုတ်ယူရလေသည်။

ကျောက်မီးသွေး ကတ္တရာထွက် ပစ္စည်းများမှ ဓာတုဗေဒပညာရှင်များသည် ဆင်းသတစ်နည်း (သမ္ဘာရနည်း) ဖြင့် ရေမွှေးများကို လုပ်ယူကြသည်။ ထိုသို့ပြုလုပ်ရာတွင် ဓာတုဗေဒပညာရှင်တို့သည် အရေးကြီးသည့်ဆီ အမျိုးမျိုးကို ခွဲခြမ်းစိတ်ဖြာခဲ့ကြည့်ကြလေသည်။ထိုသို့ဓာတ်ခွဲပြီးသော် ထိုအရေးကြီးသည့် ဆီများ၏ ဓာတုဗေဒနည်းဖြင့် ဖြစ်ပေါ် နေပုံကို အတုယူ၍ လုပ်ယူကြလေသည်။ ထိုသို့ ဓာတုဗေဒပညာရှင်များ လုပ်ယူသော ရေမွှေးများသည် အပေါစား အတုများမဟုတ်ကြချေ။ အမှန်မှာ ထိုသို့ ဆင်းသတစ်နည်းဖြင့် လုပ်ယူသည့် ရေမွှေးများသည် ရေမွှေးအစစ်များနှင့် များသောအားဖြင့် ဓာတ်သဘောတွင် တထေဝတည်း တူသည့်အပြင် အညစ်အကြေး ပါရှိရာ၌လည်း ရေမွှေးအစစ်ထက်ပင် ပို၍ အပါနည်းနိုင်လေသည်။ သို့သော် ထိုသို့ ဓာတုဗေဒနည်းဖြင့် လုပ်ယူသောရေမွှေးများသည် ရေမွှေးအစစ်များထက် ပို၍ ဈေးသက်သာလေသည်။

မြန်မာနိုင်ငံရှိ ဘီ-ပီ-အိုင် ခေါ် မြန်မာနိုင်ငံ ဆေးဝါးထုတ်လုပ်ရေးလုပ်ငန်းမှ ရေမွှေးများကို ယခုအခါ ပြုလုပ်ရောင်းချလျက် ရှိလေသည်။

**ရေယာဥ်ပုံ**။ ။လေယာဥ်ပုံ — ရှု။

**ရေယွန်**။ ။ရေယွန် ဆိုသည်မှာ သစ်ပျော့ဖတ်၊ သို့မဟုတ် အစေ့ကပ် ဝါမျှင်တို့မှ ဓာတုဗေဒနည်းဖြင့် စီမံပြုလုပ်ထားသော ပိုးတုဖြစ်သည်။ ပိုးတုဟု ဆိုသော်လည်း ယခုအခါ ရေယွန်ပိုး ဟူ၍ပင် အခေါ် များကြပေသည်။

ဤပိုးတုကို မလုပ်တတ်မီ အခါက ပိုးမွေးမြူသော သူတို့သည် ပိုးမျှင်ထွက်သော ပိုးကောင်ကလေး သန်းပေါင်းများစွာကို အပင်ပန်းခံ၍ တယုတယ မွေးမြူခဲ့ကြရသည်။ ပိုးမွေးမြူသော အလုပ်မှာ အချိန်ကုန်၍ ငွေကုန်ကြေးကျလည်း အလွန်များ၏။ သို့ရာတွင် လိုအပ်သော ပိုးမျှင်ကို အခြားနည်းများဖြင့် မရနိုင်သောကြောင့် ပိုးမွေးမြူသည့် အလုပ်ကိုပင် အစဉ်အဆက် အားကိုး လုပ်ကိုင်ခဲ့ကြရလေသည်။ ၁၇ ရာစုနှစ်သို့ ရောက်လာသောအခါ ပိုးမျှင်ကို လူတို့လုပ်နိုင်လျှင် မည်မျှကောင်းအံ့နည်း၊ လူတို့ကြံစည်ပြုလုပ်လျှင် မဖြစ်နိုင်ဘဲ ရှိအံ့လော ဟူ၍ သိပ္ပံပညာရှင်ကြီးအချို့၏ စိတ်တွင် ဖြစ်ပေါ် လာသည်။ သိပ္ပံပညာရှင် အသီးအသီးပင် နည်းအမျိုးမျိုးဖြင့် စမ်းသပ် ကြိုးစားကြ၏။ သို့ရာတွင် နောင်နှစ်ပေါင်း ၁၅၀ မှ ၂၀၀ တိုင်အောင် မည်သူမျှ ကြိုးစားရာ၌ မအောင်မြင်ခဲ့ပေ။

ရေယွန်ပိုးကို ရှေးဦးပဌမ အောင်မြင်စွာ စမ်းသပ် ပြုလုပ်နိုင်သူမှာ ကောင့် အီလဲ့ ဒါ ရှာဒိုနေ အမည်ရှိသော ပြင်သစ်လူမျိုး လူငယ်သိပ္ပံပညာရှင်တဦးပင်ဖြစ်သည်။ သူသည် ပါစတာ ခေါ် ကမ္ဘာကျော် သိပ္ပံပညာရှင်ကြီးထံတွင် ပညာရပ်များကို ဆည်းပူးလျက် ရှိစဉ် ပိုးတုလုပ်ငန်း၌ လေ့လာစမ်းသပ်ပြီးနောက် ၁၈၈၄–၈၅ ခုနှစ်၌ မိမိ၏ ပိုးတုပြုလုပ်နည်းကို ရှေးဦးစွာ မူပိုင်ခွင့် မှတ်ပုံတင်နိုင်ခဲ့လေသည်။

ရှာဒိုနေသည် ၁၈၈၉ ခုနှစ်တွင် ပဌမ ရေယွန်ပိုးအလုပ်ရုံတရုံကို တည်ထောင်သည်။ သို့သော် သူ့နည်းမှာ စရိတ်အကုန်အကျများလှပေသည်။ နောင်တွင် ကရော့စနှင့် ဗီဗန် အမည်ရှိသော အင်္ဂလိပ်လူမျိုး ဓာတုဗေဒပညာရှင် နှစ်ဦးက ဗစ္စကို နည်းကို တွေ့ရှိသောအခါမှ ရေယွန်ပိုးကို ဈေးပေါပေါနှင့် ပြုလုပ် ရောင်းချနိုင်လာကြသည်။ ယခုအခါ အက်ဆက်တိတ်နှင့် ဗင်ဗတ်နည်းများကိုလည်း အသုံးပြုကြပေသည်။ အက်ဆက်တိတ်နည်းဖြင့် ပြုလုပ်သော ရေယွန်ပိုးထည်သည် မီးပူတိုက်လျှင် အရောင်တောက်လာ၍ အပူလွန်လျှင် ပျော်ပင် ပျော်သွားတတ်သည်။ သို့သော် အလွယ်တကူနှင့်ကား မညစ်မနွမ်းနိုင်ချေ။

မည်သည့် နည်းနှင့် ပြုလုပ်သည် ဖြစ်စေ၊ ရေယွန် ပိုးတုသည် ပိုးစစ်နှင့်မခြား အလွန်ကောင်းသော အထည် ပစ္စည်းဖြစ်၍ ပိုးစစ်ထက်ပင် ပိုမိုခိုင်ခံ့သေး၏။ တန်ဖိုးမှာမူ ပိုးစစ်ထက် များစွာ သက်သာပေသည်။ ပိုးတုပင် ဖြစ်သော်လည်း ရေယွန်ကို ယခုအခါ ပိုးတု ဟု သဘော မထားကြတော့ဘဲ လူတို့၏ အသုံးအဆောင် အထည်အလိပ်များအဖြစ် အလွန်အသုံးများလာလေပြီ။ ရေယွန်ကို ဆေးဆိုးသောအခါ ပိုးစစ်ထက် ပို၍ ဆေးစွဲသည်ကိုလည်း တွေ့ရသည်။ မကြာမကြာလည်း ရေယွန်ကို ပိုးစစ်နှင့် ဖြစ်စေ၊ အခြား ပစ္စည်းများနှင့် ဖြစ်စေ ရော၍ အသုံးပြုထားသည်ကို တွေ့ရသည်။ ဒုတိယ ကမ္ဘာစစ်ကြီး အတွင်းက ရေယွန်ကို ရာဗာ(ကြက်ပေါင်စေး) ဖြင့် ရော၍ တိုင်ယာများ ပြုလုပ်ရာတွင် ထည့်သွင်း အသုံးချကြည့်ရာ အလွန်ကောင်းမွန်သည်ကို တွေ့ခဲ့ရလေသည်။

ရေယွန် ပြုလုပ်နည်းမှာ အံ့တပါးဟုပင် ဆိုရပေမည်။ ရှေးဦးစွာ စပရု ခေါ် ထင်းရှူးပင် တမျိုးကို စက်ရုံထဲသို့ သွင်းပေးရပြီးနောက် စက်ရုံထဲမှ ထွက်လာသောအခါ ထင်းရှူးပင်ဘဝမှ ကတ္တီပါကဲ့သို့ တောက်ပသော ပိုးသားဘဝသို့ ပြောင်းသွားလေသည်။ ဝါနှင့် အစေ့ကပ်ဝါမျှင်တို့များကိုလည်း ရေယွန်ပြုလုပ်ရာတွင် အသုံးပြုလေ့ရှိကြပေသည်။ရေယွန်ပြုလုပ်ပုံမှာ ပိုးကောင်များကိုယ်တိုင် ပိုးမျှင်ဖြစ်အောင်ပြုလုပ်သည့် သဘာဝနည်းကို အခြေပြုထားခြင်းပင် ဖြစ်သည်။ ပိုးကောင်များအကြောင်းကို လေ့လာ စုံစမ်းသောအခါ ပိုးကောင်တို့သည် ပိုးစာရွက်များကိုသာ စားသောက်ကြသည်ကို တွေ့ရသည်။ထို့ကြောင့် ပိုးမျှင်သည် ပိုးကောင်များ စားသောက်သော ပိုးစာရွက်မှ ရသော ပစ္စည်းပင် ဖြစ်ရမည် ဟု သိရသည်။ ထိုပစ္စည်းကား အပင်မှန်သမျှတွင် အခြေခံ ပစ္စည်းအဖြစ်နှင့် ပါဝင်သော ဆဲလျူလို့ ပင်ဖြစ်၍ ထိုဆဲလျူလို့တွင် ကာဗွန်၊ ဟိုင်ဒြိုဂျင်နှင့် အောက်ဆီဂျင်ဓာတ်များ ပါဝင်လေသည်။

ဗစ္စကို နည်းဖြင့် ရေယွန်ပြုလုပ်ရာ၌ စက်ရုံများသို့ ရောက်လာသော သစ်နှင့်ဝါမျှင်များကို ပဌမ ပျော့ဖတ်စက်မှ ပျော့ဖတ်ဖြစ်အောင် လုပ်ပေးလိုက်သည်။ ထို့နောက် အညစ်အကြေးများမှ စင်ကြယ်စေရန် ကော့စတစ် ဆိုဒါရည်ဖြင့် ဆေးပေးပြီးလျှင် အစိတ်စိတ် အမွှာမွှာ ဖြစ်အောင် စက်ဖြင့် ချေပေးရပြန်သည်။ ထိုချေပြီးသား အစအနများကို တဖန် ကာဗွန် ဗိုင်ဆာလဖိုဒ် ပျော်ဝင်ရည် ထည့်ထားသော ကန်တွင် ထည့်ပြီးလျှင် အတော်ကြာအောင် မွှေပေးရသည်။ ထိုအခါ ဆဲလျူလို့ အစအနများသည် လိမ်မော်ရောင်ရှိသော ဆဲလျူလို့ ဇန်သိတ် ခေါ် ပစ္စည်း ဖြစ်လာသည်။

အဆိုပါ ပစ္စည်းကို ကော့စတစ်ဆိုဒါ ပျော်ဝင်ရည်တွင် ဖျော်ပြီးလျှင် စစ်ယူ လိုက်သည်။ ထို့နောက် မှောင်ခန်းတွင်းရှိ ကန်များထဲသို့ စုတ်သွင်းပေးပြီးလျှင် ကန်များထဲ၌ ငါးရက်မျှ ထားပြီးနောက် တဖန် အကြိမ်ကြိမ် ပြန်၍ စစ်ပေးပြန်သည်။ ထိုအခါ ပျားရည်ကဲ့သို့ စေးပျစ်၍ ပယင်းရောင်ရှိသော ပစ္စည်းတမျိုး ဖြစ်လာသည်။ ထိုပစ္စည်းသည် ဗစ္စ

ကို ဖြစ်၍ ထိုပစ္စည်းမှ ပိုးမျှင်ပြုလုပ်ရန် အဆင့်တဆင့်သာ ကျန်ပေတော့သည်။ ထိုသို့ ဗစ္စကိုမှတဆင့် ရေယွန်ပြုလုပ်ယူရသောကြောင့် ဤနည်းကို ဗစ္စကိုနည်းဟု ခေါ်တွင်ခြင်း ဖြစ်သည်။

ပိုးမျှင် ပြုလုပ်ရာတွင် စပင်းနာရက်ခေါ် အပေါက်ကလေးများ ဖောက်ထားသော ခေါင်းမှ ဗစ္စကိုရည်ကို ပန်းထုတ်ပေးရ၏။ ထိုခေါင်းကို ရွှေ၊ သို့မဟုတ် ပလက်တီနမ်ဖြင့် ပြုလုပ်ထား၍ သာမန်မျက်စိဖြင့် မမြင်နိုင်လောက်အောင် သေးငယ်သော အပေါက်ကလေးပေါင်း ၁၈ ပေါက်မှ ၁၄၄ ပေါက်အထိ ဖောက်ထားသည်။ စပင်းနာရက်ကို ပြွန်ထိပ်တွင်တပ်၍ ဗစ္စကိုရည်ကို စက်အားဖြင့် ပန်းထုတ်လိုက်သောအခါ အလွန် သေးငယ်သော အမျှင်ကလေးများပန်း၍ထွက်လာသည်။ ထိုအမျှင်ကလေးများကို ခေါင်းမှ ထွက်လာလျှင်လာခြင်း အက်ဆစ် ပျော်ဝင်ရည်ထည့်ထားသော ကန်ထဲသို့ကျစေသည်။ အက်ဆစ်နှင့်တွေ့သောအခါ အမျှင်ကလေးများသည် ချက်ခြင်း မာကျောတောင့်တင်းသွားသည်။ ထိုအမျှင်ကလေးများသည် ပင့်ကူမျှင်တမျှ သေးငယ်ကြ၏။ သို့သော် ပင့်ကူမျှင်ထက် ပို၍ ခိုင်ခံ့လေသည်။

ထိုနောက် ခြည်ငင်စက်ဖြင့် ထို အမျှင်ကလေးများကို ခြည်မျှင်ဖြစ်အောင် ငင်ပေးရ၏။ ခြည်မျှင်များကို တဖန်အခင်များဖြစ်အောင် ရစ်ထုံးပေးပြီးသော် ဆေးဖြင့်ချတ်လိုက်သောအခါတွင် ပကတိ အဖြူရောင်ဖြစ်သွားတော့၏။ ထိုခြည်ခင်များကို သေချာစွာ ဆေးကြော သွေ့ခြောက်စေပြီးနောက် အရောင်နှင့် နူးညံ့ပုံအလိုက် ရွေးချယ်၍ စက်ရုံများသို့ အထည်အလိပ်ရက်ရန် နောက်ဆုံး ပေးပို့လိုက်ကြသည်။

ငင်ခြင်း ရက်ခြင်းမရှိဘဲ ဗစ္စကိုရည်မှ တိုက်ရိုက် ဇာနှင့် ပိုက်ကွန်များ ပြုလုပ်သည့် စက်မျိုးလည်း ရှိသေး၏။ ထိုစက်မျိုးတွင် သံမဏိ ဆလင်ဒါများပေါ်၌ အလိုရှိသော ဇာ၊ သို့မဟုတ် ပိုက်ကွန်ပုံအတိုင်း ထုလုပ်ထားသည်။ ထိုနောက် ဗစ္စကိုရည်ကို လိုသလောက် သံမဏိဆလင်ဒါပေါ်၌ လောင်းပေးရသည်။ ထိုနောက် ဆလင်ဒါကို အက်ဆစ်ရည်တွင် လှည့်ပေးသောအခါ အက်ဆစ်က ပုံထုထားသည့် မြောင်းများအတွင်းရှိ ဗစ္စကိုရည်ကို ရေယွန်ပိုးသားအဖြစ်သို့ပြောင်းလဲသွားစေသည်။ နောက်ဆုံးတွင် ထိုသို့ ဖြစ်ပေါ်၍လာသော ဇာ၊ သို့မဟုတ် ပိုက်ကွန်ကို ဆလင်ဒါမှ ခွာယူရန်သာ လိုပေတော့သည်။

ရေယွန်သည် ခိုင်ခံ့၍ ကြာရှည် အသုံးခံနိုင်၏။ သို့သော် နည်းအမျိုးမျိုးဖြင့် ပြုလုပ် ရရှိသော ရေယွန် အမျိုးမျိုးရှိသည့်အနက် အချို့သောအမျိုးကို စိုစွတ်နေချိန်၌ ပွတ်တိုက်၍ မပေးရ။ ဆပ်ပြာရည်တွင် စိမ်ပြီးလျှင် ချေးစင်အောင် ဆုပ်နယ်ပေးရုံသာ ပြုလုပ်ရသည်။ ထိုအပြင် သွေ့ခြောက်အောင် လှန်းရာတွင်လည်း လေတဖျတ်ဖျတ် တိုက်ခတ်နေသည့် နေရာမျိုး၌ မလှန်းရချေ။

**ရေလက်ဝါး**။ ။ရေလက်ဝါးကောင်ကို မြောက်နှင့်တောင် ဝင်ရိုးစွန်းများ အနီးရှိ သမုဒ္ဒရာများမှ လွဲ၍ သမုဒ္ဒရာအနှံ့အပြားတွင် တွေ့နိုင်သည်။ ရေလက်ဝါးကောင်သည် အမြင်တွင် ထူးခြားပုံ ရသော်လည်း တိရစ္ဆာန်လောက၌ ရှေးအကျဆုံး အုပ်စုတခုတွင် ပါဝင်သည်။ ရေလက်ဝါး ကောင်သည် ငါးမဟုတ်ချေ။ ပင်လယ်နေ တိရစ္ဆာန်သာ ဖြစ်သည်။ ရေလက်ဝါးကောင်သည် အီကိုင်နိုဒါမာတာ မျိုးပေါင်းစုတွင် စတာရှိုက်ဒီး မျိုးပေါင်း၌ ပါဝင်လေသည်။

ရေလက်ဝါးကောင်တွင် များသော အားဖြင့် ကြယ်ပုံသဏ္ဌာန်ကဲ့သို့ လက်တံငါးခုရှိတတ်သည်။ အချို့ ရေလက်ဝါးကောင်များတွင် လက်တံ ငါးခုမက ရှိတတ်၍ အချို့တွင်မူ လက်တံပေါင်း လေးဆယ်အထိပင် ရှိတတ်သည်။ ထိုလက်တံများသည် ဗဟိုခန္ဓာကိုယ်နှင့် စာလျှင် အလွန်ရှည်တတ်သည်။ သို့သော် အချို့ ရေလက်ဝါးကောင်၏ လက်တံများသည် အလွန်တိုကြသဖြင့် ကြယ်ပုံသဏ္ဌာန် ရှိရမည့် အစားပဥ္စဂံပုံဖြစ်နေလေသည်။ ရေလက်ဝါးကောင်ကို များသောအားဖြင့် ကန့်လန့်ဖြတ် တိုင်းကြည့်လျှင် ခြောက်လက်မခန့်ရှိတတ်၍ အလယ်ဗဟိုတွင် တလက်မ ထူတတ်သည်။ များသောအားဖြင့် အညိုရောင် ဖြစ်သည်။ ရေလက်ဝါးကောင်သည် ပင်လယ်ဖြူကောင်၊ ပင်လယ်မြွေ၊ ပင်လယ်ငှက်မွေးကောင် များနှင့် နီးစပ်သဖြင့် ထိုတိရစ္ဆာန်များမှာကဲ့သို့ပင် အရေပြားတွင် ဆူးများရှိသည်။ထိုဆူးများသည် အရေပြား၏ အောက်ဖက်ရှိ စကယ်လီတန် အစိတ်အပိုင်းများမှ ဖြစ်ပေါ်လာကြခြင်း ဖြစ်သည်။

ရေလက်ဝါး ကောင်၏ လက်တံများသည် ယင်း၏ ခန္ဓာကိုယ် အလယ်ဗဟိုမှ ဖြစ်ပေါ် လာကြသည်။ ခန္ဓာကိုယ်၏ အောက်ဖက်မျက်နှာပြင်တွင် ယင်း၏ ဗဟိုပါးစပ်ရှိသည်။ ထိုပါးစပ်ကို ဖြဲနိုင်သဖြင့် ရေလက်ဝါးကောင်သည် ယင်း၏ ခန္ဓာကိုယ်ထက် ကြီးမားသော တိရစ္ဆာန်များကိုပင် မျိုနိုင်လေသည်။ ထိုပါးစပ်မှ လက်တံအသီးအသီး၏ အဖျားအထိ လမ်းကြောင်းများရှိသည်။ ထိုလမ်းကြောင်းများတွင် အပေါက်ငယ်ကလေးများ တန်းစီ၍ ရှိနေကြသည်။ ထိုလမ်းကြောင်းများမှ အလင်းပေါက် ပြွန်ခြေထောက်ကလေးများကို ထုတ်နိုင်သည်။ ထိုခြေထောက်ကလေးတခုစီ၏ အဖျားတွင် စုတ်ယူနိုင်သော အပြားဝိုင်းကလေးများ ရှိသည်။ သမုဒ္ဒရာ၏ အောက်ခြေတွင် တွားသွားသော အခါ၌ ထိုခြေထောက်ကလေးများကို အသုံးပြုသည်။ ရေလက်ဝါးကောင်၏ လက်တံတခုခုကို ရန်သူက ဖိထားလျှင် ရေလက်



လက်တံငါးခုရှိသည့် ရေလက်ဝါးကောင်

ဝါးကောင်သည် ထိုလက်တံကို ဖြတ်၍ ထွက်ပြေးနိုင်လေသည်။ ထိုပြတ်သွားသော လက်တံသည် မကြာမီ အတွင်း၌ ပြန်၍ ထွက်လာလေသည်။ လက်တံ၏ အဖျားတွင် မျက်စိ ခေါ် အရောင်ရှိ သည့် အစက်ကလေး ရှိသည်။ မျက်စိကို ကာကွယ်ပေးရန် မျက်စိကလေး၏ ပတ်ဝန်းကျင်တွင် ဆူးကလေးများ ဝိုင်းရံတည်ရှိသည်။

ရေလက်ဝါး ကောင်၏ လက်တံတခု ပြတ်သွားလျှင် ပြတ်သွားသည့် နေရာမှ ပြန်၍ လက်တံ ထွက်လာနိုင်ရုံမက ရေလက်ဝါးကောင်၏ ခန္ဓာကိုယ်ကို နှစ်ပိုင်း ပိုင်းလိုက်လျှင်လည်း တပိုင်းစီမှ ရေလက်ဝါးတကောင်စီ ဖြစ်လာ နိုင်လေသည်။ ထိုသို့ ဖြစ်နိုင်စွမ်းရှိခြင်းကို မျိုးဆက်နိုင်စွမ်း ရှိသည်ဟု ဆိုသည်။

ရေလက်ဝါး ကောင်၏ ခန္ဓာကိုယ် တခုလုံးလိုလိုသည် အိတ်ကဲ့သို့သော အစာအိမ် ဖြစ်သည်။ ပါးစပ်သည် ထိုအစာအိမ် အတွင်းသို့ ပွင့်လျက်ရှိသည်။ အစာအိမ်၏ အထပ်များသည် လက်တံများအထိ ပြန့်လျက် ရှိကြသည်။ ရေလက်ဝါးကောင်သည် အစားလောဘကြီးသော တိရစ္ဆာန်ဖြစ်သဖြင့် ရရာအစာကို စားမျိုလေ့ ရှိသည်။ သို့သော် ယင်း၏ အဓိက အစာများမှာ ယောက်သွား၊ ကမာ၊ ခုံးပျော့နှင့် ခရုပက်ကျိများ ဖြစ်ကြသည်။ ကမာ မွေးမြူသော နေရာများတွင် ရေလက်ဝါးကောင်သည် အဓိက အန္တရာယ်အယှက် ပေးသော တိရစ္ဆာန် ဖြစ်သည်။ ကမာကို စားလိုသော အခါတွင် ရေလက်ဝါးကောင်သည် ယင်း၏ ပြွန်ခြေထောက်ကို အသုံးပြုသည်။ ထိုခြေထောက်က ကမာကို နှစ်ခြမ်းခွဲလိုက်သည်။ ပဌမတွင် ကမာသည် ယင်း၏ အခွံကို ဆက်လက်၍ ပိတ်ထားနိုင်သေးသော်လည်း အနည်းငယ်ကြာသော အခါတွင် အားလျော့သွားသဖြင့် အခွံလည်း နှစ်ခြမ်းကွဲသွားလေသည်။ ထိုအခါ ရေလက်ဝါးကောင်သည် ယင်း၏ အစာအိမ်ကို ပါးစပ်မှ အပြင်သို့ ထုတ်လိုက်ပြီးလျှင် ကမာ၏ နူးညံ့သော ခန္ဓာကိုယ်၏ အစိတ်အပိုင်းပတ်ဝန်းကျင်တွင် ထားလိုက်သည်။ ထိုနောက် အဆိုပါ နူးညံ့သော ခန္ဓာကိုယ် အစိတ်အပိုင်းကို ချေလိုက်ပြီးလျှင် ရေလက်ဝါးကောင်သည် ယင်း၏ ခန္ဓာကိုယ်အတွင်းသို့ ချေထားသော ကမာ၏ နူးညံ့သော အစိတ်အပိုင်းကို စုတ်ယူလိုက်လေသည်။

ရေလက်ဝါးကောင်များကို လူများက မစားကြသော်လည်း ထိုအကောင်မျိုးနှင့် နီးစပ်သော ပင်လယ်မြွေမျိုးအချို့ကိုမူ ကမ္ဘာ့အရှေ့ဖက် နိုင်ငံများရှိ လူအချို့က စားသောက်ကြလေသည်။ (ပင်လယ်မြွေ — လည်းရှု။)

**ရေဝတထေရ်**။ ။ဂေါတမ မြတ်စွာဘုရား၏ ဓမ္မသေနာပတိဖြစ်တော်မူသော လက်ျာတော်ရံ အရှင် သာရိပုတ္တရာ၏ ညီတော် အငယ်ဆုံးသည် ရေဝတ ဖြစ်သည်။ အရှင်သာရိပုတ္တရာ အလောင်းတော် ဖြစ်သော ဥပတိဿသည် ဝင်္ဂန္တပုဏ္ဏားနှင့် သာရီပုဏ္ဏေးမတို့မှ မွေးဖွားသော သားသမီး ခုနစ်ဦးအနက် အကြီးဆုံး ဖြစ်သည်။ ဥပတိဿ၏ အောက်တွင် ဥပသေန ဟူသော ဒုတိယသား တယောက်၊ စာလာ ဟူသော သမီးတယောက်၊ ဥပစာလာ ဟူသော သမီးတယောက်၊ သီသူပစာလာ ဟူသော သမီးတယောက်၊ စုန္ဒ ဟူသော သားတယောက်နှင့် ရေဝတ ဟူသော သားတယောက်ကို ဆက်ကာ ဆက်ကာ ဖွားမြင် လေသည်။ (သာရိပုတ္တရာထေရ် — လည်းရှု။)

အရှင်သာရိပုတ္တရာ အလောင်း ဥပတိဿ ရဟန်းပြုသွားသောအခါ ညီဖြစ်သူ ဥပသေနသည် အရှင်သာရိပုတ္တရာကို ချစ်ခင်၍ ကျောင်းတော်သို့ တလတကြိမ် လာရောက်လေ့ရှိရာ တနေ့သ၌ မြတ်စွာဘုရား၏ တရားတော်ကို နာရသဖြင့် သစ္စာတရားကို မြင်သောကြောင့် ထိုနေ့ပင် သာသနာတော်သို့ဝင်၍ ရဟန်းပြုလေသည်။

နှမများ ဖြစ်ကြသော စာလာ၊ ဥပစာလာနှင့် သီသူပစာလာတို့သည်လည်း သာသနာတော်၌ ဘိက္ခုနီများ ပြုလုပ်ကြ၍ ရဟန္တာမများ ဖြစ်ကြကုန်သည်။ စုန္ဒ အမည်ရှိသည့် အရှင်သာရိပုတ္တရာမထေရ်မြတ်၏ ညီတော်ငယ်သည်လည်း နောင်တော်နှင့် အစ်မတော်များ ထံသို့ လာရာတွင် အရှင်သာရိ ပုတ္တရာက ဝတ်စား တန်ဆာကို ချွတ်စေ၍ ရှင်သာမဏေ ပြုပေးတော်မူရာ ခုနစ်နှစ်သားအရွယ် ထိုသာမဏေ ငယ်ကလေးသည် ဆံချသည့်အဆုံး၌ပင် တစပဉ္စကကမ္မဋ္ဌာန်းကို ပွား၍ ရဟန္တာဖြစ်သွားလေသည်။

အရှင် သာရိပုတ္တရာ၏ မယ်တော် ဖြစ်သော သာရိပုဏ္ဏေးမကြီးကလည်း သားသမီး ခုနစ်ယောက်ရှိသည့်အနက် သားအငယ်ဆုံး ရေဝတကလေး တယောက်သာ အိမ်၌ ကျန်ရစ်တော့သဖြင့် ရဟန်းမပြုနိုင်စေရန် အမျိုးမျိုး အကြံထုတ်လျက် ရှိနေရာမှ နောက်ဆုံးတွင် ရေဝတကလေးကို ခုနစ်နှစ်အရွယ် ငယ်စဉ်ကပင် လက်ထပ်ထိမ်းမြား၍ အိမ်ထောင်မှုသံယောဇဉ်ကြိုးဖြင့် ချည်နှောင်ထားရန် ကြံစည် စိတ်ကူးမိလေသည်။ မယ်တော်က ထိုသို့ သာသနာတော်သို့ ဝင်၍ ရဟန်းပြုခြင်းကို မလိုလားသဖြင့် အတားအဆီးပြုလုပ်လိမ့်မည်ကို သိတော်မူသော အရှင် သာရိပုတ္တရာ မထေရ်မြတ်က သိတင်းသုံးဖော်ဖြစ်သော ရဟန်းတို့အား 'ငါ့ညီရေဝတ ရှင်ရဟန်းပြုလိုပါသည် ဆို၍ ကျောင်းသို့ရောက်လာလျှင် ချက်ခြင်းသာ ရှင်သာမဏေ ပြုပေးကြကုန်လော့' ဟု မှာကြားထားတော် မူလေသည်။

သာရိပုဏ္ဏေးမကြီးသည် မိမိ၏ သားအငယ်ဆုံး ရေဝတအား မနီးမဝေးရွာတရွာ၌ ရှိသော အမျိုးဇာတ်၊ ဂုဏ်ရည်တူ အမျိုးသမီးကလေးတဦးနှင့် စေ့စပ် ကြောင်းလမ်းပြီးလျှင် ထိမ်းမြားလက်ထပ်ရန် ရက်သတ်မှတ်လိုက်လေသည်။ ချိန်းထားသည့်နေ့သို့ ရောက်သောအခါ ရေဝတကို မင်္ဂလာဆောင် သတို့သားအဖြစ် ကောင်းမွန်စွာ ဝတ်စားတန်ဆာဆင်ယင်စေ၍ အခြွေအရံ မြောက်မြားစွာနှင့် သတို့သမီး၏ အိမ်သို့ ခေါ်ဆောင်သွားလေသည်။ မင်္ဂလာပွဲ ဆင်ယင်သောအခါ သတို့သမီး၏ ကြီးပွားချမ်းသာခြင်းကို လိုလားတောင့်တ ကြသည့်အတိုင်း သတို့သမီး၏ ဆွေမျိုးတို့က 'သင့်အဖွား သိအပ်သောတရားကို သင်လည်း သိပါစေ၊ သင့်အဖွားကဲ့သို့ ကြာမြင့်စွာ အသက်ရှည်ပါစေ' ဟု ဆုပေးကြလေသည်။

ထိုအခါ ရေဝတသတို့သားက သတို့သမီး၏ အဖွားကား အဘယ်သူ ဖြစ်သနည်းဟု မေးလေလျှင် အသက် ၁၂၀ ရှိလျက် သွားကျိုး၊ ဆံဖြူ၊ အရေတွန့်၊ မှည့်စွဲ၍ နရီးကြဲတဲရှိသော အမေအိုကြီးကို ညွှန်ပြကြသဖြင့် သတို့သမီးကလေးသည်လည်း ဤသို့ ဖြစ်ဦးမည်လော ဆက်၍မေးပြန်သောအခါ အကယ်၍ အသက်ရှည်လျှင် ဤသို့ပင် ဖြစ်ရလိမ့်ဦးမည် ဟု ဖြေရာ ပါရမီအခံ ရင့်ကျက်ပြီးသူ ရေဝတသတို့သားသည် ဤမျှလှပတင့်တယ်သောကိုယ်ကိုပင် အိုမင်းခြင်းသည် ဤမျှ ဖောက်ပြန်ခြင်းသို့ရောက်စေဦးမည်ပါတကား၊ ငါ၏ နောင်တော်ကြီးသည်ဤဆင်းရဲခြင်းကိုမြင်သည်ဖြစ်လတ္တံ့။ ငါလည်း ယနေ့ပင် ထွက်ပြေး၍ နောင်တော်ကြီးကဲ့သို့ ရဟန်းပြုတော့အံ့ ဟု အကြံဖြစ်လေသည်။

မင်္ဂလာပွဲပြီးစီးသောအခါ မိဖတို့သည် သတို့သမီးငယ်ကို ရေဝတ သတို့သားနှင့်အတူ ယာဉ်ငယ်တခုကို စီးစေလျက် ရွာသို့ ခေါ်ဆောင်ခဲ့လေသည်။

ထွက်ပြေးရန် အကြံရှိသော ရေဝတသည် ခရီးသွား၍ အတန်ငယ် ကြာသောအခါ ကိုယ်လက် သုတ်သင်လိုပါသည် ဟု အကြောင်းကြားရာ ယာဉ်ငယ်ကို ရပ်ပေးသဖြင့် ချုံတချုံ၌ ခေတ္တမျှ နေပြီးလျှင် ယာဉ်ငယ်သို့ပြန်သွား၏။ နောက်ခရီးအနည်းငယ် သွားမိပြန်သော် ယခင်အတိုင်းပင် ဆိုပြန်သဖြင့် ယာဉ်ငယ်ကို ရပ်ပေးကြပြန်သည်။ ယခင်အတိုင်း ချုံတချုံတွင် ခေတ္တမျှ နေပြီးလျှင် ယာဉ်ငယ်သို့ ပြန်လာ၍ ခရီး ဆက်ကြပြန်သည်။ တဖန် ခရီးအတန်ငယ် သွားမိပြန်သောအခါ ယခင်အတိုင်းပင် အကြောင်းပြပြန်သဖြင့် ယာဉ်ငယ်ကို ရပ်ပေးလေသည်။ ထိုအခါ ရေဝတသည် ကျင်ကြီးကျင်ငယ် ထကြွခြင်း ခံနေရပြီ ဟု ယူဆကြပြီးလျှင် အစောင့်အရှောက်များကို တင်းကြပ်စွာ မပြုကြတော့ပေ။ နောက်ဆုံးအကြိမ်တွင် ရေဝတသည် ရှေးနည်းအတူ ပြောပြန်ရာ ယာဉ်ကို ရပ်ပေးကြရပြန်သည်။ ထိုအခါ ရေဝတသည် ဆင်းပြီးလျှင် သင်တို့ရှေ့မှ သွားနှင့်ကြကုန်၊ ကျွန်ုပ်ကား

ဖြည်းဖြည်းသာ နောက်မှ လိုက်ပါလာအံ့ဟုဆို၍ ချုံတခုသို့ ရှေးရှု၍ ထွက်ခွာသွားလေ၏။ မိဖဆွေမျိုးများသည်ရေဝတ နောက်မှ လိုက်လာလိမ့်မည် ဟု စိတ်ချယုံကြည်၍ ယာဉ်ကို မောင်းနှင်လျက် သွားမြဲပင် ဆက်၍ သွားကြလေသည်။ ရေဝတကား ထိုချုံကွယ်မှ လျင်မြန်စွာ ထွက်ပြေးလေလျှင် ရဟန်း သုံးကျိပ်တို့နေရာသို့ ရောက်ရှိသွားသဖြင့် ရဟန်းတော်များကို ရှင်သာမဏေ ပြုပေးတော်မူကြရန် တောင်းပန်လေသည်။ ရဟန်းများကလည်း ရေဝတကို အရှင်သာရိပုတ္တရာ၏ ညီတော် အငယ်ဆုံးမှန်း မသိကြသေးသဖြင့် ရုတ်တရက် ရှင်သာမဏေ ပြုလုပ်မပေးကြသော်လည်း ရေဝတ၏ လျှောက်ထားချက်အရ ဓမ္မသေနာပတိကြီး၏ ညီတော်အငယ်ဆုံးမှန်း သိသည်နှင့်ဘပြိုင်နက် ရှင်သာမဏေပြုလုပ်ပေးကြလေကုန်သည်။ ဓမ္မသေနာပတိကြီး ဖြစ်တော်မူသော အရှင်သာရိပုတ္တရာထံသို့လည်း သတင်းပို့ပေးတော်မူကြလေသည်။

သာရိပုတ္တရာ မထေရ်မြတ်သည် ထိုသို့ ညီတော် အငယ်ဆုံး ရှင်သာမဏေဖြစ်ပြီ ဆိုသည်ကို သိသည်နှင့် တပြိုင်နက် သာမဏေကလေးအား စောင့်ရှောက်ရမည့် တာဝန်ရှိသည်က တကြောင်း၊ သာသနာတော်၌ ပျော်ပိုက်သည် မပျော်ပိုက်သည်တို့ကို သိလိုသည်က တကြောင်းတို့ကြောင့် ထိုအကြောင်းများကို လျှောက်ထားပြီးလျှင် မြတ်စွာဘုရားထံ ခွင့်ပန်လေသည်။ ထိုအခါ အလုံးစုံသော အရာကို သိတော်မူသော မြတ်စွာဘုရားက ရေဝတသာမဏေ၏ ကမ္မဋ္ဌာန်း အန္တရာယ် ဖြစ်မည်ကို သိတော်မူသဖြင့် 'သာရိပုတ္တရာ သည်းခံဦးလော့' ဟု ဆို၍ တားမြစ်တော်မူ၏။ အတန်ကြာလတ်သော် အရှင်သာရိပုတ္တရာ မထေရ်မြတ်က မြတ်စွာဘုရားထံသို့ ဒုတိယအကြိမ် ခွင့်ပန်တော်မူပြန်၏။ ထိုအခါ မြတ်စွာဘုရားက 'သာရိပုတ္တရာ သည်းခံဦးလော့၊ ရေဝတထံသို့ ငါကိုယ်တော်တိုင်ပင် လိုက်တော်မူအံ့' ဟု ဆို၍ တားမြစ်တော်မူပြန်သည်။

ရေဝတသာမဏေလည်းထိုရဟန်းတော်များ၏အထံ၌သာ နေလျှင် လိုက်လံ ရှာဖွေသူများနှင့် တွေ့က ပြန်၍ ခေါ် သွားကြမည်ကို စိုးရိမ်သဖြင့် ကမ္မဋ္ဌာန်းတရားကို သင်ယူကာ သပိတ် သင်္ကန်းများကို ယူပြီးလျှင် ထိုအရပ်မှ ထွက်ကြတော် မူလေ၏။ အစဉ်သဖြင့် လူအသိနည်းသော အရပ်ကို ရှာဖွေလျက် ကြွတော်မူရာ ကြမ်းတမ်း ဆိုးရွားလှသည့် ရှားတောကြီး တတောသို့ ရောက်သွားလေ၏။ ထိုရှားတောကြီးသည် မြေလည်း မညီမညွတ်၊ ဆူးငြောင့်ခလုတ်လည်း ပေါများသည်။ ဆွမ်းအတွက်လည်း ခက်ခဲသော နေရာဖြစ်သည်။ သို့သော် ထိုရှားတော၌ပင် ဝါဆိုတော်မူ၍ တရားကို အားထုတ်တော်မူရာ ဝါတွင်း၌ပင် ပဋိသမ္ဘိဒါပတ္တ ရဟန္တာအဖြစ်သို့ ရောက်ရှိတော်မူလေသည်။

ဝါကျွတ်၍ ပဝါရဏာပြုပြီးသော အခါတွင် အရှင်သာရိပုတ္တရာမထေရ်က ညီတော် အထွေးဆုံးထံသို့ သွားရန် ခွင့်ပန်တော်မူပြန်ရာ 'ငါလည်း လိုက်တော်မူအံ့' ဟု မိန့်တော်မူ၍ ရဟန်း ၅၀၀ တို့နှင့်တကွ ရေဝတသာမဏေ ရှိသည်ဟု ကြားရသော အရပ်သို့ ကြွတော်မူလေသည်။

အရှင် ရေဝတသည် မြတ်စွာဘုရား သံဃာတော် ၅၀၀ တို့နှင့် အတူ ကြွလာတော်မူသည်ကို သိ၍ ဂန္ဓကုဋိတိုက်ကိုရင်း၊ ကျောင်း ၅၀၀ တို့ကိုရင်း၊ စင်္ကြံ ၅၀၀၊ နေ့သန့်ရာ ညဥ့်သန့်ရာတို့ကိုရင်း ဖန်ဆင်းတော်မူလေသည်။

မြတ်စွာ ဘုရားသခင်သည် ရှင်ရေဝတထံ၌ တလမျှ သီတင်းသုံးနေထိုင်တော်မူပြီးလျှင် ပြန်၍ကြွသောအခါ၌ အရှင်ရေဝတသည် မြတ်စွာဘုရားကြွတော်မူရာသို့ မလိုက်ဘဲ မြတ်စွာဘုရားနှင့် နောင်တော်ကြီး အရှင်သာရိပုတ္တရာ မထေရ်တို့ကို သင့်လျော်ရုံမျှသာ လိုက်ပို့၍ ထို ရှားတောအရပ်သို့ပင် ပြန်ကြွ၍ သီတင်းသုံးတော်မူသည်။ ထိုနောက် မြတ်စွာဘုရားသခင်သည် ဇေတဝန် ကျောင်းတော်တွင် အရိယာ သံဃာတော်တို့၏ အစည်းအဝေး၌ အရှင်ရေဝတထေရ်ကို အာရညက ဧတဒဂ် အရာ၌ ထားတော်မူလေသည်။

**ရေဝတီနက္ခတ်။ ။နက္ခတ် ၂၇ လုံး — ရှု။**

**ရေဝမ်းဘဲ။** ။ရေဝမ်းဘဲ ငှက်ကို ပါဏဗေဒအလိုအားဖြင့် ပေါ်ဒီစက်ရှုဖီကောလစ်ဟုခေါ် သည်။ မျိုးရင်းမှာ ပေါ်ဒီစီပီတီဒီးဖြစ်သည်။ ရေဝမ်းဘဲကို တစီးမှုတ်(ထစိမှုတ် = ထန်းစေ့မှုတ်)ဟုလည်း ခေါ်သေး၏။ အလျား ကိုးလက်မရှိသည်။ မြန်မာနိုင်ငံရှိ ရေ၌ကျက်စားသော ငှက်များတွင် အငယ်ဆုံးငှက် ဟု ဆိုသည်။ ရန်သူအစအနကို မြင်သည်နှင့် တပြိုင်နက် ရေထဲသို့ ငုပ်လျှိုး၍ သွားတတ်သည်။ ဦးခေါင်းအရောင်မှာ ညိုသည်။ သို့သော် သားပေါက်ချိန်၌ မျက်လုံးရှေ့တွင် အဝါကွက်ပေါ် လာတတ်သည်။ ကိုယ်အောက်ပိုင်းမှာ ဖြူ၍ ပိုးသား အသွေး ရှိသည်။ နှုတ်သီးမှာ တို၍ ချွန်သည်။ အမြီး လုံးဝ မရှိပေ။ အထီးနှင့်အမ ပုံသဏ္ဍာန်ချင်း တူသည်။ ဆောင်းရာသီတွင် ဦးခေါင်းထိပ်နှင့် လည်ကုပ်မှာ မည်းနက်၍ မေးမှာဖြူ၏။ လည်ပင်းတွင် နီညိုရောင်ရှိသည်။

ရေဝမ်းဘဲသည် အလွန်တရာ ရေကူးကျင်လျှင်သည်။ ရေငုပ်သည့်အခါ ရေမျက်နှာပြင်၌ လှိုင်းမထအောင် ငုပ်တတ်သည်။ ရေနှင့် ကင်းကွာ၍ မနေနိုင်ဘဲ၊ အမြဲတမ်းလိုပင် ရေကူး၍ နေသည်။ ပျံသန်းရာ၌ အထူးလျင်မြန်၍ ခရီးရှည် ပျံသန်းနိုင်သည်။ ရေဝမ်းဘဲ၏ အစာမှာ ရေထဲရှိ ပိုးမွှားများ၊ဖားများ၊ ခရုပက်ကျိများ ဖြစ်သည်။ အသံမှာ ချုပ်၍ ရယ်မောသံနှင့် တူသည်။ ထိုအသံကို ခပ်လှမ်းလှမ်းမှပင် ကြားနိုင်သည်။ လန့်ဖျပ်သောအခါ တီ....တီ ဟု အော်တတ်သည်။

ရေဝမ်းဘဲများကို ရေအိုင်နှင့်ရေကန်များတွင် များသောအားဖြင့် တွေ့ရသည်။ မိုးတွင်းအခါတွင် သားပေါက်လေ့ရှိသည်။ အသိုက်များသည် ရေပေါ်၌ မျော၍နေတတ်ကြသည်။ အသိုက်မှ မခွါမီ ဥများကို ပေါင်းပင်များနှင့် ဖုံးအုပ်ထားတတ်သည်။ တမြုံလျှင် ဥပေါင်း သုံးလုံးမှ ခုနစ်လုံးအထိ ရှိသည်။ ဥအရောင်သည် အစတွင် ဖြူနေသော်လည်း တဖြည်းဖြည်း ညိုမည်းသွားသည်။ ငှက်ကလေးများသည် ဥမှ ပေါက်လာသည်နှင့် တပြိုင်နက် ရေကူးတတ်ကြသည်။ ဥဝပ်ခြင်းနှင့် သားငယ်စောင့်ရှောက်ခြင်းတို့ကို အဖိုနှင့် အမနှစ်ဦးစလုံးက ပြုလုပ်ကြသည်။ ရေဝမ်းဘဲကို အာရှတိုက်၊ ဥရောပတိုက်၊ အာဖရိကတိုက်နှင့် ဩစတြေးလီးယားတိုက်များတွင် အနှံ့အပြား တွေ့ကြရသည်။ မြန်မာနိုင်ငံ၌ ယင်းတို့ကို ရာသီဥတု သင့်တင့်လျောက်ပတ်သော ဒေသများတွင် တွေ့ကြရသည်။

**ရေသဖန်းပင်။** ။သဖန်းပင် — ရှု။

**ရေသူမ။** ။ရှေးဟောင်း ပုံပြင်များတွင်၎င်း၊ လူကြီးသူမများ အဆင့်ဆင့် ပြောကြားချက်အရ၎င်း ရေသူမများရှိသည် ဟူသော စကားကို ယခုခေတ်တိုင်အောင်ပင် စွဲလမ်းယုံကြည်သူများ ရှိနေသေးသည်။ ထိုယုံကြည်ချက် အရဆိုသော် ရေသူမများ၏ ဦးခေါင်းနှင့်ကိုယ်မှာ လှပသော လူမိန်းမသဏ္ဍာန်ဖြစ်၍ အကြေးထူသည့် ငါးမြီးကြီးကဲ့သို့သော အမြီးပိုင်း ပါရှိသည်။ သူတို့သည် ပင်လယ်ထဲတွင် ကျက်စား၍ ရေပေါ်သို့ ရုတ်တရက်ပေါ်လာတတ်သည်ဟူ၍၎င်း၊ ရေစပ်ကျောက်ဆောင်ပေါ်တွင် ထိုင်လျက် နေတတ်သည်ဟူ၍၎င်း ပြောဆိုကြ၏။ တခါတရံတွင် လှိုင်းများအပေါ်တွင်ပေါ်ကာ၊ လက်တဖက်တွင် မှန်ကိုကိုင်လျက်၊ အခြားလက်တဖက်ဖြင့် ရွှေဘီး၊ သို့မဟုတ် ပုလဲဘီးဖြင့် ရှည်လျားသော သူတို့၏ ဆံပင်အား ဖြီးနေသည်ကို တွေ့ရသည် ဟု ဆိုကြလေသည်။

သူတို့သည် သူတို့၏ လှပသော ရုပ်ရည်များဖြင့်၎င်း၊ ချိုအေးသော တေးဆိုသံများဖြင့်၎င်း လူယောကျ်ားများကို သွေးဆောင်တတ်ကြသည် ဟု ဆိုသည်။ မှော် ကက်ဦးထုပ်တလုံးကို သူတို့၏အနီးတွင် ထားတတ်ကြပြီးလျှင် ထိုကက်ဦးထုပ်ကို သူတို့နှစ်သက်သူအား ဆောင်းပေးလိုက်ခြင်းဖြင့် ထိုသူသည် ရေအောက်တွင် အတူနေထိုင်နိုင်သည်ဟု အဆိုရှိလေသည်။ ရေသူမများသာမက ရေသူအဖိုများလည်း ရှိပြီးလျှင် လူမိန်းမများကို ဖမ်းဆီးကာ ပေါင်းဖက်နေထိုင်ကြသည် ဟုအဆိုရှိသည်။ ပုံပြင်တခုတွင် ဥရောပတိုက် ရိုင်းမြစ်ကမ်းခြေရှိ ကျောက်ဆောင်တခုပေါ်တွင် တေးသီချင်းများသီဆိုကာ သင်္ဘောသားများအား ဖျားယောင်းတတ်သည့်



ရေသူမပျို( ဝဲ )နှင့် ရေသူအဖို (ယာ) တို့၏ ပုံကို ၁၅ ရာစုခေတ်က ပန်းချီဆွဲကာ ဤသို့ သရုပ်ဖော်ခဲ့သည်။



၁၉ ရာစုခေတ်က ရေးဆွဲသော ရေသူမ ပန်းချီကား

ရေသူမတမျိုး ရှိကြောင်းကို ဖော်ပြထားလေသည်။ အချို့ ပုံပြင်များတွင်ကား ရေသူမများသည် ပင်လယ် သမုဒ္ဒရာကို စွန့်ခွာကာ လူဖြစ်၍လာသည် ဟု ဆိုလေသည်။

ရေသူမများ ရေသူအဖိုများနှင့်စပ်လျဉ်း၍ အနုပညာနှင့် လက်ရာများတွင် မကြာမကြာ တွေ့ရပေသည်။ အမှန်မှာ ဖျံကဲ့သို့သော ရေသတ္တဝါအချို့ကို ခပ်ဝေးဝေးမှ ကြည့်လျှင် လူနှင့် အနည်းငယ်တူတတ်သဖြင့် ထိုသတ္တဝါမျိုးကို ဖွဲ့နွဲ့ကာ ပြောဆို ရေးသားထားခဲ့ကြခြင်း ဖြစ်တန်ရာသည်။

**ရေသစ် မြေသစ် ရှာဖွေခြင်း။** ။ရေသစ်မြေသစ်ရှာဖွေခြင်း ဟု ဆိုရာ၌ အသစ်ဖြစ်လျက် ရှိသော ရေမြေဒေသများကို လိုက်လံရှာဖွေခြင်း ဟူ၍ မဆိုလိုပေ။ သို့ရာတွင် ကမ္ဘာကြီး၏ မြေ ရေ ဒေသများတွင် လူသူ မရောက်ပေါက်သေးသော ဒေသ၊ ယဉ်ကျေးပြီး လူတို့နှင့် လုံးဝ အဆက်အသွယ် မရှိသေးသော ဒေသ အများအပြားပင် ရှိလေရာ ထိုအရပ်များကို လွန်ခဲ့သည့် နှစ်ပေါင်း ငါးဆယ်အထက်က ရေးဆွဲခဲ့သော ကမ္ဘာ့မြေပုံတွင် "မရောက်ရှိသေး" ဟူသည့် အမှတ်အသားဖြင့် ကွက်လပ်များအဖြစ် များစွာ တွေ့ရှိရမည်ဖြစ်၏။ ယခုအခါတွင်မူ ကုန်းကြောင်း၊ သို့မဟုတ် လေကြောင်း တနည်းနည်းဖြင့် ထိုဒေသများသို့ရောက်ရှိကြပြီးဖြစ်လေသည်။

ကမ္ဘာ့မြေပုံတွင် တနေ့တခြား လူမရောက်သေးသော ကွက်လပ်များ နည်းလာသည်နှင့်အမျှ ကမ္ဘာ့ စီးပွားရေးလည်း သိသိသာသာ တိုးတက်ခဲ့လေသည်။ အဘယ်ကြောင့် ဆိုသော် ယခင်က ကွက်လပ်နေရာများတွင် အဖိုးထိုက်တန်သော တွင်းထွက်ရတနာများ၊ သစ်တောထွက် ပစ္စည်းများနှင့် သယံဇာတ ပစ္စည်းများကို တွေ့ကြရသောကြောင့် ဖြစ်၏။ ဤသို့ အကျိုးထူးများကို ခံစားရခြင်းမှာ ဇွဲသတ္တိနှင့် ပြည့်စုံသော ရေသစ်မြေသစ်ရှာသော သူများ၏ ကျေးဇူးကြောင့်ပေတည်း။

ထိုမျှ သာမက ကမ္ဘာ့သမိုင်းကို လေ့လာ လိုက်စားသူတို့ အဖို့လည်း အဖိုးတန်သော အထောက်အထားအကိုးအကားများကို တွေ့ရလေသည်။ ထို့ကြောင့် မြေသစ်များကို စူးစမ်းရှာဖွေခြင်းသည် စီးပွားရေးနယ်သစ် ယဉ်ကျေးမှု နယ်သစ်များကို ရှာဖွေခြင်းပင် ဖြစ်သည် ဟုလည်း ဆိုနိုင်၏။

တခါက လူသူ ရောက်ပေါက်ရန် ခက်ခဲလှသည့် အာဖရိကတောနက်ကြီးကို ဥရောပတိုက်သား လူဖြူတို့ ဖြတ်ကျော်ရန် အကြိမ်ကြိမ် ကြိုးစားခဲ့ကြ၏။ ထိုအတူပင် တောင်အမေရိကတိုက် အလယ်ပိုင်းရှိ တောနက်ကြီးများ၊ အာရှတိုက် အလယ်ပိုင်းရှိ သဲကန္တာရကြီးများကို ဖြတ်ကျော်ရန် ဇွဲလုံ့လကြီးစွာဖြင့် အားထုတ်ခဲ့ကြလေသည်။ ထို့မှတပါး ရေအမြဲခဲနေသော ဝင်ရိုးစွန်းဒေသများသို့ အရောက်သွားမည်ဟူသော ဇွဲနှင့် ထွက်ကြသူများထဲတွင်လည်း မရောက်မီ သေကျေပျက်စီးသူ ဦးရေလည်း မနည်းခဲ့ပေ။

မည်သို့ပင်ဖြစ်စေ၊ ယခုအခါတွင် အာဖရိကတိုက်အတွင်း တောင်မှ မြောက်၊ အရှေ့မှ အနောက် ထုတ်ချင်းပေါက်လမ်းများဖြင့် သွားလာနိုင်ခဲ့ပြီဖြစ်ရာ ယခင်က လူမရောက်သော တောနက်မှ အဖိုးတန် သစ်နှင့် ကြက်ပေါင်စေးများကိုပင် အသုံးပြုကြရပြီ ဖြစ်ရုံမက၊ ထိုဒေသများသို့ အပျော် အမဲလိုက်ရန်ပင် သွားရောက်နိုင်ကြလေပြီ။ တောင်အမေရိကတိုက်တွင်လည်း ထိုအတူ လမ်း ထွင်ခဲ့ကြပြီ ဖြစ်၏။ အာရှတိုက် အလယ်ပိုင်းရှိ ကျယ်ပြန့်သော ဂိုဗီ သဲကန္တာရကြီးကိုလည်း မော်တော်ကားဖြင့် တောက်လျှောက် ဖြတ်ကျော်နိုင်ခဲ့၍ ခရစ်မပေါ်မီ နှစ်ပေါင်း တထောင်ခန့်က စစ်ပွဲများအကြောင်း ရေးထားသည့် စာမူပေါင်း ၃,၀၀၀ ကျော်ကိုလည်း ရရှိခဲ့လေသည်။ ဝင်ရိုးစွန်းဒေသများမှ အဖိုးတန်သားမွေးများကိုလည်း သုံးစွဲကြရပြီ ဖြစ်၏။

သိပ္ပံပညာ ထွန်းကားတိုးတက်လာသည်နှင့် အမျှ စီးပွားရေးနယ်သစ် ယဉ်ကျေးမှုနယ်သစ်များ လိုလာခဲ့ရာ ရေသစ်မြေသစ်ရှာဖွေခြင်းမှာလည်း ပိုမိုလိုလားအပ်သော လုပ်ငန်းတခု ဖြစ်လာ၏။ စက်မှု လက်မှုနှင့် ခေတ်မီ ယာဉ်များတွင် သုံးရန် ဓာတ်ဆီနှင့် အခြားသတ္တုများမှာ တွေ့ရှိပြီးနေရာများတွင် ထွက်သမျှနှင့် မလုံလောက်ရကား ရေသစ် မြေသစ်

များကွင် စူးစမ်းရှာဖွေရန် လိုလာ၏။ ရေသစ် မြေသစ် ရှာဖွေခြင်းတွင် စိတ်ပါဝင်စားသူများလည်း အတော်ပင်များပြားလာသည်။ ရေသစ် မြေသစ်ရှာ ခရီးထွက်သူ ဦးရေမှာလည်း များသည်ထက် များလာကာ တစုပြီးတစု အဆက်မပြတ် ထွက်ခဲ့ကြလေသည်။ ထိုသို့ နယ်သစ်ရှာသမားများတွင် အမျိုးသမီးများလည်း ပါဝင်၏။ အာဖရိကတိုက်ရှိ သဲကန္တာရများတွင်ဖြတ်သန်းသွားလာခဲ့ပြီး၍ ကဗူးမြို့မှ ဆမာကန်မြို့အထိ ရေသစ်မြေသစ် ရှာဖွေရင်း စွန့်စားသွားခဲ့သူမှာ ရိုဇီတာ ဖော့ ဆိုသူ အမျိုးသမီး ဖြစ်လေသည်။

လူ့သမိုင်း ကမ္ဘာ့သမိုင်းကို အခြေအမြစ်နှင့်တကွ လိုက်စားလေ့လာလိုသူတို့သည်လည်း ကမ္ဘာရေမြေ အနှံ့အပြားတွင် ရှေးရှေးအခါကရှိခဲ့သော လူနှင့်တိရစ္ဆာန်တို့၏ အကြွင်းအကျန် ဖြစ်သော အရိုး ဦးခေါင်းခွံများနှင့် အခြား ပစ္စည်းများကို စူးစမ်းရှာဖွေကြ၏။ ထိုသူတို့၏ ရှာဖွေ စုဆောင်းချက်များကြောင့် ကမ္ဘာသူကမ္ဘာသား လူမျိုးပေါင်းများစွာတို့ အစဉ်အဆက် ဆင်းသက်လာခဲ့ပုံ၊ တမျိုးနှင့်တမျိုးမည်သို့ ဆက်သွယ်ခဲ့ပုံကို ကျွန်ုပ်တို့ သိရှိရပေသည်။ ထို့မှတပါး လွန်လေပြီးသော နှစ်ပေါင်း ကုဋေကုဋာက ဤကမ္ဘာကြီး၏ အခြေအနေကိုလည်း မှန်းဆ သိမြင်နိုင်လောက်အောင် အထောက်အထားများစွာတို့ကို တွေ့ခဲ့ကြ၏။ လော့ကာနာဗွန်၊ အိပ် (ချ) ကာတာ၊ ဆာ ဖလင်းဒါး ပဲထရီ၊ ဆာ လီယိုနတ်ဝူလီ၊ ပရော်ဖက်ဆာ ဂါစထရန်း စသော ရှေးဟောင်းပစ္စည်း ကမ္ပည်း ကျောက်စာ သုတေသီ ပုဂ္ဂိုလ်ကြီးတို့သည် အီဂျစ်၊ ဆီးရီးယား၊ ပယ်လက်စတိုင် စသော ယဉ်ကျေးမှု ပဌမဦးဆုံးထွန်းကားရာဒေသများ၏အကြောင်းကို စူးစမ်းရှာဖွေခဲ့ကြလေသည်။

ကုန်းပေါ်တွင် ရေသစ်မြေသစ်များကို စူးစမ်းလေ့လာသည့် နည်းတူ ရေအောက်ရှိ အခြေအနေကိုလည်း စူးစမ်းလေ့လာကြသည်။ သမုဒ္ဒရာ ရေစီးကြောင်းများ၏ အကြောင်းနှင့် တကွ ဝေလငါးကြီးများ၏ အကြောင်းကို မှန်နာကို မင်းသား စူးစမ်း ရှာဖွေလေ့လာခဲ့လေသည်။ ထို့နောက်တွင် ဝီလျံဆန် ဆိုသူသည် မှန်ပြတင်းပေါက်ပါသည့် ရေလုံ သတ္တုချိုင့်ဖြင့် ရေအောက်သို့ ဆင်းကာ ဆန်းကြယ်သော ကျောက်ခက်တောနှင့် ငါးခရုစသော ရေသတ္တဝါတို့၏ နေပုံ ထိုင်ပုံ ရေအောက် မြေမျက်နှာပြင် အခြေအနေတို့ကို ရုပ်ရှင်ကား ရိုက်ခဲ့လေသည်။ ဒေါက်တာ ဝီလျံ ဗီးဗီ ဆိုသူကလည်း ရေလုံသတ္တုချိုင့်ဖြင့် ရေအောက် ပေ ၃,၀၀၀ နက်သော နေရာအထိ ဆင်း၍ မှန်ပြူတင်းမှ ရေထဲရှိ အခြေအနေတို့ကို စူးစမ်း လေ့လာခဲ့လေသည်။ ဗြိတိသျှ သုတေသနဆိုင်ရာ ဒစ်စကာဗာရီ ၂ နှင့် ဝီလျံစကိုးစဘီ အမည်ရှိ သင်္ဘောနှစ်စင်းကို ရေကြောင်းဆိုင်ရာ ရေသစ်မြေသစ် စူးစမ်းရှာဖွေသော လုပ်ငန်းသက်သက်အတွက် အသုံးပြုခဲ့၏။ သမုဒ္ဒရာအတိမ် အနက်ကို စူးစမ်းသည့် ကာနေဂျီ အမည်ရှိ သံမလိုက်နိုင်သည့် သင်္ဘောမှာလည်း စူးစမ်းရှာဖွေမှုတွင် အရေးပါ အရာရောက်လေသည်။

**ရေသွယ်ပြွန်။** ။ရေသည် လူတို့အဖို့ မရှိလျှင်မဖြစ်သော ပစ္စည်းတခုဖြစ်သည်။ ကျွန်ုပ်တို့သည် ရေကို သောက်သုံးရန်၊ ဆေးကြောရန်၊ လျှော်ဖွပ်ရန်အတွက်သာမက စိုက်ပျိုးရန်အတွက်လည်း လို၏။ ထို့ကြောင့် မြို့ကြီး ပြကြီးတိုင်း၌ ဆိုင်ရာအာဏာပိုင်တို့သည် ငွေကုန်ကြေးကျခံ၍ နည်းအမျိုးမျိုးဖြင့် တမြို့လုံး ရေရရှိအောင် စီမံကြသည်။ များသောအားဖြင့်ကား သဘာဝအလျောက် ရေရရာရကြောင်း ဖြစ်သည့် ရေအိုင်ကြီး၊ ရေကန်ကြီးများမှ ရေသွယ်ပြွန်ကြီးများဖြင့် သွယ်ယူသည့် နည်းကို အသုံးပြုကြသည်သာ များသည်။

သိပ္ပံပညာ မထွန်းကားမီ ရှေးခေတ်ဘုရင်များ လက်ထက်က သစ်လုံးများကို ပိုက်လုံးကဲ့သို့ ထွင်းကာ မြင့်မားသည့် အရပ်ရှိ ရေအိုင်များမှ ရေကို ထိုသစ်သားပိုက်လုံးများဖြင့် သွယ်ယူ အသုံးပြုခဲ့ကြဘူးသည်။ အချို့နေရာတွင် ရေကို ပိုက်လုံးအစား ရေမြောင်းဖြင့် သွယ်ယူသည်လည်း ရှိသည်။

ဘီစီ ၁၄ ရာစုနှစ်အတွင်းက ဗက်ဗီလုံးနီးယား၊ အဆီးရီးယားနှင့်အီဂျစ်နိုင်ငံတို့တွင်ရေသွယ်ပြွန်များ ရှိခဲ့ဘူးကြောင်း မှတ်တမ်းများတွင် တွေ့ရ၍ ထိုရေသွယ်ပြွန်များကို ပြုလုပ်သူများမှာ ဂရိလူမျိုးတို့ ဖြစ်သည် ဟု ဆိုသည်။ ရောမတို့သည် ရေသွယ်ပြွန်များပြုလုပ်ရာတွင် ထင်ရှားခဲ့သည့် လူမျိုးဖြစ်၍ ရောမတို့ ကောင်းစားစဉ်က ပြုလုပ် ဖောက်သွယ်ခဲ့သော ရေသွယ် ပြွန်အချို့ကို ယခုထက်တိုင် မပျက်မစီးဘဲ အံ့ဖွယ်တရပ်အနေဖြင့် တွေ့မြင်နိုင်သေးသည်။ ရောမတို့၏ ရေသွယ်ပြွန်များသည် နေရာအများတွင် မြေအောက်မှ ဖြတ်လာကြသော်လည်း မြစ်နှင့်မြစ်ဝှမ်းများကို ဖြတ်ကျော်ရမည့် နေရာမျိုး၌ တန်တားကဲ့သို့ ဆောက်လုပ်ထားသော အုတ်တန်တိုင်းကြီးများပေါ် မှ ကျော်ဖြတ်ဆက်သွယ်ထားသည်ကို တွေ့ရသည်။ ယနေ့တိုင် ရေစီးလျက် ရှိသေးသော ရှေးရောမတို့၏ ရေသွယ်ပြွန်တခုမှာ ပြင်သစ်နိုင်ငံတောင်ပိုင်း၌ ဂါးမြစ်ကို ဖြတ်၍ နင်းမြို့ကို ရေပေးခဲ့သော ပြွန်ဖြစ်၏။ ဘီစီ ၁၇ ခုနှစ်က တည်ဆောက်ခဲ့သော ထိုရေသွယ်ပြွန်သည် ပေပေါင်း ၇၀၀ ရှည်၍ ပေ ၁၆၀ မြင့်သည်။စပိန်နိုင်ငံ၌ ခရစ် ၁၀၀ ပြည့်နှစ်လောက်က ဆီဂိုးဗီးယားမြို့သို့ ၁၀ မိုင်ခရီးမှ သွယ်ခဲ့သော ရေသွယ်ပြွန်သည် ကျောက်တန်တိုင်းကြီးများပေါ် မှ ဖြတ်လာ၍ နေရာအလိုက် ၂၃ ပေမှ ၆၄ ပေအထိ မြင့်လေသည်။

ရှေးက လူတမျိုးနှင့် တမျိုး၊ တမြို့နှင့် တမြို့ စစ်မက်ဖြစ်ပွားစဉ် အဆိုပါ ရေသွယ်ပြွန်များကို သိမ်းပိုက်ထားခြင်းဖြင့် စစ်ကို အောင်နိုင်ခဲ့သည့် ထုံးများလည်း ရှိခဲ့ဘူးသည်။ ၁၇ ရာစုနှစ် အစသို့ ရောက်သောအခါ တဖြည်းဖြည်း တိုးတက်

လာသော သိပ္ပံပညာ၏ ကျေးဇူးကြောင့် ရေလှောင်ကန်နှင့် ရေစုတ်ဖိုပိုင်များ စတင်ပေါ် ပေါက်လာသည်ကို တွေ့ရသည်။ ထိုအချိန်တွင် ပါရစ် မြို့သူမြို့သားများအတွက် စိန်းမြစ်မှ ရေကိုရေစုတ်ဖိုပိုင်ဖြင့် တင်ပြီး သုံးနိုင်ခဲ့ကြသည်။လန်ဒန်မြို့တွင်လည်း ၁၆၀၉ ခုနှစ်၌ ပဌမဦးစွာရေလှောင်ကန်များကို စတင်ဆောက်လုပ်ခဲ့ကြပေသည်။ ရေကို သယ်ယူရာတွင် နည်းနှစ်နည်းကို အသုံးပြုကြ၏။ ပဌမနည်းမှာ ရှေး ရောမလူမျိုးတို့ သုံးခဲ့သည့်အတိုင်း သဘာဝမြေဆွဲအားဖြင့် ရေကို မြင့်ရာမှ နိမ့်ရာသို့ စီးဆင်းစေသည့်နည်း ဖြစ်သည်။ ဤနည်းတွင် မြို့နှင့် နီးနိုင်သမျှနီးသော တောင်ကုန်း ဒေသ၌ တနှစ်ပတ်လုံး သန့်ပြန့်ကြည်လင်စွာ စီးတတ်သည့် မြစ်ချောင်းများကို ရှာဖွေပြီးလျှင် ရေကာတာကို ကန့်လန့်ဖြတ်ဆောက်လုပ်ပေးခြင်းဖြင့် ရေလှောင်ကန် ဟု ခေါ် သော လူလုပ်ရေအိုင် ဖြစ်လာအောင် ရှေးဦးစွာ စီမံ ပေးရသည်။ ထိုရေလှောင်ကန်မှ တဆင့် ရေသွယ်ပြွန်ကြီးများဖြင့် မြို့သို့ အရောက်သွယ်ယူပြီးနောက် ပိုက်လုံးကလေးများဖြင့် တဖန် လိုရာသို့ ပို့ပေးကြရလေသည်။

မြို့ အနီးအနား၌ တောင်များ မရှိခဲ့သော် အနီးအနားရှိ မြစ်များ၊ ကန်များ၊ သို့မဟုတ် တွင်းများမှ ရေကို ရေစုတ်စက်ဖြင့် စုတ်တင်ယူရ၏။ ထိုသို့ စုတ်တင်သောရေကို တခါတရံ ဗဟိုရေပေးပြွန်မကြီးများထဲသို့ တိုက်ရိုက်သွင်းပေးသည်လည်း ရှိ၏။ တခါတရံ မြင့်မားစွာ ဆောက်လုပ်ထားသောစင်ကြီးများပေါ် ရှိ ရေလှောင်စည်ကြီးများထဲသို့ ပဌမဦးစွာ ရေသွင်းပေးပြီးနောက်မှ ရေပေးပြွန်များထဲသို့ စီးဆင်းစေသည်လည်း ရှိလေသည်။

ရောမအင်ပါယာကြီး ပျက်စီးသွားပြီးနောက် ရေသွယ်ပြွန်တည်ဆောက်သည့် လုပ်ငန်းသည်လည်း ကမ္ဘာ၌ ပြောပလောက်အောင် မရှိသလောက် ရပ်စဲသွားခဲ့ရာ၊ ၁ဂ ရာစုနှစ် အလယ်လောက်ရောက်မှ တဖန် ပြန်၍ ပေါ် ပေါက်လာလေသည်။ ထိုအချိန်တွင် သိပ္ပံပညာသည် အထိုက် အလျောက် ထွန်းကားနေပြီ ဖြစ်သဖြင့် ခေတ်သစ်စက်ကရိယာနှင့် ပေါက်ကွဲစေတတ်သော ပစ္စည်းများကို အသုံးပြု၍ တည်ဆောက်သည့် ရေသွယ်ပြွန်များမှာ ရှေးကလောက် အကုန်အကျလည်း မများ၊ အချိန်လည်း မကြာတော့ပေ။

နယူးယော့မြို့ တမြို့တည်း အတွက်ပင် ယခုအခါ ရေလှောင်ကန် အမြောက်အမြားရှိ၏။ အကြီးဆုံး ရေလှောင်ကန်သည် မိုင်တရာ ဝေးသော ကက်စကီးတောင်ပေါ် တွင် ရှိ၍ ၁၂ စတုရန်း မိုင် ကျယ်ဝန်းလေသည်။ အချို့နေရာတွင် ကျောက်တောင်ကို ထွင်းဖောက်ထားသော ရေသွယ်လိုဏ်ခေါင်းသည်အချင်း ၁၅ ပေမျှရှိ၍ သံဖြင့်သွန်းလုပ်ထားသော ရေသွယ် ပိုက်လုံးအချို့သည် အချင်း ခြောက်ပေမျှရှိသည်။ ကာလီဖိုးနီးယားနယ် လော့စိန်းဂျလီးမြို့သို့ ရေပေးသော ရေသွယ်ပြွန်ကြီးများကား ကမ္ဘာတွင် အရှည်ဆုံးဖြစ်၏။ ရေသွယ်ပြွန် နှစ်ခုရှိသည့်အနက် ပြွန်ဟောင်းသည် ၂၃၅ မိုင်ခန့်ရှည်၍၊ ပြွန်သစ်သည် ပေ ၁,၅၀၀ မြင့်သော တောင်တတောင်ကို ကျော်ဖြတ်ကာ မိုင်ပေါင်း ၂၄၂ မိုင်မျှဝေးကွာသော ကော်လိုရားဒိုးမြစ်မှ ရေကို သွယ်ယူထားလေသည်။

သို့ရာတွင် ကျွန်ုပ်တို့သည် ရေလှောင်ကန်များမှ ရေကို ထိုအတိုင်း သောက်သုံးကြသည် မဟုတ်ပေ။ လူတို့ကို ဥပဒ်ပေးနိုင်သည့် ပိုးမွှား အညစ်အကြေးများမှ ကင်းစင်စေရန် ဆိုင်ရာဌာနများက ရေကို အမြဲဂရုစိုက်၍ စစ်ဆေးပြုပြင်ပေးနေရသည်။ ရေကို လိုအပ်သလို စစ်ပေးခြင်း၊ ဆေးခပ်ပေးခြင်း စသည်ဖြင့် အဆင့်ဆင့် သန့်ရှင်းစင်ကြယ်အောင် ပြုလုပ်ပေးပြီးမှသာ လူတို့သုံးစွဲရာ နေရာသို့ ပို့ပေးခြင်း ဖြစ်လေသည်။

**ရေသွင်းစိုက်ပျိုးခြင်း။** ။ရေသွင်းစိုက်ပျိုးခြင်း ဆိုသည်မှာ ရေလှောင်ထားသော နေရာတခုမှ ချောင်းငယ်မြောင်းငယ်တို့ဖြင့်၎င်း၊ အဝီစိတွင်းများမှ ရေစုတ်ယူ၍၎င်း လူတို့ ပြုပြင် ဖန်တီးကာ ကောက်ပဲသီးနှံ စိုက်ရာဒေသ သို့ရေပေးသွင်းခြင်းကို ခေါ် သည်။ ရေပေးသွင်းရာ၌ ရေမအိုင့်အောင် ရေလွှဲပေါက်ထားရလေသည်။ စိုက်ပျိုးပင်များအတွက် အလုံအလောက် မိုးရေ ရနိုင်သောဒေသများတွင် ရေသွင်းပေးရန် မလိုချေ။ မိုးရေလုံလောက်သည်တိုင်အောင် လိုသည့် အချိန်တွင် မိုးရေမရသော ဒေသများအတွက်လည်း စိုက်ပျိုးချိန် မိုးပါးခိုက်တွင် ရေသွင်းပေးလျှင် ပို၍ အကျိုးရှိနိုင်လေသည်။

ရှေးနှစ်ပေါင်း များစွာကပင် မြေဩဇာထက်သန်ပါလျက် ရေလိုနေသဖြင့် အသုံးမဝင် ဖြစ်နေရသော မိုးပါးရေရှားရပ်ဝန်းများရှိ မြေလပ်များကို စိုက်ပျိုးနိုင်ရန် လူတို့ ကြံစည်အားထုတ်ခဲ့ကြသည်ကို ကမ္ဘာ့သမိုင်းစဉ်တွင် အထင်အရှားတွေ့ရပေသည်။ အီဂျစ်လူမျိုးတို့သည် ယနေ့တိုင် နွေရာသီတွင် နိုင်းမြစ်ထဲမှ ရေကို မောင်းတက်ဖြင့် ငင်ယူကာ အနီးအနားရှိ စိုက်ခင်းများသို့ ပို့ဆောင် စိုက်ပျိုးကြ၏။ အိန္ဒိယနိုင်ငံတွင် ဂါလန် ၃၀ ဝင် သားရေအိတ်ကြီးများဖြင့် ရေတွင်းများမှ ရေကို ကျွဲ နွားများ အကူအညီနှင့် ဆွဲငင်ယူပြီးလျှင် မြောင်းများမှတဆင့် စိုက်ပျိုးရာ လယ်ကွက်သို့ ရေသွင်းလေ့ရှိကြသည်။ ထိုအတူပင် အဆီးရီးယား၊ ဗက်ဗီလုံးနီးယား၊ တရုပ် စသော နိုင်ငံများတွင်လည်း မိုးပါးရေရှား ရပ်ဝန်းများ၌ ရေသွင်းစိုက်ပျိုးခဲ့ကြလေသည်။

ခေတ်သစ်တွင်လည်း နိုင်ငံအသီးအသီးမှ အစိုးရတို့သည် ငွေအမြောက်အမြား အကုန်ခံလျက် ကန်၊ဆည်၊ တူးမြောင်းပြုပြင်ခြင်း၊ အသစ်တူးဖော်ခြင်း စသည်တို့ဖြင့် စိုက်ပျိုးရေးဖွံ့ဖြိုးတိုးတက်ရန် ကူညီ အားပေးကြလေသည်။ ယင်းသို့



နယ်သာလန်နိုင်ငံတွင် မြေနိမ့်မှ ရေများကို ဤသို့ ရေထုတ်မြောင်းများဖြင့် သွယ်ထုတ်၍ စိုက်ခင်းသစ်များ ဖန်တီးယူကြသည်။

ဖြင့် ၁၈၉၄ ခုနှစ်တွင် အာဖရိကတိုက်ရှိ နိုင်းမြစ်ကို ဖြတ်ဆောက်ထားသော အက်ဆူဝမ် ဆည်တမံကြီးဖြင့် ပတ်ဝန်းကျင်ရှိ စိုက်ပျိုးရာဒေသများသို့ နွေအခါတွင် ရေလုံလောက်အောင် ပေးစွမ်းနိုင်ခဲ့လေသည်။ ထိုတမံကြီးသည် ၁½ မိုင်မျှပင် ရှည်ပေသည်။ အိန္ဒိယနိုင်ငံ ဂင်္ဂါမြစ်ဝှမ်း၌ တည်ဆောက်ထားသော လွိုက် ဆည်တမံကြီးကလည်း လယ်မြေကေ ရှစ်ကုဋေခန့်ကို ရေပေးနိုင်၏။အိန္ဒိယနိုင်ငံတွင် ဆည်ရေသောက်လယ်ကေပေါင်း ကုဋေ ၅၀ ခန့် ရှိလေသည်။ အမေရိကန်ပြည်ထောင်စု နိုင်ငံတွင် မျက်နှာဖြူများ ဥရောပတိုက်မှ မရောက်မီကပင် နယူးမက္ကဆီကိုနှင့် အယ်ရီဇိုးနားပြည်နယ်များရှိ တိုင်းရင်းသား ပွက်ဗလို လူမျိုးတို့သည် ဆည်မြောင်းဖောက်လုပ်ရေသွယ်ခြင်းကို တတ်မြောက်ပြီး ဖြစ်၏။

စပိန်လူမျိုးတို့ ရောက်လာသောအခါ တမံ တုတ်နည်း၊ ရေလှောင်နည်းများ ထပ်မံသင်ကြားပေးခြင်းဖြင့် လယ်ရေသွင်းလုပ်ငန်း တိုးတက်လာခဲ့၏။ ရှေး ရေလွှဲချောင်းမြောင်းများကို ယနေ့တိုင် သုံးနေကြသည့်ပြင်၊ ကော်လိုရားဒိုးမြစ်၌ ဆောက်လုပ်ထားသော ဗိုလဒါတမံကြီးကဲ့သို့ ခေတ်မီ ရေသွင်းဆည်တမံအများလည်း ရှိလေသည်။

ဆန်စပါးကဲ့သို့သော သီးနှံပင်များစိုက်သော လယ်မြေများသို့ ရေအပြည့်သွင်းရသော်လည်း သစ်သီးဝလံ စိုက်ပျိုးသော ခြံဥယျာဉ်များသို့မူ အပင်ပတ်လည် ရေသွယ်မြောင်းငယ်များ အနှံ့အစပ် တူးဖော် ရေသွင်း ပေးရလေသည်။ အချို့သော အနောက်နိုင်ငံ များတွင် သတ္တုပိုက်လုံး၊ အုပ်ကြွပ်ပိုက်လုံးများကို သုံး၍ မြေအောက်မှ လိုရာအရပ်သို့ ရေသွင်းစိုက်ပျိုးကြ၏။

ရေမရသော နေရာသို့ ရေသွင်း စိုက်ပျိုးခြင်းထက် ရေလွှမ်းနေသော မြေနိမ့်ချိုင့်ဝှမ်း စိမ့်မြေတို့ကို ရေကာတာ၊ ရေလွှဲရေထုတ်မြောင်းများတူး၍ ပြုပြင်အသုံးချစိုက်ပျိုးခြင်းက ပို၍စိတ်ဝင်စားဖွယ်ကောင်းသည်။မြေလပ်နည်းပါးသောအနောက်နိုင်ငံများတွင် စိုက်ပျိုးရန် မြေယာသစ်ရဖို့အတွက် စိမ့်မြေ၊ ပင်လယ်ကမ်းခြေ ရေတိမ်ပိုင်း၊ အင်းတိမ်၊ အိုင်တိမ်တို့ကို ရေလွှဲရေထုတ်မြောင်းများ၊ ရေစုတ်ပိုက်လုံးများအသုံးပြု၍ ခန်းခြောက်သွားအောင် လုပ်ယူရသည်။

ရှေးနှစ်ပေါင်း များစွာကပင် စိုက်ခင်းသစ် ဖန်တီးရာ၌ နာမည်ကျော်ခဲ့သောဒတ်ချလူမျိုးတို့သည် ၁၉၂၀ ပြည့်နှစ်မှ စ၍ ၁၈ မိုင်ရှည်သော ဆည်တမံကြီးဖြင့် မိမိတို့ နယ်သာလန်နိုင်ငံရှိ ဇိုင်ဒါဇီး ခေါ် ပြည်တွင်း ပင်လယ်တိမ်ကို စိုက်ခင်းသစ်ဖြစ်အောင် အနှစ် သုံးဆယ်ကျော် ကြိုးစားကာ ဖန်တီးနိုင်ခဲ့လေသည်။ လေရဟတ် ၃,၀၀၀ ခန့် ရှိသဖြင့် လေရဟတ်နိုင်ငံဟု ခေါ်ရခြင်းမှာလည်း မြေနိမ့်တွင် ဝပ်နေသည့်ရေကို ရေထုတ်မြောင်းသို့ ပို့ဆောင်ရာ၌ လေရဟတ်ကြီးများကို အသုံးချသောကြောင့် ဖြစ်လေသည်။

## ရေသွင်းစိုက်ပျိုးခြင်း



မြန်မာနိုင်ငံ အလယ်ပိုင်း စိုက်ပျိုးရေး လုပ်ငန်း အောင်မြင်ခြင်းမှာ ရေသွယ် စိုက်ပျိုးခြင်းကြောင့် ဖြစ်သည်။

, အင်္ဂလန်နိုင်ငံ အင်္ဂလီယာနယ်မှာ ရှေးက မဖြတ်သန်းနိုင်သော နွံတောကြီး ဖြစ်ခဲ့သော်လည်း အနှစ်တရာအတွင်း တစတစ ပြုပြင်ခဲ့သဖြင့် ယခု အင်္ဂလန်နိုင်ငံ၌ မြေဩဇာ အထက်သန်ဆုံးနယ် ဖြစ်နေလေပြီ။

ရေသွင်းခြင်းလုပ်ငန်းတွင်လူတို့ အသင့်အတင့်အောင်မြင်ခဲ့သော်လည်း လုံးဝအောင်မြင်သည်ကား မဟုတ်ပေ။ ပုံစံအားဖြင့် သဲကန္တာရတွင်းရှိ စမ်းရေ ပေါ်ထွက်ရာအရပ်ဖြစ်သော အိုအေဆစ်တွင် အသီးအနှံ ဖြစ်ထွန်းပေါက်ရောက်သည်ကိုထောက်၍ ရေရလျှင် မည်သည့် သဲကန္တာရမဆို အသုံးဝင်အောင် ပြုပြင်နိုင်ကြောင်း ထင်ရှား လှပေသည်။ သို့သော်လည်း အပြောကျယ်သော ဆဟာရား သဲကန္တာရကြီးကို အသုံးချနိုင်ရန်မှု လူတို့သည် စီမံကိန်း အမျိုးမျိုး ဆွဲ၍ ကြံဆနေကြဆဲ ဖြစ်လေသည်။

အချို့ မိုးပါးရေရှားရပ်ဝန်းများတွင် အဝီစိတွင်း တူးဖော်၍ ရေရယူနိုင်သဖြင့် အသီးအနှံစိုက်နိုင်လေသည်။ အီဂျစ်နှင့် တရုပ်နိုင်ငံတို့တွင် ရှေးအထက်ကျော်ကာရီကပင် ယင်းကဲ့သို့ အဝီစိတွင်းများ တူးဖော် စိုက်ပျိုးခဲ့ကြသည်ဟုဆိုလေသည်။

မြန်မာနိုင်ငံတွင် ရေသွင်းခြင်း လုပ်ငန်းများကို ဆောင်ရွက်လုပ်ကိုင်ရေး၊ ထိန်းသိမ်းစောင့်ရှောက်ရေးနှင့် ကြီးကြပ်အုပ်ချုပ်ရေးအတွက် အဖွဲ့အစည်းတခု ရှိသည်ဖြစ်ရာ၊ ယင်းမှာ လယ်ယာ စိုက်ပျိုးရေးဌာန၏ လက်အောက်ရှိ ဆည်မြောင်းဌာနပင် ဖြစ်လေသည်။ ဆည်မြောင်းဖက် ဆိုင်ရာ အင်ဂျင်နီယာချုပ်သည် ဌာန အကြီးအကဲ ဖြစ်၍ ယင်း၏ လက်အောက်တွင် တိုင်းအင်ဂျင်နီယာများ၊ ခရိုင်အင်ဂျင်နီယာများနှင့် လက်ထောက်အင်ဂျင်နီယာများမှသည် သံကြိုးဆွဲများ၊ ရေတံခါးစောင့်များ အထိ ရာထမ်းမှုထမ်း အမျိုးမျိုးအစားစား ရှိလေသည်။

ပြည်ထောင်စုမြန်မာနိုင်ငံအစိုးရ ဆည်မြောင်းဌာနသည် ရေသွင်းလုပ်ငန်းများကိုသာမက ရေလွှမ်းမိုးခြင်းမှ ကာကွယ် စောင့်ရှောက်ရေး လုပ်ငန်းများကိုလည်း တာဝန် ယူထားရလေသည်။ထိုပြင် ကူးသန်းသွားလာရေးအတွက် တူးဖောက်ခဲ့သော တွံတေးတူးမြောင်းနှင့် ပဲခူး-စစ်တောင်း တူးမြောင်း များကိုလည်း တာဝန် ယူခဲ့ရသည်တွင် ရေကြောင်းသွားလာရေးမှာ ဌာန၏ တာဝန်တခု ဖြစ်လာ၏။ သို့ဖြစ်၍ သဘာဝအခြေအနေများနှင့် တိုင်းပြည်သွင်ပြင်နေထားများအရ ဆည်မြောင်းဌာန၏ လုပ်ငန်းမှာ အထက်မြန်မာပြည်တွင် ရေပေးသွင်းခြင်း ဖြစ်၍၊ အောက်မြန်မာပြည်တွင်မူ ရေကြောင်းသွားလာရေးနှင့် တမံတာရိုးများ ထိန်းသိမ်းစောင့်ရှောက်ခြင်းဟူ၍ နှစ်မျိုးနှစ်စား ကွဲပြားနေပေသည်။

မြန်မာနိုင်ငံရှိ အချို့သော ဆည်မြောင်းများမှာ လွန်ခဲ့သော နှစ်ပေါင်း ၉၀၀ ကျော်လောက်ကပင် တည်ရှိခဲ့ကြ၏။ ပုဂံပြည်အနော်ရထာမင်းစော လက်ထက်တွင် မိတ္ထီလာခရိုင်၊ ကျောက်ဆည်ခရိုင်တို့၌ ဆည်မြောင်း ကန်ချောင်းများ ပြုစုတူးလုပ်ခြင်းဖြင့် နိုင်ငံတော် စည်ပင်သာယာအောင် စီမံဆောင်ရွက်ခဲ့ပုံများကို နိုင်ငံသမိုင်းတွင် ဖော်ပြထားသည်။

ရွှေဘိုခရိုင်တွင် ရေသွင်း တူးမြောင်းများ အများဆုံး ရှိ၏။ ရွှေဘိုမြို့မြောက်ဖက် ၂၆ မိုင်အကွာရှိ ကဘိုရွာတွင် မူးမြစ်မှ ရေများကို ရွှေဘိုတူးမြောင်းနှင့် ရေဦးတူးမြောင်းသို့ ရေသွင်းပေးသည့် ဆည်တော်ကြီးရှိလေသည်။ (ကဘိုရေလွှဲဆည် — လည်းရှု။) ယင်းသည့် တူးမြောင်းနှစ်ခုအား ရေအလို့ငှါ ကိုးစားအားထားရသည့် လယ်မြေပေါင်းမှာ ဧကသုံးသိန်း သုံးသောင်း ခန့်မျှ ဖြစ်၏။ ရှေးခေတ် မြန်မာ့လက်ရာဖြစ်ခဲ့သည့် မူးတူးမြောင်းဟောင်းမှာ ယခင်က ကဘိုဆည်တော်ကြီး အထက် ၂၆ မိုင်အကွာ ကင်းရွာတွင် မူးမြစ်မှရေကို လွှဲယူလျက် တောင်ဖက်သို့ ထိုးဆင်းပြီးလျှင် ရွှေဘိုအနီး မဟာနန္ဒာကန်၌ အဆုံးသတ်လေသည်။

အထက် မြန်မာပြည်ကို အင်္ဂလိပ်တို့ သိမ်းပိုက်ပြီးနောက် ပဌမဆုံး တူးဖော်သည့် တူးမြောင်းမှာ မန္တလေးတူးမြောင်း ဖြစ်၏။ ချောင်းမကြီးမှ ရေများကို ထိုတူးမြောင်းတွင်းသို့ ပေးသွင်းရန်အတွက် ဆည်တော်ကြီးကို မန္တလေး အရှေ့မြောက် မိုင် ၃၀ အကွာရှိ ဆည်တော်၌ ထားရှိ၏။ ထိုတူးမြောင်းသည် ၄၂ မိုင်ရှည်လျား၍ ဧကပေါင်း ရှစ်သောင်းခန့်မျှ ရှိသော လယ်ယာများကို ရေသွင်း ဖြန့်ဖြူး ပေးလေသည်။ ရှေးခေတ်ဟောင်း တူးမြောင်းဖြစ်သော ရွှေတချောင်းတူးမြောင်းသည် မန္တလေးတူးမြောင်းမှ ရေလွှဲယူ၏။ ယင်းကို အားထားနေရသော ဆည်ရေသောက် လယ်ယာများမှာ ဧက တသောင်းငါးထောင်မျှ ရှိ၏။ ထိုပြင် ထုံးဖိုဆည်တော်တူးမြောင်းနှင့် တောင်ကန် ရေကန်တို့ကလည်း ဧကငါးထောင်ခန့်ကို ရေသွင်းပေးသေး၏။

ကျောက်ဆည် ခရိုင်ရှိ ဆည်မြောင်းများမှာ ခရစ်နှစ် ၁၀၀၀ ပြည့်ခန့်တွင်ရှေးမြန်မာမင်းများတူးဖော်ခဲ့သည့်ဆည်မြောင်းများ ဖြစ်၍ ယခုအခါ များစွာသော ဆည်မြောင်းတို့ကို ခေတ်မီစံနစ်အားဖြင့် ပြုပြင် စီမံထားပြီး ဖြစ်သည်။ ယင်းသည့်ဆည်မြောင်းများကို ရေသွင်းဖြည့်တင်းပေးရန် မြောက်ဖက်၌ဇော်ဂျီမြစ်ရှိ၍၊ တောင်ဖက်၌ ပန်းလောင်မြစ် ရှိသည်။ ထိုမြစ်နှစ်သွယ်သည် ကွန်ချာဖြန့်ထားသကဲ့သို့သော မြောင်းမတော်၊ မြောင်းလက်တံ မြောက်မြားစွာတို့ကို ရေ ဖြည့်တင်းပေးလေသည်။ ယင်းတို့ကို အမှီသဟဲ ပြုနေရသော လယ်ယာများမှာ ဧကပေါင်း ၁၇၆,၀၀၀ ခန့်မျှ ရှိ၏။

မိတ္ထီလာခရိုင်ရှိ အင်းရင် တူးမြောင်းနှင့် ဝမ်းတွင်းဆည်မြောင်းများသည် လယ်ယာဧကပေါင်း ၇,၀၀၀ ခန့်ကို ရေသွင်းပေးသည်။ မင်းဘူးခရိုင်၌ ရေသွင်းတူးမြောင်းများကို စလင်းတူးမြောင်းစု၊ မုံး တူးမြောင်းစုနှင့် မန်း တူးမြောင်းစု ဟူ၍ သုံးစုခွဲထားသည်။ စလင်းတူးမြောင်းများကို ၁၉၃၄ ခု

နှစ်တွင် ဖောက်လုပ်ပြီးစီးခဲ့၍ မြန်မာနိုင်ငံတွင် ဒုတိယကမ္ဘာစစ်မဖြစ်မီ နောက်ဆုံး တူးဖော်ခဲ့သော တူးမြောင်းများ ဟု ဆိုရပေမည်။ ဧကပေါင်း ၂၃,၀၀၀ ခန့်ကို ရေသွင်းပေး၏။

မုံး တူးမြောင်းများကိုကား မုံးချောင်း ပေါ်ရှိ မဲဇလီ၌ ဆည်ကြီးတခုပြုလုပ်ပြီးလျှင် ချောင်း၏တဖက်တချက်၌ တူးမြောင်း တူးဖော်ထားလျက် မြစ်ဝှမ်းတလျှောက် လယ်ယာ ဧကပေါင်း ၈၃,၀၀၀ ခန့်ကို ရေသွင်းပေးရန် စီမံထားသည်။

မန်း တူးမြောင်းမှာ ရှေးမြန်မာ တူးမြောင်းဟောင်းကို ပြန်လည် ပြုပြင်ထားသည့် တူးမြောင်း ဖြစ်၏။ ယင်း တူးမြောင်းနှင့် ယင်း၏ တူးမြောင်းခွဲ စကု တူးမြောင်းတို့သည် လယ်ယာဧကပေါင်း ၂၂,၀၀၀ ခန့်ကို ရေသွင်းပေး၏။

မြန်မာ နိုင်ငံတွင် ကန်များမှ ရေပေးသွင်းခြင်းများလည်း ရှိသေး၏။ အဓိက ရေကန်မှာ မိတ္ထီလာကန် ဖြစ်၍ မိတ္ထီလာ ခရိုင်၌ပင် ရှိသော ညောင်ရမ်း မင်းလှကန်သည်လည်း ထင်ရှားသည့်အပြင် အခြား ရေလှောင်ကန်ငယ်လေးများလည်း နိုင်ငံတွင်း အနှံ့အပြား တွေ့ရလေသည်။ မိတ္ထီလာမြို့နှင့် တကွ ပတ်ဝန်းကျင် ဒေသတို့သည် ရေအလို့ငှာ မိတ္ထီလာကန်ကြီးကို မှီခိုအားထားရသည့်ပြင် ဧကပေါင်း လေးသောင်းခန့်သော လယ်ယာတို့သည် ဤကန်ရေကို မှီနေရ၏။ညောင်ရမ်း မင်းလှကန်သည် လယ်ယာဧကပေါင်း နှစ်သောင်း ငါးထောင်ခန့်မျှကို ရေပေးသွင်း၏။ (မိတ္ထီလာကန် — လည်းရှု။)

ရေသွင်းခြင်းကို ဆည်မြောင်းဌာနက အုပ်ချုပ် ပေးသွင်း၏။ မြောင်းမကြီး၊ မြောင်းခွဲ၊ မြောင်းလက်တံ၊ ရေသွယ်မြောင်းငယ် စသဖြင့် အဆင့်ဆင့် ရေလွှတ်ပေးသွင်း၏။ လိုသမျှ ရေကို လယ်သမားတဦးစီက မြောင်းငယ်ကလေးများနှင့် တဆင့် သွယ်ယူရ၏။ မိုးရွာသည့် အပေါ်တွင် အမှီပြု၍ များလျှင် များသလို၊ နည်းလျှင် နည်းသလို ရေလွှတ်ရသဖြင့် တခါတရံ အချို့ နေရာများ၌ မလိုသည့် အချိန်မျိုးတွင် ရေပိုနေသည်ကို တွေ့ရတတ်၏။

မြန်မာနိုင်ငံတွင် သီးနှံအမျိုးမျိုး စိုက်ပျိုးသည့်မြေ ဧကပေါင်းမှာ ၁၉၄၀–၄၁ ခုနှစ်တွင် ၁၇၅.၆၀ သိန်း ဖြစ်သော်လည်း ဒုတိယ ကမ္ဘာစစ်ဒဏ်ကြောင့် ၁၉၄၅–၄၆ ခုနှစ်တွင် စိုက်ပျိုးဧက ၁၀၉.၆၉ သိန်းအထိ ကျဆင်းခဲ့သည်။ စစ်ပြီးသောအခါ တောင်သူလယ်သမားများက မြေယာများကို တိုးချဲ့လုပ်ကိုင်ခဲ့ရာ လွတ်လပ်ရေး ကျေညာသည့်အချိန်တွင် ဧက ၁၄၈.၀၈ သိန်း၊ ထိုနောက် ၁၉၆၀–၆၁ ခုနှစ်တွင် ဧက ၁၅၉.၇၇ သိန်းအထိ တိုးတက်လာခဲ့၍ ၁၉၆၂ ခုနှစ်မှအစပြု ကာ တော်လှန်ရေးအစိုးရ၏ကြိုးပမ်းမှုကြောင့် မြေယာများ တိုးချဲ့လုပ်ကိုင်လာခဲ့ရာ ၁၉၆၃–၆၄ ခုနှစ်တွင် ဧက ၁၉၆.၈၉ သိန်းအထိ အမြင့်ဆုံးလုပ်ကိုင်ခဲ့သည်။ ၁၉၆၅–၆၆ ခုနှစ်တွင်မူ ဧက ၁၉၄.၆၁ သိန်းသာ လုပ်ကိုင်ခဲ့၏။ စိုက်ပျိုး လုပ်ကိုင်နိုင်သည့်မြေရိယာထဲမှ သီးထပ်ပို၍စိုက်ပျိုးနိုင်ခဲ့သည်။

ထိုသို့ စိုက်မြေဧရိယာ၊ သီးဆပ်မြေ ဧရိယာတို့ကို တိုးချဲ့လုပ်ကိုင်နိုင်စေရန် ဆည်မြောင်းများကို တိုးချဲ့ခဲ့၏။ ဒုတိယကမ္ဘာစစ် မဖြစ်မီက ဆည်ရေသောက် ဧရိယာ ၁၅.၆၂ သိန်း (၁၉၄၀–၄၁)ရှိခဲ့ရာ၊ စစ်ကြီးပြီးနောက် ၁၉၆၀–၆၁ ခုနှစ်အထိ ဧက ၁၂.၆၁ သိန်းအထိ လျော့ကျခဲ့သည်။ ထိုနောက်တွင် ဆည်ရေသောက်ဧရိယာသည် တဖြည်းဖြည်း ပြန်လည်တိုးတက်လာခဲ့ရာ ၁၉၆၄–၆၅ ခုနှစ်တွင် ၁၉.၄၁ သိန်းအထိ အမြင့်ဆုံး ရောက်ရှိခဲ့၍ ၁၉၆၅–၆၆ ခုနှစ်တွင် မိုးရေနည်းပါးသဖြင့် ၁၈.၆၀ သိန်းအထိသာ ရှိခဲ့၏။

မြေယာ တိုးချဲ့ စိုက်ပျိုးသည်နှင့် အမျှ မိုးရေကြီးခြင်း၊ မိုးနှောင်းခေါင်ခြင်းစသည်တို့ကြောင့် ပျက်စီးရသည့်ဧရိယာသည်လည်း တိုးတက်နေရာ တိုးချဲ့ စိုက်ပျိုးသည့် မြေယာများတွင် စိတ်ချရအောင် မုတ်သုန်ရာသီဖြင့် မိုးမှန်မှန်ရွာသည့်နေရာများတွင် ရေကြီးမှုနှင့် ဆားငန်ရေ တက်မှုတို့ကို ကာကွယ်ရန် ရေနုတ်မြောင်းများ၊ တာတမံများနှင့် မိုးခေါင်ရေရှား ဒေသများတွင် ရေရရှိရန် ဆည်မြောင်းများ၊ ရေလှောင်ကန်များ၊ ရေတွင်းများကို တိုးချဲ့တည်ဆောက်လျက်ရှိသည်။

ယင်းတို့အနက် ထင်ရှားသော ဆည်မြောင်းတာတမံ လုပ်ငန်းများမှာ–မုန်တိုင်ရေလှောင်ကန်၊ ကြက်မောက်တောင် စီမံကိန်း၊ ဝါရှောင်စီမံကိန်း၊ ကဘော်ချိုင့်ဝှမ်းဆည်မြောင်း တာတမံ စီမံကိန်း၊ မိုးခေါင်ရေရှားဒေသ ဖွံ့ဖြိုးရေးစီမံကိန်း၊ မူးမြစ်ဝှမ်း စီမံကိန်း၊ စစ်တောင်းမြစ်ဝှမ်း စီမံကိန်း၊ နဝင်း ဆည်မြောင်း တာတမံ စီမံကိန်း စသည်တို့ ဖြစ်လေသည်။

**ရေအားသုံး လျှပ်စစ်စက်များ။** ။လူတို့ သုံးစွဲလျက် ရှိသောအရာများတွင် ရေအားသည်သာလျှင် ရုတ်တရက်ကုန်ဆုံး၍ မသွားနိုင်ချေ။ အလုပ်လုပ်ရန်အတွက် စက်ကိုလည်စေရာတွင် ကျောက်မီးသွေးကို သုံးသည်ဖြစ်စေ၊ ဓာတ်ဆီကို သုံးသည်ဖြစ်စေ လူသည် အစားပြန်၍ မထိုးနိုင်သောပစ္စည်းကို အသုံးပြုနေရခြင်း ဖြစ်ပေသည်။ အက်တမ်တခု၏ နျူကလိယတ်အတွင်းရှိမြောက်မြားစွာသောစွမ်းအင်ကို အသုံးပြုရာ၌ပင် စွမ်းအင်ကိုဖြစ်စေသည့် အက်တမ်ကို ဖျက်ဆီးပစ်နေခြင်း ဖြစ်ပေသည်။ ရေအားကို အသုံးပြုသောအခါတွင်မူ သဘာဝအလျောက် အစဉ် ဖြစ်ပေါ်နေခြင်းကို အသုံးပြုခြင်းသာ ဖြစ်လေသည်။ အဘယ်ကြောင့် ဆိုသော် နေ၏ အပူကြောင့် ပင်လယ်၊ သမုဒ္ဒရာနှင့် အခြားနေရာများရှိ ရေအချို့သည် လေထုအတွင်းသို့ ရေငွေ့အဖြစ်နှင့် ပျံတက်ကုန်ကြသည်။ ထိုနောက် ထိုရေငွေ့များက တိမ်များဖြစ်လာကြပြီးလျှင် တောင်များပေါ်တွင် မိုးအဖြစ်နှင့်ဖြစ်စေ၊ နှင်းအဖြစ်နှင့်ဖြစ်စေ ကျလာရာမှ တဖန် ပင်လယ်၊ သမုဒ္ဒရာနှင့် အခြား အင်းအိုင်များသို့ ပြန်၍ရောက်ကြပြန်သည်။ နေ ရှိ

နေသရွေ့ ထိုနည်းဖြင့် ရေသည် သံသရာလည်လျက် ရှိနေလေသည်။

ရေ၏စွမ်းအားကို အသုံးပြုရာတွင် လူသည် ကမ္ဘာ့ဆွဲအားကို အသုံးပြုလေသည်။ ထိုသို့ အသုံးပြုရာတွင် ရေ၏ အလေးချိန်နှင့် ရေမြင့်အားကို အသုံးပြုရပေသည်။ ရေမြင့်အား ဆိုသည်မှာ ရေစ၍ စီးသည့်နေရာကို မတိုင်းတာရဘဲ ရေစ၍ စီးသည့်နေရာနှင့် အောက်တည့်တည့် မြေမျက်နှာပြင်ကိုသာ တိုင်းရသည်။ ကမ္ဘာ့ ဆွဲအားကြောင့် ရေ ကုဗပေ တပေ



ကယားပြည်နယ် လောပိတ ရေအားသုံး လျှပ်စစ်စက်



ရုရှနိုင်ငံသည် ကမ္ဘာတွင် ရေအားလျှပ်စစ်စက် အသုံးဆုံးနိုင်ငံ ဖြစ်သည်။

တိုင်းတွင် ရေအလေးချိန် ၆၂.၄ ပေါင် ဖြစ်ပေါ်လေသည်။ ထိုကြောင့် ပေသုံးဆယ်၏ အောက်ခြေရှိ စတုရန်းတပေ ရှိသောနေရာတွင် ရေအလေးချိန်သည် ၃၀×၆၂.၄=၁,၇၇၂ ပေါင် ရှိလေသည်။ ထိုအလေးချိန်က စက်၏ဘီးကို ရိုက်ခတ်လိုက်သောအခါ ဘီးသည်လည်ပြီးလျှင် အသုံးဝင်သော စွမ်းအင်ကို ဖြစ်စေလေသည်။ စွမ်းအင် စ၍ ဖြစ်ပေါ်သော နေရာနှင့် ဘီးကိုကား ထိနေစေရပေသည်။

လူတို့သည် စီးနေသည့် ရေမှ စွမ်းအားကို ထုတ်ယူ သုံးစွဲခဲ့ကြသည်မှာ နှစ်ပေါင်းများစွာ ကြာမြင့်ခဲ့ပေပြီ။ ရှေးအခါက အင်္ဂလန်နိုင်ငံရှိ ကျေးလက်များတွင် ရေဖြင့်လည်စေသည့် စက်များဖြင့် ကောက်ပဲသီးနှံများကို ကြိတ်ယူခဲ့ကြလေသည်။ ထိုသို့ သုံးစွဲကြရာတွင် ဘီး၏ နှုတ်ခမ်း၌ ရေပုံးများကို ချိတ်ထားကြသည်။ ပုံးများထဲသို့ ဝင်လာသောအခါ ရေ၏ အလေးချိန်ကြောင့် ဘီးလည်သွားသည်။ ပုံးထဲရှိရေသည် ဘီးလည်၍ အောက်ဖက်သို့ ရောက်သွားသောအခါ ထွက်သွား လေသည်။ အကြီးဆုံး ရေဘီးကို အိုင်းအော့မန်းကျွန်း၌ တည်ဆောက် ထားခဲ့ကြသည်။ ထိုဘီး၏ အချင်းမှာ ၇၂⅔ ပေ ရှိ၍ မြင်းအား ၁၃၀ မှ ၁၅၀ ထိ ပေးနိုင်စွမ်း ရှိလေသည်။

ဒိုင်နမိုများကို ရေအားဖြင့် လည်စေပြီးလျှင် ရရှိလာသည့် လျှပ်စစ်ဓာတ်ကို အဖိုးနှုန်း ချိုသာစွာနှင့် ထုတ်ယူနိုင်လိမ့်မည်ဟု များသောအားဖြင့် ထင်မှတ် တတ်ကြလေသည်။ လက်တွေ့လုပ်ရာတွင်မူ အလွန်စရိတ်ကြီးလေးသောကြောင့် ရေနွေးငွေ့ဖြင့် လည်စေသည့် စက်ကဲ့သို့ပင် စရိတ်ကုန်ကျသည်ကို တွေ့ကြရတတ်သည်။ တခါတရံတွင် ရေနွေးငွေ့ဖြင့် လည်စေသည့် စက်ထက်ပင် စရိတ်ပို၍ ကြီးလေးတတ်ပေသေးသည်။

ရေအားဖြင့်လည်စေမည့် စက်များကို မတည်ဆောက်မီက တနှစ်ပတ်လုံး ရေလုံလုံလောက်လောက် ရရှိမည် မရရှိမည်ကို ရှေးဦးစွာ သိရှိရပေမည်။ စက်ကို ဆောက်လုပ်ပြီးမှ နွေရာသီတွင် စက်ကို ရပ်ထားရမည်ဆိုသော် အကျိုးရှိနိုင်မည် မဟုတ်ချေ။ ထို့ကြောင့် သာမန်အားဖြင့်အထူးကောင်းမွန်မည် ဟု ထင်ရသော နေရာများပင် အမှန်အားဖြင့် မသင့်တော်သော နေရာများ ဖြစ်တတ်ပေသည်။

ရေ၏စွမ်းအားကို အသုံးပြုရာတွင် လူသည် တဖြည်းဖြည်းပို၍ ကောင်းမွန်သည့်နည်းများကို အသုံးပြုလာ နိုင်လေသည်။ ရေလျှံသောအခါတွင် ရေများကို လျှံမကျစေရန် ဆည်ရိုးများဖြင့် သိုလှောင်ထားနိုင်ကြလေသည်။ ထို့ပြင် ဆည်ရိုးများဖြင့် ရေ၏မျက်နှာပြင်ကိုလည်း မြင့်တက်စေနိုင်သည်။ ထိုနည်းဖြင့် ရေမြင့်အားကို ပို၍ ကြီးမားစေနိုင်ကြလေသည်။

၁၇၀၀ ပြည့်နှစ်သို့ ရောက်သောအခါတွင် လူတို့သည် ရေ၏



ဂျပန်နိုင်ငံရှိ ရေအားသုံး လျှပ်စစ်စက်ကြီး

စွမ်းအားကို အသုံးပြုရာ၌ ထိရောက်သည့်စက်များကို အသုံးပြုလာနိုင်ကြပြီးလျှင် ၁၈၅၀ ပြည့်နှစ်သို့ ရောက်သော အခါတွင်မူ တာဗိုင်ရဟတ်စက်များကို ထွင်လာနိုင်ကြသဖြင့် ရေအားဖြင့် လည်စေသည့် တာဗိုင်ရဟတ်စက်များကို တီထွင်ကာ လျှပ်စစ်ဓာတ်ကို ဖြစ်ပေါ် စေနိုင်ကြသည်။

ပြည်ထောင်စု မြန်မာနိုင်ငံတွင်လည်း ယခုအခါ ကယားပြည်နယ်ရှိ ဘီလူးချောင်းမှ ရေအားဖြင့် လျှပ်စစ်ဓာတ်ကို စတင်၍ ထုတ်လုပ် အသုံးချလျက် ရှိပေပြီ။ (ဘီလူးချောင်း ရေအားလျှပ်စစ်စီမံကိန်း — လည်းရှု။)

**ရေဦးမြို့။** ။ရေဦးမြို့သည် မြန်မာနိုင်ငံ အထက်ပိုင်းရှိ ရွှေဘိုခရိုင် အတွင်း ရေဦးနယ်ပိုင်ရုံးစိုက်ရာမြို့ ဖြစ်သည်။ ရွှေဘိုမြို့၏ အနောက်မြောက်ဖက် ၂၅ မိုင်အကွာတွင် မူးမြစ်လက်ျာဖက်ကမ်းပေါ်၌ တည်ရှိသည်။ ၁၈၉၅ ခုနှစ် မတိုင်မီက ရေဦးမြို့သည် ခရိုင်ရုံးစိုက်ရာမြို့ ဖြစ်ခဲ့လေသည်။ မြန်မာဘုရင်များလက်ထက်က ရေဦးခရိုင်ကို ဝန်တပါး သီးခြားအုပ်ချုပ်ခဲ့ရသည်။ ရေဦးမြို့ အနောက်တောင်ဖက် ကိုးမိုင်ကျော်ကျော်တွင် တခါက ထင်ရှားသော ဒီပဲရင်းမြို့ ရှိ၏။

ရေဦးမြို့သည် စစ်ကိုင်း–မြစ်ကြီးနား မီးရထားလမ်းပေါ်ရှိ ခင်ဦးမြို့နှင့် ၁၂ မိုင်မျှသာကွာဝေး၍ ကတ္တရာခင်းလမ်းဖြင့် ဆက်သွယ်လျက် ရှိသောကြောင့်၎င်း၊ မန္တလေးမှ မုံရွာကို ဖြတ်၍ ဖောက်လုပ်ထားသည့် မီးရထားလမ်းဆုံးမြို့ ဖြစ်သောကြောင့်၎င်း စည်ကားလေသည်။ စင်စစ်အားဖြင့် မူးမြစ်ကမ်းပေါ်တွင် ရေဦးမြို့သည် အစည်ကားဆုံးမြို့ ဖြစ်သည်။ ကျောထောက်နောက်ခံ နယ်မြေတွင် စပါးကို အကြီးအကျယ်စိုက်ပျိုးသဖြင့် ဆန်စပါးအရောင်းအဝယ် တွင်ကျယ်၏။ မြို့ပေါ်၌ ဆန်စက်များရှိလေသည်။

အုပ်ချုပ်ရေးဆိုင်ရာအစိုးရရုံးများ၊ ပြည်သူ့ရဲတပ်ဖွဲ့စခန်း၊ လမ်းလုပ်ငန်းဌာနရုံး၊ ဆည်မြောင်းဌာန ရုံးများ အပြင် ဆေးရုံ၊ ကြေးနန်းနှင့် စာပို့တိုက်၊ မြို့နယ်ကော်မီတီရုံး၊ နိုင်ငံတော် အထက်တန်းကျောင်း စသည်တို့ရှိ၍ ခရိုင်တွင်း၌ ရွှေဘိုမြို့မှလွဲလျှင် အကြီးဆုံးမြို့ဖြစ်၏။ ၁၉၆၄ ခုနှစ် သန်ကောင် စာရင်းအရ လူဦးရေ ၆,၇၆၅ ယောက်ရှိသည်။

ရေဦးခရိုင်ခွဲတွင် ရေဦးမြို့နယ်၊ ဒီပဲရင်းမြို့နယ်နှင့် တန့်ဆည်မြို့နယ် တို့ပါဝင်၍ ရေဦးမြို့နယ်မှာ အကျယ်အဝန်း ၅၅၆ စတုရန်းမိုင်ဖြစ်သည်။ ရေဦးမြို့နယ် အရှေ့ဖက်ပိုင်းတွင် တူးမြောင်းများဖြင့် မူးမြစ်မှ ရေသွယ်၍ လယ်ယာ စိုက်ပျိုးလုပ်ကိုင်ရာ အထူးအောင်မြင်သည်။ အနောက်ဖက် ပိုင်းမှာ

တောတောင် ထူထပ်၏။ ရေဦးအနောက် ၁၈ မိုင်ခန့်ဝေးသော ဝက်ဖြူတောင်မှ လမ်းခင်းကျောက်များကို ရရှိသည်။

ရေဦးမှ ဒီပဲရင်းမြို့အထိ ကတ္တရာလမ်းရှိ၍ မြောက်ဖက်တန့်ဆည်နယ် ရွာရှည်အထိငင်း၊ အနောက်ဖက် ကွန်းအိုး၊ တမာတောတို့ကို ဖြတ်၍ ကဒူးမအထိငင်း မြေဖို့ပေတရာလမ်းများရှိ၏။ ထို့ပြင် တူးမြောင်းဘောင်များပေါ် မှလည်း နွေရာသီအခါ ကားငယ်များ သွားလာနိုင်လေသည်။

**ရေအောက် ကြေးနန်း။** ။ပင်လယ် သမုဒ္ဒရာများ ခြားလျက်ရှိသော တိုင်းနိုင်ငံများသို့ လွယ်ကူစွာနှင့် ကြေးနန်းသတင်းများကို ပေးပို့နိုင်ခြင်းမှာ ပင်လယ် သမုဒ္ဒရာများအောက်တွင် ချထားသော ရေအောက် ကြေးနန်းကြိုးများကြောင့်ပင် ဖြစ်သည်။ သို့သော် ရေအောက် ကြေးနန်းကြိုးများကို ပင်လယ်ရေပြင်အောက်တွင် ချထားရသည့် အလုပ်မှာ ထင်သလောက် လွယ်ကူသော လုပ်ငန်းမဟုတ်ချေ။

အမေရိကန် နိုင်ငံမှ မော့နှင့် အင်္ဂလန်နိုင်ငံမှ ဝှိစတုန်းတို့သည် ကုန်းပေါ် ၌ ရိုက်ကြားသော ကြေးနန်း ကရိယာများကို အောင်မြင်စွာ မတီထွင်နိုင်မီကပင် ရေအောက်ကြေးနန်းရိုက်နည်းကို ကြံစည်စမ်းသပ်သူများရှိခဲ့လေသည်။ ၁၈၀၃ ခုနှစ်တွင် အယ်လဒီနီ ဆိုသူသည် ပြင်သစ်နိုင်ငံ မန်းမြစ်အောက်တွင် ရေအောက်ကြေးနန်းကြိုးကို ချကာ ကြေးနန်းသတင်း ပေးပို့ခဲ့ဘူး၏။ နောက် နှစ်ပေါင်း အတော်ကြာသောအခါ ဂျာမန် သိပ္ပံပညာရှင်နှစ်ဦးတို့က အီဇာမြစ်အောက်တွင် ရေအောက် ကြေးနန်းကြိုးကို ချ၍ ကြေးနန်းရိုက်ခဲ့ကြပြန်သည်။

မော့ကိုယ်တိုင်ပင်လည်း ကုန်းကြောင်း ကြေးနန်းသတင်းရိုက်ကြားနိုင်ရေး အတွက် ကြေးနန်းရုံနှင့် ကြေးနန်း ကရိယာများ ဆောက်လုပ် တီထွင်ရန် အမေရိကန် ပြည်ထောင်စုအစိုးရထံမှ ငွေကြေးအကူအညီ တောင်းခံထားစဉ် အမိန့်မကျမီ လသာသောညဥ့်၌ နယူးယော့သဘော်ဆိပ်သို့သွားကာ ရေအောက်၌ နှစ်မိုင်ခန့် ရှည်သော ရေအောက် ကြေးနန်းကြိုးတပင်ကို ချခဲ့၍ နောက်နေ့နံနက်တွင် အောင်မြင်စွာ သတင်း ပေးပို့နိုင်ခဲ့၏။ သို့သော် သဘော်တစင်း၏ ကျောက်ဆူးနှင့် ငြိပြီး ပါသွားသည့်အတွက် ထိုကြေးနန်းကြိုးသည် ပြတ်သွားရလေသည်။ ဝါရှင်တန်မြို့နှင့် ဗောလတီးမိုးမြို့ အကြားတွင် ကြေးနန်းကြိုး အဆက်အသွယ်ကို မော့ တပ်ဆင် ဆက်သွယ်ခဲ့ပြီး နောက်တနှစ်တွင် အက်ဇရာ ကောနဲ ဆိုသူက တဖန် ဟဒ်ဆန်ပင်လယ်အော်၌ ရေအောက်ကြေးနန်းကြိုးကို ချကာ ဖိုလီမြို့နှင့် နယူးယော့မြို့ကို ကြေးနန်းဖြင့် ဆက်သွယ်ပြန်၏။သို့သော် ထိုကြိုးသည်လည်း ဆောင်းတွင်း၌ ရေခဲပူကြောင့် ပြတ်သွားပြန်လေသည်။ ၁၈၅၀ ပြည့်နှစ်တခိုသို့ ရောက်သောအခါ ဂရိတ် ဗြိတိန်ကျွန်းနှင့် နယ်သာလန်နိုင်ငံ၊ ဂျာမနီနိုင်ငံတို့တွင်ငင်း၊ ဒိန်းမတ်နိုင်ငံနှင့် ဆွီဒင်နိုင်ငံတို့တွင်ငင်း၊ ဣတလီနိုင်ငံ ကော်ဆီးကားကျွန်းနှင့် ဆာဒင်းနီးယားကျွန်း တို့တွင်ငင်း၊ ဆာဒင်းနီးယား ကျွန်းနှင့် မြောက်အာဖရိကတိုက်တို့တွင်ငင်း ရေအောက် နန်းကြိုးများဖြင့် ကြေးနန်း အဆက်အသွယ် ရှိနေပေပြီ။ သို့ရာတွင် အတ္တလန္တိတ် သမုဒ္ဒရာ၏ အတိမ်အနက်ကို မစုံစမ်းရသေးသည့်ကတကြောင်း၊ မိုင်ပေါင်း များစွာရှည်မည့် ကြေးနန်းကြိုးကို လိုမည် ဖြစ်သည်က တကြောင်းတို့ကြောင့် ထိုသမုဒ္ဒရာကြီး၏အောက်မှ ဖြတ်၍ အင်္ဂလန်နှင့် အမေရိကန် နှစ်နိုင်ငံကို ရေအောက် ကြေးနန်းကြိုးဖြင့် ဆက်သွယ်ရမည့်ကိစ္စကို မည်သူမျှ စိတ်မကူးဝံ့ခဲ့ကြသေးပေ။

ပင်လယ် သမုဒ္ဒရာတို့၏ အတိမ်အနက်ကို စမ်းသပ်နိုင်သော သဘော်များပေါ် ပေါက်လာသောအခါ အိုင်ယာလန်နှင့် နျူးဖောင်းလန်းကျွန်းအကြားရှိ အတ္တလန္တိတ် သမုဒ္ဒရာသည် နှစ်မိုင်ခွဲခန့်နက်၍ ရေအောက်ရှိ မြေပြင်သည် ရေအောက် ကြေးနန်းကြိုးများ ချနိုင်လောက်အောင် ပြန့်ကြောင်းကို တိုင်းတာ ခန့်မှန်းနိုင်လာသည်။ သို့သော် ရှေးဦးစွာ မိုင်ပေါင်း ၁,၆၆၀ ခန့် ရှည်သော ရေအောက် ကြေးနန်းကြိုးရှိရမည်ဖြစ်၍ ထိုမျှ ရှည်လျား လေးလံသော ဝန်ကို တင်ဆောင်နိုင်သည့် သဘော်လည်း ရှိရပေဦးမည်။ ထို့နောက် အဆိုပါ ရေအောက်ကြေးနန်းကြိုးကို ရေအောက်သို့ ချနေစဉ် အတောအတွင်း၌ လှိုင်းလေများလည်း ငြိမ်သက်နေရပေမည်။ ဤအခြေ အနေကို ရရန်မှာ သာမညလွယ်ကူသော ကိစ္စ မဟုတ်သည့် အတိုင်း လူတိုင်း ကပင် အတ္တလန္တိတ် သမုဒ္ဒရာ အောက်၌ မည်သည့် နည်းနှင့်မျှ ရေအောက် ကြေးနန်းကြိုးမချနိုင် ဟု ယူဆခဲ့ခြင်းကို အံ့ဩဖို့ မရှိချေ။

သို့ရာတွင် မဖြစ်နိုင်ဟု ပြောစမှတ် ပြုနေကြသော ဤလုပ်ငန်းကြီးကို မဖြစ် ဖြစ်အောင် ကြံဆောင်သည့် ပုဂ္ဂိုလ်များ ပေါ်လာခဲ့ပေသည်။ ပဌမဦးဆုံး စိတ်ကူးသူမှာ ဆိုင်းရပ် ဝက်စဖီးဆိုသူ ဖြစ်၏။ သူသည် သိပ္ပံပညာရှင်မဟုတ်ပေ။ သို့သော် ပစ္စည်းဥစ္စာကြွယ်ဝ၍ စီးပွားရေးတွင် အမြင်ကျယ်ကာ ငွေကောင်းသူတဦး ဖြစ်သည့်အတိုင်း ဤကိစ္စကို ကျွမ်းကျင်သူများနှင့် ဆွေးနွေးခဲ့လေသည်။ မော့နှင့်တိုင်ပင်သောအခါ ရေအောက်ကြေးနန်းကြိုးကို အောင်မြင်စွာ ချနိုင်ရမည်ဟု အဖြေ ရခဲ့သည်။ ထို့နောက် အင်္ဂလန်သို့ သွားပြီးသော် ရေအောက်ကြေးနန်းကြိုးများကို ခရီးတိုအတွက် စမ်းသပ်အောင်မြင်ပြီးဖြစ်သော ဂျွန် ဒဗျူ ဗရက်နှင့် ချား ဗရိုက်ဆိုသူတို့နှင့် တိုင်ပင် ဆွေးနွေးကာ အတ္တလန္တိတ် သမုဒ္ဒရာအောက်၌ ရေအောက်ကြေးနန်းကြိုးချမည့် လုပ်ငန်းကြီးကို လုပ်ကိုင်ရန် ဆုံးဖြတ်လိုက်လေသည်။ အဆိုပါ ပုဂ္ဂိုလ်ကြီးများအပြင် လျှပ်စစ်ပညာတွင် ထူးချွန်သော အခြားပညာ

ရှင်များနှင့် ငွေကြေးအစုပါဝင်မည့်သူများကိုလည်း ရှာဖွေခဲ့လေသည်။

ဖီးသည် ၁၈၅၇ ခုနှစ် ဖေဖွာရီလတွင် အတ္တလန္တိတ် သမုဒ္ဒရာအတွက် ပဌမဆုံးရေအောက်ကြေးနန်းကြိုးကိုစတင်



မိုင်ပေါင်းများစွာ ရှည်သော ရေအောက် ကြေးနန်းကြိုးကြီးများကို ဤသို့ စက်ဖြင့် ပင်လယ်ရေပြင်အောက်သို့ ချရသည်။

စီမံပြုလုပ်လေသည်။ ဇရေအောက် ကြေးနန်းကြိုးကို အိုင်ယာလန်မှ နျူးဖောင်းလန်းကျွန်းအထိ ချရန်ဖြစ်၍ မိုင်ပေါင်း ၂,၅၀၀ ခန့်ရှည်ရမည်ဟု တွက်ချက်ခန့်မှန်းရ၏။ ရေအောက် ကြေးနန်းကြိုး ပြုလုပ်ရာတွင် အတွင်း၌ ကြေးနန်းကြိုး ခုနစ်ပင်ကို စုပေါင်းထားကာ အပြင်ဖက်၌ ဂတ်တာပါချာ ခေါ် ကြက်ပေါင်းစေးနှင့် ဆင်တူသော သစ်စေးတမျိုးဖြင့် သုံးထပ်ဖုံးအုပ်၍ လျှပ်စစ်ဓာတ်ကို ကာထားသည်။ ထိုနောက် တဖန် သံနန်းကြိုးများနှင့် ရစ်ပတ်ထားပြန်သည်။ ကြေးနန်းကြိုးကို ရေအောက်သို့ ချရန်အတွက် သင်္ဘောများနှင့် စက်များကို အထူးစီမံပြုပြင်ပေးရလေသည်။ ဤကိစ္စတွင် ဗြိတိသျှ အစိုးရက အင်္ဂလိပ်နွှန်ခေါ် စစ်သင်္ဘောတစင်းနှင့် အမေရိကန်ပြည်ထောင်စု အစိုးရက နိုင်အဂ္ဂရာ ခေါ် စစ်သင်္ဘောတစင်းကို အကူအညီပေး၍ အခြား သင်္ဘောငယ် များကိုလည်း အသုံးပြုခဲ့ကြရလေသည်။

အထက်ပါသင်္ဘောစုသည် ၁၈၅၇ ခုနှစ် ဩဂုတ်လ ၅ ရက်နေ့တွင် အခမ်းအနားဖြင့် အတ္တလန္တိတ်သမုဒ္ဒရာသို့ ထွက်ကြသည်။ ရေအောက် ကြေးနန်းကြိုးခွေ တဝက်ကို နိုင်အဂ္ဂရာ သင်္ဘောကငင်း၊ ကျန်တဝက်ကို အင်္ဂလိပ်နွှန် သင်္ဘောကငင်း တင်ယူ သယ်ဆောင်သည်။ နိုင်အဂ္ဂရာ သင်္ဘောပေါ်ရှိ ရေအောက် ကြေးနန်းကြိုးကို ရေအောက်သို့ ချပြီးသောအခါ ထိုကြိုးခွေကို အင်္ဂလိပ်နွှန် သင်္ဘောပေါ်ရှိ ကြိုးခွေ၏ ခေါင်းနှင့် သမုဒ္ဒရာအလယ်၌ ဆက်ကာ အင်္ဂလိပ်နွှန်က နျူးဖောင်းလန်းကျွန်းဖက်သို့ ရေအောက်ကြေးနန်းကို ဆက်၍ ချသွားရန် ဖြစ်၏။ သို့သော် မိုင်ပေါင်း ၂,၀၀၀ ကျော် ရှည်သည့် ကြေးနန်းကြိုးအနက် မိုင် ၃၈၀ မျှသာ ချရသေးသော အချိန်တွင် ကြေးနန်းကြိုး ပြတ်သွားသဖြင့် ထို ပဌမ ကြိုးစားချက်မှာ အချည်းနှီး ဖြစ်သွားရလေသည်။

အဆိုပါပုဂ္ဂိုလ်တစုသည် စိတ်မပျက်ကြဘဲ နောက်တကြိမ်တွင် သင်္ဘောနှစ်စင်းသည် သမုဒ္ဒရာအလယ်တွင် ရှေးဦးစွာ ကြေးနန်းကြိုးကို ခေါင်းချင်းဆက်ပြီးမှ ရေသို့ ချရန် စီစဉ်ခဲ့လေသည်။ သို့သော် ရေသို့ချယင်း တစင်းနှင့်တစင်း ၁၀၉ မိုင်ခန့် ဝေးသောအခါ ကြေးနန်းကြိုးသည် ဒုတိယအကြိမ် ပြတ်သွားပြန်သဖြင့် နှစ်ကြိမ်မြောက် ငွေကုန်လူပန်း ဖြစ်ကြရပြန်လေသည်။

ဇွဲကောင်းလှသော ဖီးနှင့် အပေါင်းပါတစုတို့သည် ကုမ္ပဏီဒါရိုက်တာလူကြီးများအား အတန်တန် တိုက်တွန်း၍ တတိယအကြိမ်မြောက် ကြိုးစားရန် သင်္ဘောတပ်စုဖြင့် အတ္တလန္တိတ် သမုဒ္ဒရာအလယ်သို့ ထွက်ကြပြန်လေသည်။ ဤအကြိမ်တွင်လည်း ဝေလငါးကြီး တကောင်ကြောင့်ငင်း၊ ရေခဲတောင်ကြောင့်ငင်း၊ သင်္ဘောတစင်းကြောင့်ငင်း ကြေးနန်းကြိုးပြတ်လုမတတ်ဘေးအန္တရာယ်မျိုးနှင့်ကြုံတွေ့လိုက်ရသေး၏။ သို့သော် ကံအားလျော်စွာ ၁၈၅၈ ခုနှစ် ဩဂုတ်လ ၅ ရက်နေ့တွင် ရေအောက် ကြေးနန်းကြိုးကို အောင်မြင်စွာ ရေသို့ အပြီးအစီး ချနိုင် သွားလေသည်။ အမေရိကန်ပြည်ထောင်စုနှင့် အင်္ဂလန် နှစ်နိုင်ငံတွင်ကား အောင်ပွဲများခံကာ ပျော်ရွှင်၍ မဆုံးကြတော့ပေ။

သို့ရာတွင် နှောင်နှစ်လခန့် ကြာသောအခါ ထိုရေအောက် ကြေးနန်းကြိုးဖြင့် ကြေးနန်းသတင်းများကို မပို့နိုင်တော့ချေ။ မပို့နိုင်ခြင်းမှာ ကြိုးပြတ်၍မဟုတ်၊ ကြိုးတွင် စီးဖြတ်သော လျှပ်စစ်ဓာတ်သည် ရေထဲသို့ ဓာတ်လိုက်သွားရာမှ ကြိုးတွင် စီးနေသည့် လျှပ်စစ်ဓာတ်ကို ပြောင်းပြန် ခံထားသောကြောင့် ဖြစ်လေသည်။

ဖီးနှင့်အဖော်တစုတို့သည် ၁၈၆၅ ခုနှစ်တွင် ကုမ္ပဏီအသစ်တခုကို တည်ထောင်ပြီးသော် ချွတ်ယွင်းချက်ကင်း၍ ယခင်ကထက် ပိုမိုခိုင်ခံ့သော ကြေးနန်းကြိုးကို ချနိုင်ရန် စိုင်းပြင်းကြပြန်သည်။ ပဌမအကြိမ်တွင် ကြိုးပြတ်ပြန်သည့်အတွက်

နှစ်ကြိမ်မျှ ဆက်လက်ကြိုးစားကြရာ ၁၈၆၆ ခုနှစ် ဇူလိုင်လ ၂၇ ရက် နေ့တွင် ခေတ်မှီသော ရေအောက် ကြေးနန်းကြိုးကို အောင်မြင်စွာ ချနိုင်သွားလေသည်။ ယခုအခါ အတ္တလန္တိတ် သမုဒ္ဒရာအောက်တွင် ဥရောပတိုက်နှင့် မြောက်အမေရိက တိုက် စပ်ကြား တခုတည်း၌ ရေအောက် ကြေးနန်းကြိုး နှစ်ဆဲ့တစ် ကြိုးမျှပင် ဆက်သွယ်ထားလျက် ရှိပေပြီ။

ပစိဖိတ် သမုဒ္ဒရာတွင် ရေအောက်ကြေးနန်း ချရန်မှာ အတ္တလန္တိတ် သမုဒ္ဒရာထက် ပိုကျယ်ပြီးလျှင် ပို၍လည်း နက်သည့်အတွက် အတ္တလန္တိတ် သမုဒ္ဒရာမှာလောက် မလွယ်ကူပေ။ သို့သော် ၁၉၀၂ ခုနှစ်၌ ပစိဖိတ်သမုဒ္ဒရာအောက်တွင် ပဌမရေအောက်ကြေးနန်းကြိုးကို အောင်မြင်စွာချနိုင်ခဲ့လေသည်။ ထိုကြိုးသည် ကနေဒါ၊ ဩစတြေးလီးယားနှင့် နယူးဇီလန်ကျွန်းတို့ကို ဆက်သွယ်ထားသည့် ကြိုးဖြစ်၍ အလျား မိုင်ပေါင်း ၇,၀၀၀ ခန့် ရှည်၏။ ကြေးနန်းသတင်း ပေးပို့သူများလာသည့်အတွက် ၁၉၂၆ ခုနှစ်တွင် ထိုကြေးနန်းကြိုးနှင့် အလားတူ နောက်တကြိုးထပ်ချပေးရ၍ ထိုနှစ်မှာပင် ဆန်ဖရန်စစ္စကိုနှင့် မနီလာမြို့တို့ကို ဆက်သွယ်သော ဒုတိယ ရေအောက်ကြေးနန်းကြိုးကို အပြီးအစီး ချပေးနိုင်ခဲ့သည်။ ထိုကြိုးသည် ဟိုနိုလူလူကျွန်း၊ မစ်ဒဝေးကျွန်းနှင့် ဂူအမ်ကျွန်း တို့ကို ဖြတ်သွားပြီးလျှင် ဂျပန်နိုင်ငံသို့လည်း တလမ်းဆက်ပေးထားလေသည်။

ရေအောက် ကြေးနန်းကြိုးများကို ပြုလုပ်ထားပုံမှာ ချထားမည့် နေရာကိုလိုက်၍ တကြိုးနှင့် တကြိုး မတူပေ။ ရေတိမ်တွင် ငါးများ၊ သင်္ဘောကျောက်ဆူးများနှင့် ထိုးဖောက်ကိုက်ဖြတ်တတ်သည့် ရေပိုးများ၏ဒဏ်ကို ခံနိုင်စေရန် အခိုင်ခံ့ဆုံး ပြုလုပ်ရ၍ ရေနက်အတွက်မူ ထိုမျှလောက် ခိုင်ခံ့ရန် မလိုချေ။ ရေနက်တွင် ချသော ကြိုးအချို့၏ ကြိုးလုံးမှာ တလက်မအောက်ပင်ငယ်သေး၍ကြိုးအရှည်တမိုင်လျှင် တန်ချိန်တတန်မှ တတန်ခွဲလောက်သာ လေး၏။ အခိုင်ခံ့ဆုံးနှင့် အရွယ်အကြီးဆုံးအစားမှာ ကြိုးအရှည်တမိုင်လျှင် ဆယ်တန်မှ တန်သုံးဆယ်အထိပင် လေးတတ်လေသည်။

၁၈၇၀ ပြည့်နှစ်မှစ၍ ရေအောက် ကြေးနန်းကြိုးများကို ချရန် အထူးသင်္ဘောများကို စတင် ဆောက်လုပ်ခဲ့ကြသည်။ အကြီးဆုံးသင်္ဘောသည် တန်ချိန် ၉,၂၇၃ ရှိသော ဒိုမင်းနီးယား သင်္ဘောဖြစ်၏။ ထိုသင်္ဘောသည် မိုင်ပေါင်း ၂,၀၀၀ ကျော်ရှည်၍ တန်ချိန် ၉,၅၀၀ ခန့်လေးသော ရေအောက် ကြေးနန်းကြိုးခွေကို တင်ဆောင်နိုင်သည်။ ရေအောက် ကြေးနန်းကြိုးချရန် ဆောက်လုပ်ထားသော သင်္ဘောများသည် ရေအောက်ကြေးနန်းကြိုးများကို ရေတွင် ချနိုင်ရုံသာမဟုတ်၊ ပျက်စီးချတ်ယွင်းနေသော ရေအောက် ကြေးနန်းကြိုးများကိုလည်း ဆယ်ယူ ပြင်ဆင်နိုင်လေသည်။

ယခုအခါ တကမ္ဘာလုံး၌ ရှိသော ရေအောက် ကြေးနန်း



အင်္ဂလန်နိုင်ငံမှ အမေရိကန်နိုင်ငံအထိ ရှည်လျားသော ကမ္ဘာတွင် အကြီးဆုံးသော ရေအောက် ကြေးနန်းကြိုးကို ၁၉၂၆ ခုနှစ် မေလတွင် အောင်မြင်စွာ ချခဲ့သည်။

ကြိုးအားလုံးကို ပေါင်းလိုက်လျှင် မိုင်ပေါင်း သုံးသိန်းခန့်ရှည်မည်ဟု ခန့်မှန်းရသည်။ ခေတ်သစ် ကရိယာများကြောင့် ကုန်းပေါ် သုံး ကြေးနန်းကြိုးများနည်းတူ ရေအောက်ကြေးနန်းကြိုးတပင်ဖြင့် သတင်းအများကို တချိန်တည်း၌ ပို့ပေးနိုင်သည်။ အေးချမ်းသာယာသည့် အချိန်တွင် ရေအောက်ကြေးနန်းဖြင့် ကမ္ဘာအရပ်ရပ်သို့ သတင်းများ ပေးပို့ဆက်သွယ်နိုင်သော်လည်း စစ်မက် ဖြစ်ပွားလာသော အခါတွင်မူကား ပြည်ထောင်ချင်းချင်း ဥပဒေများအရ ရန်သူနိုင်ငံနှင့် ဆက်သွယ်ထားသော ရေအောက် ကြေးနန်းကြိုးများကို ဖြတ်တောက်ထားရလေသည်။



ပုံတူကားရေးဆွဲခြင်း၌ လက်ရာမြောက်သော အင်္ဂလိပ်ပန်းချီဆရာကြီး ဆာ ဂျော့ရှွား ရေးနော

**ရေးနော့,ဆာ ဂျော့ရှွား** (ခရစ် ၁၇၂၃ – ၁၇၉၂)။ ။ ဆာ ဂျော့ရှွားရေးနောသည် အင်္ဂလိပ်လူမျိုး နာမည်ကျော် ပန်းချီဆရာဖြစ်သည်။ အထူးသဖြင့် ပုံတူကားရေးဆွဲခြင်း၌ လက်ရာ မြောက်သူ ဖြစ်ပေသည်။ ရေးနောသည် ၁၇၆၈ ခုနှစ်တွင် တော်ဝင်ပညာတံခွန်အသင်းကို စတင်တည်ထောင်ခဲ့၍ ထိုအသင်းတွင် ပဌမဦးဆုံး ဥက္ကဋ္ဌအဖြစ် ဆာဘွဲ့ ချီးမြှင့်သူကောင်းပြုခြင်းခံရသည်။ ပညာတံခွန် အသင်း၌ တပည့်များ အတွက် ဟောပြောခဲ့သော ဆာဂျော့ရှွားရေးနော၏ ဟောပြောချက်များသည်လည်း ထင်ရှားသည်။ ထိုပြင် ဆယ်မျူယယ် ဂျွန်ဆင်၊ ဂျိမ်း ဗော့ဇဝဲ၊ အက်ဒမန် ဗတ်၊ တောမတ် ရှယ်ရီဒန်၊ အော်လစ်ဗာ ဂိုးစမစ်၊ ဒေးဗစ် ဂဲရစ်



ဓက်ဗွန်ရှိုင်ယာ မြို့စားကတော်၏ပုံကို ရေးဆွဲထားသော ရေးနော၏ ပန်းချီလက်ရာမွန်

စသော နာမည်ကျော် ပုဂ္ဂိုလ်များ ပါဝင်သည့် စာပေအသင်း၌လည်း အသင်းဝင်တဦး ဖြစ်သည်။

ရေးနေဘသည် ၁၇၂၃ ခုနှစ် ဇူလိုင်လ ၁၆ ရက်နေ့တွင် အင်္ဂလန်နိုင်ငံ ဒက်ဗွန်ရှိုင်ယာနယ် ပလင်မတွန်မြို့၌ ဖွားမြင်သည်။ သူ၏ဖခင်သည် ကျောင်းဆရာတဦး ဖြစ်၍ ရေးနေဘအား ဆေးပညာကို သင်ကြားစေလို၏။ သို့ရာတွင် ရေးနေဘသည် ပန်းချီပညာဖက်၌သာ စိတ်ဝင်စားသဖြင့် အသက် ၁၇ နှစ်အရွယ်မှ စ၍ လန်ဒန်မြို့တွင် ပန်းချီဆရာ တောမတ် ဟဒ်ဆန်ဆိုသူထံ၌ ပုံတူရေးဆွဲသည့် အတတ်ကို လေ့လာ သင်ကြားခဲ့သည်။ ၁၇၄၉ ခုနှစ်တွင် မိတ်ဆွေတဦး၏ အကူအညီဖြင့် ဣတလီနိုင်ငံသို့ သွား၍ ပန်းချီပညာကို သုံးနှစ်မျှ လေ့လာခွင့် ရခဲ့သည်။ ၁၇၅၂ ခုနှစ်တွင် လန်ဒန်မြို့သို့ ပြန်ရောက်ပြီးနောက် ပန်းချီဆရာ ရေးနေဘသည် နာမည်ကျော်ကြားလာလေသည်။ အထူးသဖြင့် သူ၏ အပေါင်းအသင်းထဲမှ မိတ်ဆွေများ၏ ပုံတူကားများသည် သူ၏ အကောင်းဆုံး လက်ရာများဖြစ်သည် ဟု ဆိုရပေမည်။

ရေးနေဘသည် ပုံတူကားပေါင်း၂,၀၀၀ ကျော် ၃,၀၀၀ ခန့် ရေးဆွဲခဲ့ရာ၌ ရုပ်ပုံရှင်တို့၏ စိတ်နေစိတ်ထားများကို သရုပ်ဖော်နိုင်ရုံမျှမက ပုံများသည် အသက်ဝင်လျက် ရှိပေသည်။ သို့ရာတွင် ရေးနေဘသည် ပုံရေးဆွဲနည်း၊ ဆေးခြယ်နည်း အမျိုးမျိုး အဖုံဖုံကို အမြဲစမ်းသပ် ရေးခြယ်လေ့ ရှိခြင်းကြောင့် သူရေးဆွဲခဲ့သော ပန်းချီကားများသည် ဆေးရောင်မှိန်၍ ကွဲအက်ယိုယွင်းခြင်း ရှိတတ်၏။

ပန်းချီပညာကျော် ရေးနေဘ၏လက်ရာ ပန်းချီကားများကို လန်ဒန်မြို့ရှိ နေရှင်နယ် ပန်းချီပြတိုက်၊ နေရှင်နယ် ပုံတူပန်းချီပြတိုက်၊ တော်ဝင်ပညာတံခွန်အသင်းအစရှိသောဌာနတို့တွင် တွေ့နိုင်လေသည်။

ဆာ ဂျော့ရှား ရေးနေဘသည် ၁၇၉၂ ခုနှစ် ဖေဖွာရီလ ၂၃ ရက်နေ့တွင် လန်ဒန်မြို့၌ ကွယ်လွန်လေသည်။

ရေးမြို့။ ။မော်လမြိုင်–ရေး မီးရထားလမ်းဆုံးမြို့ ဖြစ်၍ မော်လမြိုင်မြို့မှ မိုင် ၉၀ ဝေးသည်။မော်တော်ကားလမ်းဖြင့် ၉၉ မိုင် ဝေး၏။ မော်တော်ကားလမ်းသည် သံဖြူဇရပ်အထိသာ ကတ္တရာလမ်းဖြစ်၍ သံဖြူဇရပ်မှ ရေးမြို့အထိမှာ ရိုးရိုးကျောက်လမ်းဖြစ်သည်။ ရေးမြို့မှ ထားဝယ်မြို့သို့လည်း မြေလမ်းအတိုင်း မော်တော်ကား သွားနိုင်သည်။

ရေးမြို့သည် မော်လမြိုင်ခရိုင်၊ ရေးမြို့နယ်၏ ရုံးစိုက်မြို့ ဖြစ်သည်။ မြို့၏ အကျယ်အဝန်းမှာ အရှေ့အနောက် နှစ်မိုင်ခန့်ရည်လျား၍ အနံမှာ မိုင်ဝက်ခန့်ရှိသည်။ မြို့၏ အနေအထားမှာ တောင်ကုန်းပေါ်တွင် တည်ရှိပြီးလျှင် တောင်ဖက်တွင် ရေးချောင်းမကြီး ရှိ၍ မြောက်ဖက်တွင် ကျူးပတ်လည်ဝိုင်းနေသည်။ ရေးမြို့ပေါ်တွင် အိမ်ခြေ ၃,၀၀၀ ကျော်ရှိ၏။ မြို့သည်ကျဉ်းမြောင်း၍ အိမ်များ ပူးကပ်စွာ ဆောက်လုပ်ထား၏။ မြို့နယ်၏ ရုံးစိုက်မြို့ဖြစ်သည့်အတိုင်း မြို့ပိုင်ရုံး၊ ပြည်သူ့ရဲတပ်ဖွဲ့စခန်း၊ သစ်တောရုံး၊ ဆားခွန်ရုံး၊ ဆေးရုံနှင့် အစိုးရတန်းမြင့်ကျောင်းတို့ ရှိသည်။

၁၉၅၃ ခုနှစ် သန်းကောင်စာရင်း အရ ရေးမြို့၏ လူဦးရေမှာ ၁၂,၇၄၃ ယောက်ရှိ၍ များသောအားဖြင့် ဗုဒ္ဓအယူဝါဒီ မွန်လူမျိုးများဖြစ်ကြသည်။ရေးမြို့၏ထွက်ကုန်များမှာ ဆန်စပါး၊ သစ်၊ ကွမ်းသီး၊ ဆား၊ ငါးခြောက်၊ ဒူးရင်းသီးနှင့် ကျွဲကောသီးများဖြစ်၏။ သို့သော် ပျဉ်းကတိုးသစ်နှင့် ကွမ်းသီးတို့သည် ရေးမြို့၏ နာမည်ရ ထွက်ကုန်များ ဖြစ်သည်။

ရေးမြို့သည် လွန်ခဲ့သော နှစ်ပေါင်း ၁,၀၀၀ ကျော်ကပင် တည်ရှိခဲ့သော မြို့ဖြစ်သည် ဟု ဆို၏။ ထိုစဉ်က အဝိဇ္ဇာဇေယျပူရမြို့ဟုငင်၊ ထိုနောက်တွင် ရာဇသီဟဇေယျပူရမြို့ဟုငင်း တွင်ခဲ့သည် ဟုလည်း ဆိုသည်။ ရေးမြို့ ဟုတွင်သည်မှာလည်းထိုမြို့၏ မွန်အမည် ဍုင်ရေဝ် (အသံထွက်မှာ-ဒုံရီ၊ ဒုံ=မြို့၊ ရီ=ရေး)ကို လိုက်၍ တွင်ခြင်းဖြစ်သည် ဟု အချို့က ဆိုကြလေသည်။

# ပြည်သူ့လူထု၏ မိတ်ဆွေ

**ကမ္ဘာပေါ်ရှိ နိုင်ငံအစိုးရတိုင်းသည် ရဲအဖွဲ့ ဟူ၍ ဖွဲ့စည်းလျက် နိုင်ငံသူ နိုင်ငံသားတို့၏ အသက်အိုးအိမ်ကို ကာကွယ်စောင့်ရှောက်ထားသည်။ ယခုခေတ် ရဲသားတယောက်သည် ပြည်သူ့လူထု၏ အိုးအိမ်ကို အကာအကွယ်ပေးခြင်း၊ ရာဇဝတ်မှု ကျူးလွန်သူတို့အား ဖမ်းဆီးခြင်းသာမက သူနာပြုအတတ်၊ မီးသတ်အတတ်၊ စုံထောက်အတတ် အစရှိသော လူမှုဝန်ထမ်းအတတ်များကိုလည်း တတ်ကျွမ်းသည့် ပြည်သူ့မိတ်ဆွေ ဖြစ်နေ လေပြီ။**

ရဲ။ ။ယခင်က မြန်မာနိုင်ငံတွင် တရားဥပဒေ အုပ်စိုးရေးနှင့် ရပ်ရွာငြိမ်ဝပ်ပိပြားရေးကို ထိန်းသိမ်းရန်အတွက် ဖွဲ့စည်းထားသော အစိုးရအမှုထမ်း အဖွဲ့ကို ပုလိပ်အဖွဲ့ ဟု ခေါ်သည်။ ပုလိပ် ဟူသော အမည်မှာ အင်္ဂလိပ်စကားလုံးကို အသံလှယ်ယူထားသော အမည် ဖြစ်သည်။ လွတ်လပ်ရေးရပြီးသောအခါ မြန်မာစာကို ရုံးသုံးဘာသာအဖြစ် ပြဋ္ဌာန်းထားသည့်အလျောက် ယခင် ပုလိပ်အဖွဲ့ကိုလည်း ရဲအဖွဲ့ဟူ၍ အမည်သစ်ဖြင့် မှည့်ခေါ်လေသည်။ သို့ရာတွင် ၁၉၅၄ ခုနှစ်

စက်တင်ဘာလ တရက်နေ့မှအစပြု၍ မြန်မာနိုင်ငံ တော်လှန်ရေးအစိုးရက ရဲအဖွဲ့ကို ပြည်သူ့ရဲတပ်ဖွဲ့ ဟု အမည် ပြောင်းလဲလိုက်ပြီးလျှင် ရာထူးအဆင့်အတန်း အခေါ်အဝေါ် စသည်များကိုလည်း ပြောင်းလဲ သတ်မှတ်ပေးခဲ့လေသည်။

လူတို့၏ အသက် အိုးအိမ် စည်းစိမ်ကို စောင့်ရှောက်ရန် အတွက်သော်၎င်း၊ တရားဥပဒေအုပ်စိုးရေးနှင့် ရပ်ရွာ ငြိမ်ဝပ်ပိပြားရေးအတွက်သော်၎င်း ရဲအဖွဲ့သည် အလွန် အရေးကြီးသည်။ သို့ရာတွင် ကမ္ဘာပေါ်ရှိ တိုင်းနိုင်ငံအသီးအသီးတို့၌ ရဲအဖွဲ့ကို စံနစ်တကျ ဖွဲ့စည်းခဲ့သည်မှာ မကြာလှသေးချေ။ အင်္ဂလန်ပြည်တွင် ၁၇ ရာစုနှစ်နှင့် ၁၈ ရာစုနှစ်များအတွင်းက ညဖက်၌ လမ်းများတွင် လက်ဆွဲမှန်အိမ်ကိုင်၍ ကင်းလှည့်စောင့်သူတို့မှာ အသက်အရွယ် အိုမင်းချည့်နဲ့သူများသာ ဖြစ်သည်။ အမေရိကတိုက်တွင် နယ်သစ်များတည်ထောင်သည့် ခေတ်က ယောကျ်ားတိုင်း မိမိနှင့်တကွ အိမ်ထောင်စု၏ အသက်အိုးအိမ်ကို စောင့်ရှောက်ရန် တာဝန်ယူရသည်။ ဥရောပတိုက်ရှိနိုင်ငံများ၌ ထိုအချိန်ထက်စော၍ ရဲအဖွဲ့များရှိခဲ့၏။ သို့ရာတွင် ထိုရဲအဖွဲ့များသည် အုပ်စိုးသောမင်း၏ လက်ပါးစေများသာ ဖြစ်သည်။ ပုံစံအားဖြင့် ရောမ ဧကရာဇ် ဩဂပ်စတပ် လက်ထက်ကသော်၎င်း၊ ပြင်သစ်ဘုရင် ၁၄ ဆက်မြောက် လူဝီနှင့်နပိုလီယန်တို့ လက်ထက်ကသော်၎င်း ဖွဲ့စည်းခဲ့သော ရဲအဖွဲ့ဝင်များသည် အခွန်ဘဏ္ဍာကောက်ခံရန် အတွက် ဖြစ်စေ၊ လျှို့ဝှက်သော နိုင်ငံရေးလှုပ်ရှားမှုများကို စုံစမ်းထောက်လှမ်းရန်အတွက်ဖြစ်စေ ဘုရင့်အလိုကျဆောင်ရွက်ရသူများသာ ဖြစ်သည်။ ရာဇဝတ်မှု နှိမ်နင်းရေးကဲ့သို့သော ပြည်သူလူထုအကျိုးအတွက် လုပ်ငန်းများကိုမူကား လျစ်လျူ ရှုထားခဲ့ကြလေသည်။ ထို့ကြောင့် ထိုခေတ်က ရဲအဖွဲ့သည် ပြည်သူ့အကျိုးထက် အုပ်စိုးသူလူတန်းစားတို့ ရာထူးစည်းစိမ် တည်မြဲရေးအတွက်ကိုသာ ကြိုးပမ်း ဆောင်ရွက်ရသော အဖွဲ့ ဖြစ်သည်။

ယခုအခါ နိုင်ငံအစိုးရတိုင်းသည် ရဲအဖွဲ့ဟူ၍ ဖွဲ့စည်းလျက် နိုင်ငံသူ နိုင်ငံသားတို့၏ အသက်အိုးအိမ်ကို ကွယ်ကာစောင့်ရှောက်ထားသည်။ ရဲအဖွဲ့ဝင်တို့၏ တာဝန်ဝတ်တရားများကိုသော်၎င်း၊ ထိုတာဝန်များအရ ဆောင်ရွက်သည့် နည်းစံနစ်ကိုသော်၎င်း အမြဲချဲ့ထွင် ပြုပြင်လျက်ရှိသဖြင့် ယခုခေတ်ရဲသားတယောက်သည် ပြည်သူလူထု၏ အိုးအိမ်ကို အကာအကွယ်ပေးခြင်း၊ ရာဇဝတ်မှု ကျူးလွန်သူတို့အား ဖမ်းဆီးခြင်းကိုသာ မက သူနာပြုအတတ်၊ မီးသတ် အတတ်၊ စုံထောက်အတတ် အစရှိသော လူမှုဝန်ထမ်း အတတ်များကိုလည်းတတ်ကျွမ်းသည့် ပြည်သူလူထု၏မိတ်ဆွေဖြစ်ပေသည်။

အင်္ဂလန်ပြည်ရှိ မြို့ကြီးများတွင် ခေတ်မှီ ရဲအဖွဲ့များ ဖွဲ့စည်းထားသည်။ အထူးသဖြင့် လန်ဒန် မြို့တော် ရဲအဖွဲ့သည် ကမ္ဘာပေါ်တွင် စည်းကမ်းစံနစ် အကျဆုံး ရဲအဖွဲ့အဖြစ်



ရဲတို့အည် ပြည်သူတို့နှင့် ရပ်ရွာအေးချမ်းရေးအတွက် ဤသို့ တိုင်ပင်ဆောင်ရွက်ရသည်။

နာမည် ထင်ရှားလေသည်။ သို့သော်လည်း ၁၇၂၉ ခုနှစ် မတိုင်မီက အင်္ဂလန်ပြည်တွင် ရဲအဖွဲ့ကို စံနစ်တကျ မဖွဲ့စည်းရ သေးသဖြင့် လန်ဒန်မြို့တော်၌ရှင်း၊ နယ်ဖက်၌ရှင်း ရာဇဝတ်မှု ပေါများသည်။ မြို့တွင်း၊ မြို့ပြင်တို့တွင် တိုက်ခိုက် လုယက်မှု၊ ဖောက်ထွင်းခိုးယူမှုများကို သူခိုးလူဆိုးတို့က လွတ်လပ်စွာ ကျူးလွန်လျက် ရှိကြသည်။ ၁၇၂၉ ခုနှစ်သို့ ရောက်သော အခါ အင်္ဂလိပ်နန်းရင်းဝန် ဆာ ရောဗတ်ပီး က ခေတ်မှီရဲအဖွဲ့ ဖြစ်မြောက်ရေးအတွက် အစီအစဉ်တရပ်ကို ပါလီမန်လွှတ် တော်၌ တင်ပြသည်။ အစပဌမတွင် ပြည်သူလူထု၏ လွတ် လပ်ရေးကို မြတ်နိုးသူများက ပြင်သစ် ရဲစံနစ်ကဲ့သို့ ဖြစ်မည် စိုး၍ ပြင်းထန်စွာ ကန့်ကွက်ကြသည်။ သို့ရာတွင် နောက် ဆုံး၌ နန်းရင်းဝန်ကြီး၏ ရည်ရွယ်ချက်ကို သဘောပေါက် နားလည်သဖြင့် သဘောတူ လက်ခံ ကြသည်။ ထိုသို့အား ဖြင့် ဆာ ရောဗတ်ပီးသည် ဗြိတိသျှ ရဲအဖွဲ့အတွက် အခြေခံ အုတ်မြစ်ကို ချလိုက်လေသည်။ (ပီး,ဆာရောဗတ် — ရှု။)

၁၇၂၉ ခုနှစ်တွင် လန်ဒန်မြို့တော် ရဲအဖွဲ့ကို ဖွဲ့စည်းပြီး နောက် နယ်များ၌လည်း သက်ဆိုင်ရာ ဒေသန္တရ အာဏာ ပိုင်အဖွဲ့အောက်တွင် ထိုစံနစ်အတိုင်း ရဲအဖွဲ့များကို တိုးချဲ့ ဖွဲ့စည်းခဲ့သည်။

လန်ဒန်မြို့တော် ရဲအဖွဲ့သည် မြို့တွင်းရှိ ချာရင်ခရော့အရပ် မှ အချင်းဝက် ၁၆ မိုင်ရှိသော နယ်အကျယ်ကို တာဝန်ယူ၍ စောင့်ရှောက်ရသည်။ ပြည်ထဲရေးဝန်ကြီးက တိုက်ရိုက် အုပ် ချုပ်သော ရဲအဖွဲ့ဖြစ်သည်။ ဗဟို ဌာနချုပ်မှာ နာမည်ကျော် နယူး စကော့တလန်ယဒ်ဖြစ်သည်။ ရဲမင်းကြီးတဦး၊ ဒုတိယ ရဲမင်းကြီး တဦးနှင့် လက်ထောက်ရဲမင်းကြီးသုံးဦးတို့က ထိုရဲ အဖွဲ့ကိုအုပ်ချုပ်သည်။ လက်ထောက် ရဲမင်းကြီးသုံးဦးအနက် နှစ်ဦးက အုပ်ချုပ်ရေးဖက်တွင် တာဝန်ယူရ၍ ကျန်တဦးက စီ၊ အိုင်၊ ဒီ၊ ခေါ် စုံထောက်ဌာနကို တာဝန်ယူရသည်။ ယင်း တို့ အောက်တွင် ရဲအရာရှိကြီး ငါးဦး၊ ထိုနောက် ရဲဝန် ထောက်၊ ရဲမှူး၊ ရဲကြပ်နှင့် ရဲသား ဟူ၍ ရာထူးအဆင့်ဆင့် ရှိ သည်။ စီတန်းလှည့်လည်ပွဲများကို ထိန်းသိမ်းရန်အတွက်နှင့် အခြားလိုအပ်သော ကိစ္စများအတွက် မြင်းစီးရဲအဖွဲ့ကိုလည်း ဖွဲ့စည်းထားသည်။

၁၇၃၉ ခုနှစ်တွင် လန်ဒန်မြို့မ ရဲအဖွဲ့ ဟူ၍ မြို့တော် ကော် ပိုရေးရှင်းအဖွဲ့ လက်အောက်၌ ရဲအဖွဲ့တခုကို သီးခြား ဖွဲ့စည်း ခဲ့သည်။ ထိုရဲအဖွဲ့သည် လန်ဒန်မြို့တော် ရဲအဖွဲ့ကို ကူညီရ သည်။ မြို့တော်ကောင်စီအဖွဲ့က ခန့်ထားသော ရဲမင်းကြီးက အုပ်ချုပ်သည်။ မြို့မရဲအဖွဲ့ လူအင်အားမှာ ၁,၂၆၀ ယောက် ခန့်ရှိသည်။ ၁၉၂၀ ပြည့်နှစ်တွင် အမျိုးသမီး ရဲအဖွဲ့ကို စတင် ဖွဲ့စည်းသည်။ အစအဦး၌ အမျိုးသမီးရဲအဖွဲ့ဝင်တို့သည် မြို့ ကြီးများတွင် ကလေးသူငယ်များအား စောင့်ရှောက်ရေးနှင့် ဆိုင်သည့် လုပ်ငန်းကို တာဝန်ယူ ဆောင်ရွက်ခဲ့ရသော်လည်း




ရပ်ရွာအေးချမ်းမှုနှင့် လုံခြုံမှုကို စောင့်ကြပ်လျက်ရှိသော ရဲစခန်း

နောင်အခါ၌ အရပ်ဝတ်ဖြင့် သာမန်မှုခင်းစုံထောက် လုပ်ငန်း ကိုလည်း ဆောင်ရွက်ရလေသည်။

အင်္ဂလန်နှင့် ဝေလနယ် အတွက် အမျိုးသား ရဲကောလိပ် ကျောင်းကို ဝါရစ်ရှိုင်ယာနယ်၊ ရိုင်တန်မြို့၌ ဖွင့်လှစ် ထား သည်။ မြင်းစီးရဲအဖွဲ့ဝင်တို့ကိုမူကား ဆာရေးနယ်၊ အင်ဗာ ကုတ်တွင် လေ့ကျင့်ပေးသည်။

အမေရိကန် ပြည်ထောင်စု နိုင်ငံ၌လည်း ရဲအဖွဲ့များကို မြို့မ ရဲအဖွဲ့၊ နယ် ရဲအဖွဲ့၊ ပြည်နယ် ရဲအဖွဲ့၊ ပြည်ထောင်စု ရဲ အဖွဲ့ဟူ၍ စံနစ်တကျ ဖွဲ့စည်းလျက် တိုင်းပြည် ငြိမ်ဝပ်ပိပြား ရေးကို ထိန်းသိမ်းထားသည်။ ပြန်ပေးမှု၊ သူလျှိုမှု စသော ပြည်ထောင်စု တခုလုံးနှင့် သက်ဆိုင်သည့် အမှုအခင်းတို့ အ တွက် အက်(ဖ)၊ ဗီ၊ အိုင် ခေါ် သီးသန့် စုံထောက်ရဲအဖွဲ့ကို လည်း ၁၉၀၈ ခုနှစ်တွင် ဖွဲ့စည်းခဲ့သည်။ ထိုပြင် ငွေတုလုပ်သူ များကို စုံထောက်ရန်အတွက်ရှင်း၊ စာတိုက်ကို အလွဲသုံးစား ပြုသူများအား စုံထောက်ရန် အတွက်ရှင်း လျှို့ဝှက်စွာ ထောက်လှမ်းရသော ရဲအဖွဲ့များလည်း ထားရှိသည်။

ဥရောပတိုက်ရှိ နိုင်ငံအများတွင် ပြင်သစ် ရဲ ဖွဲ့စည်းပုံစံနစ် ကို အတုယူ၍ ရဲအဖွဲ့များကို ဖွဲ့စည်းထားကြသည်။

ကနေဒါ နိုင်ငံတွင် ၁၉၂၀ ပြည့်နှစ် မတိုင်မီက အနောက် မြောက် မြင်းစီးရဲအဖွဲ့ ဟူ၍ ရှိခဲ့သည်။ ထိုအခါက ယင်းအဖွဲ့

၏ အဓိက တာဝန်မှာ ကနေဒါနိုင်ငံ အနောက်မြောက်ဖက်ရှိ နယ်စပ်တလျှောက်ကို စောင့်ရှောက်ရန် ဖြစ်သည်။ ယခုအခါ၌မူကား ထိုရဲအဖွဲ့၏ အမည်ကို ကနေဒါနိုင်ငံ မြင်းစီး ရဲတပ်တော်ဟူ၍ ပြောင်းပြီးလျှင် တနိုင်ငံလုံးကို တာဝန်ယူစောင့်ရှောက်ရလေသည်။ "မြင်းစီးရဲ" ဟု အမည်တွင်သော်လည်း ထိုရဲအဖွဲ့မှာ မြင်းစီးရဲ သက်သက် ပါဝင်သော ရဲအဖွဲ့ကား မဟုတ်ချေ။ အဖွဲ့အင်အားမှာ လူပေါင်း ၄,၇၀၀ ပါဝင်သည်။

မြန်မာနိုင်ငံ ရဲအဖွဲ့ကိုလည်း အင်္ဂလန်ရဲ ဖွဲ့စည်းပုံ စံနစ်ကို အခြေခံ၍ ဖွဲ့စည်းထားခဲ့သည်ဟု ဆိုရပေမည်။ မြန်မာနိုင်ငံတွင်ပြည်ထဲရေးဌာနကနိုင်ငံတော်ရဲအဖွဲ့(ပြည်သူ့ရဲတပ်အဖွဲ့)ကို တိုက်ရိုက် အုပ်ချုပ်သည်။ နိုင်ငံတော် ရဲချုပ်(ညွှန်ကြားရေးမှူးချုပ်) သည် ရဲအဖွဲ့တခုလုံးအတွက် တာဝန်ခံ အရာရှိ ဖြစ်၍ ဒု-ရဲချုပ် (ဒု-ညွှန်ကြားရေးမှူးချုပ်)၊ ရဲမင်းကြီး (ညွှန်ကြားရေးမှူး) များနှင့် လက်ထောက် ရဲမင်းကြီး (ကြီးကြပ်ရေးမှူး) များက အုပ်ချုပ်ရေး၊ လေ့ကျင့်ရေး၊ မှုခင်းဆိုင်ရာအရေး၊ စုံထောက်ဖက်ဆိုင်ရာ အရေးတို့တွင် ကူညီရသည်။ မြန်မာနိုင်ငံကို အုပ်ချုပ်ရေးအရ ဖြစ်သော တိုင်းနှင့် ပြည်နယ်များ အလိုက် ခွဲ၍ တိုင်းရဲမင်းကြီး (ညွှန်ကြားရေးမှူး) တဦးကျစီက အုပ်ချုပ်သည်။ ထို့ပြင် မြန်မာနိုင်ငံ စုံထောက်နှင့် မီးရထားဌာန၊ သတင်းထောက်လှမ်းရေး ရဲ အထူးဌာန၊ ထောက်ပံ့ရေးဌာန၊ လေ့ကျင့်ရေး ဌာန ဟူ၍ ရဲမင်းကြီး (ညွှန်ကြားရေးမှူး)များ အုပ်ချုပ်သော ရဲအဖွဲ့ခွဲများလည်းရှိသည်။မန္တလေးမြို့ရှိ ဗဟို ရဲအတတ်သင် သိပ္ပံကျောင်းကိုလည်း ရဲမင်းကြီး (ညွှန်ကြားရေးမှူး) တဦးက ကျောင်းအုပ်ကြီးအဖြစ် ဆောင်ရွက်ရသည်။

တိုင်း အလိုက် ခန့်အပ်ထားသော ရဲမင်းကြီး(ညွှန်ကြားရေးမှူး) များ လက်အောက်တွင် ခရိုင်အလိုက် ရဲအဖွဲ့ကို အုပ်ချုပ်ရသော ခရိုင်ရဲဝန် (ကြီးကြပ်ရေးမှူး) များလည်း ရှိသည်။ ထိုနောက် ရဲဝန်ထောက် (ဒု-ကြီးကြပ်ရေးမှူး)၊ ရဲမှူး (လုံခြုံရေးမှူး)၊ ရဲဌာနာအုပ် (စခန်းမှူး)၊ ရဲအုပ် (ဒု-လုံခြုံရေးမှူး)၊ ရဲဌာနာစာရေး (ရဲ-တပ်ကြပ်ကြီး)၊ ရဲကြပ် (ရဲ ဒု-တပ်ကြပ်)၊ ရဲသား (ရဲတပ်သား) အထိ အဆင့်ဆင့် ရာထူးများကို ခွဲခန့် သတ်မှတ်ထားရှိလေသည်။

မြို့နယ်၌ တရားဥပဒေ အုပ်စိုးရေးနှင့် ငြိမ်ဝပ်ပိပြားရေး အတွက် ရဲဌာနာ (ပြည်သူ့ရဲတပ်ဖွဲ့စခန်း) များကို ဖွင့်ထားသည်။ ရဲဌာနာနှင့် အလှမ်းကွာသော ကျေးရွာများ၊ ရပ်ကွက်များတွင် ရဲကင်းများကိုလည်း ဖွင့်ထားသည်။ ယခုအခါ အချို့သော ရဲကင်းများကို ဒုတိယတန်း ရဲဌာနာ ဟူ၍ သတ်မှတ်ထားလေသည်။

မန္တလေးမြို့ ဗဟို ရဲအတတ်သင် သိပ္ပံကျောင်းတွင် ရဲမှူးလောင်း၊ ရဲအုပ်လောင်း၊ နယ်ရဲအုပ်၊ ယစ်မျိုးအုပ်နှင့် စသုံးလုံး ကျောင်းသားများကို ရဲနှင့်ဆိုင်သော သင်တန်းများ



လက်ဗွေပုံစံ ထိန်းသိမ်းသည့် လုပ်ငန်းသည် အရေးပါသော ရဲလုပ်ငန်းတရပ်ဖြစ်သည်။

ဖွင့်လှစ် သင်ကြားပေးသည်။ ရန်ကုန်မြို့နှင့် ခရိုင်မြို့ကြီးများ၌လည်း ရဲအတတ်သင်ကျောင်းများ ရှိသည်။

လန်ဒန်မြို့တော် ရဲအဖွဲ့ကဲ့သို့ ရန်ကုန် မြို့တော်၌လည်း ရန်ကုန်ရဲအဖွဲ့ (ရန်ကုန်တိုင်း ပြည်သူ့ရဲတပ်ဖွဲ့) ဟူ၍ မြို့တော်ကို ထိန်းသိမ်း စောင့်ရှောက်ရသော ရဲအဖွဲ့ သီးခြားရှိသည်။ ထိုရဲအဖွဲ့ကို ရန်ကုန်ရဲမင်းကြီး (ညွှန်ကြားရေးမှူး၊ ရန်ကုန်တိုင်း) တဦးက အုပ်ချုပ်သည်။ ရန်ကုန် ရဲမင်းကြီးအားကူညီရန် ဒုတိယရဲမင်းကြီး (ဒု-ညွှန်ကြားရေးမှူး) တဦး၊ လက်ထောက်ရဲမင်းကြီး(ကြီးကြပ်ရေးမှူး)(အုပ်ချုပ်ရေး) နှစ်ဦး၊ လက်ထောက် ရဲမင်းကြီး (ကြီးကြပ်ရေးမှူး) (မှုခင်း) တဦး၊ လက်ထောက်ရဲမင်းကြီး (သတင်းထောက်လှမ်းရေး) တဦးတို့ကိုလည်း ခန့်ထားသည်။ ထိုနောက် မှုခင်းဆိုင်ရာ ရဲဝန်ထောက်၊ သတင်း ထောက်လှမ်းရေးဆိုင်ရာ ရဲဝန်ထောက် (ဒု-ကြီးကြပ်ရေးမှူး)၊ မော်တော်ယာဉ်ဆိုင်ရာ ရဲဝန်ထောက် (ဒု-ကြီးကြပ်ရေးမှူး)၊ ကြိုးမဲ့ကြေးနန်းဆိုင်ရာ ရဲဝန်ထောက် (ဒု-ကြီးကြပ်ရေးမှူး)၊ လမ်းကြီးကြပ်ရေးဆိုင်ရာ ရဲဝန်ထောက်၊ ဆိပ်ကမ်းနယ်ဆိုင်ရာ ရဲဝန်ထောက် (ဒု-ကြီးကြပ်ရေးမှူး)၊ အရှေ့နယ်၊ အနောက်နယ်၊ မြောက်နယ်၊ အလယ်နယ်နှင့် မြို့မဆိုင်ရာ ရဲဝန်ထောက် (ဒု-ကြီးကြပ်ရေးမှူး) များကိုလည်း သက်ဆိုင်ရာ ဌာနနှင့် သက်ဆိုင်ရာ အပိုင်းအလိုက် တာဝန်အသီးအသီး ပေးအပ်ထားသည်။ ရဲဌာနာ (ပြည်သူ့ရဲတပ်ဖွဲ့စခန်း) နှင့် ဒုတိယတန်း ရဲဌာနာများကိုလည်း မြို့ နယ်နိမိတ်အတွင်း၌ အနှံ့အပြားဖွင့်၍ မြို့တော်ကို စောင့်ရှောက်လျက် ရှိသည်။

ရှေးယခင်ကတည်းက အမျိုးသမီးများနှင့် သက်ဆိုင်သော မှုခင်းများ၌ ကူညီရန် အမျိုးသမီးရဲမေများကို ခန့်ခဲ့သည်။ ၁၉၆၀ ပြည့်နှစ်သို့ ရောက်သောအခါ အမျိုးသမီးရဲအုပ် ငါးဦးကို မန္တလေး ဗဟိုရဲအတတ်သင် သိပ္ပံကျောင်းတွင် ရဲအုပ်သင်တန်း တက်စေပြီးလျှင် မှုခင်းဆိုင်ရာ ဝတ်တရားများကို ဆောင်ရွက်စေသည်။ ယခုအခါရန်ကုန်မြို့တွင် အမျိုးသမီးရဲမေနှင့် ရဲအုပ်တို့သည် လမ်းကြီးကြပ်ရေး၊ မှုခင်းစုံထောက်ရေး ဝတ်တရားများကို ဝင်ရောက် ဆောင်ရွက်လျက် ရှိကြသည်။

အခြား နိုင်ငံများရှိ ခေတ်မှီရဲအဖွဲ့များနှင့် ယှဉ်ပေါင်တန်းလိုက်နိုင်ရန် မြန်မာနိုင်ငံ ရဲအဖွဲ့ကို ထနှစ်ထက်တနှစ် တိုးတက်၍ ပြုပြင်လျက် ရှိသည်။ နိုင်ငံအစိုးရက ထိုရည်ရွယ်ချက် ဖြစ်မြောက်ရေးအတွက် ရဲအရာရှိကြီးငယ်တို့ကို နိုင်ငံခြားသို့စေလွှတ်၍ လေ့လာစေသည်။ ဝိုင်ယာလက် တပ်ဆင်ထားသော မော်တော်ကား၊ မော်တော်ဆိုင်ကယ် အစရှိသည်တို့ဖြင့် ရန်ကုန်မြို့နှင့်တကွ အခြားမြို့ကြီးများ၌ ရာဇဝတ်မှုကိုရင်း၊ ယာဉ် အသွားအလာကိုရင်း စောင့်ရှောက်ထိန်းသိမ်းလျက် ရှိသည်။ ရန်ကုန်မြို့တော်ကြီးတွင် အလိုအလျောက် ဆက်သွယ်နိုင်သော စကားပြော ကြေးနန်းဖြင့် သုည သုည ကိုး (၀၀၉) ကို လှည့်ပေးရုံနှင့် ရဲဌာနာချုပ် (ပြည်သူ့ ရဲတပ်ဖွဲ့စခန်းချုပ်) ထံ သတင်းပို့နိုင်သည်။ ရဲအကူအညီ လိုကလည်း ချက်ခြင်း တောင်းဆိုနိုင်သည်။ မင်းခမ်း မင်းနား အတွက်သော်၎င်း၊ လူအုပ်အစုအဝေးကို ထိန်းသိမ်းရန်အတွက် သော်၎င်း မြင်းစီးရဲအဖွဲ့ကိုလည်း ထားရှိလေသည်။

နိုင်ငံ အသီးအသီးရှိ ရဲအဖွဲ့ဝင်တို့သည် နိုင်ငံအစိုးရက ပြဋ္ဌာန်းထားအပ်သော တရားဥပဒေနှင့် ငြိမ်ဝပ်ပိပြားရေးကို ထိန်းသိမ်းရန် တာဝန်ယူရသောအဖွဲ့ ဖြစ်သည်။ ထို့ကြောင့် ရဲများသည် တရားဥပဒေကို ရိုသေလေးစားသူတို့၏ မိတ်ဆွေများဖြစ်ကြသည်။ အထူးသဖြင့် ကလေးသူငယ်များကို လမ်းအန္တရာယ်မှ၎င်း၊ လူဆိုးတို့၏ အနှောင့်အရှက်မှ၎င်း လွတ်ကင်းအောင် ကာကွယ် စောင့် ရှောက်ရလေသည်။ အချို့နိုင်ငံများတွင် ရပ်ရွာ ငြိမ်ဝပ်ပိပြားရေးအတွက်သော်၎င်း၊ ကလေးသူငယ်များကို ကာကွယ်စောင့်ရှောက်ရန်အတွက်သော်၎င်း ရှိရင်းရဲအဖွဲ့ဝင်ဦးရေဖြင့် မလုံလောက်သောကြောင့် အထူး ရဲအဖွဲ့ဝင်တို့၏ အကူအညီကို ယူရသည်။ သာမန် အရပ်သား အလုပ်သမားအချို့တို့သည် မိမိတို့အားလပ်ချိန်တွင် ရဲဝတ်တရားကို စေတနာ့ဝန်ထမ်းအဖြစ် တာဝန်ယူ ဆောင်ရွက်ကြသည်လည်း ရှိ၏။ အထူး ရဲအဖွဲ့ ဟူ၍ ဖွဲ့စည်း ထားရှိပြီးလျှင် ထိုအဖွဲ့သို့ ဝင်ရောက်အမှုထမ်းကြသည်လည်း ရှိ၏။

ရဲအဖွဲ့ဝင်တို့သည် လမ်းပေါ်၌ မတော်တဆ တိုက်ခိုက်မိရာ အရပ်သို့၎င်း၊ မီးလောင်ရာအရပ်သို့၎င်း၊ ရေနစ်ရာ အရပ်သို့၎င်း ရှေးဦးစွာ ရောက်အောင် သွားရသည်။ ထိခိုက်၍ ဒဏ်ရာ ရသူများကို လိုအပ်သလို ပြုစုရသည်။ မီးကို ဝိုင်းကူငြိမ်းသတ်ရသည်။ ရေနစ်သူကို ကယ်ရသည်။ သို့သော်လည်း အသက်ဘေးကို စိုးရိမ်ရသော တာဝန်ထမ်းမှုမှာ ရာဇဝတ်မှုကျူးလွန်သူကို ဖမ်းဆီးရခြင်းပင် ဖြစ်သည်။ ရာဇဝတ်မှုကျူးလွန်သူ အချို့တို့သည် အဖမ်းအဆီး မခံလိုသဖြင့် ရဲကိုဓား၊ သေနတ် စသော လက်နက်တို့ဖြင့် ခုခံတတ်ကြသည်။ ထိုကဲ့သို့သော အခါမျိုး၌ ပုန်းအောင်းနေသော လူဆိုးကလက်ဦးလျှင် ဖမ်းဆီးရန်သွားသော ရဲအဖွဲ့ဝင်မှာ အသက်ဆုံးရှုံးရသည်အထိ စွန့်စားရသည်။ ထို့ပြင် လူဆိုးများကျက်စားရာရပ်ကွက်၊ မီးရထားဘူတာရုံ၊ သင်္ဘောဆိပ်၊ လေဆိပ်၊ ဈေး၊ ကားဆိပ် အစရှိသော အရပ်များ၌လည်း အရပ့်ဝတ်နှင့် ရဲအဖွဲ့ဝင်များသည် ပြည်သူလူထုအား စောင့်ရှောက်လျက်ရှိသည်။

သူခိုး လူဆိုးတို့သည် နေ့အချိန်တွင် ပုန်းလျှိုးနေ၍ ညဉ့်အချိန်၌ထွက်လေ့ရှိသောကြောင့်ရဲအဖွဲ့ဝင်တို့သည် ညဉ့်အခါတွင် မိမိတို့တာဝန်ကျသော ရပ်ကွက်တွင်း၌ ကင်းလှည့်စောင့်

ကြရသည်။ ညဉ့်အခါ ကင်းလှည့်ရာ၌ ခြေလျင် လျှောက်၍ စောင့်ရှောက် ရသည်လည်း ရှိ၏။ စက်ဘီး၊ ဝိုင်ယာလက် မော်တော်ကားတို့ဖြင့် စောင့်ရှောက်ရသည်လည်း ရှိ၏။

ထို့ကြောင့် နိုင်ငံအုပ်ချုပ်ရေးတွင် ရဲအဖွဲ့သည် အလွန် အရေးကြီး၏။ ထို့ပြင် ရဲအဖွဲ့ဝင်တို့သည် ၂၄ နာရီပတ်လုံး ပြည်သူလူထု၏ အသက်အိုးအိမ် စည်းစိမ်လုံခြုံမှုကို သက်စွန့်ကြိုးပမ်း ဆောင်ရွက်ရသူများလည်း ဖြစ်ပေသည်။

**ရဲတိုက်။** ။ရဲတိုက် ဟူသည် ခံတပ်သဖွယ် အခိုင်အခံ့ ဆောက်လုပ် ထားသော လူနေအဆောက်အအုံ ဖြစ်သည်။ ဥရောပတိုက်တွင်ကံကျေးချစံနစ်ခေတ်က မြေပိုင်ရှင်များနှင့် မှူးစား ရွာစား၊ မှူးကြီး မတ်ကြီးတို့သည် ရဲတိုက်များ၌ နေထိုင်ကြ၏။ ထိုအကြီးအကဲတို့၏ အခြွေအရံများသည် ရဲတိုက်အနီး၌ စုရုံးနေထိုင်ကြသည်။ ရန်သူကို တိုက်ခိုက်ရန် သော်၎င်း၊ ခုခံကာကွယ်ရန်သော်၎င်း အရေးကြုံလာလျှင် ထိုအခြွေအရံတို့သည် မိမိတို့၏အကြီးအကဲတို့ဖက်က ကူညီရသည်။ စစ်ဖြစ်ပွားချိန်တွင် လက်အောက်ငယ်သားတို့သည် ရဲတိုက်တွင်း၌ ခိုလှုံကြရလေသည်။

တောင်ထိပ် တောင်ခါးပန်းများနှင့် ကုန်းမြင့်မြေများ ပေါ်တွင် ရဲတိုက်ကို ဆောက်လုပ်လေ့ ရှိကြသည်။ ဤသို့ မြင့်သောနေရာကို ရွေးချယ်ရခြင်းမှာ ရန်သူများက လာရောက်တိုက်ခိုက်ခဲ့သော် လွယ်ကူစွာ ခုခံနိုင်ရန် ဖြစ်သည်။ အချို့ရဲတိုက်များကို မြေညီ၌ ဆောက်လုပ်ကြသည်။ ရန်သူများ ရဲတိုက်အတွင်းသို့ လွယ်ကူစွာ မဝင်ရောက်နိုင်စေခြင်းငှာ ရဲတိုက်ပတ်လည်တွင် သစ်တိုးအချွန်ကြီးများ စီရရီ စိုက်ထူထား၍ ကျုံးများလည်းဖောက်လုပ်ထားလေ့ရှိသည်။

ကျုံးပတ်လည်ရှိ တန်တိုင်းပေါ်တွင် သူရဲခို ခေါ်သည့် အဆောက်အအုံကလေးများ ဆောက်လုပ် ထားပြီးလျှင် ထိုအထဲတွင် အစောင့်အကြပ် စစ်သားများကို နေရာချထားသည်။ရဲတိုက်ပတ်လည်တွင် အတွင်းဝင်း၊အပြင်ဝင်းဟူ၍ရှိရာ အပြင်ဝင်းတွင် ရိက္ခာရုံနှင့် မြင်းစောင်းတို့ကို ဆောက်လုပ်ထား၍ အတွင်းဝင်းထဲ၌ ရဲတိုက်ကြီးကို ဆောက်လုပ်ထားသည်။ ရဲတိုက်ကို ထုထည်ကောင်းသော ကျောက်တုံးများဖြင့် ခိုင်ခံ့မြင့်မားစွာ ဆောက်လုပ်ရသည်။ ရဲတိုက်ပေါ်တွင်လည်း မျှော်စင်နှင့် သူရဲခိုများ ထားရှိရာ ထိုမျှော်စင်များပေါ်မှ နေ၍ ကြည့်လျှင် အနီးအဝေး ပတ်ဝန်းကျင်ကို ကောင်းစွာ မြင်နိုင်သည်။ ရှေးခေတ် လက်နက်များမှာ ယခုခေတ် လက်နက်များကဲ့သို့ အစွမ်းမထက်သေးရကား ရဲတိုက်ကို အကာအကွယ်ပြုကာ ခုခံလျှင် ရန်သူသည် မည်သို့မျှ အန္တရာယ်မပြုနိုင်ချေ။ ရဲတိုက်ကိုဖြိုခွင်းရန်ကို ထားဘိဦး၊ ရန်သူတို့သည် ရဲတိုက်အတွင်းသို့ ဝင်ရောက်ရန်ပင် များစွာခက်ခဲလေသည်။

နော်မန်တို့ တည်ဆောက်ခဲ့ကြသော ရဲတိုက်ကြီးများမှာ နှစ်မျိုးနှစ်စား ရှိသည်။ ပဌမ တမျိုးမှာ မျှော်စင်ဝိုင်းကြီးများဖြင့် သဘာဝကျောက်တောင် အကာအကွယ်များကို အမှီပြု၍ ဆောက်လုပ်သော ရဲတိုက်များ ဖြစ်ကြ၏။ ကလစ်ဖဒ်၊ လဒ်လိုးပ်နှင့် အိတ်ဇီတာ ရဲတိုက်များသည် ထိုပဌမအမျိုးတွင် ပါဝင်သည်။ ဒုတိယ တမျိုးမှာ ရိတင်ပုံသဏ္ဌာန် (ထောင့်မှန် စတုဂံ) အဆောက်အအုံမြင့်ကြီးများ ဖြစ်၏။ လန်ဒန် မျှော်စင်ကြီးသည် ထိုစံနစ်ဖြင့် တည်ဆောက်သော ရဲတိုက်များအနက် အကောင်းဆုံး နမူနာ ဖြစ်လေသည်။



စကော့တလန်ပြည်ရှိ ဘုရင့်စံအိမ်တော် ဖြစ်သည့် ဗဲလမောရယ်ရဲတိုက်

ရဲတိုက်များကို မူလ ဆောက်လုပ်ခါစက အကာအကွယ်အဖြစ်သာ ဆောက်လုပ်ခဲ့ကြသော်လည်း နောင်အခါတွင် ခမ်းခမ်းနားနား နေထိုင်ရန်ဟူ၍လည်း သဘောထားလာကြလေသည်။ သို့ဖြစ်ရာ ရဲတိုက်များကို အနုပညာလက်ရာအမျိုးမျိုးဖြင့် လှပတင့်တယ် နေချင်ဖွယ်ဖြစ်အောင် ပြုပြင်မွမ်းမံလျက် နေထိုင်ကြလေသည်။ ဤသို့ နေနိုင်သူများမှာ များသောအားဖြင့် မင်းညီမင်းသားလူကုံထံများနှင့် သဌေးသူကြွယ်များသာ ဖြစ်ကြသည်။

**ရဲဘော် သုံးကျိပ်။** ။ရဲဘော်သုံးကျိပ်သည် ဗြိတိသျှတို့၏ ဖဝါးအောက်တွင် ပြားပြားမှောက် ဝပ်စင်းနေရသော မြန်မာတို့၏လွတ်လပ်ရေးအတွက် အသက်သွေးခဲဖြင့် ရင်းနှီးဆောင်ရွက်ခဲ့သူများတွင် ပါဝင်သော မျိုးချစ် မြန်မာလူငယ်တစု ဖြစ်လေသည်။ ထိုရဲဘော် သုံးကျိပ်တို့မှာ –

၁။ သခင်အောင်ဆန်း (ဗိုလ်တေဇ) (လူသတ်တို့ လက်ချက်ဖြင့် ကျဆုံးသွားသည်။)၊ ၂။ သခင် လှဖေ (ဗိုလ်လကျ်ာ)၊ ၃။ သခင်ရှုမောင် (ဗိုလ်နေဝင်း) (ယခု တော်လှန်ရေးကောင်စီ ဥက္ကဋ္ဌ)၊ ၄။ ကိုလှမောင် (ဗိုလ်ဇေယျ) (ကွယ်လွန်သူ တောခို ကွန်မြူနစ် ခေါင်းဆောင်)၊ ၅။ ကိုထွန်းရှိန် (ဗိုလ်ရန်နိုင်)၊ ၆။ သခင်လှမြိုင် (ဗိုလ်ရန်အောင်) (ကွယ်လွန်သူ တောခိုကွန်မြူနစ်ခေါင်းဆောင်)၊ ၇။ ကိုရွှေ (ဗိုလ်ကျော်ဇော)၊ ၈။ သခင်စံလှိုင် (ဗိုလ်မှူးအောင်)၊ ၉။ ကိုဆောင်း (ဗိုလ်ထိန်ဝင်း) (အင်္ဂလိပ်အဝင် ကွယ်လွန်သည်။)၊ ၁၀။ သခင်ထွန်းရွှေ (ဗိုလ်လင်းယုန်)၊ ၁၁။ သခင်အောင်သိမ်း (ဗိုလ်ရဲထွဋ်)၊ ၁၂။ သခင်ဗဂျမ်း (ဗိုလ်လရောင်)၊ ၁၃။ သခင်တင်အေး (ဗိုလ်ဘုန်းမြင့်)၊ ၁၄။ သခင် ထွန်းခင်(ဗိုလ်မြင့်ဆွေ)၊ ၁၅။ သခင်သန်းတင် (ဗိုလ်သန်းတင်) (တိုင်းဝမ်ကျွန်းတွင် ကွယ်လွန်သည်။)၊ ၁၆။ သခင် ထွန်းအုပ်၊ ၁၇။ သခင် အောင်သန်း (ဗိုလ်စကြာ)၊ ၁၈။ သခင်စိုး (ဗိုလ်မြင့်အောင်) (အင်္ဂလိပ်အဝင် သတ်သေသည်။)၊ ၁၉။ သခင် စံမြ (ဗိုလ်တောက်ထိန်)၊ ၂၀။ ကိုလှ (ဗိုလ်မင်းရောင်)၊ ၂၁။ သခင်စောလွင် (ဗိုလ်မင်းခေါင်)၊ ၂၂။ သခင်ကျော်စိန်(ဗိုလ်မိုးညို) (၁၉၆၀ ပြည့်နှစ် ကွယ်လွန်သည်။)၊ ၂၃။ သခင်သစ် (ဗိုလ်စောနောင်)၊ ၂၄။ သခင် ခင်မောင်ဦး (ဗိုလ်တာရာ)၊ ၂၅။ သခင် ထွန်းလွင် (ဗိုလ် ဗလ)၊ ၂၆။ သခင် သန်းညွန့် (ဗိုလ်ဇင်ယော်)၊ ၂၇။ သခင်အေးမောင် (ဗိုလ်မိုး) (ဖူးကြီးတိုက်ပွဲ၌ ကျသည်။)၊ ၂၈။ သခင် မောင်မောင် (ဗိုလ်ဥာဏ) (ဖာပွန်တိုက်ပွဲ၌ ကျသည်။)၊ ၂၉။ သခင်ငွေ (ဗိုလ်စောအောင်) (ရွှေကျင်တိုက်ပွဲ၌ ကျသည်။) နှင့် ၃၀။ သခင်သန်းတင် (ဗိုလ်မြဒင်) (ဇင်းမယ်တွင်ကွယ်လွန်) တို့ ဖြစ်ကြသည်။

ကမ္ဘာ့ အနောက်တလွှား၌ ဒုတိယကမ္ဘာ့စစ်မီးများ စတောက်နေသည့်အချိန်တွင် မြန်မာလူထုတရပ်လုံးသည် အမျိုးသားစည်းလုံးရေးစိတ်ဓာတ်၊ နယ်ချဲ့တော်လှန်ရေး စိတ်ဓာတ်များပိုမိုပြင်းထန်သည်ထက် ပြင်းထန်လာရာ ဗြိတိသျှနယ်ချဲ့ကိုတိုက်မည့် မည်သူနှင့်မဆိုပူးပေါင်းရန် စိတ်ဓာတ်ဖြစ်ပေါ်နေကြ၏။ ထိုအချိန်၌ အရှေ့ဖက်တလွှားတွင် ဗြိတိသျှနှင့် အမေရိကန်နယ်ချဲ့တို့ကို တိုက်မည့်သူများ ဖြစ်သောဂျပန်နှင့် ပူးပေါင်း၍ နယ်ချဲ့အား တိုက်ရန် စီစဉ်နေကြလေသည်။ ထိုစဉ်တွင် ကျောင်းသား ခေါင်းဆောင်ဘဝမှ နိုင်ငံရေးသို့ လုံးဝပါဝင်လိုက်ပြီ ဖြစ်သော သခင်အောင်ဆန်း (အောင်ဆန်း၊ ဗိုလ်ချုပ် — ရှု။) သည် တိုဗမာအစည်းအရုံးတွင် အရေးပါလှသော အတွင်းရေးမှူးအဖြစ် တာဝန်ယူကာ ဆောင်ရွက်နေသည့်အခိုက် အမြို့မြို့အနယ်နယ်သို့ နိုင်ငံရေးတရားများ လှည့်လည် ဟောပြောခဲ့လေသည်။ ဟင်္သာတခရိုင် ဇလွန်မြို့တွင် ဟောရာ၌ အစိုးရအား ထိပါးသော ဟောပြောချက်များ ပါသည်ဟု ဟင်္သာတ ရာဇဝတ်ဝန် မစ္စတာဇေးဗီးယားက သခင်အောင်ဆန်းကိုဖမ်းဆီးရန်အတွက် ဆုတော်ငွေ ငါးကျပ် ကြော်ငြာ၍ ဝရမ်းထုတ်လိုက်ရာ တနိုင်ငံလုံး မခံမရပ်နိုင် ဖြစ်သွားခဲ့၏။ သခင် အောင်ဆန်းမူကား ဝရမ်းကို ရှောင်တိမ်းလျက် မြန်မာ့မြေပေါ်မှ ပျောက်ကွယ်သွားလေ၏။ ထိုသို့ သခင်အောင်ဆန်း ပျောက်ကွယ်သွားသည်ကို ဗြိတိသျှအစိုးရ လက်ပါးစေတို့ မသိလိုက်ချေ။ ဂျာမန်လေတပ်ကြီးက သမိုင်းတွင် မကြုံဘူးသော လေကြောင်းတိုက်ပွဲ ဆင်နွှဲကာ လန်ဒန်မြို့ကို တိုက်သောနေ့ဖြစ်သည့် ၁၉၄၀ ပြည့်နှစ် ဩဂုတ်လ ၈ ရက်နေ့တွင် သခင်အောင်ဆန်းသည် တရုပ်နိုင်ငံ အမွိုင်မြို့သို့ ရေးရှုကာ တရုပ်သင်္ဘောဖြင့် ကိုယ်ရောင်ဖျောက်၍ လိုက်ပါသွားခြင်း ဖြစ်လေသည်။ သခင် အောင်ဆန်းသည် ကြောက်၍ ပုန်းခြင်း မဟုတ်။ အဖမ်းခံ ထောင်ကျခံ၍ အချိန်ဖြုန်းခြင်းထက် ထိုအချိန်ကို တင်းပြည့် ကျပ်ပြည့် တိုင်းပြည်အတွက် အချက်ကျကျအသုံးချခြင်းက ပို၍ ခရီးရောက်မည်ကို အမြော်အမြင် ရှိသောကြောင့် ဖြစ်၏။ ထိုသို့ ပဌမထွက်သွားစဉ်က သံလျင် အလုပ်သမားအတွင်းရေးမှူး သခင်လှမြိုင် (နောင်ဗိုလ်ရန်အောင်)လည်း သခင်အောင်ဆန်းနှင့်အတူ ပါသွားသည်။ အမွိုင်မြို့သို့ရောက်ရှိ၍ နှစ်လမျှ ကြာပြီး နောက်တွင် ဂျပန်တို့နှင့် ဆက်သွယ်မိကာ အလုပ်အစီအစဉ်များကို လုပ်ကိုင်စီစဉ်ပြီးလျှင် ရန်ကုန်မြို့သို့ ၁၉၄၁ ခုနှစ် မတ်လ ၃ ရက်နေ့တွင် သခင်အောင်ဆန်းသည် တရုပ်အမျိုးသားအသွင်ရုပ်ဖျောက်၍ တိတ်တဆိတ်ပြန်ရောက်လာသည်။ ရန်ကုန်မြို့တွင် ပြည်တွင်းပြည်ပ တော်လှန်ရန်ကိစ္စ၊ မြန်မာလူငယ်များကို ဂျပန်နိုင်ငံသို့ စစ်ပညာသင်ခေါ်ရန်ကိစ္စ စသည်တို့ကို ဆွေးနွေးပြီးနောက် ပြန်သွားလေသည်။ မြန်မာပြည်တွင် ကျန်ရစ်သော မျိုးချစ်ခေါင်းဆောင်များက နိုင်ငံချစ် လူ

ငယ်များကို ရွေးချယ်၍ တသုတ်ပြီးတသုတ် ဂျပန်နိုင်ငံသို့ လျှို့ဝှက်စွာ ပို့ခဲ့ရာ လူငယ်ပေါင်း သုံးဆယ်မျှ စစ်သင်တန်း တက်ရန် ဂျပန်နိုင်ငံသို့ ရောက်ကြလေသည်။ များသောအား ဖြင့် ရေကြောင်းခရီးဖြင့် ရန်ကုန်မှ တိုက်ရိုက် သွားရောက်ခဲ့ ကြ၏။ သခင် အောင်သန်း (ဗိုလ်စကြာ) နှင့် သခင်သန်း တင် (တိုင်းဝမ်ကျွန်းတွင် ကွယ်လွန်) တို့သည် နယ်စပ်ကို ခြေလျင်ဖြတ်၍ ယိုးဒယားနိုင်ငံမှတဆင့် သွားရောက်ခဲ့ကြ၍ ကိုဆောင်း (ဗိုလ်ထိန်ဝင်း) ကား ဂျပန်နိုင်ငံသို့ စောစောက ကြိုတင်ပြီး ရောက်နှင့်နေခဲ့လေသည်။

ဖော်ပြပါ ရဲဘော် သုံးကျိပ်အနက် သခင်လှဖေ (ဗိုလ် လကျ်ာ)၊ သခင်အေးမောင် (ဗိုလ်မိုး)၊ သခင်ဗဂျမ်း (ဗိုလ် လရောင်) နှင့် ကိုထွန်းရှိန် (ဗိုလ်ရန်နိုင်) တို့သည် သခင် အောင်ဆန်း (ဗိုလ်တေဇ) ဂျပန်သို့အပြန်တွင် တပါတည်း လိုက်ပါသွားကြလေသည်။

ဒုတိယအသုတ်တွင် ကိုရွှေ (ဗိုလ်ကျော်ဇော)၊ သခင်ထွန်း ရွှေ (ဗိုလ်လင်းယုန်)၊ သခင် တင်အေး (ဗိုလ်ဘုန်းမြင့်)၊ သ ခင်စောလွင် (ဗိုလ်မင်းခေါင်)၊ သခင်စိုး (ဗိုလ်မြင့်အောင်)၊ သခင် အောင်သိမ်း (ဗိုလ်ရဲထွဋ်) နှင့် သခင်သန်းတင် (ဗိုလ် မြဒင်) တို့ ပါဝင်သည်။

တတိယ အသုတ်တွင် ကိုလှမောင် (ဗိုလ်ဇေယျ)၊ သခင် စံမြ(ဗိုလ်တောက်ထိန်)၊ သခင် ခင်မောင်ဦး (ဗိုလ်တာရာ) တို့ ပါဝင်၏။

သခင် ရှုမောင် (ဗိုလ်နေဝင်း)၊ သခင်ထွန်းအုပ်၊ သခင် စံလှိုင် (ဗိုလ်မှူးအောင်)၊ သခင် မောင်မောင် (ဗိုလ်ဥက္ကာ)၊ သခင်ငွေ(ဗိုလ်စောအောင်)၊ သခင်သစ် (ဗိုလ်စောနောင်)၊ သခင်ကျော်စိန် (ဗိုလ်မိုးညို)၊ သခင်သန်းညွန့် (ဗိုလ်ဇင် ယော်)၊ ကိုလှ (ဗိုလ်မင်းရောဇ်)၊ သခင် ထွန်းလွင် (ဗိုလ် ဗလ)နှင့် သခင်ထွန်းခင် (ဗိုလ်မြင့်ဆွေ) တို့သည် စတုတ္ထ အသုတ်အဖြစ် ထွက်ခွာသွားကြသည်။

မြန်မာပြည်၏ အပြင်အပသို့ရောက်ရှိနေသော ထိုရဲဘော် များသည် သခင် အောင်ဆန်းကို စစ်ဖက်ခေါင်းဆောင်၊ သခင် ထွန်းအုပ်ကို အုပ်ချုပ်ရေးဖက် ခေါင်းဆောင် အဖြစ် ဖြင့် တညီတညွတ်တည်း ရွေးချယ် တင်မြှောက်ထားကြ၏။

ရဲဘော် သုံးကျိပ်ကို (တိုင်းဝမ်ကျွန်း) ဖော်မိုးဆားကျွန်း နှင့် ဟိုင်နန်ကျွန်းတို့တွင် စစ်ပညာများကို သင်ကြား ပေး လေသည်။ သခင်ထွန်းအုပ် တဦးတည်း အုပ်ချုပ်မှုပညာ ဆည်းပူးရန် တိုကျိုမြို့တွင် ကျန်ရစ်ခဲ့သည်။ ရဲဘော်တို့သည် ဟိုင်နန်ကျွန်းတွင် ခြောက်လခန့် စစ်ပညာများ သင်ကြား ခဲ့ရပြီးနောက်ဖော်မိုးဆားကျွန်း(တိုင်းဝမ်ကျွန်း)တွင် ဆက် လက် သင်ကြား ခဲ့ရသည်။ စစ်ပညာသင်ကြားရာ၌ ဂျပန် စစ်အာဏာပိုင်တို့က စစ်တပ် အုပ်ချုပ်ရေး ပညာ၊ လမ်းပန်း အဆောက်အအုံ ဖျက်ဆီးခြင်း အစရှိသည်တို့ ပါဝင်သော အတွင်းသူပုန်ထနည်းပညာ၊ စစ်လက်နက်ကြီးများကို အသုံး ပြု၍ တိုက်ခိုက်နည်း ပညာ စသည်တို့ကို အဓိက ထား၍ သင်ကြားပေးလေသည်။ သွားရောက်ကြသော ရဲဘော် ၂၉ ဦးတို့သည် ထိုပညာရပ်သုံးမျိုးကို အစုခွဲ၍သင်ကြားခဲ့ကြ၏။ အချို့သော ရဲဘော်များမှာမူကား အားလုံးသော ပညာရပ် များကို လိုက်လံ သင်ကြားခဲ့ကြလေသည်။

တခုတည်းသော ရည်ရွယ်ချက်ဖြစ်သည့် မြန်မာ့လွတ်လပ် ရေးအတွက် အသက်ဆံဖျား စွန့်စားသွားရောက်ခဲ့ကြသော ရဲဘော်သုံးကျိပ်တို့သည် မိမိတို့ သင်ကြားလိုသော ပညာရပ် များကို အဆင်းရဲ အပင်ပန်းခံ၍ လေ့လာခဲ့ကြ၏။ နေ့စဉ် မပြတ် လက်နက်အမျိုးမျိုး စွဲကိုင်၍ တကယ့်စစ်မြေပြင်တွင် တိုက်ခိုက်ရသကဲ့သို့ပင် အပြင်းအထန် လေ့ကျင့်ခဲ့ကြရလေ သည်။ငါးမိုင်တိုက်ပွဲ၊ ၁၀ မိုင်တိုက်ပွဲ၊ ၁၅ မိုင်တိုက်ပွဲ စသည် ဖြင့် တဆင့်ထက်တဆင့် တိုး၍ တိုး၍ အပင်ပန်း ခံနိုင်ရန် နေ ပူမိုးရွာမရှောင် လေ့ကျင့်ခဲ့ကြရ၏။

လေ့ကျင့်ရသော လက်နက်များမှာ လက်ဝါးဖြင့် ဖုံးကွယ် ကာ ဝှက်ယူနိုင်သော ပစ်စတိုအသေးစားမှအစ ကမ္ဘာပေါ် တွင် ထွက်သမျှ ခြောက်လုံးပူး၊ ရိုင်ဖယ်မျိုးစုံ၊ နိုင်ငံပေါင်းစုံမှ ထွက်သော စက်သေနတ် အသေး၊အကြီး၊စိန်ပြောင်းအကြီး အငယ်နှင့် အမြောက်၊ တင့်ကားပစ် အမြောက်၊ တင့်ကား မိုင်းဗုံးစသည်တို့ ဖြစ်သည်။ အဆိပ်ငွေ့သုံးနည်း၊ ကာကွယ် နည်း၊ ဗိုင်းနမိုက်မျိုးစုံမှ စ၍ ဂျပန်စစ်တက္ကသိုလ်၊ ဗိုလ်သင် တန်း ပဋ္ဌမတန်းစား ပုဂ္ဂိုလ်များအတွက် သုံးနှစ်သင်တန်းကို တနှစ်နှင့် အပြီး တတ်မြောက်ကျွမ်းကျင်အောင် အချိန်လု၍ သင်ကြားကြရလေသည်။

စစ်ပညာ သင်ကြားနေစဉ် အခါက ဂျပန်နှင့် အင်္ဂလိပ် တို့သည် စစ်မဖြစ်သေးသော်လည်း တဖက်နှင့်တဖက် ချက် ကောင်းရွှေးနေသောအခါ ဖြစ်သဖြင့် ရဲဘော်တို့သည် ပန်း လျှိုးကွယ်လျှိုးဖြင့် တိတ်တဆိတ် စစ်ပညာ သင်ယူခဲ့ရ၏။ ၁၉၄၁ ခုနှစ် ဒီဇင်ဘာလ ၈ ရက်နေ့တွင် ဂျပန်သည် အင်္ဂ လိပ် အမေရိကန်တို့ကို စစ်ကျေညာခဲ့သည်။ ရဲဘော်များ လည်း စစ်ပညာကို ဖြတ်လမ်းမှ သင်ယူ တတ်မြောက်ခဲ့ပြီး နောက် ဖော်မိုးဆားကျွန်း (တိုင်းဝမ်ကျွန်း) မှ သင်္ဘော တတန်၊ လေယာဉ်ပျံ တတန်ဖြင့် ပြင်သစ်အင်ဒိုချိုင်းနားသို့ ဖြတ်ဝင် ရောက်ရှိခဲ့၏။ အင်ဒိုချိုင်းနားမှ တဆင့် ကုန်း ကြောင်း၊ လေကြောင်းဖြင့် ယိုးဒယားနိုင်ငံထဲသို့ ဝင်ရောက် ခဲ့ကြလေသည်။ ထိုအတောအတွင်း ပြည်တွင်း သူပုန် ကိစ္စ အတွက် ဗိုလ်နေဝင်း ဦးစီးသော ရဲဘော် ခြောက်ယောက်တို့ ကို မြန်မာပြည်ထဲသို့ စီစဉ်ကာ စေလွှတ်လိုက်လေသည်။

၁၉၄၁ ခုနှစ် ဒီဇင်ဘာလ ၂၅ ရက်နေ့တွင် ဗိုလ်တေဇ၊ ဗိုလ်မိုးကြိုး [ဂျပန်ဗိုလ်မှူးကြီး မီနာမိ (ဝါ) ဆူဇူကီး] တို့ သည် ဗန်ကောက်မြို့သို့ ရောက်ရှိလာ၍ မြန်မာမျိုးချစ်ကြီး

များဖြစ်ကြသော ဦးလွန်းဖေ၊ ဦးလှဖေ၊ ဦးချစ်ဖေ၊ ဦးတရုပ်၊ ဦးဘွန်လျောင်တို့၏ အကူအညီဖြင့် ယိုးဒယားနိုင်ငံရှိ မြန်မာလူကြီး လူငယ်များကို စုရုံးကာ ဂျပန်ပြန် ဗိုလ်များကို အုပ်ချုပ်စေလျက် ဗမာ့ လွတ်လပ်ရေး တပ်မတော် (ဘီ၊ အိုင်၊ အေ) ကို ဒီဇင်ဘာလ ၂၆ ရက်နေ့တွင် ဖွဲ့စည်းခဲ့လေသည်။

ထိုနောက် ဂျပန်တို့နှင့်အတူ မြန်မာနိုင်ငံသို့ ချီတက်ခဲ့၏။ ထိုသို့ မချီတက်မီ ဗန်ကောက်မြို့ မျက်စိကုဆရာကြီး ဦးလွန်းဖေ၏ အိမ်တွင် မိမိတို့၏ လက်မောင်းသွေးများကို ငွေဖလားထဲသို့ ဖောက်ထည့်၍ ထိုသွေးကိုပင် သောက်ကာ မြန်မာ့လွတ်လပ်ရေးအတွက် အသက်နှင့်လဲ၍ ဆောင်ရွက်ရန် သစ္စာပြု သွေးစည်းခဲ့ကြသည်။

ဗမာ့ လွတ်လပ်ရေး တပ်မတော်သည် ယိုးဒယား နိုင်ငံမှ မြန်မာ နိုင်ငံတွင်းသို့(၁)ကော့သောင်း(ဝိတိုရိယအငူ)မြိတ်ကြောင်း၊ (၂) ထားဝယ်ကြောင်း၊ (၃) မဲဆောက် မြဝတီကြောင်းဟူ၍ စစ်သုံးကြောင်းချီ၍ ဝင်ရောက်ခဲ့သည်။ ထိုသုံးကြောင်းအနက် တကြောင်းသည် ဟင်္သာတအထိ ရေကြောင်း ချီခဲ့သည်။

မြိတ်နယ်ကို ဗိုလ်ရန်နိုင် ကြီးမှူးသော တပ်မတော်ခွဲက သိမ်းပိုက်ခဲ့သည်။ ထားဝယ် နယ်ကို ဂျပန်တပ်များနှင့် ဂျပန်ဗိုလ် ဗိုလ်အေး၊ ဗိုလ်လကျ်ာတို့ ကြီးမှူးသော တပ်မတော်ခွဲက သိမ်းယူခဲ့သည်။ ဗမာ့ လွတ်လပ်ရေး တပ်မတော်သည် ရန်သူ သံချပ်ကာ ကားများနှင့် ပဲခူးအနီး၌ တိုက်ခိုက်ခဲ့ရ၏။ မြစ်ဝကျွန်းပေါ်ကို ဗိုလ်ရန်နိုင်တပ်နှင့် တက္ကသိုလ်ကျောင်းသား ဗိုလ်အောင်(ဗိုလ်မောင်မောင်)၊ ဗိုလ်ဝင်း၊ ဗိုလ်သိမ်းဆွေ၊ ဗိုလ်ထိန်ဝင်း၊ သခင် သိန်းဖေ(ဝါးခယ်မ)တို့ ကြီးမှူးသော အတွင်းသူပုန်တပ်များက သိမ်းပိုက်ခဲ့လေသည်။ ဗမာ့လွတ်လပ်ရေး တပ်မတော်သည် ထားဝယ်၊ ဖျာပုံ၊ ဒေးဒရဲ၊ ဟင်္သာတ၊ ပဲခူး၊ စစ်တောင်း တဝိုက်၊ ရွှေကျင်၊ ရွှေတောင်၊ ဖာပွန်တိုက်ပွဲများတွင် ဝင်နွှဲခဲ့၏။ ဒေးဒရဲ၌ ရန်သူလေယာဉ်ပျံ နှစ်စင်းကို ပစ်ချခဲ့၏။ ရွှေကျင်တိုက်ပွဲ၊ ရွှေတောင်တိုက်ပွဲတို့တွင်ကား ပြင်းထန်စွာတိုက်ခိုက်ခဲ့ရလေသည်။ ရန်သူ လေယာဉ်ပျံ၊ သံချပ်ကာ ကားနှင့် အဆမတန် များသော ရန်သူအင်အားကို အကြိမ်ကြိမ် ချီးနှိမ် ဖျက်ဆီး ခဲ့သည်။ အင်္ဂလိပ် လူမျိုးနှင့် အင်္ဂလိပ်တပ် စစ်သားအများကိုလည်း



ရဲဘော်သုံးကျိပ်ဝင်များ

**ရှေ့ထန်း ဝဲ မှ ယာ — ဗိုလ်ဇေယျ၊ ဗိုလ်အောင်၊ ဂျပန်ဘုန်းကြီး ဦးနာဂအိ၊ ဗိုလ်တေဇ၊ ဗိုလ်မိုးကြိုး၊ ဗိုလ်နေဝင်း၊ ဗိုလ်လရောင်။**

**အလယ်ထန်း ဝဲ မှ ယာ — ဗိုလ်ရန်နိုင်၊ ဗိုလ်မင်းရောင်၊ ဗိုလ်မြင့်အောင်၊ ဗိုလ်ဇေ၀နောင်၊ ဗိုလ်ကျော်ဇော။**

**နောက်ထန်း ဝဲ မှ ယာ — ဗိုလ်တာရာ၊ ဗိုလ်မင်းခေါင်၊ ဗိုလ်လင်းယုန်၊ ဗိုလ်ဇင်ယော်၊ ဗိုလ်ဗလ၊ ဗိုလ်ရဲထွဋ်။**

သူ့ပန်းအဖြစ် ဖမ်းဆီး ရခဲ့၏။ အထက်မြန်မာပြည် တိုက်ခိုက် သိမ်းယူရေးတွင် ရန်သူများအား စစ်ပရိယာယ် ဆင်၍ ဝိုင်း မိအောင် ဂျပန်တပ်မတော်ကြီးအား ကူညီရာ၌ ဇေယျဝတီ အ နောက်ကြောင်း ချီတက်ကူညီခဲ့၏။ အထက်စစ်ကြောင်းတွင် ဗမာ့တပ်မတော်၏အဖ ဗိုလ်မှူးကြီး ဗိုလ်မိုးကြိုးနှင့် ဗိုလ်တေ ဇ၊ ဗိုလ်နေဝင်း၊ ဗိုလ်ဇေယျတို့ ကြီးမှူးချီတက်ကြသည်။ ရခိုင် တပြည်လုံးကို ဗိုလ်ရန်အောင် ကြီးမှူးသော ဗမာ့ လွတ်လပ် ရေး တပ်မတော်နှင့် ဂျပန်တပ်မခွဲတို့ သိမ်းပိုက်ခဲ့လေသည်။ နိုင်ငံတွင်း ငြိမ်ဝပ်ပိပြားရေးအတွက်လည်း တဖက်တလမ်းက ကူညီဆောင်ရွက်ခဲ့၏။

ယိုးဒယားနိုင်ငံမှ စုဆောင်းရရှိခဲ့သော ဗမာ့လွတ်လပ်ရေး တပ်မတော် စစ်ဗိုလ်စစ်သား စုစုပေါင်းမှာ ၃,၇၇၆ ယောက် ဖြစ်၍ မြန်မာ့ မြေပေါ်တွင် တိုက်ပွဲများ၌ ကျဆုံးသူပေါင်း ၆၄၂ ယောက်နှင့် ဒဏ်ရာ အနာတရ ရရှိသူ လူမမာပေါင်း မှာ ၃၀၀ ခန့်ရှိလေသည်။ မြန်မာနိုင်ငံ တဝှန်းလုံးကို ဂျပန်တို့ က သိမ်းပိုက်လိုက်သော အချိန်တွင် ဗမာ့လွတ်လပ်ရေး တပ် မတော် စစ်ဗိုလ် စစ်သား စုစုပေါင်းမှာ နှစ်သောင်းကျော်၊ သုံးသောင်း နီးပါးရှိ၏။ ဗမာ့တပ်မတော်သည် အောင်ပွဲများ ရ၍ ဗြိတိသျှအစိုးရသည် မြန်မာနိုင်ငံမှ ဆုတ်ခွာ ထွက်ပြေး ပြီးနောက် ယိုးဒယားမှ လိုက်ပါလာသူ တပ်မတော်သား အချို့သည် ယိုးဒယားသို့ ပြန်သွားကြသည်။ တရာခန့်မျှကား မြန်မာနိုင်ငံတွင်ပင် အိုးအိမ်ထူထောင် နေရစ်ခဲ့ကြသည်။

၁၉၄၂ ခုနှစ် ဇူလိုင်လ ၂၇ ရက်နေ့တွင် ဗမာ့လွတ်လပ် ရေးတပ်မတော်ကို အမြဲတမ်းစစ်တပ်ကြီးတခု၏ အခြေမျိုးသို့ ရောက်အောင် ဗမာ့ကာကွယ်ရေးတပ်မတော် ဟူ၍ ပြောင်း လဲဖွဲ့စည်းလိုက်သည်။ ဗမာ့ကာကွယ်ရေးတပ်မတော်၏ ဦးစီး ဗိုလ်ချုပ်မှာ ထိုစဉ်က ရာထူးအရ ဗိုလ်မှူးကြီး အောင်ဆန်း ဖြစ်လေသည်။ (မြန်မာ့တပ်မတော် — လည်းရှု။)

**ရဲရှိပင်။**　။မြန်မာနိုင်ငံအရပ်ရပ်၌ အထူးသဖြင့် မိုးများ သော ဒေသများ၌ ပေါက်ရောက်လေ့ရှိသော ရဲရှိပင်ကို စားသုံး၍ ရသော အရွက်နှင့် အသီးတို့ကြောင့် လူသိ များ သည်။ ယင်းသည် နီပါးဆေးပင်မျိုးတွင် ပါဝင်၍ နီပါးကြီး ဟုလည်း ခေါ်ဝေါ်ကြလေသည်။

ရဲရှိပင်သည် အခြား နီပါးဆေးပင်များကဲ့သို့ ရူဗိအေ စီအီး မျိုးရင်း၌ ပါဝင်၍၊ ရက္ခဗေဒ အမည်အားဖြင့် မိုရင်ဒါ အန်ဂတ်စတီဖော်လီယာ ဟုခေါ်သည်။ အပင်ငယ် ပင် စောက်မျိုး ဖြစ်၍ အကိုင်းအခက်များ ရှည်လျားသည်။ အရွက်များသည် ပြောင်ချောနေ၍ တခါတရံ တပေခန့် ရှည်လျားသည်။ အရွက်များသည် အနည်းငယ် ချွန်၍ အနည်းငယ် အမြီး ရှည်သည်။ ရွက်ရင်းဖက်သို့ အတန်ငယ် ဝိုက်၍ ရှူးသွားသည်။ အရွက်များ ရွက်ဆိုင် ထွက်သည်။



ရဲရှိပင်၏ အသီးအပွင့်နှင့် အရွက်များ

အရောင် ဖြူ၍ အနည်းငယ် အနံ့သင်းသော အပွင့်ကလေး များ အများအပြား ပွင့်သည်။ ပွင့်တံရှည်သည်လည်း ရှိ သည်။ တိုသည်လည်း ရှိသည်။ ရဲရှိသီးသည် စထရော် ဗယ်ရီသီး၊ ဩဇာသီးတို့ကဲ့သို့ အစေ့များ၍ မှည့်သည့်အခါ ပျော့အိအိ နေပြီးလျှင် အနံ့ ပြင်းသည်။

ရဲရှိပင်ကို အစေ့ ပျိုး၍ စိုက်ရသည်။ စိုက်ပျိုးရန် မခဲ ယဉ်းလှသဖြင့် မြန်မာနိုင်ငံ အရပ်ရပ်ရှိ နေအိမ်ဝင်းခြံများ၌ အတွေ့ရများသော အပင်မျိုး ဖြစ်လေသည်။

အရွက်ကိုရော၊ အသီးကိုပါ စားသုံးနိုင်ကြသော်လည်း အသီး၏ စူးရှသော အနံ့ကို မကြိုက်ကြသဖြင့် အသီးကို စားသုံးသူ နည်းသည်။ အနံ့စံနိုင်သူများကမူ ရဲရှိသီးမှည့် ၏ ပူရှိန်းရှိန်း အရသာကို တမျိုးတမည် နှစ်သက်ကြသဖြင့် ၎င်း၊ ဆေးဖက်ဝင်သော အသီးတမျိုး အဖြစ်၎င်း ထန်း လျက်ဖြင့် နယ်၍ စားသုံးကြသည်။

ရဲရှိရွက်သည်လည်း ဆေးဖက်ဝင်သည် ဟု ဆိုကြသည်။ အရသာ ခါးသော်လည်း လေနိုင်သော အရွက်တမျိုး ဟု ဆိုကြသည်။ ငါး၊ ငရုံ့ စသည့် ငါး တမျိုးမျိုးကို ရဲရှိ ရွက်နှင့်ဖြင့် ငါးပေါင်းထုပ် လုပ်စားလေ့ ရှိကြရာ၊ ရဲရှိရွက်၏ ခါးသက်သက် အရသာကြောင့် ငါးပေါင်းထုပ်သည် ပို၍ အရသာ ထူးကဲသည်။ ထိုကြောင့် မြန်မာ ငါးပေါင်းထုပ် တွင် ရဲရှိရွက်သည် မပါမဖြစ်သော ပစ္စည်းတရပ် ဖြစ်သည်။

ငါးဗုဇွန် စသည် တမျိုးမျိုးနှင့် ရဲရှိရွက်ကို ငါးပေါင်းကြော် ကြော်၍လည်း စားသုံးကြသည်။ ရဲရှိရွက်နုကလေးများကို မီးအုံး၍ ၎င်း၊ ရေနွေးဖျော၍ ၎င်း အတို့အမြှုပ် ပြုလုပ်၍လည်း စားသုံးကြလေသည်။

ရဲရှိရွက်နှင့် အသီးတို့တွင် ပါဝင်သော အာဟာရ ဓာတ်များသည် အတူတူလိုပင် ဖြစ်သည်။ ယင်းတို့တွင် ဗီတာမင် စီ ဓာတ်၊ ကလိုရီ ဓာတ်၊ ရေငွေ့ဓာတ်တို့ အတော်များများ ပါဝင်၍ ထုံးဓာတ်နှင့် သတ္တုဓာတ်တို့ အတော်အသင့် ပါသည်။ ကာဗိုဟိုက်ဒရိတ်နှင့် ပရိုတင်း ဓာတ်များလည်း အနည်းငယ်စီ ပါသည်။ ထို့ကြောင့် ရဲရှိရွက်သည် အရသာ ခါး၍ အသီးသည် အနံ့ပြင်းသော်လည်း အင်အားဖြစ်စေသော အရွက်နှင့် အသီး ဟူ၍ ဆိုနိုင်သည်။

မြန်မာဆေးကျမ်းများ အလိုမှာ ရဲရှိရွက်သည် ခါး၏။ စဉ်းငယ် ပူ၏။ လေကို ရှင်စေတတ်၏။ သွေးကို တက်ကြွစေတတ်၏။ ဝမ်းကိုလည်း ရှင်စေတတ်၏။

ရဲရှိသီးသည် ပူစပ်သော အရသာ ရှိ၏။ စဉ်းငယ်လည်း ချဉ်၏။ သွေး သည်းခြေ လေ သလိပ်တို့ကို နိုင်၏။ အစာမကျေသော အနာ၊ လေလိုက်တက်သော အနာ၊ လေပူနာ၊ သည်းခြေ လှုပ်ရှားထကြွသော အနာတို့ကို နိုင်၏။ ရဲရှိသီးမှည့်ကို ထန်းလျက်နှင့်နယ်၍တညဥ့်သိပ်ထားပြီးသည့်နောက် ကောင်းစွာ ခေါက်၍ ဆားအနည်းငယ် ထည့်ပြီးလျှင် သုံးဆောင်ပါက ဝမ်းဖောဝမ်းရောင်၊ ရင်ကယ်ရောဂါများ ပျောက်ကင်း၍ ရင်ချောင်စေသည်။ ချောင်းဆိုးသော် ပျားရည်နှင့် နယ်၍ စားသုံးက လျင်မြန်စွာ ပျောက်စေတတ်သည် ဟုဆိုလေသည်။

အိန္ဒိယ ဆေးကျမ်းအလိုမှာ အရွက်ကို ပြာချပြီးလျှင် မုန့်ညင်းစေ့ အနည်းငယ်နှင့် ပြုတ်၍ တိုက်ပါက သူငယ်နာ ဝမ်းသက်ရောဂါ ပျောက်ကင်း နိုင်၏။ ဝမ်းကိုက်ရောဂါ ပျောက်လိုလျှင်လည်း ထိုအပြုတ်ရည်တွင် အမွှေးအကြိုင် အနည်းငယ် ထည့်၍ တိုက်ရသည်။ အသီးနှင့် အရွက်ပြုတ်ရည်သည် မိန်းမတို့ ဓမ္မတာ ချုပ်ခြင်းကို ဖယ်ရှားနိုင်၏။ ရဲရှိမြစ်သည်မူ ချုပ်စေသော သတ္တိ ရှိသည်ဟု ဆိုလေသည်။

**ရဲရမန်းနယ်။** ။ရဲရမန်းနယ်သည် ကျောက်ဆည်ခရိုင် မြောက်ဖက်မှ အရှေ့ဖက် ရှမ်းကုန်းပြင်မြင့်သို့ တိုင်အောင် ကျယ်ပြန့်၍ တောင်စွယ် တောင်တန်း ချိုင့်ဝှမ်းတို့ ထူထပ်သည့်နယ် ဖြစ်သည်။ မြောက်ဖက်တွင် မြစ်ငယ်မြစ်၊ အရှေ့ဖက်နှင့် တောင်ဖက်တို့တွင် ရပ်စောက် နယ်နှင့် ဘော်နယ် စသည်တို့ရှိကြသည်။ ရဲရမန်းနယ်၏ အကျယ်အဝန်းမှာ ၇၁၃ စတုရန်း မိုင်မျှ ရှိသည်။

ရဲရမန်းနယ်တွင် သစ်တောဝါးတောများရှိသည်။ တောင်မြင့်ပိုင်းတွင် ထင်းရှူးပင်နှင့် ဝက်သစ်ချပင်များ ပေါက်သည်။ တောင်အောက်ပိုင်းတွင် ပျဉ်းကတိုးပင်နှင့် ကျွန်းပင်များကို တွေ့ရသည်။ ရဲရမန်း သစ်တောကြိုးဝိုင်းမှာ ၃၀၆ စတုရန်းမိုင် မျှ ကျယ်ဝန်း၍ သစ်တော၏ သုံးပုံတပုံခန့်တွင် ကျွန်းပင်များ ပေါက်သည်။

ရဲရမန်းနယ်သည် တောင်ထူထပ်သဖြင့် လူနေအလွန်ပါးသည်။ လူဦးရေ ၁,၆၄၇ ယောက်ခန့်သာရှိ၍ များသောအားဖြင့် ဓနုလူမျိုးများသာ နေထိုင်ကြသည်။ ဤနယ်၌နေထိုင်သူတို့သည် တောင်ယာလုပ်ကိုင်ခြင်းဖြင့် အသက်မွေးကြသည်။ ရှေးက ဘော်စော်ဘွားနယ်တွင် ပါဝင်၍ နောက်မှ ကျောက်ဆည်ခရိုင်သို့ သွတ်သွင်းခဲ့သည်။

**ရော့ကဖဲလား, ဂျော ဒီ (ခရစ် ၁၈၃၉ – ၁၉၃၇)။** ။ဂျွန်ဒေးဗီဆန် ရော့ကဖဲလားသည် သူ၏ ခေတ်တွင် ကမ္ဘာပေါ်၌ အကြွယ်ဝဆုံး ပုဂ္ဂိုလ်တဦးအဖြစ် ထင်ရှားခဲ့သော အမေရိကန်လူမျိုး ဖြစ်သည်။ သူဦးစီးတည်ထောင်သော စတင်းဒတ်ရေနံကုမ္ပဏီသည် အမေရိကန် နိုင်ငံတွင်းရှိ ရေနံလုပ်ငန်းဟူသမျှလိုလိုကို ချုပ်ကိုင်ထားသည့် တဦးတည်း ရောင်းဝယ်ခွင့်ရသော လုပ်ငန်းကြီး ဖြစ်လေသည်။ ရော့ကဖဲလား၏ စီးပွားရေးလုပ်ငန်းသည် ကမ္ဘာအရပ်ရပ်သို့ပင် ကျယ်ပြန့်လာရာ၊ ပြိုင်ဖက်ကင်းသည့် မနုရှင်အဖြစ် စီးပွားရေးနယ်တွင် ထင်ရှားခဲ့သည်။ ရော့ကဖဲလားသည် စီးပွားရေးလုပ်ငန်းမှ



ဂျွန် ဒီ ရော့ကဖဲလားသည် လူမှုရေးအတွက် ငွေ သန်းပေါင်းများစွာ လှူဒါန်းခဲ့သည်။

အနားယူပြီးသည့်နောက် ကမ္ဘာ့ပေါ် ရှိလူများ ကောင်းစားရေးအတွက် ထောက်ပံ့ရေး အဖွဲ့အစည်းများကို ဖွဲ့စည်းခဲ့သည်။ မိမိ၏ စည်းစိမ်ဥစ္စာထဲမှ ဒေါ်လာငွေ အမြောက်အမြားကို ထိုအဖွဲ့အစည်းများအတွက် ရက်ရောစွာ လှူဒါန်းခဲ့သည်။ ရော့ကဖဲလားဖောင်ဒေးရှင်းအဖွဲ့၊ ရှီကားဂိုးတက္ကသိုလ်၊ ရော့ကဖဲလား ဆေးဖက်သုတေသန အသင်း၊ ပညာရေးအဖွဲ့ စသည်တို့မှာ ထင်ရှားသော အသင်းအဖွဲ့များဖြစ်သည်။

ရော့ကဖဲလားသည် ၁၈၃၉ ခုနှစ် ဇူလိုင်လ ၈ ရက် နေ့တွင် နယူးယော့ပြည်နယ်၊ ရစ်ချဖို့မြို့၌ ဖွားမြင်၏။ ၁၄ နှစ်သားအရွယ်တွင် မိဖများနှင့်အတူ အိုဟိုင်းအိုပြည်နယ်၊ ကလီဗလန်မြို့သို့ ပြောင်းရွှေ့ နေထိုင်သည်။ ထိုမြို့ရှိ အထက်တန်းကျောင်းတွင် ပညာသင်ကြားပြီး နောက်၊ အသက် ၁၉ နှစ်အရွယ်၌ ကလတ်နှင့် ရော့ကဖဲလား လက်ကား ရောင်းဝယ်ရေးပွဲရုံတွင် အစုစပ် ပါဝင်လေသည်။ ၁၈၅၉ ခုနှစ်တွင် ပင်ဆီလဗေးနီးယားပြည်နယ်၌ ရေနံကို စတင်တွေ့ရှိ၏။ ထိုကြောင့် ၁၈၆၂ ခုနှစ်တွင် ကလတ်နှင့် ရော့ကဖဲလားတို့သည် ရေနံချက် လုပ်ငန်း၌ ငွေရင်း မြှုပ်နှံ၍ လုပ်ကိုင်ကြသည်။ ကလတ်သည် အစုစပ် အဖြစ်မှ နုတ်ထွက်သွားသောအခါ ရော့ကဖဲလားသည် သူ၏ညီ ဝီလျံ ရော့ကဖဲလားနှင့်အတူ ရေနံလုပ်ငန်းကို ဆက်လက်လုပ်ကိုင်လေသည်။ ၁၈၇၀ ပြည့်နှစ်တွင် အိုဟိုင်းအိုပြည်နယ် စတင်းဒတ်ရေနံကုမ္ပဏီ ဟူ၍ ဖွဲ့စည်းပြီးလျှင် ဂျွန်ရော့ကဖဲလားသည်လည်း ထိုကုမ္ပဏီ၌ ဥက္ကဋ္ဌ ဖြစ်လာ၏။

ရော့ကဖဲလားသည် မီးရထား အာဏာပိုင်များနှင့် ပူးပေါင်း၍ မိမိကုမ္ပဏီထွက် ရေနံကုန်တင်ခနှုန်းကို လျှော့ယူရန်ငှင်း၊ အခြား ရေနံကုမ္ပဏီများအတွက်မူ ကုန်တင်ခနှုန်းကို တိုးယူရန်၊ သို့မဟုတ် လုံးဝတင်ပို့ခြင်း မပြုရန်ငှင်း စီစဉ်လေသည်။ ထိုသို့ ပြုလုပ်ခြင်းအားဖြင့် ရော့ကဖဲလားသည် မိမိနှင့် စီးပွားရေး ပြိုင်ဖက်များကို ဖယ်ရှားနိုင်ပြီးလျှင် ၁၀ နှစ်အတွင်း စတင်းဒတ် ရေနံကုမ္ပဏီသည် အမေရိကန် နိုင်ငံတွင် ရေနံချက် လုပ်ငန်းနှင့် ရေနံဖြန့်ဖြူးသည့် လုပ်ငန်း ၉၅ ရာခိုင်နှုန်းကို ချုပ်ကိုင်မိလေသည်။

၁၉၁၁ ခုနှစ်တွင် ရော့ကဖဲလားသည် စတင်းဒတ်ရေနံကုမ္ပဏီဥက္ကဋ္ဌအဖြစ်မှ နုတ်ထွက်ပြီးနောက် သားဖြစ်သူ ဂျွန်ရော့ကဖဲလား (အငယ်)အား လုပ်ငန်း တာဝန်ကို လွှဲအပ်ခဲ့သည်။ ထိုနောက် လူအများအကျိုးကို ရှေးရှု၍ ငွေအမြောက်အမြား လှူဒါန်းခဲ့သည်။ ရော့ကဖဲလားသည် ၁၉၃၇ ခုနှစ် မေလ ၂၃ ရက်နေ့ အသက် ၉၇ နှစ်တွင် ဖလော်ရီဒါနယ်၌ ကွယ်လွန်လေသည်။

သားဖြစ်သူ ဂျွန် ဒေးဗီဆန် ရော့ကဖဲလား (အငယ်) (ခရစ် ၁၈၇၄) သည်လည်း ဖခင်၏ လက်ငုတ်ဖြစ်သော ရေနံလုပ်ငန်းကို ဆက်လက်၍ ဦးစီး လုပ်ကိုင်သည်။ အလှူပေးကမ်းခြင်း၌ ဖခင်ကဲ့သို့ပင် ရက်ရောသည်။ ၁၉၄၆ ခုနှစ်တွင် နယူးယော့မြို့ရှိ ပေါင် နှစ်သန်းတန် မိမိပိုင်မြေကို ကမ္ဘာ့ကုလသမဂ္ဂ အဖွဲ့ကြီးသို့ လှူဒါန်းခဲ့လေသည်။

**ရော့ကီးတောင်တန်း။** ။မြောက် အမေရိကတိုက် အနောက်ပိုင်းတွင် တောင်ကြီး တောင်ငယ် အသွယ်သွယ်နှင့် ဆီးနှင်း မပြတ်ဖုံးနေသော တောင်ထွတ်များ ပါဝင်သည့် တောင်တန်းရှည်ကို ရော့ကီးတောင်တန်း ဟု ခေါ်သည်။ ရော့ကီးတောင်တန်းသည် တောင်ဖက်တွင် မက္ကဆီကိုနယ်စပ်မှ မြောက်ဖက်တွင် အလာစကာပြည်နယ်အထိ မိုင်ပေါင်း ၂,၂၀၀ ခန့် ရှည်လျား၍ အချို့နေရာများ၌ မိုင် ၁၀၀ ကျော်ကျယ်ပြန့်သည်။ ရော့ကီး တောင်တန်းနှင့် တောင်အမေရိကတိုက်ရှိ အန်ဒီးတောင်တန်းတို့သည် တောင်ဖက် ဟွန်းအငူမှ မြောက်ဖက် အာတိတ်စက်ဝိုင်းအထိ ရှည်လျားသော တောင်စဉ် တောင်တန်း၌ အပါအဝင်ဖြစ်သည်။

ရော့ကီး တောင်တန်း တလျှောက်တွင် အလွန် သာယာသော ရှုခင်းများ ရှိသဖြင့် အမေရိကန်ပြည်ထောင်စုရှိ အမျိုးသား ဥယျာဉ်ခြံကြီး များစွာတို့ကို ထိုဒေသ၌ တွေ့ရသည်။ ယဲလိုးစတုန်း နေရှင်နယ် ပတ်နှင့် ကော်လိုရားဒိုးပြည်နယ်ရှိ ရော့ကီးမောင်းတိန်း နေရှင်နယ် ပတ်တို့မှာ ထင်ရှား၏။ ကိုလမ်ဗီးယားမြစ်၊ မိဇူးရီမြစ်၊ အာကင်ဆောမြစ်၊ ကော်လိုရားဒိုးမြစ်နှင့် ရီးအိုဂရန်ဒီ မြစ်တို့သည် ရော့ကီးတောင်တန်းတွင် မြစ်ဖျားခံကြသည်။

ရော့ကီး တောင်တန်း တောင်ဖက်ပိုင်းတွင် မီးငြိမ်းတောင်များရှိသည်။ မြောက်ပိုင်းတွင် ရေခဲမြစ် များစွာရှိလေသည်။ ကော်လိုရားဒိုး ပြည်နယ်တွင် တောင်နှင့်မြောက် ပြိုင်တန်းလျက်ရှိသော တောင်တန်းများစွာ ရှိသည်။ ထိုတောင်တန်းများအကြား၌ မြက်ထူသော ချိုင့်ဝှမ်းများ ရှိ၏။ ပေပေါင်း ၁၂,၀၀၀ ခန့် မြင့်သော တောင်စောင်းတွင် တောင်ဆိတ်နှင့် သိုးများကို တွေ့နိုင်သည်။ ပျူးမားကောင်နှင့် ဝက်ဝံကြီးများကိုလည်း တွေ့ရသည်။ ရွှေ၊ ငွေ၊ ကြေးနီနှင့် ကျောက်မီးသွေး စသော တွင်းထွက်သတ္တုများကို တူးဖော်ရရှိသည်။

မက္ကဆီကို နိုင်ငံတွင် ရော့ကီးတောင်တန်းသည် မက္ကဆီကိုပင်လယ်ကွေ့ ကမ်းစပ်မှ မတ်စောက်စွာ ထိုးထွက်ပြီးလျှင် မြောက်ဖက်သို့ နိမ့်ဆင်းသွားသည်။ ၁၇,၆၉၆ ပေ ရှိသော အိုရီဇာဘာတောင်ထိပ်သည် ထိုအပိုင်းတွင် အမြင့်ဆုံးတောင်ထိပ်ဖြစ်၏။

အမေရိကန် ပြည်ထောင်စုတွင် ဝိုင်အိုးမင်းပြည်နယ်ရှိ ကုန်းပြင်မြင့်သည် ရော့ကီးတောင်တန်းကိုတောင်နှင့်မြောက် ပိုင်းခြားထား၏။ တောင်ပိုင်းတွင် ရှိသော ရော့ကီး တောင်



ကနေဒါနိုင်ငံဖက်ရှိ သာယာကြည်နူးဖွယ်ရာ ရော့ကီးတောင်တန်း ရှုခင်းတရပ်



အမေရိကန်ပြည်ထောင်စုနိုင်ငံဖက်ရှိ ရော့ကီးတောင်တန်း၏ လိုင်းမစတုန်း တောင်ထွတ်

စဉ်စုမှာ အမေရိကန် ပြည်ထောင်စု၌ အမြင့်ဆုံးနှင့် အကျယ်ပြန့်ဆုံးဖြစ်သည်။ ကော်လိုရားဒိုးပြည်နယ်တွင် ပေ ၁၄,၀၀၀ ကျော် မြင့်သော တောင်ထိပ်များရှိသည်။ ထိုတောင်ထိပ်များအနက် ၁၄,၄၃၁ ပေ မြင့်သော အဲလဗတ်တောင်ထိပ်သည် ရော့ကီးတောင်တန်းတွင် ကနေဒါ နိုင်ငံရှိ လိုဂန်တောင်ထိပ်မှ လွဲလျှင် အမြင့်ဆုံး တောင်ထိပ် ဖြစ်သည်။ အနောက်ဖက်စွန်းကျသော တက်ဆက်ပြည်နယ်၌မူ ပေ ၇,၀၀၀ ထက်မြင့်သော တောင်ထိပ်ဟူ၍ အနည်းငယ်မျှသာရှိသည်။ကုန်းပြင်မြင့်၏မြောက်ပိုင်းတွင် ရော့ကီးတောင်တန်းသည် အနောက် မြောက်ဖက်သို့ သွယ်တန်းလျက်ရှိပြီးလျှင် တောင်ပိုင်းအောက် အနည်းငယ် နိမ့်လေသည်။

ကနေဒါ နိုင်ငံဖက်တွင် မြင့်မားသော တောင်ထိပ်များ ပေါ၍ ဆီးနှင်းထူသည်။ ရေခဲမြစ် များစွာရှိသည်။ ပေ ၁၉,၈၅၀ ရှိသော လိုဂန်တောင်ထိပ်သည် ရော့ကီးတောင်တန်းတွင် အမြင့်ဆုံး တောင်ထိပ်ဖြစ်သည်။ ကနေဒါနိုင်ငံ မြောက်ဖက်တွင် တောင်တန်းများ နိမ့်ဆင်းသွားရာ အလာစကာ ပြည်နယ် လွန်လျှင် ဆီးနှင်း မပြတ်ဖုံးနေသော တောင်ကုန်းများကိုသာ တွေ့ရလေသည်။

**ရော့တဒမ်မြို့။** ။ရော့တဒမ်မြို့သည် နယ်သာလန်နိုင်ငံတွင်အမ္စတာဒမ်မြို့မှလွဲလျှင် အကြီးဆုံး မြို့ဖြစ်သည်။ ရော့တဒမ် ဟူသော အမည်မှာ ရော့မြစ်၏ ရေကာတာ ဟု အဓိပ္ပါယ်ရသည်။ ရော့တဒမ်မြို့သည် မားစ မြစ်ကမ်း နှစ်ဖက်ပေါ်တွင် တည်ရှိ၍ အမ္စတာဒမ်မြို့မှ အနောက်တောင်ဖက် ၄၄ မိုင်ခန့် ကွာဝေးသည်။ နယ်သာလန်နိုင်ငံတွင် အကြီးဆုံး ဆိပ်ကမ်းမြို့လည်း ဖြစ်၏။ ပင်လယ်မှ ၁၅ မိုင်ခန့်ကွာဝေးသော်လည်း မြစ်ရေနက်၍ ဒီရေမြင့်သဖြင့် ပင်လယ်ကူးသင်္ဘောကြီးများ ဝင်ရောက် ဆိုက်ကပ်နိုင်သည်။ ရော့တဒမ်မြို့သည် မြောက်ပင်လယ်နှင့် ၁၇ မိုင်ခန့်ရှည်သော တူးမြောင်းဖြင့် ဆက်လျက် ရှိသည်။

ရော့တဒမ်မြို့တွင် သင်္ဘောတည်ဆောက်သည့် လုပ်ငန်းမှာ အရေးအကြီးဆုံး စက်မှုလက်မှုလုပ်ငန်း ဖြစ်သည်။ ဆေးလိပ်၊ သုတ်ဆေး၊ အရက်၊ သကြားနှင့် ဓာတုဗေဒပစ္စည်း ထုတ်လုပ်သော စက်ရုံများလည်း ရှိသည်။

မြို့တွင်း၌ ဒပ်ချ အမျိုးသားပန်းချီကျော်တို့၏ လက်ရာများကို ပြသထားသည့်ပြတိုက်မှာ ထင်ရှားသည်။ တိရစ္ဆာန်ဥယျာဉ်နှင့် ရုက္ခဗေဒဥယျာဉ်များလည်း ရှိသည်။ ၁၄ ရာစုနှစ်အတွင်းက ဆောက်လုပ်ပြီးစီးခဲ့သော ဂေါ့သပုံစံ စိန်လောရင့် ဘုရားရှိခိုးကျောင်းသည် ဒုတိယကမ္ဘာစစ် အတွင်းက ဂျာမန်တို့ ဗုံးကြဲတိုက်ခိုက်သည့်ဒဏ်ကို ခံခဲ့ရသည်။

၁၉၄၀ ပြည့်နှစ် မေလ ၁၄ ရက်နေ့တွင် ဂျာမန် လေတပ်သည် ရော့တဒမ်မြို့လယ်ကို ပြင်းပြင်းထန်ထန် ဗုံးကြဲ ဖျက်ဆီးခဲ့ကြ၏။ ထိုနေ့ညနေတွင် နယ်သာလန် တပ်များသည် ဂျာမန်တို့ထံ လက်နက်ချ အညံ့ခံကြသည်။ ၁၉၄၅ ခုနှစ်တွင် ရော့တဒမ်မြို့သည် ဂျာမန်တို့ လက်အောက်မှ လွတ်မြောက်ခဲ့လေသည်။

လူဦးရေ ၇၃၁,၅၆၄ ယောက် (၁၉၆၅) ရှိသည်။

**ရော့သချိုင်း။** ။ကမ္ဘာ့ငွေရေး ကြေးရေးကို လှုပ်ရှားကစားနိုင်သဖြင့် ကျော်ကြားလာသူများမှာ ရော့သချိုင်း အမည်ခံ ယဟူဒီမိသားတစု ဖြစ်သည်။ ၁၉ ရာစုနှစ်အတွင်းက ဥရောပတိုက်ငွေဈေးကို ရော့သချိုင်း မိသားစုက ချုပ်ကိုင်ခဲ့သည်။ ထိုမိသားစုသည် ငွေချေး၍ စီးပွားလမ်းဖြောင့်သူများ ဖြစ်၏။ ထိုခေတ်အခါက နိုင်ငံကြီးဟူသမျှတို့သည် ယင်းတို့ထံမှ ငွေကို ချေးယူ သုံးစွဲခဲ့ရလေသည်။

ငွေချေး၍ စီးပွားရှာသည့် လမ်းစကို ဖော်သူမှာ မီယာ အမ်ရှဲရော့သချိုင်း(ခရစ် ၁၇၄၃ – ၁၈၁၂)ဖြစ်သည်။ဂျာမနီနိုင်ငံ၊ ဖရင့်ဖတ်-အွန်-သ-မန်းမြို့၊ ယဟူဒီ ရပ်ကွက်တွင် ဖွားမြင်၍ ငွေလဲလှယ်ရေးဌာနတခုကို ဖွင့်လှစ် တည်ထောင်ခဲ့သည်။ ရော့သချိုင်း ဟူသော အမည်မှာ မျိုးရိုးဆက် အမည်မဟုတ်ချေ။ မိမိတို့၏ ဆိုင်အမှတ်တံဆိပ် ဖြစ်သော ဒိုင်းနီ ဟု အဓိပ္ပါယ် ရသည့် ဂျာမန်စကားလုံးသာ ဖြစ်သည်။ မီယာ လက်ထက်မှ စ၍ ထိုအမည်ကို ခံယူခဲ့လေသည်။ မီယာ ရော့သချိုင်းသည် မိဖရိုးရာ လက်ငုတ်ဖြစ်သော ငွေချေးသည့် လုပ်ငန်းကို လုပ်ကိုင်ခဲ့ရာမှ နောင်တွင် ကျယ်ပြန့်သော ဘဏ်လုပ်ငန်းကို အခြေစိုက်မိခဲ့လေသည်။ မီယာ ကွယ်လွန်သောအခါ လုပ်ငန်းကြီးကို သားငါးယောက်တို့အား လွှဲအပ်ခဲ့သည်။ ထိုသား ငါးယောက်စလုံးသည် ဖခင်၏ ငွေရေးကြေးရေးလုပ်ငန်း၌ ကျွမ်းကျင်သူများ ဖြစ်ကြသည်။

၁၈ ရာစုနှစ်ကုန်ခါနီးနှင့် ၁၉ ရာစုနှစ်အစပိုင်း၌ ဖြစ်ပွားသော နပိုလီယန်စစ်ပွဲများကြောင့် ရော့သချိုင်း ဘဏ်လုပ်ငန်းသည် နိုင်ငံတကာသို့ ကျယ်ပြန့်သွားကာ ထင်ရှားလာလေသည်။ သားအကြီးဆုံး အင်ဆမ် မီယာ ရော့သချိုင်း (ခရစ် ၁၇၇၃ – ၁၈၅၅) က ဖရန့်ဖတ်မြို့ရှိ ဘဏ်တိုက်ကို အုပ်ချုပ်သည်။ ဒုတိယသား ဆောလမွန် ရော့သချိုင်း (ခရစ် ၁၇၇၄ – ၁၈၅၅)က ဗီယင်နားမြို့တွင် ဘဏ်တိုက်တခု ဖွင့်၍ အုပ်ချုပ်သည်။ တတိယသား နေသန် ရော့သချိုင်း (ခရစ် ၁၇၇၇ – ၁၈၃၆)က အင်္ဂလန်ပြည်၊မန်ချက်စတာမြို့တွင်ဘဏ်လုပ်ငန်းကို တည်ထောင်သည်။စတုတ္ထသား ကားလ ရော့သချိုင်း (ခရစ် ၁၇၈၈ – ၁၈၅၅)ကနေပယ်မြို့တွင်၎င်း၊ သားအငယ်ဆုံးဂျိမ်းရော့သချိုင်း(ခရစ် ၁၇၉၂ – ၁၈၆၈)ကပါရစ်မြို့တွင်၎င်းဘဏ်တိုက်များဖွင့်၍အသီးအသီးအုပ်ချုပ်ကြသည်။

ထိုသို့အားဖြင့် ရော့သချိုင်း မိသားစုတို့၏ ဘဏ်လုပ်ငန်းသည် ဥရောပတိုက် အနှံ့အပြား၌ အခြေစိုက်မိလေ၏။ ထို

ကြောင့် ဥရောပတိုက် နိုင်ငံရေးကိစ္စများတွင် ရေဘ့သချိုင်းတို့သည် ဝင်ရောက် ခြယ်လှယ်နိုင်ကြသည်။ စစ်ပွဲများ ဖြစ်ပွားလာသော အခါ တိုင်းပြည်များသို့ ငွေထုတ်ချေးခြင်းအားဖြင့် စီးပွားတိုးတက်လာခဲ့၏။ တိုင်းပြည် ကြီးပွားရေးလုပ်ငန်းများ၌လည်း ကူညီထောက်ပံ့ခဲ့ကြသည်။ ပြင်သစ်နှင့် ဂျာမနီ နိုင်ငံတို့တွင် အမျိုးသား ပညာရေးစနစ်ကို တည်ထောင်ရာ၌ ကူညီခဲ့၏။ ဥရောပတိုက်ရှိ အခြား နိုင်ငံများတွင် စက်မှုလက်မှုလုပ်ငန်း ဖွံ့ဖြိုးရေး အတွက်လည်း ကူညီထောက်ပံ့ခဲ့ကြသည်။

နေသန် ရေဘ့သချိုင်း၏သား လိုင်ယိုနယ် ဒါ ရေဘ့သချိုင်း (ခရစ် ၁၈၀၈–၁၈၇၉) သည် ဆူးအက်တူးမြောင်း အစုရှယ်ယာများ ဝယ်ယူရန် အတွက် ဗြိတိသျှ ဝန်ကြီးချုပ် ဒစ်ဇရေလီအား ငွေထုတ်ချေးခဲ့သည်။ လိုင်ယိုနယ်သည် ယဟူဒီအယူဝါဒကို သက်ဝင်ယုံကြည်သူထဲမှ ပဌမဦးဆုံး အင်္ဂလိပ်ပါလီမန်သို့ အမတ်အဖြစ် တက်ရောက်ရသူ ဖြစ်သည်။ သူ၏သား နေသန် မီယာ ရေဘ့သချိုင်း (ခရစ် ၁၈၄၀–၁၉၁၅) သည် ပဌမဦးဆုံး ဗဲရွန်ဘွဲ့ ချီးမြှင့်ခြင်းခံရသော ယဟူဒီအမျိုးသား ဖြစ်ပေသည်။

ထိုဗဲရွန်ဘွဲ့ကို ဆက်ခံသူ လိုင်ယိုနယ် ဝေါလတာ ရေဘ့သချိုင်း (ခရစ် ၁၈၆၈–၁၉၃၇) သည် ပါဏဗေဒပညာရှင်ဖြစ်၍ ၁၈၉၉ ခုမှ ၁၉၁၀ ပြည့်နှစ်အထိ အင်္ဂလိပ်ပါလီမန်လွှတ်တော်အမတ်အဖြစ် ဆောင်ရွက်ခဲ့သည်။ လန်ဒန်မြို့ရှိ တော်ဝင်အသင်းသား တဦးလည်း ဖြစ်၏။

ရေဘ့သချိုင်း အဆက်အနွယ်တို့သည် ယဟူဒီအမျိုးသားတို့ ကြီးပွားရေးအတွက်လည်း များစွာ ကူညီထောက်ပံ့ခဲ့ကြသည်။ ဥရောပတိုက်တွင် နာဇီများ တန်ခိုးကြီးလာချိန်၌ ရေဘ့သချိုင်းတို့၏ လုပ်ငန်းမှာ များစွာ ထိခိုက်နစ်နာခြင်း ဖြစ်ခဲ့ရသည်သာမက၊ နာဇီတို့၏ ညှဉ်းပန်းမှုကြောင့် တိုင်းပစ် ပြည်ပစ် ထွက်ပြေး တိမ်းရှောင်ခဲ့ကြရလေသည်။

ရော်ဗာ။ ။ကော်ဖတ် — ရှု။

**ရော်လီ, ဆာ ဝေါလတာ** (ခရစ် ၁၅၅၂–၁၆၁၈)။ ။ ဆာ ဝေါလတာ ရော်လီသည် အင်္ဂလန်ပြည် ပဌမ အယ်လစ်ဇဗက်ဘုရင်မ လက်ထက် လူရည်ချွန်များ ထွက်ပေါ်သော ခေတ်တွင် နိုင်ငံရေးသမား အဖြစ်နှင့်၎င်း၊ စစ်သားအဖြစ်နှင့်၎င်း၊ သင်္ဘောသား အဖြစ်နှင့်၎င်း၊ ရေသစ် မြေသစ်ရှာဖွေသူ အဖြစ်နှင့်၎င်း၊ ကဗျာဆရာ၊ နိုင်ငံသမိုင်းဆရာ အဖြစ်နှင့်၎င်း အဖက်ဖက်၌ ထူးချွန်သူ ဖြစ်ပေသည်။ ရော်လီသည် အထူးသဖြင့် သမုဒ္ဒရာရေပြင်တဖက်ရှိ အမေရိကတိုက်၌ အင်္ဂလန်ပြည်သစ်ကို တည်ထောင်ရန် ဆန္ဒပြင်းပြခဲ့၏။ ထိုဆန္ဒကို ပြည့်ဝအောင် ရော်လီသည် အဆီးအတား



ရေသစ်မြေသစ် စွန့်စားရှာဖွေခဲ့သူ ဆာ ဝေါလတာ ရော်လီ

အမျိုးမျိုးကြားထဲမှ ကြိုးစားအားထုတ်ခဲ့သည်။ နောက်ဆုံး မင်းဒဏ်သင့်၍ အသတ်ခံရချိန်၌ပင် လူစွမ်းကောင်း တယောက်ပီပီ အသေခံခဲ့လေသည်။

ဝေါလတာ ရော်လီသည် ၁၅၅၂ ခုနှစ်ခန့်တွင် အင်္ဂလန်ပြည် ဒက်ဗွန်ရှိုင်ယာနယ်၌ ဖွားမြင်၍ အောက်စဖို့ တက္ကသိုလ်တွင် ပညာသင်ကြား၏။ တက္ကသိုလ်တွင် တနှစ်မျှနေပြီးနောက် ပြင်သစ်နိုင်ငံသို့ သွား၍ အယူဝါဒရေးစစ်ပွဲ ဆင်နွှဲနေသော ဟျူးဂျနိုးတို့ဖက်မှ ကူညီ တိုက်ခိုက် လေသည်။ ၁၅၇၈ ခုနှစ်တွင် အင်္ဂလန်သို့ ပြန်လာပြီးလျှင် ညီအစ်ကိုတော်စပ်သူ ဆာ ဟမ်ဖရီ ဂီးလဗတ်နှင့်အတူ ရေသစ်မြေသစ်ရှာဖွေရန် အမေရိကတိုက်ဖက်သို့ ခရီး ထွက်ခဲ့သည်။ ထိုသို့ ခရီးထွက်ခဲ့သည်မှာ စင်စစ်အားဖြင့် စပိန်ပိုင် သင်္ဘောများကို ပင်လယ်ပြင်၌ တိုက်ခိုက် လုယူရန် ဖြစ်၏။ သို့သော်လည်း အကျိုးမရှိဘဲ ပြန်လာခဲ့ကြရသည်။

ရော်လီသည် ၁၅၈၀ ပြည့်နှစ်တွင် စစ်ထဲသို့ ဝင်ရောက်အမှုထမ်းသည်။ စစ်ဗိုလ် အဖြစ်နှင့် အိုင်းရစ် သူပုန် အရေးကို အောင်မြင်စွာ နှိမ်နင်းရာ၌ ပါဝင်ခဲ့သဖြင့် နာမည် ထင်ပေါ်လာသည်။ ထိုနောက် ရော်လီသည် နန်းတော်သို့ရောက်ရှိရာ၌ အယ်လစ်ဇဗက် ဘုရင်မက မျက်နှာသာ ပေးကာ မြှောက်စားခြင်း ခံရသည်။ တခါက ဘုရင်မ ထွက်တော်မူသောအခါ လမ်းတွင် ရွှံ့အိုင်ရှိနေသဖြင့် ရပ်တန့်နေခိုက်

ရေဒ်လီသည် အလိုက်သိစွာ မိမိ၏ အဖိုးတန်ဝတ်ရုံကိုခင်း၍ ဘုရင်မအား ထိုဝတ်ရုံပေါ် တွင်နင်းကာ လျှောက်သွားစေသည် ဟူ၍ ပြောစမှတ် ပြုကြသည်။ မည်သို့ဖြစ်စေ ရေဒ်လီသည် ဉပဓိရုပ်ကောင်း၍ ထီးနန်းဆန်ဆန် ရည်မွန်စွာ ဆက်ဆံတတ်သဖြင့် အရှင်မွေးက နေ့ခြင်းကြီး ဟူဘိသို့ ဘုရင်မက မြေယာအပိုင် ပေး၍ရင်း၊ ကုန်သွယ်ခွင့်ပေး၍ရင်း၊ အခြားအခွင့်အရေးများ ပေး၍ရင်း ခြီးမြှင့် မြှောက်စား ထားလေသည်။ ထိုသို့ဖြင့် ၁၅၈၄ ခုနှစ်တွင် ဘုရင်မသည် ရေဒ်လီအား ဆာဘွဲ့ အပ်နှင်း၍ သူကောင်းပြုသည်။ သို့ရာတွင် သူသည် မာနကြီး၍ မခန့်လေးစား နိုင်တတ်သဖြင့် သူ့အား မလိုမုန်းတီးသူများလည်း ရှိလေသည်။

အယ်လစ်ဇဗက် ဘုရင်မသည် ဆာ ရေဒ်လီကိုယ်တိုင် ခရီးထွက်စူးစမ်းခြင်းကို ခွင့်မပြုချေ။ ထိုကြောင့် ရေဒ်လီသည် အမေရိကတိုက်တွင် နယ်သစ်တည်ရန် ခရီးထွက် စူးစမ်းသည့် အဖွဲ့များကို တဖွဲ့ပြီး တဖွဲ့ စေလွှတ်ခဲ့သည်။ အဖွဲ့တဖွဲ့သည် အမေရိကတိုက်၌ ကယ်ရိုလိုင်းနား ပြည်နယ်မှ ဖလော်ရီဒါ ပြည်နယ်အထိ ဒေသကို ရှာဖွေတွေ့ရှိခဲ့သည်တွင် ရေဒ်လီက အပျိုစင်ဘုရင်မ အယ်လစ်ဇဗက်ကို ဂုဏ်ပြုသည့် အနေဖြင့် "ဗာဂျင်နီးယား"ဟုအမည် မှည့်လေသည်။ ရေဒ်လီစေလွှတ်ခဲ့သော အခြားအဖွဲ့များမှာမူ မအောင်မြင်ခဲ့ကြချေ။

၁၅၈၈ ခုနှစ်တွင် အင်္ဂလန် ပြည်သို့ တိုက်ခိုက်ရန် ချီတက်လာသော စပိန်ရေတပ်ကြီးကို ဖြိုခွင်းရာ၌ ရေဒ်လီလည်း ရေတပ်ဗိုလ်ချုပ်ကြီးအဖြစ် ပါဝင်ခဲ့သည်။ ထိုနောက် စပိန်နှင့် ဆင်နွှဲခဲ့ရသော ရေကြောင်းတိုက်ပွဲများ၌ ဆက်လက်ပါဝင်ခဲ့လေသည်။ ၁၅၉၅ ခုနှစ်တွင် တောင်အမေရိကတိုက်ရှိ ဂီယားနားနယ်၌ အဲဒိုရားဒိုးခေါ် ရွှေထွက်သည့် အရပ်ကို သွားရောက်ရှာဖွေရာ လက်ချည်း ပြန်ခဲ့ရလေသည်။ အင်္ဂလန်ပြည်သို့ ပြန်ရောက်သောအခါ ဂီယားနား ခရီးအကြောင်း စာအုပ်ကို ရေးသည်။

ရေဒ်လီသည် အိုင်ယာလန် ပြည်သို့ ရောက်ရှိနေစဉ် ကဗျာဆရာ အက်ဒမန် ဆပင်စာနှင့် သိကျွမ်းခဲ့၏။ ထိုကဗျာဆရာရေးသော လက်ာတပုဒ်ကိုပုံနှိပ်ထုတ်ဝေရန်အတွက်၎င်း၊ နန်းတော်မှ ရိက္ခာတော် ထောက်ပံ့ရန် အတွက်၎င်း ရေဒ်လီသည် ကူညီခဲ့၏။ (ဆပင်စာ,အက်ဒမန် — ရှု။)ထိုပြင် အိုင်ယာလန်ပြည်၌ အာလူးနှင့် ဆေးပင်ကို စတင် စိုက်ပျိုးရန်လည်း အားပေး ကူညီခဲ့သည်။

ရေဒ်လီသည် ဘုရင်မ၏ အပျိုတော် တဦးနှင့် လက်ထပ်သည့် အချိန်ကစ၍ နန်းတော်၌ ဩဇာမရှိတော့ချေ။ ၁၆၀၃ ခုနှစ်တွင် အယ်လစ်ဇဗက် ဘုရင်မ နတ်ရွာစံ၍ ပဌမ ဂျိမ်းဘုရင် နန်းတက်လာသော အခါ ရေဒ်လီသည် မိမိ ထီးနန်း မဆက်ခံနိုင်အောင် တဖက်မှ ကြံစည်သည်ဟူ၍ ဘုရင်က မသင်္ကာသဖြင့် အဆောင်အယောင်နှင့် အခွင့်အရေးများကို ရုပ်သိမ်းလေသည်။ ထိုနောက် ထီးနန်းကို လုပ်ကြံမှု စွပ်စွဲချက်ဖြင့် ရေဒ်လီအား ဖမ်းဆီး၍ သေဒဏ် ချမှတ်၏။ သို့ရာတွင် သေဒဏ်မှ တသက်တကျွန်းသို့ ပြောင်းလိုက်သောကြောင့် ရေဒ်လီသည် လန်ဒန်မျှော်စင်၌ ၁၆၁၆ ခုနှစ်အထိ ၁၃ နှစ်တိုင်တိုင် အကျဉ်း ချထားခြင်း ခံရလေသည်။ အကျဉ်း ခံနေရချိန်တွင် ကမ္ဘာ့သမိုင်းကို စတင်ရေးခဲ့ရာ ပဌမတတွဲသာ ပြီးစီးသည်။

၁၆၁၆ ခုနှစ်၌ ဂျိမ်းဘုရင်သည် ရေဒ်လီကို ထောင်မှလွှတ်၍ တောင်အမေရိကတိုက် အော်ရင်နိုးကိုး မြစ်တလျှောက်၌ ရွှေတွင်း ရှာဖွေရန် အဖွဲ့ကို ခေါင်းဆောင်စေသည်။ စပိန်လူမျိုးများနှင့် ပဋိပက္ခမဖြစ်စေရဟူ၍လည်း အမိန့်ပေးလိုက်၏။ ရေဒ်လီသည် ရွှေတွင်းကို မတွေ့ဘဲ ပြန်ခဲ့ရသည်။ စပိန်လူမျိုးများနှင့်မူကား တိုက်ပွဲဖြစ်ပွားခဲ့ရာ ဂျိမ်းဘုရင်သည် ရေဒ်လီကို တဖန် ဖမ်းဆီး၍ ၁၆၁၈ ခုနှစ် အောက်တိုဘာလ ၂၉ ရက်နေ့တွင် သေဒဏ်ပေးကာ အဆုံး စီရင်လေသည်။ ရေဒ်လီသည် သေရအုံဆဲဆဲတွင် လူသတ်သမား လက်ထဲရှိ ပုဆိန်သွား ထက်သည် မထက်သည်ကိုပင် လက်ဖြင့် စမ်းကြည့်သွားသေးသည်ဟု ဆို၏။

**ရောဂဗေဒ။** ။ရောဂဗေဒသည် သဘာဝ သိပ္ပံပညာမှ ခွဲထွက်သော ပညာရပ် ဖြစ်သည်။ ဤပညာရပ်သည် လူ တိရစ္ဆာန်တို့၌ ဖြစ်တတ်သော ရောဂါ ဟူသမျှကို ရှာဖွေလေ့လာပြီးလျှင် ရောဂါဖြစ်ပေါ်ခြင်း၏ အကြောင်းရင်းနှင့် မည်ကဲ့သို့ရောဂါဖြစ်ပေါ် လာခဲ့သည်ကို သိပ္ပံနည်းနှင့်လေ့လာသော ပညာရပ်လည်း ဖြစ်ဆည်။

မနုဿ ရောဂဗေဒသည် လူသားတို့၌ ဖြစ်တတ်သော ရောဂါဟူသမျှကို ကာယဗေဒ၊ ဇီဝကိစ္စဗေဒနှင့် ဇီဝဓာတုဗေဒ တို့အပေါ် တွင် မူတည်၍ ရှာဖွေလေ့လာခြင်းကို ဆိုလိုပေသည်။

လူသားများသည် ယဉ်ကျေးမှု တိုးတက်လာသည့် အချိန်မှစ၍ ရောဂါများ၏ အကြောင်းရင်းကို တဖြည်းဖြည်း စိတ်ပါဝင်စားလာကြသည်။ သို့ရာတွင် ဂရိတို့ ကောင်းစားသော ခေတ်၌ ဂရိသမားတော်ကြီး ဟစ်ပေါကရာတီ အသက် ထင်ရှားရှိနေစဉ် အချိန်မှစ၍ နှောင် နှစ်ပေါင်း တထောင်ခန့် ရောဂဗေဒ မဖြစ်ပေါ် မထွန်းကားခဲ့ပေ။ ဤကဲ့သို့ ဖြစ်ရခြင်း အကြောင်းမှာ ဂရိ ဆေးပညာတွင် ကာယဗေဒနှင့် ဇီဝကိစ္စဗေဒတို မထွန်းကားခဲ့ခြင်းကြောင့် ဖြစ်လေသည်။ ဂရိခေတ် ကုန်ဆုံးပြီးနောက် ဆေးပညာရှင်များသည် ကာယဗေဒနှင့် ဇီဝကိစ္စဗေဒတို့ကို ပိုမို လေ့လာကြခြင်းကြောင့် တဖြည်းဖြည်း ရောဂဗေဒပညာ ရုပ်လုံး ပေါ် လာခဲ့လေသည်။

ခရစ် ၁၇၆၁ ခုနှစ်တွင် ဣတာလျံလူမျိုး သမားတော်ကြီး မော်ဂါညီသည် ရောဂဗေဒကို အမှီပြု၍ ဆေးကျမ်းတစောင်

ရေးသား ထုတ်ဝေခဲ့သည်။ ထိုအချိန်မှ စ၍ သမားတော်များသည် ရောဂါများကို ရှာဖွေ လေ့လာရာတွင် ရောဂါ ဖြစ်၍ ပုံပြင် ပြောင်းလဲခြင်း ခံရသော လူ့ခန္ဓာကိုယ်၏ အစိတ်အပိုင်းများကို ရောဂါ၏ ပြင်ပလက္ခဏာများနှင့် ယှဉ်တွဲကြည့်ကြသည်။ ဤသို့သော အလေ့အကျင့်များကို ပြုလုပ်ရာတွင် သမားတော်များသည် အသက်ရှင်နေသည့် လူများတွင်သာ မဟုတ်ဘဲ ရောဂါအမျိုးမျိုးနှင့် သေဆုံးသူများ၏ အလောင်းများကိုလည်း ခွဲစိတ် ကြည့်ရှု မှတ်သားလျက် ရောဂါအမည်များကို တိတိကျကျ ဖော်ပြကြလေသည်။

ယခုခေတ် ရောဂဗေဒ ပညာရှင်များသည် လူ့ခန္ဓာကိုယ်အစိတ်အပိုင်းများ၏ ပြောင်းလဲမှုများကို မျက်မြင်နှင့်သာ တင်းတိမ် မနေသေးဘဲ ယင်းသည့် အစိတ်အပိုင်းများ အတွင်းရှိ ဓာတ်ဝတ္ထုများ မည်ကဲ့သို့ ပြောင်းလဲမှု ရှိသည်ကို အသေအချာ သိလိုသဖြင့် အောက်ပါခေတ်ပေါ် နည်းများကို အသုံးပြု၍ သုတေသန ပြုကြပေသေးသည်။ ပုံစံများကား အဆင့်ဆင့် ဆန့်ကျင်ပုံ အဏုကြည့်မှန်ဖြင့် လေ့လာနည်း၊ ရောင်ပြောင်း တောက်ပုံ အဏုကြည့်မှန်ဖြင့် လေ့လာနည်း၊ အီလက်ထရွန် အဏုကြည့်မှန်ဖြင့် လေ့လာနည်း၊ ခွဲစိတ်၍ အဏုကြည့်မှန်ဖြင့် လေ့လာနည်း၊ တစ်သျှူး ဓာတုဗေဒနည်း၊ အလွန်ပြင်းထန်သော အရှိန်ဖြင့် ဗဟိုခွာနည်း အစရှိသည်တို့ဖြစ်သည်။ ထိုပြင် ရေဒီယို အိုင်ဆိုတုပ်များကို သုံး၍ ရောဂါ ရှာဖွေ လေ့လာနိုင်ကြသဖြင့် ရောဂဗေဒ ပညာသည် နှစ်အနည်းငယ်အတွင်း အလွန် ကြီးပွား တိုးတက်လာသည်။

ရောဂ ဗေဒ ပညာသည် ဆေးပညာ၏ အခြေခံ ပညာဖြစ်သဖြင့် ဓနသဟာယ နိုင်ငံများနှင့် ပြည်ထောင်စု မြန်မာနိုင်ငံရှိ ဆေးသိပ္ပံကျောင်းများတွင် တတိယနှစ်နှင့် စတုတ္ထနှစ် ဆေးကျောင်းသားများအား မျက်မြင်ကိုယ်တွေ့ နှစ်နှစ်တိတိ သင်ကြားပေးလျက် ရှိပေသည်။

ဒေါက်တာ ဦးခင်မောင်ဝင်း

**ရောဗက်စပဲျ,အမ်**(ခရစ် ၁၇၅၈ – ၁၇၉၄)။ ။မက္ကဆိမီလံျ ရောဗက်စပဲျသည် ပြင်သစ် တော်လှန်ရေး အတွင်းက ထင်ရှားသော တော်လှန်ရေး ခေါင်းဆောင် တဦး ဖြစ်ခဲ့လေသည်။ (ပြင်သစ် တော်လှန်ရေး — ရှု။) သူကို ပြင်သစ်နိုင်ငံ အာရားမြို့၌ ၁၇၅၈ ခုနှစ် မေလ ၆ ရက်နေ့တွင် ဖွားမြင်ခဲ့၏။ ပါရစ်မြို့တွင် ဥပဒေပညာသင် ကျောင်းသား အဖြစ်ဖြင့်၎င်း၊ ရှေ့နေအဖြစ်ဖြင့်၎င်း ဓနထိုင်ခဲ့စဉ် သူ၏ စွမ်းရည်နှင့် ကြိုးပမ်းမှုတို့ကြောင့် လူသိများခဲ့သည်။ ထို့နောက် သူသည် ဇာတိဖြစ်သော အာရားမြို့သို့ ပြန်သွားပြီးသော် ရှေ့နေလိုက်ကာ အသက်မွေးနေထိုင်ခဲ့သည်။ မကြာမီ ကျမ်းကျင်သော ရှေ့နေတဦးအဖြစ်၎င်း၊ ရိုးသားလှသူတဦးအဖြစ်၎င်း နာမည်ကျော်ကြားလာခဲ့၏။

ရောဗက်စပဲျသည် ၁၇၇၉ ခုနှစ်မှ ၁၇၈၁ ခုနှစ်အထိ အမျိုးသား လွှတ်တော်သို့ အာရားနယ် ကိုယ်စားလှယ်အဖြစ် တက်ရောက်ခဲ့ရသည်။ လွှတ်တော်အတွင်း ဒီမိုကရေစီ အခွင့်အရေးများကို ကာကွယ် ပြောဆိုခဲ့ရာတွင် သူကို ပါရစ်မြို့၌ လူသိများလာလေသည်။ ထိုမျှမကသေး ဂျက္ကဗင်း တော်လှန်ရေးဂိုဏ်းဝင်များ၏ထောက်ခံမှုကိုလည်း ရရှိခဲ့၏။မကြာမီ သူ၏ ရိုးသားလှသည် ဟူသော နာမည်ကောင်းကြောင့် ဂျက္ကဗင်းဂိုဏ်း၏ ခေါင်းဆောင် ဖြစ်လာခဲ့သည်။ ၁၆ ဆက်မြောက် လူဝီဘုရင် အသတ်ခံရသည်မှာ သူဦးစီးသော တော်လှန်ရေး သမားများ၏ ပယောဂကြောင့်ပင် ဖြစ်သည်။ ပြင်သစ်နိုင်ငံအတွက် အခြေခံ ဥပဒေသစ်ရေးဆွဲရန် ဖိတ်ခေါ်ခဲ့သော အမျိုးသား ကွန်ဗင်းရှင်း လွှတ်တော်တွင် သူခေါင်းဆောင်သော ဂျက္ကဗင်း တော်လှန်ရေးဂိုဏ်းသည် အင်အား အကြီးဆုံး ဖြစ်လေသည်။ (ဂျက္ကဗင်း — လည်းရှု။)

၁၇၉၃ ခုနှစ်တွင် ရောဗက်စပဲျသည် ပြည်သူ့ကာကွယ်ရေးအဖွဲ့ဝင်အဖြစ် တင်မြှောက်ခြင်း ခံခဲ့ရ၏။ ထိုအဖွဲ့မှာ



ပြင်သစ် တော်လှန်ရေး ခေါင်းဆောင် အမ်၊ ရောဗက်စပဲျ

ကွန်ဗင်းရှင်းလွှတ်တော်၏ အဖွဲ့ခွဲ တခုဖြစ်၍ အမှန်စင်စစ် အားဖြင့် ပြင်သစ်နိုင်ငံကို အုပ်ချုပ်ရန် အာဏာကုန် ရထား သောအဖွဲ့ဖြစ်လေသည်။ ထိုပြင် ပြည်သူ့ကာကွယ်ရေးအဖွဲ့ သည် ပြင်သစ်နိုင်ငံကြီး ဗရုတ်ဗယက် ဖြစ်နေစဉ် တော်လှန် ရေးကြီး၏ ပြည်တွင်းပြည်ပရန်များကို နှိမ်နင်းရှင်းလင်းပေး ခဲ့လေသည်။ သို့သော် တော်လှန်ရေးကြီး၏ ရန်သူဟူသမျှကို သုတ်သင်ပစ်ရန် သန္နိဋ္ဌာန် ချမှတ်ခဲ့ပြီးဖြစ်သော ထိုအဖွဲ့သည် ကိုယ့်ဇာတ် ကိုယ်မနိုင် ဖြစ်ခဲ့သောကြောင့် လူသူအများ သွေးချောင်းစီးမျှ သေကြေပျက်စီးရလေသည်။ အစပဌမ တွင် တော်လှန်ရေးကို မလိုလားသူများကိုသာ ရှင်းလင်း သုတ်သင်ခဲ့သော်လည်း နောင်အခါတွင် အဖွဲ့ဝင်များသည် သူတို့၏ နိုင်ငံရေးရန်သူများနှင့် သူတို့နှင့် ကိုယ်ရေးကိစ္စများ တွင် မသင့်မြတ်သူများကိုပါ သတ်ဖြတ်ခဲ့လေရာ၊ ၁၇၉၄ ခု နှစ် ဇွန်လ ၁၀ ရက်နေ့မှ ဇူလိုင်လ ၂၈ ရက်နေ့ထိ အဖွဲ့က လူပေါင်း ၁,၃၀၀ ခန့်ကို သေဒဏ် ပေးခဲ့လေသည်။

အမှန်စင်စစ် ရောဗက်စပဲျသည် အဖွဲ့၏ အစည်းအဝေး ကို မှန်မှန် တက်လေ့ မရှိသည့်ပြင်၊ ကော်မီတီ၏ လုပ်ငန်း များ၌ ပါဝင်ဆောင်ရွက်လေ့ မရှိခဲ့သော်လည်း ထိုသို့ မလို လားအပ်သူများကို ရှင်းလင်းပစ်ခြင်းဖြင့် သူ၏ မြော်မှန်း ချက်ကို ရရှိနိုင်လိမ့်မည် ဟု ယုံကြည်ခဲ့လေသည်။ သူသည် ရူးဆို၏ တော်လှန်ရေးစာပေများကို ဖတ်ရှုလေ့လာသဘော ကျ နှစ်ခြိုက်သူ ဖြစ်သည့်အတိုင်း လူမှုဆက်ဆံရေး စံနစ် ကို ပြောင်းလဲပစ်ရန် အလွန် စိတ်အားထက်သန်ခဲ့၏။

ထိုပြင် ပြည်သူ့ ကာကွယ်ရေးအဖွဲ့သည် ရက်စက်ကြမ်း ကြုတ်မှုများကြောင့် တန်ခိုးကြီးလာခဲ့ရာ ရောဗက်စပဲျသည် လည်း အာဏာရှင်တမျှ တန်ခိုး ကြီးမားလာခဲ့လေသည်။ ရောဗက်စပဲျသည် သူနှင့် သဘောကွဲလွဲခဲ့သောကြောင့် သူ၏ ရဲဘော် ဒန်တွန်ကိုလည်း သေဒဏ် ပေးခဲ့သည်။ (ဒန်တွန်, ဇော့ဇက် — ရှု။) သို့ဖြစ်၍ သူ၏ ရဲဘော်များပင် သူ၏တန် ခိုးအာဏာကို ကြောက်ရွံ့လာကြ၏။ အချို့သည်လည်း သူ၏ အာဏာကို မနာလိုဖြစ်လာကြသည့်ပြင် သတ်ဖြတ်မှုများ ကိုလည်း ငြီးငွေ့လာကြပြီ ဖြစ်၏။ ထိုနောက်တွင်လည်း သူ၏ သဘောတရားများကြောင့် သူ့ကို မုန်းတီးသူ ပိုမိုများ ပြားလာခဲ့လေသည်။

ထိုကြောင့် ၁၇၉၄ ခုနှစ် ဇူလိုင်လ ၂၇ ရက်နေ့တွင် သူ၏ ရန်သူများက သူ့ကို ဖမ်းဆီးခဲ့လေသည်။ နောက်တနေ့တွင် ကွန်ဗင်းရှင်း လွှတ်တော်၏ အမိန့်ဖြင့် အသတ်ခံရလေသည်။ ထိုနောက် ရက်စက်ကြမ်းကြုတ်မှုများလည်း ပပျောက်သွား လေသည်။

**ရောဗင်ဟု။** ။အင်္ဂလိပ်တို့၏ ဗဲလက် ကဗျာများတွင် ရောဗင်ဟုကို ရဲရင့်သော တောပုန်းကြီးအဖြစ် ဖော်ပြထား



ကလေးလူကြီးမရွေး ကြိုက်နှစ်သက်သည့် ရောဗင်ဟု ပုံပြင်မှ ရောဗင် ဟုနှင့် လစ်တဲဂျွန်တို့ တန်တားအလယ်တွင် လမ်းလုကြစဉ်

သည်။ အင်္ဂလန်ပြည်တွင် ဒုတိယ ဟင်နရီဘုရင်မှ အစပြု သည့် ပလင်တက်ဂျနက် မင်းဆက်များ စိုးစံသောခေတ်က ရောဗင်ဟုနှင့် အပေါင်းပါ နောက်လိုက်တပည့်တို့သည် နော့ တင်ဂမ်မြို့အနီး ရှားဝုတောတွင်း၌ လှည့်လည်ကာ နေထိုင် ကြ၏။ ရောဗင်ဟုသည် လေးမြှားအတတ်၌ သူမတူအောင် ကျွမ်းကျင်လေသည်။ တောပုန်းကြီးဟု ဆိုရသော်လည်း ဆင်းရဲသား လူတန်းစားတို့၏ မိတ်ဆွေဖြစ်၍ အထက်တန်း စား လူကုံထံတို့၏ ရန်သူ ဖြစ်ပေသည်။ ထိုခေတ် အခါက မှူးမတ်မျိုးနှင့် ခရစ်ယန် ဘုန်းတော်ကြီးများသည် ဆင်းရဲ သားမှုးကို နိုင်ထက်စီးနင်း ပြုလုပ်လေ့ရှိသဖြင့် ရောဗင်ဟု သည် ထိုသူများနှင့်တွေ့လျှင် ပါသမျှကို လုယက်တိုက်ခိုက် ယူလေသည်။ တိုက်ရာပါပစ္စည်းများကိုလည်း ဆင်းရဲနွမ်းပါး သူတို့အား ဝေငှပေးကမ်း၏။ ရန်သူကိုပင် မတရားနှိပ်စက် ခြင်း မပြုချေ။ အထူးသဖြင့် မိန်းမနှင့် ကလေးများကို ထောက်ထားညှာတာလေ့ ရှိသည်။

မတရားမှုကို ရွံရှာစက်ဆုပ်သော ရောဗင်ဟုသည် ဘုရင့် သီးသန့် အမဲလိုက်တောထဲမှ ဒရယ်တကောင်ကို ပစ်မိ၍ ၎င်း၊ ဘုရင့် တောခေါင်းတယောက်ကို သတ်မိ၍၎င်း မင်း ဒဏ်သင့်သဖြင့် တောပုန်းကြီးဘဝသို့ ရောက်ရသည် ဟု ဆို လေသည်။ ထိုခေတ်က သစ်တောနှင့်ဆိုင်သော ဥပဒေများ

မှာ အလွန် ကျပ်တည်း၏။ ယင်းသို့အားဖြင့် မှူးမတ်တို့၏ ဖိနှိပ်ချုပ်ချယ်ခြင်းကို မခံလိုသူများလည်း ရောဗင်ဟုထံ၌ တပည့်ခံ၍ တောပုန်းဂိုဏ်းဝင် ဖြစ်လာကြလေသည်။ ရောဗင်ဟု ပုံပြင်များတွင် လစ်တဲ ဂျွန်၊ ဝီ စကားလက်၊ ဖရိုင်း ယားတပ်၊ မိတ် မယ်ရီယန်တို့သည် ထင်ရှားသော နောက်လိုက်တပည့်များဖြစ်ကြသည်။

ရောဗင်ဟု ဆိုသူ တကယ်ပင် ရှိခဲ့ဘူးသည်ဟူ၍ တပ်အပ်သေချာစွာ မပြောနိုင်သော်ငြားလည်း ပညာရှင် အများက ထိုသူသည် နော်မန်ဘုရင်များ လက်ထက်တွင် ကျပ်တည်း ချုပ်ချယ်လွန်းသော သစ်တောဥပဒေကြောင့် မင်းပြစ် မင်းဒဏ်သင့်သူ တဦး ဖြစ်ရမည် ဟု ယုံကြည်ကြလေသည်။ မည်သို့ပင် ဖြစ်စေ၊ အာသာဘုရင်သည် အထက်တန်းစား လူတို့အတွက် ကိုယ်စားပြုသူ ဖြစ်သည့်နည်းတူ ရောဗင်ဟုသည်လည်း သာမန်လူတန်းစားတို့အတွက် ကိုယ်စားပြုသူ ဖြစ်ပေသည်။ လူထု၏ လွတ်လပ်ရေးနှင့် အခွင့်အရေးတို့ကို ထုတ်ဖော်သူလည်း ဖြစ်၏။

၁၇၉၅ ခုနှစ်သို့ ရောက်မှ ရောဗင်ဟုအကြောင်း စပ်ဆိုခဲ့သော ဗလက်ကဗျာများကို စာအုပ်အဖြစ် စုဆောင်းထုတ်ဝေခဲ့ကြသည်။ ထို့နောက် ဆာ ဝေါ်လတာ စကော့က "အိုင်ဗင်ဟို" ဝတ္ထုတွင်၎င်း၊ လော့တင်နီဆန်က "သဖော်ရက်စတား"(၁၈၉၁) ကဗျာတွင်၎င်း၊ အဲလဖရက်နိုင်းက "ရှားဝုဒ်" (၁၉၁၁) စာအုပ်တွင်၎င်း ရောဗင်ဟု အကြောင်းကို ထည့်သွင်း ဖော်ပြခဲ့ကြလေသည်။

### ဂျွန်လစ်တဲအား လစ်တဲဂျွန်ဟု ကင်ပွန်းတပ်ကြပုံ

တနေ့သ၌ ရောဗင်ဟုသည် ရက်သတ္တနှစ်ပတ်မျှ ငြိမ်းချမ်းစွာ နေရခြင်းကို ငြီးငွေ့လာသဖြင့် တယောက်တည်း တောလည် ထွက်ခဲ့လေသည်။ အရေး တစုံတရာ ပေါ်ပေါက်လာသဖြင့် မိမိ၏ ဦးချိုတံပိုးကို သုံးကြိမ်သုံးခါ မှုတ်သံကြားလျှင် အမြန်လိုက်လာရန် နောက်လိုက် တပည့်တို့အား မှာကြားခဲ့၏။ လူတယောက် သွားသာရုံရှိသော ချောင်းကူးတန်တားတခုသို့ ရောက်သောအခါ တဖက်ထိပ်တွင် အရပ် ခုနစ်ပေမြင့်၍ လက်ထဲ၌ သစ်ပင်ငယ် ပင်စည်လုံးမျှ ကြီးသော တုတ်ရှည် တချောင်းကို ကိုင်ဆောင်လာသည့် လူစိမ်း တယောက်နှင့် တွေ့ဆုံမိလေ၏။ ထိုအခါ ရောဗင်ဟုက မိမိသာလျှင် အလျင်ဖြတ်ကူးမည် ဖြစ်ကြောင်း လှမ်း၍ ပြော၏။ ထိုသူကလည်း သူသာလျှင် အလျင် ဖြတ်ကူးမည် ဟု ဆို၏။ ရောဗင်ဟုလည်း ရှေ့သို့ ခြေတလှမ်းတိုးလာလျှင် မြားနှင့် ပစ်ခွင်းမည် ဟု ခြိမ်းခြောက်လိုက်ရာ ထိုသူက သတ္တိရှိသည် ဆိုပါက တုတ်ချင်း ပြိုင်ရိုက်မည် ဟု စိန်ခေါ်လေသည်။

ယင်းသို့ဖြင့် နှစ်ဦးသား တန်တားပေါ်တွင် အစွမ်းပြိုင်ကြရာ သူတပြန် ငါတပြန် သတ်ပုတ်နေကြသည့် အဆုံး၌ ရောဗင်ဟုသည် ချောင်းထဲသို့ ဦးစိုက်ကျလေ၏။ သို့ရာတွင် ရောဗင်ဟုသည် ထိုသူအား ရန်ငြိုးမထားဘဲ ပြုံးရွှင်လျက် အညံ့ခံလေသည်။ ထို့နောက် ဦးချိုတံပိုးကို မှုတ်လိုက်သည်တွင် နောက်လိုက်တပည့်များ ချက်ခြင်း ရောက်လာ၍ ထိုသူအား လက်စားချေရန်ပြင်ကြ၏။ ရောဗင်ဟုက တပည့်တို့ကို ဟန့်တားပြီးလျှင် သူ၏သတ္တိကို ချီးကျူး ပြောဆို၍ မိမိတို့၏ အသင်းသားအဖြစ် ဝင်ရန် ဖိတ်ခေါ် လေသည်။ ဖိတ်ခေါ်ချက်ကို လက်ခံသဖြင့် အမည်နာမကို မေးရာ၊ "ဂျွန်လစ်တဲ" ဟု ပြန်ဖြေ၏။ ထိုအခါ ကိုယ်ခန္ဓာထွားကြိုင်းသူ ဖြစ်ပါလျက်နှင့် အမည်မှာ "ဂျွန်ကလေး" ဟု အဓိပ္ပါယ် ပေါက်သောကြောင့် ရောဗင်ဟုတို့ လူစုက ဝိုင်း၍ ရယ်မောကြလေသည်။ ထိုအခိုက် တယောက်က ကိုယ်ခန္ဓာအချိုးအစားနှင့် လိုက်အောင် "လစ်တဲဂျွန်" ဟူ၍ ကင်ပွန်းတပ်သင့်ကြောင်း အကြံပေး၏။

ရောဗင်ဟုသည် ယင်းအကြံကို သဘောကျသဖြင့် တောတွင်း၌ စားသောက်ပွဲတည်ခင်း၍ ဂျွန်လစ်တဲအား လစ်တဲဂျွန် ဟူ၍ ကင်ပွန်းတပ်သည့် အခမ်းအနားကို ဆင်ယင်ကျင်းပလေသည်။ လစ်တဲဂျွန်ကိုလည်း မိမိ၏ လကျ်ာဖက်တွင် ထိုင်စေပြီးလျှင် ပျော်ရွှင်စွာ စားသောက် ကြ၏။ နောင်အခါ၌ လစ်တဲဂျွန်သည် တောပုန်းကြီး ရောဗင်ဟု အဖွဲ့တွင် ဒုတိယ ခေါင်းဆောင်အဖြစ် နာမည် ထင်ရှားလာလေသည်။

**ရောမ ကက်သလစ်ဂိုဏ်း။** ။ရောမ ကက်သလစ် ဂိုဏ်းသည် ယနေ့ကမ္ဘာတွင် သန်းပေါင်း ငါးရာကျော်မျှသော ခရစ်ယာန်တို့ ယုံကြည် ကိုးကွယ်သည့် ခရစ်ယာန်အယူဝါဒဆိုင်ရာ ဂိုဏ်းတခု ဖြစ်သည်။ ကမ္ဘာပေါ်ရှိ တိုင်းပြည် အသီးအသီးမှ လူမျိုးတကာတို့ အလယ်တွင် ကာလ၊ ဒေသ မရွေး ကက်သလစ် ဂိုဏ်းဝင်များကို တွေ့ရသည်။ ဤကက်သလစ်ဂိုဏ်း၏အယူဝါဒမှာ သခင်ယေဇူး (သခင်ယေရှု) ဟောကြားတော်မူခဲ့သော "မေတ္တာ ဒေသနာတော်" များသာ ဖြစ်သည်။ (ခရစ်တော်၊ယေရှု — ရှု။) ကက်သလစ်ဂိုဏ်းဝင်အပေါင်းတို့သည် မိမိတို့၏ ယုံကြည်မှုတွင် သဘောချင်းတိုက်ဆိုင်သဖြင့် တူညီသော ကိုယ်ကျင့်တရား ရှိကြပြီးလျှင် ဝိညာဉ် နာမ်သဘောတရား အယူဝါဒ သဘောတရားများနှင့် သက်ဆိုင်သော ကိစ္စအရပ်ရပ်တို့၌ သခင်ယေဇူး၏ကိုယ်စားလှယ်တော် ရဟန်းမင်းကြီး၏ ဩဇာကို နာယူကာ ညီညွတ်စည်းလုံးကြသည်။ရဟန်းမင်းကြီး၏သာသနာရေးနှင့် စပ်လျဉ်းသော သွန်သင်ချက်များကို ယုံကြည် ကျင့်ကြံကြသည့် ကက်သလစ် ဂိုဏ်းဝင်တို့သည် တမလွန်ဘဝတွင် ကောင်းကင်ဘုံ၌ ထာဝရ သုခချမ်းသာ ခံစားကြရ၏။ (ပုပ်ရဟန်းမင်းစနစ်နှင့်ပုပ်ရဟန်းမင်းများ — လည်းရှု။)

ကက်သလစ် သာသနာ၏ နက်နဲသော ယုံကြည်ချက်တရပ်မှာ ခမည်းတော် ဘုရား၊ သားတော် ဘုရားနှင့် သန့်ရှင်းသော ဝိညာဉ်တော် ဘုရား ဟူသော ပုဂ္ဂိုလ်တော် သုံးပါးသည် ဘုရားတဆူတည်း ရှိတော်မူခြင်းဖြစ်သည်။ ဒုတိယပုဂ္ဂိုလ် သားတော်ဘုရားသည် ကမ္ဘာဦး မိဖ နှစ်ပါးတို့အား မြတ်စွာဘုရား ဗျာဒိတ် ထားတော်မူခဲ့သော ကယ်တင်ရှင်ဖြစ်သည်။ ထိုကယ်တင်ရှင်သည် ဂျူးလူမျိုးတို့ ဌာနီ၊ ပယ်လက်စတိုင်းပြည် နာဇရက် မြို့သူ မာရီယာ (မေရီ) ခေါ် ကညာစင် တဦးထံတွင် ဘုရားတန်ခိုးတော်မြတ်အားဖြင့် သန္ဓေ စွဲယူ၍ လူ့ဘုံသို့ ကြွလာတော်မူသည်။ ကညာစင် မာရီယာသည် ဗိတ္တလေဟင်မြို့ (ဗက်သလီဟမ်မြို့)၌ မိမိသားတော်ကို မျက်နှာသန့်စင် ဖွားမြင်တော်မူပြီးနောက်"ယေဇူးခရစ္စတူး" (ခရစ်တော်ယေရှု)ဟူ၍ အမည်မှည့်ခေါ် တော်မူသည်။ မာရီယာသည် သားတော် ယေဇူးကို မျက်နှာသန့်စင်ရသော်လည်း သက်ဆုံးတိုင် ကညာစင် ဖြစ်တော်မူသည်။

သခင် ယေဇူး ခရစ္စတူးသည် အပြစ်ရင်းမှ ကင်းလွတ်တော်မူသည်။ ဘုရား အဖြစ်တော်မှ လူအဖြစ်တော်သို့ ကူးပြောင်း လာတော် မူသော်လည်း ကိုယ်တော်၌ မကွဲကွာနိုင်သော ဘုရားဇာတိနှင့် လူ့ဇာတိ ပေါင်းစပ်လျက် ရှိသည်။

သခင်ယေဇူးသည် ပယ်လက်စတိုင်တခွင်သို့ လှည့်လည်တော်မူ၍ "မေတ္တာ ဒေသနာတော်" ကို ဟောကြားတော်မူခဲ့သည်။ ဘုရား သခင်ကို စိတ်နှလုံး အကြွင်းမဲ့ ကြည်ညိုရန်၊ ကိုယ်နှင့် အမျှ သူတပါးအပေါ် မေတ္တာ ထားရန် သွန်သင်တော် မူခဲ့သည်။ နားပင်းသူကို ကြားစေခြင်း၊ ကန်းသူကို မြင်စေခြင်းနှင့် ခပ်သိမ်းသော ဝေဒနာရှင်တို့အား ချမ်းသာ ပေးတော်မူသည့်ပြင် သေသူကိုပင် ရှင်စေသော တန်ခိုး အံ့ဖွယ်ရာများလည်း ပြတော်မူခဲ့သည်။ ကိုယ်တော်ရှင် ဟောကြားတော်မူခဲ့သမျှသော ဒေသနာတော်များနှင့် ပြတော်မူခဲ့သော တန်ခိုး အံ့ဖွယ်ရာများအကြောင်းကို ဓမ္မသစ် ကျမ်းစာတွင် အထင်အရှား ဖော်ပြထားလျက် ရှိသည်။

နောက်ဆုံး၌ သခင်ယေဇူးသည် လူအပေါင်းတို့၏ အပြစ်များကို ဆပ်ဖြေရန် ကာလဝါရီ တောင်ပေါ်တွင် လက်ဝါးကားတိုင် (လက်ဝါးကပ်တိုင်)ပေါ်၌ အသက်တော် စွန့်လွှတ်တော်မူခဲ့သည်။ ထိုမှ သုံးရက်မြောက်သော နေ့တွင် မိမိ၏ တန်ခိုးတော်အားဖြင့် ရှင်ပြန် ထမြောက်တော်မူခဲ့သည်။ သခင်ယေဇူး ရှင်ပြန် ထမြောက်တော်မူခြင်းသည် ကိုယ်တော်အရှင် အမှန်ပင် အနန္တ ဘုရားသခင် ဖြစ်တော်မူကြောင်း၊ ကိုယ်တော် ဟောကြားတော်မူခဲ့သော ဒေသနာတော်သည် တရားစစ် တရားမှန် ဖြစ်ကြောင်း၊ ထို

## အရင်းခံ မူလ

အစဦး၌ ထာဝရ မြတ်စွာဘုရား သခင်သည် ကမ္ဘာလောကကိုဖန်ဆင်းတော်မူပြီးနောက် တန်ခိုးကြီး၍ဝိညာဉ်များသာ ဖြစ်သော ကောင်းကင်ဘုံ တမန်တော် သိကြားများကို ဖန်ဆင်းတော်မူသည်။ သိကြားများကို ကောင်းကင်ဘုံ သုခချမ်းသာ စံစားခွင့် ပြုတော်မမူမီ၊ စုံစမ်းခံ အခြေအနေတွင်ထားခိုက် သိကြားအချို့ မာနထောင်လွှား၍ ငရဲသား နတ်မိစ္ဆာဘဝ ရောက်သွားခဲ့သည်။ ဘုရားသခင်အား သစ္စာတည်ကြည်သော ကျန်သိကြားများသည် ထာဝရ ကောင်းကင်ဘုံ သုခချမ်းသာ စံစားခွင့် ရကြ၏။

ထိုနောက် ဘုရားသခင်သည် ကမ္ဘာ့ ပဌမဆုံး လူဦး ဖိုမ "အာဒန်" နှင့် "ဧဝ" တို့၏ ကာယကို မြေမှုန့်ဖြင့် ဖန်ဆင်းတော်မူ၍ နာမ်ဝိညာဉ်သက် သွင်းပေးတော်မူသည်။ အာဒန် နှင့် ဧဝ တို့ကို အို၊ နာ၊ သေရေး ဒုက္ခဘေးနှင့် ခပ်သိမ်းသောဒုစရိုက်တို့မှ ကင်းစေလျက် ဆုကျေးဇူးတော်များ ပေးသနားတော်မူသည်။ ထိုသူနှစ်ဦးသည် ကမ္ဘာဦး မိဖနှစ်ပါး ဖြစ်၍ ကမ္ဘာ့ လူသား မှန်သမျှသည် ယင်းတို့မှ ဆင်းသက် ပြန့်ပွားလာကြသည်။

လူ၏ ဝိညာဉ်သည် နာမ် သဘောတရား ဖြစ်၍ အသိဉာဏ်ရှိသည့်ပြင် လွတ်လပ်သော ဆန္ဒ ရှိသည်။ ထိုဝိညာဉ်သည် နာမ်သဘောတရား ဖြစ်သည့်အလျောက် သေကျေပျက်စီးခြင်း မရောက်နိုင်ချေ။

မိစ္ဆာနတ်ဆိုး သွေးဆောင်သောကြောင့် ကမ္ဘာဦး မိဖနှစ်ပါးသည် ဘုရားသခင်၏ ပညတ်တော်ကို လွန်ဆန်မိသော အပြစ်ကို "အပြစ်ရင်း" ဟု ခေါ်သည်။ ထိုအပြစ်ရင်းသည် လူဟူသမျှသို့ ကူးစက်လာသဖြင့် ကောင်းကင်ဘုံ ချမ်းသာစံစားထိုက်ခွင့် ပျောက်ဆုံးရသည့်ပြင် အို၊ နာ၊ သေရေး ဒုက္ခဘေးများကိုလည်း လူဟူသမျှ ခံကြရသည်။ သို့သော်လည်း မဟာ ကရုဏာတော်အရှင် ထာဝရ မြတ်စွာ ဘုရားသခင်သည် လူအပေါင်းတို့ကို ကယ်ဆယ်၍ ကောင်းကင်ဘုံ သုခလမ်းတော်သို့ ပြန်လည် ညွှန်ပြတော်မူမည့် ကယ်တင်ရှင်တပါးကို ဤလောကသို့ စေလွှတ်တော်မူမည် ဟု ကမ္ဘာဦး မိဖနှစ်ပါးတို့အား ဗျာဒိတ်တော် ထားတော်မူခဲ့လေသည်။

## ကယ်တင်ရှင် ခရစ္စတူးသခင်

လူအပေါင်းတို့ကို ကယ်တင်မည့် အရှင် ဤလောကသို့ ကြွလာတော်မမူမီ ရှေးအတီတေကာလ၌ ဘုရားသခင်သည် ဂျူးလူမျိုး(ယဟူဒီလူမျိုး)ကို ရွေးကောက်တော်မူ၍ ထိုသူတို့၏ ပရောဖိတ်များမှတဆင့် ဤလောကသို့ကယ်တင်ရှင်တပါး ကြွလာတော်မူမည့်အကြောင်းကို အစဉ်မပြတ်သတိပေးတော်မူခဲ့သည်။ ထိုကယ်တင်မည့်အရှင်၏ အကြောင်းချင်းရာများကိုလည်း ဖွင့်ဟ မိန့်ကြားတော်မူခဲ့သည်။

တရားတော်ကို ယုံကြည် ကျင့်ကြံသူတို့သည် တနေ့တွင် ရှင်ပြန် ထမြောက်မည့် အကြောင်း သက်သေခံသော အမှတ် လက္ခဏာ တော်ပင် ဖြစ်သည်။ ဤသို့ဖြင့် လူတို့အား ကယ်ချွတ်တော်မူရန် ဘုရားသခင်၏ ဗျာဒိတ်တော် ပြည့်စုံခဲ့သည်။ သို့သော် အဆုံးတိုင် မရောက်သေး။ ဘုရားသခင်၏ မဟာကရုဏာတော်သည် ကာလ သုံးပါးအတွင်း ကမ္ဘာတွင်ရှိသည့် လူအပေါင်းတို့အတွက် ဖြစ်တော်မူသည်။

သခင် ယေရှုသည် ပယ်လက်စတိုင်တွင် နှစ်ပေါင်း ၃၃ နှစ် ကြာမျှ သီတင်းသုံးတော် မူခဲ့သည်။ ကိုယ်တော်အား ယုံကြည် ဆည်းကပ်သူ တပည့်များထဲမှ နောင်တွင် တရားတော်ကို ဆက်လက် ဟောပြောရန် တမန်တော်ကြီး တကျိပ် နှစ်ပါးကို ရွေးကောက် တော်မူခဲ့သည်။ ထိုတမန်တော်ကြီး တကျိပ် နှစ်ပါးတို့သည် မေတ္တာ တရား ကရုဏာ တရားတို့နှင့် ပြည့်ဝကြသည်။ သခင်ယေရှုသည် အသက်တော် မစွန့်မီ တမန်တော်ကြီး တကျိပ်နှစ်ပါးကို ရဟန်း သိက္ခာတော် ပေး၍ ဆရာတော်ကြီးများ အဖြစ် တင်မြှောက်တော်မူခဲ့သည်။ သာသနာရေးနှင့် သက်ဆိုင်သော ဩဇာ အာဏာ အပြည့် အစုံကိုလည်း အပ်နှင်းတော်မူခဲ့သည်။ တမန်တော်ကြီးများ၏ အရိုက်အရာကို ခံယူကြမည့်သူ အဆက်ဆက်တိုင် ဤဩဇာ အာဏာများ သက်ရောက်စေသည်။

တမန်တော်ကြီး တကျိပ်နှစ်ပါးအနက် "ရှင်ပီတာ"(စိန်ပီတာ) ကို နာယကအဖြစ် ခန့်အပ်တော်မူခဲ့သည်။ ဤသို့ဖြင့် ရှင်ပီတာ သည် ကက်သလစ် သာသနာ၌ ပဌမဆုံး သာသနာပိုင် ရဟန်းမင်းကြီး ဖြစ်လာတော်မူသည်။ သခင်ယေရှုသည် ရဟန်းမင်းကြီး ရှင်ပီတာကို ဘာသာဝင်များအားတရားတော်၏ အနက်အဓိပ္ပါယ် ဖွင့်ဟ သွန်သင်ရာတွင် မှားယွင်းခြင်းမှ လုံးဝ ကင်းစေသော အခွင့်အာဏာကို ပေးအပ်တော်မူခဲ့သည်။ ရဟန်းမင်းကြီး ရှင်ပီတာ၏ အရိုက်အရာတော်ကို အနာဂတ် ကာလတွင် ဆက်ခံကြမည့် ပုဂ္ဂိုလ် အဆက်ဆက်တို့သို့လည်း ထိုအခွင့်အာဏာတော်ကို သက်ရောက်စေသည်။ သို့ရာတွင် ဤထူးခြားသော အခွင့်အာဏာတော်သည် သာသနာရေးမှတပါး အခြား ဒေရေးကိစ္စများနှင့် လုံးဝ မသက်ဆိုင်ချေ။

တမန်တော်ကြီးများသည် ယေရုဇလင် (ဂျူးဆလမ်း) မြို့ မှ ကမ္ဘာ အရပ် လေးမျက်နှာသို့ သခင်ယေရှု၏ ဒေသနာတော်ကို ဆက်လက် ဟောပြောရန် ထွက်ခဲ့ကြသည်။ တရားတော်ကို သက်ဝင် ယုံကြည်သူ များလာသည်နှင့် အမျှ သာသနာနယ်လည်း ကျယ်ဝန်းလာခဲ့သည်။ တမန်တော်ကြီး တပါးစီသည် သာသနာနယ် တနယ်စီကို အုပ်ထိန်းလျက် မိမိအား ကူညီ၍ တရားတော်ကို ဆက်လက်ဟောပြောရန် သံဃာတော်များနှင့် ဆရာတော်များကို ရွေးကောက် သိက္ခာ ပေးတော်မူခဲ့ကြသည်။

### ယနေ့ ကက်သလစ်သာသနာ

ကက်သလစ် သာသနာတော် ထွန်းကားလာခဲ့သည်မှာ ယခုနှစ် (၁၉၆၇) အထိ ဆိုလျှင် နှစ်ပေါင်း နှစ်ထောင်နီးပါး ကြာခဲ့ပေပြီ။ ပဌမဆုံး ရဟန်းမင်းကြီး ရှင်ပီတာ၏ အရိုက်အရာတော်ကို ဆက်ခံခဲ့ကြသော ရဟန်းမင်းကြီးများလည်း အပါးပေါင်း ၂၆၀ ကျော် ရှိခဲ့လေပြီ။

ယနေ့ ဤကက်သလစ် ဂိုဏ်းဝင် များသည် ကမ္ဘာ့ တိုင်းပြည် အသီးအသီးမှ လူမျိုး တကာ၏ အလယ်တွင် ပျံ့နှံ့နေထိုင်လျက် သာသနာရေး၌ ရဟန်းမင်းကြီး ပဲ့ပြင်သွန်သင်တော်မူသည့် အတိုင်း ယုံကြည်ကျင့်ကြံကြရသကဲ့သို့ မိမိတို့ နေထိုင်ရာတိုင်းပြည် အစိုးရ အပေါ် တွင်လည်း အထူး သစ္စာစောင့်သိ ရှိသေကြရသည်။ မိမိတိုင်းပြည် မိမိလူမျိုးကို အထူး ချစ်ရသည့်ပြင် တိုင်းပြည်နှင့် လူမျိုး ကြီးပွားတိုးတက်ရေးတွင် စွမ်းအား ရှိသမျှ ပါဝင်ဆောင်ရွက်ကြရန် ဝတ်တရားရှိသည် ဟု ကက်သလစ်တရားတော်က သွန်သင် ထားပေသည်။

ဦးစိုးမြင့်

# ရှေးခေတ် ရောမ

**ရောမတို့၏ ယဉ်ကျေးမှုသည် ယနေ့ထက်တိုင် တည်တံ့လျက် ရှိသည်။ ယခုခေတ် ရောမမြို့တော်၌ ရှေးခေတ် ရောမ ယဉ်ကျေးမှု လက်ရာ အဆောက်အအုံများကို တွေ့နိုင်သည်။ လက်တင်ဘာသာစကားသည်လည်း ပြင်သစ်ဘာသာစကား၊ ဣတာလျံ ဘာသာစကား၊ စပိန်ဘာသာစကား၊ ပေါ်တူဂီဘာသာစကား ပြောဆိုရာ အရပ်များ၌ ထွန်းကားလျက်ပင် ရှိလေသည်။**

**ရောမနိုင်ငံသမိုင်း။** ။ရှေးနှစ်ပေါင်း ၁,၅၀၀ ကျော်ခန့်က ရောမအင်ပိုင်ယာကြီး ပြိုကွဲ ခဲ့သော်လည်း ရောမတို့၏ ယဉ်ကျေးမှုမှာ ယနေ့ထက်တိုင် တည်တံ့လျက် ရှိပေသည်။ ယခုခေတ် ရောမမြို့တော်၌ ရှေးခေတ် ယဉ်ကျေးမှု လက်ရာ အဆောက်အအုံများကို တွေ့နိုင်၏။ လက်တင် ဘာသာစကားသည်လည်း ပြင်သစ် ဘာသာစကား၊ ဣတာလျံ ဘာသာ စကား၊ စပိန် ဘာသာ စကား၊ ပေါ်တူဂီ ဘာသာစကား ပြောဆိုရာအရပ်များ၌ ထွန်းကားလျက်ပင် ရှိ၏။

ထိုအချက်များကိုထောက်၍ ရောမအင်ပိုင်ယာကြီးကို တည်ထောင်သူတို့၏အရည်အချင်းကိုသိသာချင့်ချိန်နိုင်ပေသည်။

ထိုမျှ ကြီးကျယ်သော အင်ပိုင်ယာ နှင့် ယဉ်ကျေးမှုအဆောက်အအုံကို တည်ဆောက်ခဲ့ကြသော လူမျိုးမှာ ဣတလီနိုင်ငံ အလယ်ပိုင်း တိုင်းဗားမြစ်ဝမှ ၁၇ မိုင်ခန့်ကွာဝေးသော ပယ်လတင်း ခေါ် တောင်ကုန်းပေါ်တွင် စုဝေးနေထိုင်သည့် လက်တင်လူမျိုး ဖြစ်လေသည်။ ပယ်လတင်းတောင်ကုန်းအပြင် အခြား တောင်ကုန်း ခြောက်ခုလည်းရှိရာ လေရှိယမ်လွင်ပြင်မှအပ ထိုတောင်ကုန်းများပေါ်၌ အခြား လူမျိုးများလည်း နေထိုင်လျက်ရှိကြသည်။ မြစ်တဖက်မြောက်ပိုင်းတွင် လက်တင်လူမျိုးတို့ထက် ယဉ်ကျေးမှု အဆင့်အတန်းမြင့်၍ အင်အားကြီးသော အီထရပ်စကန်လူမျိုးတို့ နေထိုင်၏။ (အီထရပ်စကန်လူမျိုး — လည်းရှု။)

တောင်ကုန်း ခုနစ်လုံးပေါ်တွင် နေထိုင်ကြသော လူမျိုးအသီးအသီးတို့သည် နောင်အခါ၌ ပေါင်းစည်းကြပြီးလျှင် ရောမမြို့ကို တည်ကြလေသည်။ အစအဦး၌ လက်တင်အကြီးအကဲတို့က မြို့ကို အုပ်ချုပ်ခဲ့ကြသော်လည်း ဘီစီ ၇၅၃ ခုနှစ်ခန့်လောက်တွင် အီထရပ်စကန်တို့၏ လက်အောက်သို့ ကျရောက်ခဲ့သည်။ အီထရပ်စကန်တို့ လက်အောက်တွင် ရောမမြို့သည် တိုးတက်လာ၏။ မြို့အင်္ဂါရပ်များဖြစ်သော မြို့ရိုး၊ ဂျူပီတာဘုရားကျောင်း၊ ရေဆင်းမြောင်း စသည်တို့ကို တည်ဆောက်ကြသည်။ အီထရပ်စကန်တို့ အုပ်ချုပ်ပုံ စံနစ်သည် ထိုခေတ်အခါက အဆင့်အတန်း မြင့်သည် ဟုဆိုရသော်လည်း သက်ဦးဆံပိုင် အုပ်ချုပ်ရေးစံနစ် ဖြစ်လေသည်။ ထို့ကြောင့် ရောမတို့သည် အီထရပ်စကန်တို့၏ လက်အောက်၌ ဆင်းရဲငြိုငြင်လာကြရာ နှစ်ပေါင်း ၂၅၀ ခန့်ကြာပြီးနောက် ဘီစီ ၅၀၉ ခုနှစ်လောက်တွင် ဘုရင်ကို တော်လှန်ပုန်ကန်ကြလေသည်။ ထိုအခါ အီထရပ်စကန်ဘုရင် တာကွင်နီယပ်စူပါဗပ် သည်လည်း ရောမမြို့ကို စွန့်ခွာသွားရသည်။ ထို့နောက် ရောမတို့သည် ရောမသမတနိုင်ငံကို တည်ထောင်ကြလေသည်။

ထိုစဉ်က ရောမနိုင်ငံသည် နိုင်ငံငယ်မျှသာဖြစ်သော်လည်း နှစ်ပေါင်း ၂၅၀ နီးပါးမျှ ဣတလီ ကျွန်းဆွယ်တွင် တန်ခိုးအကြီးဆုံးနိုင်ငံ အဖြစ် တည်ရှိခဲ့သည်။ သို့ရာတွင် အုပ်ချုပ်ရေး အာဏာသည် ဥစ္စာပစ္စည်း ကြွယ်ဝသူနှင့် သူကောင်းမျိုးတို့လက်ထဲ၌ ရောက်လျက်ရှိ၏။



ရောမနိုင်ငံ သမိုင်းတွင် အထင်ရှားဆုံးဖြစ်သော ဂျူးလယပ်ဆီဇာ ဗြိတိန်ကမ်းခြေကို တိုက်ခိုက်သိမ်းပိုက်စဉ်

ရောမတို့ အုပ်ချုပ်ရေး စံနစ်အရ နှစ်စဉ် ပက်တြီရှင် ခေါ် သူကောင်းမျိုးတို့ထဲမှ ကွန်ဆာ ခေါ် အရာရှိကြီး နှစ်ဦးကို ခန့်ထား၍ မြို့ပြရေးရာ ကိစ္စများကို အုပ်ချုပ်စေသည်။ သို့သော် ထိုအုပ်ချုပ်ရေးစံနစ်တွင် အထက်တန်းစားများသာ ခြယ်လှယ်ခွင့်ရ၍ ပလီဗီယန် ခေါ် ဆင်းရဲသားများသည် အုပ်ချုပ်ရေး၌ ပြောရေးဆိုခွင့်မရကြချေ။ ကွန်ဆာများကို ရွေးကောက်တင်မြှောက်သည့် အဆင်ဗလီအဖွဲ့တွင် ပလီဗီယန်များ ပါဝင်ခွင့် ရသော်လည်း ကွန်ဆာရွေးချယ်ရန် မဲဆန္ဒပေးရာ၌မူ ပက်တြီရှင်တို့၏ မဲက သာအောင် စီမံထား၏။

သို့ဖြင့် တန်ခိုးအာဏာ ရှိနေကြသော သူကောင်းမျိုး ပက်တြီရှင်တို့သည် အခွင့်အရေးကောင်း ဟူသမျှကို သူတို့ချည်းရအောင် ယူထားကြလေသည်။ အယုတ်သဖြင့် သူတို့၏ နွားဆိတ်များ အတွက် စားကျက်ကောင်းရအောင် ယူထားကြ၏။ ဆင်းရဲသားများမှာကား အလုပ် လုပ်စရာရှိလျှင် လုပ်ပေးရ၍ စစ်တိုက်စရာရှိလျှင် တိုက်ခိုက်ပေးရသော်လည်း အခွင့်အရေးကိုကား မရကြချေ။ ထို့ကြောင့် မခံမရပ်နိုင် ဖြစ်လာကြပြီးလျှင် ဘီစီ ၄၉၄ ခုနှစ်တွင် ဆင်းရဲသား လူတန်းစားအားလုံး စုရုံးကြပြီးလျှင် သီးခြား မြို့တမြို့တည်ရန် ရောမမြို့မှ ထွက်ခွာသွားကြ၏။ ဆင်းရဲသား လူထုကို အားကိုးနေရသော သူကောင်းမျိုးတို့မှာ ထိုသူတို့အား အုပ်ချုပ်မှု အခွင့်အရေးများ ပေးရန်၎င်း၊ မတန်တဆအတိုးနှုန်းနှင့် ချေးထားသော ကြွေးမြီများကို လျှော်ပစ်ရန်၎င်း၊ ကြွေးမှုဖြင့် ထောင်ချခံနေရသော ဆင်းရဲသားများကိုလည်း လွှတ်ပစ်ရန်၎င်း သဘောတူကြရသည်။

ထိုသို့အားဖြင့် ဆင်းရဲသား လူတန်းစားတို့၏အခွင့်အရေးများကို ကာကွယ် စောင့်ရှောက်ပေးမည့် တြီဗျွန်း အဖွဲ့ကို ရွေးကောက်ခန့်ထားလေသည်။ တဖြည်းဖြည်းနှင့် တြီဗျွန်းများသည် တန်ခိုးအာဏာ ရှိလာပြီးလျှင် တရားမျှတခြင်းမရှိဟု ထင်မြင်သော ဥပဒေများကို ပယ်ဖျက်နိုင်၍ ကွန်ဆာတို့၏ အမိန့်အာဏာများကိုပင် တချက်လွှတ်အာဏာ သုံးကာ ဖျက်ပစ်နိုင်လေသည်။ တြီဗျွန်းများသည် ဆင်းရဲသား လူထုထဲမှ ဖြစ်၍ ထိုလူတန်းစား၏ အကျိုးကို လိုက်လျှောဆောင်ရွက်ပေးကြ၏။

ထို့နောက် ပလီဗီယန်တို့သည် မိမိတို့ လူတန်းစားချည်း ပါဝင်သော ကောင်စီအဖွဲ့ကို ဖွဲ့စည်းခွင့် ရပြီးလျှင် လိုလားချက်များကိုအုပ်ချုပ်ရေးအာဏာပိုင်တို့ထံမှ တောင်းဆိုနိုင်လာကြလေသည်။ထို့ကြောင့် ဘီစီ ၄၅၀ ပြည့်နှစ်တွင် ရောမနိုင်ငံ တရားဥပဒေများကို ပြည်သူလူထု သိရှိနားလည်နိုင်ရန် ကြေးညိုပြား ၁၂ ပြားပေါ် တွင် အက္ခရာ တင်ဖြစ်ကြသည်။ အဆိုပါ တရားဥပဒေများသည် နောင်အခါ၌ ကမ္ဘာပေါ်တွင် ထင်ရှားသည့် ရောမတရားဥပဒေ၏ အခြေခံပင် ဖြစ်၏။ ဘီစီ ၃၆၆ ခုနှစ်တွင် ပလီဗီယန်တို့သည် ကွန်ဆာလူကြီးအဖြစ် အရွေးခံခွင့် ရ၏။ ဘီစီ ၂၈၇ ခုနှစ်တွင် ပလီဗီယန် ကောင်စီမှ ဆုံးဖြတ်ချက်များကို တရားဥပဒေအဖြစ် လက်ခံကြရသည်။

ရောမ သမတနိုင်ငံ မတည်ထောင်မီကပင် ဘုရင်တို့ကို အကြံဉာဏ်ပေးရသော ဆီနိတ်အဖွဲ့ ဟူ၍ ရှိခဲ့သည်။ ဆီနိတ်အဖွဲ့တွင် ကွန်ဆာတို့က ပက်တြီရှင် ခေါ် သူကောင်းမျိုးထဲမှ ရွေးကောက် တင်မြှောက်ထားသော အဖွဲ့ဝင် ၃၀၀ ပါဝင်လေသည်။ သို့သော် နောင်အခါတွင် ကွန်ဆာ အရာရှိဟောင်းများနှင့် ပရီတာ အရာရှိဟောင်းများ (ကွန်ဆာအောက် ရာထူးငယ်သည်။) သည် အလိုအလျောက်ပင် ဆီနိတ်အဖွဲ့ဝင်များ ဖြစ်လာကြသည်။ ဆီနိတ် အဖွဲ့ဝင်တို့သည် အုပ်ချုပ်မှုရေးရာဖက်၌၎င်း၊ စစ်မှုရေးရာဖက်၌၎င်း အတွေ့အကြုံများသူတို့ ဖြစ်ကြသည်။ ထို့ကြောင့် ဆီနိတ်အဖွဲ့သည် ရောမနိုင်ငံရေးတွင် အရေးပါ အရာရောက်ဆုံး အဖွဲ့အစည်း ဖြစ်ပေသည်။

ထိုစဉ်က လက်တင်မြို့များသည် ရန်သူတို့က ထိပါး ရန်စောင်နေခြင်းကို ခံနေရ၏။ ထို့ကြောင့် လက်တင်မြို့များသည် မိမိတို့အား ထိပါးလာမည့် ရန်သူများကို စုပေါင်းတွန်းလှန်ရန် သွေးစည်းကြပြီးလျှင် လက်တင်အစည်းအရုံး ဟူ၍ ဖွဲ့စည်းခဲ့ကြလေသည်။

ထိုအစည်းအရုံးဝင်တို့သည် နှစ်ပေါင်း တရာကျော်မျှကြာအောင် လက်တင် မြို့များကို ထိပါးလာသည့် ရန်သူများကို အောင်မြင်စွာ တွန်းလှန်ခဲ့ကြ၏။ လက်တင် အစည်းအရုံးဝင် အခြားမြို့များသည် လေရှိယမ်လွင်ပြင် တောင်ဖက်နှင့် အရှေ့ဖက်မှ ရန်သူများကို ခုခံကာကွယ်ရ၍ ရောမနိုင်ငံငယ်ကမူကား တိုင်းဗားမြစ် တဖက်ကမ်းမှ အီထရပ်စကန်တို့၏ ရန်ကို ခုခံကာကွယ်ရလေသည်။ ဘီစီ ၃၉၆ ခုနှစ်တွင် ရောမတို့သည် ရောမမြို့မြောက်ဖက်ရှိ အီထရပ်စကန် တို့၏ အချက်အခြာ ဒေသဖြစ်သော ဗီအိုင်မြို့ကို သိမ်းယူနိုင်ခဲ့ကြသည်။ သို့ရာတွင် ဘီစီ ၃၉၀ ပြည့်နှစ်၌ ပိုးမြစ်ဝှမ်းဖက်မှ ဂေါလလူမျိုးတို့သည် အီထရူးရီးယားနယ်ကို၎င်း၊ ရောမနိုင်ငံငယ်ကို၎င်း တိုက်ခိုက် ဖျက်ဆီးပစ်လေသည်။

အီထရပ်စကန်တို့သည်လည်း ဂေါလတို့၏ တိုက်ခိုက်ခြင်းဒဏ်ကိုအပြင်းအထန် ခံလိုက်ရသဖြင့် အင်အား ချည့်နဲ့လျက်ရှိရာ နောင် အနှစ်တရာအတွင်း ရောမတို့က ယင်းတို့၏ ပိုင်နက်အားလုံးကို သိမ်းပိုက်မိလေသည်။ ရောမတို့သည် ဣတလီ ကျွန်းဆွယ်ရှိ အခြားတိုင်းရင်းသားလူမျိုးစုများကိုလည်း တိုက်ခိုက် နှိမ်နင်းခဲ့သည်။ ထိုသို့အားဖြင့် ရောမတို့သည် တဖြည်းဖြည်း တန်ခိုးကြီးမားလာသောကြောင့် လက်တင်အစည်းအရုံးဝင် အခြားမြို့များက ရောမ၏ ရန်ကို စိုးရိမ်လာကြလေသည်။သို့ဖြင့် ဘီစီ ၃၄၀ ပြည့်နှစ်တွင်ရောမတို့နှင့် အဆက်ဖြတ်၍ နှစ်နှစ်မျှ စစ်ခင်း တိုက်ခိုက်ကြရာ နောက်ဆုံး၌ ရောမတို့ကို အရှုံးပေးအညံ့ခံကြရသည်။ ဘီစီ၂၉၅ ခု



ရောမ ဂလက်ဒီယေးတားများ အားပြိုင်ပွဲ ကျင်းပစဉ်

နှစ်တွင် ရောမတို့သည် အင်အားကြီးမားသော ဆမ္မနိုက်လူမျိုးကို အပြီးအပိုင် နှိမ်နင်းပြီးနောက် ဣတလီ အလယ်ပိုင်းနှင့် မြောက်ပိုင်းကို သိမ်းပိုက်ကြီးစိုးလေသည်။

ဣတလီ တောင်ပိုင်းရှိ ဂရိမြို့များသည်လည်း ရောမ၏ အင်အားကို ထိတ်လန့်လာသဖြင့် အီပိုင်းရပ်ပြည်၊ ဂရိဘုရင် ပီးရပ်ထံမှ အကူအညီတောင်း၍ ရောမကို တိုက်ခိုက် လေသည်။ သို့ရာတွင် ဘီစီ ၂၇၅ ခုနှစ်၌ ရောမတို့သည် ပီးရပ်၏ တပ်များကို တွန်းလှန်ပြီးနောက် ဂရိမြို့များကို မိမိတို့ လက်အောက်သို့ သိမ်းသွင်းခဲ့၏။ ထိုနောက် ဣတလီကျွန်းဆွယ် တခုလုံးကို ရောမတို့ အုပ်စီးမိလေသည်။

ရောမတို့သည် မိမိတို့လက်အောက်သို့ သိမ်းသွင်းခြင်း ခံရသော မြို့များကို စည်းရုံးပုံမှာ မှတ်သားဖွယ်ရာ ကောင်းပေသည်။ အချို့သော မြို့များ၌ နေထိုင်သူတို့ကို ရောမနိုင်ငံသား အခွင့်အရေး လုံးလုံးပေး၏။ အချို့ကို ရောမနိုင်ငံသား အခွင့်အရေးကို ကန့်သတ်၍ ပေး၏။ အချို့ကိုမူကား ကိုယ်ပိုင်အုပ်ချုပ်ခွင့် ပေး၍ မဟာမိတ်အဖြစ် စာချုပ် ချုပ်ဆိုထား၏။ မဟာမိတ်များသည် ရောမမြို့နှင့် ကုန်သွယ်ခွင့်၊ ရောမလူမျိုးနှင့် လက်ထပ်ခွင့် ရရှိကြသော်လည်း မဲဆန္ဒပေးခွင့်မရှိ။ စစ်ဖြစ်လျှင်ရောမတို့ဖက်ကကူညီရမည်ဖြစ်၏။ ထို့ပြင် ဣတလီတွင် ကိုလိုနီနယ်များဖွင့်၍ ရောမလူမျိုးနှင့်လက်တင်လူမျိုးများကို သီးသန့်နေထိုင်ရန် နေရာချပေး၏။ သို့သော် ရောမ ကိုလိုနီများ၌ နေထိုင်သူများသာ ရောမနိုင်ငံသား အခွင့်အရေးများကိုရောမတို့နှင့်တန်းတူ ခံစားခွင့်ရရှိကြသည်။

ကိုလိုနီ နယ်များကို တည်ထောင်ပြီးနောက် ရာဇဝင်၌ ထင်ရှားသော ရောမလမ်းမကြီးများကို စတင်ဖောက်လုပ်ကြသည်။ ဣတလီကျွန်းဆွယ်တွင် ရောမမြို့ကို ဗဟိုထား၍ လမ်းများ ဖြာထွက်လျက် ရှိရာ “ခပ်သိမ်းသော လမ်းတို့သည် ရောမမြို့သို့ ဦးရှုလျက် ရှိ၏။” ဟူ၍ပင် ဆိုစမှတ် ပြုလာကြလေသည်။ ထိုလမ်းများအားဖြင့် ရောမတို့သည် လက်အောက်ခံ နယ်ပယ်များနှင့် ကူးလူးဆက်ဆံရေးမှာ လွယ်ကူလေသည်။ ရောမတို့၏ အုပ်ချုပ်ရေးအာဏာသည်လည်း နိုင်ငံအစွန်ဆုံးဒေသ တိုင်အောင် စူးရှလျက် ရှိသည်။

မြေထဲပင်လယ် အနောက်ပိုင်းတွင် ရောမတို့သည် ကုန်းမြေပေါ်၌ ကြီးစိုးသကဲ့သို့ ကားသေ့လူမျိုးတို့သည် ပင်လယ်ရေပြင်၌ ကြီးစိုးလျက်ရှိ၏။ ကားသေ့မြို့တော်သည် ယခုတျူနစ်ဇီးယားနိုင်ငံ တည်ရာ အာဖရိကကမ်းခြေပေါ်၌ ရှိ၍ ကားသေ့အင်ပိုင်ယာသည် စစ္စလီကျွန်းမှ ဂျီဗရောတား ရေလက်ကြားအထိ ကျယ်ပြန့်လေသည်။ ထိုဒေသ၌ ကုန်သွယ်ရေးကို ကားသေ့တို့က လက်ဝါးကြီး အုပ်ထားလျက် အခြားသောနိုင်ငံမှ ကုန်သွယ်သင်္ဘောဟူသမျှတို့သည် ကားသေ့တို့၏ လက်ချက်ဖြင့် နှစ်မြှုပ်ခြင်းခံရ၏။ ထို့ပြင် ရောမနှင့် ကားသေ့တို့သည် ဣတလီ တောင်ပိုင်းသို့ နယ်ချဲ့လာကြရာ ဘီစီ

၂၆၄ ခုနှစ်တွင် မက်ဆာနာမြို့အရေးကြောင့် စစ်ပွဲ စတင်ဖြစ်ပွားရလေသည်။

ရောမနှင့် ကားသေ့ဂျ်တို့ မြေထဲပင်လယ်၌ အာဏာလုသည့် စစ်ပွဲများကို ပျူးနစ် စစ်ပွဲများ ဟု ခေါ် သည်။ ပဌမ ပျူးနစ် စစ်ပွဲမှာ စစ္စလီကျွန်း ပိုင်ဆိုင်ရေးအတွက်တိုက်ခိုက်သော စစ်ပွဲ ဖြစ်၍ ဘီစီ ၂၆၄ ခုနှစ်မှ ဘီစီ ၂၄၁ ခုနှစ်အထိ ကြာသည်။

တိုက်ပွဲများမှာ စစ္စလီကျွန်းပေါ် တွင် ဖြစ်ပွားသည်သာများ၏။ သို့သော် အနီးအနားရှိ ရေပြင်၌ ရေတပ်ချင်းလည်း တိုက်ကြသေးသည်။ နှစ်ဆဲ့သုံးနှစ်မျှ ကြာအောင် တိုက်ကြပြီးနောက် ကားသေ့ဂျ်တို့ အရေးနိမ့်သဖြင့် စစ္စလီကျွန်းကို ရောမတို့က သိမ်းပိုက်လေသည်။ သုံးနှစ်မျှ ကြာသောအခါ ကော်စီကားနှင့် ဆာဒင်နီးယား ကျွန်းများကိုလည်း ရောမတို့က သိမ်းသွင်းလိုက်ပြန်၏။

ကားသေ့ဂျ်သည် အရေးနိမ့်ခဲ့သော်လည်း အင်အား မပျော့သေးချေ။ ထိုကြောင့် ပဌမ ပျူးနစ်စစ်ပွဲပြီးသည့်နောက်တွင် နောက်ထပ် နှစ်ကြိမ်မျှ တိုက်ကြလေရာ ထိုစစ်ပွဲများကို ဒုတိယ ပျူးနစ်စစ်ပွဲနှင့် တတိယ ပျူးနစ်စစ်ပွဲ ဟု ခေါ် ကြသည်။ စစ်တကြိမ် တိုက်ပြီးနောက် စစ်ပြေငြိမ်းထားစဉ် ကားသေ့ဂျ်သည်၎င်း၊ ရောမသည်၎င်း ပို၍ အင်အားတောင့်တင်းအောင် ပြင်ဆင်ကြ၏။ ဒုတိယ ပျူးနစ်စစ်ပွဲမှာ ဘီစီ ၂၁၈ ခုနှစ်တွင် စတင်ဖြစ်ပွား၍ ဘီစီ ၂၀၁ ခုနှစ်တွင် ပြီးဆုံးသွားသည်။ ထိုစစ်ပွဲတွင် နာမည်ကျော်ကားသေ့ဂျ်စစ်ဗိုလ်ချုပ် ဟန်နီဗောသည် စပိန်မှ ကုန်းကြောင်းလမ်းဖြင့် ဣတလီ မြောက်ဖက်ရှိ အဲလပတောင်တန်းကို ခဲယဉ်းစွာဖြတ်ကျော်ပြီးလျှင် ဆင်တပ်၊ မြင်းတပ်၊ ခြေလျင်တပ် အလုံးအရင်းနှင့် ရောမနိုင်ငံတွင်း ချင်းနင်း ဝင်ရောက် တိုက်ခိုက်လေသည်။ ရောမစစ်ဗိုလ်ချုပ်တို့သည် ဟန်နီဗောနှင့် မယှဉ်သာသဖြင့် စပိန်သို့ ကြားဖြတ်သွားရောက် တိုက်ခိုက်သည်တွင် ကားသေ့ဂျ်စစ်တပ်များ ဣတလီမှ ဆုတ်ခွာခဲ့ရလေသည်။ (ကားသေ့ဂျ်နိုင်ငံ။ ဟန်နီဗော — လည်းရှု။) ဘီစီ ၂၀၂ ခုနှစ်တွင် ကားသေ့ဂျ်မြို့အနီး ဇေးမားအရပ်၌ ကားသေ့ဂျ်နှင့် ရောမတို့ ယှဉ်ပြိုင် တိုက်ခိုက်ရာ ကားသေ့ဂျ်တို့ အရေးနိမ့်လေသည်။

တတိယပျူးနစ် စစ်ပွဲသည် ဘီစီ ၁၄၉ ခုနှစ်မှ ဘီစီ ၁၄၆ ခုနှစ်အထိ သုံးနှစ်ကြာမျှ ဖြစ်ပွားခဲ့၏။ ထိုစစ်ပွဲတွင် ရောမတို့သည် စည်ကားခမ်းနားသည့် ကားသေ့ဂျ်မြို့ကြီးကို ပြာပုံအတိ ဖြစ်အောင် မီးတိုက် ဖျက်ဆီးခဲ့လေသည်။ ထိုနောက် ရောမတို့သည် မြေထဲပင်လယ် အနောက်ပိုင်းကို အုပ်စီးမိလေ၏။

ရောမတို့သည်ကားသေ့ဂျ်ကိုအောင်မြင်ပြီးနောက် မြေထဲပင်လယ် အရှေ့ပိုင်းသို့ အာရုံပြောင်းကြလေသည်။ ဂရိကျွန်းဆွယ်ရှိ မက်ဆီဒုန်ပြည်မှ ပဉ္စမ ဖိလစ်ဘုရင်သည် ဆီးရီးယားပြည့်ရှင် တတိယ အန်တီယိုကပ်နှင့် မဟာမိတ်ဖွဲ့လိုက်သည်တွင် ရောမတို့က ထိုအဖွဲ့သည် မိမိတို့ကို အန်တုမည် ဟု စိုးရိမ်လာလေသည်။ ထိုကြောင့် ဘီစီ ၂၀၀ ပြည့်နှစ်တွင် ရောမသည် မက်ဆီဒုန်ပြည်ကို စစ်ကျေညာ၍ တိုက်ခိုက်လေသည်။ ဂရိတို့သည်လည်း စစ်ပွဲတွင် ကျင်လည်သားရပြီးသောရောမတို့ကို အညွှန့်ခံ အရှုံးပေးရသည်။ ရောမတို့သည် ဂရိပြည်နယ်များကို လက်အောက်ခံအဖြစ်ထားရန် မရည်ရွယ်သဖြင့် ဘီစီ ၁၉၇ ခုနှစ်တွင် ထို ပြည်နယ်အားလုံးကို လွတ်လပ်ရေး ပေးခဲ့သည်။

သို့ရာတွင် ဆီးရီးယား ဘုရင်သည် အာရှမိုင်းနားကို သိမ်းပိုက်ပြီးနောက် ဂရိပြည်နယ်များကိုထိပါးလာသဖြင့် ရောမတို့နှင့်စစ်ဖြစ်ရလေသည်။ဘီစီ ၁၉၀ ပြည့်နှစ်တွင် ဆီးရီးယား ဘုရင်လည်း အရေးနိမ့်၍ မိမိတိုင်းပြည်သို့ဆုတ်ခွာသွားရသည်။

ရောမတို့သည် ရောမသမတနိုင်ငံကြီးကို တည်ထောင်နိုင်ကြပြီဖြစ်သောကြောင့် စိတ်ကြီးဝင်လာကြလေသည်။ လက်အောက်ခံ နိုင်ငံများတွင် ပရိုကွန်ဆာ ခေါ် ဘုရင်ခံများကို ခန့်ထား အုပ်ချုပ်စေရာ ထိုသူတို့သည် သက်ဦးဆံပိုင်စံနစ်များကို သုံးလျက် အုပ်ချုပ်ကြသည်။ သူတို့၏ ရာထူး သက်တမ်းမှာ တနှစ်မျှ ဖြစ်သော်လည်း ထိုတနှစ်အတွင်း တသက်လုံးစည်းစိမ်ခံ၍ နေထိုင်နိုင်ရန်အတွက် ဥစ္စာပစ္စည်းစုဆောင်းမိဖို့ ကြိုးစားကြလေသည်။ ထိုကြောင့် လက်အောက်ခံ လူမျိုးများထံမှ ကြီးလေးသော အခွန်အတုတ်များကို ကောက်ယူကြ၏။

ရောမလူမျိုးတို့သည်လည်း စည်းစိမ် ယစ်မူးလာကြလေသည်။ ဆင်းရဲသား လူတန်းစားတို့၏ လယ်ယာ မြေများကို ငွေအားတတ်နိုင်သူ အရာထမ်း အမှုထမ်းတို့ကရင်း၊ လူကုံထံပိုင်းကရင်း ဝယ်ယူကြလေသည်။ ထိုသို့အားဖြင့် အထက်တန်းစား လူစုတွင် စည်းစိမ်ဥစ္စာ တိုးလာသည်နှင့် အမျှ ဆင်းရဲသား လူတန်းစားတို့မှာ မြေယာမဲ့ ဖြစ်ကုန်သဖြင့် ခရုဆန်ကျွတ် ဘဝသို့ ရောက်ရလေသည်။ ထိုအခါ ဆီနိတ်အဖွဲ့နှင့် ဆင်းရဲသားတို့သည် ပဋိပက္ခဖြစ်လာကြ၍ ပြည်တွင်းရေး လှုပ်ရှားလာလေသည်။

ဘီစီ ၁၃၃ ခုနှစ်တွင် တိုင်ဗီးရီးယပ် ဂရေးကပ် ဆိုသူသည် တြိဗျွန်းအဖြစ် ရွေးကောက် တင်မြှောက်ခြင်း ခံရသောအခါ တောင်သူ လယ်သမားတို့အတွက် အကျိုးရှိစေမည့် လယ်မြေပြန်လည် ဝေခြမ်းရေးစံနစ်ကို အကြံပေးခဲ့လေသည်။ သို့ရာတွင် တဖက်မှ မလိုလားသူတို့၏ လက်ချက်ဖြင့် တိုင်ဗီးရီးယပ် အနိစ္စရောက်ရလေသည်။ ထိုအချိန်မှစ၍ နှစ်ပေါင်း တရာမျှ ကြာအောင် ပြည်တွင်းစစ်ပွဲများနှင့် တော်လှန်မှုများ ဖြစ်ပွားလာခဲ့ရာ နောက်ဆုံး၌ ရောမသမတနိုင်ငံကြီး ပြိုပျက်ရလေသည်။ ထိုနောက် အုပ်ချုပ်ရေး အာဏာသည် စစ်တပ်လက်ထဲသို့ တဖြည်းဖြည်း ရောက်ရှိလာလေသည်။ စစ်ခေါင်းဆောင်တို့တွင် ပဌမဦးဆုံး ထင်ရှားလာသူမှာ မားရီးယပ်ဖြစ်သည်။ သူကား စစ်အင်အားသည် ရောမပိုင်နယ်များ၌ တည်ရှိသည် ဟု ယုံကြည်သူဖြစ်သည်။ ဆာလာ၊ ပွန်ပီ၊ ဂျူး

လယပ်ဆီဇာ၊ မတ်အန်ထော်နီတို့သည်လည်း မားရီးယပ် ယုံကြည်ချက်ကို လက်ခံ ကျင့်သုံးခဲ့ကြသော ရောမနိုင်ငံ ခေါင်းဆောင်များ ဖြစ်ကြသည်။

အာရှမိုင်းနားတွင်ရှိသော ပွန်တပ်ဘုရင် မီသရီဒိတ်နှင့် စစ်ဖြစ်သောအခါ မားရီးယပ်နှင့် ဆီနိတ်အဖွဲ့ကို ထောက်ခံသူ ဆာလာတို့ ခေါင်းဆောင်မှုအာဏာလုပွဲ ဆင်ကြလေသည်။ ဆာလာ ခေါင်းဆောင်သော ရောမစစ်တပ် အာရှမိုင်းနားသို့ ရောက်ရှိနေစဉ် မားရီးယပ်သည် ရောမမြို့တွင် အုပ်ချုပ်မှုအာဏာကို သိမ်း၍ ဆီနိတ်အဖွဲ့ဝင်ခေါင်းဆောင် အများကို သတ်လေသည်။ ဘီစီ ၈၂ ခုနှစ်တွင် အာရှမိုင်းနား၌ အောင်ပွဲခံ၍ ရောမမြို့သို့ ပြန်လာသော ဆာလာကလည်း မားရီးယပ် ဖက်သား လူထုခေါင်းဆောင် မြောက်မြားစွာတို့ကို သတ်ပစ်လေသည်။ ဆာလာလည်း ရောမအာဏာရှင် ဖြစ်လာသည်။ ထိုသို့အားဖြင့် အုပ်ချုပ်မှု အာဏာသည် ဆီနိတ်အဖွဲ့တွင် မရှိဘဲ လူတဦးတယောက်၏ လက်ထဲသို့ ရောက်ရှိသွားလေသည်။

ရောမသမတ နိုင်ငံသည် အာဏာရှင် အုပ်စိုးသော နိုင်ငံအဖြစ်သို့ တရွေ့ရွေ့ ရောက်ရှိလာသော်ငြားလည်း အင်ပိုင်ယာကြီးသည်ကား ကျယ်ပြန့်လာလေသည်။ ရောမ စစ်သူကြီး ပွန်ပီသည် အရှေ့ဖက်အာရှမိုင်းနားတွင် ပါသီယာနယ်စပ်အထိ စစ်အောင်ခဲ့သည်။ (ပွန်ပီ — လည်းရှု။) ဘီစီ ၅၈ ခုနှစ်တွင် ဂျူးလယပ်ဆီဇာကလည်း အနောက်ဖက်ရှိ ဂေါလနယ်သို့ ချီတက်တိုက်ခိုက်ခဲ့လေသည်။ ဂေါလနယ်ကို အောင်မြင်ပြီးနောက် ဂျာမန်နှင့် ဗဲလဂျီယန်တို့ကိုလည်း တိုက်ခိုက်နှိမ်နင်းခဲ့သည်။ ဗြိတိန် နိုင်ငံကိုလည်း ဘီစီ ၅၅ ခုနှစ်တွင် တကြိမ်၊ ဘီစီ ၅၄ ခုနှစ်တွင်တကြိမ် ပေါင်း နှစ်ကြိမ်မျှ တိုက်ခိုက်ခဲ့လေသည်။ ဆီဇာသည် ဂေါလနယ်တွင် ၁၀ နှစ်ခန့် နေထိုင်ပြီးနောက် ဘီစီ ၄၉ ခုနှစ်၌ ရောမသို့ ပြန်လာသည်။

ဆီနိတ်အဖွဲ့သည် ဆီဇာ၏ တန်ခိုးအာဏာ ကြီးမားလာခြင်းကို ကြောက်ရွံ့ စိုးရိမ်လာသဖြင့် ရောမမြို့တွင်းသို့ မဝင်မီ စစ်တပ်ကို ဖျက်သိမ်းခဲ့ရန် အမိန့်ပေးလေသည်။ သို့ရာတွင် ဆီဇာသည် ဆီနိတ်အဖွဲ့၏ အမိန့်ကို မနာခံဘဲ၊ စစ်တပ်နှင့် တကွ မြို့တွင်းသို့ ဝင်ရောက်ခဲ့သည်။ ထိုအချိန်မှ စ၍ ရောမ သမတ နိုင်ငံခေတ် ကုန်ဆုံးလေသည်။ ဆီဇာသည် သရဖူဆောင်းဘုရင် အဖြစ်ကို မခံယူခဲ့သော်လည်း သူတဦးတည်းလက်၌ အချုပ်အချာအာဏာထား၍ အုပ်ချုပ်ခဲ့လေသည်။ ထို့ကြောင့် ဆီဇာသည် သက်ဦးဆံပိုင် ဘုရင်သဖွယ် အုပ်စိုးတော့မည် ဟု စိုးရိမ်လာကြသူများ၏ လက်ချက်ဖြင့် ဘီစီ ၄၄ ခုနှစ်တွင် လုပ်ကြံခြင်း ခံခဲ့ရလေသည်။ (ဆီဇာ, ဂျူးလယပ် — လည်းရှု။)

ဂျူးလယပ် ဆီဇာ ကွယ်လွန်ပြီးနောက် အာဏာလုပွဲများ ဖြစ်ပွားခဲ့သည်။ နောက်ဆုံး ဘီစီ ၂၇ ခုနှစ်တွင် (ဂျူးလယပ် ဆီဇာ၏ မြေးတော်သူ) အော့ကတေးဗီးယန်းက ဩဂပ်စတပ် (ဘီစီ ၆၃ – အေဒီ ၁၄) ဟူသော ဘွဲ့ကို ခံယူ၍ ပဌမဦးဆုံး ရောမ ဧကရာဇ်ဘုရင် အဖြစ်ဖြင့် အုပ်စိုးလေသည်။ (ဩဂပ်စတပ် — လည်းရှု။) ဩဂပ်စတပ်သည် အချုပ်အချာ အာဏာပိုင်ဖြစ်သော်လည်း အုပ်ချုပ်ရေး ကိစ္စများတွင် ဆီနိတ်အဖွဲ့နှင့်တိုင်ပင်၍ ဆောင်ရွက်လေသည်။ ထိုကဲ့သို့ ရောမအင်ပိုင်ယာခေတ် စတင် ဖြစ်ပေါ်လာပြီးနောက် ရောမနိုင်ငံသည် နှစ်ပေါင်း နှစ်ရာခန့်မျှ ငြိမ်းချမ်းသာယာလျက် ရှိလေသည်။ နယ်စပ် ဒေသများတွင် တိုက်ခိုက်မှုဖြစ်ပွားသည်မှ အပ၊ စစ်မက် အန္တရာယ်ဟူ၍ အကြီးအကျယ် မရှိချေ။ ရောမစာပေနှင့် ယဉ်ကျေးမှု ထွန်းကားတိုးတက်သောခေတ် ဖြစ်သည်။ ဗြိတိန် နိုင်ငံတွင် ရောမတို့ ဖောက်လုပ်ခဲ့သော လမ်းများကိုရင်း၊ ပြင်သစ်နိုင်ငံတွင် တည်ဆောက်ခဲ့သော ရေသွယ်ပြွန်နှင့် တန်တားများကိုရင်း ယခုထက်တိုင် တွေ့မြင်နိုင်လေသည်။ ရောမ တရားဥပဒေကိုလည်း အင်ပိုင်ယာ အတွင်းရှိ တရားရုံးများ၌ လိုက်နာ ကျင့်သုံးလျက် ရှိလေသည်။ ဩဂပ်စတပ် ကွယ်လွန်ပြီးနောက် တိုင်ဗီးရီးယပ် (အေဒီ ၁၄–၃၇ ခုနှစ်)၊ ကလီဂျူလာ (အေဒီ ၃၇–၄၁ ခုနှစ်)၊ ကလော်ဒီယပ် (အေဒီ ၄၁–၅၄ ခုနှစ်)နှင့် နီးရိုး (အေဒီ ၅၄–၆၈ ခုနှစ်) တို့သည် ရောမ အင်ပိုင်ယာကို ဆက်လက်အုပ်စိုးခဲ့ကြသည်။ (နီးရိုး — လည်းရှု။) နီးရိုးဘုရင် ကွယ်လွန်သောအခါ ငြိမ်းချမ်းသာယာသော ရောမ အင်ပိုင်ယာ ပဌမရာစုခေတ် ကုန်ဆုံးလေသည်။

အင်ပိုင်ယာ ဒုတိယ ရာစုခေတ်တွင် နှလုံးရည်၊ လက်ရုံးရည်ရှိသော ရောမဧကရာဇ် ငါးဦးတို့မှာ နာဗာ၊ ထရေဂျန်၊ ဟေဒြီယန်၊ အန်တိုးနိုင်းနပ်ပိုင်းယပ်နှင့် မားကပ် ဩရီးလီးယပ် တို့ ဖြစ်သည်။ ထရေဂျန်ဘုရင် (အေဒီ ၉၈–၁၁၇ ခုနှစ်) လက်ထက်တွင် ရောမအင်ပိုင်ယာမှာ အကျယ်ပြန့်ဆုံး ဖြစ်သည်။ ဟေဒြီယန် ဘုရင် (အေဒီ ၁၁၇–၁၃၈ ခုနှစ်) သည် အုပ်ချုပ်မှုရေးရာ၌ရင်း၊ စစ်မှုရေးရာ၌ရင်း ပြုပြင်ပြောင်းလဲမှုများကို ဆောင်ရွက်ခဲ့လေသည်။ ဟေဒြီယန် ဘုရင်၊ အန်တိုးနိုင်းနပ်ပိုင်းယပ်ဘုရင် (အေဒီ ၁၃၈–၁၆၁ ခုနှစ်) နှင့် မားကပ် ဩရီးလီးယပ်ဘုရင် (အေဒီ ၁၆၁–၁၈၀ ပြည့်နှစ်) တို့ အုပ်စိုးခဲ့ကြသော ခေတ်သည် ရောမအင်ပိုင်ယာအတွက် အသာယာ အစည်ကားဆုံးခေတ် ဖြစ်ပေသည်။ (မားကပ် ဩရီးလီးယပ်၊ အန်တိုးနိုင်းနပ် — လည်းရှု။)

မားကပ် ဩရီးလီးယပ်ဘုရင် စိုးစံပြီးနောက်တွင် ရောမ အင်ပိုင်ယာသည်လည်း ဆုတ်ယုတ်လာလေသည်။ ဩရီးလီးယပ်ဘုရင် လက်ထက်၌ပင် အင်ပိုင်ယာ အရှေ့ပိုင်းတွင်ရင်း၊ အနောက်ပိုင်းတွင်ရင်း တိုက်ခိုက်မှုများ ဖြစ်ပွားခဲ့လေသည်။ အထူးသဖြင့် အနောက်ဖက် နယ်စပ်များတွင် ဂျာမန်လူရိုင်းတို့က တိုက်ခိုက်လာကြလေသည်။ ထို့ကြောင့် ရောမစစ်တပ်အင်အားကို နှစ်ဆမျှ တိုးချဲ့ခဲ့ရသည်။ စစ်တပ်အင်အား

ကြီးမားလာသဖြင့် စစ်ဖက်က အုပ်ချုပ်ရေးတွင် အာဏာစူးရှလာလေသည်။ သို့ဖြစ်၍ အေဒီ ၁၉၃–၂၈၄ ခုနှစ်များအတွင်း စစ်တပ်က မိမိတို့ အလိုကျသူကို ဘုရင်မြှောက်၍ အလိုမကျလျှင် ဖြုတ်ချခဲ့ကြရာ နှစ်ပေါင်း ၉၀ ခန့်တွင် ရောမ ကေရာဇ်ဘုရင်ပေါင်း ၈၀ ခန့် ပြောင်းခဲ့လေသည်။

ဒိုင်အိုကလီ ရှင်ဘုရင်(အေဒီ ၂၈၄–၃၀၅ ခုနှစ်)နှင့် ကွန်စတန်တင်းဘုရင် (အေဒီ ၃၁၂–၃၃၇ ခုနှစ်) တို့ လက်ထက်တွင် ပြိုပျက်လုနီးသော ရောမအင်ပိုင်ယာကို ပြန်လည်ထိန်းသိမ်းခဲ့ကြလေသည်။ ဒိုင်အိုကလီ ရှင်ဘုရင်သည် ရောမအင်ပိုင်ယာကို အရှေ့နှင့် အနောက် နှစ်ပိုင်းခွဲ၍ အုပ်ချုပ်ရန် စတင် စီမံခဲ့သည်။ မိမိက အရှေ့ပိုင်း ရောမအင်ပိုင်ယာကို အုပ်ချုပ်၍ မက်ဆီမီယန် ဆိုသူအား အနောက်ပိုင်း ရောမအင်ပိုင်ယာကို အုပ်ချုပ်စေသည်။ ဒိုင်အိုကလီ ရှင်ဘုရင်နောက် ကွန်စတန်တင်းသည် ရောမနိုင်ငံ အနောက်ပိုင်းတွင် ကေရာဇ်ဘုရင် ဖြစ်လာသည်။ အေဒီ ၃၂၃ တွင် လိုင်စင်းနီးယပ် ကေရာဇ် အုပ်စိုးလျက်ရှိသော ရောမနိုင်ငံ အရှေ့ပိုင်းသို့ ချီတက် သိမ်းပိုက်လိုက်လေသည်။ ထိုသို့အားဖြင့် အကွဲကွဲဖြစ်နေသော ရောမအင်ပိုင်ယာမှာ ကေရာဇ်တပါးတည်း အောက်တွင် ပြန်လည် ပေါင်းစည်းမိလေသည်။

ကွန်စတန်တင်း ဘုရင်သည် အေဒီ ၃၁၃ ခုနှစ်တွင် ရောမအင်ပိုင်ယာအတွင်း၌ ခရစ်ယန် အယူဝါဒီတို့ကို လွတ်လပ်စွာ ကိုးကွယ်ခွင့်ပေးခဲ့သည်။ အေဒီ ၃၃၀ ပြည့်နှစ်တွင် နေပြည်တော်ကို ရောမမြို့မှ အရှေ့ဖက် ဗိုင်ဇင်းရှမ်းမြို့သို့ ရွှေ့ပြောင်းခဲ့သည်။ ထိုနေပြည်တော်သစ်ကိုလည်း ကွန်စတန်တီနိုပယ်မြို့ ဟု သမုတ်လေသည်။ (ကွန်စတန်တင်း ဘုရင်ကြီး — လည်းရှု။)

အနောက်ဖက်တွင် ဖရန့် လူမျိုး၊ ဂေါ့သလူမျိုး အစရှိသော ဂျာမန် လူရိုင်းတို့က ရောမပိုင် နယ်များထဲသို့ ထိုးဖောက်တိုက်ခိုက်လျက် ရှိကြသည်။ အရှေ့ဖက်၌လည်း ပါးရှင်းလူမျိုးတို့၏ ရန်ကို စိုးရိမ်နေရသည်။ အေဒီ ၄၁၀ ပြည့်နှစ်သို့ ရောက်သောအခါ အလာရစ် ခေါင်းဆောင်သော ဂေါ့သလူမျိုးတို့သည် ဣတလီကျွန်းဆွယ်သို့ ဝင်ရောက်တိုက်ခိုက်ကြသည်တွင် ရောမမြို့ ကျဆုံးရလေသည်။ တဖန် အေဒီ ၄၅၅ ခုနှစ်တွင် ဗင်ဒေါလူမျိုးတို့က ရောမမြို့တွင်းသို့ ဝင်၍ တိုက်ခိုက် လုယက်ကြလေသည်။ နောက်ဆုံး အေဒီ ၄၇၆ ခုနှစ်တွင် ဂျာမန်လူမျိုး အိုဒိုအေဆာက ရောမကေရာဇ် ရိုမျူလပ်ကို နန်းချပြီးလျှင် ဣတလီပြည့်ရှင် အဖြစ် အုပ်စိုးလေသည်။ ထိုသို့အားဖြင့် အနောက် ရောမနိုင်ငံကြီး ပြိုကွဲခဲ့ရလေသည်။ အရှေ့ ရောမနိုင်ငံကြီးသည်ကား နှစ်ပေါင်း တထောင် နီးပါးမျှ ဆက်လက် တည်တံ့ပြီးနောက် အေဒီ ၁၄၅၃ ခုနှစ်တွင် ကွန်စတန်တီနိုပယ်မြို့တော်လည်း တူရကီတို့ လက်သို့ ကျရောက်ခဲ့ရလေသည်။ (ဗိုင်ဇင်းတိုင် အင်ပိုင်ယာ — လည်းရှု။)

**ရောမ ပန်းချီနှင့် ရုပ်လုံးထုအတတ်။** ။ဘီစီ နှစ်ရာစုနှစ် အတွင်းက ရောမစစ်ဗိုလ်ချုပ်ကြီးတို့သည် ဂရိနိုင်ငံရှိ မြို့ကြီးများကို ဝင်ရောက် တိုက်ခိုက်ပြီးနောက် အပြန်တွင် အောင်မြင်မှု အထိမ်းအမှတ်အဖြစ် ဂရိလက်ရာ ရုပ်တု ရုပ်လုံးများကို အများအပြား ယူဆောင်ခဲ့ကြလေသည်။

ရောမတို့ထက် စော၍ ဣတလီ မြောက်ပိုင်းတွင် နေထိုင်ကြသော အီထရပ်စကန်တို့ထံမှ ရရှိသော ရောမ အနုပညာသည် ဂရိတို့၏ အနုပညာ အဆင့်အတန်းကို မမှီချေ။ ထို



ရှေး ရောမမြို့တော်၏ ရှခင်း



ရောမလူမျိုးတို့၏ ပန်းချီနှင့် ရုပ်လုံးထု အတတ်ကို ရောမမြို့ရှိ ဖိုရမ်အဆောက်အအုံများက သက်သေပြလျက် ရှိသည်။

ကြောင့် ရောမတို့သည် ဂရိတို့ထံမှ ယူဆောင်ခဲ့သော လက်ရာများကို အတုယူကြရလေသည်။ ထိုသို့ အတုယူကြရာ၌ မိမိတို့၏ ကိုယ်ပိုင်မှုများကို ထည့်သွင်း အသုံးပြုထားကြ၏။ ယခုတိုင် ကျန်ရှိနေသော ရောမအနုပညာ လက်ရာများဖြစ်သည့် အထိမ်းအမှတ် ကျောက်တိုင်၊ ကျောက်ရုပ်များသည် ရှေးနှစ်ပေါင်း များစွာက ဂရိဆရာတို့၏ နိဿယမကင်းကြောင်းကို ဖော်ပြလျက်ရှိသည်။

ရောမလူမျိုးများအဖို့ အနုပညာကို အဓိက အားဖြင့် အမြင့်စူးရှသော စိတ်ကူး ကြံဆချက်များ၊ လှုပ်ရှားမှုများကို ဖော်ပြရန် အတွက် မဟုတ်ဘဲ အိမ်တွင်းအိမ်ပြင် တန်ဆာဆင်ရန် အတွက်၎င်း၊ အခင်းအကျင်း အတွက်၎င်း အသုံးပြုကြလေသည်။ သို့ဖြစ်ရာ အနုပညာသည် ခေတ်အလျောက် အလှအပအတွက် အသုံးပြုကြသောအရာ ဖြစ်လာလေ၏။ ထိုကြောင့်ပင် အနုပညာဂုဏ်အင်္ဂါတို့သည် ချွတ်ယွင်းလျက် ရှိလေသည်။

ကြွယ်ဝချမ်းသာသူတို့သည် မိမိတို့၏ တိုက်တာ နေအိမ်တို့ကို အကြီးအကျယ် ဆောက်လုပ်၍ အနုပညာလက်ရာများဖြင့် ငွေကြေး အမြောက်အမြား အကုန်ခံကာ တန်ဆာဆင်ကြသည်။ ထိုသို့တန်ဆာဆင်ရာတွင် ဂရိအနုပညာသည်၊ သို့မဟုတ် ဂရိ လက်ရာတို့ကို အတု ခိုးတတ်သူများအား ခေါ်ယူကာ နံရံကို ဆေး ရေးခြယ်၍ ရုပ်လုံး ရုပ်တုတို့ဖြင့် အလှအပ ဆင်ယင်စေကြ၏။ ရောမသဌေးကြီးများက ဤသို့ ငွေကို ရက်ရောစွာ သုံးစွဲနေကြသောအခါ ဂရိနိုင်ငံမှ အနုပညာသည်တို့သည် ရောမနိုင်ငံတွင်းသို့ စီးပွားရှာရန်စုရုံးလာရောက်ကြလေသည်။ ထိုအခါ အနုပညာလက်ရာသည် မှေးမှိန်၍ မသွားသော်လည်း ကြေးစားတို့၏ လက်ရာများသာ အများအပြား ပေါ်ထွက် ခဲ့လေသည်။ ကြီးကျယ်သော စိတ်ကူးဉာဏ်မှ ထွက်ပေါ်လာသော လက်ရာများကား ခေါင်းပါးခဲ့၏။

ဂရိအနုပညာများနှင့် ယှဉ်လိုက်သောအခါတွင် ရောမအနုပညာသည် အဆင့်အတန်း နိမ့်ကျသော်လည်း ခြီးမွမ်းထိုက်သော အချက်လည်း ရှိ၏။ ရောမလက်ရာ ဖြစ်သော ပုံတူရုပ်တု ရုပ်လုံးများသည် ခွန်အားဗလနှင့် ပြည့်စုံ၍ သက်ရှိနှင့်မခြားချေ။ ရောမတို့သည် ဧကရာဇ်ဘုရင်များ၏ ကိုယ်တပိုင်းပုံ၊ ရုပ်လုံးပြည့် ပုံများကို အမှတ်တရ ဖြစ်စေခြင်းငှာ ထွင်းထု ခဲ့ကြလေသည်။ ထိုရုပ်လုံး ရုပ်တုများသည် နိုင်ငံသမိုင်းဆိုင်ရာတွင် အဖိုးထိုက်တန်သလောက် အနုပညာတွင်လည်း နှောင်းလူတို့အဖို့ အကျိုးများပေသည်။ ထိုနည်းတူ အောင်မြင်ခြင်း အထိမ်းအမှတ် ခုံးကြီးများ၊ ဧကရာဇ်ထရေဂျန် လက်ထက်က အဖြစ်အပျက်များကို မှတ်တမ်း တင်သည့် မော်ကွန်းကျောက်တိုင်များသည် ခြီးမွမ်းထိုက်သော ရောမ အနုပညာလက်ရာများ ဖြစ်ပေသည်။

ရောမတို့သည် ယဉ်ကျေးမှုနှင့် အနုပညာတွင် များသောအားဖြင့် ဂရိတို့ထံမှ နည်းယူကြရသည်သာမက အယူဝါဒရေးဆိုင်ရာ အချက်အလက်များနှင့် ဂရိတို့ကိုးကွယ်သည့် နတ်ရုပ်တို့ကိုလည်း အတုယူ၍ ထုလုပ်ပူဇော်ကြသည်။ ထိုကြောင့် ရောမလက်ရာမှန်သမျှတွင် ဂရိလက်ရာ အရိပ်အယောင်များ မကင်းပေ။ ရောမလက်ရာစစ်စစ်အဖြစ် စံတင်ထားကြသော အန်တီနိုအပ်၏ ရုပ်တုသည်ပင်လျှင် ဂရိတို့၏ လက်ရာ အငွေ့အသက်ပါကြောင်း သိသာပေသည်။

ရုပ်ထုရုပ်လုံး အတတ်တွင် ရောမတို့သည် ဂရိမှုကို အတုယူသည့် နည်းတူ ပန်းချီပညာ၌လည်း ဂရိတို့ထံမှ နည်းယူကြ၏။ သို့ရာတွင် ပန်းချီဆိုင်ရာ အနုပညာရပ်တွင် ရောမတို့သည် ကိုယ်ပိုင်မှုကို အများဆုံးထည့်သွင်းနိုင်ခဲ့ကြလေသည်။ နှောင်းခေတ် လူတို့သည် ရှေးရောမပန်းချီကားများကိုကြည့်၍ နည်းယူကြ၏။ ရှေးအကျဆုံး ရောမပန်းချီကားများကို ယခု မတွေ့မြင်နိုင်သော်လည်း မြေ၌ မြုပ်သွားသော ပွန်ပီယိုင်မြို့နှင့် ဟာကျူလေနီယံမြို့ကြီးများကို ပြန်လည်တူးဖော်သောအခါ ရောမ ပန်းချီလက်ရာကို အကဲခတ်နိုင်ကြပေသည်။ အချို့ လက်ရာများတွင် ဆေးရောင် သစ်လွင်လျက်ပင် ရှိသေး၏။ ပုံလည်း ပေါ်လွင် ထင်ရှားလျက် ရှိသေး၏။ ထိုကြောင့် ရောမနိုင်ငံတွင် ပန်းချီပညာ ထူးချွန်သူများ ရှိဘူးကြောင်း သိသာ နိုင်သည်။ ထို့ပြင် ရောမနိုင်ငံသားတို့သည် သူတို့၏ နေအိမ်များကိုသာ မဟုတ်ဘဲ အိမ်သုံး အိုးခွက် အိမ်ထောင်ပရိဘောဂစသည်တို့ကိုပါ အလှအပ ခြယ်လှယ်၍ သုံးစွဲခဲ့ကြကြောင်း တွေ့မြင်ရ၏။

အထူးသဖြင့် ပုံတူ ရေးဆွဲခြင်းသည် ရောမမြို့၌ ခေတ်စားခဲ့ဟန်တူသည်။ ထိုခေတ်က လူများသည် မိမိတို့၏ ပုံတူပန်းချီကားများကို ဈေးနှုန်းသက်သာစွာဖြင့် ဆွဲနိုင်ရန် ရောမမြို့လမ်းထောင့်များ၌ ပုံတူရေးဆရာအများအပြားပေါ်ပေါက်ခဲ့လေသည်။ ထိုခေတ်က လက်ရာနမူနာများကို ကြည့်ရှုရခြင်းအားဖြင့် ပုံတူကားတို့သည် အနုပညာမြောက် ဂုဏ်အင်္ဂါထက် တကယ်တူအောင် ရေးဆွဲ နိုင်လောက်သော လက်စွမ်းကို ပိုမိုပေါ်လွင် ထင်ရှားစေသည်။

စင်စစ်အားဖြင့် နှောင်းခေတ် လူတို့သည် ရောမတို့ထံမှ တဆင့် သာလျှင် ဂရိအနုပညာသည်များ၏ နည်းစံနစ်တို့ကိုရင်း၊ လက်ရာများကိုရင်း ဆက်ခံ ရရှိလိုက်သည်ဟု ဆိုရမည် ဖြစ်လေသည်။



ရောမနိုင်ငံတွင် အကောင်းဆုံး ပန်းပုလက်ရာဖြစ်သော ကွန်တေန်တင်း မုခ်ဦးတံခါး

**ရောမမြို့။** ။ရောမမြို့သည် ဣတလီနိုင်ငံ၏မြို့တော်ဖြစ်၍ လူဦးရေ ၁,၇၅၀,၇၀၀ ယောက်ခန့် ရှိသည်။ တိုင်းဗားမြစ် ကမ်းနှစ်ဖက်ပေါ်တွင်တည်ရှိ၍ မြစ်ဝမှ ၁၇ မိုင်ခန့် ကွာဝေးသည်။ လက်ျာဖက် ကမ်းပေါ်တွင် ပုပ်ရဟန်းမင်း နေထိုင်ရာ ဗက်တီကင် နန်းမြို့တည်ရှိသည်။ ဗက်တီကင်နန်းမြို့သည် ၁၉၂၉ ခုနှစ်မှ အစပြု၍ လွတ်လပ်သော နိုင်ငံငယ်အဖြစ်ကို ရရှိခဲ့သည်။ ဗက်တီကင်နန်းမြို့၏ အကျယ်အဝန်းမှာ ၁၀၈.၇ ဧက ရှိ၍ လူဦးရေ ၉၀၀ ခန့် နေထိုင်သည်။ (ဗက်တီကင်နန်းမြို့ — ရှု။) ဗက်တီကင်နန်းမြို့တွင် တည်ရှိသော စိန့်ပီတာအထိမ်းအမှတ် ဘုရားရှိခိုးကျောင်းကြီးသည် ကမ္ဘာပေါ်တွင် ထင်ရှားသော ဘုရားရှိခိုးကျောင်း ဖြစ်သည့်အပြင် အလယ်ခေတ် ဗိသုကာလက်ရာ၊ ပန်းချီလက်ရာ အစရှိသည့် အနုပညာ လက်ရာများဖြင့်လည်း စည်ကားသော အဆောက်အအုံကြီး ဖြစ်လေသည်။ လက်ဝဲဖက်ကမ်းပေါ်ရှိ ရောမမြို့ကွက်မှာ ပိုကျယ်သည်။

တဆဲ့လေးမိုင်ခန့်ရှည်သော ရှေးခေတ်မြို့ရိုးက မြို့ကိုဝန်းရံလျက်ရှိ၍ မြို့ရိုးတွင် မုခ်ဝတံခါး ၁၉ ခုမျှ ရှိသည်။ လက်ဝဲဖက်ကမ်းရှိ မြို့ရိုးမှာ သုံး ရာစုနှစ်ကတည်းက ဆောက်လုပ်ထားခဲ့သော မြို့ရိုး ဖြစ်သည်။ တိုင်းဗားမြစ်သည် ကမ်းနှစ်ဖက်ရှိ မြို့အကြားတွင် ကွေ့ကောက်လျက် သုံးမိုင်ခန့်မျှ စီးဆင်းလေသည်။ကမ်းနှစ်ဖက်တွင် ကျောက်တာတမံဆောက်လုပ်ထားခြင်းအားဖြင့် မြစ်ရေလျှံခြင်းဘေးမှ ကာကွယ်ထားသည်။ မြစ်ကိုဖြတ်ကျော်နိုင်သည့် တန်တားကြီး ၁၂ ခု ရှိသည်။

သမိုင်းပုံပြင်အရ မားနတ်သား၏ အမြွှာညီနောင် သားများ ဖြစ်ကြသော ရိုမျူလပ်နှင့် ရီးမတ်တို့က ရောမမြို့ကို စတည်ခဲ့သည်ဟု ဆိုသည်။ မိခင်မှာလည်း ဗီးနပ် နတ်သမီး၏ အဆက်အနွယ် ဘုရင့်သမီးတော် ဖြစ်သည်။ ဖိုးတော်ဖြစ်သူ ထီးနန်းမှ ကျသောအခါ လူမမယ် မြေးတော် နှစ်ယောက်ကို ခြင်းထဲထည့်၍ တိုင်းဗားမြစ်ကြောတွင် မျှောလိုက်ကြလေသည်။ သို့ရာတွင် သေကံမရောက်သော ညီနောင် နှစ်ဦးတို့သည် ပယ်လတင်း တောင်ခြေ၌ ကမ်းပေါ်တင်နေကြရာ ဝံပုလွေမ တကောင်က ယင်းတို့ကို မွေးမြူစောင့်ရှောက်ခဲ့လေသည်။ ထိုနောက် သိုးထိန်းသမားတဦးက ထိုကလေးများကို တွေ့သဖြင့် ကောက်ယူ ထိန်းသိမ်းထားလေသည်။

ညီနောင် နှစ်ယောက်တို့သည် ကြီးပြင်းလာသောအခါ တိုင်းဗား မြစ်ကမ်းပေါ်တွင် မြို့တည်ရန် အကြံရကြလေ



ဣတလီနိုင်ငံ ရောမမြို့တော်ရှိ စိန့်ပီတာ အထိမ်းအမှတ် ဘုရားရှိခိုးကျောင်းကြီးကို ကောင်းကင်မှ ရှုမြင်ရပုံဖြစ်သည်။ ကမ္ဘာပေါ်တွင် ထင်ရှားသော ဘုရားရှိခိုးကျောင်းဖြစ်၍ အလယ်ခေတ် အနုပညာ လက်ရာများဖြင့် စည်ကားသော အဆောက်အအုံကြီး ဖြစ်သည်။



ရောမမြို့သည် သမိုင်းရေးရာဖက်၌ရင်း၊ သုခုမ အနုပညာရေးရာဖက်၌ရင်း ထင်ရှားခဲ့သဖြင့် ယခုထက်တိုင် ယဉ်ကျေးမှုဆိုင်ရာ ဗဟိုဌာနကြီး အဖြစ် တည်ရှိသည်။ ရောမမြို့ရှိ ထရိုဂျန် အထိမ်းအမှတ် ကျောက်တိုင်သည် လက်ရာကောင်းတခု ဖြစ်သည်။

သည်။ မြို့ရိုး အမြင့်အနိမ့်နှင့် စပ်လျဉ်း၍ ညီအစ်ကိုနှစ်ဦး သဘောကွဲလွဲကြသည်တွင် ရိုမျူလပ်က ရီးမတ်ကို သတ်လိုက်လေသည်။

ရိုမျူလပ် တည်သော မြို့သည်လည်း လျင်မြန်စွာ စည်ကားလာသည်။ တခါသော် ရိုမျူလပ်သည် မိမိ၏ စစ်သည်တပ်သားတို့ကို ကြည့်ရှု စစ်ဆေးနေစဉ် ပျောက်ကွယ်သွားသည်ဟု ဆိုလေသည်။ ရောမတို့က မားနတ်သားသည် သားရိုမျူလပ်ကို နတ်ဘုံသို့ ခေါ်ဆောင်သွားသည်ဟု ယုံကြည်ကြသဖြင့် နောင်အခါ၌ ရိုမျူလပ်အတွက် နတ်ကွန်းများ တည်ဆောက်၍ ကွီရီနပ် နတ်သား အမည်ဖြင့် ကိုးကွယ်ထားကြလေသည်။ ရောမ ဟူသော မြို့အမည်မှာလည်း ရိုမျူလပ်အမည် အတိုကောက်ဟု ဆိုလေသည်။

ရောမမြို့ကို မူလက တောင် ခုနစ်လုံးပေါ်တွင် တည်ထားခဲ့ရာမှ ယခုအခါ မြို့ကွက်အတွင်း၌ တောင်ကုန်း ဆယ်လုံးခန့်မျှ ပါဝင်လျက်ရှိသည်။ ရောမမြို့တည်ရှိရာ တောင် ခုနစ်လုံးတို့သည် ရောမနိုင်ငံ သမိုင်းတွင် ထင်ရှားခဲ့သော်လည်း ယခုအခါ များသောအားဖြင့် ရှေးဟောင်းအဆောက်အအုံပျက်များနှင့် သစ်သီး ဥယျာဉ်များကိုသာ တွေ့ရှိရသည်။ ယခင်က မြို့ပတ်ဝန်းကျင် ဒေသမှာ စိမ့်မြေရပ်ဖြစ်၍ အဖျားအနာ ထူပြောလေသည်။ ယခုအခါ၌မူ လူတို့နေပျော်အောင် ပြုပြင် စီမံပြီး ဖြစ်သည်။ ရောမမြို့တွင်းရှိ လမ်းတို့သည် များသောအားဖြင့် ကျဉ်းမြောင်း၍ ကောက်ကွေ့သည်။ အာဏာရှင် မူဆိုလိုနီ လက်ထက်တွင် ရောမမြို့ကို ခေတ်မီမြို့တော်ကြီးဖြစ်လာအောင် လမ်းများကို တိုးချဲ့ ပြုပြင်ခဲ့သည်။ ခေတ်မီ အဆောက်အအုံသစ်များကိုလည်း ဆောက်လုပ်ခဲ့သည်။ ထို့ကြောင့် ယခုခေတ် ရောမမြို့သည် ရှေးယဉ်ကျေးမှု လက်ရာများ မပျက်ဘဲနှင့် တိုးတက် စည်ကားလျက်ရှိသော မြို့ကြီးတမြို့ ဖြစ်လေသည်။

ရောမမြို့ကြီး ကောင်းစားစဉ်အခါက ရောမ လူကုံထံတို့သည် ပယ်လတင်း တောင်ကုန်းနှင့် ကက်ပီတိုလင် တောင်ကုန်းတို့တွင် ခန့်ညား တင့်တယ်သော နေအိမ်များကို ဆောက်လုပ်နေထိုင်ခဲ့ကြသည်။ ကက်ပီတိုလင် တောင်ကုန်းပေါ်တွင် မိုက်ကယ်အန်ဂျလို ပုံစံထုတ်ခဲ့သော ဂျူပီတာ နတ်ဘုရား ကျောင်းဆောင်နှင့် ထင်ရှားသော အနုပညာ ပြတိုက်များ တည်ရှိကြသည်။ ဂျူပီတာ ကျောင်းဆောင် လှေကားထိပ်တွင် ရောမကေရာဇ် မားကပ် ဩရီးလီးယပ်၏

ရုပ်တု ရှိသည်။ ကွီရီနေဘ် တောင်ကုန်းသည် လက်ရှိ မြို့တော်၏ ဗဟိုကျကျ နေရာလောက်တွင် တည်ရှိ၍ ဣတလီ နိုင်ငံ သမတအိမ်တော်နှင့် ထင်ရှားသော အစိုးရ အဆောက်အအုံများ တည်ရာအရပ် ဖြစ်သည်။ ၁၈၇၁ ခုနှစ်မှ ၁၉၄၆ ခုနှစ်အထိ ဣတလီ နိုင်ငံကို စိုးမိုးအုပ်ချုပ်ခဲ့သော ဘုရင်များသည်လည်း ကွီရီနေဘ် တောင်ကုန်းပေါ်ရှိ နန်းတော်တွင် စံမြန်းခဲ့ကြသည်။

ဘီစီ ၈၀၀ ခန့်လောက်ကတည်းက ရောမမြို့တွင် လူတို့ အိုးအိမ် ထူထောင်၍ နေထိုင်ခဲ့ကြသည်ဟု သိရသည်။ ရောမမြို့သည် ကမ္ဘာ့သမိုင်းတွင် တခမ်းတနား ပါဝင်သော ရောမ အင်ပိုင်ယာကြီး၏ မြို့တော် ဖြစ်ခဲ့ရုံမျှမက တရားဥပဒေဖက်၌၎င်း၊ နိုင်ငံကို စနစ်တကျ အုပ်ချုပ်ရေးဖက်၌၎င်း၊ ယဉ်ကျေးမှုဆိုင်ရာ အနုပညာဖက်၌၎င်း အချက်အခြာ ဌာနလည်း ဖြစ်ခဲ့ပေသည်။ အယူဝါဒနှင့် စပ်လျဉ်း၍လည်း ရောမ ကက်သလစ် ခရစ်ယန်ဂိုဏ်း၏ အထွတ်အထိပ်ဖြစ်သော ပုပ်ရဟန်းမင်း အဆက်ဆက်တို့ ဘိသိက်ခံရာ၊ စံမြန်းရာ မြို့တော်ကြီး ဖြစ်ပေသည်။

ရှေးအခါက မှူးမတ် စသော သူကောင်းမျိုးတို့သည် ရောမမြို့တွင် နန်းတော်တမျှ ကြီးကျယ် ခမ်းနားသော အဆောက်အအုံများကို ဆောက်လုပ် နေထိုင်ခဲ့ကြသည်။ အချင်းချင်း စစ်ခင်းနေချိန်တွင် ဆောက်လုပ် ခဲ့ကြရသောကြောင့် ထိုအဆောက်အအုံများမှာ ရဲတိုက်သဖွယ် ခိုင်ခံ့ကြလေသည်။

ရောမမြို့သည် ရှေးခေတ် သမိုင်း တလျှောက်တွင် ရန်သူများက အကြိမ်ကြိမ် တိုက်ခိုက် ဖျက်ဆီးခြင်းကို ခံခဲ့ရဘူးသည်။ ရန်သူတပ်များသည် ဆဲ့နှစ်ကြိမ်မျှ မြို့တွင်းသို့ ချဉ်းနင်း ဝင်ရောက်၍ မြို့ကို လုယက် ဖျက်ဆီးခဲ့ကြသည်။ ဘီစီ ၃၉၀ ပြည့်နှစ်တွင် ဂေါလလူမျိုးတို့က ရောမမြို့ကို ဖျက်ဆီးခဲ့ကြသည်။ ထိုနောက် နှစ်ပေါင်း ၈၀၀ ကြာသောအခါ ဗီဆီဂေါ့တို့က တကြိမ် မြို့ကို တိုက်ခိုက် ဖျက်ဆီးကြပြန်သည်။ တဖန် ၁၀၈၄ ခုနှစ်တွင် ဣတလီ တောင်ပိုင်းမှ နော်မန် လူမျိုးတို့က၎င်း၊ ၁၅၂၇ ခုနှစ်တွင် စပိန်ဘုရင် ပဉ္စမ ချား၏ စစ်တပ်က၎င်း ရောမမြို့ကို တိုက်ခိုက် ဖျက်ဆီးခဲ့ကြသည်။ ရောမမြို့သည် ထိုကဲ့သို့ အကြိမ်ကြိမ် တိုက်ခိုက်ဖျက်ဆီးခြင်းကို ခံခဲ့ရသော်လည်း ရောမ ကေရာဇ်တို့ ဆောက်လုပ်ခဲ့သော အဆောက်အအုံတို့သည် ကြီးကျယ် ခိုင်ခံ့ခြင်းကြောင့် ယနေ့တိုင် တွေ့မြင်နိုင်သေးသည်။ အထူးသဖြင့် ပယ်လတင်း တောင်ခြေရှိ ဖိုရမ်ခေါ် ရောမ လူထု စုဝေးရာ ဌာနမှာ ထင်ရှားသည်။ ရောမတို့သည် ဘုရားကျောင်းဆောင် များစွာ ဆောက်လုပ် ခဲ့ကြရာ ပန်သီယွန်ဘုရားကျောင်းမှာ မူလ လက်ရာမပျက် ကျန်ခဲ့သော ရှေးအဆောက်အအုံ ဖြစ်သည်။

ရောမတို့၏ ရှေးအဆောက်အအုံများအနက် ရောမ ကေရာဇ်နှင့်တကွ လူထုတို့ အပျင်းဖြေရာဖြစ်သော ဓားရေး၊ လှံရေးပွဲများ ကျင်းပခဲ့သည့် ကော်လေ့ဆီယမ် ခေါ် ဇာတ်ရုံဝိုင်းကြီးသည် အထင်ရှားဆုံး ဖြစ်ပေသည်။ ထို ဇာတ်ရုံကြီးသည် ဘဲဥပုံဖြစ်၍ အထပ် လေးထပ် ရှိသည်။ ပွဲကြည့်ပရိသတ် ၈၀,၀၀၀ ခန့် ဆန့်သည်။ ဇာတ်ရုံကြီး အလယ်တွင် ဂလက်ဒီယေးတားခေါ် ယှဉ်ပြိုင် ထိုးသတ်သူတို့ ကစားရာ ကွင်းပြင် ရှိသည်။

ထို့ပြင် ခမ်းနား တင့်တယ်စွာ ဆင်ပြင်ထားသော ရောမ လူထု ရေချိုးရာ အဆောက်အအုံများနှင့် ရောမ ကေရာဇ်တို့၏ စစ်အောင်ခြင်း အထိမ်းအမှတ် မုခ်ခုံးများကိုလည်း တွေ့ရှိနိုင်သည်။ မြို့အပြင်ဖက်တွင်လည်း ရှေးဦး ခရစ်ယန်တို့၏ မြေအောက် သင်္ချိုင်း လိုဏ်ဂူများ ရှိသည်။

ရောမမြို့သည် ထိုကဲ့သို့ သမိုင်းရေးရာဖက်၌၎င်း၊ သုခုမ အနုပညာရေးရာဖက်၌၎င်း ထင်ရှားခဲ့သော မြို့တော် ဖြစ်ခဲ့ခြင်းကြောင့် ယခုထက်တိုင် ယဉ်ကျေးမှုဆိုင်ရာ ဗဟို ဌာနကြီးတခုအဖြစ် တည်လျက် ရှိပေသည်။ ရောမ တက္ကသိုလ်ကျောင်းသည် ဥရောပတိုက်တွင် ထင်ရှားသော တက္ကသိုလ်ကျောင်းကြီး ဖြစ်သည်။ အနုပညာသင်ကျောင်း၊ ဗိသုကာ ပညာသင်ကျောင်း၊ ဂီတပညာသင်ကျောင်း မြောက်မြားစွာလည်း ရှိသည်။

ဒုတိယ ကမ္ဘာစစ်အတွင်းက မဟာမိတ် နိုင်ငံများသည် ဂျာမန်တို့ သိမ်းပိုက်ထားသော ရောမမြို့ကို ဗုံးကြဲ တိုက်ခိုက်ကြရာ၌ သမိုင်းဝင် အဆောက်အအုံများနှင့် သာသနာရေးဆိုင်ရာ အဆောက်အအုံများကို မထိခိုက် မပျက်စီးရအောင် တတ်နိုင်သမျှ ရှောင်ရှားခဲ့ကြလေသည်။

**ရောမသာသနာစောင့်နိုင်ငံတော်**။ ။ခရစ် ၈၀၀ ပြည့်နှစ် ရှားလမိန်း ဘုရင်ကြီး လက်ထက်တွင် ရောမ သာသနာစောင့် နိုင်ငံတော် ဟူ၍ ပေါ်ပေါက်ခဲ့သည်။ (ရှားလမိန်းဘုရင်—လည်း ရှု။) ထိုနှစ် ခရစ္စမတ်ပွဲတော်နေ့၌ ပုပ်ရဟန်းမင်း တတိယ လီယိုက ရောမမြို့ စိန့်ပီတာ ဘုရားရှိခိုးကျောင်းတွင် ရှားလမိန်းအား ရောမ ကေရာဇ် အဖြစ် သရဖူဆောင်း၍ ဘိသိက်မြှောက်ခဲ့လေသည်။ ရောမ ကေရာဇ် ဟူသော ဘွဲ့ထူး၏ နောက်ဆွယ်တွင် ခရစ်ယန် လောက၏ လောကီရေးရာ ဟူသမျှတွင် ကေရာဇ် ဘုရင်သည် အချုပ်အချာ ဖြစ်၍ ပုပ်ရဟန်းမင်းသည် အယူဝါဒရေးရာတွင် အထွတ်အထိပ် ဖြစ်သည် ဟူသော သဘော ပါရှိလေသည်။ ဤသဘောကြောင့် ရာစုနှစ်ပေါင်းများစွာ အခက်ကြုံခဲ့ရလေသည်။ ပုပ်ရဟန်းမင်းနှင့် ကေရာဇ်မင်းတို့သည် မည်သူက မည်သူ့အပေါ် တန်ခိုးအာဏာ လွှမ်းမိုးသည် ဟူသော အချက်နှင့် စပ်လျဉ်း၍ သဘောမညီညွတ်နိုင် ရှိခဲ့၏။ ဥရောပ

တိုက်၏အလယ်ခေတ်တလျှောက်တွင် ဤကိစ္စနှင့်စပ်လျဉ်း၍ အရေးအခင်းများ ဖြစ်ပွားခဲ့ရလေသည်။ ရှားလမိန်းဘုရင် ကွယ်လွန်ပြီးနောက် ယင်း၏ နိုင်ငံတော်ကြီးမှာ ပြိုကွဲသွားခဲ့၏။ ခရစ် ၉၆၂ ခုနှစ်သို့ ရောက်သောအခါ ဂျာမနီပြည် ဆက္ကဆွန်နီဘုရင် ပဌမအော့တိုသည် ဣတလီနိုင်ငံကို အောင်မြင်ပြီးနောက် ရောမ ကေရာဇ်ဘွဲ့ကို ခံယူပြန်သည်။ ဖရက်ဒရစ် ဗာဗရော့ဆာ လက်ထက်တွင် "သာသနာစောင့်" ဟူသော စကားလုံးကို ဖြည့်စွက်၍ ရောမ သာသနာစောင့် ကေရာဇ်ဘွဲ့ကို ခံယူသည်။ ဤသို့ ပြုသည်မှာ ကေရာဇ်တို့သည် ပုပ်ရဟန်းမင်းတို့ကိုလည်း ကာကွယ်စောင့်ရှောက်ရသည်။ ဤသို့အားဖြင့် ပုပ်ရဟန်းမင်းတို့ထက် တန်ခိုးကြီးသည် ဟူသော သဘောကို လေးနက်စေလိုသောကြောင့် ဖြစ်သည်။ ၁၃ ရာစုနှစ်အထိ ရောမ သာသနာစောင့် နိုင်ငံတော်တွင် အဓိကအားဖြင့် ဣတလီ၊ ဂျာမနီနှင့် ဩစတြီးယား နိုင်ငံတို့သာ ပါဝင်ခဲ့၏။ ရံဖန်ရံခါ နယ်ပယ်နီးချင်းများ ဖြစ်သော ဟန်ဂေရီ၊ ပိုလန်နှင့် ဒိန်းမတ် စသည်တို့လည်း ပါဝင်ခဲ့သည်။ ထိုစဉ်က ဂျာမနီ ဘုရင်များသည် များသောအားဖြင့် ရောမ သာသနာစောင့် ကေရာဇ်များ ဖြစ်ခဲ့လေသည်။

ဦးစွာ၌ ထိုဘုရင်များကို နယ်ပယ်ကြီး ၁၀ ခုကို ကိုယ်စားပြုသူများက ရွေးကောက် တင်မြှောက်ကြ၏။ နောင်အခါ ဂျာမန် မင်းသားများနှင့် ဂိုဏ်းချုပ်များက ရွေးကောက်သည်။ ထိုသို့ ရွေးကောက် တင်မြှောက်ရသူများ၏ အရေအတွက်မှာ ၁၇ ရာစုနှစ်တွင် ကိုးဦး ဖြစ်လာသည်။ ၁၃၃၈ ခုနှစ် နောက်တွင် ရွေးကောက် တင်မြှောက်ခြင်း ခံရသော ဘုရင်များကို ကေရာဇ် ဟူ၍လည်း သဘောထားလာကြ၏။

ဤသို့ ကေရာဇ်ကို ရွေးကောက် တင်မြှောက်သည်ဟု ဆိုရသော်လည်း သားစဉ်မြေးဆက် အုပ်စိုးခဲ့ကြသည်လည်း ရှိ၏။ ၁၀၂၄ ခုနှစ်မှ ၁၁၂၅ ခုနှစ်အထိ အုပ်စိုးခဲ့သော ရောမ သာသနာစောင့် ကေရာဇ်များသည် ဖရန်ကိုနီယန် မင်းဆက်ဝင် ဘုရင်များ ဖြစ်ကြ၏။ ထိုနောက်တွင် ဟိုဟန်စတပ်ဖန်မင်းဆက်က ၁၁၃၈ ခုနှစ်မှ ၁၂၅၄ ခုနှစ်အထိ အုပ်စိုးခဲ့၏။ ၁၄၃၈ ခုနှစ်နောက်တွင် သတ္တမ ချားနှင့် ပဌမ ဖရန်စစ်တို့က လွဲ၍ ရောမ သာသနာစောင့် ကေရာဇ်များသည် ဟက်စဗတ် ဆွေမျိုးစုမှ ဖြစ်လေသည်။

တဆဲ့သုံးရာစုနှစ်အတွင်း ဣတလီသည် ရောမသာသနာစောင့် နိုင်ငံတော်အတွင်း လုံးလုံးလျားလျား မပါဝင်တော့ချေ။ ထိုနောက်တွင်ကား ရောမ သာသနာစောင့် နိုင်ငံတော်တွင်ဂျာမနီ ဩစတြီးယားနှင့် ယင်းတို့ပိုင် နယ်ပယ်များသာ ပါဝင်တော့သည်။ ကေရာဇ်ဘုရင်များသည် ဥရောပတိုက်ရှိ ထီးဆောင်းမင်းတို့၏ အထွတ်အထိပ်အဖြစ် ခံယူနေဆဲ ဖြစ်သော်လည်း နိုင်ငံတော်ကား အားနည်း၍ မညီမညွတ်ရှိနေခဲ့သည်။ ၁၈ ရာစုနှစ်သို့ ရောက်လျှင် ရောမ သာသနာစောင့် နိုင်ငံတော်သည် "ရောမလည်း မဟုတ်၊ သာသနာစောင့်လည်းမဟုတ်၊ နိုင်ငံတော်လည်းမဟုတ်" ဟူ၍ပင် ဆိုနိုင်နေပေပြီ။

နပိုလီယန်သည် ၁၈၀၆ ခုနှစ်တွင် ဩစတြီးယားနှင့် ဂျာမနီ တောင်ပိုင်းကို အောင်မြင် ခဲ့သောအခါ ဒုတိယ ဖရန်စစ်သည် ရောမ သာသနာစောင့် ကေရာဇ်အဖြစ်ကို စွန့်၍ ဩစတြီးယန်း ကေရာဇ်အဖြစ်သာ ခံယူခဲ့လေသည်။ ဤသို့အားဖြင့် ရောမ သာသနာစောင့် နိုင်ငံတော်သည် ဇာတ်သိမ်းခဲ့ရလေသည်။

ရောဟဏီနက္ခတ်။ ။နက္ခတ် ၂၇ လုံး — ရှု။

**ရိုဆက်တိ၊ ဒန်တီ ဂေဗရီယယ်** (ခရစ် ၁၈၂၈–၁၈၈၂)။ ။ အင်္ဂလိပ် ကဗျာစာဆိုနှင့် ပန်းချီဆရာ ဒန်တီ ဂေဗရီယယ် ရိုဆက်တီကို စာပေလောကတွင် ဒီ၊ ဂျီ၊ ရိုဆက်တီ ဟူသော ကလောင် အမည်ဖြင့် လူသိများသည်။ သူ၏ နာမည်ရင်းမှာ ဂေဗရီယယ် ချား ဒန်တီ ရိုဆက်တီ ဖြစ်သည်။

ဖခင်ဖြစ်သူသည် လန်ဒန်မြို့ ဘုရင့်ကောလိပ်မှ ဣတာလျံစာပေ ပါမောက္ခ ဂေဗရီယယ် ရိုဆက်တီ ဖြစ်သည်။ ဂေဗရီယယ် ရိုဆက်တီသည် ဣတာလျံလူမျိုး မျိုးချစ်ပုဂ္ဂိုလ်တဦး ဖြစ်၍ ဣတလီ နိုင်ငံမှ အင်္ဂလန်ပြည်သို့ ထွက်ပြေးလာရသူ ဖြစ်သည်။ ထိုပြင် ကိုယ်တိုင်ကလည်း ကဗျာစာဆိုကြီး ဖြစ်ရုံမက ဣတာလျံ စာဆိုကြီး အလီဂျာရီ ဒန်တီ၏ စာပေများကို ဝေဖန်သည့် စာပေများကို ရေးသားခဲ့သူလည်း ဖြစ်သည်။ ထိုကြောင့် သူ၏ သားသမီးလေးယောက် စလုံးလိုပင် ဘမျိုး ဘိုးတူ စာပေအနုပညာဖြင့် ထင်ရှားကြသည်ချည်း ဖြစ်သည်။ အထင်ရှားဆုံးကား ဒီ၊ဂျီ၊ ရိုဆက်တီ၊ နှမ ခရစ္စတီနာ ဂျော်ဂျီနာ ရိုဆက်တီ၊ ညီ ဝီလျံ မိုက်ကယ် ရိုဆက်တီတို့ ဖြစ်ကြသည်။

ဒီ၊ဂျီ၊ ရိုဆက်တီကို ၁၈၂၈ ခုနှစ် မေလ ၁၂ ရက်နေ့တွင် လန်ဒန်မြို့၌ ဖွားမြင်သည်။ ငယ်စဉ်က အိမ်၌ပင် စာသင်၍ အသက် ကိုးနှစ်နှင့် ၁၄ နှစ်ကြားတွင် ဘုရင့်ကောလိပ် ကျောင်း၌ တက်ရောက် သင်ယူသည်။ ဘုရင့်ကောလိပ် ကျောင်း၌ နေစဉ် ပုံဆွဲပညာကို ကောင်းစွာ သင်ခဲ့ရ၍ ကောလိပ်ကျောင်းမှ ထွက်ပြီးနောက် ၁၈၄၈ ခုနှစ်တွင် တော်ဝင် အနုပညာတံခွန်အသင်း ကျောင်းသို့ တက်ရောက်ကာ အနုပညာများကို လေ့လာယင်းပင် ဒန်တီ အစရှိသော ဣတာလျံ စာဆိုကြီးများ၏ ကဗျာများကို အင်္ဂလိပ်ဘာသာသို့ ပြန်ဆိုခဲ့၍ ရိုဆက်တီသည် ပန်းချီထက် ကဗျာဖက်တွင် ပိုမို ထူးချွန်ကြောင်း ထင်ရှားစေခဲ့သည်။ ရိုဆက်တီသည်

အသက်ငါးနှစ် အရွယ်ကပင် ပြဇာတ်ရေး၍ အသက် ၁၆ နှစ်အရွယ်တွင် ဝတ္ထုရေးသားခဲ့ကြောင်းဖြင့် ဆိုသည်။ ၁၆ နှစ်အရွယ်က ရေးသားခဲ့သော ဝတ္ထုကို သူ၏ အဖိုးက ပုံနှိပ်ခဲ့သည်။ ၁၈၄၇ ခုနှစ်တွင်“သ ဗလက်ဆက် ဒမိုးဆဲ”ကဗျာကြီးကို ရေးသားသည်။ ၁၈၄၈ ခုနှစ်တွင် ဖို့ မဒေါ့ဗရောင်း ဆိုသူ ပန်းချီကျော်ထံတွင် ပညာဃူယင်း ဝင်ရောက် လုပ်ကိုင်နေစဉ် ဟိုလမန် ဟန့်၊ ဂျွန် အက်ဗာရက် မီလေး ဆိုသူ ပန်းချီဆရာနှစ်ဦးနှင့် ခင်မင်ခဲ့သည်။ ရှိဆက်တီနှင့် ထိုပန်းချီဆရာနှစ်ဦးသည် ပရီရက်ဖီယယ်လိုက် အနုပညာရှင် ဂိုဏ်းတဂိုဏ်းကို တည်ထောင် လိုက်ကြသည်။ (ပရီရက်ဖီယယ်လိုက်—ရှု။)ထိုဂိုဏ်းဝင်တို့သည် စာပေကျမ်းဂန်လာအကြောင်းရပ်များကို သစ်လွင်သော ရောင်စုံတို့ဖြင့် အသေးစိတ်၌ တိကျ မှန်ကန်လေအောင် ပန်းချီ ရေးခြယ်ကြသည်။

၁၈၆၀ ပြည့်နှစ်တွင် ရှိဆက်တီသည် ပန်းချီဆရာမနှင့် စာရေး ဆရာမ အယ်လစ်ဇဗက် အလီနာ ဆစ်ဒဲ ဆိုသူနှင့် လက်ထပ်သည်။ ရှိဆက်တီ၏ ဗီအားထရစ်ပုံနှင့် မိလေး၏ ဩဖေလီယားပုံ ပန်းချီများအတွက် အယ်လစ်ဇဗက်ကို ပန်းချီဟန်ပြမယ်အဖြစ် ထားကာ ရေးဆွဲခဲ့လေသည်။ ၁၈၆၂ ခုနှစ်တွင် မစ္စစ်ရှိဆက်တီ ကွယ်လွန်သောအခါ သူ့အား ရည်ညွှန်း ရေးသားသော ကဗျာများကို ခင်ပွန်းဖြစ်သူ ရှိဆက်တီက အလောင်းနှင့်အတူ ကြေကွဲစွာ ထည့်သွင်း မြှုပ်နှံလိုက်လေသည်။

၁၈၆၇ ခုနှစ်တွင် ရှိဆက်တီသည် ကောင်းစွာ မကျန်းမမာဖြစ်လာ၍ ၁၈၈၁ ခုနှစ်တွင် ကိုယ်တခြမ်း သေသွားကာ ၁၈၈၂ ခုနှစ် ဧပြီလ ၁၀ ရက်နေ့တွင် ဗာချင်တန်မြို့၌ ကွယ်လွန်သည်။

ဒီ၊ ဂျီ၊ ရှိဆက်တီ၏ ထင်ရှားသော ပန်းချီလက်ရာ အချို့မှာ 'အက်ချီ အန်ဆီလာ ဒိုမိနီ (၁၈၅၀)'၊ 'ဗီအက်တာ ဗီအားထရစ် (၁၈၆၃)'၊ 'ပါအိုလိုနှင့် ဖရန်ဆက်စကာ'၊ 'ဒန်တီ၏ အိပ်မက် (၁၈၈၁)'၊ 'ဗေဂျ' စသည်တို့ ဖြစ်သည်။ သို့ရာတွင် သူ၏ ပန်းချီလက်ရာများထက် သူ၏ စာပေလက်ရာများက ပို၍ ကျော်ကြားလေသည်။ ရှိဆက်တီ၏ ထင်ရှားသော စာပေလက်ရာသည် ၁၈၆၁ ခုနှစ်တွင် ရပ်စကင်၏ အကူအညီဖြင့် ထုတ်ဝေခဲ့သော 'ရှေးခေတ် ဣတာလျံ စာဆိုကြီးများ' (နောင် 'ဒန်တီနှင့် သူ၏ အသိုင်းအဝိုင်း' ဖြစ်လာသည်။)ခေါ် ဘာသာပြန် စာအုပ်နှင့် ၁၈၇၀ နှင့် ၁၈၈၀ ပြည့်နှစ်များတွင် ထုတ်ဝေသော “ဗလက်နှင့် ဆွန်းနက်” ကဗျာစာအုပ်များ ဖြစ်သည်။

ဒီ၊ဂျီ၊ ရှိဆက်တီနည်းတူ ညီဖြစ်သူ ဝီလျံ မိုက်ကယ် ရှိဆက်တီ(၁၈၂၉–၁၉၁၉) နှင့် နှမဖြစ်သူ ခရစ္စတီနာ ဂျော်ဂျီနာ ရှိဆက်တီ (၁၈၃၀–၁၈၉၄) တို့သည်လည်း စာပေနယ်တွင် ကျော်ကြားသူများ ဖြစ်ကြသည်။ ဝီလျံ ရှိဆက်တီသည် 'စာဆိုကျော်များ အတ္ထုပ္ပတ္တိ' (၁၈၇၈)၊ 'ကိဒ်အတ္ထုပ္ပတ္တိ' (၁၈၈၇)၊ 'ဒီ၊ဂျီ၊ ရှိဆက်တီ အတ္ထုပ္ပတ္တိ' (၁၈၉၅)စသည်တို့ကို ရေးသားခဲ့သည်။ ခရစ္စတီနာ ရှိဆက်တီမှာမူ ကလေးချော့ကဗျာနှင့် သီချင်းများ၊ အယူဝါဒရေးဆိုင်ရာ ကဗျာများကို အများဆုံး ရေးခဲ့လေသည်။

**ရိုဇက်တာ ကျောက်စာ။** ။မြစေတီ ကျောက်စာသည် မြန်မာနိုင်ငံ သမိုင်းအတွက် အရေးပါသကဲ့သို့ ရိုဇက်တာ ကျောက်စာသည်လည်း အီဂျစ်နိုင်ငံ သမိုင်းအတွက် အရေးပါလေသည်။ ထိုကျောက်စာကို လေ့လာခြင်းအားဖြင့် ဟိုင်ယာရိုဂလစ်ဖစ်ခေါ် ရုပ်ပုံစာနှင့် ရေးသားသော ရှေးဟောင်းအီဂျစ် စာပေများကို ဖတ်ရှုနိုင်ကြသည်။ ထိုကြောင့်ပင် ရှေး အီဂျစ်နိုင်ငံနှင့် အီဂျစ် လူမျိုးတို့၏ အနေအထိုင်၊ ဓလေ့ထုံးစံ၊ ယဉ်ကျေးမှုကို သိရှိနိုင်လေသည်။ သို့ဖြင့် ရိုဇက်တာ ကျောက်စာသည် အီဂျစ်နိုင်ငံ သမိုင်းအတွက် များစွာ အရေးပါခဲ့ခြင်း ဖြစ်သည်။

ရိုဇက်တာ ကျောက်စာဟု ခေါ်တွင်ရခြင်းမှာ အီဂျစ်နိုင်ငံ၊ နိုင်း မြစ်ဝကျွန်းပေါ်ဒေသ၌ ရိုဇက်တာ အမည်ရှိသော ရှေးဟောင်းမြို့အနီးမှ ရရှိသော ချော်နက် ကျောက်တုံးပေါ်တွင် ရေးသားထားခြင်းကြောင့် ဖြစ်သည်။ မြစေတီ ကျောက်စာတွင် ဘာသာစကား လေးမျိုးဖြင့် ရေးထိုးထားသကဲ့သို့ ထိုကျောက်တုံး၌ ဟိုင်ယာရိုဂလစ်ဖစ် ရေးနည်းဖြင့်၎င်း၊ ဒီမိုတစ်ခေါ် လူသိများသော ရှေးအီဂျစ် စာရေးနည်းဖြင့်၎င်း၊ ဂရိဘာသာဖြင့်၎င်း ရေးထိုးထားလေသည်။ ဂရိဘာသာကိုမူ လွယ်ကူစွာ ဘာသာပြန်ဆိုနိုင်ကြသဖြင့် ထိုကျောက်စာ၏ အဓိပ္ပါယ်ကို သိရှိခဲ့ကြသည်။ ထို့မှတဖန် ဒီမိုတစ်ဘာသာနှင့် ရေးသည့် စကားလုံးအချို့ကိုလည်း အနက် ဖော်နိုင်ခဲ့ကြသည်။

အီဂျစ် ရှေးဟောင်း အဆောက်အအုံများတွင် ဟိုင်ယာရိုဂလစ်ဖစ် ရေးနည်းဖြင့် အရေးအသား ပေါများခဲ့သော်လည်း လက်ဦးတွင် ထိုရုပ်ပုံ စာလုံးများ၏ အဓိပ္ပါယ်ကို မဖော်နိုင်ကြချေ။ ရိုဇက်တာ ကျောက်စာတွင် အကြောင်းရပ် တခုတည်းကို ဘာသာစကား သုံးမျိုးဖြင့် ရေးထိုးထားရာ ဘာသန္တရ တတ်ကျွမ်းသူများအဖို့ ရုပ်ပုံစာလုံးတို့၏ အနက်ကို ကြံဆဖော်ထုတ်ရာ၌ ထိုကျောက်စာမှ အထောက်အပံ့ များစွာ ရရှိပေသည်။ ထိုကျောက်စာမှ ရုပ်ပုံစာလုံးတို့၏ အနက်ကို မြင်လျှင် အခြားရှေးအီဂျစ် ရုပ်ပုံ စာလုံးတို့ကိုလည်း ဖတ်နိုင်တော့မည်သာ ဖြစ်၏။

တဆဲ့ကိုး ရာစုနှစ်စလောက်တွင် တောမတ်ယန်း ဆိုသူ အင်္ဂလိပ်လူမျိုး စာပေ ပညာရှင် တဦးက “တော်လမီ” ဟူသောစကားလုံးကို ထိုရုပ်ပုံစာထဲမှ ဖော်ထုတ်နိုင်ခဲ့သည်။ (ယန်း,တီ — လည်းရှု။) သို့ရာတွင် ကျောက်စာ တပိုဒ်လုံး



**ဘာသာ သုံးမျိုးဖြင့် ရေးထိုးထားသော ရိုဇက်တာ ကျောက်စာ၊ အပေါ်ဆုံးမှာ ရုပ်ပုံစာဖြစ်၍ အောက်ဆုံးမှာ ဂရိဘာသာဖြစ်သည်။**

ကို အနက်ဖော်နိုင်သူမှာ ပြင်သစ်လူမျိုး စာပေပညာရှင် ဇန်းဖရန်ဆွာ ရှမ်ပိုးလီယွန်ဆိုသူဖြစ်ပေသည်။ထိုကျောက်စာမှာ အီဂျစ်ဘုရင် တော်လမီ လက်ထက် ဘီစီ ၁၉၆ ခုနှစ်က မော်ကွန်းတင်ခဲ့သည့် အယူဝါဒဆိုင်ရာ အမိန့်ပြန်တမ်း ဖြစ်သည်။

ထိုရိုဇက်တာ ကျောက်စာ ထွင်းထုထားသည့် ကျောက်တုံးသည် အလျား သုံးပေ ကိုးလက်မ၊ အနံ နှစ်ပေ လေးလက်မခွဲ၊ ထု ၁၁ လက်မရှိ၍ အထက်ပိုင်းနှင့် ယာဖက်ထောင့်စွန်းမှာ ပျောက်ဆုံးလျက်ရှိ၏။ ၁၇၉၉ ခုနှစ်တွင် နပိုလီယန်သည် အီဂျစ်နိုင်ငံကို သိမ်းပိုက်စဉ် ပြင်သစ်စစ်ဗိုလ်တဦးက ထိုကျောက်တုံးကို တွေ့ရှိခဲ့လေသည်။ ထိုနောက် ၁၈၀၁ ခုနှစ်တွင် အင်္ဂလိပ်တို့က အယ်လက်ဇန္ဒြီးယားမြို့ကို သိမ်းပိုက်မိသောအခါ ထိုကျောက်တုံးကို အင်္ဂလန်ပြည်သို့ ယူဆောင်ခဲ့၍ ဗြိတိသျှပြတိုက်တွင် ထားရှိလေသည်။

**ရိုဒီးဇီးယားနယ်။** ။ရိုဒီးဇီးယားနယ်သည် အာဖရိကတိုက်တွင် မြောက်ဖက်၌ ကွန်ဂို နိုင်ငံနှင့် တောင်ဖက်၌ တောင်အာဖရိက ပြည်ထောင်စုတို့၏ အကြားတွင် တည်ရှိ၍ စဲစီ ဂျွန် ရုတ် အမည်ကို အစွဲပြုမှည့်ခေါ်သော နယ်ကြီးဖြစ်သည်။ (ရုတ်,စဲစီဂျွန် — လည်းရှု။) မြောက်ပိုင်း ရိုဒီးဇီးယားနှင့် တောင်ပိုင်း ရိုဒီးဇီးယား ဟူ၍ နယ်နှစ်နယ်သီးခြား ပါဝင်သည်။ ဇမ်ဗီဇီမြစ်သည် ထိုနယ်နှစ်ခုကို ပိုင်းခြားသည့် နယ်နိမိတ်သဖွယ် အရှေ့အနောက် ဖြတ်သန်းစီးဆင်းသည်။

မြောက်ပိုင်း ရိုဒီးဇီးယားနယ်သည် များသောအားဖြင့် ပေ ၃,၀၀၀ မှ ပေ ၅,၀၀၀ အထိရှိသော ကုန်းပြင်မြင့်ဖြစ်၍ ၂၉၀,၃၂၃ စတုရန်းမိုင် ကျယ်ဝန်းသည်။ ဇမ်ဗီဇီမြစ်နှင့် ချမ်ဗီဇီမြစ်တို့၏ မြစ်လက်တက်များ ဖြတ်သန်း စီးဆင်းလျက်ရှိသည်။ စက်စီ ယင်ကောင်များ၏ အန္တရာယ်ကြောင့် စိုက်ပျိုးရေးနှင့် တိရစ္ဆာန် မွေးမြူရေး လုပ်ငန်းကို ခဲယဉ်းစွာလုပ်ကိုင်ကြရသည်။ (စက်စီယင် — လည်းရှု။) လူဆာကာမြို့တော်သည် စိုက်ပျိုးရာ နယ်မြေ ဗဟိုချက်တွင် တည်ရှိသည်။ ပြောင်းဖူး၊ ဆေး၊ ပီလောပီနံ၊ နှံစားပြောင်း၊ မြေပဲနှင့် သစ်သီးများကို စိုက်ပျိုးသည်။ ခဲ၊ ကြေးနီ၊ သွတ်၊ မန်ဂနိ၊ ကိုဗော့ စသော တွင်းထွက် သတ္တုများကို ဗရုတ်ကင်းဟီးနှင့် နဒိုလာအရပ်များ၌ တူးဖော်ရရှိသည်။

ရိုဒီးဇီးယား မီးရထားလမ်းသည် တောင်ပိုင်းနယ်နှင့် မြောက်ပိုင်းနယ်တို့ကို ဖြတ်၍ ဂွတ်ဒဟုပ်အငူမှ ကိုင်ရိုမြို့အထိ မီးရထားလမ်းအတွက် ကွင်းဆက် ဖြစ်သည်။ အာဖရိကတိုက်ကို အရှေ့နှင့်အနောက် ဖြတ်၍ ဖောက်လုပ်ထားသော မီးရထားလမ်းသည်လည်း ရိုဒီးဇီးယားနယ်ကို ဖြတ်သန်းသွားသည်။



**ရိုဒီးဇီးယားနယ်ရှိ ဝိတိုရိယရေတံခွန်သည် ကမ္ဘာပေါ်တွင် အကြီးဆုံးသော ရေတံခွန် ဖြစ်သည်။**

၁၉၂၄ ခုနှစ် မတိုင်မီက မြောက်ပိုင်း ရှိုဒီးဇီးယားနယ်ကို ဗြိတိသျှ တောင်အာဖရိက ကုမ္ပဏီက အုပ်ချုပ်သည်။ ထို နောက် ၁၉၂၄ ခုနှစ် ဧပြီလ ၁ ရက်နေ့မှစ၍ ကရောင်း ကိုလိုနီအဖြစ် ဗြိတိသျှ ဘုရင်ခံတဦးက အမှုဆောင် ကောင် စီအဖွဲ့နှင့် ဥပဒေပြု ကောင်စီအဖွဲ့တို့ဖြင့် အုပ်ချုပ်ခဲ့၏။ ထိုမှတဖန် စောင့်ရှောက်ခံ နယ်ဖြစ်လာသည်။

၁၉၅၃ ခုနှစ် ဩဂုတ်လ ၁ ရက်နေ့တွင် မြောက်ပိုင်း ရှိုဒီးဇီးယားနယ်၊ တောင်ပိုင်း ရှိုဒီးဇီးယားနယ်နှင့် နိယာ စာလန်နယ်တို့ကို ပူးပေါင်း၍ ရှိုဒီးဇီးယားနှင့် နိယာစာ လန်ပြည်ထောင်စုဟုဖွဲ့စည်းခဲ့၏။ သို့သော် ထိုပြည်ထောင်စု ကို ၁၉၆၃ ခုနှစ် ဒီဇင်ဘာလ ၁ ရက်နေ့တွင် ဖျက်သိမ်းခဲ့ သည်။ ထိုသို့ ဖျက်သိမ်းခဲ့ပြီးနောက်တွင် ၁၀ လ ကြာမျှ ပြည်တွင်း ကိုယ်ပိုင်အုပ်ချုပ်ခွင့် ရရှိခဲ့သည်။ ၁၉၆၄ ခုနှစ် ဇန္နဝါရီလမှစ၍ မြောက်ပိုင်း ရှိုဒီးဇီးယားနယ်တွင် ဖွဲ့စည်း အုပ်ချုပ်ပုံ အခြေခံဥပဒေသစ် ပြဋ္ဌာန်းပေးခဲ့ရာ ပြည်တွင်း ကိုယ်ပိုင်အုပ်ချုပ်ခွင့် အာဏာများ ရရှိခဲ့၏။ ၁၉၆၄ ခုနှစ် အောက်တိုဘာလ ၂၄ ရက်နေ့မှစ၍ လွတ်လပ်ရေး ရရှိကာ ဇမ်ဗီယာ သမတနိုင်ငံဟု အမည် ပြောင်းလိုက်လေသည်။ ဇမ်ဗီယာနိုင်ငံသည် ဗြိတိသျှ ဓနသဟာယဝင်နိုင်ငံ ဖြစ်၍ ကုလသမဂ္ဂ အဖွဲ့ဝင်နိုင်ငံလည်းဖြစ်သည်။

ဇမ်ဗီယာနိုင်ငံ၏လူဦးရေမှာ ၁၉၆၄ ခုနှစ် ခန့်မှန်းခြေအရ ၄,၇၃၂,၇၀၀ ဖြစ်၍ တိုင်းရင်းသား ၃.၆၅ သန်းရှိ၍ ဥရောပ တိုက်သား ၁၁,၇၀၀ ရှိလေသည်။

တောင်ပိုင်း ရှိုဒီးဇီးယားနယ်သည်လည်း များသောအား ဖြင့် ပေ ၃,၅၀၀ မှ ပေ ၅,၅၀၀ အထိရှိသော ကုန်းပြင်မြင့်ပင် ဖြစ်၏။ မြောက်ဖက်၌ ဇမ်ဗီဇီမြစ်သည်၎င်း၊ တောင်ဖက်၌ လင်ပိုပိုမြစ်သည်၎င်း နယ်နိမိတ်သဖွယ် တည်ရှိသည်။ မာရှို နာလန်နှင့် မတ်တာဗီလီလန် တိုင်းရင်းသား နယ်နှစ်နယ် လည်း ပါဝင်လေသည်။ ၁၅၀,၃၃၃ စတုရန်းမိုင်ကျယ်ဝန်း၏။ မြေသြဇာ ထက်သန်သဖြင့် ဆေး၊ ပြောင်းနှင့် သစ်သီးများ ကို စိုက်ပျိုးသည်။ နွားနို့လုပ်ငန်းကို အကြီးအကျယ် လုပ် ကိုင်သည်။ ဆော့စဗာရီမြို့တော်သည် စိုက်ပျိုးရာ နယ်မြေ တွင်း၌ ရှိသည့်အပြင်၊ ရွှေထွက်သည့်ဒေသ ဗဟိုချက်လည်း ဖြစ်သည်။ ထင်ရှားသော အခြား တွင်းထွက်သတ္တုများမှာ ငွေ၊ ကျောက်ဂွမ်း၊ သံ၊ ကျောက်မီးသွေး၊ ကရိုမိယမ်နှင့် လချေးဖြစ်သည်။

ဇမ်ဗီယာ နိုင်ငံမှ မီးရထားလမ်းသည် ဇမ်ဗီဇီ မြစ်ကို ဝိတိုရိယ ရေတံခွန်အနီး၌ ဖြတ်ကျော်ပြီးလျှင် တောင်ပိုင်း နယ်ရှိ ဗူးလာဝေးယိုးမြို့သို့၎င်း၊ ထိုမှတဆင့် ကိပ်တောင်း မြို့သို့၎င်း ရောက်သည်။ လေကြောင်းခရီးဖြင့်လည်း အရပ် ရပ်နှင့် ဆက်သွယ်လျက်ရှိလေသည်။

၁၉၂၃ ခုနှစ်မတိုင်မီက တောင်ပိုင်း ရှိုဒီးဇီးယားနယ်ကို လည်း ဗြိတိသျှတောင်အာဖရိက ကုမ္ပဏီက အုပ်ချုပ်သည်။ ထိုနှစ်တွင် ဗြိတိသျှပိုင်နယ်ပယ်အဖြစ် သွတ်သွင်း၍ ဘုရင်ခံ တဦးက အုပ်ချုပ်မှုအမှုဆောင်အဖွဲ့၊ ဥပဒေပြု ကောင်စီတို့ ဖြင့် အုပ်ချုပ်ခဲ့သည်။ ကိုယ်ပိုင် အုပ်ချုပ်ခွင့်ရ နယ်ပယ် ဖြစ်ခဲ့သည်။ ၁၉၅၃ ခုနှစ် ဩဂုတ်လ ၁ ရက်နေ့တွင် တောင် ပိုင်း ရှိုဒီးဇီးယားနယ်၊ မြောက်ပိုင်း ရှိုဒီးဇီးယားနယ်နှင့် နိယာစာလန်နယ်တို့ကို ရှိုဒီးဇီးယားနှင့် နိယာစာလန် ပြည် ထောင်စုအဖြစ် ပူးပေါင်းဖွဲ့စည်းခဲ့သည်။

ထိုပြည်ထောင်စုကို ဖျက်သိမ်းပြီးနောက်တွင် တောင် ပိုင်း ရှိုဒီးဇီးယားသည် ဗြိတိသျှ ဓနသဟာယ အတွင်း ကိုယ်ပိုင်အုပ်ချုပ်ခွင့်ရ အဖွဲ့ဝင်အဖြစ်သို့ ပြန်လည်ရောက်ရှိ သွားသည်။ သို့သော် ယခင် ပြည်ထောင်စု အစိုးရက ဆောင်ရွက်ခဲ့ရသည့် အစိုးရလုပ်ငန်း အများအပြားကို တာဝန်ယူ လုပ်ကိုင်ခဲ့ရ၏။ ယင်းတို့မှာ ကာကွယ်ရေး၊ ပညာရေးနှင့် ပြည်ပရေးရာလုပ်ငန်းများ စသည်တို့ဖြစ်၏။

၁၉၆၄ ခုနှစ်မှအစပြု၍ တောင်ပိုင်း ရှိုဒီးဇီးယားအစိုးရ နှင့် ဗြိတိသျှအစိုးရတို့ လွတ်လပ်ရေးအတွက် ဆွေးနွေး လာခဲ့ရာ မပြေလည်ခဲ့ဘဲရှိခဲ့သည်။ ၁၉၆၄ ခုနှစ် ဧပြီလ ၁၄ ရက်နေ့မှအစပြု၍ ဝန်ကြီးချုပ်ဖြစ်လာခဲ့သော အီယန် စမစ် ခေါင်းဆောင်သည့် တောင်ပိုင်း ရှိုဒီးဇီးယားအစိုးရက နိုင်ငံတွင်းရှိ လေးသန်းမျှသော လူမည်းများအတွက် လူ များစု အုပ်ချုပ်မှုဖြစ်လာနိုင်ဖို့ အာမခံချက် ပါရှိအောင် အခြေခံဥပဒေကို ပြင်ရန် ဟူသော ဗြိတိသျှ အစိုးရ၏ တောင်းဆိုချက်များကို မလိုက်လျောဘဲ ၁၉၆၅ ခုနှစ် နိုဝင်ဘာလ ၁၁ ရက်နေ့တွင် တဖက်သတ် လွတ်လပ်ရေး ကြေညာခဲ့သည်။ ထိုအခါ ဗြိတိသျှဘုရင်ခံက စမစ်နှင့် ယင်း၏အစိုးရအဖွဲ့ကို ရာထူးမှ နုတ်ပယ်လိုက်သည်။ ဗြိတိသျှ အစိုးရကလည်း တောင်ပိုင်း ရှိုဒီးဇီးယားအတွက် ထာဝန် ရှိကြောင်း ထုတ်ပြန်ကြေညာခဲ့၍ ယခုအခါ ရှိုဒီးဇီးယား နိုင်ငံဟု တွင်လျက်ရှိသည့် တောင်ပိုင်း ရှိုဒီးဇီးယားကို ဓနသဟာယအတွင်း ကုန်သွယ်မှု အခွင့်အရေးများ ခံစား ခွင့် မပေးတော့ဘဲ စတာလင်နယ်ပယ်မှလည်း ထုတ်ပယ် လိုက်၏။ နိုဝင်ဘာလ ၂၀ ရက်နေ့တွင် ကုလသမဂ္ဂလုံခြုံရေး ကောင်စီကလည်း အဖွဲ့ဝင်နိုင်ငံများအား ရှိုဒီးဇီးယား နိုင်ငံနှင့် စီးပွားရေးအဆက်ဖြတ်ရန် တိုက်တွန်းခဲ့လေသည်။ တောင်အာဖရိက ပြည်ထောင်စုနှင့် ပေါ်တူဂီနိုင်ငံတို့သာ လျှင် စီးပွားရေး အဆက်မဖြတ်ဘဲ ရှိနေခဲ့၏။ ၁၉၆၆ ခုနှစ် ဒီဇင်ဘာလ ၁၇ ရက်နေ့မှစ၍ ထိုသို့ စီးပွားရေးအဆက်ဖြတ် မှုတွင် ရေနံနှင့် ရေနံထွက်ပစ္စည်းများကိုပါ ရောင်းချခြင်း မပြုရန် ထည့်သွင်းလိုက်၏။

ရှိုဒီးဇီးယားနိုင်ငံတွင် လူဦးရေ ၄,၂၅၉,၇၀၀ (၁၉၆၅) ရှိ၍ ဥရောပတိုက်သား ၂၁၉,၀၀၀ ရှိသည်။

# သက်ကြီးစကား သက်ငယ်ကြား

**သက်ကြီး သူတို့က ပြောပြသမျှ ပုံပြင်၊ ဆိုပြသမျှ တေးသီချင်း၊ ရွတ်ပြသမျှကဗျာ၊ ကပြသမျှ ကပုံကနည်းတို့ကို သက်ငယ်သူတို့က စိတ်တွင် မှတ်သားခဲ့ကြသည်။ အမျိုးအဆက်ဆက် အဆင့်ဆင့် ကမ်းခဲ့သဖြင့် ယခုတိုင် တည်ရှိနေသော ပုံပြင်၊ ကဗျာ၊ သီချင်း၊ အကများကြောင့် ရှေးခေတ်လူတို့၏ ထုံးစံဓလေ့၊ အတွေးအခေါ်၊ အယူအဆ၊ ယုံကြည်မှုတို့ကို ကျွန်ုပ်တို့သိရှိနိုင်ခဲ့ကြသည်။**

**ရိုးရာပုံပြင်။** ။သက်ကြီးစကား သက်ငယ်ကြား ဟူသော ဆိုရိုးရှိသည့်အတိုင်း တိုင်းပြည်တခုတွင် အသက်အရွယ် ကြီး သူတို့က နောင်လာနောက်သား သက်ငယ်သူတို့အား မိမိတို့ မိဖ ဖိုးဖွားများထံမှ ကြားဘူးသော ပုံပြင်များကို တဆင့် ပြောပြလေ့ရှိကြသည်။ ထိုပုံပြင်တို့တွင် နတ်သား၊ နတ်သမီး အကြောင်း၊ လူအကြောင်း၊ တစ္ဆေအကြောင်း၊ တိရစ္ဆာန် အကြောင်း စသည်တို့ ဖော်ပြပါရှိသည်။ အချို့ ပုံပြင်တို့ မှာ ထိတ်လန့်ဖွယ်ဖြစ်သည်။ အချို့တို့မှာ အံ့ဩဖွယ်ကောင်း သည်။ အချို့တို့မှာ စိတ်ကြည်နူးဖွယ်ရာ ဖြစ်သည်။ အချို့ တို့မှာကား ရယ်ရွှင်ဖွယ်ရာ ဖြစ်သည်။ ထိုပြင် ယင်းပုံပြင် များအားဖြင့် ရှေးခေတ် လူတို့၏ ထုံးစံဓလေ့၊ အတွေးအ ခေါ်၊ အယူအဆ၊ ယုံကြည်မှုတို့ကို သိရှိနိုင်လေသည်။ မိမိတို့ ပတ်ဝန်းကျင်ရှိ မြင်မြင်သမျှ အရာတို့ကို ပုံပြင်များ ဖြင့် ရှင်းလင်း ဖော်ပြထားကြသည်။ ထိုပုံပြင်များကို မည် သူက စထွင်ခဲ့ကြကြောင်းကိုရင်း၊ ပုံပြင်တခုသည် မည် သည့် တိုင်းပြည်တွင် စ၍ ပေါ်ပေါက်ခဲ့ကြောင်းကိုရင်း မသိနိုင်ချေ။ တိုင်းပြည်ချင်း ခြားသော်လည်း ပုံပြင်ချင်း ဆင်တူသည်လည်း ရှိ၏။ ဓလေ့ ထုံးစံချင်း ညီသည်လည်း ရှိ၏။ တတိုင်းပြည်မှ တတိုင်းပြည်သို့ ကူးသန်းသွားလာ သူ ခရီးသည်တို့က ရိုးရာပုံပြင်များကို ယူဆောင်လာကြ သည်ဟု ယုံကြည်ရလေသည်။

ပုံပြင်များကို အမျိုး အဆက်ဆက်က အဆင့်ဆင့် ကမ်း ခဲ့သည့်နည်းတူ၊ တိုင်းပြည်တိုင်းတွင် ရှေးရိုး ကဗျာနှင့် တေး သီချင်းများကိုလည်း အမျိုး တဆက်မှတဆက်သို့ လက်ဆင့် ကမ်းခဲ့ကြသည်။ ရှေး ဗဲလက်ကဗျာတို့တွင် တကယ် ဖြစ် ပျက်ခဲ့သော အဖြစ်အပျက်တို့ကို စပ်ဆိုထားကြသည်။ လူ မျိုး တမျိုး၏ ဓလေ့ထုံးစံ၊ ဘာသာအယူဝါဒ၊ အတွေးအ ခေါ်တို့ကို ထိုလူမျိုး၏ ရှေးရိုး တေးသီချင်းများ၌ တွေ့မြင် နိုင်လေသည်။ ထို့ပြင် လူမျိုးတိုင်းတွင် မိမိတို့နှင့် ဆိုင်ရာ ရှေးရိုး အကများ ရှိကြသည်။ ရှေးရိုးပုံပြင်များ၊ ကဗျာနှင့် တေးသီချင်းများ၊ ရှေးရိုး အကများသည် လူမျိုးတမျိုး၏ အသွင်ကို ဖော်ပြသည် ဖြစ်ခြင်းကြောင့် ထိုလူမျိုး၏သမိုင်း အနေဖြင့်သော်ငြင်း၊ လူနေမှု တိုးတက်ခြင်း အနေဖြင့်သော် ငြင်း၊ သုခုမ အနုပညာ အနေဖြင့်သော်ငြင်း လေ့လာရန် အရေးကြီးလေသည်။ သက်ကြီးသူတို့က ပြောပြသမျှပုံပြင်၊ ဆိုပြသမျှ တေးသီချင်း၊ ရွတ်ပြသမျှ ကဗျာ၊ ကပြသမျှ ကပုံ ကနည်းတို့ကို သက်ငယ်သူတို့က စိတ်တွင် မှတ်သားထား ကြရသည်။ ထိုရိုးရာပုံပြင်၊ သီချင်း၊ ကဗျာနှင့် အက များစွာတို့သည် တိုင်းပြည်အများတွင် ရှေးအစဉ်အလာ တရပ်အဖြစ်ဖြင့် ယနေ့ထက်တိုင်တည်လျက်ရှိကြသေးသည်။

ရှေးခေတ် လူတို့သည် မိမိတို့နှင့် ဆိုင်ရာ ရိုးရာပုံပြင်များ၊ တေးကဗျာများ၊ အကများကို နောင်တနေ့တွင် ပညာရှင် တို့က စူးစမ်းလေ့လာပြီးလျှင်၊ စာအုပ်စာတန်းများ၌ ရေး သား ထိန်းသိမ်းထားကြမည် ဟူ၍ ထင်မှတ်မိကြမည် မဟုတ်ချေ။ သို့ရာတွင် ယခုအခါ တိုင်းပြည်များမှ သုတေ သိ ပညာရှင်တို့သည် ထိုရိုးရာကိစ္စများကို အထူးတလည် လေ့လာကြပြီးလျှင်၊ မတိမ်ကော မပျောက်ပျက်ရအောင် စာတင်၍ ထိန်းသိမ်းထားကြလေသည်။ ရှေးရိုးပုံပြင်များကို ပဌမဦးဆုံး ကျကျနန လေ့လာသူများမှာ ဂျေကော့ ဂရင်း (ခရစ် ၁၇၈၅–၁၈၆၃)နှင့် ဝီလင် ဂရင်း (ခရစ် ၁၇၈၆ – ၁၈၅၉)ဆိုသူ ဂျာမန်အမျိုးသား ညီနောင်နှစ်ဦးဖြစ်သည်။ (ဂရင်းညီနောင်—ရှု။)ဂရင်းညီနောင်တို့သည်ဂျာမန်ရိုးရာ ပုံပြင်များကို စူးစမ်းရှာဖွေ၍ စုဆောင်းရရှိသော ပုံပြင်များ ကို ဂရင်း ဒဏ္ဍာရီပုံပြင်များဟု အမည်ပေးကာ ပုံနှိပ် ထုတ် ဝေခဲ့သည်။ ဂရင်း ဒဏ္ဍာရီပုံပြင်များမှာ ကလေးများအဖို့ အလွန်ထင်ရှားသော စာပေ ဖြစ်သည်။ တံငါသည် လင် မယားပုံပြင်၊ လက်မ ပုံပြင်၊ နှင်းပေါက်ပုံပြင် စသည်တို့မှာ ကလေးများ နှစ်သက်သော ပုံပြင်များ ဖြစ်ပေသည်။ ထို နည်းတူ အင်္ဂလန်နိုင်ငံမှ အိုဗရွန်နှင့် တိုင်တေးနီးယားပုံပြင်၊ ပြင်သစ်နိုင်ငံမှ စင်ဒါရဲလား ပုံပြင်တို့မှာ ထင်ရှားသော ဒဏ္ဍာရီပုံပြင် အချို့ ဖြစ်သည်။

မြန်မာ့ရိုးရာ ပုံပြင်များကို ရန်ကုန် တက္ကသိုလ်၊ ပါမောက္ခ ချုပ်ဟောင်း ဒေါက်တာ ဦးထင်အောင်က ရှာဖွေစုဆောင်း ၍ အင်္ဂလိပ်ဘာသာဖြင့် စာအုပ်များ ရေးသားထုတ်ဝေခဲ့ သည်။ မြန်မာ့ရိုးရာ ပုံပြင်ကောက်နုတ်ချက် စာအုပ်တွင် တိရစ္ဆာန်ပုံပြင်၊စိတ်ကြည်နူးဖွယ်ရာပုံပြင်၊အံ့ဩဖွယ်ရာပုံပြင်၊ ရယ်ရွှင်ဖွယ်ရာ ပုံပြင်ဟူ၍ ပိုင်းခြား ဖော်ပြထားသည်။ မြန်မာတို့၏ ရိုးရာပုံပြင်များ အနက် ရွှေယုန်နှင့် ရွှေကျား ပုံပြင်၊ လက်မပုံပြင်၊မောင်ပေါက်ကျိုင်းပုံပြင်၊ မြွေမင်းသား ပုံပြင်တို့မှာ ထင်ရှားသော ပုံပြင်အချို့ ဖြစ်သည်။

ဒဏ္ဍာရီ ပုံပြင်တို့သည် များသောအားဖြင့် လူတို့အား သတိပေးချက်၊သွန်သင်ဆုံးမချက်စသော ရည်ရွယ်ချက်များ ပါရှိသဖြင့် ကလေးသူငယ်များ လေ့လာရန်အတွက် သင့် တော်သော သင်ခန်းစာများ ဖြစ်ပေသည်။ ပုံစံအားဖြင့်

ယုန်နှင့်လိပ်အကြောင်းပုံပြင်တွင် ယုန်သည် လိပ်ထက်အပြေး မြန်သော်လည်း၊ ဝီရိယပေါ့၍ လမ်းမှာ တရေးအိပ်မိသဖြင့် ပြေးပွဲ၌ ရှုံးရသည်။ လိပ်ကမူကား ဖြည်းဖြည်းနှင့် မှန်မှန် သွားသဖြင့် ပြေးပွဲ၌ အနိုင်ရသည်။ ထို့ကြောင့် ထိုပုံပြင်တွင် ဖြည်းဖြည်းနှင့် မှန်မှန် လုပ်ဆောင်တတ်သူသည် နောက်ဆုံး ၌ အောင်ပွဲကို ခံရမည်ဖြစ်ကြောင်း ပြဆိုထားလေသည်။

အချို့သော ဒဏ္ဍာရီ ပုံပြင်တို့တွင် နတ်များ အကြောင်း ဖော်ပြပါရှိသည်။ ပြင်သစ်နိုင်ငံမှ စင်ဒါရဲလား ပုံပြင်မှာ ထင်ရှားသည်။ (စင်ဒါရဲလား — လည်းရှု။) စင်ဒါရဲလား သည် မိထွေးနှင့် နေရ၍ စားဖိုချောင်တွင် ပင်ပန်းစွာ ချက် ပြုတ် လုပ်ကိုင်ရသည်။ မိမိလောက် ရုပ်အဆင်းမလှသော မိထွေးဖက်မှ အစ်မတော်များ၏ အငြိုအငြင်ကိုလည်း ခံနေ ရသည်။ သို့ရာတွင် သူ့အား ကြင်နာသနားသော နတ်သမီး တပါးက မင်းသားတပါး၏ ကပွဲသို့ သူများနည်းတူ သွား ရောက်နိုင်ရန် ကူညီခဲ့လေသည်။

ဒဏ္ဍာရီ ပုံပြင်များအပြင် ထုံးဟောင်း ပုံပြင်နှင့် သမိုင်း ပုံပြင် ဟူ၍လည်း ရိုးရာပုံပြင်များ ရှိလေသည်။ ထုံးဟောင်း ပုံပြင်သည် များသောအားဖြင့် ကိုးကွယ်သော အယူဝါဒနှင့် ဆိုင်သည်။ မြန်မာ ထုံးဟောင်း ပုံပြင်များသည် မြန်မာတို့ ၏ လေ့ထုံးတမ်းများကို ဖော်ပြလေ့ ရှိသည်။ ရှေးအခါက မြန်မာတို့သည် ထုံးဟောင်းပုံပြင်များကို အထောက်အထား ပြု၍ စီရင်ထုံးများကို ဆုံးဖြတ်ရာ၌ပင်လျှင် ကိုးကားခဲ့ကြ သည်။ (တုံးဟောင်းပုံပြင်—လည်းရှု။) သမိုင်းပုံပြင်သည် လူတို့၏ တကယ် အဖြစ်အပျက်နှင့် ပို၍ နီးစပ်သော ပုံပြင် မျိုးဖြစ်၍၊ ယုံတမ်းပုံပြင်သက်သက် မဟုတ်ချေ။ သမိုင်းပုံ ပြင်များတွင် ရှေးအခါက အမှန်တကယ်ပင် အသက်ရှင်ခဲ့သူ များအကြောင်းကို ဖော်ပြလေ့ရှိသည်။ သို့ရာတွင်များသော အားဖြင့် လူနှင့် နတ် နဂါး စသည်တို့ အတူတကွ နေထိုင် ကြောင်းကို ပြဆိုသည်။ ပုံစံအားဖြင့် အင်္ဂလိပ်တို့၏ အာ သာဘုရင်နှင့် သူ့ရဲကောင်းများပုံပြင်၊ ရော်ဗင်ဟုဒ် ပုံပြင်တို့ မှာ တကယ် အသက်ရှင်ခဲ့သူများ အကြောင်း ဖြစ်သော် လည်း ပါဝင်သော အချက်အလက် အားလုံး မှန်သည်ဟု မဆိုသာချေ။ မောင်ပေါက်ကျိုင်းပုံပြင်၊ ပျူစောထီးပုံပြင် တို့သည် မြန်မာတို့အတွက် သမိုင်းပုံပြင် အဖြစ်ဖြင့်သာမက နိုင်ငံသမိုင်း ပညာရပ်အတွက်လည်း အထောက်အပံ့ပြုသော ပုံပြင်အချို့ ဖြစ်သည်။ အခြားသော တိုင်းနိုင်ငံ အသီးအသီး တို့၌လည်း အလားတူ သမိုင်းပုံပြင်များ ရှိကြသည်။ (သ မိုင်းပုံပြင် — လည်းရှု။)

ယခုအခါ တိုင်းပြည်တပြည်၏ ထုံးဟောင်း ပုံပြင်နှင့် သမိုင်းပုံပြင်များကို စူးစမ်းရှာဖွေ၍ စာအုပ်စာတန်းများဖြင့် မှတ်တမ်းတင်ထားကြသည့်နည်းတူ ရှေးရိုး တေးသီချင်း များကိုလည်း မှတ်တမ်းတင်ထားကြသည်။ ကောက်စိုက် သီချင်း၊ ကောက်ရိတ်သီချင်း၊ ရာသီဘွဲ့သီချင်း၊ ကလေး ချော့ သီချင်း၊ အချစ်သီချင်း၊ ထိမ်းမြားမင်္ဂလာပွဲသီချင်း၊ စစ်ချီသီချင်း၊ ငိုချင်းအစရှိသည်ဖြင့် လူမျိုးတမျိုး၏ အသက် မွေးမှု၊ နေထိုင်မှု၊ ဓလေ့ထုံးစံတို့ကို ထုတ်ဖော် စပ်ဆိုထား သော ရိုးရာသီချင်းများ ရှိကြသည်။ ထို့ကြောင့် လူမျိုး တမျိုး၏ ရိုးရာ သီချင်းများကို လေ့လာရခြင်းအားဖြင့် ထို လူမျိုးနှင့် ဆက်စပ်နေသော သိအပ်ဖွယ်ရာတို့ကို သိမြင်လာ နိုင်ပေသည်။ မြန်မာတို့တွင် ကောက်စိုက်မ သီချင်း၊ ရှေးရိုး ဗုံတောက်သံ၊ မောင်းထောင်းသီချင်း အစရှိသည်တို့သည် မြန်မာမှုကို ထင်ရှား ပေါ်လွင်စေသော ရှေးရိုး သီချင်းများ ဖြစ်သည်။ ဥရောပတိုက်ရှိ ဆွစ်ဇာလန် နိုင်ငံသည် တော တောင် ချိုင့်ဝှမ်း ပေါများသော နိုင်ငံဖြစ်၍ ဆွစ်အမျိုး သားတို့၏ ရှေးရိုး သီချင်းများမှာ သိုးကျောင်းသားတို့၏ ပြေသံ၊ တောင်တန်းသားတို့က တောင်ထိပ်တခုမှ အခြား တောင်ထိပ်သို့ ပေါက်အောင် ဟစ်ကျော် ကျူးရင့်သံတို့ ပေါ်လွင်လျက် ရှိသည်။ ထိုနည်းတူ ဗြိတိသျှကျွန်းစုမှ ရှေး ရိုး သီချင်းများတွင် အင်္ဂလန်ပြည်သား၊ စကော့တလန်ပြည် သား၊ ဝေလနယ်သား၊ အိုင်ယာလန်ပြည်သား အသီး အသီးတို့၏ ဓလေ့ထုံးစံများ ပေါ်လွင် ထင်ရှားလျက် ရှိသည်။

တိုင်းနိုင်ငံ တခုမှ ရှေးရိုး အကသည် ရှေးတေးသီချင်း များနှင့် ဆက်စပ်လျက် ရှိသည်။ ရှေးရိုး သီချင်းများသည် အကြောင်းအရာ တခုခုကို ပုံပြင်သဖွယ် ဖော်ပြနိုင်စွမ်း ရှိ သကဲ့သို့ ရှေးရိုးအကများသည်လည်း ပုံပြင်တခုပင် ဖြစ် သည်။ ပုံစံအားဖြင့် ဆီလူမျိုးတို့၏ အထည်ရက် ရှေးရိုး အကတွင် ဘီသွားလျှော် ခွာခြင်းမှအစ အထည်ချော ဖြစ် သည်အထိ အဆင့်ဆင့် သရုပ်ဖော်သော ကကွက်များ ပါဝင် သည်။ ထိုကပွဲ၌ ပါဝင်သူတို့သည် အတန်းလိုက် ရွှေတိုး နောက်ဆုတ်ဖြင့် လျှော်ခွာပုံကို သရုပ်ဖော်ကြရသည်။ ထို နောက် ခုန်ပေါက် လှည့်ပတ် လက်ခုပ်တီး၍ ချည်ငင်ပုံကို ငင်၊ နှစ်ယောက် တတွဲစီ ရွှေတိုး နောက်ငင်ဖြင့် လွန်းပျံ သွားပုံကိုရင်း အကဖြင့် ပြကြသည်။ တဖန် တိုင်ချည် အထက်အောက် ချွေရွှားပုံ၊ ရက်ပြီး အထည်ကို လိပ်ပြီး နောက် မိမိတို့နေအိမ်သို့ အသီးအသီး ပြန်ကြပုံကို ကဟန် ကကွက် အမျိုးမျိုးဖြင့် သရုပ် ပေါ်အောင် ကပြကြရ လေသည်။

မြန်မာ့သဘင်ပညာသည် အထက်ပါ ရှေးရိုး သီချင်းနှင့် ရှေးရိုးအကများမှ တိုးတက် ကြီးပွားလာသည်ဟု ဆိုရပေ မည်။ မြန်မာ တိုင်းရင်းသားတို့၏ ဘဝသည် ယခုတိုင် စပါး စိုက်ပျိုးခြင်းနှင့် ဆက်စပ်လျက် ရှိလေရာ စပါးစိုက်ပျိုးခြင်း ကို အကြောင်းပြု၍ ကောက်စိုက်ချိန်၌ရင်း၊ စပါးရိတ်သိမ်း ချိန်၌ရင်း ပျော်ပွဲရွှင်ပွဲများကို ကျင်းပမြဲ ဖြစ်လေသည်။

ထိုပျော်ပွဲရွှင်ပွဲများအတွက် တေးသီချင်းများ စပ်ဆိုကြ၏။ သီချင်းသံကို လိုက်၍ ကခုန်ကြ၏။ ဤနည်းအားဖြင့် စိုက်ပျိုးရေး လုပ်ငန်းနှင့်ဆိုင်သော ရှေးရိုး သီချင်းနှင့် အကအခုန်များမှ လက်ရှိ မြန်မာ့သဘင်ပညာ ပေါ်ထွက်လာသည်ဟု ယူဆထိုက်လေသည်။ ထို့ပြင် မြန်မာ တိုင်းရင်းသားတို့သည် ရှေးအခါကစ၍ ဗုဒ္ဓအယူဝါဒနှင့် ဆက်စပ်လျက်ရှိသော ပွဲတော်များကို ကျင်းပလေ့ ရှိခြင်း၊ အလှူပေးခြင်း၊ ရှင်ပြုခြင်း၊ နားထွင်းခြင်း၊ဘုရားတည်ခြင်း၊ ဘုရားပွဲ ကျင်းပခြင်း စသော ပျော်ရွှင်မှုတို့အတွက် စပ်ဆို သီကုံးသော တေးကဗျာ၊ အကအခုန်တို့သည်လည်း မြန်မာ့သဘင်ပညာ၏ အမြစ်တွယ်ရာဟု ဆိုထိုက်ပေသည်။

**ရက်။** ။ကျွန်ုပ်တို့ နေထိုင်လျက် ရှိသော ကမ္ဘာကြီးသည် ဟင်းလင်းပြင် အတွင်း၌ နေကို လှည့်ပတ်၍ သွားနေစဉ် ယင်း၏ ဝင်ရိုးပေါ်၌လည်း လည်လျက် ရှိလေသည်။ ထိုသို့ မိမိဝင်ရိုးပေါ်တွင် အစဉ်မပြတ် လည်နေသဖြင့် နေ့နှင့် ညဉ့် ဖြစ်ပေါ်ရသည်။ ကမ္ဘာကြီးသည် ယင်း၏ ဝင်ရိုးပေါ်၌ တပတ်ပြည့် လည်ရန်အတွက် ၂၄ နာရီမျှ ကြာသည်။ ထိုအချိန်ကို တရက်ဟု ခေါ်သည်။ သို့ဖြစ်ရကား တနေ့နှင့် တညဉ့်သည် တရက် ဖြစ်လေသည်။

ကမ္ဘာကြီးသည် မိမိ၏ ဝင်ရိုးပေါ်တွင် လည်ယင်း နေကို တပတ် ပတ်မိသော အချိန်ကို တနှစ်ဟု ခေါ်သည်။ တပတ်ပတ်မိရန် ရက်ပေါင်း ၃၆၅¼ ရက်ကြာ၏။ သို့သော် သာမန်အားဖြင့် ရိုးရိုးနှစ် တနှစ်လျှင် ၃၆၅ ရက်၊ ရက်ငင်နှစ် တနှစ်လျှင် ၃၆၆ ရက်ဟု သတ်မှတ်ထားသည်။ (ပက္ခဒိန်၊ နေ — လည်း ရှု။) တရက်လျှင် ၂၄ နာရီကြာ၍ ထိုရက်ပေါင်း ခုနစ် ရက်ကို ရက်သတ္တတပတ်ဟူ၍၎င်း၊ ရက်သတ္တပတ် လေးပတ်ကို တလဟူ၍၎င်း၊ ၁၂ လ၊ သို့မဟုတ် ရက်သတ္တပတ်ပေါင်း ၅၂ ပတ်ကို တနှစ်ဟူ၍၎င်း အသီး အသီး သတ်မှတ်ထားလေသည်။

ရှေးမြန်မာမင်းများ လက်ထက်တွင် ရေနာရီကို အမှီပြု၍ ပဟိုရ်စည်ကို တီးခတ်သောအားဖြင့် ပဟိုရ်နာရီကို အသုံးပြုရလေရာ ရေနာရီအားဖြင့် တရက်လျှင် နာရီ ၆၀ ပိုင်းခြား သတ်မှတ် ထား၏။ တရက်ဆိုသည်မှာ လွန်ခဲ့သော သန်ကောင်မှသည် လာလတ္တံ့သော အနာဂတ် သန်ကောင်အထိ ဖြစ်သည်။ တရက်ဟု ဆိုအပ်သော ကာလကို နေ့ကာလ၊ ညဉ့်ကာလဟူ၍ ပိုင်းခြား ထားလေသည် ။ (ပဟိုရ်နာရီ — လည်းရှု။)

မြန်မာ လူမျိုးတို့သည် "ရှေးထုံးကိုလည်း မပယ်နှင့်၊ ဈေးသုံးကိုလည်း မကြွယ်နှင့်" ဟူသော ဆောင်ပုဒ်ကို လက်သုံးပြုလျက် ဘုရားတန်ဆောင်း၊ ကျောင်း၊ ကန်၊ စေတီ တည်ထားကိုးကွယ်ခြင်း၊ တိုက်တာ နေအိမ် ဆောက်လုပ်ခြင်း၊ ရှင်ပြုနားသ မင်္ဂလာ ပြုလုပ်ခြင်း၊ ထိမ်းမြား မင်္ဂလာ ပြုလုပ်ခြင်း၊ ရေတွင်း ရေကန် ပန်းမာလ် ဥယျာဉ် စိုက်ပျိုးခြင်း၊ ပျိုးကြဲကောက်စိုက် လယ်လုပ် စသော အလုံးစုံသော လူမှုကိစ္စအဝဝတို့ကို ပြုလုပ်ရာတွင် ရက်၏ စင်ကြယ်ခြင်းကို ရွေးချယ်စိစစ် ပြုလုပ်တတ်ကြလေသည်။

ရက်၏ စင်ကြယ်ခြင်းဟူသည်ကား ပြဿဒါးရက်၊ သမည်ရက်၊ သမဖြူရက်၊ ရက်ယုတ်မာ၊ ရှမ်းရက်၊ မဟာရက်ကြမ်း၊ ဝါရမိတ္တုငယ်၊ ဝါရမိတ္တုကြီး၊ ရက်ပုတ်၊ နဂါးပေါ်ရက်၊ လဆန်း မြေခံ၊ လဆုတ် မြေခံစသော ရက်တို့ကို လွတ်ကင်းအောင် ရွေးချယ်ခြင်း ဖြစ်သည်။ သာမန် အားဖြင့်ကား ရက်ရာဇာကို ဆောင်၍ ပြဿဒါးရက်ကို ရှောင်တတ်သည့် အလေ့ ရှိလေသည်။ (ပြဿဒါး၊ ရက်ရာဇာ — လည်း ရှု။)

**ရက်ကန်းပညာ။** ။မြန်မာရက်ကန်း ပညာ — ရှု။

**ရက်ကွန်းဝံ။** ။ရက်ကွန်းဝံသည် ဝက်ဝံ အမျိုးတွင် ပါဝင်သော တိရစ္ဆာန်တမျိုး ဖြစ်၏။ သို့သော် နောက်ခြေကို မြေပေါ်တွင် ပြားချ၍ လျှောက်ခြင်းမှတပါး အခြား အမူအရာ အသွင်အပြင်တို့မှာ မတူချေ။ ဝက်ဝံလောက်လည်း မကြီးပေ။ ယင်းတို့ကို မြောက်နှင့် အလယ်ပိုင်း အမေရိက တောတောင်များ၌သာ တွေ့ရသည်။ သာမန် ရက်ကွန်းဝံသည် နှာဖျားမှ အမြီးဖျားအထိ ၃၂ လက်မခန့် ရှည်၍ ပေါင်ချိန် နှစ်ဆယ်မှ နှစ်ဆဲ့ငါးပေါင် အထိ ရှိသည်။ သန်မာသည့် ခန္ဓာကိုယ်တွင် အမွေးကြမ်းရှည်များ ရှိသည်။ အမွေး၏ အရောင်မှာ မွဲပြာရောင် ဖြစ်၍ အဖျား မည်းသည်။ အောက်ထပ် အမွေး၏ အရောင်မှာ အညိုပျော့ရောင် ဖြစ်သည်။ အမြီးတွင် အမွေးထူများ ရှိပြီးလျှင် အမည်းရောင်သည် အရစ်အရစ်နှင့် တည်ရှိ၏။ ရက်ကွန်းဝံ၏ မျက်နှာမှာ မြေခွေးမျက်နှာနှင့် တူသည်။ နှုတ်သီးချွန်သည်။ မျက်စိ တဖက်တချက်စီ၏ ပတ်ဝန်းကျင်တွင် အနက်ကွက်များရှိ၍ ထိုအနက်ကွက်၏ ပတ်လည်တွင် အဖြူရောင် အမွေးများ ရှိသည်။

ရက်ကွန်းဝံတို့သည် ရေအနီးအနား သစ်ပင် ကြိမ်တောတို့၌ အိမ်လုပ်ကာ နေတတ်၏။ ရေနှင့် ဝေးသော အရပ်ကို မနှစ်သက်ချေ။ ညနေပိုင်းတို့တွင် ရေတိမ်ရာ အရပ်တို့၌ ခုန်ပေါက် ပြေးလွှားကာ ဖား၊ ဗုဇွန်၊ ခရုများကို ဖမ်းယူစားသောက်လေသည်။ ထူးဆန်းသော အကျင့်မှာ အစာကို မစားမီ ရှေ့ခြေများဖြင့် ကိုင်၍ ရေတွင် အကြိမ်ကြိမ် အဖန်ဖန် ဆေးကြောလေ့ရှိခြင်း ဖြစ်၏။ စာအုပ်များတွင် ရက်ကွန်းဝံရုပ်ပုံကို လူအများ တွေ့မြင်ဘူးသော်လည်း တကယ့်အကောင်ကို ယင်းနေထိုင်ရာအရပ်၌ တွေ့ရခဲသည်။ ရာသီ



ရက်ကွန်းဝံ သားငယ်များကို ပြေးလတွင် မွေး၍ အနည်းဆုံး ဆောင်းဝင်ချိန်အထိ စောင့်ရှောက်ပေးရသည်။

ဥတု မှောင်မဲသောအခါမှအပ နေ့အချိန် ထွက်၍ သွား လာခြင်း မရှိချေ။ တနေ့လုံး သစ်ကိုင်းပေါ်တွင် ဆန့်၍ အိပ်နေတတ်သည်။တခါတရံ သစ်ပင်ထိပ်ဖျားပေါ်သို့ တက် ၍ ပင်စည်လုံးကို ရစ်ပတ်ကာ မှိန်းစက်တတ်၏။

ရက်ကွန်းဝံတို့သည် ဝက်ဝံများကဲ့သို့ အစာကို ရွေးသည် မရှိ။ တွေ့ရာမြင်ရာကို စားသည်။ အသနား အကျင်နာမဲ့ သော သတ္တဝါများပေတည်း။ ညဉ့်အခါ ကြက်ငှက်တို့ကို အိပ်တန်းတွင် ဖမ်းယူသည်။ ရှဉ့်သိုက်ကို ဖွင့်၍ သနားစဖွယ် ရှဉ့်ကလေးတွေကို သတ်ဖြတ် စားသောက်သည်။ အသီး အနှံတို့ကို ခူး၍ လယ်သမားများ မွေးမြူထားသော ကြက် ငှက်တို့ကို ခိုးစားတတ်သည်။ လယ်သမားတို့လည်း ယင်း တို့ကို အလွန် မုန်းတီး၍ လသာသာ ညဉ့်အခါများတွင် အမဲလိုက် ခွေးများနှင့် လိုက်လံ ဖမ်းဆီးတတ်ကြသည်။

ရက်ကွန်းဝံသည် အေးသော ရာသီကို နှစ်သက်ဟန် မတူ ချေ။ ဆောင်းရာသီ ဝင်ရောက်လာသည်နှင့် တပြိုင်နက် လေအေး ဆီးနှင်းတို့မှ အကာအကွယ်ရရန် သစ်ခေါင်းများ ထဲသို့ ဝင်၍ ခိုအောင်းနေသည်။ တခါတရံ မိသားစု နှစ်စု သုံးစုပင် သစ်ခေါင်း တခုထဲတွင် ဝင်၍ ကွေးကွေးကလေး နှစ်နှစ်ခြိုက်ခြိုက် အိပ်နေတတ်ကြလေသည်။

ရက်ကွန်းဝံများတွင် ခြေတံရှည်နှင့် လက်သည်းရှည်များ ရှိသည်။သစ်ပင်တက် ကျွမ်းကျင်သည်။ များသောအားဖြင့် ပြေ၊ သို့မဟုတ် မေလတွင် သုံးကောင်မှ ခြောက်ကောင်ထိ ရှိသော သားငယ်များကို မွေးလေ့ ရှိသည်။ ပဌမတွင် ရက် ကွန်းဝံငယ်များသည် မျက်စိမမြင်သည့်အပြင် ဘာမျှလည်း မလုပ်နိုင်ချေ။ အမိအဖများက အနည်းဆုံး ဆောင်းဝင် ချိန်အထိ စောင့်ရှောက်ပေးကြရသည်။ ရက်ကွန်းဝံငယ် များ ငိုကြွေးသောအခါ လူကလေးငယ် ဟစ်အော်ငိုကြွေး သည်နှင့် တူသည်။

ရက်ကွန်းဝံကို ငယ်ရွယ်စဉ်က ဖမ်းယူ၍ သင်ကြားပေး လျှင် စိတ်ဝင်စားဖွယ်ကောင်းသည့် ချစ်စနိုး တိရစ္ဆာန် ဖြစ် လာနိုင်သည်။ အမေရိကန် ပြည်ထောင်စု တောင်ဖက်ပိုင်း ဒေသများတွင် ရက်ကွန်းဝံကို ကင်၍ စားလေ့ ရှိကြသည်။ ရက်ကွန်းဝံ၏ သားမွေးများဖြင့် မိန်းမဝတ် အင်္ကျီများကို ချုပ်လေ့ ရှိကြသည်။

ရက်ကွန်းဝံကလေးများ မွေးပြီး၍ တနှစ်ခန့် အကြာတွင် ကြောင်ကလေးများအရွယ် ရှိလာသောအခါ မိခင်ဖြစ် သူ ရက်ကွန်းဝံမကြီးက ယင်းတို့၏ ခြေချောင်း ငါးချောင်းရှိ ခြေသည်းရှည်ကြီးများဖြင့် သစ်ပင်၏ အခေါက်ကို တွယ် ကာ သစ်ပင်အောက်သို့ ဆင်းတတ်အောင် သင်ပေးလေ သည်။ ထိုအချိန်မှစ၍ ရက်ကွန်းဝံ ကလေးများသည်လည်း အရာရာတိုင်းကို သိလိုစိတ်ဖြင့် စုံစမ်းလေတော့သည်။

ရက်ကွန်းဝံသည် နေ့အချိန်တွင် အိပ်နေလေ့ ရှိသော် လည်း မိုးသား ထူထပ်သည့် နေ့များတွင် သစ်ခေါင်းမှ ထွက် လာကာ ကမ်းနား တလျှောက်တွင် ယင်း၏ အမည်းရောင် ခြေဖဝါးဖြင့် နင်း၍ ဝက်ဝံများသဖွယ် လျှောက်သွား ပြေး လွှားတတ်သည်။ ရေတိမ်ရာတွင် ဆင်း၍လည်း ကမာနှင့် ယောက်သွားများကို ရှာဖွေ စားသောက်လေ့ ရှိသည်။ သို့မ ဟုတ် ဖားနှင့်လိပ်များကို ရှာဖွေစားသောက်တတ်ကြသည်။

ရက်ကွန်းဝံသည် ပရိုစိုင်ယိုနီဒီး မျိုးရင်းတွင် ပါဝင်လေ သည်။ ပါဏဗေဒ အလိုအရ သာမန် ရက်ကွန်းဝံကို ပရိုစိုင် ယွန် လိုတောဟုခေါ်၍ ကနန်းစား ရက်ကွန်းဝံကိုမူ ပရိုစိုင် ယွန် ကန်ကရီဗိုးရပ် ဟူ၍ ခေါ်လေသည်။

**ရက်စပ်ရေးရှင်း။** ။ရက်စပ်ရေးရှင်း (အသက်ရှူမှု) ဆိုသည်မှာ လေကို အဆုတ်အတွင်းသို့ သွင်းယူပြီးလျှင် အဆုတ်အတွင်းမှ လေကို အပြင်သို့ ထုတ်ပစ်ခြင်း ဖြစ်သည်။ ရက်စပ်ရေးရှင်းသည် ခန္ဓာကိုယ်၏ အရေးတကြီး ဆောင်ရွက်ရသော တာဝန်ဖြစ်သည်။ အဆိုပါ တာဝန်ကို အသက်ရှင်စေရန် အမြဲမပြတ် ဆောင်ရွက်ရလေသည်။

တိရစ္ဆာန်များသည် ရက်စပ်ရေးရှင်းကို ပါးဟက်၊ အဆုတ်နှင့် လေပြွန်များဖြင့် ပြုလုပ်ကြရသည်။ အချို့ တိရစ္ဆာန်များကမူ ယင်းတို့၏ အရေပြားဖြင့်ပင် ရက်စပ်ရေးရှင်းကို လုပ်ယူကြသည်။ ရေနေသတ္တဝါများသည် ပါးဟက်များဖြင့် ရက်စပ်ရေးရှင်းကို လုပ်ယူကြ၍ လေထုအတွင်း၌ လွတ်လွတ်လပ်လပ် နေထိုင်ကြသည့် တိရစ္ဆာန်များကမူ ယင်းတို့၏ အဆုတ်များဖြင့် ရက်စပ်ရေးရှင်းကို လုပ်ယူကြသည်။

သက်ရှိတို့သည် ရက်စပ်ရေးရှင်းကို ပြုလုပ်ခြင်းဖြင့် ခန္ဓာကိုယ်ရှိ ဆဲများသို့ အောက်ဆီဂျင် ဓာတ်ငွေ့ကို ပို့ပေးနိုင်ပြီးလျှင် ဆဲများမှ ကာဗွန်ဒိုင်အောက်ဆိုက် ဓာတ်ငွေ့ကို ဖယ်ရှား ပစ်နိုင်လေသည်။ သက်ရှိ ဆဲမှန်သမျှသည် သက်ဆိုင်ရာ တာဝန်များကို ထမ်းဆောင်နိုင်ရန် အောက်ဆီဂျင် ဓာတ်ငွေ့ကို လိုအပ်လေသည်။ ဆဲတို့၏ တာဝန် ဆောင်ရွက်ခြင်းသည် အောက်ဆီဂျင်ဓာတ်ငွေ့ကိုသာ မရလျှင် လျင်မြန်စွာ ရပ်စဲသွားပေလိမ့်မည်။ သက်ရှိ ဆဲတိုင်းသည် အောက်ဆီဂျင် ဓာတ်ငွေ့ကို ရရှိပြီးသောအခါတွင် ကာဗွန်ဒိုင်အောက်ဆိုက် ဓာတ်ငွေ့ကို အညစ်အကြေးပစ္စည်းအဖြစ် ဖြစ်ပေါ်စေသည်။ အစာရှိ ကာဗွန်သည် အောက်ဆီဂျင်နှင့် ပေါင်းပြီးလျှင် အောက်ဆို စွမ်းအင်နှင့် အပူကိုဖြစ်စေသည်။

ရက်စပ်ရေးရှင်းပြုလုပ်ခြင်းသည် အမှန်အားဖြင့် အောက်ဆီဂျင် ဓာတ်ငွေ့နှင့် ကာဗွန်ဒိုင်အောက်ဆိုက် ဓာတ်ငွေ့ကို လဲလှယ်ပေးခြင်းပင် ဖြစ်သည်။ ထိုသို့ဖြစ်စေရန် ရက်စပ်ရေးရှင်းအတွက် အထူး အင်္ဂါများ မလိုချေ။ ဥပမာ တီကောင်သည် ယင်း၏ အရေပြားဖြင့် ရက်စပ်ရေးရှင်းကို ပြုလုပ်ယူလေသည်။ ထိုသို့ ပြုလုပ်ရာတွင် သွေးသည် သွေးကြော၏ မျက်နှာပြင်နှင့် ကပ်လာသောအခါတွင် သွေးမှ ကာဗွန်ဒိုင်အောက်ဆိုက် ဓာတ်ငွေ့နှင့် လေမှ အောက်ဆီဂျင် ဓာတ်ငွေ့တို့သည် လဲလှယ်လိုက်ကြလေသည်။ သွေးမရှိသည့် အမီးဗားကောင်ကဲ့သို့သော အောက်တန်း တိရစ္ဆာန်မျိုးအဖို့တွင် ရက်စပ်ရေးရှင်းကို ပရိုတိုပလာဇမ်ခေါ် သက်ဦးရုပ်ဖြင့် ဆောင်ရွက်သည်။ သို့သော် အောက်ဆီဂျင်နှင့် ကာဗွန်ဒိုင် အောက်ဆိုက် ဓာတ်ငွေ့တို့ လဲလှယ်ရာတွင်မူ တန်းမြင့် တိရစ္ဆာန်များနှင့် အတူတူပင်ဖြစ်သည်။ ပိုးကောင်များတွင် ရက်စပ်ရေးရှင်း ပြုလုပ်ရန် လေပြွန်များပါရှိသည်။

ခန္ဓာကိုယ်ရှိ ဆဲတိုင်းအဖို့ ရက်စပ်ရေးရှင်း ရှိရပေမည်။ အပင်ရှိ ဆဲများနှင့် တိရစ္ဆာန်ရှိ ဆဲများသည် ထိုကိစ္စအတွက် အတူတူပင် ဖြစ်သည်။ အပင်၏ အရွက်များသည် အောက်ဆီဂျင် ဓာတ်ငွေ့ကို စုတ်ယူကြပြီးလျှင် ကာဗွန်ဒိုင်အောက်ဆိုက် ဓာတ်ငွေ့ကို စွန့်ပစ်ကြသဖြင့် အပင်၏ အသက်ရှူမှုနှင့် လူ၏ အသက်ရှူမှုကို နှိုင်းယှဉ်ကြည့်နိုင်ပေသည်။ သို့သော် အပင်တွင် ထိုအချိန်၌ ဖိုတိုဆင်းသဆစ်ဖြစ်စဉ်တရပ် ဖြစ်ပေါ်သေးသည်။ အပင်သည် ကာဗွန်ဒိုင်အောက်ဆိုက် ဓာတ်ငွေ့ကို စုတ်ယူပြီးလျှင် အောက်ဆီဂျင် ဓာတ်ငွေ့ကို ထုတ်ပစ်လေသည်။

တိရစ္ဆာန်များ အဖို့တွင် အသက်ရှူမှုသည် အိပ်ပျော်နေသည်ဖြစ်စေ၊ နိုးနေသည်ဖြစ်စေ အစဉ် ဖြစ်ပေါ်လျက်ရှိသည်။ အသက်ရှူမှုအတွက် အားလည်း မစိုက်ထုတ်ရချေ။ လူအဖို့တွင် အသက်ရှူမှုကို အချိန် အတန်ကြာမျှ ရပ်တန့်၍ ထားနိုင်လေသည်။ သို့သော် တာရှည်ကား ဆောင်ရွက်နိုင်မည် မဟုတ်ချေ။ ထိုသို့ တားဆီး၍ မရသောအချိန်တွင် အသက်ရှူမှုကို ပြန်၍ ပြုလုပ်ရလေသည်။ ထိုနောက် အသက်ရှူမှုသည် အချိန်မှန်မှန် ဆက်၍ ဖြစ်သွားလေသည်။

သွေးသည် အလွန် အရေးကြီးသည့် တာဝန် နှစ်ခုကို ထမ်းဆောင်ပေးသည်။ ယင်းတာဝန် နှစ်ခုမှာ အောက်ဆီဂျင် ဓာတ်ငွေ့ကို ယူလိုက်ခြင်းနှင့် ကာဗွန်ဒိုင်အောက်ဆိုက် ဓာတ်ငွေ့ကို ထုတ်လွှတ်ခြင်းတို့ ဖြစ်လေသည်။ ထိုဖြစ်ရပ်နှစ်ခုသည် အဆုတ်အတွင်း၌ တချိန်တည်းမှာပင် ဖြစ်ပေါ်ကြသည်။ အဆုတ်သည် အယ်လဗီအိုလီခေါ် လေအိတ်ကလေး အမြောက်အမြား အဖြစ် တည်ရှိနေသည်။ လေအိတ်ကလေးများတွင် အလွန် ပါးလွှာသော နံရံကလေးများ ရှိပြီးလျှင် သွေးကြောမျှင်ကလေးများ ခေါ် သွေးကြောကလေးများသည် ရှုပ်ထွေးစွာ ဆက်သွယ်လျက် ရှိကြသည်။ အဆုတ်အတွင်းသို့ သွင်းယူလိုက်သည့် လေသည် လေအိတ်ကလေးများ အတွင်းသို့ ဝင်ပြီးလျှင် သွေးကြောများနှင့် ထိမိသည်။ထိုအခါ သွေးက လေအတွင်းရှိ အောက်ဆီဂျင် ဓာတ်ငွေ့ကို စုတ်ယူလိုက်ပြီးလျှင် ယင်းရှိ ကာဗွန်ဒိုင်အောက်ဆိုက် ဓာတ်ငွေ့ကို ပေးလိုက်လေသည်။

ရက်စပ်ရေးရှင်းတွင် ကွဲပြားသည့် အပြုအမူ နှစ်ခု ရှိသည်။ တခုမှာ လေကို ရှူသွင်းလိုက်ခြင်းဖြစ်၍ ကျန်တခုမှာ လေကို ရှူထုတ်လိုက်ခြင်း ဖြစ်သည်။ ထိုအပြုအမူ နှစ်ခုကြားတွင် ကြားကာလ ရှိသည်။ ထိုကြားကာလသည် ရက်စပ်ရေးရှင်း မြန်သည်ထက် မြန်လာသောအခါတွင် ပို၍ ပို၍ အချိန်ကာလ တိုလာပြီးလျှင် နောက်ဆုံးတွင် ပျောက်ကွယ်သွားလေသည်။

ရင်ပိုင်းရှိ ကြွက်သားများ၏ လှုပ်ရှားမှုကြောင့် လေကို ရှူသွင်းမှုနှင့် လေကို ရှူထုတ်မှုရှိခြင်း ဖြစ်သည်။ အဆုတ်သည် ရင်ခေါင်းခေါ် အခေါင်းအတွင်း၌ တည်ရှိ၏။ ထို

အခေါင်းသည် အရွယ်ကို ပြောင်းလဲနိုင်သည်။ လေကို ရှူသွင်းလိုက်သောအခါတွင် ရင်ခေါင်းသည် အကြောင်း နှစ်မျိုးကြောင့် ပြန့်ကားသွားသည်။ ပဌမ အကြောင်းမှာ ရင်ခေါင်း၏ အပေါ်ဖက်နှင့် ဝမ်းပိုက် အခေါင်း၏ အောက်ဖက်ကြားရှိ ဒိုင်ယာဖရမ်၊ သို့မဟုတ် လိုဏ်ခေါင်း ပုံသဏ္ဍာန်ကြွက်သားပြား၏ လှုပ်ရှားမှုကြောင့် ဖြစ်သည်။ ဒိုင်ယာဖရမ် ပြားသွားသောအခါတွင် ရင်ခေါင်း အတွင်း၌ နေရာသည် ပို၍ ကျယ်ပြန့်သွားလေသည်။ ဒုတိယ အကြောင်းမှာ နံရိုးများသည် အပေါ်နှင့် ဘေးဖက်များသို့ လှုပ်ရှားသွားသဖြင့် ပို၍ ကျယ်ဝန်းသွားလေသည်။

ရင်ခေါင်း မည်မျှပင် ကြီးသည်ဖြစ်စေ အဆုတ်သည် ရင်ခေါင်းကို ဖြည့်သွားစေလိုသည်။ လေကို ရှူလိုက်သောအခါတွင် ရင်ခေါင်းသည် ကျယ်ပြန့်သွားသဖြင့် ထိုသို့ ကျယ်ပြန့်သွားသည်အထိ အဆုတ်သည်လည်း ပြန့်ကားသွားသည်။ ထိုသို့ ပြန့်ကားသွားသဖြင့် အဆုတ်အတွင်းရှိလေ၏ ဖိအားသည် လျော့ပါးသွားပြီးလျှင် အပြင်မှ လေကို လေပြွန်မှတဆင့် ဆွဲယူလိုက်လေသည်။ လေကို ရှူထုတ်လိုက်သောအခါတွင် အထက် ဖော်ပြပါ အချက်နှင့် ဆန့်ကျင်ဖက်ဖြစ်ပေါ်လေသည်။ ရင်ခေါင်းကို ကျုံ့လိုက်ရသဖြင့် အဆုတ်တွင်းမှ လေများသည်လည်း ထွက်သွားကြရသည်။ အဆုတ်ကိုယ်တိုင်ကမူ ပြန့်ကားမှုနှင့် ကျုံ့မှုကို တိုက်ရိုက်အားဖြင့် မဆောင်ရွက်ရချေ။ ရင်ခေါင်း၏ ပြန့်ကားမှုနှင့် ကျုံ့မှုကြောင့် အဆုတ်သည် လေကို တစိတ်တဒေသ ရှူထုတ်ခြင်းနှင့် ရှူသွင်းခြင်းကို သွယ်ဝိုက်သောနည်းဖြင့်သာ ဆောင်ရွက်လေသည်။

လူတယောက်သည် သာမန်အားဖြင့်သာ အသက်ကို ရှူနေလျှင် အစိတ်ဝင် ပုလင်းတလုံးမျှလောက်သော လေကိုသာ ဝင်စေ ထွက်စေသည်။ သာမန်အားဖြင့် ဆိုလျှင် ထိုမျှလောက်သော အောက်ဆီဂျင်ဓာတ်ငွေ့သည် လုံလောက်၍ လုံလောက်သော ကာဗွန်ဒိုင်အောက်ဆိုက်ဓာတ်ငွေ့ကို ထုတ်ပစ်နိုင်သည်။ လေကို အပြင်းထန်ဆုံး ရှူသွင်းလိုက်သောအခါတွင် အဆုတ်သည် ငါးဆယ်ဝင် ပုလင်း လေးလုံးစာမျှလောက်သော လေကို လက်ခံလိုက်သည်။ အားကစားသူများနှင့် ကျန်းမာသန်စွမ်းသော ငယ်ရွယ်သူများတွင် လေဝင် လေထွက်သည် အသက်အရွယ် ပို၍ ကြီးရင့်သူများထက် ပို၍ များသည်။ အသက်ကို သာမန်အားဖြင့်သာ ရှူနေလျှင် အဆုတ်၏ တစ်ရှူးများသည် လေးပုံတပုံမျှလောက်သာ ကျယ်ပြန့်သွားနိုင်သည်။ ထိုကြောင့် အဆုတ်၏ အစိတ်အပိုင်း တော်တော်များများသည် အသက်ရှူတိုင်း လေကောင်း လေသန့်ကို မရရှိနိုင်ချေ။ အသက်ကို ပြင်းပြင်း ရှူသည့် လေ့ကျင့်ခြင်းသည် အဆုတ်အတွင်းသို့ လေကို ပို၍ ပြည့်စေသည့်အပြင် ကျယ်ပြန့်၍လည်း သွားစေသဖြင့် တန်ဖိုး ရှိလေသည်။ ထိုသို့ ပြုလုပ်ပေးခြင်းဖြင့် အဆုတ်အတွင်း၌ သွေးလှည့်ပတ်ခြင်းကို အထောက်အပံ့ ဖြစ်စေလေသည်။

**ရက်ဇင်။** ။သစ်စေး — ရှု။

**ရက်တီဖိုင်းယား။** ။အေစီကားရင့်ခေါ် ပြန်လှန်လျှပ်စီးကြောင်းကို ဒီစီကားရင့်ခေါ် (အသွားစီး၊သို့မဟုတ် အစုန်စီး)လျှပ်စီးကြောင်းအဖြစ်သို့ ပြောင်းလဲပေးသော ကရိယာကို ရက်တီဖိုင်းယား (ဓာတ်စီးပြောင်းစက်)ဟု ခေါ်သည်။ ဤကရိယာသည် ပြန်လှန်လျှပ်စီးကိုသာ ရနိုင်သော နေရာမျိုး၌ အသွား(စီး)၊ သို့မဟုတ် အစုန်(စီး)လျှပ်စီးကြောင်းကိုသာ အသုံးပြုရသည့် ဓာတ်ရည်စိမ် လုပ်ငန်းများတွင် အလွန် အသုံးဝင်သည်။ အီလက်ထရွန်နစ်ပြွန်သည် ဤကဲ့သို့ လျှပ်စစ်စီးကြောင်း ပြောင်းလဲပေးသော ကရိယာများအနက် အရေးပါ အရာရောက်ဆုံးသော ကရိယာ တခုပင်ဖြစ်လေသည်။

ရက်တီဖိုင်းယား အမျိုးမျိုး ရှိ၏။ စက်ဖြင့် ပြုပြင်ပေးသော မီကန်နစ်ကယ် ရက်တီဖိုင်းယားမျိုးတွင် ပြန်လှန်လျှပ်စီး၌ လျှပ်စစ်စီးကြောင်း ပြောင်းလဲပုံအတိုင်း အလိုက်သင့် လည်စေသော ကွန်မျူတေတာ (ဓာတ်ပြောင်းကွင်း)ဖြင့်၎င်း၊သို့မဟုတ်အခြားနည်းဖြင့်၎င်းပြောင်းလဲပေးသည်။

အီလက်ထရွန်နစ် ရက်တီဖိုင်းယားများတွင် ပလာနယ် အတွင်း၌ ဖြစ်စေ၊ သို့မဟုတ် ပြဒါးငွေ့ကဲ့သို့ အိုင်ယွန်အဖြစ်ကွဲသွားသော ဓာတ်ငွေ့အတွင်း၌ဖြစ်စေ အီလက်ထရွန်များကို လိုသလို ထိန်းအုပ်၍ စီးဖြတ်စေသည်။ အဆိုပါ အီလက်ထရွန်တို့၌ လျှပ်စစ်ဓာတ်ကို တဖက်သတ် စီးစေနိုင်သော သတ္တိ ရှိလေသည်။

မာကျူရီအပ် ရက်တီဖိုင်းယား (ပြဒါးမီးစွယ်ရက်တီဖိုင်းယား) တွင် ပလာနယ် ပြုလုပ်ထားသော ဖန်လုံးတလုံး၊ သို့မဟုတ် သံမဏိကန်တခု ရှိသည်။ ယင်းတို့တွင် နှစ်ခု၊ သို့မဟုတ် နှစ်ခုထက် ပိုသော အဖိုစွန်းများ ထားရှိ၍ အမစွန်းအဖြစ် ပြဒါးက ဆောင်ရွက်ပေးသည်။ ပြန်လှန် လျှပ်စီးကို စီးဖြတ်စေသောအခါ အဖိုနှင့် အမစွန်းများ အကြား၌ မီးစွယ် တောက်လာသည်။ မီးစွယ်ကြောင့် ပြဒါးသည် အငွေ့ဖြစ်လာပြီးနောက် ထိုပြဒါးငွေ့က လျှပ်စစ်ဓာတ်ကို တဖက်သတ်တည်း စီးအောင် ပြုလုပ် ဆောင်ရွက်ပေးလေသည်။

ဗက်ထရီ (လျှပ်စစ်ဓာတ်အိုး) အားသွင်းသည့် ကိစ္စကဲ့သို့သော အထွေထွေ ကိစ္စများ၌ အသုံးများကြသော ရက်တီဖိုင်းယားမျိုးကား မက်တဲ ရက်တီဖိုင်းယား (သတ္တုရက်တီဖိုင်းယား) ဖြစ်သည်။ ဤရက်တီဖိုင်းယားတွင် ကော့ပါးအောက်ဆိုက်ကို ဖြစ်စေ၊ ဆီလီနီယမ်ကို ဖြစ်စေ သတ္တုပြား တခုပေါ်၌ ပါးလွှာစွာ ဖုံးအုပ်ထားသည်။ ထိုကဲ့သို့

စိမ်ထားသော သတ္တုမျိုးတွင် လျှပ်စစ်ဓာတ်ကို တဖက်သတ် စီးစေနိုင်သည့် သတ္တိ ရှိ၏။ သို့သော် ဓာတ်အားနည်းသော နေရာများ၌သာလျှင် ဤရက်တီဖိုင်းယားမျိုးကို အသုံးပြု လေ့ ရှိကြပေသည်။

**ရက်ထည်။** ။ရက်ထည်လုပ်ခြင်း အတတ်သည် ရှေးအကျဆုံး အတတ်တခု ဖြစ်၏။ဘီစီ ၂၅၀၀ လောက်ကတည်းက အီဂျစ် လူမျိုးတို့သည် ဝါခြည်နှင့် ပိုက်ဆံခြည်တို့မှ အထည်များအဖြစ် ရက်လုပ်ခဲ့ကြ၏။ အကွက်များ ပန်းများ ပါသော ပိုက်ဆံခြည်ထည်တို့ကိုမူ ဘီစီ ၁၅၀၀ လောက်တွင်မှ အီဂျစ် နိုင်ငံ၌ ရက်လုပ်ခဲ့ကြလေသည်။ ဘီစီ ၄၀၀၊ ၅၀၀ လောက်တွင် ပိုက်ဆံခြည်၊ ဝါခြည်၊သို့မဟုတ် သိုးမွေးနှင့်ရက်လုပ်သည့် အထည်များတွင် လှိုင်းပုံ အတွန့်များ ပါရှိသည်။ ထိုအထည်တို့၏ အကွက်အဆင်များကို အချို့တွင် ရက်ကတည်းက အကွက်ဖော်ရက်၍ အချို့တွင် နောက်မှ ပန်းထိုး အကွက်ဖော်ပေးကြလေသည်။

ဘီစီ ၂၇၀၀ လောက်ကတည်းက တရုပ်လူမျိုးတို့သည် ပိုးခြည်ကို တွေ့ရှိခဲ့၍ ပိုးထည်များကို ရက်လုပ်နိုင်ခဲ့ကြလေသည်။ သို့ရာတွင် သူတို့၏ တဦးတည်းပိုင် အဖြစ် လျှို့ဝှက်ထားမှုကြောင့် နှစ်ပေါင်းများစွာ ကြာသည့်တိုင်အောင်ပင် ဥရောပ နိုင်ငံများတွင် ပိုးထည်များကို လူအများ အသုံးမပြုနိုင်ဘဲ ရှိခဲ့လေသည်။ ရောမ အင်ပိုင်ယာ ကေရာဇ်မင်းအချို့တို့သာလျှင် တရုပ်နိုင်ငံမှ တင်ဆောင်လာသည့် ပိုးထည်တို့ကို တော်သုံးအဖြစ် အသားပေးကာ ဝတ်ဆင်နိုင်ကြသည်ဟု အမှတ်အသားများ ရှိလေသည်။

အေဒီ ငါးရာစုနှစ်တွင် အီဂျစ်လူမျိုး ခရစ်ယန် အယူဝါဒီတို့သည် ပိုက်ဆံခြည်ကြမ်းဖြင့် ရက်ထားသော ပြောင်ချောထည်များ၊ ကျောက်မျက် ရတနာတို့ဖြင့် မွမ်းမံ ခြယ်လှယ်ထားသော အထည်များကို ဝတ်ရုံအဖြစ် ဝတ်ဆင်ကြလေသည်။ ထိုအချိန်လောက်တွင် တောင်အမေရိကတိုက် ပီးရူးနိုင်ငံ တိုင်းရင်းသားတို့ ရက်လုပ်သည့် အထည်များသည် ထိုအထည်တို့နှင့် အကွက်အဆင်သာမက အသွေးအရောင်ပါ တူညီကြသည်ဟု ဆိုလေသည်။ ဤသို့ တူညီခြင်းကြောင့် ဤအရပ်မှ ထိုအရပ်သို့ လူများ ရွှေ့ပြောင်းသွားလာခဲ့ကြသည်ဟု မဆိုနိုင်ချေ။ မည်မျှ ဝေးကွာသည့် အရပ်၌ နေကြသည်ဖြစ်စေ တချိန်တည်းလောက်တွင် တမျိုးတစားတည်းသော ပတ်ဝန်းကျင်ထဲမှ ထွက်ပေါ်လာသည့် ပစ္စည်းချင်းသည် ဆင်ဆင်တူကြမည်မှာ ဓမ္မတာပင် ဖြစ်လေသည်။

ပါးရှားနိုင်ငံ၌ ဆတ်ဆန်းနစ် ဘုရင်များ အုပ်စိုးစဉ်အခါက ရက်ထည် လုပ်ငန်းသည် အကြီးအကျယ် တိုးတက်ခဲ့လေသည်။ခုနစ်ရာစုနှစ်အထိပါးရှင်းတို့သည် တရုပ်နိုင်ငံမှပိုးခြည်မှိုင်းများကို တဦးတည်းပိုင်အဖြစ် တင်ဆောင်ယူကြလေသည်။ သူတို့သည် ပိုးခြည် အခံတွင် ဖဲဖြင့် အကွက်ဖော် ရက်ထားသော ဖဲပွင့်ထိုး အထည်များကို ရက်လုပ်ကြသည်။ ထိုပြင် ပိုးခြည်အခံတွင် ခြည်များများ ပိုး၍ ရက်ထားသော ဗရိုကိတ်ခေါ် ပန်းကွက်ဖော် အထည်များကိုလည်း ရက်လုပ်ကြလေသည်။

ပန်းကွက်များ ဖော်ထားသော ပိုးထည်များသည် အလွန်လှပ၍ အဖိုး အလွန် ထိုက်တန်ခဲ့ကြပေသည်။ ထိုပိုးထည်တို့ကို လူအများအပြား ဝယ်ယူ သုံးစွဲခဲ့ကြရာ ရက်ကန်းသည်တို့လည်း အဆင်အကွက် အမျိုးမျိုး ထွင်၍ အထည်များကို လှပသည်ထက် လှပဆန်းကြယ်အောင် စီမံ ရက်လုပ်ခဲ့ကြလေသည်။

ထိုအချိန်က အဝိုင်းသင်္ကေတ အဆင်များ အလွန် ခေတ်စားခဲ့၍ အဝိုင်းသင်္ကေတထဲတွင် လူရုပ် တိရစ္ဆာန်ရုပ် စသည့် ပုံများကို ဖော်၍ရက်လုပ်ကြလေသည်။ ထိုပါးရှင်းပိုးများကို အရှေ့တိုင်း ကေရာဇ်မင်းများ စိုးစံရာ ကွန်စတန်တီနိုပယ် (ရှေးအခေါ် ဗိုင်ဇင်းရှမ်)သို့ အများဆုံး တင်ပို့ကြသည်။ ဗိုင်ဇင်းရှမ်မှကေရာဇ်မင်းတို့သည် ပိုးထည်ကို အလွန်နှစ်သက်ကြ၍ သူတို့၏ နေပြည်တော်တွင် ရက်ကန်းကျောင်းများကိုပင် ဖွင့်လှစ်ခဲ့ကြလေသည်။ ဗိုင်ဇင်းရှမ်ပိုးသည် အတော်ပင် ကျော်စောခဲ့ပေသည်။

ခုနစ်ရာစုနှစ် အတွင်း မွတ်စလင်တို့၏ နယ်ချဲ့အောင်မြင်မှုသည် အထည်အလိပ်တို့၏ ပန်းကွက်ဖော်ပုံစံတို့ကို အကြီးအကျယ် ပြောင်းလဲစေခဲ့၏။ မွတ်စလင် အယူအရ အဝတ်အထည်တို့၌ သတ္တဝါ ရုပ်ပုံများ မပါရသဖြင့် အထည်များပေါ်တွင် သတ္တဝါ ရုပ်ပုံများ ဖော်ခြင်းကို တားမြစ်ခဲ့သည်။ ထိုရုပ်ပုံများအစား ကိုရန်ကျမ်းစာပါ အာရပ် စကားလုံးများကိုသာ လှပစွာ ဖော်၍ရက်ကြသည်။ ၇၁၁ ခုနှစ်လောက်တွင် မွတ်စလင်တို့သည် စပိန်နိုင်ငံကို သိမ်းပိုက်ခဲ့ကြရာတွင် မွတ်စလင်တို့၏ အနုပညာနှင့် စပိန်တို့၏ အနုပညာများသည် ရောနှောကာ အစင်းအကွက်များ၊ အာရပ်စကားလုံးယောင်ယောင်များ၊ အရုပ်များ ပါဝင်သည့် အဆင်များ ပေါ်ပေါက်လာခဲ့လေသည်။ မွတ်စလင်တို့သည် စစ္စလီကျွန်းကိုလည်း အောင်မြင်ခဲ့ကြ၍ စစ္စလီကျွန်း၌လည်း သူတို့၏ အနုပညာများ လွှမ်းမိုးလာကြပြန်သည်။ မွတ်စလင်တို့အား နော်မန်တို့က ၁၀၆၀ ပြည့်နှစ်တွင် အောင်မြင်ခဲ့ပြီးသည့်နောက်မှ ရက်လုပ်သော ပိုးထည်တို့မှာပင် မွတ်စလင်တို့၏ အနုပညာ အငွေ့အသက် မကင်းသေးသည်ကို တွေ့ရလေသည်။

တဆဲ့သုံး ရာစုနှစ်တွင် စစ္စလီကျွန်းမှ ရက်ကန်းသည်တို့အား အသစ်တက်လာသော အစိုးရက နှင်ထုတ် ပစ်လိုက်သဖြင့် ထိုရက်ကန်းသည်တို့သည် ဣတလီ နိုင်ငံဖက်သို့ အနှံ့အပြားထွက်ပြေးတိမ်းရှောင်ခဲ့ကြရလေသည်။ ဤအချိန်မှာ

ဣတလီနိုင်ငံတွင် ပိုးထည်များ ပြန်လည်ဆန်းသစ်လာသော ခေတ်ဦး အချိန် ဖြစ်ပေသည်။ ဣတလီနိုင်ငံ၏ ရာသီဥတု မှာ ပိုးမွေးရန် အလွန် သင့်လျော်သည့် အလျောက် တ ဖြည်းဖြည်းနှင့် ဣတလီနိုင်ငံသည် ဥရောပတိုက်အတွက် ပိုး ထည် လုပ်ငန်း၏ ဗဟိုဌာန ဖြစ်လာခဲ့လေသည်။ ၁၂၊ ၁၃ ရာစုနှစ်များအတွင်းကပင် မြောက်ပိုင်းရှိ ဖလော်ရင့်၊ဗင်းနစ်၊ ဂျင်နိုအားမြို့များ၌ ရက်ကန်းရုံများ ဆောက်လုပ်ခဲ့ပြီး ဖြစ် သည်။ တောင်ပိုင်းရှိ လပ်ကာမြို့တွင် စစ္စလီကျွန်းမှ ပြေး လာသော ရက်ကန်းသည်တို့ စုဝေးလာခြင်းဖြင့် ပိုးထည် လုပ်ငန်းသည် တိုးတက်သည်ထက် တိုးတက်လာလေသည်။ ထိုမြို့မှ ထွက်သည့် ပိုးထည်တို့သည် ဥရောပတိုက် တဝှန်းလုံး တွင် အထူး ကျော်ကြားခဲ့လေသည်။

ဖလော်ရင့်မြို့ထွက် ဖဲပွင့်ထိုးပိတ်များ၊ ပန်းကွက်ဖော် အထည်များ၊ ရွှေခြည်ထိုး အထည်များ၊ ဖဲပြားထည်များ သည် အမြင်ဆန်း၍ အလွန် ကျက်သရေရှိကြပေသည်။ ဗင်း နစ်မြို့ထွက် အထည်တို့မှာ အရှေ့တိုင်းနှင့် အနောက်တိုင်း တို့၏ အနုပညာများကို ရောယှက်ကာ ပန်းကွက်များကို ရွှေခြည်ဖြင့် ထိုး၍ ဖော်ထားသော အထည်များ ဖြစ်ကြ သည်။ ရှေးအကျဆုံး အမြိတ်ပန်းများသည် ဘီစီ ၁၄၀၀ လောက်တွင် အီဂျစ်နိုင်ငံမှ စတင် ပေါ်ပေါက်ခဲ့၏။ အေဒီ ၁၃၊ ၁၄၊ ၁၅ ရာစုနှစ်တို့တွင် ပြင်သစ်နှင့်ဖလန်းဒါးနိုင်ငံထွက် ဂေါလလူမျိုးတို့၏ အမြိတ်ပန်းများသည် အယူဝါဒရေးနှင့် စပ်ဆိုင်သော ရုပ်ပုံများကို ထိုးထားသဖြင့် ဘုရား ဝတ် ကျောင်းများ၌ အထူးတလည် အသုံးပြုကြလေသည်။

အထက်၌ ဖော်ပြခဲ့သည်တို့မှာ ပိုးထည်များ အကြောင်း နှင့် အမြိတ်ပန်း ရက်လုပ်သည့် သိုးမွေး အကြောင်းတို့သာ ပါဝင်နေသဖြင့် ခြည်ထည်များ အကြောင်းကိုလည်း ဖော် ပြရန် လိုပေသေးသည်။ ခြည်ထည်များကို ရှေးက အီဂျစ်၊ ဂရိ နှင့် ရောမနိုင်ငံတို့တွင် သုံးစွဲခဲ့ကြ၏။ နောင်အခါတွင် ခြည်ထည်များကို ခေတ်မမှီဟု ယူဆကြပြီးလျှင် ပိုးထည်၊ သိုးမွေးထည်များကိုသာ အမြတ်တနိုး ဝတ်ဆင်အသုံးပြုလာ ခဲ့ကြသည်။ သို့သော် အိန္ဒိယနိုင်ငံတွင်မူ ခြည်ထည်ကို စွဲမြဲစွာ ယနေ့ထက်တိုင် သုံးစွဲလျက် ရှိပေသည်။ ခြည်ထည်တို့မှာ များသောအားဖြင့် ပွင့်ရိုက်ထည်များ ဖြစ်၏။ အဖြူခံတွင် ပန်းပွင့်၊ ပန်းရွက် စသည်တို့၏ ပုံစံများကို ရိုက်နှိပ်ထားသော အထည်တို့ကို သရက်ထည်ဟု ခေါ်သည်။ ပွင့်ရိုက်ခြည်ထည် မှာ မြန်မာမိန်းမများ ဝတ်ဆင်ကြသည့် လုံချည်များပင် ဖြစ်သည်။ အရှေ့တိုင်းအရပ်၌ ဂါဝန်ဝတ် အမျိုးသမီးတို့ သည်လည်း ပွင့်ရိုက် ခြည်ထည်များကို ဂါဝန်ချုပ်လုပ် ဝတ် ဆင်လေ့ ရှိကြလေသည်။

တဆဲ့ခြောက်နှင့် တဆဲ့ခုနစ်ရာစုနှစ်တို့တွင် ပြင်သစ်နိုင်ငံ၌ အထည်စက်ရုံများ တည်ဆောက်လာသောအခါ ဣတလီ ရက်ထည်များ၏ နာမည်သည် မှေးမှိန်သွားလေသည်။ ၁၇ ရာစုနှစ်တွင် ပြင်သစ်နိုင်ငံ၌ နန့်ပြန်တမ်းကို ရုပ်သိမ်း လိုက် ခြင်းကြောင့် ပြင်သစ်(ဟျူးဂျနိုး) ရက်ကန်းသည်တို့သည် အင်္ဂလန်ပြည်ဖက်သို့ ကူးပြောင်းသွားကြလေသည်။ ထိုအခါ အင်္ဂလန်ပြည်၏ အထည်ရက် လုပ်ငန်းသည် အင်အားတောင့် တင်းသည်ထက် တောင့်တင်းလာလေသည်။ အင်္ဂလန်ပြည် တွင် ရာသီဥတုကြောင့် ပိုးများကို မမွေးမြူနိုင်သော်လည်း ရက်ကန်းလုပ်ငန်းကိုမူ စွဲမြဲစွာ လုပ်ကိုင်ခဲ့လေသည်။

တဆဲ့ရှစ်ရာစုနှစ်တွင် သိုးမွေး၊ ပိုး၊ ခြည်တို့ကို ရော၍ ရက် လုပ်ထားသည့် တာဖက်တာမှာ အလွန်ခေတ်စားခဲ့၏။ ထို အချိန်မှာ အရှေ့အိန္ဒိယ ကုမ္ပဏီသည် အင်္ဂလန်ပြည်သို့ အိန္ဒိယ ပြည်မှ လှပကောင်းမွန်သည့် ခြည်ထည်တို့ကို တင်သွင်းချိန် ဖြစ်သည်။ အင်္ဂလိပ်တို့သည် အမှန်အားဖြင့် အိန္ဒိယနိုင်ငံမှ အထည်အမျိုးမျိုး၏ ရက်လုပ်ပုံ အခြေခံကို ရရှိခဲ့လေသည်။ သရက်ထည်၊ ဖဲသရက်ထည်၊ ပဒုမ္မာ စသည့် အမျိုးကောင်း ခြည်ထည်တို့မှာ အိန္ဒိယမှ စတင် ရက်လုပ်သည့် အထည်များ ဖြစ်ပေသည်။ ၁၈ ရာစုနှစ် ကုန်ဆုံးချိန်နီးလောက်တွင် အပွင့် များ၊ အရုပ်များအစား အစင်းများကို ရက်လုပ်ထားသော အထည်များ ပေါ်ပေါက်နေလေပြီ။ ယခုအခါတွင် ခြည် ထည်စက်တို့သည် ကမ္ဘာ အနှံ့အပြား၌ အလွန်တိုးတက် လျက် ရှိကြပေသည်။

တိုးတက်နေသည့် သိပ္ပံပညာနည်းဖြင့် ရက်ထည် အတု များကို ပြုလုပ်၍ ဖြစ်မြောက်ပေပြီ။ ရက်ထည်အတု ဆို သော်လည်း အချို့ လူများက အစစ်ထက်ပင် နှစ်သက်ကြ ပေသည်။ နိုင်လွန်၊ ရေယွန်၊ လန်နီတယ်တို့မှာ ပိုးတု၊ သိုး မွေးတုများ ဖြစ်ကြလေသည်။

မြန်မာနိုင်ငံ၌လည်း လက်ရက်ကန်း စက်ရက်ကန်းများ ဖြင့် ခြည်ထည်နှင့် ပိုးထည်များကို ရက်လုပ်လျက် ရှိကြ လေသည်။သို့သော်ပိုးခင်နှင့်ခြည်ခင်များကို ပြည်တွင်းထွက် နှင့် မလုံလောက်၍ နိုင်ငံခြားမှ မှာယူ တင်သွင်း ရက်လုပ်ရ ပေသည်။

**ရက်ဖဲ့, ဆာ တောမတ် (ခရစ် ၁၇၈၁ – ၁၈၂၆)။** ။ ဆာတောမတ် စတမ်းဖို့ ရက်ဖဲ့သည် ဗြိတိသျှ အင်ပိုင်ယာ အတွက် အလွန်အရေးပါ အရာရောက်သော မလ္လာယုကျွန်း ဆွယ်တောင်ဖက်စွန်းရှိ စင်္ကာပူမြို့ကိုတည်ခဲ့သူ ဖြစ်သည်။ ၁၇၈၁ ခုနှစ်၊ ဇူလိုင်လ ၅ ရက်နေ့တွင် ဂျမေကာကျွန်း အနီး ကုန်သင်္ဘောတစင်းပေါ်၌ ဖွားမြင်သည်။ ရက်ဖဲ့သည် ဦးစွာ၌ အရှေ့အိန္ဒိယကုမ္ပဏီတွင် စာရေးအဖြစ် အမှုထမ်း ၏။ ၁၈၀၅ ခုနှစ်တွင် ပီနန်အတွက် ပဋမဦးဆုံး ဘုရင်ခံထံ၌ အမှုထမ်းခဲ့သည်။ ထိုနောက် ဂျားဗားကျွန်းတွင် ဒုတိယ ဘုရင်ခံအဖြစ် ခန့်အပ်ခြင်း ခံရသည်။

ထိုစဉ်အခါက စက်ာပူမှာ တံငါရွာကလေးမျှသာ ဖြစ်သည်။ ရက်ဖဲသည် ဗြိတိသျှတို့၏ ကုန်စည် ကူးသန်းရေးအတွက် ၁၈၁၉ ခုနှစ် ဇန္နဝါရီလတွင် စက်ာပူမြို့ကို အခြေစိုက် တည်ခဲ့သည်။ သို့ဖြင့် စက်ာပူမြို့သည် ဗြိတိသျှ အင်ပိုင်ယာအတွက် "အရှေ့ပိုင်း ဂျီဗရော်တား ရေကြောင်းခံတပ်မြို့" ဖြစ်လာလေသည်။ (စက်ာပူ — ရှု။)

ယခုအခါ စက်ာပူမြို့တွင် ရက်ဖဲ အမည်ဖြင့် ကောလိပ်ကျောင်း ပြတိုက်နှင့် သုတေသန ပိဋကတ်တိုက်များ ရှိသည်။ ဆာ တောမတ် ရက်ဖဲသည် လန်ဒန်မြို့တွင် ပါဏဗေဒ အသင်းကို စတင် တည်ထောင်ခဲ့သည်။ ၁၈၂၆ ခုနှစ် ဇူလိုင်လ ၅ ရက်နေ့တွင် ကွယ်လွန်လေသည်။

**ရက်ဖီအယ် စန္တီ ( ခရစ် ၁၄၈၃ – ၁၅၂၀ )။** ။ရက်ဖီအယ် စန္တီသည် ဥဘာသစ် အရေးပုံ အတွင်း ဣတလီနိုင်ငံ၌ အထင်ရှားဆုံးသော ပန်းချီဆရာနှင့် ဗိသုကာကျော် တဦး ဖြစ်သည်။ "ဒိဗိုင်းရက်ဖီအယ်"ဟူ၍၎င်း၊ "ဣတာလျံပန်းချီမင်းသား" ဟူ၍၎င်း သူ့အား ခေါ်လေ့ရှိ၏။ အနုပညာ အကဲဖြတ်သမားအချို့က သူရေးဆွဲခဲ့သော စစ္စတင်းမဒေါနားခေါ် ပန်းချီကားသည် ကမ္ဘာပေါ်တွင် အကောင်းဆုံး ပန်းချီကား ဖြစ်သည်ဟု ယူဆကြသည်။ ရက်ဖီအယ်၏ အနုပညာ လက်ရာသည် ဣတလီနိုင်ငံ ဥဘာသစ် အရေးပုံ၏ သွင်ပြင်လက္ခဏာတို့ကို သရုပ်ပေါ်စေလေသည်။

ရက်ဖီအယ်သည် ဣတလီနိုင်ငံ အာဗီနိုမြို့၌ ၁၄၈၃ ခုနှစ်တွင် မွေးဖွားခဲ့၏။ ထင်ရှားသော ပန်းချီဆရာ ဂျီးဗန္နီ စန္တီ၏သား ဖြစ်သည်။ ပုံဆွဲပညာ ရှေးဦးသင်ခန်းစာကို ဖခင်ထံတွင် လေ့လာခဲ့၍ အသက် ၁၇ နှစ် အရွယ်ရောက်သော် နာမည်ကျော် အမ္ဗရီယန်ဂိုဏ်း ပန်းချီဆရာ ပေးရူးဂျီးနိုး၏ တပည့်ခံခဲ့လေသည်။ ပေးရူးဂျီးနိုး ဆိုသူမှာ အယူဝါဒဆိုင်ရာ ပန်းချီကားများကိုသာ ရေးဆွဲခဲ့သူ ဖြစ်၏။ သို့ရာတွင် သူသည် ပန်းချီကား နောက်ခံရှုခင်းများကို အထူး အပင်ပန်းခံ၍ ရေးဆွဲလေ့ရှိသဖြင့် ရှုမျှော်ခင်း ပန်းချီပညာသစ် တရပ်ကို တိုးတက်လာစေရန် တနည်းအားဖြင့် ကူညီခဲ့လေသည်။

ရက်ဖီအယ်သည် ပန်းချီကားများ စတင် ရေးဆွဲခဲ့စဉ်က ဆရာ၏ လက်ရာ နည်းနာများကို အတုယူ ရေးဆွဲခဲ့ရာ မကြာမီ ဆရာထက် လက်စွမ်းထက်လာလေတော့သည်။ ထိုစဉ်က ရက်ဖီအယ်သည် "အပျိုစင်၏ လက်ထပ်ပွဲ"၊ "စိန်ဂျော့နှင့် နဂါးကြီး"၊ "စိန်မိုက်ကယ်" စသော ပန်းချီကားများကို ရေးဆွဲခဲ့သည်။

၁၅၀၄ ခုနှစ်တွင် ရက်ဖီအယ်သည် ဆရာ့ထံမှ ထွက်ခွာခဲ့၍ ဖလော်ရင့်မြို့တွင် ပန်းချီပညာ ဆက်လက် ဆည်းပူးလေ့လာခဲ့၏။ ဤမြို့တော်ကြီးတွင် သူသည် ပန်းချီပညာ ဗဟုသုတ ယခင်ကထက် ကြွယ်ဝခဲ့လေသည်။ဆရာဖြစ်သူ ပေးရူးဂျီးနိုးထံမှ တတ်မြောက်ခဲ့သော ဟန်ကို ပြင်ဆင်၍ ဖလော်ရင့်ဂိုဏ်း၏ လက်ရာများကို အတုယူကာ ရေးဆွဲခဲ့၏။

သူသည် မိုက်ကယ်အန်ဂျလို၊ လီယိုနာဒိုဒါဗင်ချီ၊ ဗာတိုလိုမီယို စသော ပန်းချီကျော်ကြီးများနှင့်လည်း သိကျွမ်းခဲ့၏။ ဖလော်ရင့်မြို့တွင် ရှိနေစဉ် သူသည် ဒိုနာတယ်လို၏ ပန်းပုလက်ရာများနှင့် လီယိုနာဒို၏ ပန်းချီလက်ရာများကို အတုယူကာ ပန်းချီ ရေးဆွဲခြင်းဖြင့် အချိန်ကုန်စေခဲ့လေသည်။ သူ တီထွင် ရေးသားခဲ့သည်မှာ မယ်တော်မာရီ၏ပုံများသာ ဖြစ်၏။

ရက်ဖီအယ်သည် လက်ရာ အကောင်းဆုံး ပန်းချီကားများကိုရောမမြို့တွင်ရေးဆွဲခဲ့၏။ ၁၅၀၈ ခုနှစ်တွင် ပုပ်ရဟန်းမင်းကြီး ဒုတိယ ဂျူးလယပ်က ဗက်တီကင်နန်းမြို့ကို တန်ဆာဆင်ခိုင်းသဖြင့် လေးနှစ်တိုင်တိုင်လုပ်ကိုင်ခဲ့ရလေသည်။ ရက်ဖီအယ်သည် နံရံပန်းချီကားများဖြင့် ခန်းမငယ် လေးဆောင်ကို လှပသော ခန်းမကြီးများ အဖြစ်သို့ ပုံပြောင်းခဲ့သည်။ ထိုပြင် ရှေးဂရိ အဆောက်အအုံပျက်များကို လေ့လာ၍ "အက်သင်းကျောင်းတော်ကြီး" နှင့် "ပါနက်ဆပ်" ခေါ် ပန်းချီကားများကို ရှေးဟန်အတိုင်း ရေးဆွဲခဲ့လေသည်။ ယင်း နံရံ ပန်းချီကားများကို ပဌမခန်းဆောင်တွင်



ဥဘာသစ် အရေးပုံအတွင်း ဣတလီနိုင်ငံ၌ အထင်ရှားဆုံးသော ပန်းချီကျော် တဦးဖြစ်သူ ရက်ဖီအယ် စန္တီ



ရက်ဖီအယ်စန္တီ၏ ကမ္ဘာကျော် မဒေါနား ပန်းချီကား

ရေးဆွဲထား၏။ ဒုတိယ ခန်းဆောင်ရှိ နံရံပန်းချီကားများကား ခရစ်ယန် အသင်းတော်သည် ရန်သူများအား အောင်နိုင်ပုံကို သရုပ်ဖော်ထား၍ အခြား အခန်းများရှိ နံရံပန်းချီကားများကမူ နိုင်ငံသမိုင်း ဆိုင်ရာ အချက်အလက်များကို သရုပ်ဖော်ထားလေသည်။

ထိုအချိန်လောက်တွင်ကား ရက်ဖီအယ်ကို သူ့ခေတ်၏ ရှေ့ဆောင် ပန်းချီဆရာတယောက်ဟု အသိအမှတ်ပြုနေကြပြီဖြစ်၍ ရောမမြို့ရှိ တန်ခိုးအာဏာ အရှိဆုံး ပုဂ္ဂိုလ်ကြီးများသည် ရက်ဖီအယ်အား သူ့ထက်ငါ ဦးအောင် မိတ်ဆွေဖွဲ့လာကြသည်။ ထိုပြင် ပန်းချီဆွဲရန် အလုပ်လည်း များစွာ လက်ခံရလွန်းသဖြင့် ကိုယ်တိုင် မရေးဆွဲနိုင်တော့ဘဲ ပုံကြမ်းကိုသာ ဆွဲ၍ တပည့်များကို အချောကိုင်ခိုင်းရလေသည်။

၁၅၁၄ ခုနှစ်တွင် ပုပ်ရဟန်းမင်းကြီး ဒသမလီယိုသည် ရက်ဖီအယ်အား ရောမမြို့ရှိ စိန့်ပီတာ ဘုရားရှိခိုးကျောင်း၏ ဗိသုကာချုပ်ကြီးအဖြစ် ခန့်ထားခဲ့၏။ သို့သော်လည်း သူ၏ ပုံစံများကို လုံးလုံးလျားလျားလိုပင် အသုံးမပြုခဲ့ပေ။ ဗိသုကာအဖြစ်ဖြင့် ရက်ဖီအယ်သည် ဖလော်ရင့်မြို့ရှိ ပန်ဒိုးလဖီနီနန်းတော်ပုံစံ ရေးဆွဲရာတွင် ထင်ရှား၏။

ရက်ဖီအယ်သည် ဘဝနိဂုံး ဆုံးခါနီးတွင် လက်ရာမြောက် ပန်းချီကားကြီး နှစ်ခုကို ရေးဆွဲခဲ့သည်။ ယင်းတို့မှာ "လက်ဝါးကပ်တိုင် ထမ်းဆောင်နေသော ခရစ်တော်" ပန်းချီကားနှင့် "အဆင်းသဏ္ဌာန်ပြောင်းခြင်း" ခေါ် ပန်းချီကားတို့ ဖြစ်သည်။ အဆင်းသဏ္ဌာန်ပြောင်းခြင်း ကား အဆုံးမသတ်နိုင်မီ သူသည် ၁၅၂၀ ပြည့်နှစ်တွင် ကွယ်လွန်ခဲ့ရာ သူ၏ အသုဘ အခမ်းအနားတွင် ဆေးပင် မခြောက်သေးသော ထိုပန်းချီကားကို သင်္ချိုင်းအထိ ရှေ့ဆုံးမှ ယူဆောင်သွားခဲ့လေသည်။

**ရက်ဗီလေး့ဖရန်ဆွာ** (ခရစ် ၁၄၉၀ ခန့် – ၁၅၅၃)။ ။ ဖရန်ဆွာ ရက်ဗီလေးသည် ၁၅၀၀ ပြည့်နှစ်လွန်နှစ်များ အတွင်းက ထင်ရှားသော ပြင်သစ် စာရေးဆရာတဦး ဖြစ်သည်။ ပြင်သစ်နိုင်ငံ တူးရိန်းခရိုင်၊ ရှိနွန်မြို့၌ ဖွားမြင်သည်။ ရက်ဗီလေး မွေးဖွားသော ခုနှစ်ကိုသော်၎င်း၊ ငယ်စဉ်ဘဝကိုသော်၎င်း အတိအကျ မသိရချေ။ ရက်ဗီလေးသည် ထိုခေတ်က မိမိပတ်ဝန်းကျင်ရှိ လူများ ဆိုးယုတ် မိုက်မဲပုံကို၎င်း၊ ခရစ်ယန် အသင်းတော်၏ မဖွယ်မရာ အတွင်းရေးများ



သရော်စာပေ ရေးရာတွင် ဟာသရသ ကောင်းစွာပေါ်အောင် ရေးစွမ်းနိုင်သူ ပြင်သစ်စာရေးဆရာ ရက်ဗီလေး

ကို၎င်း ဖွင့်ချ ထုတ်ဖော်၍ ရယ်စရာဖြစ်အောင် ရေးသားခဲ့လေသည်။ သူသည် ဟာသရသကို ကောင်းစွာပေါ်အောင် ရေးစွမ်းနိုင်သူ ဖြစ်၏။

ရက်ဗီလေးသည် ငယ်စဉ်က ခရစ်ယန် ဘုန်းကြီးကျောင်း၌ ပညာသင်ကြားခဲ့ရ၍ ကြီးပြင်းလာသောအခါ ဖရန်စစ္စကန်ဂိုဏ်းဝင် ဘုန်းကြီး ဖြစ်လာ၏။ ဘုန်းကြီးဘဝတွင် ရောမ၊ ဂရိ၊ ဟီဗြူး၊ အာရဗစ် စာပေများကို ဝါသနာ အ

လျောက် ကြိုးစားလေ့လာခဲ့၏။ သို့သော် အခြားဘုန်းကြီးများနှင့် မသင့်မတင့် ဖြစ်၍ နောက်ဆုံးတွင် ထိုဂိုဏ်းမှ ထွက်လိုက်ရ၏။ သို့ထွက်လိုက်ရသော်လည်း အခြားဂိုဏ်းတခုဖြစ်သော ဗင်နီဒစ်တင်းဂိုဏ်းသို့ ဝင်၍ ဘုန်းကြီး လုပ်ပြန်၏။ ၁၅၃၀ ပြည့်နှစ်တွင် ဆေးပညာကိုသင်ကြား၍ ခုနစ်နှစ်ကြာသောအခါ ဆရာဝန်ဘွဲ့ကို ရလေသည်။

ထိုစဉ်က ပြင်သစ်နိုင်ငံရှိ ခရစ်ယန် အယူဝါဒ ဂိုဏ်းဂဏများမှာ ဗဟုသုတနည်းပါး မသိနားမလည်ကြ၍ သဘောထား သိမ်ဖျင်းကြ၏။ အမြင် ကျဉ်းမြောင်းကြသဖြင့် အနိုင်ကျင့်ကာ ချုပ်ချယ်တတ်ကြလေသည်။ ထိုကဲ့သို့သော စံနစ်ကို ရက်ဗိလေးသည် လက်မခံနိုင်ချေ။ ထိုကြောင့် ထိုခေတ်အခါက ဘုန်းကြီးများ အကြောင်း၊ ဂိုဏ်းဂဏများ အကြောင်းကို တပ်အပ်သေချာသိသူ ဖြစ်ရကား အတွင်းရေးများကို သိသလောက် ဖွင့်ချ ရေးသားခဲ့လေသည်။ ရက်ဗိလေးသည် ထိုဆိုးရွားသော အတွင်းရေးများကို ဖွင့်ချရေးသားရာ၌ ရှုတ်ချသော အနေဖြင့်လည်း မရေး၊ ကဲ့ရဲ့ သရော်သည့် သဘောနှင့်လည်း မရေးဘဲ ရယ်စရာ အဖြစ်နှင့်သာ ရေးခဲ့လေသည်။ ရက်ဗိလေး၏ စာအုပ်များတွင် အထင်ရှားဆုံးမှာ "ဂါဂန်းတူးအားနှင့် ပန်တာဂရူးယယ်"ဖြစ်သည်။

ထိုစာအုပ်သည် ဂါဂန်းတူးအား ခေါ် အသားစားကြူးသည့် ဘီလူးကြီးနှင့် ယင်း၏သား သေသောက်ကြူးယစ်ထုပ် ပန်တာဂရူးယယ်တို့အကြောင်း ရေးသားထားသော စာအုပ်ဖြစ်သည်။ရက်ဗိလေးသည် ခေတ်ပညာရေး၊ နိုင်ငံရေး၊ အယူဝါဒအရေးတို့ကို အခြေပြု၍ ရယ်ဖွယ်ရာအဖြစ် ဖန်တီးကာ ရေးသားထား၏။

ရက်ဗိလေးသည် အယူဝါဒတွင် အယူသည်းမှု အချုပ် အချယ်မှ လွတ်မြောက်ကာ လူ့လောက လူ့သဘာဝကိုလေ့လာသော ပညာရှိများထဲတွင် တဦးအပါအဝင် ဖြစ်လေသည်။

ရက်ဗိလေးသည် လူတန်းစား အမျိုးမျိုးတို့နှင့် ပေါင်းသင်း ဆက်ဆံဘူးသူ ဖြစ်သောကြောင့် သူရေးခဲ့သော စာပေများသည် လူ့ဘဝနှင့် နီးစပ်လေသည်။

ရက်ဗိလေးသည် ဆရာဝန်ဘွဲ့ရပြီးနောက် လီယွန်မြို့ကုသိုလ်ဖြစ် ဆေးရုံ၌ ၁၅၃၉ ခုနှစ်အထိ ဆရာဝန်ကြီးအဖြစ် လုပ်ကိုင်ခဲ့၏။ ထိုနောက် ပြင်သစ်နိုင်ငံ အနှံ့အပြား သွားလာ လှည့်လည်ခဲ့၍ မက်ဇမြို့၌ အတန်ကြာ နေထိုင်ယင်း ထိုမြို့၏ ဆရာဝန် အဖြစ်လည်း လုပ်ကိုင်ခဲ့လေသည်။

ရက်ဗိလေး၏ စာအုပ်များကို ဆော်ဗန်း တက္ကသိုလ်မှ တားမြစ် ပိတ်ပင်ခဲ့၍ ခရစ်ယန် အသင်းတော်ကလည်း ဝေဖန် ရှုတ်ချခဲ့၏။ မိတ်ဆွေဖြစ်သူ ကာဒင်နယ် ဗယ်လေးက အားပေး ကူညီသောကြောင့်သာလျှင် သူ၏ စာအုပ်များကို ပုံနှိပ်ထုတ်ဝေနိုင်ခဲ့ခြင်း ဖြစ်လေသည်။

ရက်ဗိလေးသည် ၁၅၅၃ ခုနှစ်တွင် ကွယ်လွန်လေသည်။

**ရက်ရာဇာ**။ ။မြန်မာလူမျိုးတို့တွင် "ရှေးထုံးကိုလည်း မပယ်နှင့်၊ ဈေးသုံးကိုလည်း မကြွယ်နှင့်"ဟူသော ဆောင်ပုဒ်ကို လက်ကိုင်ပြု၍ အများအမှန်ကို မဆင်ခြင် မတိုင်းဆဘဲ၊ ရှေးအယူအဆများကို ယနေ့တိုင် တသွေမတိမ်း လက်ခံကျင့်သုံးသူ အများအပြား ရှိသေးသည်။ မြတ်စွာဘုရားသခင်ကပင် မိမိ၏ တရားများကို ဆင်ခြင်တိုင်းဆပြီးလျှင် အယုံအကြည်ရှိသောအခါမှသာ ကျင့်သုံးရန် ဟောကြားခဲ့သော်လည်း အယူသည်းမြဲ သည်းသူများ ရှိပေသေးသည်။ အယူသည်းသူများသည် စာအုပ်များ၊ ပက္ခဒိန်များတွင် ဖော်ပြသည့် ရက်ရာဇာ၊ ပြဿဒါး စသော နေ့များကို ယုံကြည်အားကိုးပြု၍ အများပင် အသုံးပြုကြ၏။

ဘုရားအလို-ရက်ရာဇာ –"ကောင်းသောကိုယ်အမှု၊ နှုတ်အမှု၊ စိတ်အမှု ပြုလုပ် ပြောဆို ကြံစည်သူတို့ အဖို့မှာ နေ့စဉ် နေ့ကောင်း ရက်သာ ရက်ရာဇာဖြစ်၏" ဟု မြန်မာ့အလင်း ပက္ခဒိန်တွင် ဖော်ပြထားလေသည်။

သို့သော်လည်း အယူသည်းသူများသည် မိမိတို့၏ လုပ်ငန်းကိစ္စ အဝဝတို့နှင့်တကွ ခရီးသွားမှု၊ အိမ်ဆောက်မှု၊ မင်္ဂလာပြုမှု စသည်များကို နေ့ကောင်း နေ့မြတ် ရက်များတွင် ပြုလုပ်လိုသောအခါ ရက်ရာဇာနေ့များ၌ ပြုလုပ်ကြ၏။ ပက္ခဒိန်များတွင် ရက်ရာဇာများကို ဖော်ပြထားကြသော်လည်း တခုနှင့်တခု မတူညီကြချေ။ ဤရက်ရာဇာနေ့များသည် လက်ဆန်းနည်းဖြစ်၍ နက္ခတ်ပညာ တွက်နည်းဖြင့် နေ့ကောင်း ရက်သာများ မရွေးချယ်တတ်သေးမီအခါကာလ၌ အသုံးပြုကြသော နည်းသာ ဖြစ်ချေမည်။ အမှန်စင်စစ် ရက်ကောင်း၊ ရက်ဆိုး ရွေးနည်းအတွက် နက္ခတ်ပညာ တွက်နည်းသာလျှင် ယခုခေတ်နှင့် လျော်ညီ၏။ ယခုအသုံးပြုသော ရက်ရာဇာ နေ့ဖြင့် ရက်ကောင်းရက်သာရွေးနည်းမှာ အခြေအမြစ် မရှိသည့်အပြင်၊ ပက္ခဒိန်များကို တခုနှင့်တခု နှိုင်းယှဉ်ကြည့်ပါက ရက်ရာဇာနေ့ အမျိုးမျိုးဖြစ်နေသည်ကို တွေ့ရ၏။ ရှေးအခါ၌ စာပေဖြင့် မှတ်တမ်းထားခဲ့နိုင်စွမ်း မရှိသေး၍ နှုတ်တိုက် မှတ်သားခဲ့ရပြီးလျှင် သက်ကြီးများထံမှ သက်ငယ်များက တဆင့်ပြီးတဆင့် ခံယူမှတ်သား ခဲ့ရသောကြောင့် မူအမျိုးမျိုး ဖြစ်နေခြင်း ဖြစ်သည်။ အသံနှင့် လေ့လာ မှတ်သားမှုကြောင့်လည်း အသံများ လွဲမှားခဲ့သဖြင့် နေ့များသည်လည်း မှားမည်မှာ မလွဲပေ။

အချို့ ဆရာများသည် ရက်ရာဇာနေ့များကို လင်္ကာဖြင့် ဖော်ပြထားသည်။ သို့သော်လည်း လင်္ကာတခုနှင့်တခု မတူညီသည်မှာ အထက် ဖော်ပြပါ အကြောင်းအရ အသံများ လွဲမှားမှုကြောင့် ဖြစ်၏။

အချို့လင်္ကာ၌။ ။"တန်ခူး သာလှ၊ ထွန်းဗ ကဆုန်၊ နယုန် ညွန့်စ၊ အောင်လှ ဝါဆို၊ သာလို ဝါခေါင်၊

မြတောင် တော်သလင်း၊ သိတင်းကျွတ်ဆီ၊ ဩလီ တန်ဆောင်မုန်း၊ သန်းလုံး နတ်တော်၊ မီးနေ့ ပြာသို၊ မိညို တပို့တွဲ၊ အဲဝင် တပေါင်း၊ အလွန်ကောင်းသည်၊ ရက်ကောင်း ရာဇာ့ရာဇာတည်း–" ဟု ဆို၍၊

အချိုလက်ာ၌။ ။"တန်ခူး သာကျော်၊ ထွန်းပေါ် ကဆုန်၊ နယုန် ညွန့်စ၊ အောင်လှ ဝါဆို၊ သာလို ဝါခေါင်၊ မြတောင် တော်သလင်း၊ သိတင်းကျွတ်ဆီ၊ သောရီ တန်ဆောင်မုန်း၊ ချမ်းလုံး နတ်တော်၊ မီးနေ့ ပြာသို၊ မီးညို တပို့တွဲ၊ ထဲဝင် တပေါင်း၊ အလွန်ကောင်းသည်၊ ရက်ကောင်း ရာဇာ့ရာဇာတည်း" ဟု ဆိုသည်။

အချို ကျမ်းများတွင် တန်ခူး ကျော်သာလှ ဟူ၍ တန်ခူးလတွင် ရက်ရာဇာနေ့များသည် တနင်္လာ၊ ဗုဒ္ဓဟူး၊ သောကြာဟု ဖော်ပြ၏။ ထိုပြင် သိတင်းကျွတ် ဆီမီး ဟူ၍ သိတင်းကျွတ်လတွင် အင်္ဂါနှင့် ကြာသပတေးနေ့များသည် ရက်ရာဇာဟူ၍ ပြထား၏။ သို့အတွက် ၁၃၂၅ ခုနှစ်တွင် ရိုက်နှိပ်ထားသော ပက္ခဒိန်များမှ ရက်ရာဇာနေ့များ ကောက်နုတ်၍ အောက်တွင် ဇယားပြုလုပ်နှိုင်းယှဉ်ပြထားသည်။ ဤသို့ ဖော်ပြရာ၌ နေ့များကို ဂဏန်းများဖြင့် ဖော်ပြပါမည်။

**မူမှန် ရက်ရာဇာနေ့**

ရက်ရာဇာနေ့သည် နေ့ကောင်းရက်သာ ဖြစ်၏။ ယင်းနှင့် ဆန့်ကျင်သောနေ့ဆိုး၊ နေ့ညံ့ရက်ကို ပြဿဒါးရက်ဟု အသိအမှတ် ပြုထား၏။ သို့အတွက် ရက်ရာဇာနှင့် ပြဿဒါးများသည် အပြန်အလှန် ဖြစ်ရပေမည်။ ရက်ရာဇာနေ့များသည် ဖော်ပြထားသည့်အတိုင်း အမျိုးမျိုး ဖြစ်သော်လည်း ပြဿဒါးနေ့များမှာ တနည်း တမျိုးတည်းသာ ဖြစ်၍ ယနေ့တိုင် ဝါဒမကွဲပြားဘဲ အများ အသိအမှတ် ပြုလျက်ရှိ၏။ နေ့ဆိုး၊ နေ့ညံ့ ရှောင်အပ်သောနေ့ဖြစ်၍ အလွန် အလေးဂရုပြုကာ ထိန်းသိမ်းခဲ့ဟန် တူပေသည်။ (ပြဿဒါး — ရှု။)

လက်ာမှာကား – တမာ (ဝ – ၅)၊ သက်ယင်း (သက်လင်း ဖြစ်ချေမည်။) (၆ – ၄)၊ အင်ကြင်း (၁ – ၂)၊ ဆူးရစ် (၃–၈) ဟူ၍ တန်ခူးလမှအစပြုလျက် အစဉ်အတိုင်းပြဿဒါးနေ့များ ဖြစ်၏။ ရက်ရာဇာနေ့များသည် ထိုနေ့များနှင့် ဆန့်ကျင်ကာ အပြန်အလှန် သွား၍ ရေတွက်သော် သက်လင်း (၆–၄)၊ တမာ (ဝ–၅)၊ ဆူးရစ် (၃–၈)၊ အင်ကြင်း (၁–၂) ဟူ၍ တန်ခူးလမှ အစပြုလျက် အစဉ်အတိုင်း ဖြစ်

**ရက်ရာဇာနေ့ ဝါဒအမျိုးမျိုး နှိုင်းယှဉ်ပြထားသောဇယား**

| | လက်ာ · ၁ | လက်ာ · ၂ | အောင်ရတနာ ပေဒင်ပက္ခဒိန် | မြန်မာ့အလင်း | ဦးဗိုလ်ထွေး မန္တလေး | ဟံသာဝတီ |
|---|---|---|---|---|---|---|
| တန်ခူး | ၄ – ၆ | ၂ – ၆ | ၂ – ၄ – ၆ | ၂ – ၄ – ၆ | ၄ – ၆ | ၄ – ၆ |
| ကဆုန် | ၅ – ၀ | ၅ – ၀ | ၅ – ၀ | ၅ – ၀ | ၅ – ၀ | ၅ – ၀ |
| နယုန် | ၃ | ၃ | ၃ | ၃ | ၃ – ၅ | ၃ |
| ဝါဆို | ၁ – ၄ | ၁ – ၄ | ၁ – ၄ | ၁ – ၄ | ၁ – ၄ | ၁ – ၄ |
| ဝါခေါင် | ၄ | ၄ – ၆ | ၄ – ၆ | ၄ – ၆ | ၄ – ၆ | ၄ – ၆ |
| တော်သလင်း | ၅ – ၀ | ၅ – ၀ | ၅ – ၀ | ၅ – ၀ | ၅ – ၀ | ၅ – ၀ |
| သိတင်းကျွတ် | ၃ | ၃ | ၃ – ၅ | ၃ | ၃ – ၅ | ၃ |
| တန်ဆောင်မုန်း | ၁ – ၄ | ၄ – ၆ | ၄ – ၆ | ၄ – ၆ | ၁ – ၄ | ၄ – ၆ |
| နတ်တော် | ၄ – ၆ | ၂ – ၄ | ၂ – ၄ – ၆ | ၄ – ၆ | ၄ – ၆ | ၂ – ၄ |
| ပြာသို | ၅ – ၀ | ၅ – ၀ | ၅ – ၀ | ၅ – ၀ | ၅ – ၀ | ၅ – ၀ |
| တပို့တွဲ | ၃ | ၃ – ၅ | ၃ – ၅ | ၃ – ၅ | ၃ – ၅ | ၃ – ၅ |
| တပေါင်း | ၁ – ၄ | ၄ – ၀ | [illegible] ၀ | ၄ – ၀ | ၄ – ၁ | ၄ – ၀ |

ပေမည်။ သို့မှသာလျှင် ပြဿဒါးနေ့များတွင် တနင်္ဂနွေမှ စ၍ ရာဟုနေ့များ အစုံအလင်ရှိသကဲ့သို့ ရက်ရာဇာများ တွင်လည်း နေ့အစုံအလင် ရှိမည် ဖြစ်သည့်အပြင် ထိုသို့ လည်း ရှိအပ်၏။

ဖြစ်အပ်သော မှုမှန်–ရက်ရာဇာနေ့များ

| ရာသီ | လ | ပြဿဒါးနေ့ | ရက်ရာဇာနေ့ မှုမှန် |
|---|---|---|---|
| မိဿ | တန်ခူး | ၅ – ၀ | ၄ – ၆ |
| ပြိဿ | ကဆုန် | ၄ – ၆ | ၅ – ၀ |
| မေထုန် | နယုန် | ၁ – ၂ | ၃ – ၈ |
| ကြဋ် | ဝါဆို | ၃ – ၈ | ၁ – ၂ |
| သိဟ် | ဝါခေါင် | ၅ – ၀ | ၄ – ၆ |
| ကန် | တော်သလင်း | ၄ – ၆ | ၅ – ၀ |
| တူ | သီတင်းကျွတ် | ၁ – ၂ | ၃ – ၈ |
| ဗြိစ္ဆာ | တန်ဆောင်မုန်း | ၃ – ၈ | ၁ – ၂ |
| ဓနု | နတ်တော် | ၅ – ၀ | ၄ – ၆ |
| မကာရ | ပြာသို | ၄ – ၆ | ၅ – ၀ |
| ကုမ် | တပို့တွဲ | ၁ – ၂ | ၃ – ၈ |
| မိန် | တပေါင်း | ၃ – ၈ | ၁ – ၂ |

ရက်ရာဇာနေ့၊ ပြဿဒါးနေ့ စသော ရက်မြတ်၊ ရက်ဆိုး နေ့များသည် ဝါကြီး၊ ဝါငယ်ထပ်သော နှစ်များ၌ ပဌမဝါဆို နှင့် ဒုတိယ ဝါဆိုလများတွင် ရက်ရာဇာနေ့ အတူတူပင် ဖြစ်၏။ သို့အတွက် လထပ်ရက်ငင်များ မှန်ကန်သည့် ပက္ခဒိန် ဖြစ်ပေါ်ရေးသည် အလွန် အရေးကြီးပေသည်။ အကယ်၍ လထပ်ရန် သင့်မြတ်သော နှစ်များတွင် လထပ်ခြင်း မပြုခဲ့ ပါမူ ရက်ရာဇာ၊ ပြဿဒါးနေ့များသည် မှားသကဲ့သို့ လထပ် ရန် မသင့်သော နှစ်များ၌လည်း လထပ်ခြင်း ပြုခဲ့ပါမူ ရက်ရာဇာ၊ပြဿဒါးနေ့များ မှားမည်မှာမလွဲပေ။ ထိုအတွက် ရက်ကောင်း – ရက်သာများကို ရက်ရာဇာနေ့များဖြင့် ရွေး ခြင်း၊ ရက်ဆိုး၊ ရက်ညံ့များကို ပြဿဒါးနေ့များဖြင့် ရှေ့ခြင်း တို့မှာ ယခု သိပ္ပံပညာ အလွန်ထွန်းကားသော တုံးပုံ ကိုဟ်တု ခေတ်တွင် အသုံးပြုရန် မသင့်တော့ဟု ယူဆသည်။ သို့သော် အသုံးပြုလိုသူများသည် ဖော်ပြပါ မှုမှန် ရက်ရာဇာနေ့များ ဖြင့် ရွေးချယ်၍ အသုံးပြုသင့်လေသည်။ ဦးအုန်းကြိုင်

**ရက်သတ္တပတ်။** ။ရက် — ရှု။

**ရက်အင်ဒီးယန်း လူမျိုး။** ။မြောက်အမေရိကတိုက်သို့ ဥရောပ တိုက်သားများ မရောက်လာမီ အလွန် ရှေးကျသော အချိန်ကစ၍ နေထိုင်ကြသော တိုင်းရင်းသားများမှာ ရက် အင်ဒီးယန်း လူမျိုးများ ဖြစ်သည်။ သူတို့သည် အာရှတိုက် သားများကဲ့သို့ အသားညို၍ ဆံပင်နက်၏။ ပါးရိုးကားပြီး လျှင် တရုပ်လူမျိုးတို့ကဲ့သို့ မျက်ပေါက် အနည်းငယ် ကျဉ်း၏။ ထိုသို့ အာရှတိုက်သားများနှင့် မျက်နှာ ပုံပန်းတူသဖြင့် သူ တို့သည် အာရှတိုက်တွင် မူလ နေထိုင်ရာမှ အမေရိကတိုက် ဖက်သို့ ကူးလာကြဟန် တူလေသည်။

ရှေးနှစ်ပေါင်း နှစ်သောင်းခန့် အထက်က ယခု ဗဲရင်း ရေလက်ကြား ခြားနေသော ဆိုက်ဗီးရီးယားနှင့် အလာစ ကာတို့သည် တဆက်တည်း ဖြစ်ဟန် ရှိ၏။ အာရှတိုက် တိုက် အနှံ့အပြားမှ တိုင်းရင်းသားတို့သည် အမဲလိုက်ရင်း ထိုကျွန်း ဆက်ကို ဖြတ်၍ အမေရိကတိုက်ဖက်သို့ နယ်ကျံလာကြ သည်။ ထိုနောက် တောင်ဖက်သို့ ဖြန့်ဆင်းလာကြရာ အချို့ တို့သည် တောင်အမေရိကတိုက်အထိ ရောက်ရှိလေ၏။

ရက်အင်ဒီးယန်းဟူသော အမည်မှာ အသားနီ အိန္ဒိယ လူမျိုးဟု အဓိပ္ပါယ်ရ၏။ ကိုလံဗပ်သည် အမေရိကတိုက်သို့ ရောက်သွားသောအခါ အိန္ဒိယပြည်ကို တွေ့ရပြီဟု ထင်မှတ် သဖြင့် သူတွေ့သော တိုင်းရင်းသားများကို အင်ဒီးယန်း လူမျိုးဟု မှည့်ခေါ်ခြင်း ဖြစ်၏။ ထိုနောက်မှ အိန္ဒိယပြည်ရှိ လူမျိုးများ မဟုတ်သည်ကို သိကြရသောအခါ လူမျိုးချင်း ခွဲခြား သိသာနိုင်ရန် မြောက်အမေရိက တိုင်းရင်းသားများ ကို အမေရိကန် အင်ဒီးယန်း၊ သို့မဟုတ် ရက်အင်ဒီးယန်းဟု ဖြည့်စွက် ခေါ်ဝေါ်ကြ၏။ အသားနီ အင်ဒီးယန်းဟု ခေါ် ခြင်းမှာ သူတို့၏ ပင်ကိုယ် အသားနီသောကြောင့်မဟုတ်၊ စစ်တိုက်ထွက်သောအခါ မျက်နှာကို ဆေးနီသုတ်လိမ်းထား လေ့ရှိခြင်းကြောင့် ဖြစ်၏။

ထိုအမေရိကန် တိုင်းရင်းသားများတွင် အမျိုးပေါင်းများ စွာ ကွဲပြားလျက် ရှိ၏။ ဘာသာစကား အမျိုးမျိုး ပြော ကြ၏။ လူမျိုးပေါင်းအုပ်စု တစုလျှင် အုပ်စုဆိုင်ရာ တိရစ္ဆာန် အမည်ပေးကာ ခွဲခြားထား၏။ တိရစ္ဆာန်ရုပ်များကို တိုင် ကြီးများပေါ်၌ ထုလုပ်ထားသည်။ ဤသို့ အုပ်စုများစွာ ကွဲနေသော်လည်း အားလုံး တောထဲ၌ နေကြ၍ ဓလေ့ ထုံးစံများလည်း တူကြ၏။ ကောက်ပဲသီးနှံ အတော်အတန် စိုက်ပျိုး၍ ဆန်ကြမ်းကို စားသုံးကြ၏။သို့ရာတွင် များသော အားဖြင့် မုဆိုး၊ တံငါ အလုပ်ဖြင့် အသက်မွေးကြ၏။

သူတို့သည် အလွန် စစ်တိုက် ဝါသနာပါကြ၏။ မည်သည့် အခါမျှ တအုပ်စုနှင့်တအုပ်စုသင့်မြတ်သည်ဟူ၍ မရှိကြချေ။ နယ်လုခြင်း၊ အမဲသားကောင်အတွက် စကားများခြင်း၊ မပြောပလောက်သော အကြောင်းကိစ္စများ၌ အနိုင်ယူလို ခြင်းတို့ကြောင့် မကြာခဏပင်ခိုက်ရန်ဖြစ်ပွားလျက်ရှိကြ၏။

မိန်းမများသည် ဆင်းရဲပင်ပန်းစွာ အလုပ်ကြမ်း လုပ်ကြ ရ၏။ ပဲ၊ ပြောင်းနှင့် ဟင်းသီးဟင်းရွက်များကို စိုက်ပျိုးကြ

၏။ တိရစ္ဆာန် အရေဖြင့် တအိမ်ထောင်လုံး အတွက် အဝတ် အစားများကို ချုပ်လုပ်ကြရ၏။ အလုပ် လုပ်နေစဉ် ကလေးကို ကျော၌ သည်ပိုး၍သော်၎င်း၊ ပုခက်ထဲထည့်၍သော်၎င်း၊ သစ်ပင်၌ ဆွဲ၍သော်၎င်း ထားတတ်ကြ၏။ မိသားတစုလုံး တနေရာမှ တနေရာသို့ ရွှေ့ပြောင်းသောအခါ မိန်းမများပင် လျှင် အိမ်ထောင်ပစ္စည်းများကို သယ်ယူကြရ၏။

သို့ရာတွင် မိန်းမများ၏ အဆင့်အတန်းမှာ အစစအရာရာ၌ နိမ့်ကျသည် ဟူ၍ မဆိုနိုင်ချေ။ သူတို့သည် အရေးကြီးသောကိစ္စများ၌ ပါဝင် ဆောင်ရွက် နိုင်ခွင့် ရှိ၏။ အချို့ကိစ္စများ၌ ယောကျ်ားများသည် သူတို့ဩဇာကိုခံရ၏။ တအိမ်ထောင်အတွက် လုံလောက်စွာ အမဲဟင်းလျာကို ရှာဖွေ မပေးနိုင်သူများ၊ သို့မဟုတ် စစ်တိုက်ရာတွင် သူရဲဘောကြောင်သူများကို သူတို့၏ ဇနီးသယ်များက လက်မခံဘဲ ကွာပစ်နိုင်လေသည်။

ယောကျ်ားများ၏ အလုပ်ကား အမဲလိုက်ခြင်းနှင့် စစ်တိုက်ခြင်းဖြစ်၏။ အမဲလိုက်ခြင်းမှာ ပျော်ရွှင်လို၍မဟုတ်၊ ဝမ်းစာအတွက် ဖြစ်၏။ စစ်တိုက်ခြင်းမှာ စစ်တိုက်ဝါသနာပါသောကြောင့် တိုက်ခြင်းဖြစ်၏။ တခါတရံ မိမိချစ်ကြိုက်နေသော မိန်းမအား မိမိအစွမ်းအစကို ပြလိုသဖြင့် ရန်သူများကို သွားရောက် တိုက်ခိုက်ကြ၏။ သူတို့သည် စစ်တိုက်ရာ၌ ရန်သူများနှင့် တွေ့တွေ့ဆိုင်ဆိုင် ယှဉ်ပြိုင်တိုက်ခိုက်လေ့မရှိချေ။ ရန်သူများကို အလစ်တွင် ချောင်းမြောင်း တိုက်ခိုက်ကြ၏။ သတ်ဖြတ်ပြီးသော ရန်သူများ၏ ဦးခေါင်းခွံများကို ဂုဏ်ရတံဆိပ် သိမ်းဆီးထားလေ့ ရှိကြသည်။

### နေထိုင်ရာအိမ်များ

သူတို့၏ အိမ်များမှာ သစ်ခေါင်းများ သစ်လုံးများဖြင့် ဆောက်လုပ်ထား၍ အလယ်၌ ဝင်ထွက် သွားလာရန် အပေါက်တပေါက် ရှိ၏။ အိမ်များမှာ မည်သည့်အခါမျှ ရှင်းလင်း သုတ်သင်ခြင်း မရှိသဖြင့် အမှိုက်သရိုက်တို့ဖြင့် ရှုပ်ပွကာ လွန်စွာ ညစ်ပတ်ပေကျံလျက်ရှိ၏။

နွေအခါ၌မူ လွင်ပြင်များတွင် တိရစ္ဆာန် အရေများကို ဆက်စပ် ချုပ်လုပ်ထားသော တဲများ ထိုး၍ နေကြ၏။

### အဝတ်အစား

သူတို့၏ အဝတ်အစားမှာ ပျော့ပျောင်း နူးညံ့အောင် ပြုလုပ်ထားသော တိရစ္ဆာန် အရေများ ဖြစ်၏။ ဆေးရောင်စုံ ချယ်ထားသော ဖြူဆူးများ၊ ပုတီးစေ့များဖြင့် အနားကွပ်ကို အလှအပ တပ်ဆင်ထားသော ခြေပတ်များကို ဒရယ်ရေဖြင့် အနားကွပ်ထား၏။ သမင်ရေဖြင့် ချုပ်ထားသော ဖိနပ်များနှင့် သူတို့၏ ဒရယ်ရေ ကိုယ်ကြပ်အင်္ကျီများပေါ်တွင် ပုတီးစေ့များကို လှပစွာ သီကုံးထား၏။

ဝက်ဝံလက်သည်းများ၊ ခွေးတူဝက်တူ၏ လက်သည်းများ၊ ဆတ်၏ သွားများကိုလည်း လည်ဆွဲတန်းဆာအဖြစ်ဖြင့် ဆွဲချိတ်ထားသေး၏။ အမွေးကောင်းသော သားကောင်များ၏ အရေများကို နူးညံ့အောင် ပြုပြင်ပြီးလျှင် ယောကျ်ားများက အပေါ်ဖုံး ကိုယ်ရုံ အဖြစ်ဖြင့် အသုံးပြုကြ၏။

သူတို့သည် နတ်များကို ယုံကြည် ကိုးကွယ်ကြ၏။ သစ်ပင်၌၎င်း၊ ကောင်းကင်၌၎င်း၊ မြစ်ချောင်း အင်းအိုင်တို့၌၎င်း နတ်များ ရှိသည်ဟု အယူရှိပြီးလျှင် ထိုနတ်များကပင် သူတို့အား ကောင်းကျိုး၊ မကောင်းကျိုး ပေးသည်ဟု ယုံကြည်ကြ၏။ သူတို့၌ ပယောဂဆရာ၊ ဗိန္ဒောဆရာများ ရှိကြ၏။ လူတယောက် မမာသောအခါ အပမှီနေသည်ဟု အယူရှိ၍ ပယောဂ ဆရာများကို ပင့်ရ၏။ ပယောဂ ဆရာသည် မန္တာန်များကို ရွတ်ဖတ်၍သော်၎င်း၊ အော်ဟစ် ကြိမ်းမောင်း၍သော်၎င်း လူမမာအား ဝင်ပူးနေသော မကောင်းဆိုးဝါးများကို နှင်ထုတ်နိုင်သည်ဟု ယုံကြည်ကြ၏။ သို့ရာတွင် ထိုပယောဂဆရာများသည် လက်ဖွဲ့ အင်းအိုင်များကိုသာ သုံးသည်မဟုတ်၊ ရောဂါများကို တကယ်ပျောက်ကင်းစေသော ဆေးဖက်ဝင်သည့် သစ်မြစ် သစ်ဥများကိုလည်း အသုံးပြုကြ၏။

သူတို့တွင် စာပေ အရေးအသား မရှိချေ။ သို့ရာတွင် သူတို့လူမျိုး အုပ်စုတိုင်း အုပ်စုတိုင်း၌ ရှေးဟောင်း ဒဏ္ဍာရီ ပုံပြင်များ ရှိ၏။ ညနေ အလုပ်များ အားလုံးပြီးသောအခါ မီးဖို၌ ဝိုင်းထိုင်၍ လူကြီးများက ကလေးများကို ပုံပြောပြလေ့ ရှိကြ၏။ ကလေးများလည်း အားလပ်သောအခါ၌ စွန့်လွှတ်ခြင်း၊ တူတူပုန်းခြင်း စသည်တို့ဖြင့် ကစားကြ၏။

အမေရိကတိုက်သို့ ဥရောပတိုက်သားများ ရောက်လာသောအခါ အမေရိကန် တိုင်းရင်းသားများသည် ပဌမ၌ မျက်နှာဖြူ လူမျိုးတို့နှင့် သင့်မြတ်စွာ ပေါင်းသင်းကြ၏။ သူတို့ တတ်နိုင်သော ကိစ္စများတွင် မျက်နှာဖြူများကို အကူအညီ ပေး၏။ သို့ရာတွင် နောင်အခါ၌ မျက်နှာဖြူများက သူတို့ကို မောင်းထုတ်၍ သူတို့၏ မြေများကို သိမ်းယူရန် ကြံရွယ်ကြောင်း သိရှိသွားသောအခါ သူတို့သည် မျက်နှာဖြူ လူမျိုးများကို ရှေးကကဲ့သို့ မခင်မင်တော့ချေ။ သို့ဖြစ်၍ ၁၆၃၇ ခုနှစ်မှ ၁၇၇၆ ခုနှစ်အထိ အင်ဒီးယန်း တိုင်းရင်းသားများနှင့် မျက်နှာဖြူ လူမျိုးများသည် မကြာခဏ ပဋိပက္ခ ဖြစ်ခဲ့ကြလေသည်။ ယခုမူ ထိုရန်ပွဲ ပြီးဆုံးသွား၍ နှစ်ဦးနှစ်ဖက် ပြန်လည် သင့်မြတ်နေကြပြီ ဖြစ်၏။

အမေရိကတိုက်သို့ ဥရောပတိုက်သားများ ပဌမ ရောက်လာစဉ်က အမေရိကန် ပြည်ထောင်စု၌ တိုင်းရင်းသား ၇၅၀,၀၀၀၊ ကနေဒါ နိုင်ငံ၌ ၂၀၀,၀၀၀ ရှိ၏။ ၁၉၃၀ ပြည့်နှစ်၌မူ အမေရိကန် ပြည်ထောင်စု၌ ၃၃၂,၃၉၇၊ ကနေဒါ နိုင်ငံ၌ ၁၁၅,၀၀၀ မျှသာ ကျန်တော့၏။ တိုင်းရင်းသားများသည် မျက်နှာဖြူများထံမှ အဆုတ်ရောဂါနှင့် အခြား

ရောဂါများ အမွေရလိုက်၍ အမြောက်အမြား သေကြေပျက်စီးကြ၏။ အချို့က တိုင်းရင်းသားလူမျိုးသည် တဖြည်းဖြည်း ပျောက်ကွယ်သွားတော့မည်ဟု ယူဆကြ၏။ အမှန်မှာ အင်ဒီးယန်း လူမျိုးစစ်စစ် တနေ့တခြား နည်းပါးလာခြင်းသာ ဖြစ်၏။ အင်ဒီးယန်း အဆက်အနွယ်ဝင် တိုင်းရင်းသားများကား အမြောက်အမြား ရှိသေး၏။ ယခုအခါ အမေရိကန်အစိုးရနှင့် ကနေဒါ အစိုးရတို့က သူတို့ကို အထူးစောင့်ရှောက်ထားကြ၏။


အစ်ကိုကြီးဖြစ်သူ လေယာဉ် သူရဲကောင်း ဝီလဗာရိုက်

**ရိုက်ညီနောင်။** ။ဝီလဗာရိုက် (ခရစ် ၁၈၆၇–၁၉၁၂) နှင့် အော်ဗီးရိုက်(ခရစ် ၁၈၇၁–၁၉၄၈) ဆိုသူ အမေရိကန်လူမျိုး ညီနောင်နှစ်ယောက်တို့သည် အင်ဂျင်စက်ပါသော လေယာဉ်ပျံဖြင့် ကောင်းကင်ယံ၌ ပဌမဦးဆုံး ပျံသန်းခဲ့ကြ၏။ ၁၉၀၃ ခုနှစ် ဒီဇင်ဘာလ ၁၇ ရက်နေ့တွင် ထိုညီနောင်နှစ်ဦးတို့သည် မြောက်ကယ်ရိုလီးနားပြည်နယ်၊ ကစ်တီဟော့အရပ်၌ အင်ဂျင်စက်တပ်သည့် အတောင် နှစ်ထပ် လေယာဉ်ပျံကို လေထဲ၌ အောင်မြင်စွာ ပျံသန်းနိုင်ခဲ့ကြလေသည်။ အော်ဗီး ရိုက်က ဦးစွာ လေယာဉ်ပျံကို စမ်းသပ် မောင်းနှင်ကြည့်ရာ၌ လေထဲတွင် ၁၂ စက္ကန့်မျှ နေနိုင်ပြီးလျှင် ပေ ၁၂၀ အထိ ပျံသန်းနိုင်ခဲ့၏။ ထိုနောက် ဝီလဗာရိုက် အလှည့်တွင် ၅၉ စက္ကန့်မျှနေနိုင်ခဲ့၍ ၈၅၂ ပေအထိပျံသန်းနိုင်ခဲ့လေသည်။

ရိုက်ညီအစ်ကို နှစ်ဦးတို့သည် ၁၈၉၃ ခုနှစ်တွင် ကျောင်းမှထွက်၍ "ရိုက်စက်ဘီးကုမ္ပဏီ" တည်ထောင်ကြသည်။ သူတို့သည် ဂလိုက်ဒါ လေယာဉ်အကြောင်းကို ဖတ်ရသဖြင့် လေထဲ၌ ပျံသန်းခြင်းကို စိတ်ဝင်စားလာ၏။ ငှက်များပျံပုံကိုရင်း၊ သေတ္တာပုံ စွန် လေထဲ၌ ပျံသန်းပုံကိုရင်း ကြည့်ရှုလေ့လာပြီးလျှင် အတောင် နှစ်ဖက်နှင့် ပဲ့အထိန်းပါသော ဂလိုက်ဒါ လေယာဉ်များကို ဆောက်လုပ်၍ စမ်းသပ်ကြည့်ကြသည်။ (ဂလိုက်ဒါလေယာဉ် — ရှု။)


ညီငယ်ဖြစ်သူ လေယာဉ်သူရဲကောင်း အော်ဗီးရိုက်

၁၉၀၀ ပြည့်နှစ်မှ ၁၉၀၂ ခုနှစ်အထိ ရိုက်ညီနောင် နှစ်ဦးတို့သည် လူစီးနင်းလိုက်ပါနိုင်သော ဂလိုက်ဒါ လေယာဉ်များကို ကစ်တီဟော့ အရပ်၌ စမ်းသပ် ပျံသန်းကြည့်ရာ လူကိုယ်အလေးကို လေထဲ၌ သယ်ဆောင်နိုင်လောက်အောင် အားမရှိကြောင်းတွေ့ရလေသည်။ ထိုကြောင့် အလျား ခြောက်ပေ ရှိသော လေပြွန်တခုကို ပြုလုပ်ပြီးလျှင် အတောင်ပုံစံအမျိုးမျိုးဖြင့် လေ၏ ဖိအား အကြောင်းကို လေ့လာကြသည်။ ထိုစမ်းသပ်ချက်များမှ လေထဲတွင် ပျံနိုင်သော အတောင် ပုံစံမျိုးကို တီထွင်နိုင်ကြ၏။ ၁၉၀၂ ခုနှစ်တွင် လေယာဉ်ကိုဆောက်လုပ်ခဲ့လေသည်။ ထိုနှစ်အတွင်း၌ပင် အင်ဂျင်စက်တပ်သည့် လေယာဉ်ပျံကို စတင် ဆောက်လုပ်ခဲ့ရာ ၁၉၀၃ ခုနှစ်တွင် ပြီးစီးသည်။ ယင်းလေယာဉ်ပျံတွင် အတောင်ပံ အလျားပေ ၄၀ ရှိ၍ အနံ ခြောက်ပေ ရှိ၏။

လေယာဉ်မောင်းသူ အပါအဝင် အလေးချိန် ၇၅၀ ပေါင် ရှိသည်။

ထိုသို့အားဖြင့် ရိုက်ညီနောင်တို့သည် ၁၉၀၃ ခုနှစ်မှ ၁၉၀၈ ခုနှစ်အထိ လေယာဉ်ပျံပုံစံ အမျိုးမျိုးကို စမ်းသပ်တီထွင်ခဲ့ရာ ၁၉၀၅ ခုနှစ်တွင် ၃၈ မိနစ်၊ သုံးစက္ကန့်အတွင်း ၂၄ မိုင်အထိ ပျံသန်းနိုင်သော လေယာဉ်ပျံကို အောင်မြင်စွာ ဆောက်လုပ်နိုင်ခဲ့ကြလေသည်။ သို့ရာတွင် အမေရိကန်အစိုးရသည် ရိုက်ညီနောင်တို့၏ တီထွင်မှု၌ စိတ်မဝင်စားချေ။ ထိုကြောင့် ၁၉၀၈ ခုနှစ်တွင် ဝီလဗာရိုက်သည် ဥရောပတိုက်သို့ သွား၍ မိမိတို့ တည်ဆောက်သော လေယာဉ်ပျံကို လက်တွေ့ ပျံသန်းပြလေသည်။ ၁၉၀၉ ခုနှစ်တွင် ရိုက်ကုမ္ပဏီကို တည်ထောင်၍ လေယာဉ်ပျံများ ဆောက်လုပ် ရောင်းချသည်။ အမေရိကန် စစ်ဖက်ဌာနက လေယာဉ်ပျံ တစင်းကို ဝယ်ယူ၏။ ထိုနောက် အင်္ဂလန်နိုင်ငံ၊ ပြင်သစ်နိုင်ငံ၊ ဂျာမနီနိုင်ငံနှင့် ဣတလီ နိုင်ငံတို့ကလည်း ရိုက်ကုမ္ပဏီမှ လေယာဉ်ပျံများကို ဝယ်ယူကြသည်။ ၁၉၁၂ ခုနှစ်တွင် ဝီလဗာရိုက် ကွယ်လွန်သဖြင့် အော်ဗီးရိုက် တဦးတည်းက လုပ်ငန်းကို ဆက်လက် ဦးစီးခဲ့လေသည်။ ထိုနောက် ၁၉၁၅ ခုနှစ်တွင် ရိုက်ကုမ္ပဏီသို့ မိမိ၏ အကျိုးအမြတ် ခံစားခွင့်ကို ရောင်းချပြီးလျှင် ကိုယ်ပိုင် သုတေသနလုပ်ငန်းကို လုပ်ကိုင်သည်။ အော်ဗီးရိုက်သည် ၁၉၄၈ ခုနှစ်တွင် ကွယ်လွန်လေသည်။

ရိုက်ညီနောင်တို့၏ တီထွင်မှုကြောင့် မျက်မှောက်ခေတ်တွင် လေကြောင်း ခရီးဖြင့် သွားလာခြင်းမှာ များစွာ တိုးတက်လျက် ရှိပေသည်။

**ရင်ကမ်းပင်။** ။ရင်ကမ်းပင်၏ ရုက္ခဗေဒ အမည်မှာ ဇာလက္ကာ ဝါလီချီယာနာ ဖြစ်သည်။ ထန်းမျိုးဝင် အပင်မျိုး ဖြစ်၍ မြန်မာနိုင်ငံ အောက်ပိုင်းတွင် တွေ့ရသည်။ ရင်ကမ်းပင်သည် အမြဲစိမ်း သစ်တောများတွင် များသောအားဖြင့် အလေ့ကျပေါက်သည်ကို တွေ့နိုင်သည်။ သစ်ပင်ကြီးများ လောင်းရိပ်ခို၍ ကြီးပွားသော အပင်မျိုးလည်း ဖြစ်သည်။ အစေ့ကို စိုက်ပျိုး၍သော်၎င်း၊ ဘေးထွက် အတက်များကို စိုက်ပျိုး၍သော်၎င်း မျိုးပွားယူနိုင်သည်။

ရင်ကမ်းပင်တွင် ပင်စည် ဟူ၍ မရှိ။ အတက်များ ဘေးဖက် ထွက်၍ ကြီးပွားသော အပင်မျိုး ဖြစ်သည်။ အရွက်သည် အလျား ၁၅ ပေမှ ပေ ၂၀ အထိရှိ၍ ရွက်ညှာသည် အရွက်၏ ထက်ဝက်ခန့် ရှည်သည်။ အရွက်သည် ငှက်မွေးပုံဖြစ်သည်။ ရွက်နားတွင် ဆူးငယ်များ ရှိသည်။ ရွက်အိမ်နှင့် ရွက်ညှာတို့တွင် ရွက်ကြောမ တလျှောက်၌ ချွန်ထက်သော ဆူးများလည်း ရှိသည်။ ပန်းများ ပြွတ်သိပ်၍ ပွင့်သည်။ အသီးသည် တလက်မမှ သုံးလက်မ အထိ ရှည်၍ အကြေး ထူထပ်သည်။ အတွင်း၌ အစေ့တစေ့မှ သုံးစေ့အထိ ပါရှိသည်။

အသီးမှည့်ကို စားရသည်။ ရင်ကမ်းသီး အချဉ်မျိုးနှင့် ချဉ်ဖုံ့ဖုံ့မျိုး ဟူ၍ နှစ်မျိုး နှစ်စား ရှိသည်။ တခါတရံ အရွက်ကို အိမ်မိုးရန်အတွက် အသုံးချလေ့ ရှိကြသည်။

**ရင်ခတ်ပင်။** ။ရင်ခတ်ပင်သည် ရှုဗီအေစီအီး မျိုးရင်းတွင် ပါဝင်သော သစ်ပင် အလတ်မျိုး ဖြစ်၍ ရင်ခတ်ကြီးနှင့်ရင်ခတ်ကလေး ဟူ၍ နှစ်မျိုးရှိသည်။ရင်ခတ်ကြီးကို ရုက္ခဗေဒအလိုအရ ဂါဒီနီယာ ကိုရှိနေရီယာဟု ခေါ်သည်။ အပင်မှာ အရွယ်အလတ်စား ဖြစ်ပြီးလျှင် မြန်မာနိုင်ငံ သွေ့ခြောက်သည့် လွင်ပြင် သစ်တောများတွင် အတော်များများ ပေါက်ရောက်သည်ကို တွေ့နိုင်သည်။ အမြင့်ပေ ၄၀ မှ ၅၀ အထိ ရှိနိုင်ကြ၍ လုံးပတ် လေးပေအထိ ရှိနိုင်သည်။ များသောအားဖြင့် အကိုင်းအခက်များသောအပင်မျိုး ဖြစ်၏။ ရင်ခတ်ပင်၏ အသားမှာ ကျစ်လစ်မာကျော၍ အရောင်မှာ အညိုဖျော့ ဖြစ်သည်။ အသားသေအောင် ပြုလုပ်ရာတွင် ဂရုစိုက်ရသည်။

ရင်ခတ်သားကို ဘီးနှင့်အရုပ်ထုလုပ်ရန်အသုံးပြုကြသည်။

ရင်ခတ်ကလေး၏ ရုက္ခဗေဒ အမည်မှာ ဂါဒီနီယာ အော့ဗတူဆီဖိုလီယာ ဖြစ်သည်။ ရင်ခတ်ကြီးနှင့် အလားတူ အပင်မျိုးဖြစ်၍ ရင်ခတ်ကြီး ပေါက်ရောက်သည့် သစ်တောများတွင်ပင် ပေါက်ရောက်လေသည်။ ရင်ခတ်ကလေးသည် အမြင့် ပေ ၂၀ ကျော်ခဲ့လေသည်။

**ရင်း,ဆာ ခရစ္စတိုဖာ(ခရစ် ၁၆၃၂–၁၇၂၃)။** ။ဆာခရစ္စတိုဖာရင်းသည် နာမည်ကျော် အင်္ဂလိပ် လူမျိုး ဗိသုကာ ဆရာကြီး ဖြစ်သည်။ သူ၏ ဗိသုကာ လက်ရာများမှာ ရိုးရိုးနှင့် ခန့်ညား တင့်တယ်သည်။ သူပုံစံထုတ်သော ဘုရားရှိခိုးကျောင်းများသည် လှပသော အမိုးချွန်များကြောင့် ထင်ရှားလေသည်။ လန်ဒန်မြို့၏ မှတ်တိုင်သဖွယ် ဂုဏ်ယူရသော လက်ရှိ စိန်ပေါကသီဒရယ် ဘုရားရှိခိုးကျောင်းကြီးသည် ဆာခရစ္စတိုဖာရင်း၏ လက်ရာပုံစံပင် ဖြစ်သည်။ (စိန်ပေါကသီဒရယ် — လည်းရှု။)

ခရစ္စတိုဖာရင်းသည် ၁၆၃၂ ခုနှစ် အောက်တိုဘာလ ၂၀ ရက်နေ့တွင် အင်္ဂလန်ပြည် ဝီလရှိုင်ယာနယ်၊ အီစနွိုင်းမြို့၌ ဖွားမြင်သည်။ လန်ဒန်မြို့၊ ဝက်စမင်စတာကျောင်းနှင့် အောက်စဖို့ တက္ကသိုလ်၊ ဝပ်ဒမ် ကောလိပ်တို့တွင် ပညာသင်ကြားခဲ့သည်။ ကျောင်းသား ဘဝတွင် ဂီသြမေတြီ ဘာသာရပ်၌ ထူးချွန်သူ ဖြစ်၏။ ၁၆၆၀ ပြည့်နှစ်တွင် အောက်စဖို့ တက္ကသိုလ်၌ နက္ခတ္တဗေဒ ပါမောက္ခအဖြစ် ခန့်အပ်ခြင်း ခံရသည်။



နာမည်ကျော် ဗြိတိသျှ ဗိသုကာ ဆာ ခရစ္စတိုဖာ ရင်း

ခရစ္စတိုဖာ ရင်းသည် ၁၆၆၃ ခုနှစ်မှစ၍ ဗိသုကာ ဆရာ အလုပ်ကို စတင် လုပ်ကိုင်၏။ လန်ဒန်မြို့ရှိ စိန်ပေါ ဘုရားရှိခိုးကျောင်းကိုပြင်ဆင်ရန် တာဝန်ပေးအပ်ခြင်း ခံရသော ဗိသုကာ ဆရာတဦး ဖြစ်သည်။ သို့ရာတွင် အလုပ်မစရသေးမီ ၁၆၆၆ ခုနှစ်၌ လန်ဒန်မြို့တွင် မီးအကြီးအကျယ်လောင်သဖြင့် စိန်ပေါ ဘုရားရှိခိုးကျောင်းမှာလည်း မီးသင့်၍ ပျက်စီးရလေသည်။ထိုကြောင့် ခရစ္စတိုဖာ ရင်းသည် ၁၆၇၅ ခုနှစ်တွင် ပုံစံအသစ် ရေးဆွဲ၍ လက်ရှိ စိန်ပေါ ဘုရားရှိခိုးကျောင်းကို ဆောက်လုပ်ခဲ့ရာ ၁၇၁၀ ပြည့်နှစ်တွင် ပြီးစီးခဲ့သည်။ ထိုပြင် မီးထဲ၌ ပါသွားသော အခြား ဘုရားရှိခိုးကျောင်းပေါင်း ၅၀ အတွက်လည်း ပုံစံ ထုတ်ပေးရသည်။

ခရစ္စတိုဖာ ရင်းသည် မီးဘေးကြောင့် ပျက်စီးရသော လန်ဒန်မြို့ တမြို့လုံးကို အကွက်ကျကျ အသစ်တည်ရန် ပုံစံ ထုတ်၍ တင်ပြခဲ့သော်လည်း ထိုစီမံကိန်းမှာ မဖြစ်မြောက်ခဲ့ချေ။ ၁၆၇၂ ခုနှစ်တွင် ဒုတိယ ချားဘုရင်က ဆာဘွဲ့ ချီးမြှင့် သူကောင်းပြုသည်။ ဆာ ခရစ္စတိုဖာ ရင်းသည် သိပ္ပံပညာသည်များ ပါဝင်သော တော်ဝင် အသင်းကို စတင်တည်ထောင်သူတဦးဖြစ်၍ ၁၆၈၀ ပြည့်နှစ်မှ ၁၆၈၂ ခုနှစ်အထိ ထိုအသင်းတွင် ဥက္ကဋ္ဌအဖြစ် ဆောင်ရွက်ခဲ့သည်။

ဆာ ခရစ္စတိုဖာ ရင်း ပုံစံထုတ်ခဲ့သော အခြားအဆောက်အအုံ လက်ရာ အချို့မှာ အောက်စဖို့မြို့ရှိ အက်ရှမိုလီယန်ပြတိုက်နှင့် ရှဲလဒိုနီယန် ဇာတ်ရုံ၊ ကိမ်းဗရစ်မြို့ရှိ ပင်းဗရုတ်ကောလိပ် ဘုရားရှိခိုးကျောင်းနှင့် ထရင်းနီတီကောလိပ် ပိဋကတ်တိုက်၊ လန်ဒန်မြို့ရှိ ၁၆၆၆ ခုနှစ် မီးဘေး အထိမ်းအမှတ်တိုင်နှင့် ချယ်လဆီးဆေးရုံတို့ ဖြစ်လေသည်။

ဆာ ခရစ္စတိုဖာ ရင်းသည် ၁၇၂၃ ခုနှစ် ဖေဖွာရီလ ၂၅ ရက်နေ့တွင် လန်ဒန်မြို့၌ ကွယ်လွန်၍ သူ၏ ရုပ်အလောင်းကို စိန်ပေါ ဘုရားရှိခိုးကျောင်းထဲ၌ မြှုပ်နှံ သင်္ဂြိုဟ်သည်။

**ရောင်ခြည်တော် ခြောက်ပါး။** ။မြတ်စွာဘုရားသခင်သည် ဘုရား ဖြစ်တော်မူပြီးနောက် ရတနာဃရသို့ ရောက်တော်မူပြီး၍ အဘိဓမ္မာ ခုနစ်ကျမ်းတွင် အနန္တနယဖြစ်သော သမန္တ ပဋ္ဌာန်းကျမ်းကို သုံးသပ်တော်မူသည့်အခါ နီလ၊ ပီတ၊ လောဟိတ၊ ဩဒါတ၊ မဉ္ဇိဋ္ဌ၊ ပဘဿရဟု ဆိုအပ်သော အညို၊ အရွှေ၊ အနီ၊ အဖြူ၊ အမောင်း၊ ပြိုးပြိုးပြက် တခဲနက်သော ရောင်ခြည်တော် ခြောက်သွယ်တို့သည် ထွက်ကုန်၏။ (သတ္တဋ္ဌာန — လည်းရှု။)

ညိုသော ရောင်ခြည်တော်တို့သည် ဆံတော် မေးညွှန်းတော် မုတ်ဆိတ်တော် မျက်တောင်တော် မျက်မှောင်တော်ဟု ဆိုအပ်သော ညိုမှိုင်းရာ စိမ်းပြာမှောင်သင့်သော အရပ်တို့မှ ထွက်ကုန်၏။

ရွှေသော ရောင်ခြည်တော်တို့သည်ကား နဖူးတော်ဖျားမှသည် ဖဝါးတော် အဆုံးတိုင်အောင် အလုံးစုံဟု ဆိုအပ်သော ကိုယ်တော်၏ အရေတော်၊ မျက်လုံး မျက်လွှာ မျက်နှာတော်မှစ၍ ရွှေသင့်ဝါသင့် တောက်ထွန်း လင်းထိန်သင့်သော အရပ်တို့မှ ထွက်ကုန်၏။

နီသော ရောင်ခြည်တော်တို့သည်ကား အသွေးအသားလက်ဖဝါး ခြေဖဝါးတော်၊ ခြေသည်း လက်သည်းတော်၊ မျက်စိ မျက်လွှာ လျှာတော်၊ ခံတွင်းနှုတ်ဖျား သွားဖုံး အာစပ် နီအပ်သမျှသော အရပ်တို့မှ ထွက်ကုန်၏။

ဖြူသော ရောင်ခြည်တော်တို့သည်ကား အရိုးတော် သွားတော် စွယ်တော် မျက်လုံးတော်စွန်းတို့မှစ၍ ဖြူသင့်သော အရပ်တို့မှ ထွက်ကုန်၏။

မောင်းသော ပြိုးပြိုးပြက်သော ရောင်ခြည်တော်တို့သည်ကား တရာ့ရှစ်ကွက် စက်မြတ်ရတနာတည်ရာ ဖဝါးတော်အပြင်မှစ၍ အထက်ဆံဖျားတိုင်အောင် ကိုယ်တော်အလုံးမှ ထွက်ကုန်၏။

ဤသို့ ထွက်ပေါ်သော ရောင်ခြည်တော် ခြောက်သွယ်တို့သည် နှစ်သိန်းလေးသောင်း အထုရှိသော ပထဝီမြေကြီးနှင့်တကွ မြေကို ခံသော ယူဇနာ လေးသိန်းရှစ်သောင်း အထုရှိသော ရေကိုရင်း၊ ထိုရေကို ခံသော ယူဇနာ ကိုးသိန်းခြောက်သောင်း အထုရှိသော လေကိုရင်း ဖောက်ထွင်း၍ အောက်အဇဋာကာသ ကောင်းကင်ပြင်သို့ ပြေး၏။ အထက်သို့လည်း နတ်ပြည် ခြောက်ထပ်၊ ဗြဟ္မာ ၂၀ ကိုလွန်၍

အဇ္ဈာကာသ ကောင်းကင်တိုင် ပြေးလေ၏။ ရွှေနောက်လက်ဝဲ လက်ျာ ဖီလာအားဖြင့် အဆုံးမရှိသော အနန္တလောကဓာတ် စကြဝဠာ အရပ်သို့လည်း ပြေးလေကုန်၏။ နေရောင် လရောင် နတ်ပြဟ္မာတို့၏ကိုယ်ရောင် စသော အရောင်တကာတို့ကို ဖုံးလွှမ်းပျောက်ပစေ၏။

လက္ခဏာ ရောင်ခြည်တော်၊ အသီတိနိစ္စလင္ဂိတိ ရောင်ခြည်တော်၊ အနန္တ ဗိသာဗရဏ ရောင်ခြည်တော်ဟူ၍ သုံးပါး ပြားသည်တွင် ထို ဆိုအပ်ခဲ့ပြီးသော ရောင်ခြည်တော်တို့သည် အနန္တ ဗိသာဗရဏ ရောင်ခြည်တော် မည်ကုန်၏။

လက္ခဏာ ရောင်ခြည်တော်ကား ဖွားတော်မူစဉ် ရွှေ အဆင်းနှင့်တူသော ကိုယ်တော်ဖြစ်၍ ထက်ဝန်းကျင် တလံမျှ လောက်တောက်ပလျက်တည်သောရောင်ခြည်တော်တည်း။

အသီတိနိစ္စလင္ဂိတိ ရောင်ခြည်တော်ကား တန်ခိုးတော်ဖြင့် မဖန်ဆင်းမူ၍ ပကတိ နေ့ညဉ့်မပြတ် အတောင် ၈၀ မျှသော အရပ်၌ တည်သော ရောင်ခြည်တော်တည်း။

အနန္တ ဗိသာဗရဏ ရောင်ခြည်တော်မှာ အလိုတော်ရှိက အဆုံးမရှိသော အရပ်သို့ပင် နှံ့၍ အထက် ဆိုခဲ့သည့်နည်းအတိုင်း အောက်အဇ္ဈာကာသ၊ အထက် အဇ္ဈာ ကာသ၊ အနန္တစကြဝဠာ ဖီလာထုတ်ချင်း အကြွင်းမရှိ ထွန်းလင်းနိုင်သော ရောင်ခြည်တော်တည်း။

**ရောင်စုံ လက်ရေးစာမူ။** ။ရှေးခေတ် လက်ရေးစာမူများသည် အနုပညာ မြောက်သော လက်ရာများပင် ဖြစ်သည်။ စာရေး အတတ်၌ ကျွမ်းကျင်သူများသည် စာမူများတွင် ဆေးရောင်ခြယ် ပန်းချီပုံဖြင့်သော်၎င်း၊ ပန်းခက် ပန်းနွယ်များဖြင့်သော်၎င်း မွမ်းမံ ရေးခြယ်လေ့ရှိကြ၏။ ထိုကဲ့သို့ လှပအောင် မွမ်းမံ တန်ဆာဆင်ထားသည့် လက်ရေးစာမူကို ရောင်စုံ လက်ရေးစာမူဟု ခေါ်ကြသည်။ ပပိုင်းရပ် ပေချပ်ပေါ်တွင် ရေးသော စာမူများ၌ အစ စာလုံးကို ဆေးရောင်ခြယ် တန်ဆာဆင်လေ့ ရှိ၏။ အစအဦး၌ အနီရောင်၊ သို့မဟုတ် အပြာရောင်ဖြင့် ရေးခြယ်ခဲ့ကြ၍ နောင်အခါတွင် ရွှေရောင်ကို အသုံးများသည်။ (ပပိုင်းရပ်ပင် — ရှု။)

အီဂျစ်မှ ရောင်စုံ လက်ရေးစာမူများသည် တွေ့ရှိရသမျှသော စာမူများအနက် ရှေးအကျဆုံး ဖြစ်သည်။ ဥရောပတိုက်တွင် စာပုံနှိပ်စက်များ မပေါ်ပေါက်သေးသည့် အလယ်ခေတ်အခါက အယူဝါဒ ဆိုင်ရာ ကျမ်းစာအုပ်များကို လက်ရေးဖြင့် ရေးသားကြရသည်။ ရေးသားပြီးသော စာအုပ်များကို ဘုရားရှိခိုးကျောင်းများတွင် တရိုတသေ သိမ်းဆည်းထားကြ၏။ အချို့သော ဘုရားရှိခိုးကျောင်းများ၌ကား စာရေးရန် အခန်းဆောင်များပင် ထားရှိ၍ အယူဝါဒဆိုင်ရာ စာပေများကို ရေးသား ပြုစုကြလေသည်။




ရှေးခေတ် လက်ရေးစာမူများကို ဆေးရောင်ခြယ် ပန်းချီပုံများ၊ ပန်းခက် ပန်းနွယ်များ မွမ်းမံ ရေးခြယ်လေ့ရှိသည်။

ရှေးအီဂျစ် နိုင်ငံ၌ ယဉ်ကျေးမှု ထွန်းကားစဉ်က ပေါ်ပေါက်ခဲ့သော လက်ရေးစာမူ အချို့နှင့် မွမ်းမံ ရေးခြယ်ထားသည့် စာအုပ် မျက်နှာဖုံး အချို့ကို အီဂျစ် သင်းချိုင်းဂူများထဲမှ တူးဖော် တွေ့ရှိကြ၏။ သို့ရာတွင် အနည်းငယ်မျှသာ တွေ့ရှိရသောကြောင့် မစုံလင်လှချေ။ ဣတလီနိုင်ငံ မီလန်မြို့ရှိ ပိဋကတ်တိုက်ကြီးတွင် တွေ့ရှိရသော လက်ရေးစာအုပ်နှင့် မျက်နှာဖုံးများမှာ ခရစ် ငါးရာစုနှစ်ခန့်က ရေးသားထားသည် ဖြစ်သောကြောင့် ရှေးအကျဆုံး လက်ရေးစာမူ ဖြစ်မည်ဟု ယူဆရပေသည်။

အဆိုပါ ရှေးဟောင်း လက်ရေးစာမူများနှင့် ရုပ်ပုံများသည် အသွင်အပြင်အားဖြင့် တခုနှင့်တခု ခြားနားကြသည် ဖြစ်ရကား ကျွမ်းကျင်သူကသာလျှင် မည်သည့် စာအုပ်သည် မည်သည့်ခေတ်က မည်သည့် နိုင်ငံတွင် ရေးသားခဲ့သော စာအုပ်ဖြစ်သည်ကိုပြောပြနိုင်၏။ ခေတ်အသီးအသီးက ပေါ်ပေါက်ခဲ့သော လက်ရေးစာမူများ အနက် အလယ်ခေတ်က ပေါ်ပေါက်ခဲ့သော စာမူများသည် အများဆုံးဖြစ်သည်။ ထိုခေတ်က လူများသည် မိမိတို့၏ မိဖ ဆရာသမားများကို ရည်စူးလျက် လက်ရေး ကျမ်းစာများကို ဘုရားရှိခိုးကျောင်းများတွင် အပ်နှံထားတတ်ကြသည်။

လက်ရေး စာအုပ်၏ မျက်နှာဖုံးများတွင် ရုပ်ပုံငယ်များကို ဆေးရောင်စုံ ခြယ်ပြီးလျှင် အတ္ထုပ္ပတ္တိ ဇာတ်လမ်း ဇာတ်ကွက် တခုခုကို ဖော်ပြ ရေးဆွဲထားလေ့ ရှိကြသည်။ တခါတရံ ဆေးရောင်စုံ အပြင် ရွှေရောင်ကိုပါ သားနားစွာ ထည့်သွင်း ရေးခြယ်ခဲ့ကြရာ ခေတ်အလျောက် တိုးတက်နေသော အနုပညာ အဆင့်အတန်းကို ကောင်းစွာ သိသာစေသည်။

စာမျက်နှာများကို မွမ်းမံ ရေးခြယ်ရာ၌ အစပဌမတွင် စာပိုဒ် အစရှိ စာလုံးကို သာမန်မျှ ရေးခြယ် မွမ်းမံကြသဖြင့် များစွာ ရှုပ်ထွေးခြင်း မရှိလှသေးချေ။ နောင်အခါ၌ကား ထိုသို့ ရေးခြယ်ခြင်းမှာ စာတမျက်နှာလုံး ပြည့်သည်အထိ ရှုပ်ထွေးလာလေ၏။ အစ စာလုံးကို အနီရောင်ဖြင့် ရေးခြယ်၍ ရုပ်ပုံ ပန်းခက်များကိုမူ ရောင်စုံဖြင့် ရေးခြယ်လေ့ရှိကြသည်။

လက်ရေး စာမူများကို မွမ်းမံ ရေးခြယ်ခြင်းအတတ်သည် ခေတ်အသီးအသီးတွင် ထွန်းကားခဲ့ရာ ရှေးအကျဆုံးနှင့် အထင်ရှားဆုံး ခေတ်တခေတ်မှာ ဗိုင်ဇင်းတိုင်ခေတ်ပင် ဖြစ်သည်။ အိုင်ယာလန်နိုင်ငံတွင်လည်း ရှစ်ရာစုနှင့် ကိုးရာစုနှစ်များက ထိုအတတ် ထွန်းကားခဲ့သည်။ အင်္ဂလန်နှင့် အိုင်ယာလန် နိုင်ငံတို့မှာ နီးကပ်စွာ တည်ရှိနေသော်လည်း လက်ရေးစာမူ ရေးခြယ်ခြင်း အတတ်တွင်ကား တနိုင်ငံနှင့်တနိုင်ငံ မတူကြချေ။ ပမာဆိုသော် အိုင်ယာလန် နည်းစံနစ်မှာ စပိန်နိုင်ငံမှ ရသော နည်းစံနစ်ဖြစ်၍ အင်္ဂလိပ် လူမျိုးတို့ကမူကား ရောမ လူမျိုးများထံမှ နည်းကို တဆင့် ရရှိလေသည်။ သို့ရာတွင် စကော့တလန် နည်းစံနစ်သည် အိုင်ယာလန် စံနစ်နှင့် မခြားနားလှချေ။

ပြင်သစ်၊ ဖလန်းဒါးနှင့် ဣတာလီ နိုင်ငံတို့တွင် လက်ရေးစာမူ မွမ်းမံ ရေးခြယ်သူတို့သည် အဖွဲ့အစည်းနှင့် ရှိကြ၏။ ယင်းတို့သည် မိမိတို့ ကြိုက်နှစ်သက်ရာ နည်းစံနစ်ကို အသုံးပြုကြလေသည်။ အထူးသဖြင့် ပြင်သစ် နိုင်ငံတွင် အသုံးပြုနေသောစံနစ်မှာ ခရစ် ၁၃ ရာစုနှစ်နှင့် ၁၅ ရာစုနှစ်များအတွင်းက ပေါ်ပေါက်ခဲ့သော ဂေါ့သစံနစ်မှ ဆင်းသက်ခဲ့လေသည်။

ဤသို့ လက်ရေးစာမူ မွမ်းမံ ရေးခြယ်ခြင်း အတတ်သည် ပုံနှိပ် စာအုပ်များ မပေါ်သေးသည့် ရှေးခေတ်က အထူးပင် ခေတ်စားခဲ့သော်လည်း ပုံနှိပ်စက်များ ပေါ်ပေါက်လာ၍ စာပုံနှိပ်ပညာ၊ ဗလောက်ပညာတို့ တိုးတက်လာသည့် ယခုခေတ်တွင်ကား အဆိုပါ အတတ်ပညာမှာ တိမ်ကော ပပျောက်လျက် ရှိလေသည်။

**ရိုင်းစပါး။** ။ရိုင်းစပါးသည် ဂျုံ၊ မုယောတို့နှင့် ဆင်တူသော ကောက်မျိုး ဖြစ်၍ ဂရာမီနီး မျိုးရင်းတွင် ပါဝင်ပြီးလျှင် ရုက္ခဗေဒ အလိုအားဖြင့် ဆီကာလီ ဆီရီယေးဟု ခေါ်၏။ ဥရောပတိုက် ပင်လယ်နက် မြောက်ဖက်ရှိ အရပ်သည် ရိုင်းစပါးကို မူလ စိုက်ပျိုးသော အရပ် ဖြစ်သည်ဟု ယူဆရသည်။ ရုရှ၊ ဂျာမနီနှင့် စကန်ဒီနေးဗီးယား နိုင်ငံတို့သည် ရိုင်းစပါးကို အများဆုံး စိုက်ပျိုးသော နိုင်ငံများ ဖြစ်သည်။ အာရှတိုက် မြောက်ပိုင်းနှင့် မြောက်အမေရိကတိုက်တို့၌လည်း ရိုင်းစပါးကို စိုက်ပျိုးသည်။ ရိုင်းစပါးသည် အခြားကောက်မျိုးများ မဖြစ်ထွန်းသော မြေညံ့ အရပ်များ၌ စိုက်ပျိုး၍ရသည်။ အခြား ကောက်မျိုးထက် အအေးဒဏ်ကို ပို၍ ခံနိုင်၏။ အင်္ဂလန်ပြည် တောင်ပိုင်းတွင် ရိုင်းစပါးကို ကျွဲနွားစာအတွက် စိုက်ပျိုး၏။ သို့ရာတွင် ရိုင်းစပါးရိုးတံသည် မာလွန်း၍၎င်း၊ အဆိပ်အတောက် ဖြစ်စေသည့် မှိုရောဂါ ကျရောက်တတ်၍၎င်း ကျွဲနွားစာအတွက် မသင့်လှချေ။

ဥရောပတိုက် မြောက်ပိုင်းတွင် ရိုင်းမှုန့်ဖြင့် ပြုလုပ်သော ပေါင်မုန့်နက်ကို ယခုထက်တိုင် စားသုံးလျက် ရှိကြသည်။ အမေရိကတိုက်၌မူ ရိုင်းမှုန့်ကို ဂျုံမှုန့်၊ ပြောင်းမှုန့်တို့နှင့် ရောစပ်၍ မုန့်လုပ်ကြသည်။ ရိုင်းဆန်ကို မုယောပင်ပေါက်လုပ်ရန်နှင့် အရက်ချက်ရန်အတွက်လည်း အသုံးချသည်။

ရိုင်းစပါးပင် ကောက်ရိုးသည် ရှည်၍ ချောသဖြင့် ဦးထုပ်နှင့်ဖျာ ရက်လုပ်ရာ၌ အသုံးဝင်သည်။ အိမ်မိုးရန်အတွက်လည်း အသုံးချကြသည်။



ရိုင်းစပါးသည် အခြားကောက်မျိုးထက် အအေးဒဏ် ပို၍ခံနိုင်ရည်ရှိပြီး မြေညံ့အရပ်များ၌ စိုက်ပျိုးနိုင်သည်။

**ရိုင်းမြစ်။** ။ရိုင်းမြစ်သည် ဂျာမန်လူမျိုးအတွက် ယင်းတို့၏ အမျိုးသားရေး ဆိုင်ရာ သမိုင်းနှင့် ဆက်စပ်လျက် ရှိသော အထိမ်းအမှတ် ဖြစ်သည်။ ရိုင်းမြစ်ဝှမ်းသည်လည်း



ရှေးအခါမှစ၍ ဥရောပတိုက်တွင် ကုန်သွားလာရေးအတွက် အရေးပါ အရာရောက်ဆုံး လမ်းခရီးဖြစ်သည့် ရိုင်းမြစ်

ထင်ရှားသော သမိုင်းပုံပြင်များ ပေါ်ထွက်ရာ ဒေသ ဖြစ်၏။ ထို့ကြောင့် ဂျာမန်တို့သည် "ဖခင်ရိုင်းမြစ်" ဟူ၍ပင် ခေါ် စမှတ်ပြုကြသည်။ ရှေးအခါမှစ၍ ဥရောပတိုက်တွင် ကုန်သွားလာရေးအတွက် အရေးပါ အရာရောက်ဆုံး လမ်းခရီးဖြစ်လေသည်။

ရိုင်းမြစ်သည် ဆွစ်ဇာလန် နိုင်ငံ အရှေ့ပိုင်း အဲလပ တောင်တန်းများတွင် မြစ်ဖျားခံ၍ မြောက်ဖက်သို့ မိုင် ၈၅၀ ခန့် စီးဆင်းပြီးလျှင် မြောက်ပင်လယ်ထဲသို့ စီးဝင်သည်။ မြစ်မနှင့်တကွ မြစ်လက်တက်များ အပါအဝင် ရေဆင်းနယ် အကျယ်အဝန်းမှာ စတုရန်းမိုင် တသိန်းနီးပါးမျှ ရှိသည်။

ရိုင်းမြစ်ကို အထက်ပိုင်း၊ အလယ်ပိုင်းနှင့် အောက်ပိုင်း ဟူ၍ မြစ်ကြောင်း သုံးပိုင်း ခွဲခြားထားနိုင်သည်။ မြစ်ဖျားခံရာမှ ကွန်စတန့်အိုင်ကို ဖြတ်သန်းလျက် အနောက်ဖက်သို့ ဆွစ်ဇာလန် နိုင်ငံရှိ ဗားလမြို့အထိသည် မြစ်ကြောင်း အထက်ပိုင်းဖြစ်၍ ပေ ၇၀ အမြင့်ရှိသော ရှပ်ဖဟောင်ဇင် ရေတံခွန် ရှိ၏။ ဗားလမြို့မှ မြောက်ဖက်သို့ ဂျာမနီ နိုင်ငံ ကိုလုန်းမြို့အထိသည် မြစ်ကြောင်း အလယ်ပိုင်း ဖြစ်သည်။ ဤအပိုင်းတွင် ရိုင်းမြစ်သည် ရေစီးသန်၏။ ထိုပြင် မြစ်ကြောင်း တလျှောက် တောင်ထိပ်များပေါ်၌ ရှေးရဲတိုက်ကြီးများကို တွေ့နိုင်သည်။ သမိုင်းပုံပြင်များ ပေါ်ထွက်ရာ အရပ်ဖြစ်၍ ရှုခင်း အလွန်သာယာသည် ကိုလုန်းမြို့မှ နယ်သာလန် နိုင်ငံကို ဖြတ်၍ ပင်လယ်ထဲသို့ စီးဆင်းသည်အထိသည် မြစ်ကြောင်း အောက်ပိုင်း ဖြစ်သည်။ နယ်သာလန် နိုင်ငံတွင် ရိုင်းမြစ်ကြောင်းသည် ကုန်စည် ကူးသန်းရေး အတွက် အသုံးဝင်၏။

ရိုင်းမြစ်သည် ရုန်းမြစ်၊ ဒန်ညူမြစ်အပြင် အခြား မြစ်များနှင့်လည်း တူးမြောင်းများဖြင့် ဆက်သွယ်လျက် ရှိခြင်းကြောင့် မြစ်တဖက်တွင် ပြင်သစ်နိုင်ငံ၊ ဗဲလဂျီယမ်နိုင်ငံတို့နှင့်၎င်း၊ အခြား တဖက်တွင် ဂျာမနီနိုင်ငံနှင့်၎င်း ကူးလူး ဆက်ဆံနိုင်သည်။ မိုဇဲမြစ်သည် ရိုင်းမြစ်၏ အကြီးဆုံး မြစ်လက်တက်ဖြစ်၏။

မြစ်ကြောင်း တလျှောက်ရှိ ထင်ရှားသော မြို့များမှာ စထရပ်စဗူးမြို့၊ စပီးယားမြို့၊ ဗမ်းမြို့၊ မန့်ဇမြို့၊ ကိုလုန်းမြို့၊ မန်းဟိုင်းမြို့၊ဒူဆဲလဒေါ့မြို့နှင့် ရော့တဒမ်းမြို့များ ဖြစ်သည်။

၁၉၃၆ ခုနှစ်မှစ၍ ဂျာမန်တို့သည် ရိုင်းမြစ် ဒေသဖက်၌ စစ်တပ်များ စေလွှတ်၍ အင်အားဖြည့်ထားခဲ့၏။ ဒုတိယ

ကမ္ဘာစစ် ဖြစ်ပွားလာသောအခါ မဟာမိတ်တပ်များသည် ရှိင်းမြစ်ကို ဖြတ်ကူးနိုင်မှသာလျှင် ဂျာမနီ နိုင်ငံတွင်းသို့ ဝင်ရောက်နိုင်မည် ဖြစ်သဖြင့် ထိုဒေသ၌ တိုက်ပွဲများ ပြင်းထန်စွာ ဆင်ရခဲ့လေသည်။

**ရစ်။** ။ကမ္ဘာပေါ်တွင် ရစ်အမျိုးမျိုး ရှိသည်။ ပါဏဗေဒ အလိုအားဖြင့် ရစ်များသည် ဒေါင်း၊ ငုံး၊ တောကြက်များနှင့် အတူ ဖာစီအင်နီဒီး မျိုးရင်းတွင် ပါဝင်သည်။ ရစ်အမျိုးမျိုး၌ ပါဏဗေဒ အမည်အမျိုးမျိုး ရှိသည်။ ပါဏဗေဒ အလိုအားဖြင့် လိုဖူရာ လျူကိုမယ်လင်နာခေါ် ရစ်မျိုး၏ ကိုယ်အလျားမှာ လက်မ ၂၀ မှ ၂၇ အထိ ရှိသည်။ ပါဏဗေဒအလိုအရ လိုဖူရာ နစ်သီးမားရပ်ဟု ခေါ်သည့် ရစ်မျိုး၏ အရွယ်မှာ ပဋမ ရစ်မျိုးလောက်ပင် ဖြစ်သည်။ သို့သော် ခြေထောက်နီ၍ အဖို၌ ၁၈ လက်မမှ ၂၆ လက်မအထိ ရှည်သော အမြီးရှိသည်။ ထိုရစ်ဖိုများ၏ ကိုယ်အထက်ပိုင်းသည် ဖြူ၍ အောက်ဖက်ပိုင်းသည် မည်း၏။



မြန်မာနိုင်ငံ တောင်ခြေများတွင် အတွေ့ရများသည့် ရစ်

မျက်နှာ အရေပြားသည် ကြက်သွေးရောင်ဖြစ်၍ ဦးခေါင်းနှင့် အမောက်များသည် မည်းလျက် ရှိသည်။

ရစ်များ၏ အော်သံမှာ ကွဲအက်၍ အာလုပ်သံ ပါသည်။ ထိတ်လန့်သောအခါ ဟု–ကီ–ကီ ဟူ၍ အာလုပ်သံဖြင့် ထပ်ကာထပ်ကာ အော်တတ်သည်။ ပဋမရစ်မျိုးဖြစ်သော လိုဖူရာ လျူကိုမယ်လင်နာကို များသောအားဖြင့် ကျွန်းတောများတွင် တွေ့ကြရသည်။ ထိုရစ်မျိုးသည် တောကြက်ထက်ပို၍ စိုစွတ်သော တောများကို ကြိုက်နှစ်သက်သည်။ အုပ်များ ဖွဲ့၍ ချောင်းကလေးများဘေးတွင် ကျက်စားကြသည်။တောကြက်များကဲ့သို့ မဟုတ်ဘဲ ထိုရစ်မျိုးကို ရိတ်ပြီးစ လယ်ကွင်းများတွင် အတွေ့ရနည်းသည်။ သို့သော် အုပ်စုများ ဖွဲ့၍ နေခြင်းကိုမူ တခါတရံ ဆောင်းရာသီ နံနက်ပိုင်းများတွင် တွေ့ရတတ်သည်။ ထိုပြင် လသာသောညဉ့်များ၌ ကွင်းပြင်များသို့ ထွက်၍ ကျက်စား တတ်ကြသည်ဟု ဆိုသည်။ ကြောက်ရွံ့တတ်၍ လူကပ်မခံချေ။ မြေပေါ်၌သာ ပြေးတတ်ကြပြီးလျှင် မတတ်သာမှပင် ထ၍ ပျံတတ်ကြသည်။ ထိုရစ်မျိုး၏ အဖိုများသည် အလွန် ရန်မူတတ်ကြသည်။ ယင်းတို့ကို တယ်သည့် ရစ်ဖြင့် လွယ်ကူစွာ ဖမ်းယူနိုင်သည်။

ထိုရစ်မျိုးသည် များသောအားဖြင့် မတ်လမှ မေလအထိတွင် သားပေါက်တတ်ကြသည်။ သို့သော် တနင်္သာရီနယ်ဖက်တွင် ဇန္နဝါရီလ စောစောပိုင်းတွင် အုတတ်ကြသည်။ နောက်တကြိမ် အောက်တိုဘာလအထိ အုကြပြန်သည်။ လေးဥမှ ဆယ်ဥအထိရှိသော ဥများကို မြေကြီးပေါ်ရှိ ယက်ထားသော တွင်းများတွင် အုတတ်သည်။ အရောင်မှာ အဖြူမှ နီဝါရောင်အထိ ရှိတတ်သည်။

ထိုရစ်မျိုးကို မြန်မာနိုင်ငံအတွင်းရှိ တောင်ခြေများတွင် အတွေ့ရများပြီးလျှင် ပေ ၆,၀၀၀ အထိ မြင့်သော တောင်ကုန်းများတွင်လည်း အနည်းအကျဉ်း တွေ့ရသည်။ ဒုတိယရစ်မျိုးများကို ပေပေါင်း ၉,၀၀၀ အထိ မြင့်သော တောင်ကုန်းများပေါ်တွင် တွေ့ရသည်။ မြက်ခင်းများသို့ ထွက်ကြသည်ကို တွေ့ရခဲ့သည်။ ရစ်များ၏အစာမှာ စပါး၊ ဂျုံ စသည့် ကောက်ပဲသီးနှံများ၊ သစ်စေ့၊ သစ်ရွက်၊ မြက်နုအပြင် ပိုးကောင်နှင့် ပိုးပေါက်စများ ဖြစ်လေသည်။

**ရစ်ကြီး။** ။ရစ်ကြီးတို့၏ မူလနေရပ်မှာ အာဖရိကတိုက်ဖြစ်၍ အနောက်ဖက် ဂီနီ ကမ်းခြေမှ တောင်ဖက် တ



အညိုရောင် အတောင်တွင် အဖြူစက်ကလေးများ ပါသည့် ရစ်ကြီး

လျှောက်တွင် ဂွတ်ဟုတ် အငူအထိ ဤငှက်မျိုးကို အတွေ့ရများသည်။ ရှေးနှစ်ပေါင်း နှစ်ထောင် အထက်က ရောမ

လူမျိုးတို့သည် ရစ်ငှက် အယဉ်တို့ကို ဥရောပတိုက်သို့ ယူဆောင်ခဲ့ကြသည်။ သို့ရာတွင် ရောမခေတ် ပျက်သုဉ်းသွားပြီးနောက် ဥရောပတိုက်မှ ရစ်ငှက်များလည်း ပျောက်ကွယ်သွားလေသည်။ ၁၆ ရာစုနှစ်သို့ ရောက်သည့်အခါ ပေါ်တူဂီလူမျိုးက ရစ်ငှက်များကို ဥရောပတိုက်သို့ တဖန် ယူဆောင်ခဲ့ကြပြန်သည်ဟု ထင်မှတ်ရလေသည်။ ရစ်များသည် အစုအသင်း ဖွဲ့ကာ နေတတ်ကြ၍ အနည်းငယ် လန့်ဖျပ်ရှိမှုနှင့် အဆက်မပြတ် တကြော်ကြော် အော်မြည်နေတတ်ကြသည်။ ထို့ကြောင့် နေအိမ်၏ အနီးအနားတွင် ရစ်ငှက်များကို မွေးမြူထားလျှင် ထိုငှက်တို့၏ အော်သံကြောင့် နားငြီးအောင် ဆူညံနေတတ်သည်။ သို့သော် ကြက်ခြံ ဘဲခြံစသည်တို့အတွက် ရစ်များသည် အလွန် စိတ်ချရသော အစောင့်အကြပ်များ ဖြစ်နိုင်ပေသည်။ လူတို့ မွေးမြူကြသော ကြက်ငှက်တို့တွင် ရစ်သည် အလှပဆုံးငှက်ဟု မဆိုနိုင်စေကာမူ ညိုမှဲ့ရောင်ရှိသော အမွေးအတောင်များ၌ အဖြူစက်ကလေးများ ပြည့်နှက်လျက် ရှိနေသဖြင့် အမြင်ရ တင့်တယ်၏။

သာမန်ရစ်ကြီးများတွင် များသောအားဖြင့် အရိုး ဆန်ဆန် အမောက်တခု ရှိသည်။ နီမြန်းသည့် အရေပြား၊ နီမြန်းသည့် လည်အောက် အသားတွဲတို့ကြောင့် ဦးခေါင်း၊ မျက်နှာနှင့် လည်ပင်း တစိတ်တဒေသကို ထူးခြားစေသည်။ အမောက်ပါသော ရစ်ကြီးများ၏ အမွေးရောင်မှာ အမည်းဖြစ်၍ အပြာပျော့ရောင် အစက်များရှိသည်။ ထိုရစ်ကြီးမျိုး၏လည်တိုင်မှာ ပြာ၍ လည်ချောင်းမှာ နီသည်။

ရစ်ကြီးသည် မြေပေါ်တွင် ကျက်စား၍ သစ်ပင်ထက်၌ အိပ်တန်း တက်တတ်သောငှက် ဖြစ်သည်။ ၁၀ လုံးမှ အလုံး ၂၀ ထိရှိသော ဥများကို မြေပြင်ပေါ်တွင် အုချတတ်သည်။ ဥများတွင် အစက်များ ပါရှိသည်။ ရစ်၏ အသားမှာ အလွန် နူးညံ့၍ အရသာ ရှိသဖြင့် လူကြိုက်များသည်။ ရစ်ဥများမှာမူ သေးငယ်သဖြင့် အသုံးမဝင်လှချေ။ ထို့ကြောင့် ရစ်ငှက်တို့ကို အသားအတွက် မွေးမြူထားကြသည်။

ရစ်ကြီးမျိုးစိတ်ပေါင်း ၂၃ မျိုး ရှိသည်။ ယင်းတို့သည် ဘေးအန္တရာယ်မှ လွတ်မြောက်စေရန် ကြိုးစားရာတွင် ပျံခြင်းထက် ပြေးခြင်းကို ပို၍ နှစ်သက်ကြသည်။

**ရစ်ချတ်ဘုရင်များ။** ။၁၁၈၉ ခုနှစ်မှ ၁၄၈၅ ခုနှစ်အထိ ဖြစ်သော အချိန်ကာလအတွင်း အင်္ဂလိပ် ထီးနန်းတွင် ရစ်ချတ်ဘုရင်သုံးပါး စိုးစံခဲ့လေသည်။

**ပဌမ ရစ်ချတ်ဘုရင်** (ခရစ် ၁၁၅၇–၁၁၉၉) သည် ကရူးဆိတ်စစ်ပွဲ သူရဲကောင်းများထဲတွင် သူရသတ္တိနှင့် အပြည့်စုံဆုံးဖြစ်သည်ဟု ဥဒါန်းတွင်သူ ဖြစ်သည်။ ရစ်ချတ်ဘုရင်၏ သူရသတ္တိ၊ စိတ်နေသဘောထားတို့နှင့် စပ်လျဉ်း၍ ဆာ ဝေါလတာစကော့က "အိုင်ဗင်ဟို" နှင့် "သတယ်လစ္စမန်" ဝတ္ထုများ၌၎င်း၊ မောရစ် ဟျူးလက်၏ ဝတ္ထု၌၎င်း ထုတ်ဖော်ရေးသားခဲ့လေသည်။ ထို့ကြောင့် ပဌမရစ်ချတ်ဘုရင်သည် ခြင်္သေ့မင်းကဲ့သို့ ရဲရင့်သူဟူသောဘွဲ့ဖြင့် သမိုင်းတွင် ထင်ရှားသည်။ ရစ်ချတ်ဘုရင်သည် ၁၁၅၇ ခုနှစ် စက်တင်ဘာလ ၈ ရက်နေ့တွင် ဖွားမြင်၍ ဒုတိယ ဟင်နရီဘုရင်၏ တတိယသားတော် ဖြစ်သည်။ မယ်တော်မှာ ပြင်သစ်နိုင်ငံ တောင်ပိုင်းမှ အက်ကွီတိန် နယ်စားဖြစ်၏။ ပြင်သစ်နိုင်ငံ၌ ကြီးပြင်းလာသူဖြစ်သောကြောင့် အင်္ဂလိပ်ထီးနန်းတွင် စိုးစံရပြီးသည့်နောက်၌ပင် အင်္ဂလန်နိုင်ငံသို့ နှစ်ခေါက်မျှသာ လာရောက်ခဲ့ဘူးလေသည်။

တဆဲ့သုံးနှစ်သား အရွယ်တွင် မယ်တော်၏ အက်ကွီတိန်နယ်ကို အပိုင်စားခွင့်ရသည်။ ၁၁၇၁ ခုနှစ်တွင် နောင်တော်များကပြင်သစ်ဘုရင်၏အကူအညီဖြင့်ခမည်းတော်ကိုပုန်စားပုန်ကန် ပြုကြသောအခါ ရစ်ချတ်လည်း နောင်တော်များဖက်မှ ပါဝင်ခဲ့သည်။ သို့ရာတွင် ပုန်ကန်မှုမှာ မအောင်မြင်ချေ။ ရစ်ချတ်သည် နောင်တော်များနှင့် မသင့်မတင့်သဖြင့် အချင်းချင်းလည်း တိုက်ခိုက်ကြ၏။ ၁၁၈၃ ခုနှစ်တွင် နောင်တော် ဟင်နရီမင်းသား ကွယ်လွန်သောကြောင့် ရစ်ချတ်မင်းသားသည် အင်္ဂလိပ်ထီးနန်းအတွက် နန်းလျာ ဖြစ်လာလေ၏။ ထို့သို့ဖြင့် ၁၁၈၉ ခုနှစ်တွင် ခမည်းတော်နတ်ရွာစံသောအခါ ရစ်ချတ်ဘုရင် နန်းတက်လေသည်။

ထိုအချိန်တွင် မွတ်စလင်ခေါင်းဆောင် ဆဲလဒင် ဘုရင်က ပယ်လက်စတိုင်းပြည်ရှိ ဂျေရုဆလမ်မြို့ကို သိမ်းပိုက်ထားသဖြင့် ဥရောပတိုက်မှ ခရစ်ယန်တို့သည် မခံမရပ်နိုင် ဖြစ်ပြီးလျှင် တတိယ ကရူးဆိတ် စစ်ပွဲအတွက် ပြင်ဆင်နေဆဲ ဖြစ်၏။ သို့ဖြစ်သောကြောင့် ပဌမရစ်ချတ် ဘုရင်သည် ပြင်သစ်ဘုရင် ဒုတိယဖိလစ်နှင့်အတူ ကရူးဆိတ်တပ်များကို ခေါင်းဆောင်၍ ပယ်လက်စတိုင်းပြည်သို့ စစ်ချီလေသည်။ ဧကမြို့ကိုသိမ်းပိုက်ပြီးသော် ခေါင်းဆောင် နှစ်ဦးတို့ သဘောကွဲလွဲကြသဖြင့် ဖိလစ်သည် တပ်ခေါက်၍ ပြန်လာခဲ့၏။ ရစ်ချတ်တဦးတည်းသာလျှင် ခေါင်းဆောင်၍ ဆဲလဒင်၏ တပ်များကို ဆက်လက် တိုက်ခိုက်လေသည်။ နောက်ဆုံး၌ အင်္ဂလန်သို့ ပြန်ရန် ကိစ္စပေါ်ပေါက်လာ၍ ဆဲလဒင်နှင့် စစ်ပြေငြိမ်းရေး စာချုပ်ကို ချုပ်ဆိုပြီးနောက် ၁၁၉၂ ခုနှစ်တွင် အင်္ဂလန်နိုင်ငံသို့ ပြန်ခဲ့သည်။ (ကရူးဆိတ်စစ်ပွဲများ၊ ဆဲလဒင် — လည်းရှု။)

ရစ်ချတ် ကရူးဆိတ် စစ်ပွဲ၌ ခေါင်းဆောင် တိုက်ခိုက်နေစဉ် ညီတော် ဂျွန်မင်းသားသည် ထီးနန်းကို လုရန် ဖိလစ်ဘုရင်နှင့် ပူးပေါင်း ကြံစည်ခဲ့၏။ ရစ်ချတ် ဘုရင်သည် ရန်သူလီယိုပိုပိုင် ဩစတြီးယား နိုင်ငံကို ရှပ်ဖျက်၍ ဖြတ်သန်းလာခဲ့ရာ ဗီယင်နာမြို့သို့ ရောက်ရှိသောအခါ မိမိရုပ်ကို မှတ်မိသဖြင့် အဖမ်းခံရ၍ ရဲတိုက်တခု၌ အကျဉ်းချခြင်း ခံရသည်။




အင်္ဂလန်ပြည့်ရှင် ဒုတိယ ရစ်ချတ်ဘုရင်

လီယိုပိုအား ငွေကြေး အမြောက်အမြားပေး၍ ရစ်ချတ်ဘုရင်ကို ရွေးယူရလေသည်။

၁၁၉၄ ခုနှစ်တွင် အင်္ဂလန်နိုင်ငံသို့ ပြန်ရောက်သည့်အခါ ရစ်ချတ်သည် တိုင်းပြည်ရေးရာ တို့ကို မှူးမတ်များ လက်၌ လွှဲအပ်ပြီးလျှင် ပြင်သစ်ဘုရင် ဖိလစ်ကို ဆက်တိုက် စစ်ခင်း၍သာ အချိန်ကုန်ခဲ့၏။ ထိုသို့အားဖြင့် ၁၁၉၉ ခုနှစ်တွင် ပြင်သစ်နိုင်ငံတောင်ပိုင်း၌ ရဲတိုက်တခုကို ဝိုင်းရံတိုက်ခိုက်နေစဉ် ရန်သူ၏ မြားချက်သင့်သဖြင့် ကွယ်လွန်ရလေသည်။

ဒုတိယ ရစ်ချတ်ဘုရင်(ခရစ် ၁၃၆၇–၁၄၀၀)သည် ဘိုးတော် အင်္ဂလန်ပြည့်ရှင် တတိယ အက်ဒွပ်ဘုရင်၏ ရိုက်ရာကို ဆက်ခံရသောအခါ ၁၀ နှစ်အရွယ်မျှသာ ရှိသေးသည်။ သူကို ၁၃၆၇ ခုနှစ် ဇန္နဝါရီလ ၆ ရက်နေ့တွင် ဖွားမြင်ခဲ့လေသည်။ သူ၏ ခမည်းတော်မှာ အနှစ်တရာစစ်ပွဲ အတွင်း ကရေဆီး တိုက်ပွဲနှင့် ပွားတီးယေးတိုက်ပွဲတို့တွင် နာမည်ကျော်ကြားခဲ့သည့် ဗလက်ပရင့် မင်းသားဖြစ်သည်။ ဗလက်ပရင့်သည် အက်ဒွပ်ဘုရင် ထက် တနှစ်စော၍ ကွယ်လွန် သွားသဖြင့် အက်ဒွပ်ဘုရင်၏ ရိုက်ရာကို ရစ်ချတ်မင်းသားက ဆက်ခံရခြင်း ဖြစ်လေသည်။

ရစ်ချတ်သည် ထီးနန်းကို ဆက်ခံရချိန်တွင် ငယ်ရွယ် လုသေး၍ ပါလီမန်က ခန့်ထားသော ကောင်စီ အဖွဲ့က နိုင်ငံကို အုပ်ချုပ် ခဲ့လေသည်။ သို့သော် ယင်းအဖွဲ့တွင် ပါဝင်သော ဦးရီးတော် လန်ကက်စတာမြို့စား ဂျွန် အော့ ဂေါင့်သည်သာ နိုင်ငံကို သူထင်သလို ချယ်လှယ်အုပ်ချုပ်ခဲ့၏။ နိုင်ငံတွင် အခွန်အတုတ်များ ကြီးလေးစွာ ကောက်ခံခဲ့သဖြင့် တိုင်းသူပြည်သားတို့ မကြေမနပ် ဖြစ်နေခဲ့ရာ နောက်တဖန် လူခွန်တော် ကောက်ခံပြန်သောအခါ ဝပ် တိုင်လာ ခေါင်းဆောင်သော လယ်သမား သူပုန် (၁၃၈၁ ခုနှစ်တွင်) ထကြွခဲ့လေသည်။ ထိုစဉ်က ၁၄ နှစ်အရွယ်မျှသာရှိသေးသော ဘုရင်ကလေး ရစ်ချတ်သည် ထိုသူပုန်အရေးကို သူ၏ အစွမ်းသတ္တိဖြင့် ပြီးပြတ်အောင် ဆောင်ရွက်ခဲ့လေသည်။

ရစ်ချတ်၏ လက်ထက်တွင် အခက်အခဲအမျိုးမျိုး ပေါ်ပေါက်ခဲ့သဖြင့် တိုင်းပြည်မငြိမ်မသက် ရှိခဲ့သည်။ ရစ်ချတ်အရွယ် မရောက်မီ သူ့ဦးရီးတော်များ အပါအဝင် မှူးမတ်မျိုးနွယ်တို့ အာဏာလုပွဲကြီးများလည်း ဖြစ်ပွားခဲ့၏။ ဂျွန် ဝစ်ကလစ်၏ ဟောပြောချက်များကြောင့် အယူဝါဒအရေးတွင် သဘောကွဲလွဲမှုများလည်း ပေါ်ပေါက်ခဲ့လေ၏။ ၁၃၈၂ ခုနှစ်၌ ဗိုဟီးမီးယားမင်းသမီး အန်းနှင့် လက်ထပ်ခဲ့ပြီးသည့်နောက်တွင် သူ့အား ပါလီမန်က ကြိုးကိုင် နေခဲ့သည်ကို လွတ်မြောက်ရေးအတွက် ကြိုးပမ်းခဲ့လေသည်။ သို့ကြိုးပမ်းခဲ့ရာတွင် သူ့အား "ထောက်ခံမည့်သူများကိုသာ ဝန်ကြီးများအဖြစ် ခန့်ထားခဲ့၏။ ထိုအခါ ပါလီမန်နှင့် ပဋိပက္ခ ဖြစ်လာ၍ ဂလောစတာမြို့စား ခေါင်းဆောင်သော ပါလီမန်သည် ဝန်ကြီးများကို ဖြုတ်ချပစ်ရန်နှင့် နိုင်ငံကို တနှစ်မျှ အုပ်ချုပ်ရန်အတွက် ဆဲ့တစ်ဦး ကော်မီတီကို လက်ခံရန် တောင်းဆိုခဲ့လေသည်။ ရစ်ချတ်သည် ဆဲ့တစ်ဦး ကော်မီတီကိုသာ လက်ခံခဲ့၏။ သို့သော်လည်း ထိုကော်မီတီကိုလည်း ဖြုတ်ချရန် ကြိုးပမ်းခဲ့ပြန်ရာ ဂလောစဘာမြို့စားနှင့် တကွ အားလ အရွန်ဒယ်၊ ဒါဗီ၊ နော့တင်ဂမ်နှင့် ဝါဝစ်တို့သည် လန်ဒန်သို့ တပ်နှင့်ချီလာပြီးသော် ဘုရင့်ဝန်ကြီး ငါးဦးကို သစ္စာဖောက်မှုနှင့် စစ်ဆေးရန် တောင်းဆို ခဲ့လေသည်။ ထိုနောက် ပါလီမန်က ဘုရင့်ဖက်တော်သား အချို့ကို သေဒဏ်ပေးကာ အချို့ကို ပြည်နှင်ဒဏ် ပေးခဲ့၏။

၁၃၈၉ ခုနှစ်တွင် သူ့ဦးရီးတော်များ၏ အချုပ် အချယ်ကို တွန်းလှန်ခဲ့ပြီးသော် အရွယ်ရောက်ပြီဖြစ်၍ နိုင်ငံကို သူကိုယ်တိုင် အုပ်စိုးမည့်အကြောင်း ကျေညာခဲ့သည်။ ထိုနောက် ရှစ်နှစ်ခန့်မျှ အေးချမ်းစွာ နိုင်ငံကို အုပ်စိုးခဲ့လေသည်။ သို့သော် သူ၏ဖက်တော်သားများကို နှိပ်စက် ညှဉ်းပန်းခဲ့သော ဂလော့စတာမြို့စားတို့ လူစုကိုကား အခဲမကြေနိုင်ဘဲ ရှိနေခဲ့သဖြင့် ထိုသူတို့ကို ဖမ်းဆီး၍ အချို့ကို သေဒဏ်၊ အချို့ကို ပြည်နှင်ဒဏ် ပေးခဲ့လေသည်။ ထို့မျှမကသေး သူ၏ တပ်သားများနှင့် ခြိမ်းခြောက်ကာ ပါလီမန်ထံ

မှ မည်သည့်မင်းမျှ မရခဲ့သော အခွင့်အရေးနှင့် အာဏာများကို ရအောင်ပြုနိုင်ခဲ့၏။

ရစ်ချတ်ဘုရင် ပြည်နှင်ဒဏ် ပေးခဲ့သူများတွင် တာရီဖို့မြို့စား (ယခင် အားလဒါဗီ) ဟင်နရီ ဗော်လင်းဗရုတ်လည်း ပါဝင်လေသည်။ ထိုအတောအတွင်း ဟင်နရီ၏ ဖခင် လန်ကက်စတာမြို့စား ကွယ်လွန်သွားလေရာ မြို့စားပိုင် လယ်မြေ ပစ္စည်းဥစ္စာတို့ကို ရစ်ချတ်က သိမ်းယူခဲ့၏။ ၁၃၉၉ ခုနှစ်တွင် ရစ်ချတ်သည် အိုင်ယာလန်သို့ အုပ်ချုပ်ရေးကိစ္စများအတွက် သွားရောက်နေခဲ့စဉ် ဟင်နရီသည် သူ ရခွင့်ရထိုက်ရှိသော သူ့ဖခင်၏ပစ္စည်းဥစ္စာတို့ကို ပြန်လည်ရယူရန် လူစုကာ အင်္ဂလန်ပြည်သို့ ပြန်လာခဲ့လေသည်။ ရစ်ချတ်ဘုရင် ပြန်လာသောအခါ သူ့အား သူ၏နောက်လိုက် နောက်ပါများက စွန့်ခွာသွားခဲ့၍ ဟင်နရီမှာ အင်အားကောင်းနေသည်ကို တွေ့ရလေ၏။ သို့ဖြစ်၍ သူသည် ဝေလပြည် ဖလင့်မြို့တွင် ဟင်နရီထံ လက်နက်ချကာ အဖမ်းခံခဲ့လေသည်။ သူ့ကို လန်ဒန်သို့ ခေါ်ဆောင်ခဲ့ရာ ၁၃၉၉ ခုနှစ် စက်တင်ဘာလ ၂၉ ရက်နေ့တွင် ထီးနန်းကို စွန့်ခဲ့ရလေသည်။ ထိုနေ့တွင်ပင် ဟင်နရီအား ပါလီမန်၏ သဘောတူညီချက် အရနန်းတင်ခဲ့လေသည်။

၁၄၀၀ ပြည့်နှစ်တွင် ရစ်ချတ်အား ပြန်၍ နန်းတင်ရန် အတွက် ရစ်ချတ်၏ ဖက်တော်သားများက သူပုန် ထခဲ့ကြသေး၏။ သို့သော် ရစ်ချတ်မှာ မူလက အကျဉ်းချထားရာ လန်ဒန်မျော်စင်ကြီးမှ ရွှေ့ပြောင်းထားသော ယော့ရှိုင်ယာနယ်ရှိ ပွန်တယ်ဖရက် ရဲတိုက်ကြီးတွင် ကွယ်လွန် သွားလေသည်။ ရိုးရိုးရောဂါဖြင့် ကွယ်လွန်သည်ဟု ကြေညာခဲ့သော်လည်း ဟင်နရီ၏အမိန့်အရ စီရင်ပစ်ခြင်း ဖြစ်သည်ဟု လူအများက ယူဆခဲ့ကြလေသည်။

**တတိယ ရစ်ချတ်ဘုရင်** (ခရစ် ၁၄၅၂–၁၄၈၅) သည် စတုတ္ထအက်ဒွပ်ဘုရင်၏ ညီတော် အငယ်ဆုံး ဖြစ်၍ ၁၄၈၃ ခုနှစ်တွင် အင်္ဂလိပ် ထီးနန်းကို ဆက်ခံ စိုးစံလေသည်။ ၁၄၅၂ ခုနှစ် အောက်တိုဘာလ ၂ ရက်နေ့တွင် ဖွားမြင်၍ ယော့မြို့စား ဖက်တော်သားများနှင့် လန်ကက်စတာမြို့စား ဖက်တော်သားတို့ ထီးနန်း လုကြသည့် စစ်ပွဲဖြစ်သော နှင်းဆီစစ်ပွဲ (ခရစ် ၁၄၅၅ – ၁၄၈၅) အတွင်း ကြီးပြင်းလာခဲ့သူဖြစ်၏။ ထီးနန်းသက် နှစ်နှစ်မျှသာ ရှိသော်လည်း ဗြိတိသျှရာဇဝင်တွင် အစွန်းထင်အောင် ဆိုးရွားသော မင်းတပါးအဖြစ် မှတ်တမ်းတင် ခံရလေသည်။

၁၄၈၃ ခုနှစ်တွင် နောင်တော် စတုတ္ထအက်ဒွပ် ဘုရင်နတ်ရွာစံသောအခါ အသက် ၁၃ နှစ်ခန့်မျှ ရှိသေးသော သားတော်သည် ပဉ္စမအက်ဒွပ်ဘုရင်အဖြစ် အရိုက်အရာကိုဆက်ခံရသည်။ ဘုရင်ကလေးမှာ အရွယ်မရောက်သေးသဖြင့် ဦးရီးတော် ဂလော့စတာမြို့စား ရစ်ချတ်က နိုင်ငံကို ထိန်းသိမ်းရလေသည်။ ထိုအခါ ရစ်ချတ်သည် ထီးနန်းကို သိမ်းပိုက်ရန်အခွင့်ကောင်းနှင့် ကြုံကြိုက်သဖြင့် ဘုရင်ကလေးနှင့် ညီတော် မင်းသားတို့ကို လန်ဒန်မျော်စင်၌ အကျဉ်းချထားပြီးလျှင် မိမိ၏အလိုကို ဆန့်ကျင်သူ ဟူသမျှကိုလည်း သုတ်သင်ပစ်လေ၏။ နောက်ဆုံး၌ မင်းသားကလေး နှစ်ပါးတို့သည်လည်း အစ ပျောက်လေသည်။ ရစ်ချတ်၏ လက်ချက်ဖြင့် ထိုမင်းသားကလေးများ အသတ်ခံရသည်ဟု ယူဆကြ၏။

ထို့ကြောင့် ပြည်သူလူထုက ရစ်ချတ်ဘုရင်အား မိမိတူ အရင်းများကိုပင် ရက်စက်စွာ သတ်သူအဖြစ် အကြည်အညိုပျက်လာကြလေသည်။ ၁၄၈၅ ခုနှစ်သို့ ရောက်သော အခါ လန်ကက်စတာမြို့စား ဖက်တော်သား ဟင်နရီ တျူဒါသည် ပြင်သစ်နိုင်ငံ၌ လူအင်အား စုဆောင်းပြီးလျှင် ရစ်ချတ်ဘုရင်ကို တိုက်ခိုက်ရန် အင်္ဂလန်နိုင်ငံသို့ ချီတက်လာ၏။ လီစတာရှိုင်ယာနယ်၊ ဗော့စဝပ်ဖီးအရပ်တွင် တိုက်ပွဲဖြစ်ပွားရာ ရစ်ချတ်ဘုရင်ကျဆုံးလေသည်။ ဟင်နရီ တျူဒါလည်း သတ္တမ ဟင်နရီဘုရင် ဘွဲ့ခံ၍ ထီးနန်းကို သိမ်းပိုက်စိုးစံလေ၏။ (ဟင်နရီဘုရင်များ — ရှု။)

နာမည်ကျော် အင်္ဂလိပ် စာရေး ဆရာကြီး ရှိတ်စပီးယားက တတိယ ရစ်ချတ်အမည်ဖြင့် ပြဇာတ်တပုဒ်ကို ရေးသားခဲ့လေသည်။

**ရစ်မင်း။** ။ရစ်မင်းသည် အလွန်လှပသောရစ်ငှက်မျိုးဖြစ်သည်။ သို့သော် အလွန်တွေ့ရခဲ၍လူသိနည်း၏။ ပါဏဗေဒအလိုအားဖြင့် ဆားမာတီကပ် ဟူမီအီးခေါ် ၍ ဖာစီအင်နီဒီးမျိုးရင်းတွင်ပါဝင်သည်။ အရွယ်သည် သာမန်ရစ်လောက်ပင်ရှိသည်။ အဖိုများ၌ ရှည်လျားသော အမြီးများ ရှိသည်။ ပျံသန်းနေစဉ် တင်ပါးရှိအမွေးဖြူများကို ထင်ရှားစွာ တွေ့ရသည်။ နားနေသော အခါတွင် ဦးခေါင်းသည် အမည်းရောင်ရှိပြီးလျှင် မျက်လုံးပတ်လည်၌ အရေပြားရှိသည်ကို မြင်ရသည်။ ထိုပြင် ကိုယ်ထည်၏ ဘေးဖက်များတွင် အညိုရင့်ရောင်ရှိ၍ အဖြူစင်းကြောင်းများ ထင်ရှားစွာ ပါရှိသည်ကိုပါ မြင်ရသည်။ ကိုယ်အထက်ပိုင်း မေးနှင့်လည်ချောင်းများသည် အနက်ရောင်၊ သို့မဟုတ် သံမဏိရောင် ဖြစ်သည်။

ရစ်မင်းအမများ၌ အညိုပြောက်များ ပါရှိ၍ အမြီးမွေးများ၏ အဖျားများသည် အဖြူရောင် ဖြစ်သည်။ ထိုပြင် မျက်စိနား၌ အနီရောင် အရေပြားရှိသည်။ ရစ်မင်းများ၏ အော်သံမှာ ခပ်တိုးတိုးနှင့် ညည်းသံမျိုးဖြစ်သည်။ ထိတ်လန့်သောအခါ ဗွတ်-ဗွတ်ဟူ၍ တတွတ်တွတ် အော်တတ်သည်။

ရစ်မင်းများကို တောင်များပေါ်တွင် အုပ်ငယ်ကလေးများဖွဲ့၍ နေကြသည်ကို တွေ့ရသည်။ မြေလများတွင် ရစ်ဖိုများ အတောင်များကိုခါ၍ အသံပြုတတ်ကြသည်။ ဘေး

အန္တရာယ်နှင့် တွေ့လျှင် သစ်ပင်ပေါ်သို့ ပျံတက်တတ်ကြသည်။ ရစ်မင်းအမများသည် ဥများ ဝပ်ရာ၌ စွဲစွဲမြဲမြဲ ဝပ်နေတတ်ကြသည်။ ယင်းတို့ကို ထိလိုက်မှပင် ထ၍ ပျံပြေးတတ်ကြသည်။

ရစ်မင်းများကို မဏိပူရမှ မြန်မာနိုင်ငံကိုဖြတ်၍ ယူနန်နယ်အထိ တွေ့ကြရသည်။မြန်မာနိုင်ငံတွင် ချင်းတောင်၊ အထက်ချင်းတွင်း၊ မိုးကုတ်၊ ရှမ်းပြည်နှင့် ကယားပြည်နယ်များတွင် တွေ့ကြရသည်။

**ရစ်ရင်မဲ။** ။ရစ်ရင်မဲကို ပါဏဗေဒအလိုအရ လိုဖူရာ အစ်ဂနီတာဟု ခေါ်သည်။ ရစ်ရင်မဲအဖိုသည် အလျား ၂၇ လက်မမှ ၂၉ လက်မထိရှိ၍ အမ၏ အလျားမှာ ၂၃ လက်မမှ ၂၄ လက်မထိရှိသည်။ အဖိုနှင့်အမ နှစ်မျိုးစလုံးတွင် ပါးပျဉ်းပြာများရှိပြီးလျှင် အမောက်အနေဖြင့် ထောင်လျက်ရှိသော အမွေးစုတ်ဖွားများရှိသည်။ ရစ်ရင်မဲဟုခေါ်ခြင်းမှာ အဖို၏ ကျောဖက်အောက်ပိုင်းနှင့် တင်ပါးတို့တွင် အနီရင့်ရောင် ရှိနေခြင်းကြောင့် ဖြစ်သည်။

အဖို၏ တွန်သံကို မည်သည့်အခါတွင်မျှ မကြားရချေ။ တွန်လည်း မတွန်ဟုထင်ရသည်။ လန့်သောအခါတွင် ရစ်ရင်မဲ အဖိုနှင့်အမတို့သည် "ချူကွန်း ချူကွန်း" ဟု ထူးခြားသည့် စူးရှသံဖြင့် အော်လေ့ရှိကြသည်။ အဖိုများသည် ယင်းတို့၏ အတောင်များကို အစဉ်ရိုက်ခတ်၍ အသံပေးလေ့ရှိကြသည်။ ထိုအတောင်ခတ်သံသည် တုတ်ချောင်းငယ် တခု၏ ထိပ်တွင် အဝတ်စ မာမာတခုကို ကန့်လန့်ဖြတ်၍ လက်ဝါးနှစ်ဖက်ဖြင့် ထိုတုတ်ချောင်းကို လျှင်မြန်စွာ လှည့်သောအခါတွင် ဖြစ်ပေါ်လာသည့် အသံနှင့် တူသည်။ ထိုအသံမျိုးကို ကြားရခြင်းဖြင့်ရစ်ရင်မဲအုပ်စုမည်သည့်နေရာတွင်ရှိကြောင်းကို သိနိုင်လေသည်။ ရစ်ရင်မဲများသည် ငါးကောင် ခြောက်ကောင်စုကာ ထူထပ်သည့် အမြဲစိမ်းတောများတွင် နေထိုင်ကြသည်။ ထိုအုပ်စုတွင် အဖိုတကောင်သာ ရှိ၍ ကျန်ရစ်ရင်မဲများမှာ အမများ ဖြစ်တတ်ကြသည်။ သို့သော် တခါတရံ ရစ်ရင်မဲ အဖိုနှစ်ကောင်ရှိသည်ကို တွေ့ရတတ်သည်။ တခါတရံတွင်လည်း ရစ်ရင်မဲအဖိုချည်း နေသည်ကို တွေ့ရတတ်သည်။ ရစ်ရင်မဲတို့သည် ကွင်းပြင်သို့ မည်သည့်အခါမျှထွက်မလာကြဘဲ တောများအတွင်း၌သာ နေထိုင်ကြပြီးလျှင် စေ့များ ခွံပျော့သီး (ဗဲရီသီး)များ၊ သစ်ရွက်နုများ၊ ပိုးကောင်များနှင့် ပိုးလောင်းဟူသမျှကို စား၍ နေထိုင်ကြသည်။ ထို့ပြင် အိမ်မွေးကြက်များ မြေကြီးကို ယက်လေ့ရှိကြသကဲ့သို့ မြေကြီးကို ယက်ပြီးလျှင် ကိုယ်ကိုဖုံများဖြင့် ဖုံးလွှမ်း၍ နေလေ့ ရှိကြသည်။ ခြောက်လှန့်လိုက်သော အခါတွင် ရစ်ရင်မဲများသည် တကွဲတပြားစီ မပြေးကြဘဲ အတူတကွ လျှင်မြန်စွာ ပြေးသွားတတ်ကြသည်။ ပျံတက်သောအခါတွင် သန်မာစွာနှင့် လျှင်မြန်စွာ ပျံတတ်ကြသည်။ ပြန်၍ နားသောအခါတွင် ကိုက် ၂၀၀ ထက်နီး၍ နားခဲသည်။ နားရာတွင်လည်း မြေကြီးပေါ်တွင်သာ နားလေ့ရှိသည်။

ရစ်ရင်မဲ၏ အသိုက်နှင့်ဥများအကြောင်းကို မသိရချေ။ မြိတ်ခရိုင် ကော့သောင်နယ်တွင် ရစ်ရင်မဲ အနည်းအကျဉ်း တွေ့ရသည်။



ကွင်းပြင်သို့ မည်သည့်အခါမျှ ထွက်မလာကြဘဲ တောများအတွင်း၌သာ ကျက်စားလေ့ရှိသည့် ရစ်ရင်မဲ ဖို မ

**ရစ်ရှလျူး,ကာဒင်နယ်** (ခရစ် ၁၅၈၅–၁၆၄၂)။ ။ရစ်ရှလျူးမြို့စား အာမန် ဇန်း ဒျူပလဲဆီးသည် ပြင်သစ်နိုင်ငံသမိုင်းတွင် အထူးထင်ရှားသော ခေါင်းဆောင်တဦး ဖြစ်ပေသည်။ ဘုရင်ရှိလင့်ကစား ပြင်သစ်နိုင်ငံကို နှစ်ပေါင်း ၂၀ နီးပါးမျှ တကယ်တမ်း အုပ်ချုပ်ခဲ့သူမှာ ရစ်ရှလျူးပင် ဖြစ်သည်။ ရစ်ရှလျူးသည် ဝန်ကြီးချုပ်အဖြစ်ဖြင့် ပြင်သစ်နိုင်ငံကို ဥရောပတိုက်တွင် ထိပ်တန်းနိုင်ငံ အဖြစ်သို့ ပို့ဆောင်ခဲ့သူလည်း ဖြစ်သည်။

ရစ်ရှလျူးသည် သူကောင်းမျိုးထဲမှ ဆင်းသက်လာသူဖြစ်၍ ပါရစ်မြို့တွင် ၁၅၈၅ ခုနှစ်၊ စက်တင်ဘာလ ၉ ရက်နေ့၌ ဖွားမြင်၏။ ဖခင်မှာ အယူဝါဒရေး စစ်ပွဲများတွင် ထူးချွန်စွာ အမှုထမ်းခဲ့သူဖြစ်၍ ပြင်သစ်ဘုရင် တတိယ ဟင်နရီက သူ၏သားအကြီးဆုံးအား လူစွန်း ဂိုဏ်းအုပ်ရာထူး ချီးမြှင့်သည်။ သို့ရာတွင် သားကြီးနှစ်ဦးစလုံးက လက်မခံသဖြင့် တတိယသားဖြစ်သူ ရစ်ရှလျူးသည် မိမိ သင်ကြားနေသော စစ်ပညာကို စွန့်၍ ဂိုဏ်းအုပ်ရာထူးကို လက်ခံလေသည်။ အသက် ၂၀ မျှသာရှိသော ရစ်ရှလျူးသည် ဂိုဏ်းအုပ် အဖြစ် တာဝန်ကျေပြွန်၏။ သို့သော်လည်း သူသည် ရာထူးတိုးတက်ရန် အခွင့်အရေးကို စောင့်မျှော်နေခဲ့သည်။

ရစ်ရှလျူးသည် ၁၆၁၄ ခုနှစ်တွင် သာသနာ့ဝန်ထမ်းများ၏ ကိုယ်စားလှယ်အဖြစ် ဥပဒေပြု လွှတ်တော်သို့ တက်ရန်

ရွေးကောက်တင်မြှောက်ခြင်း ခံရသည်။ ၁၃ ဆက်မြောက် လူဝီဘုရင်၏ မယ်တော်ကလည်း ရစ်ရှလျူး၏ အစွမ်းအစကို သဘောကျသဖြင့် ချီးမြှင့်မြှောက်စားထားသည်။ သို့ရာတွင် လူဝီဘုရင်သည် မယ်တော်နှင့် ဂိုဏ်းအုပ်ရစ်ရှလျူးတို့က မိမိ၏ ထီးနန်းကို တနေ့လုပ်ကြမည်ဟု စိုးရိမ်ပြီးလျှင် နှစ်ဦးစလုံးကို ပြည်နှင်ဒဏ်ပေးလေသည်။ သို့သော်လည်း ရစ်ရှလျူး၏ ပါးနပ်လိမ္မာမှုကြောင့် မကြာမီ နန်းတော်သို့ ပြန်၍ ခစားခွင့်ရသည်။ မယ်တော်လည်း နန်းတော်သို့ပြန်ရောက်သည်။

၁၆၂၂ ခုနှစ်တွင် ရစ်ရှလျူးသည် ကာဒင်နယ်အဖြစ် ခန့်အပ်ခြင်း ခံရ၏။ နှစ်နှစ်ကြာသောအခါ ဘုရင့်မယ်တော်၏ အကူအညီဖြင့် နိုင်ငံတော်ဝန်ကြီး ဖြစ်လာလေသည်။ ကာဒင်နယ် ရစ်ရှလျူးသည် ထိုအချိန်မှအစပြု၍ အနိစ္စရောက်သည့်အချိန်အထိ ပြင်သစ် အစိုးရကို ဦးစီးခေါင်းဆောင် ခဲ့သည်။ သူ၏ ရည်ရွယ်ချက်မှာ တနိုင်ငံလုံးက ဘုရင့်အာဏာကို ရိုသေလေးစားလာကြစေရန်ဖြစ်၏။ ထိုကြောင့် ပြင်သစ်နိုင်ငံတွင် ဩဇာလွှမ်းမိုးနေသော သူကောင်းမျိုးကို နှိမ်နင်းရမည်ဖြစ်သည်။ ထိုပြင် ဘုရင့်အာဏာကို ဖြိုဖျက်ရန် ကြိုးစားနေကြသော ပရိုတက်စတန့် ဂိုဏ်းဝင် ဟျူးဂျနိုးတို့၏ ရန်ကိုလည်း တွန်းလှန် ကာကွယ်ရမည် ဖြစ်လေသည်။

ဦးစွာ၌ ရစ်ရှလျူးသည် အင်္ဂလန်နိုင်ငံနှင့် သင့်တင့်အောင် စီမံ၏။ ထိုနောက် ဟျူးဂျနိုးတို့၏ ခြေကုပ်ခံတပ် ဖြစ်သော လာရိုရှဲမြို့ကို ကိုယ်တိုင်ဦးစီး၍ တိုက်ခိုက်သည်။ မြို့ကိုတနှစ်ကျော်မျှ ဝိုင်းဝန်း လုပ်ကြံပြီးနောက် ၁၆၂၉ ခုနှစ်တွင် ဟျူးဂျနိုးတို့ အညံ့ခံရလေသည်။ ရစ်ရှလျူးသည် ဟျူးဂျနိုးတို့၏ နိုင်ငံရေးအရ လွတ်လပ်ခွင့်ကို ပြန်လည် ရုပ်သိမ်းလိုက်သော်လည်း လွတ်လပ်စွာ ကိုးကွယ်ခွင့်ကိုမူ ပေးမြဲ ပေးထားသည်။ ထိုကြောင့် နောင် နိုင်ငံခြားနှင့် စစ်ဖြစ်ရသောအခါ ဟျူးဂျနိုးတို့သည် ပြင်သစ်အစိုးရဖက်မှ ပါဝင်တိုက်ခိုက်ခဲ့ကြလေသည်။

ဟျူးဂျနိုးတို့၏ရန် အေးပြီးနောက် သူကောင်းမျိုးတို့ကို ဆက်၍ နှိမ်နင်းရသည်။ သူကောင်းမျိုးတို့သည် ပြင်သစ်နိုင်ငံ နေရာအနှံ့အပြားတွင် ရဲတိုက်ကြီးများဖြင့် အခိုင်အခံ့နေထိုင်ကြသဖြင့် ယင်းတို့ကို နှိမ်နင်းရသော ကိစ္စမှာ မလွယ်ချေ။ သို့သော် ၁၆၂၆ ခုနှစ်တွင် ရစ်ရှလျူးသည် နိုင်ငံ ကာကွယ်ရေးအတွက် မလိုသော ရဲတိုက်များကို ဖျက်ဆီးပစ်ရန် အမိန့်တော်ပြန်တမ်း တရပ်ကို ထုတ်ပြန်လိုက်လေသည်။ ထိုကြောင့် ယခုအခါ ပြင်သစ်နိုင်ငံတွင် ရှေးဟောင်းရဲတိုက်ပျက်များကို တွေ့နိုင်သည်။ ရစ်ရှလျူး၏ တန်ခိုး အာဏာကြီးမားလာသည်နှင့်အမျှ မလိုမုန်းတီးသူလည်း များလာ၏။ သူသည် ရည်မှန်းချက်ကို ပေါက်မြောက်အောင် ဆောင်ရွက်ရာ၌ အဆီးအတား အနှောင့်အရှက် ရှိသမျှကို အထောက်အညှာမရှိဘဲ သုတ်သင်ဖယ်ရှား၏။



လူဝီဘုရင်၏ ပညာရှိ အမတ်ကြီး ကာဒင်နယ် ရစ်ရှလျူး

ကာဒင်နယ် ရစ်ရှလျူးအတွက် အရေးအကြီးဆုံး ပန်းတိုင်မှာကား ပြင်သစ်နိုင်ငံကို ဥရောပတိုက်တွင် ထိပ်တန်းနိုင်ငံအဖြစ်သို့ ရောက်ရှိစေခြင်းပင် ဖြစ်၏။ ရစ်ရှလျူး တန်ခိုးကြီးလာချိန်တွင် ဥရောပတိုက်၌ နှစ်သုံးဆယ်စစ်ပွဲ ဖြစ်ပွားလျက် ရှိသည်။ (နှစ်သုံးဆယ်စစ်ပွဲ — ရှု။) ရစ်ရှလျူးသည် ထိုစစ်ပွဲတွင် မိမိနိုင်ငံအတွက် အကျိုးရှိမည့် အခွင့်အရေးကို မြင်လာလေသည်။ ထိုကြောင့် ဩစတြီးယား နိုင်ငံ၏ တန်ခိုးအာဏာကို ချိုးနှိမ်ရန်အတွက် ဂျာမန် ပရိုတက်စတန့်တို့အား အကူအညီပေးသည်။ ရှေးဦးစွာ ဂျာမန်ပရိုတက်စတန့်တို့၏ မဟာမိတ်ဖြစ်သော ဆွီဒင်ဘုရင် ဂပ်စတားဗပ် အဒေါ့ဖပ်အား ငွေကြေးထောက်ပံ့သည်။ ၁၆၃၀ ပြည့်နှစ်တွင် ပြင်သစ်နိုင်ငံသည် စစ်ပွဲထဲတွင်ပါဝင်၍ စပိန်နိုင်ငံကို တိုက်ခိုက်လေသည်။ ၁၆၄၈ ခုနှစ်တွင် နှစ်သုံးဆယ်စစ်ပွဲအတွက် စစ်ပြေငြိမ်းရေး စာချုပ်ကို ချုပ်ဆိုကြသောအခါ ပြင်သစ် နိုင်ငံသည် ဥရောပတိုက်၌ အင်အားကြီးသော နိုင်ငံအဖြစ်သို့ ရောက်ရှိနေပြီ ဖြစ်၏။

၁၆၃၁ ခုနှစ်တွင် ရစ်ရှလျူးသည် မြို့စားဘွဲ့ကို ရရှိသည်။ သို့ရာတွင် နှစ်သုံးဆယ်စစ်ပွဲမပြီးဆုံးသေးမီ ၁၆၄၂ ခုနှစ် ဒီဇင်ဘာလ ၄ ရက်နေ့၌ ကွယ်လွန်လေသည်။ ကာဒင်နယ် ရစ်ရှလျူး၏ နေရာတွင် မာဇရင်က ဝန်ကြီးချုပ်အဖြစ် ဆက်ခံသည်။ (မာဇရင်, ဂျေ — လည်းရှု။)

ရစ်ရှလျူးသည် ကျန်းမာရေး၌ ချို့တဲ့သူ ဖြစ်သော် ငြားလည်း မင်းညီ မင်းသားဟန်ပေါက်၍ စိတ်ပြင်းပြသဖြင့်

ဘုရင်နှင့်တကွ တိုင်းသူပြည်သားအများတို့က လေးစားကြသည်။ မိမိ၏နိုင်ငံ ကောင်းစားရေးကို အထူးပင် ကြိုးစားခဲ့သူ ဖြစ်ပေသည်။ ရစ်ရှလျူးသည် စာပေဖက်၌လည်း နှံ့စပ်သဖြင့် စာရေးဆရာ အကျော်အမော်တို့ကို ခြီးမြှောက် အားပေးသည်။ ဆော်ဗန်းတက္ကသိုလ် အဆောက်အအုံများကို အသစ်ဆောက်လုပ်၍ အထောက်အပံ့ များစွာပေးလှူခဲ့သည်။ အထူးသဖြင့် ၁၆၃၅ ခုနှစ်တွင် ပြင်သစ် ပညာတံခွန်အသင်းကို တည်ထောင်ခဲ့လေသည်။

**ရုတ်, စဲစီ ဂျွန် (ခရစ် ၁၈၅၃ – ၁၉၀၂)။** ။စဲစီဂျွန်ရုတ်သည် ရောဗတ်ကလိုက်နှင့် ဝါရင်ဟေ့စတင်းတို့ကဲ့သို့ ဗြိတိသျှနိုင်ငံတော်ကို တည်ဆောက်ခဲ့သည့် ဗိသုကာတဦး ဖြစ်သည့်အပြင် ကြွယ်ဝချမ်းသာသော စိန်တွင်းသဌေးလည်း ဖြစ်သည်။ အာဖရိကတိုက် တောင်ပိုင်း ဗြိတိသျှတို့၏ အုပ်ချုပ်ရေး သမိုင်းတွင် ထင်ရှားသော နိုင်ငံပြုသုခမိန် တဦးလည်း ဖြစ်ပေသည်။ စဲစီရုတ်သည် အလွန် အကြံကြီးသူဖြစ်၏။ သို့သော် သူ၏ အကြံမှာ ကိုယ်ကျိုး အတွက် သက်သက်မဟုတ်ဘဲ၊ ဗြိတိသျှနိုင်ငံတော် တိုးပွားကျယ်ပြန့်ရေးအတွက် ဖြစ်သည်။ သူ၏စည်းစိမ်ဥစ္စာကို နိုင်ငံတော် အကျိုးအတွက် ရက်ရောစွာ အသုံးပြုခဲ့သည်။ ထို့ကြောင့် ထိုခေတ်ကဆိုလျှင် စဲစီ ဂျွန် ရုတ်သည် ဗြိတိသျှနိုင်ငံတော်ကို ပိုမို ကျယ်ပြန့်လာအောင် အများဆုံး ဆောင်ရွက်ခဲ့သူ ဖြစ်သည်ဟု ဆိုကြလေသည်။



တောင်အာဖရိက နိုင်ငံပြု သုခမိန် ဆာ စဲစီ ဂျွန် ရုတ်

စဲစီ ဂျွန် ရုတ်သည် ၁၈၅၃ ခုနှစ် ဇူလိုင်လ ၅ ရက်နေ့တွင် ဟားဖို့ ရှိုင်ယာနယ်၊ ဗီရှော့စတော့ဖို့မြို့၌ ဖွားမြင်၏။ ဖခင်မှာ သာသနာ့ဝန်ထမ်းဖြစ်သည်။ အသက် ၁၇ နှစ် အရွယ်တွင် ကျန်းမာရေးချတ်ယွင်းသဖြင့် တက္ကသိုလ်၌ ပညာဆက်မသင်ရဘဲ ကျောင်းထွက်ခဲ့သည်။ ၁၈၇၀ ပြည့်နှစ်တွင် အာဖရိကတိုက် တောင်ပိုင်း နေတဲပြည်နယ်၌ နေထိုင်သူ အစ်ကိုထံသို့ သွားရောက်လေသည်။ ထိုအချိန်တွင် ကင်ဗာလီမြို့နယ်၌ စိန်တွင်းများကို စတင်တွေ့ရှိသဖြင့် အနယ်နယ်မှ လူများသည် ထိုဒေသသို့ သူထက်ငါ ဦးအောင် စိန်တွင်းရှာရန် သွားရောက်နေကြဆဲ ဖြစ်သည်။ ရုတ်တို့ ညီအစ်ကို နှစ်ယောက်သည်လည်း စိန်တွင်းရှာဖွေ တူးဖော်သည့် လုပ်ငန်းကို လုပ်ကိုင်ကြသည်တွင် နှစ်နှစ်အတွင်း စိန်တွင်းသဌေး ဖြစ်လာကြသည်။

စဲစီ ရုတ်၏ ကျန်းမာရေး အခြေအနေမှာ အာဖရိကတိုက် ရာသီဥတုနှင့် သင့်သောကြောင့် တိုးတက်ကောင်းမွန်လာ၏။ သို့ဖြင့် အင်္ဂလန်ပြည်နှင့် အာဖရိကတိုက်တို့၌ တလှည့်စီ နေထိုင်ပြီးလျှင် အောက်စဖို့တက္ကသိုလ်တွင် ရှစ်နှစ်မျှ ပညာဆက်လက်၍ သင်ကြားလေသည်။ ထိုအချိန်အတွင်း ကင်ဗာလီရှိ စိန်တွင်းအများကို စုပေါင်း၍ ကုမ္ပဏီ ဖွဲ့စည်းကာ တကမ္ဘာလုံးမှထွက်သော စိန်များကို ချုပ်ကိုင်ခဲ့သည်။

၁၈၈၁ ခုနှစ်တွင် စဲစီ ရုတ်သည် ကိပ်ကိုလိုနီပါလီမန်သို့ရွေးကောက်တင်မြှောက်ခြင်း ခံရသည်။ ထိုအခါ သူသည် အာဖရိက တောင်ပိုင်း၌ ဗြိတိသျှတို့ အာဏာစက် ကျယ်ပြန့်လာအောင် စတင်ကြိုးစားလေတော့သည်။ ၁၈၈၄ ခုနှစ်တွင် ဗက်ချူအာနာလန် နယ်ကိုရင်း၊ လေးနှစ် ကြာပြီးနောက် မတ်တာဗီလီ ကပ္ပလီလူမျိုးတို့ပိုင် နယ်မြေကိုရင်း ဗြိတိသျှနိုင်ငံတော်တွင်းသို့ သိမ်းသွင်းခဲ့လေသည်။ မတ်တာဗီလီတို့ထံမှ သိမ်းယူသော နယ်မြေမှာ နောင်အခါ ရိုးဒီးဇီးယားနယ် ဖြစ်လာ၍ ရုတ်ဦးစီးသော ဗြိတိသျှတောင်အာဖရိက ကုမ္ပဏီက အုပ်ချုပ်သည်။ (ရိုးဒီးဇီးယားနယ် — ရှု။) ၁၈၉၀ ပြည့်နှစ်တွင် စဲစီ ရုတ်သည် ကိပ်ကိုလိုနီနယ်၏ ဝန်ကြီးချုပ်ဖြစ်လာသည်။

ဝန်ကြီးချုပ်အဖြစ် ဆောင်ရွက်နေစဉ် အာဖရိကတိုက်ကို တောင်နှင့်မြောက် ဖြတ်သန်း သွားလာနိုင်ရန် ဂွတ်ဒဟုပ်အငူမှ ကိုင်ရိုမြို့ထိ မီးရထားလမ်းဖောက်လုပ်ရေးကို ကြံဆခဲ့၏။ ထိုစဉ် ရုတ်သည် နိုင်ငံရေးဖက်၌သာမဟုတ်၊ စီးပွားရေးဖက်၌လည်း ဩဇာထက်မြက်သူဖြစ်ရာ အာဖရိက တောင်ပိုင်း၌ အာဏာရှင်သဖွယ် တန်ခိုးကြီးလျက် ရှိပေသည်။

သို့ရာတွင် ၁၈၉၅ ခုနှစ်၌ စဲစီ ရုတ်သည် ဒပ်ချတို့ပိုင်သော ထရန်စဗားနယ်၊ဂျိုဟန္နက်စဗတ်မြို့၌ ဗြိတိသျှစိန်တွင်းတူးသမားများနှင့် ဒပ်ချတို့ ပဋိပက္ခဖြစ်ကြသည့်အရေးတွင် ဗြိတိသျှတို့ဖက်မှ ခေါင်းဆောင် ဂျိမ်းဆန်ဆိုသူကို ကူညီ၍ ထရန်

စဗားနယ်ထဲသို့ ချင်းနင်းဝင်ရောက်တိုက်ခိုက်ခဲ့လေသည်။ ထိုအရေးကိစ္စကြောင့် ရှတ်သည် ၁၇၉၆ ခုနှစ်တွင် ဝန်ကြီးချုပ်ရာထူးမှ နုတ်ထွက်ရ၏။ မျှားမကြာမီ ရှိဒီးဇီးယားနယ်တောင်ပိုင်း၌ မတ်တာဗီလီ တိုင်းရင်းသားများ ပုန်ကန်သည့်အရေးတွင် ရှတ် ဝင်ရောက်စေ့စပ်ပေးသဖြင့် ပြေလည်မှုရရှိလေသည်။

ထို့နောက် ၁၇၉၇ ခုနှစ်တွင် ရှတ်သည် ကိပ်ကိုလိုနီ ပါလီမန်သို့ တဖန်ရွေးကောက်တင်မြှောက်ခြင်း ခံရသည်။ ၁၇၉၉ ခုနှစ်၌ ဗိုးဝါးစစ်ပွဲဖြစ်ပွားသဖြင့် ကင်ဗာလီမြို့နှင့်တကွ စိန်တွင်းများကို ရန်သူ့လက်သို့ မကျရောက်စေရန် ကိုယ်တိုင်ကွပ်ကဲ၍ ခုခံကာကွယ်လေသည်။ (ဗိုးဝါးစစ်ပွဲ — ရှု။) သို့ရာတွင် ရှတ်သည် ကျန်းမာရေး ချွတ်ယွင်းလာသဖြင့် ၁၉၀၂ ခုနှစ် မတ်လ ၂၆ ရက်နေ့၌ ကွယ်လွန်လေသည်။

စဲစီ ရှတ်သည် မိမိ၏စည်းစိမ်ဥစ္စာကို ပြည်သူလူထု အကျိုးအတွက် အသုံးပြုရန် သေတမ်းစာတွင် ရေးသားညွှန်ကြားခဲ့၏။ အောက်စဖို့တက္ကသိုလ်သို့ ဗြိတိသျှဒိုမီနီယန်နိုင်ငံများ၊ အမေရိကန်ပြည်ထောင်စုနှင့် ဂျာမနီနိုင်ငံတို့မှ ထူးချွန်သော ကျောင်းသားများ လာရောက်၍ပညာဆည်းပူးနိုင်ရန် ပညာတော်သင်စရိတ် ထောက်ပံ့ကြေးငွေ အမြောက်အမြား လှူဒါန်းခဲ့သည်။ရှတ်၏ရည်ရွယ်ချက်မှာ ဗြိတိသျှနိုင်ငံတော်ကြီး တည်တံ့ခိုင်မြဲရန်နှင့် အင်္ဂလိပ်စကားသုံးသော နိုင်ငံ အချင်းချင်း ပိုမို၍ ရင်းနှီးရန်အတွက် ဖြစ်လေသည်။

# မြန်မာနိုင်ငံ၏ ထိပ်ဆုံး ပညာရေး

**အနောက်တိုင်း အယူအဆအရ သင်ကြားပို့ချအပ်သော တက္ကသိုလ် ပညာရေးကို မြန်မာနိုင်ငံ၌ ၁၈၇၈ ခုနှစ်ကပင် စတင်ခဲ့သော်လည်း ကာလကတ္တား တက္ကသိုလ်၏ ဩဇာအာဏာနှင့် ကြီးကြပ်မှုမှ ကင်းလွတ်သော သီးခြား တက္ကသိုလ်အဖြစ်မူ ၁၉၂၀ ပြည့်နှစ်ကျမှ ရောက်ရှိလာကာ ရန်ကုန်တက္ကသိုလ်ဟု အမည်တွင်ခဲ့သည်။**

**ရန်ကုန်တက္ကသိုလ်များ။** ။ပြည်ထောင်စု မြန်မာနိုင်ငံတော်လှန်ရေးအစိုးရသည် ၁၉၆၄ ခုနှစ် တက္ကသိုလ် ပညာရေး ဥပဒေအရ ၁၉၆၄ ခုနှစ် အောက်တိုဘာလ ၁ ရက်နေ့တွင် စံနစ်သစ်ဖြင့် တက္ကသိုလ်များကိုဖွဲ့စည်းသောအခါ ဝိဇ္ဇာနှင့် သိပ္ပံ တက္ကသိုလ်နှစ်ခုနှင့် သက်မွေးဝမ်းကျောင်း ပညာဆိုင်ရာ တက္ကသိုလ် ရှစ်ခုတို့ကို ဖွဲ့စည်းခဲ့သည်။

ထိုသို့ စံနစ်သစ်ဖြင့် ဖွဲ့စည်းပေးလိုက်သော တက္ကသိုလ်ဆယ်ခုတို့အနက် ရန်ကုန် ဝိဇ္ဇာနှင့်သိပ္ပံ တက္ကသိုလ်၊ စီးပွားရေးတက္ကသိုလ်၊ ရန်ကုန်ဆေးတက္ကသိုလ် (၁)၊ ရန်ကုန်ဆေးတက္ကသိုလ် (၂)၊ ရန်ကုန်စက်မှုတက္ကသိုလ်၊ ပညာရေးတက္ကသိုလ်၊ တိရစ္ဆာန်မွေးမြူရေးနှင့် ဆေးကုသရေး တက္ကသိုလ်တို့သည် ရန်ကုန်မြို့တွင် တည်ရှိပြီးလျှင် မန္တလေး ဝိဇ္ဇာနှင့်သိပ္ပံတက္ကသိုလ်၊ စိုက်ပျိုးရေးတက္ကသိုလ်နှင့် မန္တလေးဆေးတက္ကသိုလ်တို့သည် မန္တလေးမြို့တွင် တည်ရှိလေသည်။

ထိုတက္ကသိုလ်များကို စံနစ်ဟောင်းတွင် တည်ရှိခဲ့သော ပင်မတက္ကသိုလ်ကြီးများ ဖြစ်သည့် ရန်ကုန်တက္ကသိုလ်နှင့် မန္တလေးတက္ကသိုလ် (မန္တလေးတက္ကသိုလ် — ရှု။) တို့က မွေးထုတ်ပေးခဲ့ခြင်း ဖြစ်သည်။

**ရန်ကုန်တက္ကသိုလ်။** ။ဤ ရန်ကုန်တက္ကသိုလ် စာစောင်ရေးသူ မြန်မာ တယောက်တည်း ပါဝင်သော ရန်ကုန်တက္ကသိုလ် တည်ထောင်ရေး ကော်မီတီအဖွဲ့ဝင် လူကြီးတို့သည် ပဌမ ကမ္ဘာစစ်ကြီး ဖြစ်နေသည့် အတောအတွင်း ရန်ကုန်ကောလိပ်ကျောင်းအုပ်ကြီး၏ ခန်းမ၌ အကြိမ်ကြိမ်စည်းဝေးကာ တက္ကသိုလ်ပညာသင်ကြားရေးနှင့် စပ်လျဉ်းသော ကိစ္စအဝဝတို့ကို နှီးနှောတိုင်ပင် ဆင်ခြင်ဆုံးဖြတ်ကြလေသည်။ ၁၉၂၀ ပြည့်နှစ် ဒီဇင်ဘာလ ၁ ရက်နေ့တွင် ရန်ကုန်တက္ကသိုလ်ကို အစိုးရက တည်ထောင် လေသည်။ ထိုသို့တည်ထောင်ရာတွင် ရန်ကုန်ကောလိပ်နှင့် အမေရိကန်နှစ်ခြင်းကောလိပ်တို့သည် တက္ကသိုလ်ကောလိပ်၊ ဂျပ်ဆင်ကောလိပ်ဟူသော အမည်သစ်နှင့် တက္ကသိုလ်တွင် ဖက်စပ်ပါဝင်သော ကောလိပ်များဖြစ်ကြ၏။ အက်ဥပဒေအရဆိုလျှင် ဆရာနှင့်တပည့် အတူတူနေထိုင်ကာ ပညာသင်ကြားပြသရသော တက္ကသိုလ်ဖြစ်၏။ တက္ကသိုလ်၌ နေထိုင်ကာ ပညာသင်ကြား လေ့ကျက်ခြင်းသည် စရိတ်စက ကြီးသည်တကြောင်း၊ တက္ကသိုလ်ဝင်စ ကျောင်းသားများအား လမ်းခင်းသည့် အနေဖြင့် တနှစ်ထပ်၍ သင်ကြားရမည် တကြောင်း၊ ကောင်စီနှင့် ပါမောက္ခအဖွဲ့တို့တွင် ပြင်ပလူကြီးများ အနည်းငယ်သာ ပါဝင်ကြသည်တကြောင်း၊ အရစ်ကျစာစစ်ခြင်းစံနစ် မရှိသည်သာမက ပြင်ပကျောင်းသားများအား ဖြေဆိုခွင့်မပေးသည်တကြောင်း ထို အကြောင်းတို့ကြောင့် တည်ထောင်စ တက္ကသိုလ်ကို ကျောင်းသားများက သပိတ်မှောက်ကြလေ၏။ ထိုအခါမှစ၍ အမျိုးသားပညာရေးကောင်စီက အုပ်ချုပ်သော အမျိုးသားကျောင်းများ ပေါ်ပေါက်လာကြလေသည်။ ပြည်သူလူထု လိုလားတောင့်တ သည့် တက္ကသိုလ်မျိုးဖြစ်အောင် ၁၉၂၄ ခုနှစ်တွင် အက်ဥပဒေကို ပြင်ဆင်ရ၏။ ထိုပြင်ဆင်သည့် အက်ဥပဒေတွင် (၁) တက္ကသိုလ်အသစ် ဖြစ်နိုင်မည်ဟု မျှော်လင့်ရသော ကောလိပ်တို့ကို နယ်များတွင် ဖွင့်ရန်၊ (၂) ရန်ကုန်

တက္ကသိုလ်က မထောက်ပံ့သော ကောလိပ်တို့ကို ဖက်စပ်ပါဝင်သော ကောလိပ်များဟု အသိအမှတ်ပြုရန်၊ (၃) တက္ကသိုလ်တွင် အကြီးဆုံး အာဏာပိုင် ဖြစ်စေအံ့သောငှါ ကောင်စီကို တိုးချဲ့၍ ပြင်ပလူကြီးများကို ပိုမိုခန့်ထားရန်၊ (၄) ပါမောက္ခအဖွဲ့သို့ ကောင်စီက ရွေး၍တင်လိုက်သော လူကြီးများသည် ပြင်ပ လူကြီးများသာဖြစ်ရန် ဟူသော အချက်တို့သည် မှတ်သားဖွယ်ကောင်းသော အချက်များ ဖြစ်ကြ၏။ ဤသို့ဖြင့် မန္တလေးတွင် ဥပစာကောလိပ်ကို တည်ထောင်၍ စိုက်ပျိုးရေး ကောလိပ်ကို အသိအမှတ်ပြုကြ၏။ ရန်ကုန်၌လည်း တက္ကသိုလ်ကောလိပ်မှ ဆေးပညာ ကောလိပ်နှင့် ဆရာဖြစ်သင် ကောလိပ်တို့ ပေါ်ပေါက်ကြလေသည်။

တက္ကသိုလ်ကောလိပ် ကျောင်းအုပ်ကြီးက ကျောင်းသားနှစ်ယောက်အား စည်းကမ်းသေဝပ်မှု ထားသည်အတွက်ကြောင့် ၁၉၃၆ ခုနှစ် ဖေဖွာရီလ ၂၅ ရက်နေ့တွင် တက္ကသိုလ်ကောလိပ်၊ ဂျပ်ဆင်ကောလိပ် ကျောင်းသား ၇၀၀ ခန့်တို့သည် သပိတ်မှောက်ကြ၏။ ကိုနုနှင့် မစ္စတာရာရှစ်တို့သည် သပိတ် ခေါင်းဆောင်များ ဖြစ်ကြ၏။ မှတ်ဖွယ်ကောင်းသောအချက်တခုမှာ ထိုသပိတ် မှောက်မှုကြောင့် အချိန်ပြည့် ပါမောက္ခတို့အနက် မြန်မာတဦးတည်းဖြစ်သော ဤစာစောင်ရေးသူသည် တက္ကသိုလ် ကောလိပ်၌ ပဌမ မြန်မာကျောင်းအုပ်ကြီး ဖြစ်လာ၏။ ထိုနည်းအတူ မျှားမကြာမီ ဂျပ်ဆင်ကောလိပ်၌လည်း ဒေါက်တာလုဖူးသည် ပဌမ မြန်မာကျောင်းအုပ်ကြီးဖြစ်၍ ဆရာဖြစ်သင် ကောလိပ်၌လည်း ဦးဘသည် ပဌမ မြန်မာကျောင်းအုပ်ကြီး ဖြစ်၏။ သပိတ်မှောက်သည့် အကြောင်းနှင့် စပ်လျဉ်း၍ လတ်ခနေ ဝင်းတက္ကသိုလ် ဒု-အဓိပတိပါဝင်သော ရန်ကုန်တက္ကသိုလ် အက်ဥပဒေ စုံစမ်းရေးကော်မီတီကို ခန့်လိုက်ရာ တက္ကသိုလ်ပညာ ပြန့်ပွားရေးနှင့် တက္ကသိုလ် အဖွဲ့များတွင် ပြင်ပလူကြီးများပိုမိုခန့်ထားရေး စသည်တို့ကို ၁၉၃၉ ခုနှစ် ပြင်ဆင်သော အက်ဥပဒေတွင် ထည့်သွင်းလေသည်။ ၁၉၃၉ ခုနှစ် အဆုံးတွင် တက္ကသိုလ်ကျောင်းသားများသည် အစိုးရအား သပိတ်မှောက်ကြရာ ဂျပ်ဆင်ကောလိပ် ကျောင်းသားကိုအောင်ကျော်သည် အဓိကရုဏ်းတွင် အသက်ဆုံးရှာရလေသည်။ မီးတုတ် မီးတုတ် ရှို့ ရှို့ ဟူသော အော်သံများကို ထိုအခါ၌ ကြားရတတ်၏။

၁၉၄၂ ခုနှစ်မတိုင်မီ တက္ကသိုလ်တွင် မှတ်ဖွယ်ကောင်းသော အချက်များကား အောက်ပါတို့တည်း။

(၁) ကျောင်းသားအများတို့သည် တက္ကသိုလ်ကျောင်းဆောင်များတွင် နေထိုင်ကာ ပညာသင်ကြားကြ၏။



တက္ကသိုလ် ကျောင်းသူ ကျောင်းသားများ သုတေသနပြု ပညာရှာဖွေရာ တက္ကသိုလ်များ စာကြည့်တိုက်



တက္ကသိုလ် ကျောင်းသူ ကျောင်းသားတို့အား ဘွဲ့ထူးချီးမြှင့်ရာ ဘွဲ့နှင်းသဘင် ခန်းမဆောင်

(၂) အဓိပတိ၊ ဒု အဓိပတိနှင့် ကောင်စီအဖွဲ့ဝင် အချို့တို့ကို ရွေးကောက်၍ ခန့်ထားကြ၏။

(၃) ဖက်စပ် ပါဝင်သော ကောလိပ်များကို တည်ထောင် ထောက်ပံ့ အုပ်ချုပ်ခြင်း၊ တက္ကသိုလ်၏ အထောက်အပံ့ မရသော ကောလိပ်များကို အသိအမှတ်ပြုခြင်း၊ နယ်တွင် တက္ကသိုလ်အသစ် ဖြစ်မည်ဟု မျှော်လင့်ရသော အပေါင်းပါ ကောလိပ်များကို ဖွင့်ခြင်းတို့သည် တက္ကသိုလ်၏ လုပ်ငန်းများတွင် ပါဝင်ကြ၏။

(၄) မူလ ၁၉၂၀ ပြည့်နှစ် အက်ဥပဒေ၌ အဓိပတိ၊ ဒု အဓိပတိ၊ ကောင်စီ၊ ပါမောက္ခအဖွဲ့တို့ကို တက္ကသိုလ်အာဏာပိုင်များဟု ဖော်ပြခဲ့ရာ ၁၉၃၉ ခုနှစ် ပြင်ဆင်သော အက်ဥပဒေ၌ကား ကောင်စီ၊ အမှုဆောင် ကော်မီတီ၊ ပါမောက္ခအဖွဲ့၊ ပင်တိုင် ကော်မီတီတို့ကို အာဏာပိုင်များဟု ခေါ်၏။

လူကြီးဦးရေ ၇၀ ကျော်ပါသော ကောင်စီသည် တက္ကသိုလ်၏ အကြီးဆုံး အာဏာပိုင်ဖြစ်၍ အခြားအာဏာပိုင်တို့၏ လုပ်ငန်းကို ဝေဖန်နိုင်သည်။ အမှုဆောင် ကော်မီတီသည် ကောင်စီကိုယ်စား ဆောင်ရွက်သော အဖွဲ့ငယ်ဖြစ်သည်။ အဖွဲ့ဝင်ဦးရေ ၁၀ ခန့်သာရှိ၍ ကောင်စီလူကြီးများ၊ အစိုးရ ဌာနမှူးများနှင့် ကောလိပ် ကျောင်းအုပ်ကြီးများ ပါဝင်ကြသည်။ ပါမောက္ခအဖွဲ့သည် တက္ကသိုလ် ပညာသင်ကြားရေးနှင့်ဆိုင်သော အဖွဲ့ဖြစ်သည်။ အမှုဆောင်ကော်မီတီအား ပညာရေးအကြောင်းအရာများနှင့် စပ်လျဉ်း၍ အကြံပေးခြင်း၊ သင်ကြားရေး၊ သုတေသနပြုရေး၊ စာစစ်ရေးနှင့် ကောလိပ်တို့တွင် ကထိကနှင့် အခြားဆရာများခန့်ထားရေးတို့သည် ယင်း၏လုပ်ငန်းတွင် ပါဝင်ကြသည်။ ပင်တိုင် ကော်မီတီသည် ပါမောက္ခအဖွဲ့ကိုယ်စား ဆောင်ရွက်သော အဖွဲ့ငယ်ဖြစ်၍ တက္ကသိုလ်အုပ်ချုပ်ရေးမှူး၊ ကျောင်းအုပ်ကြီးများနှင့် ပါမောက္ခကိုယ်စား ခြောက်ဦးတို့ ပါဝင်ကြ၏။

ဖက်စပ်ပါဝင်သော ကောလိပ်များနှင့် အပေါင်းပါ ကောလိပ်တို့၌ကား ကျောင်း အုပ်ထိန်းရေး အဖွဲ့သည် အာဏာပိုင်ဖြစ်သည်။ ယင်းအဖွဲ့ကို အစိုးရ သဘောတူညီချက်နှင့် ဖွဲ့ရသည်။ ဘဏ္ဍာရေး၊ အမှုထမ်း အရာထမ်း ခန့်ထားရေး၊ ကျောင်းသား စည်းကမ်းသေဝပ်မှု စသည်တို့တွင် အာဏာရှိသော်လည်း နှစ်စဉ် ရံပုံငွေစာရင်းကို ကောင်စီမှတဆင့် အစိုးရထံသို့ တင်ရသည်။ ကထိကနှင့် အခြား ဆရာများကို ခန့်ထားရာ၌ ပါမောက္ခအဖွဲ့အား အကြောင်းကြားရသည်။ သို့ဖြစ်၍ ကောလိပ်တို့ကို တက္ကသိုလ်က ထိန်းသည်မှန်သော်လည်း တက္ကသိုလ် အဖွဲ့များတွင် ကောလိပ်၏ ကိုယ်စားလှယ်များ ပါဝင်ကြ၏။

၁၉၄၂–၄၅ ခုနှစ် ဂျပန်ခေတ်အတွင်း ပညာဝန်ကြီး လက်အောက်၌ ဤစာစောင်ရေးသူနှင့် အခြား ရှစ်ဦးပါဝင်သော တက္ကသိုလ်အဖွဲ့သည် တက္ကသိုလ်ကို ရန်ကုန်မြို့၊ ကော်မရှင်နာလမ်း(ယခု ဗိုလ်ချုပ်အောင်ဆန်းလမ်း) ရှိ စိန့်ဂျွန်း ကွန်ဗင့်ကျောင်း အဆောက်အဦ၌ ဆက်လက် တည်ထောင်ခဲ့သည်။ မြန်မာပြည်တဝှန်းတွင် တက္ကသိုလ်တွင်သာ အင်္ဂလိပ်စာကို သင်ကြားခဲ့၏။ ဂျပန်ဘာသာကို တက္ကသိုလ်တန်းမီ သင်နိုင်သော ကျောင်းသား မရှိသဖြင့် သင်ကြားခြင်း မပြုခဲ့ချေ။

တက္ကသိုလ် ပညာရပ်များကို ဂျပန် ပါမောက္ခများက သင်ကြား ပေးလိုသော်လည်း ဘာသာပြန်ဖြင့် သင်ကြားရမည့် စနစ်ကို တက္ကသိုလ်အဖွဲ့က မကြိုက်သဖြင့် ဆေးပညာမှ အပ သင်ကြားခွင့် မပြုခဲ့ချေ။

ထိုအတောအတွင်း ဆင်မလာမြို့တွင် ရောက်ရှိနေသော စစ်ပြေး မြန်မာပြည် အစိုးရသည် ရန်ကုန် တက္ကသိုလ် ရပ်ဆိုင်းရေး အက်ဥပဒေကို ၁၉၄၂–၄၃ ခုနှစ်တွင် ပြုလုပ်၍ မြန်မာပြည်သို့ ပြန်ရောက်သောအခါ တည်ထောင်မည်ဟု ရည်ရွယ်သော ကြားဖြတ်တက္ကသိုလ်အတွက် စီမံကိန်း ဆွဲလေသည်။ ကောလိပ်များအစား ပညာသင်ကြားရေးဆိုင်ရာ မဟာဌာနများကို ဖွင့်ကာ တက္ကသိုလ် ဗဟိုဌာနတခုတည်းက စီမံအုပ်ချုပ်သော စနစ်ကို လိုလားကြောင်း ဖော်ပြထား၏။မြန်မာပြည်သို့ ၁၉၄၅ ခုနှစ် မေလတွင် ပြန်ရောက်သည်နှင့် တပြိုင်နက် ထို ရပ်ဆိုင်းရေးအက်ဥပဒေကို ရုပ်သိမ်းပြီးလျှင် ၁၉၄၅ ခုနှစ် ပြင်ဆင်သော အက်ဥပဒေကို ပြုလုပ်လေသည်။ သို့ရာတွင် ကြားဖြတ်တက္ကသိုလ် တည်ထောင်ခြင်းနှင့်စပ်လျဉ်းသော အကြောင်းအရာတို့ကို စုံစမ်းရန် ၁၉၄၆ ခုနှစ် ဩဂုတ်လ၌ တက္ကသိုလ် စီမံအုပ်ချုပ်ရေး ကော်မီတီတခုကိုဖွဲ့လိုက်ပြန်ရာ ထိုကော်မီတီက ယခင်စီစဉ်ဖွဲ့စည်းပုံအတိုင်း ကောလိပ်များကို ပြန်လည်ဖွင့်လှစ်ရန် အကြံပေးသော်လည်း ထိုအကြံကိုမလိုက်ဘဲ ဗဟိုဌာနတခုတည်းဖြင့် စီမံအုပ်ချုပ်ပုံကိုပင် ဆက်လက်ပြုလုပ်ကြလေသည်။ ယခင်ကအတိုင်း ကောလိပ်များကိုပြန်ဖွင့်လျှင် ဂျပ်ဆင် ကောလိပ်ကိုပါ ပြန်ဖွင့်ရမည်ကို စိုးရိမ်ဟန်ရှိသည်။

ဤသို့ဖြင့် ၁၉၄၉ ခုနှစ် ပြင်ဆင်သော အက်ဥပဒေတွင် အုပ်ချုပ်ရေးအရာရှိနှင့် မဟာဌာနမှူးတို့ကို တွေ့ရ၏။ မြန်မာနိုင်ငံ အစိုးရသည်လည်း ပြည်ထောင်စု သမတမြန်မာနိုင်ငံအစိုးရဖြစ်လာ၏။ ဖက်စပ်ပါဝင်သော ကောလိပ်များနှင့် ကျောင်းအုပ်ကြီးတို့ မရှိတော့ချေ။နယ်တွင် အပေါင်းပါ ကောလိပ်များကား ရှိကြ၏။ တက္ကသိုလ် ဗဟိုဌာန တခုတည်းက ကောင်စီနှင့် ပါမောက္ခအဖွဲ့အားဖြင့် စီမံ အုပ်ချုပ်၏။ သိပ္ပံ၊ ဝိဇ္ဇာ၊ ဆေးပညာ၊ ပညာရေး၊ ဥပဒေ၊ အင်ဂျင်နီယာ ပညာ၊ စိုက်ပျိုးရေးဟူသော မဟာဌာနတို့ကို တွေ့ရ၏။ ၁၉၅၁ ခုနှစ် ပြင်ဆင်သော အက်ဥပဒေတွင် အုပ်ချုပ်ရေး အရာရှိသည် ပါမောက္ခချုပ် ဖြစ်လာ၏။ နိုင်ငံတွင် လူမှုရေးရာနှင့် စီးပွားရေးတို့ကို လိုလားအပ်သည်နှင့်အညီ ဆောင်ရွက်မှု အမျိုးမျိုးတို့တွင် ပညာတတ် ပညာရှင် လုပ်ငန်းတတ်များကို တတ်မြောက်အောင် သင်ကြားပေးရန် ရည်ရွယ်ချက် ရှိသည်။ ကောင်စီတွင် ပြင်ပလူကြီးများ ပါဝင်ရေးကို ပိုမိုသတ်မှတ်၍ ကောင်စီတွင် မန္တလေး တက္ကသိုလ် ကောလိပ်၏ ကိုယ်စားလှယ်လည်း ပါဝင်သည်။ အပေါင်းပါ ကောလိပ်တို့၏ နှစ်စဉ်ရံပုံငွေစာရင်းအကြောင်းကိုလည်း ဖော်ပြသည်။ ၁၉၅၃ ခုနှစ် ပြင်ဆင်သော အက်ဥပဒေတွင် မေမြို့ရှိ စစ်တက္ကသိုလ်အကြောင်း ပါသည်။ ၁၉၅၉ ခုနှစ် ပြင်ဆင်သောအက်ဥပဒေတွင် ကျောင်းသားရေးမှူးများအကြောင်း ပါသည်။ ၁၉၆၁ ခုနှစ် ဇန္နဝါရီလ ၁ ရက်နေ့ ကျင်းပသော အစည်းအဝေးတွင် ပါမောက္ခအဖွဲ့သည် အောက်ပါအတိုင်း ဆုံးဖြတ်လိုက်၏။

အလျင်အမြန် တိုးတက်လျက်ရှိသော အခြေအနေများ၊ မမျှော်လင့်အပ်သော အခြေအနေများအတွက် လက်ရှိ တက္ကသိုလ်စီမံအုပ်ချုပ်ပုံသည် မလုံလောက်၍ ကြေနပ်ဖွယ် မရှိချေ။ သို့ဖြစ်၍ တက္ကသိုလ်၏ အခြေအမြစ်ကို ပြောင်းလဲကာ အုပ်ချုပ်ပုံကို အသစ်ပြုပြင်ရန် လိုပေသည်။ တက္ကသိုလ်ကို ပြုလဲအောင် ဖန်တီးနေသည့် အခြေခံ ပြဿနာ အချို့တို့ကား ကျောင်းသားဦးရေ တိုးတက်မှုကြောင့် အုပ်ချုပ်ရေး ယန္တရားသည် လေးလံလျက် ရှိခြင်း၊ ကျောင်းသား စည်းကမ်းသေဝပ်မှုနှင့် အမှုထမ်း အရာထမ်းခန့်ထားမှုများနှင့် စပ်လျဉ်း၍ အုပ်ချုပ်ရေး၌ အခက်အခဲတွေ့ရခြင်း၊ ပညာသင်ကြားပေးရာ၌ သင့်တော်သော အဆင့်အတန်းကို မှီအောင် ကြိုးစား၍ သင်ကြားပေးခြင်း-ဟူသော ပြဿနာများဖြစ်ကြ၏။ အချုပ်ဆိုသော် တက္ကသိုလ်နယ်သည် ကျယ်ပြန့် တိုးတက်လျက် ရှိရကား ဗဟိုဌာနတခုတည်းက နေ၍ စီမံအုပ်ချုပ်ရန် ခက်ခဲကြောင်း တွေ့ရ၏။ သို့ဖြစ်၍ ဗဟိုဌာနရှိ အာဏာကို ခွဲဝေအပ်နှင်းမှ ဖြစ်မည် ထင်မြင်ပါကြောင်းဟူသတည်း။

အဆိုပါ ပါမောက္ခအဖွဲ့၏ ထင်မြင်ချက်ကို ကောင်စီက သဘောတူ၍ အစိုးရက လက်ခံလျှင် ပင်ရင်းတက္ကသိုလ် ကောလိပ်၊ သမိုင်းရှိ ကောလိပ်အသစ်၊ ကြို့ကုန်းရှိ အင်ဂျင်နီယာကောလိပ်၊ လမ်းမတော် ဆေးပညာကောလိပ်၊ ပြည်လမ်းရှိ ပညာရေးကောလိပ်၊ အင်းစိန်ရှိ တိရစ္ဆာန်ဆေးကု ကောလိပ်တို့သည် ရန်ကုန်တက္ကသိုလ်၏ ဖက်စပ်ကောလိပ်များ ဖြစ်ကြလိမ့်မည်။ ဦးဖေမောင်တင်

သို့သော် ၁၉၆၄ ခုနှစ် တက္ကသိုလ်ပညာရေး ဥပဒေအရ ရန်ကုန် ဝိဇ္ဇာနှင့်သိပ္ပံ တက္ကသိုလ်၊ ရန်ကုန် ဆေးတက္ကသိုလ် (၁)၊ ရန်ကုန် ဆေးတက္ကသိုလ် (၂)၊ ရန်ကုန် စက်မှုတက္ကသိုလ်၊ စီးပွားရေး တက္ကသိုလ်၊ ပညာရေး တက္ကသိုလ်၊ တိရစ္ဆာန်မွေးမြူရေးနှင့် ဆေးကုသရေး တက္ကသိုလ် ဟူ၍ စနစ်သစ်ဖြင့် ပြောင်းလဲဖွဲ့စည်းခဲ့သည်။ ထိုပြင် အဆိုပါ တက္ကသိုလ်များနှင့် ပညာရေးအားဖြင့် ဆက်သွယ်လျက်၊ အုပ်ချုပ်ရေးအားဖြင့်မူ သီးခြား ကင်းလွတ်သော ကောလိပ်လေးခု တို့ကိုလည်း တပြိုင်နက်တည်း ဖွဲ့စည်း ပေးခဲ့၏။ ရန်ကုန် ဆေးတက္ကသိုလ် (၁) နှင့် ဆက်သွယ် ပေါင်းစည်းထားသော ကောလိပ်မှာ ရန်ကုန်မြို့ရှိ သွားဖက်ဆိုင်ရာ ဆေးကောလိပ်ဖြစ်၏။ ရန်ကုန် ဝိဇ္ဇာနှင့်သိပ္ပံ တက္ကသိုလ်နှင့်

ဆက်သွယ် ပေါင်းစည်းထားသော ကောလိပ်များမှာ ရန်ကုန်မြို့ရှိ လုပ်သားများကောလိပ်၊ မော်လမြိုင် ကောလိပ်နှင့် ပုသိမ် ကောလိပ်တို့ ဖြစ်ကြလေသည်။

စံနစ်သစ်ဖြင့် ဖွဲ့စည်းထားသည့် တက္ကသိုလ်များ ရှေးရှု ဆောင်ရွက်ရမည့် အဓိက ရည်မှန်းချက်များမှာ – (က) မြန်မာ့ဆိုရှယ်လစ်လောက တည်ဆောက်ရာတွင် ပါဝင် လုပ်ဆောင်ရမည့် ကျွမ်းကျင် လိမ္မာသော ပညာရှင်များ မွေးထုတ်ပေးရန်၊ (ခ) ဆိုရှယ်လစ်စီးပွားရေး၊ အုပ်ချုပ်ရေး၊ လူမှုရေးလုပ်ငန်းအရပ်ရပ်တွင် တိုးတက်မှု ရှိအောင် စွမ်းဆောင်နိုင်မည့် ပညာရှင်များ မွေးထုတ်ပေးရန်၊ (ဂ) အသက်မွေးဝမ်းကျောင်းမှုကို အထောက်အကူ ပြုမည့် အတတ်ပညာနှင့် သိပ္ပံပညာကို ဦးစားပေး၍ လေ့ကျင့် သင်ကြားပေးရန်၊ (ဃ) ဆိုရှယ်လစ်စံနစ် တည်ဆောက်ရေးလုပ်ငန်းအောင်မြင်မှုကို ရှေးရှု၍ သုတေသန လုပ်ငန်းများ ဆောင်ရွက်ရန်၊ (င) ဆိုရှယ်လစ် အတွေးအခေါ် နှင့်လျော်ညီသည့် စိတ်နေသဘောထား၊ ကျင့်ဝတ်သိက္ခာများနှင့် ပြည့်စုံအောင် လေ့ကျင့်သင်ကြားပေးရန်၊ (စ) လုပ်အားကို ဂုဏ်ယူစိတ်ရှိအောင် လေ့ကျင့်သင်ကြားပေးရန်၊ (ဆ) မြန်မာ့ဆိုရှယ်လစ်လောက တည်ဆောက်ရာတွင် ပါဝင်နေကြသော လုပ်သားပြည်သူတို့၏ ပညာဉာဏ် အမြော်အမြင်ကိုင်၊ ကျွမ်းကျင်မှုကိုင် အစဉ်တိုးတက် ကောင်းမွန်အောင် ဆောင်ရွက်ရန်တို့ဖြစ်သည်။

ထိုပြင် တက္ကသိုလ် အသီးအသီးသည် (က) ပြည်ထောင်စု မြန်မာနိုင်ငံ၏ နိုင်ငံရေး၊ စီးပွားရေး၊ လူမှုရေး စံနစ်များနှင့် ကိုက်ညီသည့် ပညာရပ်များကို ပို့ချသင်ကြားပေးရန်၊ (ခ) ပြည်ထောင်စု မြန်မာနိုင်ငံ၏ နိုင်ငံရေး၊ စီးပွားရေး၊ လူမှုရေးကိစ္စအဝဝအတွက် အထူးပညာတတ် ပုဂ္ဂိုလ်များ၊ ပညာကျော်များ၊ စက်မှုလက်မှု ကျွမ်းကျင်သူများ စသည့် အတတ်ပညာသည်များနှင့် အသိပညာရှင်များ ဖြစ်ထွန်းအောင် အတတ်ပညာသင်ကြားပေးရန်၊ (ဂ) သုတေသနလုပ်ငန်းအတွက်ငှင်း၊ ပညာတိုးပွားရေးအတွက်ငှင်း၊ ပညာဖြန့်ချိရေးအတွက်ငှင်း စီမံထားချက်များ ပြုလုပ်ရန်၊ (ဃ) တက္ကသိုလ် ပညာရေးဆိုင်ရာ စာမေးပွဲများ ကျင်းပရန်၊ (င) တက္ကသိုလ်များ၊ ဒီပလိုမာလက်မှတ်များ၊ တက္ကသိုလ်စာမေးပွဲ အောင်လက်မှတ်များနှင့် တက္ကသိုလ်ဆိုင်ရာ အခြား ပညာဂုဏ်ထူးဆောင် ဘွဲ့များ အပ်နှင်းချီးမြှင့်ရန်၊ (စ) တက္ကသိုလ် ကျောင်းသားကျောင်းသူများ၏ နေရေး၊ ထိုင်ရေးနှင့် စည်းကမ်း သေဝပ်ရေးတို့ကို ကြီးကြပ် စီမံခန့်ခွဲရန်နှင့် ကျောင်းသားကျောင်းသူများ၏ ကိုယ်လက် ကြံ့ခိုင်ရေးနှင့် ကျန်းမာရေး တိုးတက်အောင် စီမံခန့်ခွဲရန်၊ (ဆ) တက္ကသိုလ် ကျောင်းသား ကျောင်းသူများကို ဆိုရှယ်လစ် လူ့ဘောင်နှင့် ဟပ်မိအောင် ကျောင်းခန်းပြင်ပ ပညာရေး လုပ်ငန်းများတွင် လေ့ကျင့်ပေးရန်၊ (ဇ) တက္ကသိုလ်က ရှေးရှုဆောင်ရွက်ရမည့် အဓိက ရည်မှန်းချက်များကို ပြီးမြောက်အောင်မြင်စေရေး အတွက် လိုအပ်သော အခြား ကိစ္စ အရပ်ရပ်ကို ဆောင်ရွက်ရန် ဟူသော တာဝန်ဝတ်တရားများကို ဆောင်ရွက်သွားရမည် ဖြစ်သည်။

တော်လှန်ရေး အစိုးရသည် မိမိ၏ ကိုယ်စား တက္ကသိုလ်ပညာရေးကို ကြီးကြပ်ရန်အတွက် တော်လှန်ရေးအစိုးရ ပညာရေးဌာန တာဝန်ခံ ဦးဆောင်သည့် တက္ကသိုလ်များ ဗဟိုကောင်စီကို ဖွဲ့စည်းပေးထားသည်။ ထိုတက္ကသိုလ်များ ဗဟိုကောင်စီ၏ တာဝန် ဝတ်တရားများမှာ (က) တက္ကသိုလ်ပညာရေးဆိုင်ရာ ဝါဒသဘောထားများကို ချမှတ်ပေးရန်၊ (ခ) တက္ကသိုလ်များ လက်အောက်ခံ ကောလိပ်၊ သိပ္ပံကျောင်းသစ်များနှင့် ဆက်သွယ် ပေါင်းစည်းထားသည့် ကောလိပ်၊ သိပ္ပံ ကျောင်းသစ်များ ဖွဲ့စည်းဖွင့်လှစ်ပေးရေး အတွက် အစိုးရထံ ထောက်ခံချက် တင်ပြရန်၊ (ဂ) တက္ကသိုလ်များမှ မည်သို့သော ဘွဲ့လွန် ဒီဂရီ၊ ဘွဲ့၊ ဒီပလိုမာနှင့် အောင်လက်မှတ်များ ပေးရမည်ကို စဉ်းစား ဆုံးဖြတ်ရန်၊ (ဃ) မြန်မာ့ဆိုရှယ်လစ် လမ်းစဉ်ပါတီနှင့်ငှင်း၊ ဆိုရှယ်လစ် စီးပွားရေး တည်ဆောက်မှု ကော်မီတီနှင့်ငှင်း ညှိနှိုင်း၍ လိုအပ်သော ပညာရှင်အရေအတွက် ရရှိနိုင်အောင် တက္ကသိုလ်များတွင် လက်ခံသင်ကြားမည့် ကျောင်းသားဦးရေ ကန့်သတ်ရန်၊ (င) တက္ကသိုလ်များ၏ နှစ်စဉ်ကုန်ကျစရိတ် ခန့်မှန်းခြေကို သတ်မှတ်ရန်နှင့် ခွင့်ပြုရန်၊ (စ) တနိုင်ငံလုံးကို အကျိုးပြုစေမည့် သုတေသန လုပ်ငန်းများကို စဉ်းစား သတ်မှတ်ပေးရန်၊ (ဆ) ဂုဏ်ထူးဆောင်ဘွဲ့များ အပ်နှင်းချီးမြှင့်ရေးကို စဉ်းစားသတ်မှတ်ပေးရန်၊ (ဇ) တက္ကသိုလ် ပညာရေးအတွက် ရည်မှန်းချက်များ အကောင်အထည်ဖော်ရာတွင် ဆောင်ရွက်ရမည့် လုပ်ငန်းဆောင်တာများကို စဉ်းစားဆုံးဖြတ်ရန်၊ (ဈ) တက္ကသိုလ် အုပ်ချုပ်ရေး အဖွဲ့များ၏ လုပ်ငန်းများကို ကြီးကြပ်ရန်နှင့် တင်ပြသော ပြဿနာအရပ်ရပ်ကို စဉ်းစား ဆုံးဖြတ်ပေးရန်တို့ ဖြစ်၏။

ထိုပြင် တက္ကသိုလ် ပညာရေး အဆင့်အတန်း၊ သင်ရိုးမာတိကာ အစရှိသော ပညာရေးနှင့် သက်ဆိုင်သည့် ကိစ္စအရပ်ရပ် ကြီးကြပ်ရန်အတွက် တက္ကသိုလ် ပညာရေးအဖွဲ့များကောင်စီကိုလည်း တော်လှန်ရေးအစိုးရအဖွဲ့ ပညာရေးဌာနတာဝန်ခံကိုယ်င် အကြီးဥက္ကဋ္ဌပြုလျက် ဖွဲ့စည်းပေးထားသည်။ တက္ကသိုလ်ပညာရေးအဖွဲ့များ ကောင်စီ၏ တာဝန်ဝတ်တရားများမှာ (က) တက္ကသိုလ်ပညာရေးအဆင့်အတန်းကို ပြဋ္ဌာန်းသတ်မှတ်ရန်၊ (ခ) တက္ကသိုလ်များသို့ ဝင်ခွင့်ရရှိရန် လိုအပ်သည့် ပညာအရည်အချင်းနှင့် ရွေးချယ်ပုံ နည်းစံနစ် သတ်မှတ်ပေးရန်၊ (ဂ) တက္ကသိုလ် စာမေးပွဲများ

ကျင်းပရေး အတွက် စည်းကမ်းနှင့် စံနစ်များကို ပြဋ္ဌာန်း သတ်မှတ်ရန်၊ (ဃ) တက္ကသိုလ်ဆရာအဆင့်ဆင့်တို့ အခြေခံ ပညာ အရည်အချင်းကို သတ်မှတ်ရန်နှင့် ထိုဆရာတို့ ပညာ တိုးတက်ရေးအတွက် သုတေသနလုပ်ငန်းစသည်များချမှတ် ပေးရန်၊( င ) တက္ကသိုလ်ပညာရေးအဖွဲ့အသီးသီး၏ သုတေ သနလုပ်ငန်းများကိုဂင်း၊ အလုပ် ဝတ်တရားနှင့် စပ်လျဉ်း၍ ဆောင်ရွက်ရမည့်လုပ်ငန်းများကိုဂင်း ညှိနှိုင်းပေးရန်၊( စ ) တက္ကသိုလ် ပညာရေးအဖွဲ့ အသီးသီးက တင်ပြသော တက္က သိုလ်ပညာ တိုးတက်ရေးလုပ်ငန်းများကို စိစစ်၍ တက္ကသိုလ် များဗဟိုကောင်စီသို့ တင်ပြရန်တို့ ဖြစ်လေသည်။

တက္ကသိုလ်များ အုပ်ချုပ်ရေးကို ပညာရေးဌာနက တိုက် ရိုက် ကြီးကြပ်သည်။ တက္ကသိုလ် အသီးအသီးတွင် အုပ်ချုပ် ရေးနှင့်ပညာရေးဆိုင်ရာတာဝန်များကို စီမံခန့်ခွဲရန်အတွက် တက္ကသိုလ် အုပ်ချုပ်ရေးအဖွဲ့နှင့် တက္ကသိုလ် ပညာရေးအဖွဲ့ များ ဖွဲ့စည်းထား၏။ တက္ကသိုလ် အုပ်ချုပ်ရေးအဖွဲ့ အသီး အသီးတွင် ပါမောက္ခချုပ်ကဥက္ကဋ္ဌ၊မော်ကွန်းထိန်းအရာရှိက အတွင်းရေးမှူး အဖြစ် ဆောင်ရွက်ပြီးလျှင် ပညာရေး ဌာနက ရွေးချယ်သော ပုဂ္ဂိုလ်နှစ်ဦး၊ တက္ကသိုလ်များ ဗဟို ကောင်စီဝင် နှစ်ဦးနှင့် တက္ကသိုလ်ဆရာသုံးဦး ပါဝင်၏။ ယင်းအဖွဲ့၏ တာဝန်ဝတ်တရားများမှာ (က) တက္ကသိုလ် ရာထမ်း မှုထမ်းများအား ရာထူး ခန့်ထားရေး၊ ရာထူး တိုးမြှင့်ရေး၊ ပြောင်းရွှေ့ရေးခွင့်ပေးရေးစသော ပုဂ္ဂိုလ်ရေး ဆိုင်ရာ ကိစ္စအဝဝကို အစိုးရပြဋ္ဌာန်းသည့် ဥပဒေ၊ ထုတ်ပြန် သည့် ညွှန်ကြားချက်နှင့်အမိန့်များအတိုင်း ဆောင်ရွက်ရန်၊ (ခ) နည်းဥပဒေ ညွှန်ကြားချက်နှင့် အမိန့်များ အရ ဆောင်ရွက်ခွင့် ပေးထားသော ဘဏ္ဍာရေးဆိုင်ရာ လုပ်ငန်း များကို ဆောင်ရွက်ရန်၊ (ဂ) ကျောင်းသားကျောင်းသူ များနှင့် သက်ဆိုင်သော စည်းကမ်းများ သတ်မှတ်ရန်နှင့် ထိုစည်းကမ်းများအတိုင်း လိုက်နာအောင် ကြပ်မတ်ထိန်း သိမ်းရန်၊ (ဃ) တက္ကသိုလ်နယ်မြေ ကိစ္စများကို ဆောင် ရွက်ရန်၊ (င) ကျောင်းသားကျောင်းသူများအတွက် ကာယဗလနှင့် ယဉ်ကျေးမှု လုပ်ငန်း အရပ်ရပ်ကို ကြီးကြပ် စီမံရန်၊ ( စ ) တက္ကသိုလ်ရာထမ်းမှုထမ်းနှင့် ကျောင်းသား ကျောင်းသူတို့၏ ကျန်းမာရေး ကိစ္စများကို စီမံဆောင် ရွက်ရန်၊ (ဆ) ကျောင်းဆောင် ကိစ္စ အရပ်ရပ်ကို စီမံ ဆောင်ရွက်ရန်၊ (ဇ) ပညာသင် ထောက်ပံ့ကြေးနှင့် ကျောင်း လခ လွတ်ငြိမ်းခွင့် ချီးမြှင့်ရေး ကိစ္စ အတွက် ထောက်ခံချက် တင်ပြရန်တို့ ဖြစ်ပေသည်။

တက္ကသိုလ် ပညာရေးအဖွဲ့ အသီးအသီးတွင်ကား ပါ မောက္ခချုပ်က ဥက္ကဋ္ဌ၊ မော်ကွန်းထိန်း အရာရှိက အတွင်း ရေးမှူးအဖြစ် ဆောင်ရွက်လျက် အဖွဲ့ဝင်များအဖြစ် ပါ မောက္ခများ၊ ဌာနမှူးများ၊ ဘာသာရပ် အသီးအသီး၌ ကျွမ်းကျင်သည့် ပြင်ပမှ ပုဂ္ဂိုလ်များ၊ ဒီဂရီ ကောလိပ်နှင့် ဥပစာ ကောလိပ် ကျောင်းအုပ်ကြီးများနှင့် မဟာဌာနမှူး များ ပါဝင်ကြ၏။ ယင်းအဖွဲ့ အသီးအသီး၏ တာဝန်ဝတ် တရားများမှာ (က)သင်ရိုးမာတိကာ သတ်မှတ်ရန်၊ (ခ) သင်ရိုးညွှန်းတမ်း ရေးဆွဲရန်၊ (ဂ) စာမေးပွဲများ ကျင်းပ ပေးရန်နှင့် အောင်စာရင်းများ ကြေညာရန်၊ (ဃ) ဘွဲ့ ဒီပလိုမာ၊ အောင်လက်မှတ်နှင့်ဆုများ ချီးမြှင့်ရန်၊ (င) ဌာနသစ်များ တီထွင်ရေးအတွက် ထောက်ခံရန်၊ (စ) တက္ကသိုလ် ပညာသင်ကြားရေး ရာထူးအဆင့်အသီးအသီး အတွက် လိုအပ်သော ပညာအရည်အချင်း များကို သတ်မှတ် တင်ပြရန်နှင့် (ဆ) တက္ကသိုလ်တွင် ပြဋ္ဌာန်းမည့် စာအုပ် စာတမ်း ဟူသမျှကို စိစစ် အတည်ပြုရန်တို့ ဖြစ်၏။

ကောလိပ်များတွင်လည်း အုပ်ချုပ်ရေး အဖွဲ့များကို ဖွဲ့ စည်း ထားရှိသည်။ တက္ကသိုလ် ပညာရေး စံနစ်သစ်၏ ထူးခြားချက်များမှာ (၁) ရည်မှန်းချက် အတိအကျ ရှိ ခြင်း၊ (၂) တက္ကသိုလ်များ ခွဲခြား တည်ထောင် ဖွင့်လှစ် ခြင်း၊ (၃) သိပ္ပံပညာနှင့် အသက်မွေးဝမ်းကျောင်းပညာကို ဦးစားပေးခြင်း၊ (၄) ခေတ်နှင့် လျော်ညီမည့် သင်ရိုးညွှန်း တမ်းများ ပြောင်းထားခြင်း၊ (၅) အထူးပြုလေ့လာရေး စံနစ်ကို တီထွင်ခြင်း၊ (၆) မြန်မာ ဘာသာကို သင်ကြား ရေးမဏ္ဍိုင်အဖြစ် သတ်မှတ်ခြင်း၊ (၇) သုတေသန လုပ်ငန်း အားပေးခြင်း၊ (၈) သင်ကြားပုံ ပြောင်းလဲခြင်း၊ (၉) စီမံကိန်းစံနစ်ပြစ်ခြင်း ဟူ၍ ဖြစ်၏။

စံနစ်သစ်ဖြင့် ဖွဲ့စည်းလိုက်သော ရန်ကုန် ဝိဇ္ဇာနှင့် သိပ္ပံ တက္ကသိုလ်သည် ယခင် ရန်ကုန် တက္ကသိုလ် လက်အောက်ရှိ ဝိဇ္ဇာမဟာဌာနနှင့် သိပ္ပံမဟာဌာနတို့ကို အဓိက အခြေခံ ထား၍ ဖွဲ့စည်းလိုက်ခြင်း ဖြစ်၏။ စံနစ်ဟောင်း တက္ကသိုလ် တည်ရှိခဲ့သော ကမာရွတ် တက္ကသိုလ် နယ်မြေ အဆောက် အအုံများ၌ပင် တည်ရှိလေသည်။

ရန်ကုန် ဝိဇ္ဇာနှင့်သိပ္ပံ တက္ကသိုလ်တွင် စံနစ်သစ်အရ ဝိဇ္ဇာ ဘာသာရပ် ကိုးမျိုးနှင့် သိပ္ပံဘာသာရပ် ခုနစ်မျိုး တို့ကို သင်ကြား ပို့ချပေးလျက် ရှိ၏။ ဝိဇ္ဇာဘာသာရပ် ကိုးမျိုး မှာ-ပါဠိ၊ ဥပဒေ၊ ပထဝီ၊ ဒဿနိကဗေဒ၊ အင်္ဂလိပ်စာ၊ မြန် မာစာ၊ သမိုင်း၊ စိတ်ပညာနှင့် မနုဿ ဗေဒတို့ ဖြစ်၍ သိပ္ပံ ဘာသာရပ် ခုနစ်မျိုးကား - သင်္ချာ၊ သတ္တဗေဒ၊ ရုက္ခဗေဒ၊ ရူပဗေဒ၊ ဓာတုဗေဒ၊ ဘူမိဗေဒနှင့် သစ်တော သိပ္ပံတို့ ဖြစ် သည်။ မနုဿဗေဒ၊ အင်္ဂလိပ်စာနှင့် ပါဠိဘာသာတို့က လွဲ၍ ကျန်ဘာသာရပ် အားလုံးကို အဓိက ဘာသာရပ် အဖြစ် အထူး လေ့လာသင်ယူခွင့် ပြုသည်။ ရန်ကုန် ဝိဇ္ဇာနှင့် သိပ္ပံ တက္ကသိုလ်မှ ပေးအပ်ဆဲနှင့် နောင်ပေးအပ်နိုင်ရန် စီစဉ်ထား သည့် ဘွဲ့ ဒီဂရီများတွင် ပဌမဆင့်ဘွဲ့များမှာ ဝိဇ္ဇာဘွဲ့ - သင်

တန်းကာလ လေးနှစ်၊ သိပ္ပံဘွဲ့ - သင်တန်းကာလ လေးနှစ်၊ သိပ္ပံဘွဲ့ (သစ်တော)-သင်တန်းကာလ ခြောက်နှစ်၊ ဥပဒေဘွဲ့-သင်တန်းကာလ ငါးနှစ်တို့ဖြစ်၍၊ ဘွဲ့လွန် သင်တန်းများမှာ မဟာဝိဇ္ဇာ - သင်တန်းကာလ အနည်းဆုံး နှစ်နှစ်နှင့် မဟာသိပ္ပံ-သင်တန်းကာလ အနည်းဆုံး နှစ်နှစ်တို့ဖြစ်သည်။

ရန်ကုန် ဝိဇ္ဇာနှင့်သိပ္ပံ တက္ကသိုလ်နှင့် ဆက်သွယ် ပေါင်းစည်းထားသော လုပ်သားများကောလိပ်မှာ ရန်ကုန်မြို့ ဗိုလ်တထောင်ဘုရားလမ်းရှိ သက်ကြီး တက္ကသိုလ် သင်တန်းများနှင့် ယခင် ရန်ကုန် တက္ကသိုလ် ညနေ သင်တန်းများကို စုပေါင်းဖွဲ့စည်းထားခြင်းဖြစ်၏။ ယခင် သက်ကြီးတက္ကသိုလ် အဆောက်အအုံ၌ တည်ရှိသည်။ လုပ်သားများ ကောလိပ်တွင် စံနစ်သစ်အရ ဘီအေ (ဝိဇ္ဇာ)ဘွဲ့နှင့် ဘီအက်စ် (သိပ္ပံ) ဘွဲ့များ ပေးအပ်ရန် ငါးနှစ် သင်တန်းအဖြစ် သတ်မှတ်ထားလေသည်။

ရန်ကုန် ဆေးတက္ကသိုလ် (၁) ပင်မ ဆေးသင်တန်းများကို လမ်းမတော် ဆေးသိပ္ပံ အဆောက်အအုံတွင်၎င်း၊ ဆေးအကြို သင်တန်းများနှင့် ဆေးအခြေခံ သင်တန်းများကို ပြည်လမ်းရှိ ယခင် အင်ဂျင်နီယာ ကောလိပ်နှင့် ဘီအိုစီ ကောလိပ် အဆောက်အအုံများတွင်၎င်း ဖွင့်လှစ်ထားပေသည်။ ရန်ကုန် ဆေးတက္ကသိုလ် (၁) မှ ပဌမဆင့် ဘွဲ့အဖြစ် အမ်ဘီဘီအက်စ - ခုနစ်နှစ်၊ ဘွဲ့လွန် သင်တန်းများအဖြစ် ရောဂဗေဒ ဒီပလိုမာဘွဲ့-နှစ်နှစ်၊ မေ့ဆေးပညာ ဒီပလိုမာဘွဲ့-ဆယ်လ၊ ဆေးဘက်ပညာ ဒီပလိုမာ လေးနှစ်၊ လူမှုကာကွယ်ရေးနှင့်အပူပိုင်းဆေးပညာဒီပလိုမာဘွဲ့ တနှစ်သင်တန်းတို့ကိုလည်း ဖွင့်လှစ် သင်ကြားပေးလျက် ရှိသည်။ ရန်ကုန် ဆေးတက္ကသိုလ်(၁)နှင့် ဆက်သွယ် ပေါင်းစည်းထားသော သွားဖက်ဆိုင်ရာ ဆေးကောလိပ်မှ ဘီဒီအက်စဘွဲ့ (သွားဖက်ဆိုင်ရာ ဆေးပညာဘွဲ့) - (ခုနစ်နှစ်သင်တန်း) ပေးအပ်မည်ဖြစ်သည်။ သွားဖက်ဆိုင်ရာ ဆေး ကောလိပ်ကို ရန်ကုန် ပြည်သူ့ဆေးရုံကြီး၏ ယခင် ပြင်ပလူနာကုဌာန အဆောက်အအုံ၌ ဖွင့်လှစ်ထား၏။

ရန်ကုန်ဆေးတက္ကသိုလ်(၂)ကို မင်္ဂလာဒုံ ၁၃ မိုင် တပ်မတော် စစ်ဆေးရုံကြီးနှင့် မျက်စောင်းထိုး ၅ လမ်းရှိ ယခင် တပ်မတော် လူမှုဆက်ဆံရေးကျောင်းနှင့် လေတပ် အဆောက်အအုံအချို့တွင် ဖွင့်လှစ်ထား၏။ ယခင်က မင်္ဂလာဒုံ ဆေးသိပ္ပံ(၂)ဟုခေါ်သည်။ ရန်ကုန်ဆေးတက္ကသိုလ်(၂)မှ ပဌမဆင့်ဘွဲ့အဖြစ် ခုနစ်နှစ်ကြာ သင်ယူရမည့် အမ်ဘီဘီအက်စဘွဲ့ကို ပေးအပ်မည် ဖြစ်၏။

ရန်ကုန် စက်မှု တက္ကသိုလ်သည် ကြို့ကုန်းရပ်၊ ရန်ကုန် အင်းစိန်လမ်းတွင် တည်ရှိသည်။ ရန်ကုန် စက်မှုတက္ကသိုလ်မှ စံနစ်သစ်အရ ပေးအပ်မည့် ဘွဲ့များမှာ ဘီအီး(မြို့ပြ အင်ဂျင်နီယာ)၊ ဘီအီး(လျှပ်စစ်အင်ဂျင်နီယာ စွမ်းအား)၊ ဘီအီး (လျှပ်စစ် အင်ဂျင်နီယာ ဆက်သွယ်ရေး)၊ ဘီအီး (စက်မှု အင်ဂျင်နီယာ)၊ ဘီအီး(စိုက်ပျိုးရေးစက်မှုအင်ဂျင်နီယာ)၊ ဘီအီး (မော်တော်ယာဉ်စက်မှုအင်ဂျင်နီယာ)၊ ဘီအီး(ဓာတုအင်ဂျင်နီယာ)၊ ဘီအီး (ချည်မျှင်နှင့် အထည် အင်ဂျင်နီယာ)၊ ဘီအီး (သတ္တုတူးဖော်ရေး အင်ဂျင်နီယာ)၊ ဘီအီး (ရေနံထုတ်လုပ်ရေး အင်ဂျင်နီယာ)၊ ဘီအီး (သတ္တုဗေဒ အင်ဂျင်နီယာ)၊ ဘီအားချ် (ဗိသုကာဘွဲ့)တို့ ဖြစ်၏။ သင်တန်းကာလမှာ ခြောက်နှစ်စီ ဖြစ်၏။

စီးပွားရေး တက္ကသိုလ်ကို ဖွဲ့စည်းရာတွင် ယခင် ရန်ကုန် တက္ကသိုလ်မှ လူမှုရေး သိပ္ပံပညာ မဟာဌာန အောက်ရှိ ဘောဂဗေဒဌာန၊ ဝါဏိဇ္ဇဗေဒ ဌာနနှင့် စာရင်းအင်းဗေဒ ဌာနတို့ကို စုပေါင်းဖွဲ့ပြီး ဖွဲ့စည်းခဲ့လေသည်။ လောလောဆယ်ဆယ် အားဖြင့် စီးပွားရေး တက္ကသိုလ်ကို ကမာရွတ် တက္ကသိုလ် နယ်မြေ အတွင်းရှိ ယခင် လူမှုရေး သိပ္ပံပညာ မဟာဌာန အဆောက်အအုံဟောင်းတွင်ဖွင့်လှစ်ထားသည်။ စီးပွားရေး တက္ကသိုလ် အတွက် ကျပ် ၉၅ သိန်းခန့် ကုန်ကျမည့် ထယ်ဝါခန့်ညားသော ခေတ်မီ အဆောက်အအုံများကို ရန်ကုန်မြို့ ပြည်လမ်း ခြောက်မိုင်ခွဲရှိ ကေဘာကြီး ရော်ဗာခြံဝင်းဟောင်းအတွင်း၌ ဆောက်လုပ်ဆဲဖြစ်သည်။ စီးပွားရေး တက္ကသိုလ်မှ စီးပွားရေး ပညာဘွဲ့နှင့် ဝါဏိဇ္ဇဘွဲ့ ဟူ၍ ပဌမဆင့် ဘွဲ့နှစ်မျိုးပေးအပ်သည်။ ထို ပဌမ အ ဆင့် ဘွဲ့ များအတွက် သင်တန်းကာလမှာ လေးနှစ်ဖြစ်၏။ ဒုတိယအဆင့် ဘွဲ့များအဖြစ် မဟာစီးပွားရေး ပညာဘွဲ့၊ မဟာဝါဏိဇ္ဇဘွဲ့ တို့ကို ပေးအပ်နိုင်ရေး အတွက် သင်ကြားပေးလျက် ရှိ၏။ ထို့အပြင် စီမံအုပ်ချုပ်မှုပညာ ဒီပလိုမာ၊ စာရင်းအင်းပညာ ဒီပလိုမာနှင့် စီးပွားရေးစီမံကိန်းပညာ ဒီပလိုမာ ဘွဲ့လွန်သင်တန်းများကိုလည်း ဖွင့်လှစ်သင်ကြားပေးလျက် ရှိရာ ယင်းသည့် သင်တန်းများမှာ နှစ်နှစ်သင်တန်းများဖြစ်လေသည်။

၁၉၆၄ ခုနှစ် တက္ကသိုလ် ပညာရေး စံနစ်သစ် စတင် အကောင်အထည် ဖော်သည့် အချိန်မှစ၍ ရန်ကုန် တက္ကသိုလ် လက်အောက်ရှိ ပညာရေး မဟာဌာနသည် အသက်မွေးဝမ်းကျောင်းပညာ သင်ကြားပေးရာ ပညာရေးတက္ကသိုလ်ဟု သီးခြား ဖြစ်ပေါ်လာခဲ့သည်။ ပညာရေးတက္ကသိုလ်ကို ယခင် ဆရာဖြစ်သင် ကောလိပ် တည်ရှိရာ ဌာန၌ပင် ဖွင့်လှစ်ထား၏။ ပညာရေးတက္ကသိုလ်တွင် စံနစ်သစ် ပညာရေး ဝိဇ္ဇာ(ဘီအီးဒီ)ဘွဲ့ ငါးနှစ်သင်တန်းနှင့် ပညာရေး ဒီပလိုမာဘွဲ့၊ စံနစ်ဟောင်းဖြင့် ဝိဇ္ဇာပညာရေး (ဘီအေအီးဒီ)ဘွဲ့နှင့် ပညာရေးဝိဇ္ဇာ (ဘီအီးဒီ)ဘွဲ့ သင်တန်းများကို သင်ကြားပို့ချပေးလျက် ရှိ၏။ ထို့ပြင် အနည်းဆုံး နှစ်နှစ်ကြာမည့် ပညာရေးမဟာဝိဇ္ဇာ (အမ်အီးဒီ) ဘွဲ့လွန်သင်တန်း ဖွင့်လှစ်သင်ကြားရန် ရည်ရွယ်ချက် ရှိလေသည်။

၁၉၅၇ ခုနှစ် စက်တင်ဘာလ ၁ ရက်နေ့တွင် ဘွဲ့ဒီဂရီပေး

အပ်နိုင်သော တိရစ္ဆာန်ဆေးကု ဝိဇ္ဇာသိပ္ပံကို အင်းစိန်မြို့၌ လယ်ယာ စိုက်ပျိုးရေးနှင့် သစ်တောရေးဌာနက စတင်ဖွင့်လှစ် ပေးခဲ့သည်။ ဥပစာသိပ္ပံ အောင်မြင်ပြီးသူ များကို ထိုသိပ္ပံကျောင်းတွင် လေးနှစ် သင်ကြားပေးပြီး ဘီအက်စီ (တိရစ္ဆာန်ဆေးကု)ဘွဲ့ကို ပေးအပ်ခဲ့လေသည်။ စံနစ်သစ် တက္ကသိုလ်ပညာရေးအရ ၁၉၆၄ ခုနှစ် အောက်တိုဘာလ ၁ ရက်နေ့မှစ၍ ထိုတိရစ္ဆာန်ဆေးကု ဝိဇ္ဇာသိပ္ပံသည် ပညာရေးဌာန အောက်တွင် တိရစ္ဆာန် မွေးမြူရေးနှင့် ဆေးကုသရေးတက္ကသိုလ်ဖြစ်လာခဲ့လေသည်။ တိရစ္ဆာန်မွေးမြူရေးနှင့် ဆေးကုသရေးတက္ကသိုလ်သည် ဘီဗီအက်စ(တိရစ္ဆာန် ဆေးပညာ) ဘွဲ့ အတွက် ခြောက်နှစ်သင်တန်းအဖြစ် သင်ကြားပို့ချ ပေးလေသည်။

# မြို့ ရွှေဂုန်

**လွန်ခဲ့သည့် နှစ်ပေါင်း ၂၅၀၀ အထက်ကစ၍ မြတ်စွာဘုရားသခင်၏ ဆံတော်ဓာတ်မြတ်များနှင့် စပ်လျဉ်းပြီးလျှင် သမိုင်းနှင့် ပေါ်ပေါက်လာခဲ့သော်လည်း ဘုရားဖူးစခန်းအဖြစ်သာ တည်ရှိခဲ့ရာမှ အစိုးရရုံးစိုက်မြို့တော်ကြီး အဖြစ်သို့ ရောက်ရှိလာကာ ကမ္ဘာ့ အရှေ့ဖျားတွင် ထင်ရှားသော မြို့ကြီးတမြို့ ဖြစ်လာခဲ့သည်။**

**ရန်ကုန်မြို့**။ ။ရန်ကုန်မြို့သည် ပြည်ထောင်စု မြန်မာနိုင်ငံ၏ မြို့တော် ဖြစ်သည်။ မြန်မာနိုင်ငံ၏ အကြီးဆုံး ဆိပ်ကမ်းမြို့လည်း ဖြစ်သည်။ လတ္တီတွဒ် မြောက် ၁၆° ၄၆′ နှင့် လောင်ဂျီတွဒ် အရှေ့ ၉၆° ၁၀′ ဆုံရာတွင် တည်ရှိသည်။ ရန်ကုန်မြစ်ခေါ် လှိုင်မြစ်နှင့် ပုဇွန်ထောင် ချောင်း၊ ပဲခူးချောင်းတို့ ဆုံရာအရပ်တွင် တည်ရှိ၍ ပင်လယ်ဝမှ ၂၁ မိုင်ခန့် ကွာဝေးသည်။ ရေတက် ရေကျ ရှိသဖြင့် ပင်လယ်ကူး သင်္ဘောကြီးများသည် ပကတိ အားဖြင့် လုံခြုံသော ရန်ကုန် ဆိပ်ကမ်းသို့ အရောက်ဝင်ထွက် သွားလာနိုင်သည်။ ရန်ကုန်မြို့သည် ပြည်တွင်း ကျောထောက်နောက်ခံ နယ်များနှင့်လည်း ကုန်းလမ်း၊ ရေလမ်း၊ လေကြောင်းလမ်းတို့ဖြင့် ဆက်သွယ်လျက် ရှိလေသည်။ မြို့မြောက်ဖက် ၁၁ မိုင် ခန့်တွင် ခေတ်မီ လေယာဉ်စခန်းရှိခြင်းကြောင့်လည်း ထင်ရှားသည်။ ထို့ကြောင့် ရန်ကုန်မြို့သည် မြန်မာနိုင်ငံ၏ တံခါးမကြီးသဖွယ် ဖြစ်၍ ကူးသန်းရောင်းဝယ်ရေးအတွက် အချက်အခြာ ဌာနလည်း ဖြစ်လေသည်။

ရန်ကုန်မြို့ သမိုင်းသည် ရှေးနှစ်ပေါင်း ၂,၅၀၀ ကျော် အထက်က အစ ပြုခဲ့၍ ရွှေတိဂုံ စေတီတော်သမိုင်းနှင့်လည်း ဆက်စပ်လျက် ရှိသည်။ (ရွှေတိဂုံ ဘုရား — ရှု။) ထိုအခါက ဥက္ကလာပ ဟု အမည်တွင်ခဲ့ပြီးလျှင် ၁၁ ရာစုနှစ်သို့ ရောက်သော အခါ ဒဂုန် ဟုခေါ်ကြောင်း မှန်ရာဇဝင်၌ ဖော်ပြထားသည်။ အလောင်းဘုရား လက်ထက် ခရစ်နှစ် ၁၇၅၅ ခုနှစ်သို့ ရောက်ခါမှ ရန်ကုန်ဟူသော အမည်သစ်ကို ရရှိလေသည်။ သို့ရာတွင် အချို့ သုတေသီတို့က ဥက္ကလာပမြို့သည် သမိုင်းစာအရ သိင်္ဂုတ္တရကုန်း၏ မြောက်ဖက် တနေရာ၌ ရှိသည်ဟု နားလည်ရသောကြောင့် ယခု ရန်ကုန်မြို့သည် ဥက္ကလာပ မင်းကြီး၏ ဥက္ကလာပမြို့တည်နေရာ ဌာန မဟုတ်နိုင် ဟု ယူဆကြသည်။

ပုဂံခေတ်တွင်မူ ယခု ရန်ကုန်မြို့သည် ဒဂုန်ဟု အမည်တွင်နေပြီ ဖြစ်ကြောင်းကို ဇမ္ဗူဒီပ အုပ်ဆောင်းကျမ်း၌ ပုဂံပြည်နယ်မြေ အပိုင်းအခြား ပြဆိုရာ၌ ‘အရှေ့တောင်သို့ လားသော် ဂျွမ်းပြည် အကုန်၊ ဒဂုန်ပြည်မြေ အဆုံး’ ဟု ပါရှိသည်ကို ထောက်၍ သိသာသည်။ ပုဂံ အနော်ရထာ ဘုရင်သည် သထုံပြည်ကိုတိုက်သိမ်းစဉ်က ဒဂုန်မြို့သို့လည်း ရောက်ရှိလာဟန် တူသည်။ ထိုကြောင့်ပင် ရွှေတိဂုံစေတီတော်မြတ်မှ ဆံတော်ဓာတ်ကို တူးယူပင့်ဆောင်ရန် ကြံရွယ်ကြိုးစားခြင်း ဖြစ်တန်ရာသည်။ သို့သော် ထိုအကြံအစည်ကို လက်လျှော့၍ နေပြည်တော်သို့ ပြန်သွားကြောင်း သမိုင်း စကားများအရ သိရှိရသည်။ သို့ဖြင့် ပုဂံတခေတ်လုံးတွင် မြန်မာ နိုင်ငံ၏ တောင်ဖက်စွန်း ခံမြို့တမြို့ ဖြစ်သည့် ဒလမြို့က လွှမ်းမိုးနေသဖြင့် ဒဂုန်မြို့သည် မြန်မာနိုင်ငံ အရပ်ရပ်မှ ရွှေတိဂုံ စေတီတော်ကို လာရောက် ကြည်ညိုဖူးမြော်ရာ ဘုရားဖူး စခန်း အဖြစ်သာ တည်ရှိခဲ့လေသည်။

ပင်းယ၊ အင်းဝခေတ်တွင်မူ ဒဂုန်သည် အတော်အသင့် အမည် ရလာလေသည်။ ဝါရီရူမင်း၏ မြစ်တော် ဆင်ဖြူရှင် ဗညားဦး လက်ထက်တွင် ဒဂုန်မြို့၌ ရာဇဝင်တွင် ထင်ရှားစွာ ကျန်ရစ်မည့် အဖြစ်အပျက် တရပ် ပေါ်ပေါက်လာသည်။ ဗညားဦး၏ အစ်မတော် မဟာဒေဝီနှင့် တူတော် ဗညားနွဲ့ မင်းသားတို့ ထီးနန်းအတွက် မသင့်မမြတ်ဖြစ်ကြရာ ဗညားနွဲ့ မင်းသားသည် ဒဂုန်သို့ ထွက်ခွာရှောင်တိမ်းကာ အောင်မြေနင်း၍ အင်အားစုပြီး ကြိုးစားရာတွင် နောက်ဆုံး၌ ရန်သူတို့ကို အောင်နိုင်၍ ထီးနန်းစိုးစံခွင့် ရခဲ့သည်တွင် ဒဂုန်မြို့သည် ထင်ရှားလာသည်။ ဗညားနွဲ့၏ မိဖုရားတပါး ဖြစ်သော ပီယဒေဝီ ဘွဲ့ခံ မွေ့မနိတ်သည်လည်း ဒဂုန်မြို့သူ ဖြစ်သည်။ ဗညားနွဲ့သည် ထီးနန်းရပြီးနောက် ရာဇာဓိရာဇ် ဘွဲ့ကို ခံယူသည်။ အရီးတော် မဟာဒေဝီအား ငယ်ကမွေးသော ကျေးဇူးကို ထောက်ထား၍ မြို့စားအဖြစ် ဒဂုန်မြို့ကိုပင် ပြန်လည် အပ်နှင်းသည်။

ဟံသာဝတီဘုရင် ရာဇာဓိရာဇ်နှင့် အင်းဝ ဘုရင် မင်းခေါင်တို့၏ မွန်မြန်မာ စစ်ပွဲကြီး နှစ်ရှည်လများ ဖြစ်ပွားသော



ရန်ကုန်မြို့လယ် အစည်ကားဆုံး ရပ်ကွက်ဖြစ်သည့် ဆူးလေဘုရား လမ်းမကြီး

အခါ ဘုရင်မင်းခေါင်သည် ဟံသာဝတီသို့ ချီတက်ရန် လမ်းကောင်းစခန်း ဖြစ်သည့် ဒဂုန်မြို့ကို သိမ်း၍ တမိုးတွင်းလုံး နေထိုင်ခဲ့ဘူးသည်။ ရာဇာဓိရာဇ် မင်းသားဘဝက အကြံပေး ပုဂ္ဂိုလ် ဖြစ်ခဲ့သည့် ရာဇမနု ဘွဲ့ခံ မင်းကံစီသည် ပုသိမ်တိုက်ပွဲတွင် ကျဆုံးရာ မင်းမိန့်ဖြင့် ကောင်းစွာ သင်္ဂြိုဟ်၍ အရိုးအိုးကို ဒဂုန်သို့ ယူဆောင်ကာ ရွှေတိဂုံစေတီ ရင်ပြင်တော်ဝယ် မြှုပ်ထား စေသည်။ မြောင်းမြစား လောက်ဖျားကို ဖမ်းမိသော အခါလည်း အသက် ချမ်းသာပေး၍ ရွှေတိဂုံဘုရား မှာပင် သီတင်းသီလ ဆောက်တည်နေစေရာ မျှားမကြာမီ ကွယ်လွန်သည်။ ရာဇာဓိရာဇ် လက်ထက်တွင် ဒဂုန်မြို့သည် ဤမျှသာ ထူးခြားချက် ရှိသော်လည်း ရာဇာဓိရာဇ် နတ်ရွာစံပြီးနောက်ပိုင်းတွင်မူကား ရာဇာဓိရာဇ်၏ သမီးတော် ရှင်စောပုနှင့်စပ်၍ ထင်ရှားလာပြန်သည်။

ဗညားရံက နှမတော် ရှင်စောပုကို အင်းဝဘုရင် သီဟသူအား ဆက်သသည်မှာလည်း ဒဂုန်မြို့တွင်ဖြစ်သည်။ ရှင်စောပုသည် ဟံသာဝတီ ထီးနန်းကို ခုနစ်နှစ်မျှ စိုးစံပြီးနောက် သမက်တော် ဓမ္မစေတီအား မြို့နန်းကို လွှဲအပ်ပြီးလျှင် လိုက်ပါလိုသော မှူးမတ် သေနာပတိ ရဲမက်အပေါင်း ခြံရံလျက် ဒဂုန်မြို့သို့ သွားရောက်ကာ ရွှေတိဂုံ စေတီတော် မြတ်၏ အရိပ်အာဝါသ အောက်၌ ဘုရားကြီး၏ ဝေယျာဝစ္စပြုစုရင်း တရား နှလုံးသွင်း၍သာ သက်ဆုံးတိုင် နေထိုင် သွားလေသည်။ (ရှင်စောပု — ရှု။)

၈၉၉ ခုနှစ်တွင် ဟံသာဝတီကို လုပ်ကြံရာ မရနိုင်သဖြင့် မင်းတရား ရွှေထီးသည် ဟံသာဝတီ အနောက် တလွှားသို့ ချီတော်မူပြီးလျှင် ဒဂုန်တွင် တပ်ချနေတော်မူ၍ မှူးတော်မတ်တော်တို့အား အစုခွဲကာ ပုသိမ်၊ မြောင်းမြစသော မြို့များကို လုပ်ကြံတော်မူစေသည် ဟူသော အချက်မှတပါး တပင်ရွှေထီး တခေတ်လုံးတွင် ဒဂုန်မြို့အတွက် အခြားပြောပလောက်သည့် နိုင်ငံရေးဖြစ်ရပ် မှတ်တမ်းတင်ရန် မရှိချေ။

ဘုရင့်နောင် လက်ထက်တွင် ယိုးဒယားမြို့ တိုက်ပွဲ၌ မြို့တံခါး ဖွင့်ပေးသည့် အောက်ဖြစက္ကို အမည်ရှိသော မြန်မာဘုရင်၏ သူလျှို ယိုးဒယားအမတ် တဦးအား ဒဂုန်မြို့စားအဖြစ် ခြီးမြှောက်ခဲ့ဘူးသည်။ ဘုရင့်နောင်၏ သား မြေးမြစ်များကြီးစိုးသောညောင်ရမ်းခေတ်တွင်လည်း ထူးမခြားနားပင် ဖြစ်သည်။ သံလျင်တွင် ပေါ်တူဂီ ဖိလစ် ဒီဗရစ်တို ကြီးစိုး၍ ဘုရား စေတီများကို ဖျက်ဆီးသော ခေတ်၌မူ ဒဂုန်မြို့ကလေးသည် မြို့အနေမှ တောအခြေသို့ရောက်ရှိသွားဟန် တူသည်။ ထို့ကြောင့် အလောင်းဘုရား ရာမညတိုင်း

အလုံးကို သိမ်းကျုံးတိုက်ခိုက်ရာတွင် ဒဂုန်မြို့သို့ ဝင်မိလျှင် ယာတော ဖြစ်လျက် ရှိသည်ကို တွေ့ရသည် ဟုဆိုသည်။ သို့ရာတွင် အလောင်းဘုရား အရေးအခင်း များကြောင့် ဒဂုန်မြို့ကလေးသည် ထင်ပေါ်ကျော်ကြားကာ အခြေအနေ တမျိုး ပြောင်းလဲလာခဲ့သည်။

. ၁၁၁၇ ခုနှစ်တွင် အလောင်းမင်းတရားသည် ဒဂုန်သို့ ရောက်၍ မြို့ကိုသိမ်းသည်။ ဒဂုန်တွင် ဆူးလေစေတီ၏ အရှေ့တောင်အရပ် ဖြစ်သော မြို့ဟောင်းရာ၌ တောရှင်း ကျင်းဖို့၍ ၁၁၁၇ ခုနှစ် ကဆုန်လပြည့်ကျော် ၇ ရက် ကြာသပတေးနေ့တွင် ကျုံးမြောင်း တံခါး ပြအိုးစသော မြို့အင်္ဂါပြည့်စုံစွာ ခုနှစ်ရက်နှင့် ပြီးအောင် တည်သည်။ ထိုမြို့၌ တပ်မ စွဲပြီးလျှင် ထိုမြို့မှ နေ၍ ဗညားဒလရန်ကို ကုန်အောင် လုပ်ကြမည် ဟု အမိန့်ရှိလျက် ဒဂုန်မြို့ကို ရန်ကုန်မြို့ဟု သမုတ်လေသည်။ အလောင်းမင်းတရားသည် ရန်ကုန်မြို့တွင် လှေသင်္ဘောများဖြင့် ဗညားဒလတပ်များက ဝိုင်းရံ တိုက်ခိုက်ခြင်းခံရသည်။ မြန်မာတို့သည် လက်ဝယ် ရပြီးစ ရန်ကုန်မြို့ မကျဆုံးစေရန် ကြံ့ကြံ့ခံနိုင်ခဲ့ရုံမက မြို့မှလည်း ထွက်၍ တန်ပြန် ထိုးစစ်ဆင်ကာ ရန်သူတို့အား အဝေးသို့ မောင်းထုတ်နိုင်ခဲ့သည်။ သံလျင်ကို ဖြို၍ ပဲခူးကိုလည်း သိမ်းနိုင်ခဲ့လေသည်။ ထို့နောက် မြင်းလျှင်တက် ရဲဖက်တော် ခြောက်ကျိပ်လေးဝင် မင်းကျော်စည်သူ ဘွဲ့ခံ ငယ်မည် ဦးရွှေရည်အား နေမျိုးနော်ရထာ ဟူသော ဘွဲ့သစ် ပေးသနားတော်မူ၍ ရန်ကုန်မြို့ဝန် ခန့်ခဲ့သည်။

ဒဂုန်ကို အမည် ပြောင်းခဲ့သော အလောင်းမင်းတရား၏ ရန်ကုန်မြို့ကား ရာမညတိုင်း၏ နိုင်ငံခြားနှင့် ဆက်သွယ်ရာ ပင်လယ်ကူး သင်္ဘောဆိပ်ကမ်းမြို့ အဆင့်သို့ ရောက်လာသည်။ အလောင်းမင်းတရား၏ ရန်ကုန်သည် အဝန်း ၁၁၃၉ တာ (နှစ်မိုင်သာသာခန့်) ရှိ၍ ဧရိယာ စတုရန်းမိုင် ရှစ်ပုံတပုံခန့် ကျယ်သည်။ ယခု ရန်ကုန်မြေပုံတွင် ချကြည့်မူ အကြမ်းအားဖြင့် မြောက်ဖက်တွင် ဆူးလေဘုရား၊ တောင်ဖက်တွင်မြစ်၊ အရှေ့ဖက်တွင် ကုန်သည်လမ်း ပတ်ဝန်းကျင်ရှိ သိမ်ဖြူလမ်း၊ အနောက်ဖက်၌ လမ်း ၃၀ အထိခန့် နယ်နိမိတ်အပိုင်းအခြား ရှိသည်။ ဆူးလေဘုရားသည် ရန်ကုန်တပ်မြို့ရိုးအပြင်တွင် တည်ရှိ၍ ရေပတ်လည်ဝိုင်းလုမတတ်ရှိသော ကုန်းမြေတွင် တည်ရှိနေကြောင်းဖြင့် အလောင်းမင်းတရား၏ ရန်ကုန် မပျက်မီက ရောက်ဖူးသော နိုင်ငံခြားသားတဦး ရေးဆွဲခဲ့သည့် မြို့စိုန်ပုံကြမ်း၌ တွေ့မြင်ရသည်။

မြို့ပတ်လည်တွင် သစ်တပ်မြို့ရိုး တည်ဆောက်ထားသည်။ အချို့ နေရာ၌ ၁၀ ပေ၊ ၁၂ ပေခန့် မြင့်၍ အချို့နေရာတွင် ပေ ၂၀ မြင့်သည်။ မြို့ရိုးတွင် တံခါးကြီး ရှစ်ပေါက် ရှိသည်။ မြို့တွင်း၌ အရှေ့မှ အနောက်သို့တန်းနေသော လမ်းသုံးလမ်းနှင့် တောင်မှ မြောက်သို့ တန်းနေသော လမ်းနှစ်လမ်း ရှိသည်။ အရှေ့မှ အနောက်သို့ တန်းနေသော လမ်းများမှာ ယခု ကမ်းနားလမ်းနေရာ မြောက်ဖက်၌ နိုင်ငံခြားသား ကုန်သည်များသာ နေသည်ကို စွဲ၍ မှည့်ခေါ်ထားသော ကုလားတန်း၊ ယခုကုန်သည်လမ်း တောင်ဖက်နား၌ ဟံသာဝတီမြို့ဝန် အိမ်နှင့်ရုံး ရှိသည်ကို စွဲ၍ မှည့်ခေါ်ထားသော ပဲခူးလမ်းနှင့် ယခု ကုန်သည်လမ်းမြောက်ဖက်နား၌ မင်္ဂလာဈေးလမ်းခေါ် လမ်းတို့ ဖြစ်ကြသည်။ တောင်နှင့် မြောက် တန်းသော လမ်းများမှာ ယခု ဘားလမ်းနှင့်လွှတ်စလမ်းနေရာများတွင် ဖြစ်ကြသည်။

ခရစ် ၁၈၂၄ ခုနှစ်တွင် အင်္ဂလိပ်-မြန်မာ ပဌမ စစ် ဖြစ်ပွားသောအခါ ရန်ကုန်မြို့သည် စစ်မြေပြင် ဖြစ်ခဲ့ရုံမက အင်္ဂလိပ်တို့၏ ခေတ္တသိမ်းပိုက်ထားခြင်းကိုပင် ခံလိုက်ရသေးသည်။ ခရစ် ၁၈၂၆ ခုနှစ်တွင်မှ မြန်မာတို့လက်သို့ ပြန်လည် ရောက်ရှိလာလေသည်။

ခရစ် ၁၈၄၁ ခုနှစ်တွင် သာယာဝတီမင်းသည် နေပြည်တော်တွင် မြို့စောင့်တပ်မျှသာ ချန်လှပ်ခဲ့၍ နောင်တော်နန်းကျဘုရင်နှင့် နန်းမတော် မယ်နုတို့ကိုပါ ခေါ်ဆောင်ကာ ရန်ကုန်မြို့သို့ မင်းခမ်းမင်းနားဖြင့် ရေကြောင်းမှစုန်ဆင်းလာရာ တနန်းတော်လုံး ပါလာသည်။ ရန်ကုန်တွင် တင်ကြို တည်ဆောက်ပြီး ဖြစ်သော ဥက္ကလာပ နန်းတော်သို့ ဝင်ရောက်စံတော်မူသည်။ တာဝန်း ၁,၇၀၀ ရှိသော မြေမြို့ကိုလည်း ခုနှစ်ရက် အတွင်း မြို့အင်္ဂါပြည့်စုံစွာ တည်လုပ်ပြီးလျှင် မြို့တော်ကို အောင်မြေရန်နှင်၊ နန်းတော်ကို မြတ်နန်းအောင်ချာ သမုတ်တော်မူသည်။ သာယာဝတီမင်း တည်သော အောင်မြေရန်နှင် ခေါ်တွင်သည့် ရန်ကုန်မြို့သည် အလောင်းမင်းတရား၏ ရန်ကုန်မြို့ တည်ရာနှင့် တသီးတခြား တည်ရှိသည်။ အလောင်းမင်းတရား၏ ရန်ကုန်မြို့သည် မြစ်ကမ်းနှင့် ကပ်နေသဖြင့် ရေကြောင်းမှရန်သူများလာရောက်တိုက်ခိုက်ပါက အလွယ်တကူ ကျမည် စိုးသဖြင့် သာယာဝတီမင်းသည် မြစ်နှင့် ခပ်လှမ်းလှမ်းနေရာ၌ ရွှေ၍ တည်ဟန်တူသည်။

သာယာဝတီမင်း၏ ရန်ကုန်သည် အကြမ်းအားဖြင့် ဒဂုန်ဒေသစိတ်အထက်တန်းကျောင်း အမှတ် ၂ (ယခင် မြို့မအမျိုးသားကျောင်း)နှင့် ဂျူဗလီဟော အကြား ပဌမမြင်းပြိုင်ကွင်းဟောင်း မြောက်ဖက်နားတွင်ရှိ အင်္ဂလိပ် ဘုရားရှိခိုးကျောင်း နေရာတွင် မြတ်နန်းအောင်ချာ နန်းတော် တည်ရှိ၍ ဂျူဗလီဟော ဝင်းဘေးမှ ကျားကူးကျောင်းတိုက်အနီးနှင့် ဗားကရာတောရကျောင်းလမ်း မြေနီကုန်းရပ်ကွက် အတွင်း ဥက္ကလာပ အောင်မြေရန်နှင်မြို့ တည်သည်။ ယင်းမြို့ကား ယာယီမြို့သာ ဖြစ်သည်။ သာယာဝတီမင်း နေပြည်တော်သို့ ဆန်တက်ပြီး နောက်ပိုင်းတွင် နန်းတော်ကို ဖျက်သိမ်းလိုက်သည်။ အရှေ့ဖက် မြို့ရိုးသည် ယခု ဂေါ်ရာကုန်း (တပ်မတော် မှတ်တမ်းရုံး) အရှေ့ ကျသည်။ မင်း

# ရန်ကုန်မြို့



ပြည်ထောင်စုမြန်မာနိုင်ငံ၏မြို့တော် ရန်ကုန်မြို့၏ ကောင်းကင်ရှုခင်းပုံဖြစ်သည်။ အပေါ်တွင် ရန်ကုန်မြစ်ခေါ် လှိုင်မြစ်ကို ရှုမြင်နိုင်၍ ပုဇွန်ထောင်ချောင်းနှင့် ပဲခူးချောင်းတို့မှာ လက်ဝဲဖက်တွင် တည်ရှိသည်။ ရန်ကုန်မြို့သည် ထိုမြစ်တို့ဆုံရာအရပ်တွင် တည်ရှိ၍ ပင်လယ်မှ ၂၁ မိုင်ခန့် ကွာဝေးသည်။ အောက်လက်ယာဖက်တွင် မြင်ရသော အဆောက်အအုံမှာ ပြည်သူ့ဆေးရုံကြီးဖြစ်၍ ဤပုံကို ဗိုလ်ချုပ်အောင်ဆန်းလမ်းမှ တောင်ဖက်သို့ ကောင်းကင်မှ ရိုက်ကူးထားခြင်းဖြစ်သည်။

လက်ဝဲအမတ် တည်သဖြင့် မင်းလက်ဝဲဘုရား တွင်သော အလံတင်ဘုရား (အလံပြ ဘုရား)သည် မြို့တွင်းကျသည်။ တောင်ဖက် မြို့ရိုးသည် ဂျူဗလီဟောနှင့် ကျားကူးသိမ် အကြားကျသည်။ ကျားကူးသိမ်သည် မြို့ပြင် ကျုံးထိပ် ကျသည်။ အနောက်မြို့ရိုးသည် ယခု မစ်ရှင်လမ်းအနီး၊ မြောက်မြို့ရိုးသည် ရှေးကရှင်စော့ပုမြို့ရိုးအတိုင်းဖြစ်သည်။ မြတ်နန်းအောင်ချာ နန်းတော် အနောက် မြောက်ထောင့်တွင် ပုဂံမင်းသား အိမ်တော် ရှိသည်။ ပုဂံမင်းသားသည် မင်းအဖြစ်ရောက်သော် အိမ်တော် နေရာဟောင်းတွင် မဟာဓမ္မရံသီ ဘွဲ့တော်ချီသော အိမ်တော်ရာဘုရားကို တည်သည်။ (အိမ်တော်ရာ ဘုရား — လည်း၅။)

ပုဂံမင်းလက်ထက် အင်္ဂလိပ် – မြန်မာ ဒုတိယစစ်ပွဲပြီးဆုံးသောအခါ အောက် မြန်မာနိုင်ငံ တဝှန်းလုံး အင်္ဂလိပ်လက်သို့ ကျဆင်းလေရာ ရန်ကုန်မြို့လည်း ဗြိတိသျှ မြန်မာနိုင်ငံ၏ ကော်မရှင်နာ ခေါ် မဟာဝန်ရှင်တော်မင်းကြီး ရုံးစိုက်ရာ မြို့တော် ဖြစ်လာသည်။ ပြည်သူ့ ဆေးရုံကြီးရှေ့ရှိ ယခုတိုးချဲ့ဆေးရုံပြုလုပ်ထားသော ရန်ကုန်ကောလိပ်ကျောင်းဟောင်းနှင့် ဗဟို စံပြ အစိုးရတန်းမြင့်ကျောင်း နေရာဝင်း၌ ကော်မရှင်နာမင်းကြီးရုံး တည်ရှိသောကြောင့် ယင်းရှေ့က လမ်းကို ကော်မရှင်နာလမ်း ဟု အမည်ပေးခဲ့သည်။ ယခုမူ ဗိုလ်ချုပ်အောင်ဆန်းလမ်း ဟု တွင်သည်။

အင်္ဂလိပ် – မြန်မာ တတိယစစ်ပွဲဖြစ်ပြီးနောက်၌ မြန်မာတနိုင်ငံလုံး အင်္ဂလိပ် လက်အောက် ကျရောက်သော အခါ မြန်မာနိုင်ငံကို မဟာဝန်ရှင်တော်မင်းကြီးအစား ဒုတိယဘုရင်ခံက အုပ်ချုပ်သည်တွင် ရန်ကုန်မြို့သည် မြန်မာတနိုင်ငံလုံး၏မြို့တော် ဖြစ်လာသည်။ မြန်မာနိုင်ငံ ဒိုင်အာခီ အုပ်ချုပ်ရေး ရသောအခါ ဒုတိယဘုရင်ခံ အစား ဘုရင်ခံ အုပ်ချုပ်ရာ ရန်ကုန်မြို့သည် ဘုရင်ခံရုံးစိုက် မြို့ကြီး ဖြစ်ခဲ့သည်။

အင်္ဂလိပ်တို့ ရန်ကုန်ကို သိမ်းပြီးနောက် ရန်ကုန်မြို့ကို မြို့ဝန်ကြီးက တာဝန်ခံ အုပ်ချုပ်ရသည်။ ၁၈၇၄ ခုနှစ် အက်ဥပဒေ အမှတ် ၇ အရ မျူနီစီပယ် အဖွဲ့ကို ပဌမအကြိမ်တည်ထောင်လိုက်သည့် အချိန်မှ စ၍ မြို့ဝန်လက်မှ မျူနီစီပယ်အဖွဲ့ လက်ထဲသို့ ရန်ကုန်မြို့ အုပ်ချုပ်ရေးတာဝန် ကျရောက် လာသည်။ ၁၈၉၈ ခုနှစ် မြန်မာပြည် ဥပဒေနှင့် ရန်ကုန်မြို့ကို အတန်ကြာ အုပ်ချုပ်ပြီးနောက် မြန်မာပြည် ဥပဒေအဖွဲ့က ပြဋ္ဌာန်းလိုက်သော ၁၉၂၂ ခုနှစ် ရန်ကုန် မျူနီစီပယ် အက်ဥပဒေဖြင့် အုပ်ချုပ်ပြန်ရာ လွတ်လပ်ရေး ရပြီးနောက်ပိုင်း၌ပင် ထိုအက်ဥပဒေကို ဆက်လက်အသုံးပြုလျက် ရှိနေပေသည်။

အင်္ဂလိပ်များ မြန်မာ နိုင်ငံကို သိမ်းပိုက်လိုက်သောအခါ မီးဘေး အကြိမ်ကြိမ်သင့်ခဲ့သော အလောင်းမင်းတရား၏ ရန်ကုန်မြို့သည် လုံးဝ ပျက်စီးလျက် ရှိ၍ သာယာဝတီမင်း၏ ရန်ကုန်မြို့ကား ၁၈၅၂ ခုနှစ်က ဖြစ်ပွားသည့် အင်္ဂလိပ်-မြန်မာ ဒုတိယစစ်ပွဲ အခါက အမြောက်ဆံ ထိမှန်၍ အတော်ပင် ပျက်စီးခဲ့လေရာ အင်္ဂလိပ်တို့သည် ရန်ကုန်မြို့ကို ပြန်လည်မြို့ကွက်ချ တည်ဆောက်ရန် စီစဉ်ရလေသည်။ အင်ဂျင်နီယာ တပ်ဖိုလ် ဖရေဇာသည် လူဦးရေ ၃၆,၀၀၀ အခြေတည် နေထိုင်နိုင်မည့် မြို့သစ်ပုံစံကို ဒေါက်တာ ဝီလျံ မောင်ဂိုမာရီ ဆိုသူ ဆရာဝန်တဦး၏ ကူညီ အကြံပေးချက်ယူကာ ရေးဆွဲလေသည်။ ယင်းပုံစံကို အစိုးရက လက်ခံ၍ ၁၈၅၃ ခုနှစ်မှစ၍ တည်ဆောက် လေသည်။ ဖရေဇာ၏ မြို့သစ်ပုံစံသည် တောင်ဖက်တွင် မြစ်တလျှောက် ပေ ၂၅၀ ကျယ်သော ကမ်းနားလမ်းကို လမ်းမတော်ဆိပ်ကမ်းမှ စတင် ဖောက်လုပ်၍ ထိုကမ်းနားလမ်းနှင့် ထောင့်မှန် ပေ ၁၀၀ လမ်း တလမ်းကို လမ်းမတော်ဆိပ်ကမ်းမှ မြောက်ဖက် ရွှေတိဂုံဘုရားခြေရင်းအထိ ဖောက်ရန်ဖြစ်သည်။ ယင်းလမ်းကြီး နှစ်လမ်းကို ယှဉ်၍ မျဉ်းပြိုင်လမ်းများကို ဖောက်လုပ်ရန်ဖြစ်လေသည်။

ပဌမတွင် အနောက်ဖက်၌ လမ်းမတော်အထိ၊ အရှေ့ဖက်တွင် အရှေ့စွန်ဆုံးလမ်း ဖြစ်သဖြင့် အရှေ့လမ်း ခေါ်သည့် လမ်း (ယခု သိမ်ဖြူလမ်းခေါ် ဂျူဒါအီဇီကယ်လမ်း) အထိ ဆူးလေဘုရားကို ဗဟိုထား၍ ဖောက်ရန် ဖြစ်သည်။ တောင်ဖက် ကမ်းနားလမ်းမှ မြောက်ဖက် ယခု ဗိုလ်ချုပ်အောင်ဆန်းလမ်းခေါ် မောင်ဂိုမာရီလမ်း အထိ ဖြစ်သည်။ မြောက်နှင့် တောင် တန်းနေသော လမ်းငယ်များကို ဂဏန်းအမှတ်အားဖြင့် အမှတ်စဉ် ထိုးလေရာ လမ်းမတော်ပြီးနောက် ၁၇ လမ်းက စ၍ ၄၄ လမ်းအထိ ဖြစ်သည်။ နောင် အနောက်ဖက်သို့ရင်း၊ အရှေ့ဖက်သို့ရင်း မြို့ကွက် ချဲ့လိုက ချဲ့ရန် ရည်ရွယ်ချက်ရှိခဲ့သည်။

ရန်ကုန် လူဦးရေသည် တဖြည်းဖြည်း တိုးသည်ထက် တိုးလာရာ အနောက်ဖက်တွင် ၁၆ လမ်းမှ ၁ လမ်းအထိ၊ အရှေ့ဖက်တွင် ၄၅ လမ်းမှ သန်လျက်စွန်းအထိချဲ့ရန်၊ ကျန်သော မြေများကို မြို့ကွက် ချဲ့၍ မြောက်ဖက်သို့လည်း တဖြည်းဖြည်း ချဲ့ထွင်သွားရာ ၁၈၇၆ ခုနှစ်တွင် ရန်ကုန် မျူနီစီပယ် အကျယ်အဝန်းသည် ၁၁ စတုရန်းမိုင် ရှိ၍ ၁၉၃၁ ခုနှစ်တွင် ၃၂ စတုရန်းမိုင် ရှိလေသည်။

၁၉၄၁ ခုနှစ် ဒီဇင်ဘာလ ၇ ရက်နေ့တွင် ဒုတိယကမ္ဘာစစ်ကြီး စတင် ဖြစ်ပွားသောအခါ ဂျပန်တို့သည် ထိုလ ၂၃ ရက်နေ့တွင် ရန်ကုန်မြို့ကို လေတပ်ဖြင့် စတင်ဗုံးကြဲလေသည်။ ထိုအခါမှ စ၍ ရန်ကုန်နေ လူထုသည် မြို့နယ်များသို့ ပြောင်းရွှေ့ စစ်ရှောင်နေကြရသည်။ ရန်ကုန်မြို့ကို မြေလှန်စံနစ်ဖြင့် ဖျက်ဆီးပစ်ရန် ချန်နေသော ဗြိတိသျှ မြို့စောင့်စစ်တပ်က မပြောင်းရွှေ့ဘဲ ကျန်နေသော ရန်ကုန်လူထုအား ၁၉၄၂ ခုနှစ် ဖေဖွာရီလ ၂၀ ရက်နေ့တွင် ၄၈ နာရီအတွင်း မြို့တွင်းမှ ထွက်ခွာရန် အမိန့်ထုတ်ပြီးနောက် သင်္ဘောဆိပ် တန်တား

## အလောင်းမင်းတရားကြီးလက်ထက် ရန်ကုန်မြို့




၁၁၁၇ ခုနှစ်တွင် အလောင်းမင်းတရားကြီးသည် ဒဂုန်မြို့ကို သိမ်းပိုက် ပြန်တည်ပြီးနောက် ရန်ကုန်မြို့ဟု သမုတ်သည်။ အလောင်းမင်းတရား၏ ရန်ကုန်မြို့ကား ရာမညတိုင်း၏ နိုင်ငံခြားနှင့်ဆက်သွယ်ရာ ပင်လယ်ကူး သင်္ဘောဆိပ်ကမ်းမြို့အဆင့်သို့ရောက်လာသည်။ အလောင်းမင်းတရား၏ ရန်ကုန်မြို့သည် အဝန်းနှစ်မိုင်သာသာခန့်ရှိ၍ ရေိယာစတုရန်းမိုင် ရှစ်ပုံတပုံခန့်ကျယ်သည်။ ယခု ရန်ကုန်မြေပုံတွင် ကြည့်မှု အကြမ်းအားဖြင့် မြောက်ဖက်တွင် ဆူးလေဘုရား၊ တောင်ဖက်တွင် မြစ်၊ အရှေ့ဖက်တွင် ကုန်သည်လမ်းပတ်ဝန်းကျင်ရှိ သိမ်ဖြူလမ်း၊ အနောက်ဖက်၌ လမ်း ၃၀ အထိခန့် နယ်နိမိတ်အပိုင်းအခြားရှိသည်။ ဆူးလေဘုရားသည် ရန်ကုန်တပ်မြို့ရိုးအပြင်ဖက်၌ ရေပတ်လည် ဝိုင်းလျှ မတတ် ရှိသော ကုန်းမြေတွင် တည်ရှိလေသည်။



မြန်မာနိုင်ငံ၏ ဆက်သွယ်ရေးလမ်းကြောင်း ဗဟိုဖြစ်သော ရန်ကုန် ဘူတာရုံကြီး

ကြီးငယ်များ၊ တိုက်တာအိုးအိမ်များကို ဗုံးခွဲမီးရှို့ ဖျက်ဆီးလိုက်ရာ ရန်ကုန်မြို့သည် အတော်ပင် ပျက်စီး သွားခဲ့လေသည်။ တပန် ဂျပန်တို့ မြန်မာနိုင်ငံကို သိမ်းပိုက်ထားစဉ်အခိုက် မဟာမိတ်လေတပ်က ရန်ကုန်မြို့ကို အကြိမ်ကြိမ်ဗုံးကြဲ တိုက်ခိုက်သဖြင့်တကြောင်း၊ ဂျပန်တို့ ပြန်အထွက်ဖျက်ဆီးခဲ့သောကြောင့်တကြောင်း ရန်ကုန်မြို့သည် စစ်ဒဏ်ကို မရှုမလှ ခံလိုက်ရလေသည်။ ၁၉၄၅ ခုနှစ် မေလ ၁ ရက်နေ့တွင် ရန်ကုန်မြို့ကို ဗမာ့တော်လှန်ရေး တပ်မတော်က သိမ်းပိုက်ပြီးကြောင်း အသံလွှင့်ရုံမှနေ၍ ဗိုလ်နေဝင်းက ကြေညာသည်။ ထိုနောက် သုံးရက်အကြာတွင် ဗြိတိသျှနှင့် အိန္ဒိယတပ်များသည် ရေကြောင်းမှ ဝင်ရောက် သိမ်းပိုက်ကြလေသည်။

ရန်ကုန်မြို့ကြီး၏ အပျက်အစီးများကို စစ်အုပ်ချုပ်ရေးအတွင်းတွင် ရန်ကုန် မျူနီစီပယ် အဖွဲ့နှင့် ရန်ကုန်စည်ပင်သာယာရေး အဖွဲ့တို့က ရှင်းလင်း ထူထောင် ကြရသည်။ မြန်မာနိုင်ငံ လွတ်လပ်ရေး ရပြီးနောက် ပြည်တွင်း သောင်းကျန်းမှုများ ဖြစ်ပေါ်လျက်ရှိရာ မြို့ရွာ မငြိမ်မသက် သဖြင့် မြို့နယ် လူထုအချို့သည် ရန်ကုန်မြို့သို့ လာရောက် နေထိုင်ကြလေသည်။ ယင်းတို့သည် မျူနီစီပယ် ပန်းဥယျာဉ်များ၊ ရန်ကုန်မြို့တွင်းရှိ မြေကွက်လပ်များ၊ အချို့အချို့သော လူသွားလမ်းများ၊တိုက်အိုတိုက်ပျက်နေရာများတွင် နေအိမ်များ စုပြုံ ကျူးကျော် ဆောက်လုပ် နေထိုင်ကြရာ ရန်ကုန်မြို့ကြီး၏ အခြေအနေသည် နေပြည်တော် ယူသော ဂုဏ်နှင့်မညီ ဖြစ်လာလေသည်။ ထို့ကြောင့် ပြည်သူ့ အိုးအိမ် ပြန်လည်ထူထောင်ရေး အဖွဲ့က ရန်ကုန်မြို့ ကံဘဲ့ရပ်တွင် ရန်ကင်းမြို့သစ်ကို တည်ဆောက်ခြင်း၊ ကွက်သစ်များတွင် ပြည်သူ့အဆောက်အအုံကြီးများ ဆောက်လုပ်၍ ပြန်လည် နေရာချထားပေးခြင်းများ ပြုလုပ်လေသည်။

သို့ရာတွင် ဤမျှနှင့် မလုံလောက်သေးသဖြင့် ၁၉၅၈ - ၅၉ ခုနှစ် ဗိုလ်ချုပ်ကြီးနေဝင်းကြီးမှူးသော အိမ်စောင့်အစိုးရ၏ကြားဖြတ် ကာလအတွင်း ကျူးကျော်၍ စံနစ် တကျ ဆောက်လုပ်ထားခြင်း မရှိသော တဲအိမ်များကို ဖျက်သိမ်း၍ မြို့သစ်သုံးမြို့သို့ ရွှေ့ပြောင်း အကွက်ရိုက် ချထားပေးလေသည်။ ယင်းမြို့သစ်များမှာ အိမ်ခြေ မြေကွက်ပေါင်း ၁၁,၀၅၃ ခု ရှိသော တောင်ဥက္ကလာပ မြို့သစ်၊ အိမ်ခြေ မြေကွက်ပေါင်း ၁၁,၉၁၆ ခု ရှိသော မြောက်ဥက္ကလာပ မြို့သစ်၊ အိမ်ခြေ မြေကွက်ပေါင်း ၉,၅၀၄ ခုရှိသည့် သာကေတ မြို့သစ်တို့ဖြစ်ကြသည်။ ၁၉၆၄ ခုနှစ် ဖေဖွာရီလတွင် မင်္ဂလာဒုံ၊



ပြည်ထောင်စု မြန်မာနိုင်ငံ တော်လှန်ရေးအစိုးရ ဂေဟာ

အင်းစိန်၊ လှော်ကား၊ ထောက်ကြန့်၊ တောင်ဥက္ကလာပ၊ မြောက်ဥက္ကလာပ၊ သင်္ဃန်းကျွန်း၊ သာကေတ အပါအဝင် ၇၇ စတုရန်းမိုင် ကျယ်သော နယ်မြေများကို ပင်မရန်ကုန် အတွင်းသို့ တိုးချဲ့ ထည့်သွင်းလိုက်ရာ တိုးချဲ့ ရန်ကုန်သည် စတုရန်းမိုင် ၁၁၀ ကျယ်ဝန်းလာလေသည်။

မြေရိယာ ကျယ်ဝန်း လာသည်နှင့်အမျှ လူဦးရေလည်း တနှစ်ထက် တနှစ် တိုးတက်လာခဲ့သည်။ အလောင်းမင်းတရားလက်ထက် ရန်ကုန်တွင် လူဦးရေ ၁၀,၀၀၀ ခန့်ရှိ၍ အင်္ဂလိပ် - မြန်မာ ပဌမစစ်ဖြစ်ချိန်၌ လူဦးရေ ၃၀,၀၀၀ ခန့်ရှိနေလေပြီ။ အင်္ဂလိပ် - မြန်မာ ဒုတိယစစ်အပြီးတွင် ရန်ကုန်ကို အင်္ဂလိပ်ပိုင်သော အခါ၌ လူဦးရေ ၃၀,၀၀၀ ကျော် ရှိလာ၍ ၁၈၆၃ ခု နှစ်တွင် ၆၁,၁၃၈ ယောက်၊ ၁၈၇၄ ခုနှစ်တွင် ၁,၀၀,၀၀၀ ယောက်၊ ၁၈၈၁ ခုနှစ်တွင် ၁,၃၄,၁၇၆ ယောက်၊ ၁၈၉၁ ခုနှစ်တွင် ၁,၈၀, ၃၂၄ ယောက်၊ ၁၉၀၁ ခုနှစ်တွင် ၂,၄၈,၀၆၀ ယောက်၊ ၁၉၁၁ ခုနှစ်တွင် ၂,၉၃,၃၁၆ ယောက်၊ ၁၉၂၁ ခုနှစ်တွင် ၃,၄၁,၉၆၂ ယောက်၊ ၁၉၃၁ ခုနှစ်တွင် ၄,၀၀,၄၁၅ ယောက်၊ ၁၉၄၁ ခုနှစ်တွင် ၇,၃၇,၀၇၉ ယောက်၊ ၁၉၅၆ ခုနှစ်တွင် ခန့်မှန်းခြေ ၇,၅၉,၄၁၂ ယောက်ရှိ၍ ၁၉၆၈ ခုနှစ်တွင် ၁,၇၁၇,၆၄၉ ယောက် ရှိကြောင်း သိရှိရသည်။

မြန်မာနိုင်ငံ လွတ်လပ်ရေး ရပြီးသည့်နောက် တိုင်းရင်းသားအဖြစ် မခံယူကြသူတို့သည် မိမိတို့နှင့် သက်ဆိုင်ရာ နိုင်ငံများသို့ ပြန်သွားကြပြီ ဖြစ်သည်။ သို့ရာတွင် နိုင်ငံခြားသံရုံးများကို ရန်ကုန်မြို့၌ ဖွင့်လှစ်ထားကြသဖြင့် မြန်မာနိုင်ငံနှင့် ဆက်သွယ်လျက် ရှိသော နိုင်ငံ အသီးအသီးမှ တိုင်းရင်းသားတို့ကိုလည်း တွေ့မြင်ရလေသည်။ လူမျိုးစုံ နေထိုင်သည့် မြို့ကြီး ဖြစ်သည့် အလျောက် အစ္စလာမ် အယူဝါဒီတို့၏ ဗလီများကိုရင်း၊ ခရစ်ယန် အယူဝါဒီတို့၏ ဘုရားရှိခိုးကျောင်းများကိုရင်း၊ ဟိန္ဒူအယူဝါဒီတို့၏ ဝတ်ကျောင်းများကိုရင်း နေရာ အနှံ့အပြား၌ တည်ဆောက်ထားကြလေသည်။

မြို့ပြ စည်ပင် သာယာရေးကို ယခင်က ရန်ကုန်မြို့ စည်ပင်သာယာရေး အဖွဲ့မှ တာဝန်ယူခဲ့လေသည်။ ထိုနောက် ပြည်သူ့ အိုးအိမ် ပြန်လည်ထူထောင်ရေးနှင့် မြို့ရွာစည်ပင်ရေး အဖွဲ့က တာဝန်ယူကာ ၁၉၆၅ ခုနှစ်မှစ၍ ယခုအခါ ပြည်သူ့လုပ်ငန်း ကော်ပိုရေးရှင်းက တာဝန်ယူသည်။ ရန်ကုန်မျူနီစီပယ် အဖွဲ့ကမူ သန့်ရှင်းရေးနှင့် ကျန်းမာရေးအတွက် တာဝန်ယူရလေသည်။ ၁၈၇၈ ခုနှစ်တွင် ရန်ကုန်မြို့အတွက် ရေကို ကန်တော်ကြီးမှ သွယ်ယူ ခဲ့သည်။ တဖြည်းဖြည်း

လူဦးရေ များလာသောအခါ ၁၈၈၄ ခုနှစ်တွင် အင်းလျားကန်မှပါ ရေကို ဖြည့်သွင်း သုံးစွဲခဲ့ကြရသည်။ ၁၉၀၄ ခုနှစ်တွင် လှော်ကား ကန်မှ ရေကို မြို့တွင်းသို့ သွယ်ယူခဲ့သည်။ နောင်အခါ၌မူ ထိုကန်များမှရေဖြင့် မလုံလောက်ပြန်သောကြောင့် ၁၉၃၉ ခုနှစ်တွင် မြောက်ဖက် မိုင် ၆၀ ခန့် အကွာ၌ လက်ရှိ ဂျိုးဖြူရေလှောင်ကန်ကို ဆောက်လုပ်ခဲ့လေသည်။

ရန်ကုန်မြို့တွင် လမ်းဓာတ်မီးများကို ၁၉၀၇ ခုနှစ်မှစတင်၍ အာ၊ အီး၊ တီ ကုမ္ပဏီခေါ် ရန်ကုန် လျှပ်စစ် ရထားနှင့် ဓာတ်အားပေးရေး ကုမ္ပဏီက စတင် ထွန်းပေးခဲ့သည်။ ၁၉၀၆ ခုနှစ်တွင် မြို့တွင်း၌ လျှပ်စစ်အားကို အသုံးပြု၍ မောင်းနှင်ရသော ဓာတ်ရထားများ ပေါ်ခဲ့သည်။ နောင်တွင် ဓာတ်ရထားအစား ထရော်လီ ဘတ်စကားများကို တီထွင် အသုံးပြုလာကြသည်။ လူဆွဲရသော လန်ချားများလည်း ရှိသည်။ စစ်ပြီး ခေတ်သို့ ရောက်လာသောအခါ ဓာတ်ရထား၊ ထရော်လီဘတ်စကား၊ လန်ချားတို့ပျောက်၍ ကိုယ်ပိုင် ဘတ်စကား၊ ဆိုက်ကား ခေါ် ဘေးတွဲပါ စက်ဘီးနှင့် မြင်းလှည်းတို့ ပေါ်လာလေသည်။ တဖန် မြင်းလှည်းအစား သုံးဘီးမော်တော်ကားများ ပေါ်လာသည်။

ယခုအခါ ယာဉ်အသွားအလာ တိုးတက် များပြားလာသည့်အလျောက် လမ်းများကို တိုးချဲ့ခြင်း၊ လမ်းသစ်ဖောက်လုပ်ခြင်း၊ လမ်းကို အသစ်ပြုပြင်ခြင်း စသော လုပ်ငန်းတို့ကို ဆောင်ရွက်လျက် ရှိသည်။ အရှေ့ဖက်တွင် စစ်တောင်းမြစ်ဝှမ်း တလျှောက်၌၎င်း၊ အနောက်ဖက်တွင် ဧရာဝတီ မြစ်ဝှမ်းတလျှောက်၌၎င်း မော်တော်ကားလမ်းမီးရထားလမ်းတို့ဖြင့် နိုင်ငံ အထက်ပိုင်းရှိ မြို့များနှင့် ဆက်သွယ် နိုင်လေသည်။ ထို့ပြင် မြို့အများနှင့် ပြည်တွင်း လေကြောင်း ခရီးလမ်း အဆက် အသွယ် ရှိသည်။ ရန်ကုန်မြို့ အနောက်ဖက်တွင် ရှိ၍ ၂၂ မိုင် ခန့်ရှည်သော တွံတေးတူးမြောင်းအားဖြင့်လည်း ဧရာဝတီ မြစ်သို့ ပေါက်ရောက်နိုင်သည်။

ရန်ကုန်မြို့ပြင်ရှိ မင်္ဂလာဒုံ လေဆိပ်ကို ၁၉၅၂ ခုနှစ်တွင် တိုးချဲ့ ပြုပြင်ပြီး ဖြစ်ရာ ယခုအခါ ထိုလေဆိပ်သည် ဂျက်လေယာဉ်ကြီးများပင် ဆင်းနိုင် တက်နိုင်သော ခေတ်မီ လေယာဉ်စခန်း အဖြစ် ထင်ရှားလျက် ရှိလေသည်။ လေယာဉ် အဆင်းအတက် အတွက် ပေ ၈,၁၀၀ စီ ရှည်သော လမ်းနှစ်သွယ် ရှိသည့်အပြင် ခေတ်မီ ကရိယာများ တပ်ဆင်ထားသော လေယာဉ်ထိန်း မျှော်စင်လည်း ရှိသည်။

ရန်ကုန်မြို့မှ ပြည်မြို့သို့၎င်း၊ ပုသိမ်မြို့သို့၎င်း၊ မန္တလေးမြို့၊ မြစ်ကြီးနားနှင့် လားရှိုးမြို့များသို့၎င်း၊ ရွှေညောင်မြို့၊ မော်လမြိုင်မြို့၊ ရေးမြို့များသို့၎င်း မီးရထားလမ်း ပေါက်သည်။ ရန်ကုန် ဆင်ခြေဖုံးတွင်တည်ရှိသော ကြည့်မြင်တိုင်၊ အင်းစိန်၊ မင်္ဂလာဒုံ၊ သင်္ကန်းကျွန်းတို့မှလည်း လော်ကယ် မီးရထား၊ မြို့ပတ်မီးရထားများဖြင့် မြို့တွင်းသို့ နေ့စဉ် သွားလာနိုင်ကြသည်။ ရန်ကုန်မြို့မှ ရေလမ်းဖြင့် မြစ်ဝကျွန်းပေါ် ဒေသရှိ မြို့ရွာများသို့၎င်း၊ ဧရာဝတီမြစ်တလျှောက်ရှိ မြို့ရွာများသို့၎င်း သွားလာရန်အတွက် ပြည်တွင်း ရေကြောင်း သယ်ယူပို့ဆောင်ရေးအဖွဲ့ပိုင် သင်္ဘောနှင့် ပုဂ္ဂလိကပိုင် သင်္ဘောများလည်း ရှိလေသည်။

ရန်ကုန်ဆိပ်ကမ်းသည် အရှေ့ဖက် သန်လျက်စွန်းမှ အနောက်ဖက် အလုံဆိပ်ကမ်း အထိ ခုနှစ်မိုင်ခန့် ရှည်သည်။ ဆိပ်ကမ်းတည်ရာတွင် မြစ်အကျယ်မှာ ကိုက် ၈၀၀ ခန့်ရှိ၍ တဖက်ကမ်း၌ ပြည်တွင်း ရေကြောင်း သယ်ယူပို့ဆောင်ရေး အဖွဲ့ပိုင် သင်္ဘောများအတွက် ဒလသင်္ဘောကျင်း တည်ရှိသည်။ အစိုးရ သင်္ဘောကျင်းသည် ပုဇွန်တောင်ချောင်း အရှေ့ဖက်ကမ်းတွင် တည်ရှိသည်။ ဒုတိယ ကမ္ဘာစစ်အတွင်းက ရန်ကုန်မြို့ ဆိပ်ကမ်းသည် ဗုံးကြဲဒဏ် အခံရဆုံး နေရာဖြစ်၍ အပျက်အစီးများသည်။ ထို့ကြောင့် စစ်မဖြစ်မီက ကုန်တင် ကုန်ချ တန်ချိန်ကို မှီစေရန် ၁၉၄၅ ခုနှစ်မှ စ၍ ဆိပ်ကမ်းကို အသစ် ပြုပြင်ခဲ့ရာ ၁၉၆၁ ခုနှစ် ဇူလိုင်လ ၅ ရက်နေ့တွင် ဆူးလေဘုရား ဆိပ်ကမ်းအမှတ် ၅၊ ၆ နှင့် ၇ တို့ကို ဖွင့်လှစ် အသုံးပြုနိုင်ခဲ့သည်။ ထိုဆိပ်ကမ်းတခုစီ၏ အလျားမှာ ၅၂၅ ပေရှိ၍ ရန်ကုန်မြို့သို့ ဝင်နိုင်သော အကြီးဆုံး သင်္ဘောများပင် ဆိုက်ကပ်နိုင်လေသည်။ ယခုအခါ ရန်ကုန်ဆိပ်ကမ်းသည် ခေတ်မီ ဆိပ်ကမ်းတခု ဖြစ်လာလေပြီ။ သန်လျက်စွန်းဖက်တွင် ဗမာ့ထပ်မတော် (ရေတပ်) အတွက် ရတနာပုံ ရေတပ်စခန်း တည်ရှိသည်။

ရန်ကုန်မြို့တွင် စေတီပုထိုး အများအပြား ရှိသည့်အနက် ရွှေတိဂုံစေတီ၊ ဆူးလေစေတီ၊ ဗိုလ်တထောင် စေတီ၊ ကမ္ဘာအေးစေတီတို့သည် ထင်ရှား၏။ အထူးသဖြင့် ရွှေတိဂုံစေတီတော်သည် တကမ္ဘာလုံးမှ ဗုဒ္ဓဝါဒီတို့ ကြည်ညိုရာ ဖြစ်သည့်အပြင် ရန်ကုန်မြို့သမိုင်းနှင့်လည်း ဆက်စပ်လျက် ရှိလေသည်။ (ရွှေတိဂုံဘုရား — လည်းရှု။)

ဆူးလေ စေတီတော်သည် ရန်ကုန်မြို့၏ အလယ်ဗဟိုတွင် တည်ရှိသည်။ ထိုစေတီတော်ကို မဏ္ဍိုင် ပြု၍ အရှေ့မှ အနောက်သို့ မဟာဗန္ဓုလ လမ်းသည်၎င်း၊ တောင်မှ မြောက်သို့ ဆူးလေဘုရားလမ်းသည်၎င်း အသီးအသီး ဖြတ်သန်းလျက် ရှိသည်။ (ဆူးလေဘုရား — လည်းရှု။)

ဗိုလ်တထောင် စေတီ ခေါ် ကျိုက်ဒေးအပ် စေတီကို ရှေးနှစ်ပေါင်း ၂,၀၀၀ ကျော်က သျှင်ယသ အမှူး ရှိသော ရဟန္တာရှစ်ပါး ပင့်ဆောင်လာသည့် ဆံတော်နှင့် ဓာတ်တော်များအနက် ဆံတော်တဆူနှင့် ဓာတ်တော်နှစ်ဆူ တို့ကို ဌာပနာ၍ တည်ခဲ့သည်။ ရွှေတိဂုံ စေတီနှင့် တာ ၁၀၀၀ ကွာ ရန်ကုန် မြစ်ကမ်းပါး၌ တည်ရှိ၍ ဒုတိယ ကမ္ဘာစစ် အတွင်းက ဗုံးဒဏ်ကြောင့် ပြိုကျ ပျက်စီးခဲ့သည်။ ၁၉၄၈ ခုနှစ် ဇန္နဝါရီလ တရက်နေ့တွင် ပြန်လည် ပန္နက်ချ တည်ဆောက်၍ ၁၉၅၄

ခုနှစ် ဇန္နဝါရီလ ၃ ရက်နေ့တွင် အောင်မြင်စွာ ထီးတော်တင်ပြီးသည်။ဉာဏ်တော် ၁၃၂ ပေ၊ ခုနစ်လက်မ မြင့်သည်။

ကမ္ဘာ့အေး စေတီသည် ရန်ကုန်မြို့ ရေကူးရပ် သီရိမင်္ဂလာကုန်းတွင် တည်ရှိ၍ ဘွဲ့တော်အားဖြင့် သီရိမင်္ဂလာ ကမ္ဘာ့အေးစေတီဟု တွင်သည်။ ကမ္ဘာ့ ငြိမ်းချမ်းရေးအတွက် ဆုတောင်း အဓိဋ္ဌာန်ဖြင့် တည်ထားသော စေတီ ဖြစ်သည်။ (ကမ္ဘာ့အေးစေတီ — လည်းရှု။) ကမ္ဘာ့အေးစေတီတော် အနီးတွင် ဆဋ္ဌသင်္ဂါယနာတင် ဓမ္မသဘင် အခမ်းအနားကို အောင်မြင်စွာ ကျင်းပပြီးစီးခဲ့သော မဟာပါသာဏ လိုဏ်ဂူကြီးနှင့် ကမ္ဘာ့ ဗုဒ္ဓ တက္ကသိုလ် တည်ရှိလေသည်။

ထိုပြင် ရွှေဘုန်းပွင့်၊ အိမ်တော်ရာ၊အလံပြ၊ စိန်ရောင်ခြည်၊ ကျိုက္ကစံ၊ မိုးကောင်း၊ ကျိုက်ဝိုင်း၊ အာလိန် ငါးဆင့် စသည့် ဘုရားစေတီတို့သည် ရန်ကုန်မြို့ပေါ်နှင့် အနီးဝန်းကျင်၌ တည်ရှိလေသည်။ ဘုရားမြတ်စွာ၏ ရုပ်ပွားတော်ကြီးများ ဖြစ်သော ငါးထပ်ကြီး၊ ခြောက်ထပ်ကြီး၊ ကိုးထပ်ကြီးဘုရားတို့သည်လည်း သီတင်းသုံးလျက် ရှိကြ၏။

သိမ်ကြီးဈေးနှင့် ဗိုလ်ချုပ်ဈေးခေါ် ဗိုလ်ချုပ်အောင်ဆန်းဈေးတို့သည် ရန်ကုန်မြို့တွင် အကြီးဆုံး ဈေးကြီးများ ဖြစ်ကြသည်။ သိမ်ကြီးဈေးကို ယခင်က စူရတီဈေးကြီးဟု ခေါ်၍ ၁၈၅၃ ခုနှစ်က စတင် ဖွင့်လှစ်ခဲ့သည်။ ရှေးအခါက ပုဂ္ဂလိကပိုင် ဈေးကြီး ဖြစ်ခဲ့သော်လည်း ယခု အခါတွင် နိုင်ငံတော် အစိုးရက ပြည်သူပိုင်ဈေးအဖြစ် သိမ်းယူထားပြီး ဖြစ်သည်။ ဗိုလ်ချုပ်ဈေးသည် မျူနီစီပယ်ပိုင်ဈေး ဖြစ်သည်။ ထိုဈေးကို ၁၉၂၆ ခုနှစ်က စတင်ဖွင့်ခဲ့ပြီးလျှင် မျူနီစီပယ်မင်းကြီး ဂျီစကော့ အမည်ကို အစွဲပြု၍ စကော့ဈေး ဟု ခေါ်ခဲ့ကြသည်။ ဂျပန်များ ကြီးစိုးစဉ်အခါက ဗိုလ်ရန်နိုင်ကို အစွဲပြု၍ ရန်နိုင်ဈေး ဟုခေါ်၍ ယခုအခါ ဗိုလ်ချုပ် အောင်ဆန်းကို အစွဲပြု၍ ဗိုလ်ချုပ်အောင်ဆန်းဈေးဟု ခေါ်တွင်လေသည်။

ထိုဈေးကြီးများ အပြင် ရပ်ကွက် အသီးအသီးတို့၌ ဖွင့်လှစ်ထားသော မျူနီစီပယ် ဈေးများ၊ ကုန်ပဒေသာ တိုက်ဆိုင်ကြီးများ၊လေဟာပြင်ဈေးများလည်း ရှိလေသည်။

ရန်ကုန်မြို့သည် မြန်မာ နိုင်ငံ၏ မြို့တော် ဖြစ်သည့် အလျောက် နိုင်ငံအစိုးရ၏ ဗဟိုရုံး အဆောက်အအုံများနှင့် ထင်ရှားသော ပြည်သူ့ အဆောက်အအုံများကို မြို့တွင်း၌ တွေ့ရှိ နိုင်လေသည်။ အတွင်းဝန်ရုံးဟောင်းနှင့် ရုံးသစ်ဟူ၍ ရှိရာ အတွင်းဝန်ရုံးဟောင်းကို ၁၈၃၉ ခုနှစ်က ဆောက်လုပ်ပြီးစီးခဲ့သည်။ အတွင်းဝန်ရုံးဟောင်းသည် သိမ်ဖြူလမ်းနှင့် ဗိုလ်အောင်ကျော်လမ်း၊ မဟာဗန္ဓုလလမ်းနှင့် အနော်ရထာလမ်း အကြားတွင် တည်ရှိ၍ များသောအားဖြင့် အစိုးရဝန်ကြီး(တာဝန်ခံ)ဌာနများ၏ ရုံးစိုက်ရာ ဖြစ်သည်။ ယခင် ပြည်သူ့လွှတ်တော် အဆောက်အအုံသည်လည်း အတွင်းဝန်ရုံးဝင်း အတွင်း၌ပင် တည်ရှိသည်။ ဝန်ကြီးဌာန အချို့ အခြားအစိုးရဌာနများ ဖြစ်သော ညွှန်ကြားရေးဝန်ရုံးများ၊ ဘုတ်အဖွဲ့နှင့် ကော်ပိုရေးရှင်း အဖွဲ့ရုံးများနှင့် ဗဟိုအလုပ်သမားကောင်စီရုံးတို့ကို ကုန်သည်လမ်းရှိ အတွင်းဝန်ရုံးသစ် (ခြောက်ထပ်ရုံး)၌ တွေ့ရှိနိုင်သည်။ အတွင်းဝန်ရုံးသစ်နှင့် မလှမ်းမကမ်းတွင် မြန်မာ့ ဆိုရှယ်လစ်လမ်းစဉ်ပါတီ ဌာနချုပ် အဆောက်အအုံ တည်ရှိသည်။

ယခင်က ဗြိတိသျှ ဘုရင်ခံတို့ နေထိုင်ခဲ့သော အစိုးရအိမ်တော်တွင် ၁၉၄၈ ခုနှစ် ဇန္နဝါရီလ ၄ ရက်နေ့မှ စ၍ မြန်မာနိုင်ငံတော် သမတ နေထိုင်ခဲ့သည်။ ယခုအခါ တော်လှန်ရေး ကောင်စီ ဥက္ကဋ္ဌ နေထိုင်လေသည်။ ယင်းကို ၁၈၉၅ ခုနှစ်က တည်ဆောက်ပြီးခဲ့၍ ဝင်းသည် ၇၆ ဧကခွဲမျှ ကျယ်ဝန်းလေသည်။

မြန်မာနိုင်ငံတော် အစိုးရသည် လွတ်လပ်သော ပြည်ထောင်စု၏ ယဉ်ကျေးမှုနှင့် အနုပညာတို့ကို ထိန်းသိမ်းစောင့်ရှောက် ထားရန် ယဉ်ကျေးမှု ဝန်ကြီး ဌာနအား တာဝန် ပေးအပ်ခဲ့သည်။ ထိုသို့အားဖြင့် ၁၉၅၂ ခုနှစ်တွင် ယဉ်ကျေးမှု ဌာန ဟူ၍ သီးခြား ဌာနတခုကို ဖွင့်ပြီးလျှင် အမျိုးသားစာကြည့်တိုက်၊ အမျိုးသား ပြတိုက်၊ အမျိုးသား အနုပညာနှင့် ပန်းချီ အတတ်သင်ကျောင်းတို့ကို တည်ထောင်ထားရာ အမျိုးသား စာကြည့်တိုက်ကို မြို့တော်ခန်းမ၌၎င်း၊ အမျိုးသားပြတိုက်ကို ရှေးက ဂျူဗလီ အဆောက်အအုံ ခေါ် ယဉ်ကျေးမှု ဗိမာန်တွင်၎င်း ဖွင့်လှစ်ထားသည်။ ထို ဂျူဗလီအဆောက်အအုံကို ၁၈၈၇ ခုနှစ်က တည်ခဲ့သည်။

တရားလွှတ်တော်နှင့် တရားလွှတ်တော်ချုပ်ရုံးများ တည်ရှိရာ ဟိုက်ကုတ် ဟု ယခင်က ခေါ်သော အဆောက်အအုံကို ၁၉၁၁ ခုနှစ်က၎င်း၊ ပုလိပ်ရုံးဟု ခေါ်သော တရားရုံး အဆောက်အအုံသစ်ကို ၁၉၃၁ ခုနှစ်က၎င်း တည်ဆောက်ခဲ့လေသည်။ ယခုအခါ ပုလိပ်ရုံးကြီးမှာ မြန်မာ့ဆိုရှယ်လစ်လမ်းစဉ်ပါတီဌာနချုပ် ဖြစ်နေလေပြီ။

ထိုပြင် ဗဟို စာတိုက်ကြီးသည် ကမ်းနားလမ်းနှင့် ဗိုလ်အောင်ကျော်လမ်း ထောင့်တွင်၎င်း၊ ဗဟိုကြေးနန်းရုံးသည် မဟာဗန္ဓုလလမ်းနှင့် ပန်းဆိုးတန်းထောင့်တွင်၎င်း ခန့်ညားထယ်ဝါစွာ တည်ရှိလေသည်။

ပြည်သူ့ဆေးရုံကြီးကို မူလက လက်ရှိ လေဟာပြင်ဈေး နေရာတွင် ၁၈၇၃ ခုနှစ်က ဆောက်လုပ်ခဲ့လေသည်။ ယခုတွေ့ရှိရသော ပြည်သူ့ဆေးရုံကြီး အဆောက်အအုံကို ၁၉၁၁ ခုနှစ်တွင် ဆောက်လုပ် ပြီးစီးခဲ့သည်။ ဒပ်ဖရင် သားဖွားဆေးရုံကို ၁၈၈၇ ခုနှစ်က စတင်ဖွင့်လှစ်ပြီးနောက် တိုးချဲ့တည်ဆောက်ခဲ့သော အဆောက်အအုံသစ်များမှာ ၁၉၃၀ ပြည့်နှစ်တွင် ပြီးစီးလေသည်။

အထက်တန်းပညာရပ်များကို ဆည်းပူးရာဌာန ဖြစ်သော



ပကတိအားဖြင့် လုံခြုံသော ရန်ကုန်ဆိပ်ကမ်းတွင် ပင်လယ်ကူးသင်္ဘောကြီးများ ဝင်ထွက်သွားလာလျက် ရှိကြသည်။

ယခင် ရန်ကုန်တက္ကသိုလ်သည် ရန်ကုန်မြို့မြောက်ဖက် ငါးမိုင်ခန့် အကွာ အင်းလျားကန်၏ အနောက်တောင်ဖက်တွင် တည်ရှိ၍ နယ်မြေ အကျယ်အဝန်းမှာ ဧက ၄၀၀ ခန့်ဖြစ်သည်။ ၁၉၆၄ ခုနှစ်မှ စ၍ တက္ကသိုလ်နယ်မြေတွင် ရန်ကုန်တက္ကသိုလ်မှ ဆင်းသက်ပေါက်ပွားလာသော ဝိဇ္ဇာနှင့် သိပ္ပံတက္ကသိုလ်၊ ဆေးတက္ကသိုလ် အမှတ် (၁)၊ ပညာရေး တက္ကသိုလ်၊ စီးပွားရေး တက္ကသိုလ်တို့ ရှိကြ၍ စက်မှု လက်မှုတက္ကသိုလ်၊ လုပ်သားများ ကောလိပ်နှင့် ဆေးတက္ကသိုလ် အမှတ် (၂) တို့သည် တက္ကသိုလ်နယ်မြေ၏ ပြင်ပဖြစ်သော ရန်ကုန်နယ်မြေ၌ တည်ရှိသည့် ရန်ကုန် တက္ကသိုလ်များဖြစ်ကြသည်။ (ရန်ကုန်တက္ကသိုလ်များ — လည်းရှု။)

တက္ကသိုလ် နယ်မြေ အတွင်း၌ ကျောင်းသူ ကျောင်းသားတို့ နေထိုင်ရာ ကျောင်းဆောင်များ၊ စာသင်ခန်းများ၊ တက္ကသိုလ်များ စာကြည့်တိုက်၊ တက္ကသိုလ်များ ဓမ္မာရုံ၊ တက္ကသိုလ်များဆေးရုံ၊တက္ကသိုလ်ကစားကွင်းများ၊ဘွဲ့နှင်းသဘင်ခန်းမဆောင်၊ ဆရာများနေအိမ် အစရှိသည်တို့ ရှိကြသည်။

ရှေးအခါက ရန်ကုန်မြို့တွင် ရန်ကုန် မျူနီစီပယ် လက်အောက်ရှိ စာသင်ကျောင်းများ အပြင် နိုင်ငံတော် အစိုးရကျောင်းများ၊ သာသနာပြုကျောင်းများနှင့် အလွတ်ပညာသင်ကျောင်းများကိုလည်း ဖွင့်လှစ် ထားရှိသည်။ သို့ရာတွင် ယခုအခါ မျူနီစီပယ် ကျောင်းများကို အစိုးရကျောင်းအဖြစ်ရင်း၊ သာသနာပြု ကျောင်းများကို ပြည်သူ့ကျောင်းများအဖြစ်ရင်း အစိုးရက သိမ်း၍ ဖွင့်လှစ်ထားရုံ မက ယင်းကျောင်းများ၌တက်ရောက်သင်ကြားယူရန် အချိန်မရသော လုပ်သား ပြည်သူတို့နှင့် နေ့ကျောင်းများတွင် နေခွင့်မရသော ကျောင်းသားတို့အတွက် ညကျောင်းများကိုလည်း အလုပ်သမားဌာနနှင့် ပညာရေးဌာန၊ လူငယ်ရေးရာ ဌာနခွဲတို့က ကြီးမှူး ဖွင့်လှစ်ထားလေသည်။

ရန်ကုန်မြို့တွင် လူထုအတွက် အပန်းဖြေရာ ဌာနများလည်း ရှိလေသည်။ ဆူးလေစေတီတော် အနီးတွင် ဗန္ဓုလပန်းခြံ ရှိ၍ ထိုပန်းခြံထဲ၌ ပေ ၁၅၀ မြင့်သော လွတ်လပ်ရေးကျောက်တိုင် စိုက်ထူထားသည်။ တဖန် ရွှေတိဂုံစေတီတော်

အရှေ့ဖက်တွင် ပွဲတော်အခါများ၌ လှေပြိုင်ပွဲများ ကျင်းပရာ ကန်တော်ကြီး တည်ရှိလေသည်။ ကန်တော်ကြီး မြောက်ဖက်တွင် သစ်ပင် ပန်းပင်တို့ဖြင့် သာယာ စိုပြည်သော ဗိုလ်ချုပ်ပန်းခြံ၊တောင်ဖက်တွင် မြေပဒေသာကျွန်းရှိသည်။ ထိုပန်းခြံ အဝင်ဝတွင် ဗိုလ်ချုပ်အောင်ဆန်း၏ ကြေးရုပ်ကို တွေ့မြင် နိုင်သည်။ ကန်တော်ကြီး အနီးတွင် တိရစ္ဆာန်ဥယျာဉ်နှင့် စိုက်ပျိုးရေး ဥယျာဉ်တို့လည်း ရှိကြသည်။ ရွှေတိဂုံစေတီတော် တောင်ဖက် ခြေရင်း၌လည်း ကန်တော်မင်ပန်းခြံခေါ် ဦးဥတ္တမပန်းခြံတခု ရှိသည်။ ရန်ကုန်တက္ကသိုလ် အရှေ့မြောက်ဖက်တွင် အင်းလျားကန် ရှိသည်။ အင်းလျားကန်တွင် ရေကူးခြင်း၊ လှေလှော်ခြင်းတို့ကို ပြုလုပ်လေ့ ရှိကြသည့်အပြင် အရိပ်ကောင်း နေရာများ ပေါ်သောကြောင့် နေ့အားများ၌ အပျင်းပြေ လာရောက်လည်ပတ်သူများဖြင့် စည်ကားလေသည်။

ထိုကဲ့သို့သော လူထု အပန်းဖြေရာ ဌာနများ အပြင် ရန်ကုန်မြို့တွင်း၌ ရုပ်ရှင်ရုံများ၊ စားသောက်ဆိုင်များ၊ ခေတ်မှီ ဟော်တယ်ကြီးများလည်း ရှိသည်။

ရန်ကုန် မီးရထားဘူတာရုံကြီး မြောက်ဖက်တွင် ရှိသော ဘီ၊ အေ၊ အေ၊ ကစားကွင်းကို ၁၈၉၉ ခုနှစ်၌ စတင်ဖွင့်ခဲ့၍ အမျိုးသား ပြေးခုန်ကစားပွဲ အမျိုးမျိုးကို ကျင်းပခဲ့ လေသည်။ လူထု စည်းဝေးပွဲများကိုလည်း ထိုကစားကွင်း၌ ပြုလုပ်လေ့ရှိသည်။ ၁၉၅၃ ခုနှစ်သို့ ရောက်သောအခါ ဘီ၊အေ၊ အေ ကစားကွင်းကို အောင်ဆန်းကစားပြိုင်ဝင်းဟူ၍ အမည် ပြောင်းခဲ့သည်။ အောင်ဆန်း ကစားပြိုင်ဝင်းကို ခေတ်မှီ ကစားကွင်းဖြစ်အောင် ပြင်ဆင် မွမ်းမံပြီးနောက် ၁၉၆၁ ခုနှစ် ဒီဇင်ဘာလတွင် ဒုတိယ အကြိမ်မြောက် အရှေ့တောင် အာရှ ကျွန်းဆွယ် ပြေးခုန်ကစားပွဲ ကျင်းပလေသည်။ အောင်ဆန်း ကစားပြိုင်ဝင်းအပြင် ပြည်ထောင်စု ရိပ်သာလမ်းတွင် ပြည်တော်သာကစားကွင်း၊ကြည့်မြင်တိုင်ရပ်ကွက်တွင် စလင်းကစားကွင်း၊ကျိုက္ကဆံကစားကွင်း စသည့် ကစားကွင်းကြီးများနှင့် ရပ်ကွက် ကစားကွင်းများလည်းရှိသည်။

မြန်မာနိုင်ငံတွင် မြင်းပြိုင်ပွဲများကို ၁၈၈၇ ခုနှစ်က စတင်ကျင်းပခဲ့သည်။ ထိုအခါက မြင်းပွဲများကို မြို့မ အထက်တန်းကျောင်းရှေ့ရှိ ကွင်း၌ ပြုလုပ်ခဲ့ကြသည်။ ၁၉၂၆ ခုနှစ်သို့ ရောက်လာသော အခါ မြင်းပြိုင်ပွဲ များကို ယခုလက်ရှိ ကျိုက္ကဆံကွင်းသို့ ပြောင်းရွှေ့ ခဲ့သည်။ သို့ရာတွင် ၁၉၆၁ ခုနှစ်မှစ၍ မြင်းပြိုင်ပွဲများကို ဖျက်သိမ်းလိုက်လေပြီ။

"မြန်မာ့အသံ" ခေါ် မြန်မာနိုင်ငံ အသံလွှင့် ဌာနခွဲကို ၁၉၄၇ ခုနှစ်တွင် စတင် ဖွင့်လှစ်ခဲ့သည်။ ယခုအခါ ပြည်လမ်းရှိ ခေတ်မှီ အသံလွှင့် အဆောက်အအုံမှ မြန်မာဘာသာ၊ အင်္ဂလိပ် ဘာသာတို့အပြင် ပြည်ထောင်စု တိုင်းရင်းဘာသာ အသီးအသီးတို့ဖြင့်လည်း နေ့စဉ်အသံလွှင့်လျက်ရှိသည်။

ထို မြန်မာ့အသံ အဆောက်အအုံ၏ တောင်ဖက်တွင် ဟံသာဝတီလမ်း ခြားလျက် စာပေဗိမာန် အဆောက်အအုံသည် ပြည်လမ်းပေါ်၌ တည်ရှိလေသည်။

မျူနီစီပယ် အဖွဲ့ရုံး တည်ရှိရာ မြို့တော်ခန်းမ ခေါ် အဆောက်အအုံကြီးကို ၁၉၂၆ ခုနှစ်တွင် စတင်တည်ဆောက်ခဲ့၍ ၁၉၃၆ ခုနှစ်၌ ပြီးစီးလေသည်။ မြို့တော်ခန်းမကြီးမှာ မြန်မာ ဗိသုကာ လက်ရာမြောက်သော အဆောက်အအုံ ဖြစ်ပေသည်။

ရန်ကုန်မြို့ အနီးအနား ပတ်ဝန်းကျင်၌ စက်မှု လုပ်ငန်းတို့ဖြင့် စည်ကားလျက် ရှိလေသည်။ မြို့အနောက်ဖက်တွင် ဆန်စက်၊ သစ်စက်များ ရှိ၍ မြောက်ဖက် အင်းစိန်လမ်း တလျှောက်တွင် အစိုးရ ခြည်မျှင်စက်ရုံ၊ သံရည်ကျိုစက်ရုံ၊ ဂုံလျှော်စက်ရုံ၊ ပန်းကန် စက်ရုံ၊ ဆေးဝါးထုတ်လုပ်ရေးစက်ရုံ၊ စိုက်ပျိုးရေး သုတေသနဌာန၊ အုတ်ကြွပ်စက်၊ ဆပ်ပြာစက် စသည်ဖြင့် စက်မှုလုပ်ငန်း အဆောက်အအုံများ တည်ရှိသည်။ ထိုပြင် ထီးလုပ်ငန်း၊ ဆပ်ပြာလုပ်ငန်း၊ စွပ်ကျယ်အင်္ကျီလုပ်ငန်း၊ ဒန်ထည် လုပ်ငန်း၊ မီးခြစ်လုပ်ငန်း၊ သားရေလုပ်ငန်း အစရှိသော ပုဂ္ဂလိကပိုင် စက်မှုလုပ်ငန်းများလည်း မြောက်မြားစွာ ရှိလေသည်။ ယခုအခါ ရန်ကုန်မြို့ အတွက် လျှပ်စစ်ဓာတ်အားကို ကယားပြည်နယ်ရှိ ဘီလူးချောင်း ရေအား လျှပ်စစ် စီမံကိန်းအရ လောပိတ ရေတံခွန်မှ တိုက်ရိုက် ရရှိပြီဖြစ်သည်။ (ဘီလူးချောင်း ရေအားလျှပ်စစ် စီမံကိန်း — ရှု။)

**ရန္တပိုစာချုပ်။** ။ရန္တပိုစာချုပ်မှာ သက္ကရာဇ် ၁၁၈၅ ခုနှစ် ဘကြီးတော် ဘုရား လက်ထက်တွင် ဖြစ်ပွားခဲ့သော ပဌမ အင်္ဂလိပ်–မြန်မာစစ်ပွဲကို ပြေငြိမ်းစေရန် အင်္ဂလိပ် အစိုးရ ကိုယ်စားလှယ်များနှင့် မြန်မာဘုရင် အစိုးရ ကိုယ်စားလှယ်တော်များသည် သက်ဆိုင်ရာနိုင်ငံတို့၏ ကိုယ်စား လက်မှတ်ရေးထိုးကြသော စာချုပ် ဖြစ်သည်။ မြန်မာနိုင်ငံ အထက်ပိုင်း အင်းဝမြို့မှ တောင်ဖက် မိုင် ၄၀ ခန့်ကွာ၍ မြင်းခြံမြို့ အထက် ခြောက်မိုင်ကွာဝေးသော ရန္တပိုရွာတွင် တွေ့ဆုံ ချုပ်ဆိုကြသောကြောင့် ရန္တပိုစာချုပ်ဟုခေါ် သည်။

ထိုစာချုပ်ကို ၁၁၈၇ ခုနှစ် တပေါင်းလပြည့်ကျော် ၄ ရက် (ခရစ် ၁၈၂၆ ခုနှစ် ဖေဖွာရီလ ၂၄ ရက်) နေ့တွင် မြန်မာတို့ ဖက်မှ စစ်သူကြီး လယ်ကိုင်းမြို့စား ဝန်ကြီး မင်းကြီး မဟာမင်းလှကျော်ထင်၊ ကျီဝန် အတွင်းဝန်မင်းကြီး မဟာမင်းလှသီဟသူတို့နှင့် အင်္ဂလိပ်တို့ဖက်မှ အင်္ဂလိပ် အရေးပိုင် အာစီဘော်ကင်ဘက်(ဆာအာခီဗောကင်းဗဲ)၊အရေးပိုင်ရော်ဘတ်စ်(ရောဗတ်ဆန်)၊တိုက်သမ္ဗာန်အုပ်ချုပ်သူ မင်းစပ်(ချတ်)တို့ နှစ်တိုင်းနှစ်ပြည် မိတ်လက္ခဏာနှင့် အညီ အချင်းချင်း နှုတ်ဆက်ကြပြီးလျှင် မဟာမိတ်အဖြစ် စာချုပ်ထားကြသည်။

စာချုပ်

(၁) အင်္ဂလိပ်မင်းနှင့် မြန်မာရှင်ဘုရင်တို့သည် စစ်ငြိမ်း၍ မိတ်သဟာယ အစဉ်အဆက် ဖြစ်စေ။

(၂) မြန်မာ ရှင်ဘုရင်က အာသံပြည်မြို့ရွာ၊ အက္ကပတ်ပြည် (ကချာ)၊ ဝေသာလီပြည်(ဂျိန်တီယ)တို့ကို အစိုးမပိုင်၊ နောက်တဖန် မစီရင်ရ။ မဏိပူရမြို့မှာလည်း ဂမ္ဘီရရှိန်တို့သည် မိမိပြည်သို့ ပြန်၍ မင်းပြုလိုလျှင်၊ မြန်မာ ဘုရင်က အဆီးအတား အနှောင့်အရှက်မပြု နေရမည်။

(၃) နောက် ပြည်ကြီးနှစ်ပြည် အပိုင်းအခြားကို မငြင်းခုံရအောင် အင်္ဂလိပ်တို့က အောင်ခဲ့သော ရခိုင် ရမ်းဗြဲ မန်အောင် သံတွဲတို့ကို အစဉ်ယူ၍မြန်မာရှင်ဘုရင်က အစိုးမပိုင်ရ။ ရိုးမ၊ ဘိုးခေါင် တောင်တန်း၊ မော်တင်စွန်း စေတီကြီး ထိ စပ်ကြား အပိုင်းအခြားဖြစ်စေ။ နောက် အပိုင်းအခြားကို ငြင်းခုံရန်ရှိလျှင်၊ အင်္ဂလိပ်မင်း မြန်မာမင်းတို့က ခန့်ထားသော သူတို့သည် အထက်နယ်နိမိတ်အတိုင်း မှန်ကန်အောင် စီရင်စေ။ ခန့်ထားသော သူတို့လည်း အရာရှိ မှူးမတ် သူကောင်း ဖြစ်စေရမည်။

(၄) မြန်မာရှင်ဘုရင်သည် အင်္ဂလိပ်မင်းကို ယေး၊မြိတ်၊ ထားဝယ်၊ တနင်္သာရီ မြို့ရွာ နယ်နိမိတ် တောင် ကမ်း ကျွန်းများနှင့် တကွ အပိုင်ပေးသည်။ သံလွင်မြစ် အပိုင်းအခြားဖြစ်စေရမည်။ နောက်မှ အပိုင်းအခြားကို ငြင်းခုံရန် ရှိလျှင် အထက်က ပြဆိုခဲ့ပြီးသည့် အတိုင်း စီရင်စေ။

(၅) မြန်မာ ရှင်ဘုရင်သည် ပြည်ကြီးနှစ်ပြည် အစဉ်မိတ်ဖွဲ့စေချင်သော စေတနာ ထင်ရှားရှိစေခြင်းငှာ၊ ၎င်းအင်္ဂလိပ်က စစ်တိုက်၍ ကုန်ကျသော စားရိတ်အနက်၊ အနည်းငယ် ပြေကြေအောင် ကျပ်သုံးဒင်္ဂါးပြားရေ တကုဋေ ပေးရမည်။

(၆) ယခုစစ်တိုက်ကြသည် အတွင်း ကုလားဘက် ဝင်သော မြန်မာ၊ မြန်မာဘက်ဝင်သော ကုလားတို့ကို အလိုလို ဝင်သည်ဖြစ်စေ၊ အနိုင်အထက်ပြု၍ ဝင်သည်ဖြစ်စေ ဝင်ရောက်မှုအတွက် ရာဇဝတ်ပြစ်ဒဏ် အနှောင့်အရှက်မရှိစေရ။

(၇) ပြည်ကြီးနှစ်ပြည် ယခုဘွဲ့သော မိတ်သဟာယ မြဲစေခြင်းငှာ၊ အင်္ဂလိပ်အရာရှိ တယောက်၊ အခြွေ အရံ လူ ၅၀ လက်နက် ကိရိယာ အစုံနှင့် မြန်မာမြို့တော်မှာ ဖြစ်စေ၊ မြန်မာအရာရှိ တယောက်၊ အခြွေအရံ လူ ၅၀ လက်နက် အစုံနှင့် ကုမ္ပဏီဘုရင်မြို့တော်မှာ ဖြစ်စေ၊ ကုလားပြည်ရှိ မြန်မာမင်း၊ မြန်မာပြည်ရှိ ကုလားမင်းတို့သည် မိမိတို့ နေရန် အိမ်ကို ဝယ်လိုလျှင် ဝယ်၍ နေစေ။ အသစ်တည်လိုကလည်း တည်လုပ်စေ။ ၎င်းနိုင်ငံနှစ်ပါး အကျိုးစီးပွားကို ဖြစ်ထွန်းစေခြင်းငှာ၊ ရွှေလမ်း ငွေလမ်းဖွင့်၍ အချင်းချင်း ဘောက်ကားရောင်းဝယ်မှုနှင့် ဆိုင်သော စာချုပ်ကို ထပ်၍ လုပ်စေရမည်။

(၈) စစ်မရှိ မတိုက်မီ၊ကြွေးဟောင်း ရှိသမျှ မင်းအရာရှိ ဆိုင်သည်ဖြစ်စေ၊ ဆင်းရဲသား ဆိုင်သည်ဖြစ်စေ သစ္စာရှိသည့်အတိုင်း ကုန်အောင် ဆပ်ပေးစေရမည်။ ကြေးတင်ပြီးမှဖြစ်သည်ဆို၍ မကပ်မခိုစေရ။ သူ့ဥစ္စာကို အသိမ်းအယူ မရှိစေရ။ အင်္ဂလိပ်ရှင်ဘုရင် ကျွန်တို့သည် မြန်မာနိုင်ငံတွင် သေ၍ အမွေခံမရှိလျှင်၊ ကျန်ရစ်သော ဥစ္စာပစ္စည်းကို မြန်မာ နိုင်ငံတွင်းရှိ အင်္ဂလိပ်အရေးပိုင်လက်သို့ ကုလားဖြူ ထုံးစံအတိုင်း အပ်ရမည်။ မြန်မာကိုလည်း ထိုနည်းအတူ ဖြစ်စေရမည်။

(၉) အင်္ဂလိပ် သင်္ဘောများကို မြန်မာမြို့ဆိပ်သို့ ဝင်ရောက်လျှင်၊ တက်မချွတ် အမြောက်မချဘဲ နေသကဲ့သို့အင်္ဂလိပ်မြို့ဆိပ်သို့ ဝင်ရောက် လာသော မြန်မာသင်္ဘောများသည်လည်း အနှောင့်အရှက် မရှိဘဲ နေစေရမည်။

(၁၀) အင်္ဂလိပ်မင်းနှင့်မိတ်သဟာယဘွဲ့သော ယိုးဒယားဘုရင်သည် အင်္ဂလိပ်ဘက်သို့ စစ်ကူဝင်လာသည်မှာ ယခုပြုလုပ်ကြသော မိတ်သဟာယ စာချုပ်အပါအဝင်ဖြစ်ရမည်။

(၁၁) ယခု ပြုလုပ်သော မိတ်သဟာယ စာချုပ်ကို မြန်မာဘုရင် ခန့်ထားတော်မူသည့် အရေးပိုင် သံတမန်တို့က လက်မှတ်တံဆိပ် ခတ်မှတ်ရမည်။ အချုပ်နှင့် ထားသော အင်္ဂလိပ်လူမျိုးများနှင့် အင်္ဂလိပ်တိုင်းသား ကုလား လူမျိုးရှိသမျှတို့ကို အင်္ဂလိပ်အရေးပိုင်သံတော်လက်သို့အပ်ရမည်။ ၎င်းအတိုင်း အိန္ဒိယကုမ္ပဏီ အစိုးရက ခံဝန်ပြု၍ လက်မှတ်တံဆိပ်ခတ်သော စာချုပ်ကို လေးလအတွင်း မြန်မာဘုရင်လက်တော်သို့ ပြန်၍ ပေးလိုက်ရမည်အပြင်၊ အင်္ဂလိပ်မင်းချုပ်ထားသည့် မြန်မာတို့ကိုလည်း မြန်မာမင်းထံသို့အပ်ပေးရမည်။ ၎င်းစာချုပ်အတိုင်း မြန်မာမှူးမတ်များနှင့်အင်္ဂလိပ်တို့ ရေးကူးကြသည်။

စစ်ပြေငြိမ်းရန် ပြောဆိုရာ၌ မြန်မာတို့ ဘက်က ဆရာယုဒသန် (ဒေါက်တာ ဂျပ်ဆင်) နှင့် ဆရာပရိုက်တို့ စကားပြန် အဖြစ်ဖြင့် ပါလာသည်။ စာချုပ်ကို လက်မှတ် ထိုးပြီးသောအခါ အင်္ဂလိပ်တပ်များ ရန်ကုန်သို့ ပြန်ကြသည်။ ဒုတိယအရစ် ပေးပြီးသောအခါ အင်္ဂလိပ်တို့ ရန်ကုန်ကထွက်ခွာသွားကြလေသည်။

ရှန်းမြစ်။ ။ရှန်းမြစ်သည် ဥရောပတိုက်ယဉ်ကျေးမှုခေတ်ဆန်းချိန်မှ စ၍ တောင်ဖက် မြေထဲပင်လယ်မှ ပြင်သစ်နိုင်ငံကို ဖြတ်ပြီးလျှင် မြောက်ပင်လယ်သို့ ပေါက်သော ကူးသန်းရောင်းဝယ်ရေးလမ်းကြောင်း ဖြစ်ခဲ့လေသည်။ ရှေးအခါက မြေထဲပင်လယ်ဖက်မှ ကုန်သည်တို့သည် ဗြိတိန်နိုင်ငံမှ သံဖြူကို ဤလမ်းကြောင်းဖြင့် သယ်ယူခဲ့ကြ၏။ ရောမ လူမျိုးတို့သည် စစ်မှုရေးရာအတွက် ရှန်းမြစ်ကို အသုံးပြုခဲ့ကြ၏။ အလယ်ခေတ်က ဆာရာဆင်စစ်သားနှင့် ကရူးဆိတ်စစ်သားတို့သည် ရှန်းမြစ်ကြောင်းဖြင့် ချီတက်ခဲ့ကြသည်။ ယခုအခါ ရှန်းမြစ်သည် ရိုင်းမြစ်၊စိန်းမြစ်၊ လွားမြစ်တို့နှင့်၎င်း၊မာဆေး

မြို့နှင့် ၎င်း တူးမြောင်းများဖြင့် ဆက်သွယ် ထားသော ကြောင့် ဥရောပတိုက်တွင် အလွန်အရေးပါ အရာရောက် သော ရေလမ်းခရီး ဖြစ်သည်။

ရှန်းမြစ်သည် ဆွစ်ဇာလန်နိုင်ငံ တောင်ပိုင်းရှိ ပေပေါင်း ၆,၀၀၀ ခန့်မြင့်သော အဲ့လပတောင်ပေါ် ရှန်းရေခဲမြစ်၌ မြစ် ဖျားခံ၍ အရှိန်ပြင်းစွာစီးဆင်းလာပြီးလျှင် ဂျီနီးဗား အိုင် ထဲသို့ဝင်သည်။ ဂျီနီးဗားအိုင်ကို ဖြတ်၍ အနောက် တောင် ဖက်မှတဖန် စီးထွက်လာရာ ပြင်သစ်နိုင်ငံ လီယွန်မြို့တွင် မြစ် ကြောင်းသည် တောင်ဖက်သို့ ရုတ်တရက် ပြောင်းသွား သည်။ ထိုနောက် မာဇဆေးမြို့အနီးတွင် မြေထဲ ပင်လယ်ထဲသို့ မြစ်နှစ်မြွာ ခွဲ၍ စီးဝင်လေသည်။

ရှန်းမြစ်သည် မိုင် ၅၀၀ ကျော်ခန့် ရှည်၍ မိုင် ၃၅၀ အထိ သင်္ဘောကြီးများ ဆန်တက်နိုင်၏။ ထင်ရှားသော မြစ်လက် တက်များမှာ ဆုန်းမြစ်၊ အီဇာမြစ်နှင့် ဒူးရန့် မြစ်များ ဖြစ်သည်။ လီယွန်မြို့နှင့် ပင်လယ်အကြား မြစ်ကြောင်း တလျှောက်တွင် ကမ်းနှစ်ဖက်စလုံး၌ စပျစ်ခြံများရှိ၏။ လက်ဝဲဖက်ကမ်း တလျှောက်၌လည်း ဗီယင်း၊ ဗားလန်း၊ အက်ဗီညွန်၊ အားလ အစရှိသော သမိုင်းတွင်ထင်ရှားသည့် မြို့များတည်ရှိသည်။

၁၉၃၇ ခုနှစ်တွင် ပြင်သစ်နှင့် ဆွစ်ဇာလန် နယ်စပ်၌ ပေ ၃၀၀ မြင့်သော ရေကာတာကြီးကို စတင် ဆောက်လုပ်ခဲ့ရာ ဒုတိယကမ္ဘာစစ်ကြောင့် ရပ်ဆိုင်းထားခဲ့ရသည်။ ၁၉၄၆ ခု နှစ်သို့ ရောက်မှ တဖန် ဆက်လက်၍ ဆောက်လုပ်သည်တွင် ၁၉၄၇ ခုနှစ်၌ ပြီးလေသည်။

**ရပ်စောက်နယ်။** ။ရပ်စောက်နယ်သည်ရှမ်းပြည်တောင် ပိုင်းတွင် တည်ရှိသော နယ်တနယ်ဖြစ်သည်။ မြောက်ဖက် တွင် မြစ်ငယ် (ဝါ) နမ့်တူမြစ်က နယ်နိမိတ်အဖြစ် သတ် မှတ်ပိုင်းခြားလျက် သီပေါနယ်၊ အရှေ့ဖက်တွင်မိုင်းကိုင်နယ် နှင့်လဲချားနယ်၊ တောင်ဖက်တွင် ညောင်ရွှေနယ်၊ အနောက် ဖက်တွင် ရွာငံနယ်နှင့် ဘော်နယ်တို့ အသီးအသီး တည်ရှိကြ သည်။ ရပ်စောက်နယ် အကျယ်အဝန်းမှာ ၂,၃၈၅ စတုရန်း မိုင်ရှိသည်။ ကျေးရွာအုပ်စုပေါင်း ၃၇၅ အုပ်စုရှိ၍ လူဦးရေ ၄၀,၄၇၀ ယောက်ခန့် ရှိသည်။

ရပ်စောက်နယ်သည် တောင်ထူထပ်၍တောင်နှင့်မြောက် တန်းလျက်ရှိသောတောင်တန်းများအကြားတွင် ကျယ်ပြန့် သော ချိုင့်ဝှမ်းများ ရှိသည်။ ထင်ရှားသော မြစ်များမှာ ဇော်ဂျီမြစ်နှင့် နမ့်လန်မြစ်တို့ ဖြစ်သည်။ နမ့်လန်နှင့်ယင်း၏ လက်တက်ဖြစ်သော နမ့်အက် မြစ်တို့သည် နယ်၏ အရှေ့ မြောက်ထောင့်စွန်းတွင် နမ့်တူမြစ်ထဲသို့ စီးဝင်လေသည်။

ကျွန်းတောများကို ပေ ၃,၀၀၀ အောက် နိမ့်သော နယ်မြောက်ပိုင်း၌သာ တွေ့ရှိရသည်။ တောင်မြင့်ပိုင်းများ တွင် ထင်းရှူးတောနှင့် ဝက်သစ်ချတောများ ရှိသည်။ ရပ် စောက်မြို့ဒေသတွင် မိုးရေချိန်လက်မ ၅၀ ခန့်ရရှိ၍ တောင် မြင့်ပိုင်းဒေသတို့တွင် ထိုထက် ပိုများသည်။

ရပ်စောက်နယ်သည် ရှေးယခင်က ညောင်ရွှေနယ်ထဲတွင် အပါအဝင် ဖြစ်ခဲ့သော်လည်း နောင်အခါ၌ မြို့စားအုပ်ချုပ် ရသောသီးခြားနယ်ဖြစ်လာလေသည်။ မင်းတုန်းမင်းတရား ကြီးလက်ထက်တွင် ရပ်စောက်နယ်ကို လဲချား စော်ဘွား လက်အောက်ခံအဖြစ်ထား၍အမတ်များက စော်ဘွားကိုယ် စား နယ်ကို အုပ်ချုပ်ရသည်။ သက္ကရာဇ် ၁၂၂၇ ခုနှစ်တွင် ညောင်ရွှေစော်ဘွား၏မြေးတော်သူ စပ်ဝိုင်းသည် မင်းတုန်း မင်းတရားကြီး၏ခွင့်ပြုတော်မူချက်အရ စော်ဘွားဘွဲ့ခံ၍ရပ် စောက်နယ်ကို အုပ်ချုပ်ခဲ့လေသည်။ ထိုသို့အားဖြင့် စော် ဘွားကြီး စပ်ခွန်ဆာ လက်ထက်သို့တိုင်အောင် စော်ဘွား အဆက်ဆက်တို့က နယ်ရှင်အဖြစ် အုပ်ချုပ် လာခဲ့သည်။ သို့ရာတွင် စော်ဘွားကြီး စပ်ခွန်ဆာသည်လည်း အခြား နယ်ရှင် စော်ဘွားများနည်းတူ ၁၉၅၉ ခုနှစ် ဧပြီလ ၂၉ ရက် နေ့တွင် မိမိနယ်အုပ်ချုပ်ရေးအာဏာများကို ရှမ်းပြည်နယ် အစိုးရလက်သို့ လွှဲအပ်ခဲ့ပြီး ဖြစ်သည်။ သို့ဖြစ်ရာ ယခုအခါ ရပ်စောက်နယ်သည် ရှမ်းပြည်တောင်ပိုင်း၊ တောင်ကြီးခရိုင် တွင် ပါဝင်သည့် မြို့နယ်တခုဖြစ်လာလေသည်။

ရပ်စောက်နယ်တွင် ဆန်စပါး၊ နှမ်း၊ ဝါ၊ မြေပဲ၊ လိမ်မော်၊ သနပ်ဖက်ပင်တို့ကို စိုက်ပျိုးသည်။ သနပ်ဖက်ကို မြန်မာ ပြည်မသို့ တင်ပို့ရောင်းချသည်။ ရပ်စောက်နယ်တွင် ရှမ်း၊ တောင်သူ (ပအိုး)၊ တောင်ရိုး၊ ဓနုနှင့် ပလောင်လူမျိုးတို့ နေထိုင်ကြသည်။

ရပ်စောက်နယ်၏ ရုံးစိုက်မြို့ ဖြစ်သော ရပ်စောက်မြို့သည် ကုန်းမြင့်ပေါ်တွင် တည်ရှိသည်။ ယခင် နယ်ရှင်စော်ဘွား ကြီး၏ ဟော်နန်းတည်ရာ တောင်ကုန်း ပတ်လည်၌ မြို့ ကွက်တည်ထားသည်။ ရပ်စောက်မြို့ မြောက်ဖက် တမိုင်ခန့် အကွာတွင် ဗထူးတပ်မြို့ တည်ရှိလေသည်။ ဗထူးတပ်မြို့ကို ယခင် နမ့်ဟူ ရွာပျက်နေရာတွင် တည်ထားသည်။ လွယ်ဂို ချောင်းနှင့် ပိန်းချောင်းတို့ စုပေါင်း၍ စီးဆင်းလာသော နမ့်ဟူချောင်းသည် တပ်မြို့အလယ်ကို ဖြတ်သန်းစီးဆင်းပြီး လျှင် ဇော်ဂျီမြစ်ထဲသို့ စီးဝင်လေသည်။ တပ်မြို့ကွက်သည် ပင်လယ်ရေမျက်နှာပြင်ထက် ပေ ၃,၈၅၀ မြင့်သော တောင် ကုန်းဒေသ ဖြစ်သည်။

ဗထူးတပ်မြို့ကို ၁၉၅၃ ခုနှစ်တွင် စတင် တည်ဆောက်ခဲ့ရာ ၁၉၅၄ ခုနှစ်တွင် ပြီးစီးခဲ့လေသည်။ (ဗထူးတပ်မြို့—ရှု။)

**ရပ်ဆဲ့ဗာထရန် (ခရစ် ၁၈၇၂ ဖွား)။** ။အားဘွဲ့ခံ ရပ် ဆဲ၏ အမည် အပြည့်အစုံမှာ ဗာထရန် အာသာ ဝီလျံ ရပ်ဆဲ ဖြစ်သည်။ ရပ်ဆဲသည် အင်္ဂလန်ပြည်၏ နိုင်ငံရေး လောက၌



မြိတိသျှ ဒဿနိကဗေဒ ပညာကျော် ဗာထရန် ရပ်ဆဲ

ထင်ရှားသော မျိုးရိုးမှ ဆင်းသက်လာသူ ဖြစ်သော်လည်း သင်္ချာ ပညာနှင့် ဒဿနိကဗေဒ ပညာဖက်တွင် ထူးချွန်သူ အဖြစ် နာမည်ထင်ရှားသည်။ ၁၈၇၂ ခုနှစ် မေလ ၁၈ ရက် နေ့တွင် ဝေလနယ် ထရဲလက်မြို့၌ ဖွားမြင်၍ ကိမ်းဗရစ်တက္က သိုလ်၊ ထရင်နီတီ ကောလိပ်ကျောင်းတွင် ပညာသင်ကြား ခဲ့သည်။ ထိုတက္ကသိုလ်တွင်ပင် ကထိကအဖြစ် အမှုထမ်းခဲ့ရာ ၁၉၁၆ ခုနှစ်၌ သူ၏ ငြိမ်းချမ်းရေး အယူအဆများကြောင့် နုတ်ထွက်ရလေသည်။ ပဌမကမ္ဘာစစ် ဖြစ်ပွားနေစဉ် အစိုးရ ဝါဒနှင့် ဆန့်ကျင်သော အယူအဆများကို ပုံနှိပ်ထုတ်ဝေ သဖြင့် ထောင်ဒဏ် အပြစ်ပေး ခံရသည်။ ထောင်ထဲ၌ သင်္ချာ ဒဿနိကဗေဒ အခြေပြကျမ်းကို ရေးခဲ့သည်။

၁၉၂၀ ပြည့်နှစ်မှ ၁၉၂၁ ခုနှစ်အထိ တရုပ်နိုင်ငံ ပီကင်း တက္ကသိုလ်တွင် ဒဿနိကဗေဒ ပညာရပ်ကို သင်ကြားပို့ချ ခဲ့သည်။ အမေရိကန်နိုင်ငံ လော့စိန်ဂျလီးမြို့ရှိ ကာလီဖိုးနီး ယား တက္ကသိုလ်၌လည်း ပါမောက္ခအဖြစ် ဆောင်ရွက်ခဲ့ သည်။ ၁၉၃၁ ခုနှစ်တွင် အားဘွဲ့ကို ဆက်ခံရရှိ၏။

အားရပ်ဆဲသည် စဉ်းစား ဆင်ခြင်ဖွယ်ရာများ ပါဝင်သော အတွေးအခေါ် နက်နဲသည့်စာပေများကို ပြုစုရေးသားသူ အဖြစ် ထင်ရှားသည်။ ၁၉၅၀ ပြည့်နှစ်တွင် စာပေဆိုင်ရာ နိုဗဲဆုကို ရရှိလေသည်။

**ရုက္ခစိုး။** ။ဘုမ္မစိုး — ရှု။

**ရုက္ခဗေဒ။** ။ရုက္ခဗေဒ ဆိုသည်မှာ အပင် လောကကို လေ့လာသည့် ပညာရပ်ကို ခေါ်သည်။ထိုပညာရပ်သည် ဇီဝ ဗေဒ၏ အရေးကြီးသော အစိတ်အပိုင်းနှစ်ခုအနက် တခု ဖြစ် သည်။ ဇီဝဗေဒဆိုသည်မှာ သက်ရှိမှန်သမျှကို လေ့လာသည့် ပညာရပ်ဖြစ်၍ ယင်း၏ အခြား အရေးကြီးသော အစိတ် အပိုင်းတခုမှာ ပါဏဗေဒ ဖြစ်သည်။

အပင်လောကကို စတင်၍ လေ့လာကြခြင်းနှင့် ရာစု နှစ် ပေါင်းများစွာ ကြာသည့်တိုင်အောင် လေ့လာခဲ့ကြခြင်းမှာ အပင်များ ဆေးဝါးဖက်တွင် အသုံးဝင်ခဲ့ခြင်းကြောင့် ဖြစ် သည်။ အပင်များကို လေ့လာခဲ့ကြသည်မှာ ကြာပြီ ဖြစ် သော်လည်း ရုက္ခဗေဒနှင့်ဆိုင်သော ပညာရပ် တိုးတက်လာ သည်မှာ အမှန်အားဖြင့် နှစ်တရာမျှသာ ရှိခဲ့ပေသေးသည်။ လူအဖို့ အသုံးဝင်မည့် အပင်များ၊ အနုပညာတွင် အသုံးဝင် မည့် အပင်များနှင့် ဆေးဝါးဖက်တွင် အသုံးဝင်မည့် အပင် များကို စတင် စိတ်ဝင်စားခဲ့ကြသည်မှာ ဓမ္မတာ အတိုင်းသာ ဖြစ်လေသည်။

အပင်လောက၏ ပညာအစစ်ကို စတင် ခဲ့ကြရာတွင် အ မျိုးအစား ခွဲခြားခြင်းကို ပြုလုပ်ခဲ့ကြသည်။ ရှေးဂရိတို့၏ ခေတ်တွင် အယရစ္စတိုတယ်နှင့် သီအိုဖရက်စတပ် ဆိုသည့် ဂရိပညာရှင် နှစ်ဦးတို့သည် အပင်များကို သစ်ပင်များ၊ ချုံ များနှင့် သစ်နုပင်များအဖြစ် အမျိုးအစား ခွဲခြားခဲ့ကြပေ သည်။ သို့သော် အပင်များနှင့် သက်ဆိုင်ရာ ပညာရပ်ကို တိုးပွားစေရန် ၁၆ ရာစုနှစ်တိုင်အောင် ဆက်၍ မကြံစည်ခဲ့ ကြချေ။ ထိုအချိန်သို့ ဆိုက်ရောက်သောအခါ အပင်လေ့လာ သူများက အပင်များကို အုပ်စုအလိုက် ခွဲလိုက်ကြသည်။ ၁၈ ရာစုနှစ် အလယ်သို့ ဆိုက်ရောက်သော အချိန်တွင် ဆွီ လူမျိုးတဦး ဖြစ်သူ လင်းနီးယပ် ဆိုသူက အပင်များအား အုပ်စုခွဲသည့် စံနစ်ကို တီထွင် ပေးနိုင်ခဲ့လေသည်။

ထိုသို့ လင်းနီးယပ်က စံနစ်တကျ တီထွင်၍ပေးနိုင်ခဲ့သဖြင့် အပင်များကို အမျိုးအစား ခွဲခြားခြင်းသည် ခိုင်မြဲသည့် အခြေ ရရှိပြီးလျှင် တဖြည်းဖြည်း တိုးတက်ကောင်းမွန်လာ ခဲ့လေသည်။ ပဌမတွင် အပွင့်ပွင့်သည့် အပင်များကိုသာ အ မျိုးအစား ခွဲခြားကြသော်လည်း နောင်တွင် တဖြည်းဖြည်း အပင်တိုင်းကို အမျိုးအစား ခွဲလာကြလေသည်။ တဖန် ၁၈ ရာစုနှစ်နောက်ပိုင်းသို့ ရောက်လာသောအခါတွင် အပင်များ ၏ ဆောက်တည်ပုံနှင့် တိုးတက်ဖြစ်ထွန်းလာပုံကိုပါ လေ့လာ လာကြပြန်သည်။ ထိုသို့ လေ့လာ ကြရာတွင် အပင်များ ၏ ဆောက်တည်ပုံနှင့် တိုးတက်ဖြစ်ထွန်းလာပုံကိုသာ မက ဘဲ အပင်များ၏ အင်္ဂါများကိုပင် လေ့လာခဲ့ကြလေသည်။ ထိုကိစ္စများကို လေ့လာရာတွင် အသေးစိတ်လေ့လာရန် လို

အပ်သဖြင့် ရုတ်တရက် မအောင်မြင်နိုင်ခဲ့သော်လည်း မိုက္က ရိုစကုပ်များကို ထွင်လာနိုင်ကြသော အခါတွင် ထိုအချက်ကို လေ့လာနိုင်ခဲ့ကြလေသည်။ ထိုသို့ လေ့လာကြရာတွင် ပဌမ၌ အပင်ကြီးများ၏ ကိုယ်ထည်များကိုသာ လေ့လာခဲ့ကြသော်လည်း သက်ရှိ ခန္ဓာကိုယ်များ၏ အခြေခံမှာ ဆဲဖြစ်သည်ဆိုသောအချက်ကို သိလာကြသောအခါတွင် အပင်၏ အနုတမိ (ကာယဘေဒပညာ)ကိုပါ သဘောပေါက်လာကြလေသည်။ ထိုမှ ဆဲအမျိုးမျိုး စုပေါင်းသဖြင့် ဖြစ်ပေါ်လာသည့် အပင်၏တစ်ရှူးများကိုပါ လေ့လာကြပြန်သည်။

ထိုမှတဖန် ရုက္ခဗေဒ ပညာရှင်များသည် အပင်များ၏ ပင်စည် အကိုင်းအခက်များနှင့် အင်္ဂါများ ဖြစ်ပေါ်ရေး အတွက် တစ်ရှူးများ တခုနှင့်တခုဆက်သွယ်ကြပုံကိုပါ စိတ်ဝင်စားလာကြပြီးလျှင် အပင်တို့၏ ရုပ်သွင်ပညာခေါ် ပညာရပ် တရပ် ဖြစ်ပေါ်လာပြန်သည်။ ထိုပညာရပ်ဖြင့် အပင်များ၏ ဆောက်တည်ပုံ တိုးတက်လာရုံသာ မလေ့လာ ကြတော့ဘဲ အပင်စုများ၏ မျိုးဆက်စဉ်ကိုပါ လေ့လာကြပြန်သည်။

ထိုသို့ အပင်များ၏ ရုပ်သွင်ပညာ ထွန်းကားလာသော အခါတွင် အချို့ ရုက္ခဗေဒ ပညာရှင်များက အပင်များ အသက်ရှင်ရေးအတွက် မည်သို့ အလုပ်လုပ်ကြသည်ကို သိလိုကြပြန်သည်။ ထိုသို့ သိလိုလာကြသဖြင့် ၁၉ ရာစုနှစ်အတွင်းတွင် ထိုပညာရပ်သည် အခြား အပင်နှင့်ဆိုင်ရာပညာရပ်များထက် အဟုန်ကြီးစွာနှင့် တိုးတက်လာခဲ့လေသည်။ ထိုပညာရပ်ကို အပင်များ၏ ဇီဝကိစ္စဗေဒဟူ၍ ခေါ်သည်။

ထိုမှတဖန် စိမ့်များ၊ ပရေရီလွင်များ၊ သဲကန္တာရများ၊ သို့မဟုတ် သစ်တောများကဲ့သို့သော အခြေအနေ မတူသည့် နေရာများတွင် အပင်များ အတူတကွ ပေါက်ရောက်လာနိုင်ပုံတွင် ရုက္ခဗေဒ ပညာရှင်များက စိတ်ဝင်စား လာကြပြန်သည်။ ထိုပညာရပ်တွင် အပင်များနှင့် ယင်းတို့၏အင်္ဂါများ အလင်း၊ အပူ၊ မြေဆီလွှာအပူချိန် စသည်တို့နှင့် ဆက်သွယ်ပုံကိုပါ လေ့လာကြပြန်သည်။ ထိုပညာရပ်ကို အီကောလိုဂျီ (ဂေဟဗေဒ) ဟု ခေါ်သည်။ ထိုမှတဆင့် အလွန်စိတ်ဝင်စားဖွယ်ကောင်းသော 'အပင်စုများ'အကြောင်းကို လေ့လာနိုင်လာကြပြန်သည်။

လူများတွင် ရောဂါဝေဒနာများ ကျရောက် တတ်သကဲ့သို့ အပင်များတွင်လည်း ရောဂါများ ကျရောက်တတ်သည်ကို ရုက္ခဗေဒ ပညာရှင်များက သတိမူမိကြသဖြင့် အပင်များ၏ ရောဂါများကိုပါ လေ့လာ လာကြရာမှ အပင်နှင့်ဆိုင်ရာ ရောဂဗေဒလည်း ထွန်းကားလာလေသည်။ တခါတရံတွင် ရာသီဥတုကြောင့်၎င်း၊ တခါတရံတွင် မြေကြီးမှ လိုအပ်သည့် တွင်းထွက်များ မရရှိ၍၎င်း အပင်များ၌ ရောဂါကျရောက်တတ်သည်ကို တွေ့ကြလေသည်။ အပင်များ၌ ကျရောက်သည့် ရောဂါများမှာ လူတွင် ရောဂါပိုးက ရောဂါကို ဖြစ်ပေါ်စေသကဲ့သို့ ဗက်တီးရီးယားနှင့် ရောဂါပိုးများကြောင့် များသောအားဖြင့် ဖြစ်ပေါ်လာသည်။ တခါတရံတွင် မှိုမျိုးကြောင့် အပင်များ၌ ရောဂါ ကျရောက်တတ်သည်။ မှိုမျိုး၌ ကလိုရိုဖီခေါ် အစိမ်းရောင်ဆေး မရှိချေ။ ထိုသို့ ကလိုရိုဖီ မရှိသဖြင့် ဖိုတိုဆင်းသဆစ်ခေါ် အစာကို ပြုလုပ်ခြင်း မရှိနိုင်ချေ။ ထိုအခါ အခြားအပင်စိမ်းများမှ ယင်းတို့၏အသက်ရှင်ရေးအတွက် အစာကို ရယူကြရပေမည်။ ထိုသို့ အစာကို ရယူကြရာတွင် အပင်စိမ်းများကို ပျက်စီးစေရုံမက တခါတရံတွင် သေပင် သေစေကြသည်။

အပင်များက ကျရောက်လာသည့်ရောဂါများကိုခုခံတိုက်ခိုက်နိုင်ရန် အပင်ရောဂဗေဒ ပညာရှင်များက မှုမှန်အပင်များကို လေ့လာကြလေသည်။ ထိုအပင်များ မည်သို့ အမူဆောင်ရွက်သည်ကို လေ့လာ ကြလေသည်။ ထိုပညာရှင်များသည် အပင်ကို ဖျက်ဆီးပစ်သည့် အပင်နှင့် တိရစ္ဆာန်တို့၏ နေထိုင် ဖြစ်ပေါ်ပုံကိုပါ လေ့လာကြရလေသည်။သို့မှသာ ယင်းတို့၏ လှုပ်ရှားမှုများကို ခုခံ တိုက်ဖျက်နိုင်ပေလိမ့်မည်။ အပင်များ၌ ရောဂါကျရောက်ခြင်းကို ကာကွယ် တိုက်ခိုက်ရန် အပင်ရောဂဗေဒ အရ ဓာတ်ပစ္စည်းများကို အသုံးပြုကြလေသည်။ထိုပညာရပ်ကို လေ့လာခြင်းဖြင့် ရောဂါကျရောက်ခြင်းကို ခုခံတိုက်ခိုက်နိုင်မည့်အပင်မျိုး ဖြစ်ပေါ်လာအောင် ရှာကြံ ဆောင်ရွက်နိုင်ကြလေသည်။ အပင်တွင် ရောဂါ အခြေ အနေမျိုး ထွန်းကားလာခြင်းကို အုပ်ထိန်း ပေးနိုင်သည့် နည်းများကို ရှာကြံကြလေသည်။ အပင် ရောဂဗေဒ ပညာရှင်များက အပင်များတွင် ရောဂါကျရောက်မှ ရောဂါကို ဖယ်ရှားပစ်ခြင်းထက် အပင်တွင် ရောဂါ မကျရောက်စေရန် ပို၍ လိုလားကြလေသည်။

မျိုးရိုးပညာ ထွန်းကားလာသောအခါတွင် ထိုပညာကို အပင်များတွင် အသုံး ပြုခဲ့ကြလေသည်။ ထိုပညာရပ်မှာ အပင်များ ယင်းတို့၏ အဆက်အနွယ်များသို့ မည်ကဲ့သို့ ယင်းတို့၏ ဝိသေသဂုဏ်များကို ပြန့်ပွားစေသည် ဆိုသည်ကို လေ့လာခြင်း ဖြစ်သည်။ ထိုပညာရပ် ထွန်းကား လာခဲ့သည်မှာ ၁၉၀၀ ပြည့်နှစ်မှ စခဲ့ခြင်းကြောင့် မကြာလှသေးချေ။ ထိုပညာရပ်၏ အခြေခံ အချက်လက်များကို ဩစတြီးယန်း ခရစ်ယန် ဘုန်းကြီးတပါးဖြစ်သော ဂရီဂေါ် မင်ဒယ် ဆိုသူက စစ်ဆေး လေ့လာခဲ့လေသည်။ (မင်ဒယ် , ဂရီဂေါ် — လည်းရှု။)

ထို့ပြင် အသုံးချ ရုက္ခဗေဒ ဆိုသည်လည်း ရှိသေးသည်။ ထိုပညာရပ်တွင် အပင်သစ်များ ရှာဖွေခြင်းနှင့် အပင်ထွက် ပစ္စည်းများကိုလေ့လာခြင်း၊ . မည်သည့်အပင်မျိုးက မည်သည့်မြေဩဇာမျိုးကိုလိုသည် ဆိုသည်ကို လေ့လာခြင်းနှင့် လူ့အကျိုးအတွက် အပင်များကို လူက စိုက်ပျိုးယူပုံများကို လေ့လာခြင်းများ ပါဝင်သည်။

ကမ္ဘာတွင် အပင်အမျိုးပေါင်း သုံးသိန်းခန့် ရှိသည်။ အပင် တပင်ကို မလေ့လာမီ၊ သို့မဟုတ် အသုံးမပြုမီ ထိုအပင်သည် မည်သည့်အပင်မျိုး ဖြစ်သည် ဆိုသည်ကို သိရန်အရေးကြီးလေသည်။

အပင်များကို အမျိုး အစား ခွဲခြားခြင်းသည် လွယ်ကူသော လုပ်ငန်း မဟုတ်ချေ။ အပင် နှစ်ပင်သည် မည်သို့မျှ တိကျစွာ တူနိုင်မည် မဟုတ်ချေ။ အလွန် နီးစပ်သည့်အပင် နှစ်ပင် လွန်စွာ တူကြသဖြင့် အပင်ပါရဂူတဦးအဖို့ပင် ထိုအပင်နှစ်ပင်ကို ခွဲခြားနိုင်ရန် ခဲယဉ်းလေသည်။အတွေ့အကြုံများခြင်း၊ ဆုံးဖြတ်နိုင်စွမ်း ရှိခြင်းနှင့် အပင်များ၏ သွင်ပြင်များကို ကြည့်တတ်ခြင်းတို့သည် အပင်များကို အမျိုးအစားခွဲရာတွင် လိုအပ်သော အရည်အချင်းများ ဖြစ်လေသည်။

အပင်တပင်ကို သိပ္ပံစံနစ်ဖြင့် အမည် ပေးရာတွင် အစဉ်သဖြင့် စကားလုံးနှစ်လုံး ပါရှိလေသည်။ ပဌမစကားလုံးမှာ မျိုးစုအမည်ဖြစ်၍ ထိုအပင်သည် မည်သည့် အပင်အုပ်စုတွင် ပါဝင်ကြောင်းကို ဖော်ပြသည်။ ဒုတိယ စကားလုံးမှာ မျိုးစိတ်၏ အမည်၊ သို့မဟုတ် အုပ်စုအတွင်း မည်သည့် အမျိုးဖြစ်ကြောင်းကို ဖော်ပြသည်။ ထိုကြောင့် အုတ်ခေါ် ဝက်သစ်ချပင် မှန်သမျှသည် 'ကွားကပ်' မျိုးစုတွင်ပါဝင်လေသည်။ ထိုအတူ နှင်းဆီမှန်သမျှသည်လည်း 'ရိုဆာ' မျိုးစုတွင် ပါဝင်လေသည်။ သို့သော် ဝက်သစ်ချ အဖြူမှာ 'ကွားကပ် အယ်လဗာ' ဖြစ်၍ ဝက်သစ်ချ အနီသည် 'ကွားကပ် ရူဗရာ' ဖြစ်သည်။ မျိုးစုတစုစီတွင် သက်ဆိုင်ရာ မျိုးစုအမည် ရှိလေသည်။ ထိုမျိုးစု၏ အမည်ကို ထိုမျိုးစုအတွက်သာ အသုံးပြုပြီးလျှင် အပင်လောကရှိ အခြား မည်သည့် အပင်အုပ်စု အတွက်မျှ အသုံးမပြုချေ။ ထိုအတူ အုပ်စုတခုအတွင်းရှိ မျိုးစိတ်တခုစီ၌လည်း သက်ဆိုင်ရာ ထူးခြားသည့် မျိုးစိတ်အမည် ရှိလေသည်။ နီးကပ်စွာဆက်စပ်လျက်ရှိသော မျိုးစုများကို မျိုးရင်းအဖြစ် သတ်မှတ်ထားသည်။ အလွန်နီးကပ်စွာ ဆက်စပ်လျက် ရှိသော မျိုးရင်းများကို မျိုးစဉ်တခုတွင် သတ်မှတ်ထားပြန်သည်။ နီးကပ်စွာဆက်စပ်လျက် ရှိသော မျိုးစဉ်များကို တဖန် မျိုးပေါင်း တခုတွင် သတ်မှတ်ထားပြန်၍ နီးကပ်စွာ ဆက်စပ်လျက် ရှိသော မျိုးပေါင်းများကို မျိုးပေါင်းစု တခုတွင် သတ်မှတ်ကြပြန်သည်။ ထိုသို့သိပ္ပံအမည် ပေးရာတွင် မည်သည့်အခါတွင်မျှ မပြောင်းလဲသည့် လက်တင် အမည်များကို ပေးလေ့ ရှိကြလေသည်။

**ရုပ်စုံမှန်ပြောင်း။** ။ကလိုင်ဒိုစကုပ် — ရှု။

**ရုပ်ပုံစာ။** ။အေဘီစီဒီ၊ ကကြီး ခကွေးတို့ကဲ့သို့သော ယခုခေတ်သုံး အသံထွက် အက္ခရာများ မပေါ်မီ ရှေးခေတ်က လူတို့သည် မိမိတို့ စိတ်ထဲ၌ ဖြစ်ပေါ်လာသော အကြောင်းအချက်တို့ကို ရေးသား ဖော်ပြလိုသော အခါ ရုပ်ပုံများဖြင့် ရေးသား ဖော်ပြခဲ့ကြသည်။ ပမာဆိုသော် လူဟု ဆိုလိုလျှင် လူရုပ်ကိုရင်း၊ နေဟုဆိုလိုလျှင် နေရုပ်ကိုရင်း၊ လ ဟုဆိုလိုလျှင် လ ရုပ်ကိုရင်း ရေးဆွဲခဲ့ကြသည်။ ရှေးအီဂျစ်လူမျိုးတို့သည် အထိမ်းအမှတ် အဆောက်အအုံနှင့် သင်္ချိုင်းဂူများတွင် ရုပ်ပုံစာများကို ထုထွင်းထားခဲ့ကြသည်။ ထိုကဲ့သို့ အီဂျစ်တို့ ရေးဆွဲ ထုထွင်းခဲ့သော ရုပ်ပုံစာအမှတ်အသားကို ဂရိတို့က ဟိုင်ယာရိုဂလစ်ဟု အမည်မှည့်ခေါ်ကြသည်။ ရှေးအမေရိကန် ရက်အင်ဒီးယန်းလူမျိုးတို့သည်လည်း ရုပ်ပုံစာဖြင့် ရေးသားခဲ့ကြသည်။

အစအဦးတွင် အီဂျစ်လူမျိုးတို့သည် မိမိတို့ ဆိုလိုသော အရာဝတ္ထုနှင့် အကြောင်းအရာများကို ရုပ်ပုံဆွဲ၍ တိုက်ရိုက်ဖော်ပြကြ၏။ ထိုနောက် ရုပ်ပုံစာလုံး၏ အသံထွက်ကိုယူ၍ စာလုံး တလုံးနှင့်တလုံး ပေါင်းစပ်ကာ အသံထွက်စကားလုံး



လန်ဒန်မြို့ရှိ ကလီယိုပါထရာ ကျောက်တိုင်မှ ရုပ်ပုံစာများ

များကို ရေးဆွဲလာကြသည်။ နောက်ဆုံးအဆင့်တွင် အသံထွက် အက္ခရာစာလုံးများကို ရေးဆွဲသည်အထိ တိုးတက်ခဲ့လေသည်။ ရုပ်ပုံ စာကို တတ်ကျွမ်းသူများမှာ ရှေးခေတ် အီဂျစ်ဘုန်းကြီးများ ဖြစ်၏။ ထိုအခါက များသောအားဖြင့် အထိမ်းအမှတ် ကျောက်တိုင်၊ ကျောက်ပြားများ ပေါ်၌

ရုပ်ပုံစာကို စူး ဆောက်တို့ဖြင့် ထုထွင်းရေးရှိကြသည်။ ရုပ်ပုံစာ ရေးသားပုံမှာ အမျိုးမျိုးကွဲပြားသည်။ တခါတရံ လက်ဝဲဖက်မှ လက်ျာဖက်သို့လည်းရေး၏။ သို့သော် များသောအားဖြင့် လက်ျာဖက်မှ လက်ဝဲဖက်သို့၎င်း၊ အထက်မှ အောက်သို့၎င်း ရေးလေ့ ရှိကြသည်။

အီဂျစ်တို့သည် စာရေးအတတ် ပျံ့နှံ့လာသော အခါ ကျောက်တုံး၊ ကျောက်ပြားထက် အရေးရလွယ်ကူသော အရာဝတ္ထုကို ကြံဆ ရှာဖွေကြရာ ပပိုင်းရပ်ခေါ် ကျူပင်တမျိုးကို တွေ့ကြလေသည်။ ကျူရိုးကို ကလောင်တံအဖြစ်၎င်း၊ ကျပ်ခိုးကို ရေနှင့် ရော၍ မင်အဖြစ်၎င်း အသုံးပြု၍ ပပိုင်းရပ် ကျူချပ်ပေါ်တွင် ရုပ်ပုံစာကို ရေးသားခဲ့ကြသည်။ (ပပိုင်းရပ်ပင် — လည်းရှု။)

ယဟူဒီနှင့် ဖီနီရှန် လူမျိုးတို့က အီဂျစ်တို့၏ ရုပ်ပုံစာမူကို အတုယူ၍ မိမိတို့၏ အက္ခရာများကို တီထွင်ကြသည်။ ထိုမှတဆင့် ဂရိအက္ခရာများ ဖြစ်ပေါ်လာသည်။ ဂရိအက္ခရာမှ တဆင့် ရောမအက္ခရာသည်၎င်း၊ ရောမအက္ခရာမှ လက်ရှိ အင်္ဂလိပ် အက္ခရာသည်၎င်း အဆင့်ဆင့် ဖြစ်ပေါ်လာ၏။

ရောမခေတ် ကျဆုံးချိန် အေဒီ ၅၀၀ ပြည့်နှစ်ခန့်သို့ရောက်သောအခါ နှစ်ပေါင်း ၃,၅၀၀ မျှ သုံးစွဲလာခဲ့သော အီဂျစ်ရုပ်ပုံစာမှာ တိမ်ကော သွားလေတော့သည်။ ထို့နောက် ၁၇၉၉ ခုနှစ်တွင် နပိုလီယန်၏ စစ်တပ်မှ စစ်ဗိုလ်ထဦးက နိုင်းမြစ်ဝရှိ ရိုဇက်တာခေါ် ရှေးဟောင်းမြို့အနီး၌ ကျောက်တုံးတတုံးကို တွေ့ရှိလေသည်။ ထိုကျောက်တုံးပေါ်တွင် အီဂျစ်တို့၏ ရုပ်ပုံစာရေးနည်းဖြင့်၎င်း၊ ဒီမိုတစ်ခေါ် ရှေးအီဂျစ်စာရေးနည်းဖြင့်၎င်း၊ ဂရိဘာသာဖြင့်၎င်း ဘာသာ သုံးမျိုးဖြင့် ရေးထားသည်။ ၁၈၂၂ ခုနှစ်တွင် ပြင်သစ်လူမျိုး ဖရန်ဆွာရှမ်ပိုးလီယွန်ဆိုသူသည် ဂရိဘာသာ စကားကို မှီတည်၍ ထိုကျောက်တုံးပေါ်ရှိ အီဂျစ်တို့၏ ရုပ်ပုံစာတပိုဒ်လုံးကို အနက်ပြန်ခဲ့လေသည်။ (ရိုဇက်တာကျောက်စာ — လည်းရှု။)

ယခုအခါ အီဂျစ်ရုပ်ပုံစာနှင့် စပ်လျဉ်း၍ သဒ္ဒါစာအုပ်၊ အဘိဓာန်စာအုပ်များ ရိုက်နှိပ်ထားပြီး ဖြစ်သောကြောင့် လူမျိုးဆိုင်ရာ ဘာသာစကားကို လေ့လာတတ်ကျွမ်းသူတို့အဖို့ အီဂျစ်တို့၏ ရှေးဟောင်းစာပေများကို ဖတ်ရှုရန် မခဲယဉ်းတော့ချေ။

# စာ နယ် ဇင်း တို့၏ လက်နက်ကောင်းတခု

**စာဖြင့်ရေး၍ ဝေဖန်လျှင် မခံနိုင်ဖြစ်မည့် ကိစ္စများအတွက် အချက်အလက်တို့ကို သိလည်းသိ၊ ထိလည်းထိအောင် စွမ်းဆောင်ပေးနိုင်သော နည်းမှာ ရုပ်ပြောင် ကာတွန်း ရေးဆွဲခြင်းပင် ဖြစ်သည်။ ယင်းသည် အချိန်တချိန်အတွင်း၌ လူတို့၏ ထုံးစံဓလေ့များ၊ အပြုအမူများနှင့် နိုင်ငံရေး အခြေအနေများကို ဖော်ပြလေ့ရှိသဖြင့် တန်ဖိုးရှိသော ပညာတရပ်ဖြစ်သည်။**

**ရုပ်ပြောင်ကာတွန်း။** ။သတင်းစာ၊ ဂျာနယ်၊ မဂ္ဂဇင်းနှင့် စာအုပ်များတွင် လောလောဆယ် ဖြစ်ပေါ်နေသည့် အကြောင်းကိစ္စရပ်များကို ရုတ်တရက် သိမြင်ကြစေရန် အရုပ်ပြောင်များနှင့် ပြောင်လှောင်၍ သရုပ်ဖော်ထားခြင်းများကို ရုပ်ပြောင်ကာတွန်းများဟု ခေါ်သည်။ ရုပ်ပြောင်ကာတွန်းများကို တကားတည်းဖြင့် ဖြစ်စေ၊ တကားမကဘဲ ရုပ်ပုံအများဖြင့် ဖြစ်စေ လောလောဆယ် ဖြစ်ပေါ်နေသည့် အကြောင်းရပ်ကို သရုပ်ဖော်လေ့ရှိကြသည်။ ဇာတ်ကြောင်းဖော် ရုပ်ပြောင် ကာတွန်းများ ရှိသကဲ့သို့ တစုံတခုသော စိတ်ကူး စိတ်သန်းကို ရိုးရိုးပင် သရုပ်ဖော်သည့် ကာတွန်းများရှိသည့် အပြင် ပိုမို ထိရောက်စေရန်အတွက် ထူးခြားထင်ရှားသည့် 'အလှည့်' ကလေးများဖြင့် သရုပ်ဖော်သည့် ကာတွန်းများလည်း ရှိသည်။ ထိုမှတပါး နိုင်ငံရေး ရုပ်ပြောင် ကာတွန်းများလည်း ရှိလေသည်။

ရုပ်ပြောင် ကာတွန်းများမှာ လူထုကို ဟာဒယရွှင်ဆေး သက်သက်အဖြစ် ဖျော်ဖြေရုံသာမက၊ အစိုးရနှင့် လူထုကို ဆောင်ရွက်စေလိုသည့် ကိစ္စများကို ထိရောက်စွာ ရေလာမြောင်းပေး ပြုလုပ်နိုင်ခြင်း၊ စာဖြင့် ရေး၍ ဝေဖန်လျှင် မခံနိုင်ဖြစ်မည့် ကိစ္စများကိုလည်း သိလည်းသိ၍ ထိလည်း ထိအောင် စောင်းချိတ် သရော်နိုင်ခြင်းကြောင့် သတင်းစာများ၏လက်နက်ကောင်း တခုလည်း ဖြစ်လေသည်။

ရုပ်ပြောင် ကာတွန်းများမှာ လက်ရာကောင်းခြင်း၊ သရုပ်ပေါ်ခြင်း စသော ပန်းချီဂုဏ်မြောက်ရေး အတွက်သာ မဟုတ်၊ ကာတွန်းပါစာသားများမှာလည်း ပရိသတ်အကြိုက် ဖြစ်ရန် လိုပေသည်။

အမေရိကန် ပြည်ထောင်စု အတွင်း၌ ထုတ်ဝေကြသော သတင်းစာများတွင် နိုင်ငံရေးနှင့် ဆိုင်သော ရုပ်ပြောင် ကာတွန်းများကို ထည့်သွင်းပေးလေ့ ရှိကြသည်။ ဗြိတိန်နိုင်ငံတွင် ထုတ်ဝေသော သတင်းစာနှင့် မဂ္ဂဇင်းများတွင်လည်း နိုင်ငံရေး ရုပ်ပြောင်ကာတွန်းများကို ထည့်ပေးလေ့ရှိကြသည်။ သို့သော် နိုင်ငံရေး ကာတွန်းများသည် အခြားနိုင်ငံများမှာထက် အမေရိကန် ပြည်ထောင်စုတွင် ပိုမိုခေတ်စား လေသည်။ အားကစား သတင်းများတွင်ပင် ကမ္ဘာ့သတင်းနှင့် ထင်မြင်ချက်များကို ရုပ်ပြောင်ကာတွန်းများနှင့် ဖော်ပြလေ့ ရှိကြသည်။ ကုန်ပစ္စည်းများကို ကြော်ငြာရာတွင်လည်း ရုပ်ပြောင် ကာတွန်းများဖြင့် သရုပ်ဖော်ပြလေ့ ရှိကြလေသည်။ ထို့ပြင် ရုပ်ပြောင်ကာတွန်းများဖြင့်လည်း ပညာပေးလေ့ ရှိသည်။

# ၂၅၀——၂၅၀——၂၅၀

နေ့တွက် ၁၅ နှင့် ခရီးစရိတ် ပထမတန်း ၂ ဆ၊ လွှတ်တော်အမတ်ကိုယ်စီ၏အခ
















ဦးဟိန်စွန်း၏ ခေတ်မီ ရုပ်ပြောင်ကာတွန်း လက်ရာကောင်းတခု

ရုပ်ပြောင် ကာတွန်းများသည် အချိန်တချိန် အတွင်း၌ လူတို့၏ ထုံးစံဓလေ့များ၊ အပြုအမူများနှင့် နိုင်ငံရေး အခြေအနေများကို ဖော်ပြလေ့ရှိကြသဖြင့် ထို ရုပ်ပြောင်ကာတွန်းများကို အချို့က စုဆောင်းလေ့ ရှိကြသော ဝါသနာများပင် ရှိကြသည်။ ပန်းချီကျောင်းများ တွင်လည်း ရုပ်ပြောင်ကာတွန်းရေးဆွဲခြင်းကို အထူးသင်တန်းများ ပေးလေ့ ရှိကြလေသည်။

ဆေးရောင်ခြယ် နိုင်ငံရေး ရုပ်ပြောင်ကာတွန်းများသည် ဥရောပတိုက်၌ ၁၈၇၀ ပြည့်နှစ်မှ ၁၈၉၀ ပြည့်နှစ်အထိ နှစ်များအတွင်းက ခေတ်စားခဲ့သည်။ အမေရိကန်ပြည်ထောင်စုတွင် ၁၈၇၀ ပြည့်နှစ်လွန် နှစ်များမှ စတင်၍ ခေတ်စားခဲ့လေသည်။

ရုပ်ပြောင်ကာတွန်းများကို အမှီပြု၍ ကာတွန်းရုပ်ရှင်များလည်း ပေါ်ပေါက်ခဲ့သည်။ ကာတွန်းရုပ်ပြောင်များကို လူနှင့်မခြား လှုပ်ရှားလာအောင် ရုပ်ရှင်တွင် တင်ပြ အသုံးခံသည့် အရာတွင် ဝေါ့ဒစ်ဇနီသည် ကမ္ဘာပေါ်၌ အကျော်ကြားဆုံး ဖြစ်၏။ (ဒစ်ဇနီ, ဝေါလတာ အီ — ရှု။) သူ၏ မစ်ကီမောက် ကာတွန်းရုပ်ရှင်များကို ကလေးလူကြီးမဟူ နှစ်သက် ကြလေသည်။ ဒုတိယ ကမ္ဘာစစ်ကြီး အတွင်းက စိတ်ဓာတ်စစ်ဆင်ရန် အတွက်ငှင်း၊ ပညာပေးရန်အတွက်ငှင်း တွင်ကျယ်စွာ အသုံးပြုခဲ့၏။ လက်နက်ကိုင်တပ်ဖွဲ့များကလည်း လေ့ကျင့်ရေး ရုပ်ရှင်ကားများအတွက် ရုပ်ပြောင်ကာတွန်းများကို အသုံးပြုခဲ့လေသည်။

မြန်မာနိုင်ငံ၌ ထုတ်ဝေကြသော စာ၊ နယ်၊ ဇင်းများ အနက် ၁၉၁၇ ခုနှစ် မတ်လတွင် စတင် ထုတ်ဝေခဲ့သည့် သူရိယမဂ္ဂဇင်း၏ နောက်ပိုင်းမှာ ပါရှိသော "ဘကြီး မေတ္တာတုံး၏ အာဒါလ မုခဒီပနီ" အမည်ခံ ရုပ်ပြောင်ခန်း၌ မြန်မာနိုင်ငံတွင် လောလောဆယ် ဖြစ်ပေါ် နေသော တိုင်းရေး ပြည်ရေးနှင့် အခြား ထင်ရှားသော အရေးအခင်းများကို ရုပ်ပြောင်များဖြင့် ဖော်ပြခဲ့လေသည်။ ထိုအခန်းတွင် ရေးဆွဲသူများမှာ ပန်းချီဆရာ ဦးဘစိန်နှင့်ဦးဘထွန်း စသည့် ပန်းချီဆရာစုံဖြစ်၍ ထိုနောက်တွင် ရွှေတလေး အမည်ခံ ဦးဘကလေးက ပင်တိုင် ရေးခဲ့လေသည်။ (ဘကလေး၊ ဦး — လည်းရှု။) ဦးဘကလေးသည် ကာတွန်းရေးဆွဲရာတွင် ရုပ်ပုံကလည်းသရုပ်ပေါ်၊ စာသားကလည်း အချက်ကျကာ ရုပ်ပုံနှင့် စာသား ဟပ်မိအောင် ရေးဆွဲနိုင်သော နာမည်ကျော် မြန်မာ ကာတွန်းရေးဆရာ တဦးဖြစ်သည်။ ဦးဘကလေးသည် သူရိယတွင်သာမက ပညာ့အလင်း၊ ဒဂုန်၊လန်ဒန်အတ်၊ မြန်မာ့အလင်း၊ ဗန္ဓုလ၊ ဒီးဒုတ် စသောစာနယ်ဇင်းများတွင်လည်း ကာတွန်းများ ရေးဆွဲခဲ့လေသည်။ ၁၉၃၀ ပြည့်နှစ်တွင် ရန်ကုန်တိုင်းသတင်းစာ၌ ရေးဆွဲခဲ့သော နံငယ်ပိုင်းနှင့် ဂန္ဓီစတိုင် ကာတွန်းကို လန်ဒန်မြို့မှ ထုတ်ဝေသော ကမ္ဘာကျော် ရီဗျူးအော့ရီဗျူး မဂ္ဂဇင်းကြီးကပင် တဆင့် ကူးယူဖော်ပြခြင်း ခံခဲ့ရလေသည်။ ဦးဘကလေးသည် ကြော်ငြာကာတွန်းများလည်း ရေးဆွဲခဲ့၏။

ဦးဘကလေးသည် ၁၉၂၈ ခုနှစ်တွင် ကြင်စဦး ဇာတ်ကားထဲ၌ ဇာတ်ဆောင် ဦးဘကလေးက ဗလရှင်ဆေးပြား ကြော်ငြာဆိုင်းဘုတ်မှ "ဗလရှင်" ဟူသော စာလုံးများကို ကျစ်ဆံမြီးနှစ်ခုနှင့် မိန်းမပျိုတဦး၊ ယင်းအား ချော့မြှူနေသော ယောကျ်ားပျိုနှင့် ယင်းတို့၏ဘေးမှ တုတ်ဖြင့်ရိုက်မည့်ဟန် ပြုနေသော အဖိုးကြီးတို့ပုံဖြစ်အောင် ဇာတ်ဆောင် ခင်မေကြီးအား ရေးဆွဲပြခန်း ပါရှိလေသည်။

၁၉၂၅ ခုနှစ်ခန့်က ရန်ကုန် အရှေ့ပိုင်း သဟာယ ဉာဏဖယားတိုက်မှ "ရယ်ရွှင်ဘွယ်အလင်း မဂ္ဂဇင်း" ဟူသောအမည်နှင့် ငါးမူးတန် ဟာသမဂ္ဂဇင်း တစောင် ထွက်ပေါ်လာခဲ့ဘူးသည်။ ထိုမဂ္ဂဇင်းတွင် ရယ်ရွှင်ဘွယ် ကဏ္ဍပေါင်း များစွာ ပါရှိခဲ့ရာ ထိုကဏ္ဍများအတွက် တဦးတည်း လိုလို ဒိုင်ခံ၍ ရေးဆွဲပေးခဲ့သော ရုပ်ပြောင် ကာတွန်းဆရာမှာ ဦးဟိန်စွန်း ဖြစ်သည်။

ဦးဟိန်စွန်းသည် ကောလိပ်ကျောင်းသား ဘဝကပင် ကောလိပ် မဂ္ဂဇင်း၊ ဘားမားဘွိုင် မဂ္ဂဇင်းတို့၌ ရုပ်ပြောင် ကာတွန်းများရေးဆွဲခဲ့သည်။ ဦးဟိန်စွန်းသည် စာ၊နယ်၊ဇင်း

အများအပြားတွင် ရုပ်ပြောင် ကာတွန်းများ ရေးဆွဲခဲ့ရာ မြန်မာ့အလင်း သတင်းစာတွင် “အကြံပိုင်သော ငခွေး” စသော ရုပ်ပြောင်များနှင့် ဂျာနယ်ကျော်တွင် “ခေါင်းမာသော ကာတွန်းဆရာ” စသော ရုပ်ပြောင်ကာတွန်းများကိုလည်း ရေးဆွဲခဲ့သည်။

ရယ်ရွှင်ဘွယ်အလင်း မဂ္ဂဇင်းတွင် ဦးဟိန်စွန်း တွင်တွင်ကျယ်ကျယ် ရေးဆွဲနေချိန်တွင် ဦးဘဂျမ်း၏လက်ရာများကို စတင်၍ မြင်ရသည်။ (ဘဂျမ်း၊ ဦး၊ (ကာတွန်း) — ရှု။)

ဗန္ဓုလ၊ သူရိယ၊ မြန်မာ့အလင်း စသော စာ၊ နယ်၊ ဇင်းများတွင် နိုင်ငံရေးအကွက်များကို ကာတွန်းရွှေတလေးကြီးက လက်ရာ ပြောင်ပြောင် စိတ်ကူးကောင်းကောင်းဖြင့် တွင်ကျယ်စွာ ရေးဆွဲနေချိန်တွင် ဦးဘဂျမ်းသည် သူ၏ ရုပ်ပြောင် ကာတွန်းများကို တပုံထက် တပုံတွင် တိုးတက်ကောင်းမွန်အောင် ကြိုးစား၍ သူရိယမဂ္ဂဇင်း၊ ကြီးပွားရေးမဂ္ဂဇင်း စသည်တို့တွင် ရေးဆွဲခဲ့လေသည်။

မြန်မာ စာ၊ နယ်၊ ဇင်း လောက၌ ဒုတိယ ကမ္ဘာစစ်ဖြစ်ခါနီးလောက်တွင် ရုပ်ပြောင် ကာတွန်းများ ထည့်သွင်းထုတ်ဝေမှု ခေတ်စား လာသည်။ ထို ဒုတိယ ကမ္ဘာစစ်ကြိုခေတ်တွင် သူရိယ သတင်းစာမှ ဦးဘဂျမ်း၏ “ဦးဖျောက်ဆိပ်” ကာတွန်းနှင့် စစ်ပြီးခေတ် ဟံသာဝတီ သတင်းစာမှ “ချာရာဏသီ” ကာတွန်းတို့ကို လူကြိုက်များခဲ့၏။ မြန်မာတို့၏ စိတ်နေ စိတ်ထား၊ မြန်မာ့နိုင်ငံရေး အခြေအနေတို့ကို အထေ့အငေါ့ကလေးများဖြင့် သရော်ထားခြင်းဖြစ်ရာ အဓိပ္ပာယ်ပေါ် လွင်၍ထိမိလှပြီးလျှင် အကွက်ဆိုက် ခွင်ကျသည်။ သူ၏ ကာတွန်းရုပ်များကပင် အသက်ပါလှ၍ “ဦးဖျောက်ဆိပ်” သည် သတင်းစာဖတ် ပရိသတ်၏ ပျော်တော်ဆက် အချစ်တော် ဖြစ်ခဲ့၏။ စစ်ကြိုခေတ် ကြီးပွားရေးမဂ္ဂဇင်းမှ “ကိုပြူးနှင့် မပုံး”၊ စစ်ပြီးခေတ် ယုဝတီဂျာနယ်မှ “ဂွက်ထော်”၊ ရှုမဝမဂ္ဂဇင်းမှ “လိပ်ကမ္ဘာမကြီး”၊ “နှမ မှုံရောင်း မောင် မှုံထောင်း”၊ “နေကြာနန်းရှင်” အစရှိသော ရောင်စုံကာတွန်းပုံပြင်တို့သည် ကလေး ပရိသတ်များ၏ အသည်းစွဲ ဖြစ်ကြသည်။

ဦးဘဂျမ်းသည် ဟာသ ကာတွန်းများ၊ ပုံပြင် ကာတွန်းရုပ်စုံများ သာမက ကြော်ငြာ ကာတွန်းများလည်း ရေးဆွဲခဲ့၏။ ပဲရော့ ရုပ်ရှင်တွင် ပဌမဆုံး မြန်မာ ကာတွန်း ရုပ်ရှင် “အသူရာ” နှင့် “ကြက်တောင်ကွ” ဇာတ်ကားများကို စီစဉ်ရေးသား ရိုက်ကူးခဲ့လေသည်။

၁၉၄၈–၄၉ ခုနှစ်များတွင် သောင်းကျန်းမှုများကြောင့် တိုင်းပြည်အလုံး ညှိုးချုံးနေကာ ကျီးလန့်စာစား ဖြစ်နေခိုက် ပြည်သူလူထု စိတ်ဓာတ် မကျဆင်းစေရန် ဦးဘဂျမ်းသည် ကာတွန်းများ ရေးဆွဲ၍ တဖက်တလမ်းမှ ကူညီဆောင်ရွက် ပေးခဲ့လေသည်။

စစ်ပြီးခေတ်တွင် မြန်မာ စာ၊ နယ်၊ ဇင်း လောက၌ ရုပ်ပြောင် ကာတွန်းများကို ယခင်ကထက် ပိုမိုတွင်ကျယ်စွာ အသုံးပြုလာခဲ့ရာ ဦးဘဂျမ်း၊ ဦးဖေသိန်း၊ ဦးကျော်ဆန်း၊ ဦးအောင်ရှိန်၊ ဦးသန်းကြွယ်၊ ဦးစိန်၊ ဦးဗကလေး၊ ဦးဘထွေး စသည်တို့မှာ ထင်ရှားလာသော ကာတွန်းဆရာများ ဖြစ်ကြလေသည်။

**ရုပ်ရှင်။** ။ရုပ်ရှင် ဟူသည်မှာ လှုပ်ရှားနေသော လူသတ္တဝါ ဝတ္ထု သဘာဝတို့ကို အစဉ်လိုက် ဓာတ်ပုံရိုက်ကူးယူပြီးနောက် ထိုဓာတ်ပုံ ဖလင်ကော်ပြားကို အလင်း ဖြတ်သန်းသွားစေ၍ ဓာတ်ပုံ၏ အရိပ်များကို ပိတ်ကားပေါ်သို့ ကျရောက်စေခြင်းပင် ဖြစ်သည်။ အမှန်အားဖြင့် ရုပ်ရှင်သည် အရုပ်များ လှုပ်ရှားနေသည်ဟု ကြည့်ရှုသူ ပရိသတ်ထင်မှတ်အောင် ပြုလုပ်ထားသည်မှ အပ ရုပ်သေ ဓာတ်ပုံရိုက်ခြင်းနှင့် ရာခိုင်နှုန်းပြည့် နီးနီး တူသည်။

ပုံတူရိပ်များကို အဆက်မပြတ် လှုပ်ရှား၍ နေအောင် စီမံပေးမှုက ရုပ်ရှင်ဖြစ်လာအောင် ဖန်တီးပေးခြင်း ဖြစ်သည်။ အမှန်မှာ မည်သည့်ရုပ်ပုံမျှ လှုပ်ရှားနေခြင်း မရှိချေ။ လှုပ်ရှားနေသကဲ့သို့ ထင်မှတ်စေရန် ပုံတူရိပ် အသေများကို ပြစက်တွင် တခုပြီးတခု အစဉ် ဆွဲချကာ ဆလိုက်ဖြင့် ထိုးပြခြင်းပင် ဖြစ်သည်။ တနာရီလျှင် ငြိမ်သက်နေသော ရုပ်ပုံပေါင်း ၈၆,၄၀၀ မျှကို တခုပြီးတခု အဆက်မပြတ် မြင်နေရခြင်း ဖြစ်သည်။

ရုပ်ရှင်ရိုက်ကူးရာ၌ ပေ ၁၀၀ မှ ၁,၀၀၀ အထိ ရှည်သော ဖလင်ကော်ပြားများကို အသုံးပြုကြသည်။ သတင်းကား၊ မော်ကွန်းတင်ကားနှင့် ပညာပေးကားများ ရိုက်ကူးရာ၌ များသောအားဖြင့် ကင်မရာအသေးနှင့် ပေတရာ၊ နှစ်ရာ၊ လေးရာ အသီးအသီးရှည်သော ဖလင်ကို အသုံးပြုရိုက်ကူးတတ်ကြပြီးလျှင် ဇာတ်ထုပ်ကိုမူ ပေ ၄၀၀ နှင့် ၁,၀၀၀ အထိ ရှည်သောဖလင်ကို အသုံးပြု၍ ကင်မရာအကြီးဖြင့် ရိုက်ကူးကြသည်။

ဖလင်ကော်ပြားသည် အသံထွက် ရုပ်ရှင်အတွက် ပေ ၁,၀၀၀ ဖလင်လိပ်သည် အသင့်လျော်ဆုံး ဖြစ်သည်။ များသောအားဖြင့် အကျယ် ၁⅜ လက်မ (၃၅ မီလီမီတာ) ရှိသည်။အသံတိတ်ရုပ်ရှင် ရိုက်သောအခါ အကျယ် တလက်မ၊ အမြင့် ¾ လက်မအထိ ပုံတူရိုက်ယူနိုင်သည်။ အသံထွက် ရုပ်ရှင် ရိုက်ကူးသောအခါ ဖလင်၏ အနားတလျှောက်၌ အသံအတွက် နေရာထားရသဖြင့် ဖလင်၏ အကျယ် ဆယ်ပုံတပုံကို လျှော့၍ ပုံတူရိုက်ယူရသည်။ ဖလင်ကော်ပြား အနားနှစ်ဖက်တွင် လေးထောင့်အပေါက်ကလေးများ ပါရှိသည်။ အပေါက်ကလေး လေးပေါက်စာနေရာသည် ရိုက်ကွက်တကွက်စာ ဖြစ်၍ တပေလျှင် ရိုက်ကွက်၊ သို့မဟုတ် ပုံ ၁၆ ပုံ

ရိုက်နိုင်သည်။ ရုပ်ရှင်ပြသည့်အခါ တစက္ကန့်လျှင် ၂၄ ပုံပြသဖြင့် တပေခွဲကုန်သည်။

ရုပ်ရှင်ရိုက်စက်က တစက္ကန့်လျှင် ၂၄ ကွက်နှုန်းနှင့် ရိုက်လျှင် ပြစက်ကလည်း ၂၄ ကွက်နှုန်းနှင့် ပြမှ လှုပ်ရှားမှု မှန်မည်။ အကယ်၍ အနှေးသွားနေသော ယာဉ်ကို အမြန်သွားယာဉ် အဖြစ်ဖြင့် မြင်စေလိုလျှင် မူမှန် ၂၄ ကွက်ထက် လျှော့၍ ရိုက်ပြီးလျှင် မူမှန် ၂၄ ကွက်နှင့် ပြလျှင် ယခင်သွားထားသော နှုန်းထက် ပို၍ မြန်လာမည်။ ၂၄ ကွက်နှုန်းထက် ၄၈ ကွက်ပို၍ ရိုက်ပြီး ၂၄ ကွက်နှုန်းနှင့် ပြလျှင် ရုပ်ရှင်ကြည့်သူတို့ မျက်စိထဲတွင် မူမှန်ထက် နှေးသွားသည်ကို တွေ့ရပေလိမ့်မည်။ မြန်လို နှေးလိုသည်ကို ရုပ်ရှင်ရိုက်သူ၏ စိတ်ကြိုက် တွက်ချက်ရိုက်ကူးနိုင်သည်။

ဦးစွာ၌ ရုပ်ရှင်ရိုက်ရန် ဆဲလျူလွိုက် ဖလင်ကို အသုံးပြုခဲ့ကြသည်။ထိုဖလင်ကို နိုက်တြိတ်ဆေး အခံပြု၍ သုံးသည်။ နိုက်တြိတ်ဖလင်သည် မီးလောင်တတ်သဖြင့် ယခုခေတ်တွင် အက်ဆီတိတ် ဖလင်ကို အသုံးပြုကြသည်။ ရုပ်ရှင်ရိုက်ကူးသော ပဌမ ကော်ပြားကို နက်ဂတစ် ဟု ခေါ်သည်။ ထိုနက်ဂတစ်မှ ပုံတူပေါင်း မြောက်မြားစွာကို ကူးယူနိုင်သည်။ ထိုကဲ့သို့ ကူးယူသော ပုံများကို ပေါ့စတစ် ဟုခေါ်သည်။ နက်ဂတစ်မှ ပေါ့စတစ်သို့ မကူးယူမီ နက်ဂတစ်ကို သေသတ်ကျနအောင် ပြုပြင်ပေးရသည်။ ရုပ်ရှင်ဖလင်မှ ပေါ့စတစ်ကူးယူရာတွင် ရိုးရိုးဓာတ်ပုံရိုက်၍ ပုံတူရိုက်ကူးသကဲ့သို့ ဖလင်ကို ဆေးရည်စိမ်ခြင်း၊ ဆေးကြောခြင်း စသည်တို့ ပြုလုပ်ပေးရသည်။ (ဓာတ်ပုံ ပညာ — လည်းရှု။) အသံထွက် ရုပ်ရှင် ရိုက်ကူးထားသော ဖလင်ကော်ပြားကိုမူ ပေါ့စတစ်တွင် ပုံတူရိပ်ကို ပဌမ ကူးယူပြီးမှ အသံပိုင်းကို ထပ်၍ ကူးယူရသည်။ ယခုအခါတွင်မူ အသံရော ပုံကိုပါ တပြိုင်တည်း ကူး၍ ရနေပေပြီ။

ရုပ်ရှင်ကားတွင် ထူးဆန်း အံ့သြဖွယ်ကောင်းသော အခြင်း အရာများ ပေါ်ပေါက်လာအောင် ကင်မရာက ဖန်တီးပေးနိုင်သည်။ ရုပ်ရှင်ပိတ်ကားပေါ်တွင် မော်တော်ကားနှင့် မော်တော်ဆိုင်ကယ်တို့ ယှဉ်ပြိုင်၍ မောင်းနှင်နေခြင်းသည် တခါတရံ အကယ်ဖြစ်သောပုံ မဟုတ်ချေ။ ပုံစံ မော်တော်ကားနှင့် ပုံစံ မော်တော်ဆိုင်ကယ်ကို ယှဉ်ထားပြီးလျှင် နောက်ခံကားကို ရွေ့ရှားအောင် ပြုပြီး ရိုက်ကူးထားခြင်း ဖြစ်နိုင်သည်။ ရေစည်တွင် လှုပ်ရှားနေသော ပုံစံ ပင်လယ်ကူး သင်္ဘောကလေးကို အနီးမှ ဓာတ်ပုံရိုက်ကူးပေးခြင်းဖြင့် ရုပ်ရှင် ပိတ်ကားပေါ်တွင် ပင်လယ်ကူးသင်္ဘောကြီး သွားနေပုံ တွေ့မြင်ရလေသည်။ သို့ရာတွင် ပုံစံ ဆောက်လုပ်ရာ၌ စကေးကိုက် သဘာဝကျဖို့ အရေးအကြီးဆုံး ဖြစ်လေသည်။

ရုပ်ရှင်ပြရာ၌ ရုပ်ရှင်ဖလင်များကို ရုပ်ရှင်ပြစက်များ၌ ထည့်၍ ပြကြရသည်။ ရုပ်ရှင်ပြစက်ကို မီးမလောင်နိုင်သော ပြခန်းတွင် ထားပြီးလျှင် ရုပ်ရှင် ပိတ်ကားဖက် မျက်နှာမူနေသော နံရံ၌ ဖောက်ထားသည့် အပေါက်မှ အလင်းရောင်ထိုးပေး၍ ပုံတူရိပ်များကို ပိတ်ကားပေါ်သို့ ကျရောက်စေရသည်။ ရုပ်ရှင်ရုံတိုင်းတွင် ပြစက် နှစ်ခုမှ သုံးခုအထိ ရှိကြသည်။ ပြစက်တခုနှင့် ပြနေစဉ် ကျန် ပြစက်ကို ဖလင်ထည့်၍ အသင့်ပြင်ထားရသည်။

ပဌမ ပြစက်၌ ပြနေသော ဖလင်လိပ်၏ အဆုံးနားနေရာတွင် အဝိုင်း၊ သို့မဟုတ် လေးထောင့် အစရှိသည့် အမှတ်ကို ပြုလုပ်ထားသည်။ ယင်း အမှတ်ကလေးမျိုး ပဌမ ပြစက်တွင် ပြနေသောဖလင် ကုန်ခါနီး ပဌမအကြိမ် ပေါ်လာသည်နှင့် ဒုတိယပြစက်ကို စ၍ မောင်းရသည်။ သို့ရာတွင် ယင်း ဒုတိယ ပြစက်၏ ရှေ့တွင် အလိုအလျောက် ပွင့်နိုင်ပိတ်နိုင်သော ရုပ်တာက ပိတ်ထားသဖြင့် ဒုတိယ ပြစက်မှ ပုံတူရိပ်များ ပိတ်ကားပေါ်သို့ သွား၍ မထင်ချေ။ ပဌမပြစက်တွင် ယင်း အမှတ်အသားကလေးမျိုး ဒုတိယအကြိမ် ပေါ်လာလျှင် ဒုတိယ ပြစက်တံခါးကို ဖွင့်၍ ဒုတိယပြစက်မှ ရုပ်ရှင်ကားကို ဆက်လက် ပြသသွားလေသည်။ ယင်းသို့ ဒုတိယပြစက်မှ စတင်ပြသသည်နှင့် တပြိုင်နက် ပဌမ ပြစက်ရှေ့မှ ရုပ်တာခေါ် တံခါးလေးသည် အလိုအလျောက် ပိတ်သွားရာ ပိတ်ကားပေါ်၌ ပဌမ ပြစက်မှ လက်ကျန် မလိုလားအပ်သော အရုပ်ထင်ခြင်းများ မဖြစ်တော့ချေ။

ရုပ်ရှင်ပြရန်အတွက် အသုံးပြုသော အလင်းသည် အလွန်အားကြီး၍ ကြည်လင်တောက်ပရသည်။ အသံထွက် ရုပ်ရှင်ပြသရာတွင် အသံထွက်စက်ကို ပြစက်နှင့် တွဲ၍ထားရသည်။ အသံထွက်စက်မှ အလင်းသည် ဖလင်တွင်ရှိသော အသံပိုင်းကို ဖြတ်သန်း၍ ဖိုတို အီလက်ထရစ် ဆဲသို့ ရောက်ကာ ထိုဆဲတွင် လျှပ်စစ်ဓာတ်စီးကို ဖြစ်ပေါ်စေသည်။ ထိုလျှပ်စစ်ဓာတ်စီးက အသံချဲ့စက်တွင် အသံကို ထွက်ပေါ်လာစေသည်။ အသံထွက်ရုပ်ရှင် ဖလင်၏ အနားတလျှောက်၌ အသံကို သွင်းယူထားသော အမှတ်ကလေးများ ရှိသည်။ ယင်းအမှတ်ကလေးများသည် အသံကို လိုက်၍ ပုံသဏ္ဍာန်အမျိုးမျိုး ဖြစ်ကြသည်။ ဖလင်မှ ရုပ်ပုံ ရွေ့ရှားသကဲ့သို့ ရွေ့ရှားကာ ပြစက်ရှိ မီးပွင့်ကလေးတခု ရှေ့သို့ ဖြတ်၍သွားကြသည်။ထိုမီးရောင်ရှေ့သို့ အမှတ်အသားအမျိုးမျိုးရောက်ရှိလာတိုင်း ထိုအရိပ်မှ အမှတ်နှင့် လျော်ညီသော အသံမျိုးစုံထွက်လာလေသည်။ အထူးသိရှိရန် အချက်မှာ ဖလင်ကော်ပြားပေါ်တွင် ဆိုင်ရာ အရုပ်နှင့် အသံသည် တပြိုင်တည်းအကွက်ညီ ပါနေသည် မဟုတ်ခြင်းပင် ဖြစ်သည်။ ၃၅ မီလီမီတာဖလင်ဖြစ်မူ အရုပ်နှင့် အသံကို အကွက် ၂၀ နီးနီး ခွာထားရ၍ ၁၆ မီလီမီတာ ဖြစ်မူ ၂၆ ကွက် ခွာထားရသည်။

အသံကို အရုပ်ရှေ့က ကြိုထားရသည်။ အရုပ်ကွက်များ တခုနှင့်တခု အကြားတွင် ခြားထားသော ပလာကွက်များ




ဆင်၍ ရိုက်ကူးရသော ဇာတ်အိမ်ဇာတ်ကွက်တွင် မူရင်း ရိုက်ကွင်းကို ဤသို့ တစိတ်တဒေသယှဉ်တွဲ၍ အသုံးပြုရသည်။

ရှိ၍ ယင်းတို့ ပိတ်ကားပေါ်၌ မပေါ်စေရန် ပြစက်တွင် ရုပ်တာခေါ် ဖွင့်ပိတ်ကရိယာက ဖွင့်ပေး ပိတ်ပေးရသည်။ အသံကွက်တွင် ယင်းသို့ ဖွင့်ပိတ် လုပ်ပေးပါက အသံသည် ဆောင့်၍ ဆောင့်၍ ထွက်လာတတ်သဖြင့် အသံပိုင်းကိုမူ အတားအဆီးမရှိ သွားစေရသည်။ အရုပ်ပိုင်းကို ပြစက်က ဖွင့်ချည်ပိတ်ချည် ပြသွားသော်လည်း အသံပိုင်းကို တောက်လျှောက် ပြသွားရသည်။ ထိုကြောင့် အသံကို အရုပ်နှင့်တွဲ၍ ကူးယူရာ၌ သက်ဆိုင်ရာအရုပ်နှင့် သက်ဆိုင်ရာအသံကို ယှဉ်၍ ကူးယူလျှင် လှုပ်ရှားပုံနှင့် အသံထွက် အံမကိုက်ဘဲ နေသည်ကို တွေ့ရသဖြင့် ယင်းသို့ ခွာ၍ကူးရခြင်း ဖြစ်သည်။

ရုပ်ရှင်ပြသည့်အခါ အသံတိတ် ခေတ်က တစက္ကန့်လျှင် ၁၆ ပုံနှုန်းဖြင့်ရိုက်၍ ယင်းနှုန်းဖြင့်ပင် ပိတ်ကားပေါ် သို့ ထိုး၍ ပြသခဲ့သော်လည်း ယခု အသံထွက်ခေတ်တွင် တစက္ကန့်လျှင် ၂၄ ပုံနှုန်း ရိုက်၍ ယင်းနှုန်းဖြင့်ပင် ပြသလေသည်။ တပုံနှင့်တပုံ စပ်ကူးမကူးတွင်ပင် ကြည့်ရှုသူတို့ မျက်စိထဲတွင် ပြတ်မသွားဘဲ တဆက်တည်း ဖြစ်နေသည်ဟု ထင်ကြခြင်းမှာ အရာဝတ္ထုတခုသည် မျက်စိရှေ့မှ ပျောက်သွားပြီးနောက် အချိန်အနည်းငယ် ကြာသည်တိုင်အောင် ထိုပုံသဏ္ဌာန်သည် မျက်စိထဲ၌ စွဲမြဲ ကျန်ခဲ့သောကြောင့် ဖြစ်သည်။ အရုပ်ပုံသဏ္ဌာန်သည် ရှေ့မှောက်မှ ကွယ်ပျောက်သွားပြီးနောက် တစက္ကန့်၏ ဆယ်ပုံတပုံမျှ မျက်စိအာရုံထဲတွင် စွဲ၍ နေရစ်ကြောင်းကို ၁၈၂၄ ခုနှစ်တွင် ပီတာ မတ်ရော့ဂျက် ဆိုသူက လေ့လာပြီးနောက် မှန်ကန်ကြောင်း တင်ပြခဲ့ဘူးသည်။

ရုပ်ရှင်သည် ၁၉ ရာစုနှစ်ဝက်ခန့်က စတင် ပေါ်ပေါက်လာသော ပညာတရပ် ဖြစ်သည်။ ကျွန်ုပ်တို့ ယနေ့ ကြည့်ရှုလျက်ရှိသည့် ရုပ်ရှင်ကားများ ဖြစ်ပေါ် လာရန်အတွက် လွန်ခဲ့သော နှစ်ပေါင်း တရာကျော်မှစ၍ ပညာရှင် အသီးအသီးတို့သည် အခက်အခဲ အမျိုးမျိုးကြားမှ အစဉ်တစိုက်ကြိုးစားတီထွင်လာခဲ့လေသည်။ဦးစွာ၌ ရုပ်ရှင်ကိုအပေါစားစိတ် ဖျော်ဖြေမှုတခုအဖြစ် သဘော ထားခဲ့ကြသော်လည်း ရုပ်ရှင်သည် ခေတ်ကို မည်မျှ လွှမ်းမိုးနိုင်သော ပညာတရပ်ဖြစ်ကြောင်းကို ယခုအခါ လူတို့ သိရှိခဲ့ကြလေပြီ။ 'အစ်ဟက်ပင်းဝမ်းနိုက်'အမည်ရှိရုပ်ရှင်ကားတွင် ရုပ်ရှင်မင်းသား ကလပ်ဂေဗယ်သည် ရှပ်အင်္ကျီကို ချွတ်လိုက်သောအခါ အတွင်းက စွပ်ကျယ်မပါသည်ကို တွေ့ရှိကြရသည်နှင့် အတွင်းခံစွပ်ကျယ်များ သိသိသာသာ အရောင်း ကျသွား ခဲ့ဘူးလေသည်။

ရုပ်ရှင်သည် အနုပညာရပ်များအနက် အသက်အငယ်ဆုံး သော ပညာရပ် ဖြစ်လင့်ကစား ယခုအခါ အကြီးကျယ်ဆုံး သော လုပ်ငန်းတရပ် ဖြစ်နေလေပြီ။

၁၈၆၀ ပြည့်နှစ်တွင် ဇိုးထရုပ်၊ ၁၈၇၇ ခုနှစ်တွင် ပရက်ဇီနိုစကုပ် စသော အရုပ်များ လှုပ်ရှားပုံ ကြည့်ရှုရသည့် စက်များကို အဆင့်ဆင့် တီထွင် ခဲ့ကြသည်။ ၁၈၆၁ ခုနှစ်တွင် ဖီလဒဲလဖီးယားမြို့မှ ကိုးလမင်း ဆဲလား ဆိုသူသည် ကီနီမာတိုဂရပ်ခေါ် စက်တမျိုးကို ထွင်ခဲ့ပြန်သည်။ ဂရိ စကား လှုပ်ရှားသည်၊ ရွေ့ရှားသည် ဟူသော အဓိပ္ပာယ် ရသည့် စကားလုံးကို သုံးထားခြင်း ဖြစ်၍ ယခု ကျွန်ုပ်တို့ ခေတ်ရုပ်ရှင်ကို ခေါ်ဝေါ်သော စီနီမာဟူသည့် စကားနှင့် အနီးစပ်ဆုံး ဖြစ်သည်။ စက်ပြုလုပ်ထားပုံ သဘောမှာ အနေအထား အနည်းငယ်စီ ကွာသော ဓာတ်ပုံများကို ဘီးတဘီး၏ မျက်နှာစာတွင် တပ်ဆင်၍ ဘီးကို လှည့်သော နည်းဖြင့် လှုပ်ရှားနေသော ပုံကို ပြသခဲ့ခြင်း ဖြစ်သည်။

ရုပ်ရှင် လုပ်ငန်းသည် ဓာတ်ပုံပညာကို အမှီပြု၍ ပိုမိုတိုး တက်လာခဲ့သည်။ ၁၈၃၀ ပြည့်နှစ်တွင် ဓာတ်ပုံပညာ တီထွင်နိုင်ခဲ့သည်မှစ၍ ဓာတ်ပုံများကို လှုပ်ရှားအောင် (ဝါ) အရုပ်များ ရှင်နေအောင် လုပ်နိုင်သည့်နည်းကို အမျိုးမျိုး စမ်းသပ် လုပ်ခဲ့ကြသည်။ ၁၈၇၂ ခုနှစ်တွင် အမေရိကန် ပြည်ထောင်စု ကာလီဖိုးနီးယားပြည်နယ် ဘုရင်ခံ လယ်လန် စတန်းဖို့နှင့် ပုဂ္ဂိုလ် အချို့သည် မြင်းပြေးသည့်အခါ ခြေ လေးချောင်းစလုံး မြေမှလွတ်သည့်အချိန် ရှိ မရှိ အငြင်းပွား ခဲ့ကြသည်။ ယင်းအငြင်းပွားမှုကို အက်ဒွိယတ် မိုင်းဗရစ် ဆိုသူ အင်္ဂလိပ် ဓာတ်ပုံဆရာအား ဓာတ်ပုံရိုက်၍ မျက်မြင် ဖြေရှင်းပေးရန် တောင်းပန်ကြသည်။ ထိုအခါ မိုင်းဗရစ် သည် ဂျွန် ဒီ အိုင်ဇက် ဆိုသူ အင်ဂျင်နီယာကလေးတဦး၏ အကူအညီဖြင့် မြင်းပြေးမည့် လမ်းတလျှောက်ကို ကင်မရာ ၂၄ လုံး တန်း၍ ချိန်ထားပြီးလျှင် ကင်မရာရှပ်တာ တခုစီမှ မြင်း ပြေးသည့်လမ်းကို ဖြတ်၍ တဖက်ရှိ ဝင်းထရံသို့ ကြိုးများ သွယ်ထားရာ မြင်းသည် ထိုလမ်းတလျှောက် ပြေး စဉ် ကြိုးများကို တိုး၍ သွားရသဖြင့် ဓာတ်ပုံရိုက်ပြီးသား ဖြစ်သွားလေသည်။ ကင်မရာ ၂၄ လုံးမှ ဓာတ်ပုံ ၂၄ ပုံအစဉ် လိုက် ရိုက်ပြီး ဖြစ်ခဲ့ရာ အချို့ပုံ၌ မြင်းသည် မြေကြီးမှ ခြေ လေးချောင်းစလုံး လွတ်သွားသည်ကို တွေ့ရလေသည်။ ယင်းသို့ဖြင့် မိုင်းဗရစ်၏ စမ်းသပ်မှုသည် ကျော်ကြားလာ လေသည်။

၁၈၈၉ ခုနှစ်တွင် တောမတ် အက်ဒီဆင်သည် ကီနီတိုဂရပ် နှင့် ကီနီမာစကုပ်ခေါ် စက်နှစ်ခုကို တီထွင် ပြုလုပ်လေသည်။ ကီနီတိုဂရပ်သည် ဓာတ်ပုံရိုက်သော စက်တမျိုး ဖြစ်၍ ကီနီ မာစကုပ်သည် ယင်းသို့ ရိုက်ထားသော ပုံများကို ကြည့်ရှု ရသည့်စက် ဖြစ်သည်။ ထိုစက်တွင် မှန်ဘီလူး တပ်ထား သည့် အပေါက်ငယ် ပါရှိပြီးလျှင် ထိုအပေါက်မှ ကြည့် လျှင် ရုပ်ရှင်ကားများကို မြင်နိုင်လေသည်။ ယင်း အချိန် တွင် ဖလင်လိပ်များလည်း ပေါ်ပေါက်နေခဲ့ရာ ရုပ်ရှင်ကား ရိုက်ရန် အဆင်သင့်ပင် ဖြစ်ခဲ့သည်။

ရုပ်ရှင်နှင့် စပ်လျဉ်းသော ကရိယာ တန်ဆာပလာများ ကို နိုင်ငံ အသီးအသီးမှ တီထွင်လုပ်ကိုင်ခဲ့ကြသည်။ အင်္ဂ လန်ပြည်မှ ရောဗတ်ပေါ၊ ပြင်သစ်နိုင်ငံမှ ပါသီနှင့် လူမဲ့ ညီ နောင်တို့သည် အပါအဝင်ဖြစ်သည်။ လူမဲ့ညီနောင်တို့သည် ၁၈၉၆ ခုနှစ်တွင် ရုပ်ရှင်ပြစက်တခုကို တီထွင်နိုင်ခဲ့သည်။ ထို ရုပ်ရှင်ပြစက်ဖြင့် ပုံတူရိပ်၏ အရွယ်ကို အဆပေါင်း သုံး သောင်းငါးထောင်ခန့် ပို၍ ကြီးမားအောင် ချဲ့ယူနိုင်သည်။ ရုပ်ရှင်ရိုက်ရာ၌လည်း တစက္ကန့်လျှင် ဖလင်ကော်ပြား တပေ အရှည်ပေါ်တွင် ပုံပေါင်း ၁၆ ပုံ ရိုက်နိုင်သည်။ လူမဲ့ညီ နောင် အလျှင် ၁၈၉၄ ခုနှစ်ကလည်း အမေရိကန် ပြည် ထောင်စု ဝါရှင်တန်မြို့တော်မှ ငွေတိုက်ဌာနစာရေး စီ ဖရန်း ဆစ် ဂျင်းကင်း ဆိုသူသည် ပဌမဆုံးသော ရုပ်ရှင်ပြစက် တခုကို တီထွင်လုပ်ကိုင်ခဲ့ရာ မျက်မှောက်ခေတ် ရုပ်ရှင်ပြ စက်များသည် ယင်းစက်ကို အခြေခံ၍ တိုးတက်လာလေ သည်။ ၁၈၉၆ ခုနှစ်တွင် တောမတ် အက်ဒီဆင်ကလည်း ဗီတာစကုပ်ခေါ် ရုပ်ရှင်ပြစက်တခုကို တီထွင်နိုင်ခဲ့သည်။

ထိုစဉ်က ပြသသောဖလင်များသည် ယခုခေတ် ဖလင် များကဲ့သို့ ရှည်လျားခြင်း မရှိ၊ ရုပ်ရှင်ကိုလည်း သီးခြား ပြသခြင်းမရှိဘဲ ကပွဲများတွင် သတင်းရုပ်ရှင်ကားများကို အခန်းတခန်း အစီအစဉ်တရပ် အနေနှင့်သာ ကြားချပ် ပြသကြခြင်း ဖြစ်သည်။ ရုပ်ရှင်လောကတွင် ကောဗက်-ဖစ် ဇီမွန်တို့၏ လက်ဝှေ့ပွဲ သတင်းကားသည် ပဌမဦးဆုံးသော ရုပ်ရှင်ကား ဖြစ်သည်။ ထိုရုပ်ရှင်ကားကို ၁၈၉၇ ခုနှစ်တွင် စတင်ပြခဲ့သည်။

**အသံတိတ်ရုပ်ရှင်**

ရုပ်ရှင်ကားများကို ရိုက်ကူးပြသစက ရှုမြော်ခင်းများ၊ ကလေးများ ကစားနေကြပုံများ၊ ကမ်းစပ်ကို လှိုင်းရိုက်ခတ် ပုံများ စသည်ဖြင့် သာမန်လှုပ်ရှားဟန်ကိုသာ ရိုက်ကူးလေ့ ရှိသော်လည်း တဖြည်းဖြည်း ဇာတ်လမ်း ဇာတ်ကွက်နှင့် ရုပ်ရှင်များကို တီထွင်ရိုက်ကူးခဲ့ကြသည်။

ပဌမဆုံး ဇာတ်လမ်းနှင့် ရိုက်ကူးသော ရုပ်ရှင်ကားမှာ “အမေရိကန် မီးသတ်သမား ဘဝ” အမည်ရှိသော ကား ဖြစ်သည်။ ပြင်သစ်နိုင်ငံမှ ဂျော့မဲလီ ဆိုသူသည် ၁၉၀၂ ခု နှစ်ခန့်က “လဗိမာန်သို့ ခရီးတခေါက်”၊ “နာတာလူးပွဲ အိပ်မက်”၊ “ဆင်ဒရဲလား”စသော ရုပ်ရှင်ဇာတ်ကားများကို ရိုက်ကူးခဲ့သည်။ ၁၉၀၃ ခုနှစ်တွင် အက်ဒွင် အက် (စ) ပေါ် တာ ဆိုသူသည်“မီးရထား ဓားပြမှုကြီး”ခေါ် ရုပ်ရှင်ကားကို ရိုက်ကူးခဲ့သည်။ ယင်းသည် ယခုခေတ် အမေရိကန် နွား

ကျောင်းသား ဇာတ်လမ်းများတွင် တွေ့မြင်ရသော လှုပ်ရှားမှုမျိုးကို ပဌမဆုံး မြင်တွေ့ရသော ရုပ်ရှင်ကား ဖြစ်သည်။ ယခင့် ယခင်က အမေရိကန် ဇာတ်ကားများကို အဝေးမှသာ ရိုက်ကူးလေ့ရှိသောကြောင့် ဇာတ်လိုက်မင်းသား မင်းသမီး မည်သူမည်ဝါဟု မသိနိုင်ချေ။ မီးရထား ဓားပြမှုကြီး ဇာတ်ကားမှ အစပြု၍ အနီးကပ် ရိုက်ကူးကာ ဇာတ်လိုက်အမည်များကိုလည်း ထုတ်ဖော် ကြေညာသည်။ ထိုဇာတ်ကားမှစ၍ ဇာတ်လိုက်စနစ် ပေါ်ပေါက်ခဲ့သည်။

ဇာတ်လိုက်များကို သဘောကျကြသဖြင့် ဇာတ်ကားကို လူကြည့်များခြင်းကြောင့် ဇာတ်လိုက်များ အရေးပါလာလေသည်။ ရုပ်ရှင်ခေတ်ဦးတွင် ရုပ်ရှင်မင်းသမီး မေရီ ပစ်ကဖို့အား ရုပ်ရှင်ဝါသနာအိုးများသည် အမည်မသိကြသေးသဖြင့် ရွှေဝါဆံနွယ်နှင့် မိန်းကလေးဟူ၍သာ အမှတ်ထားကြသည်။ ၁၉၁၂ ခုနှစ်တွင် ရိုက်ကူးသော "သ နယူးယော့ဟက်" ဇာတ်ကားတွင်မှ သူ့အမည်ကို ထုတ်ဖော် ကြေညာရလေသည်။

ရုပ်ရှင်ပေါ်စက ရုပ်ရှင်ပြသူများသည် ရုပ်ရှင်ရုံကို ဖြစ်သလို ဆောက်ထားသော ရွက်ထည်တဲများ၊ စတိုခန်းလွတ်များ၌သာ ပြသခဲ့ကြ၏။ ရုပ်ရှင်ကားများသည် ဇာတ်လမ်းပါလာသဖြင့် ဇာတ်ကား ရှည်လာသည့်အလျောက် ရုပ်ရှင်ပြရန် ရုံသက်သက် ဆောက်၍ ပြသနိုင်ရန်ကြိုးစားကြသည်။ ပဌမဆုံး ရုပ်ရှင်ရုံကို အမေရိကန် ပြည်ထောင်စု ပင်ဆီလဗေးနီးယားပြည်နယ် ပစ္စဗတ်မြို့၌ ဖွင့်လှစ်ခဲ့သည်။ ရုံကိုကျကျနန ဖွင့်လှစ်၍ ဝင်ကြေး ငါးဆင့်နှင့် ဝင်ခွင့်ပေးသည်။ ထိုကြောင့် ငါးဆင့်ရုပ်ရှင်ရုံဟုတွင်သည်။ သုံးနှစ်ခန့် ကြာသောအခါ ငါးဆင့်ရုပ်ရှင်ရုံ တသောင်းကျော် ရှိနေလေပြီ။ လန်ဒန်မြို့၌လည်း ပစ္စဗတ်မြို့နှင့် တနှစ်တည်း၌လိုပင် ရုပ်ရှင်ရုံ ပေါ်ပေါက်ခဲ့သည်။ ၁၉၁၄ ခုနှစ်ခန့်တွင် ဗြိတိန်တနိုင်ငံလုံးရှိ မြို့ကြီးများ၌ ရုပ်ရှင်ရုံ တရုံစီ ရှိပြီးဖြစ်သည်။

ရုပ်ရှင်လုပ်ငန်းဖြင့် စီးပွား ဖြစ်နိုင်သည်ကို သိမြင်လာကြသောအခါ အဒေါ့ ဇူးကော၊ ကား လီမ်မလီ၊ ဝီလျံ ဖော့၊ ဆယ်လဇနစ်၊ ဝါးနား ညီနောင်တို့သည် ရုပ်ရှင်လုပ်ငန်းကို အရင်းအနှီးနှင့် လုပ်ကိုင်လာကြသည်။ ရုပ်ရှင်ရိုက်ရန် စတူဒီယိုရုံကြီးများ တည်ဆောက်၍ အကျအန ရိုက်ကူးလာကြသည်။ ၁၉၀၈ ခုနှစ်ခန့်တွင် တနှစ်လျှင် ရုပ်ရှင်ကားပေါင်း ရာနှင့်ချီ၍ ရိုက်ကူးပြသနိုင်သည့် အခြေသို့ရောက်လာသည်။ ၁၉၁၀ ပြည့်နှစ်တွင် အမေရိကန် ရုပ်ရှင် လုပ်ငန်းသမားများသည် ကာလီဖိုးနီးယားပြည်နယ်၏ ရာသီဥတုနှင့် ဒေသ အခြေအနေကို ရုပ်ရှင်လုပ်ငန်းအတွက် အလွန်ကြိုက်နှစ်သက်ကြသဖြင့် ယင်းဒေသတွင် အခြေစိုက် လုပ်ကိုင်ခဲ့ကြရာ လော့စိန်းဂျလီး မြို့အနီး ဟောလီဝု ရုပ်ရှင်မြို့တော် ဟူ၍ ယခုအခါ ကျော်ကြားလျက် ရှိလေသည်။

ထိုသို့ ရုပ်ရှင်လုပ်ငန်း တိုးတက်လာသည့် အချိန်အထိပင် သဘင်သည်များသည် ရုပ်ရှင်အလုပ်ကို အတန်းအစား နိမ့်သည်ဟု ယူဆနေကြသည့် အလျောက် ရုပ်ရှင်နယ်ထဲသို့ ဝင်ရောက်လုပ်ကိုင်ခြင်း မပြုကြချေ။ ၁၉၁၂ ခုနှစ်တွင် ပြင်သစ်လူမျိုး အဒေါ့ ဇူးကောသည် ထိုခေတ်က အလွန်ကျော်ကြားလှသော ဇာတ်မင်းသမီးကြီး ဆာရာဗန်းဟတ်ကို "အယ်လစ်ဇဗတ်ဘုရင်မ" ဇာတ်ကားတွင်ခေါင်းဆောင်ပါဝင်စေသည်။ ထိုဇာတ်ကားကို ဥရောပနိုင်ငံများ၌သာ မက အမေရိကန်ပြည်ထောင်စုသို့ပင်တင်ပို့ပြသရာလူကြိုက်အလွန်များသည်။

ဇာတ်လမ်း ဇာတ်ကွက်နှင့် ပေရှည်သော ဇာတ်ကားများသာမက ကြီးကျယ်ခမ်းနားသော ဇာတ်ကားများကိုလည်း ရိုက်ကူးလာကြသည်။ ၁၉၁၂ ခုနှစ်တွင် ပေ ရှစ်ထောင်ကျော် ရှည်လျားသော 'ကို ဗားဒစ်' ဇာတ်ကားကြီးကို ဣတလီနိုင်ငံမှ ရိုက်ကူးသည်။ ယင်းဇာတ်ကားသည် ကြီးကျယ်ခမ်းနားမှုတွင် ရှေ့ဆောင်ဟု ဆိုလောက်သည်။

၁၉၁၃ ခုနှစ်တွင် ကို ဗားဒစ်ကို အမေရိကန် ပြည်ထောင်စု၌ ပြသပြီးနောက် အမေရိကန် ရုပ်ရှင်ကုမ္ပဏီကြီးများသည် ကြီးကျယ်ခမ်းနားသောကားများကို ရိုက်ကူးလာကြသည်။ ၁၉၁၅ ခုနှစ်တွင် အမေရိကန် ရုပ်ရှင် ဒါရိုက်တာ ဒီ ဒဗျူ ဂရစ်ဖစ်သည် ငွေကို ရေလိုသုံးကာ အလွန်ကြီးကျယ် ခမ်းနားလှသော "သ ဗတ် အော့ အ နေးရှင်း" ဇာတ်ကားကို ရိုက်ကူးသည်။ ငွေကုန်သလောက် ဝင်ငွေရသော ဇာတ်ကား ဖြစ်သည်။ ဇာတ်လမ်းဇာတ်ကွက် သရုပ်ဖော်ရာ၌ ကင်မရာလှည့်စား ရိုက်ကူးမှု အမျိုးမျိုးကို သုံးထားသည်။ ဇာတ်လိုက်များ၏ ဟန်အမူအရာသည်လည်း ယခင်ကကဲ့သို့ ဇာတ်ဟန်မပါဘဲ သဘာဝကျကျ အမူအရာမျိုးသို့ တိုးတက်လာကြသည်။

ကြီးကျယ်ခမ်းနားသော ရုပ်ရှင်ကားများကို ရုပ်ရှင်ကြည့်ပရိသတ်က စိတ်ဝင်စားနေစဉ် ကာလီဖိုးနီးယား ပြည်နယ်မှ မက်ဆင်းနက်သည် ဟာသရုပ်ရှင်ကားရှည်များကို ရိုက်ကူး၍ ပြသသည်။ ယခင်က ဟာသဇာတ်ကားများကို ဇာတ်လမ်းတိုများသာ ရိုက်ကူးခဲ့ရာမှ ဂရစ်ဖစ်၏ ကြီးကျယ်ခမ်းနားသော ဇာတ်ကားကြီးများ၏ စံချိန်ကို ချိုးနိုင်ရန် ချာလီ ချက်ပလင်နှင့် မာရီ ဒရက်ဆလာတို့ပါဝင်သော "တီလီ၏ ချစ်ကိစ္စ" ဟာသဇာတ်ကားရှည်ကို ရိုက်ကူးသည်။ ဂရစ်ဖစ်၏ ဇာတ်ကားများ နည်းတူ ဟာသဇာတ်ကားရှည်များသည်လည်း ခေတ်စားလာသည်။ ၁၉၁၄ ခုနှစ်မှ စတင်၍ ရုပ်ရှင်နယ်ထဲသို့ ဝင်ခဲ့သူ ချာလီ ချက်ပလင်သည် ၁၉၁၆ ခုနှစ်ခန့်တွင် ရုပ်ရှင်ပရိသတ်၏အချစ်တော် မေရီ ပစ်ကဖို့နှင့် တန်းတူ ကျော်ကြားလာသည်။ တကမ္ဘာလုံး သူ့ကို မသိသူ မရှိသလောက် ဖြစ်လာလေသည်။ (ချက်ပလင်၊ ချာလီ — လည်းရှု။)

ပဋမကမ္ဘာစစ် အတွင်းက ရုပ်ရှင်သည် အလွန် အရေးပါ အရာရောက်ခဲ့သည်။ ရန်သူများအပေါ် အမုန်းစိတ်၊ ခံ တိုက်လိုစိတ် ပွားအောင်ရင်း၊ မိမိလူမျိုးနှင့် နိုင်ငံအပေါ် ချစ်စိတ်ပွားအောင်ရင်း ရုပ်ရှင်ဖြင့် စိတ်ကို နှိုးဆွပေးသည်။ ပဋမကမ္ဘာစစ် အတွင်းက အမေရိကန် ရုပ်ရှင်လုပ်ငန်း အလွန် တိုးတက်နေသလောက် ဥရောပတိုက် ရုပ်ရှင်လုပ်ငန်း အခြေအနေ နိမ့်ဆင်းသွားသည်။ စစ်ပြီးခေတ်တွင် အခြား ဥရောပနိုင်ငံများမှ ရုပ်ရှင်လုပ်ငန်းများသည် ဘဏ္ဍာချို့တဲ့မှု ကြောင့် နာလန်ထူ နှေးခဲ့သော်လည်း ဂျာမန်ရုပ်ရှင်လုပ် ငန်းမှာမူ အစိုးရ၏ အကူအညီကြောင့် အမေရိကန်ရုပ်ရှင် များ၏ လွှမ်းမိုးလာမှုကို တွန်းလှန်နိုင်ခဲ့လေသည်။

အမေရိကန် ရုပ်ရှင်သမားများသည် အထက်တန်းလွှာမှ ဖြစ်ရပ်များ၊ သမ္မာကျမ်းထွက် ခမ်းနားကြီးကျယ်သော ဇာတ်ကားများ၊ အမေရိကန် အနောက်ပိုင်း ဒေသ အ ကြောင်းကို အခြေပြုထားသော ဇာတ်ကားများကို ငွေ ကုန်ခံ၍ ကျကျနန ရိုက်ကူးပြသရာ အမေရိကန်မှသာမက ဥရောပ အကဲဖြတ်များကပင် ချီးကျူးကြရသည်။ ဂျာမန် တို့သည် ရာဇဝင်သမိုင်းဇာတ်ကား၊ စိတ္တဗေဒဇာတ်ကားတို့ ဖြင့် စစ်ပြီးခေတ် ရုပ်ရှင်လုပ်ငန်းကို နာလန်ထူအောင် ဆောင်ရွက်ကြသည်။

အမေရိကန် ရုပ်ရှင်ကားများကိုယှဉ်ပြိုင်၍ အနိုင်လိုက်နိုင် သော ထိုခေတ်က ဂျာမန်ရုပ်ရှင်ကားများမှာ ကမ္ဘာ့ရုပ်ရှင် သမိုင်းတွင် မော်ကွန်းတင်လောက်သည့် "သကဲဗိနက် အော့ ဒေါက်တာ ကဲလီဂါရီ"(၁၉၂၀)၊ "ဝါးနင်းရှဲဒိုး"(၁၉၂၂)၊ "ဝက်စဝပ်" (၁၉၂၄)၊ "ပရာဟမြို့မှ ကျောင်းတော်သား" (၁၉၂၅-၂၆) တို့ဖြစ်ကြသည်။ ဂျာမန်တို့သည် စိတ္တဗေဒ ဆန်သော ဇာတ်ကားများအပြင် ဗိသုကာပညာကို အသား ပေး ရိုက်ကူးသော "ကံကြမ္မာ" (၁၉၂၁)၊ "သ နီး ဗလွန်း"(၁၉၂၃-၂၄)နှင့် "မက်ထြိုပိုလစ်" (၁၉၂၆) ဇာတ် ကားကြီးများကိုလည်း ရိုက်ကူးသည်။ ယင်း ရုပ်ရှင်ကား များသည် ရိုက်ကူးပုံ စိန့်စနစ် ဆန်းသစ်သော ဇာတ်ကားများ ဖြစ်ကြသည်။ ဝေးရာမှ တဖြည်းဖြည်း နီးလာအောင် ကင် မရာကို ရွှေ့ရှား၍ ရိုက်ကူးခြင်းသည် ဇာတ်လမ်း ဇာတ်ကွက် ပို၍ လေးနက်စေသည် ဟု ဂျာမန်ဒါရိုက်တာကြီးတို့က ယူဆ သည့်အလျောက် ယင်းနည်းကို အလွန် အသုံးပြုလေ့ ရှိ ကြသည်။

ဥရောပတွင် ရုပ်ရှင်လုပ်ငန်း၌ ဂျာမန်တို့နှင့် မနီးရှိုးစွဲ လိုက်နိုင်သော နိုင်ငံမှာ ပြင်သစ်နိုင်ငံဖြစ်သည်။ ၁၉၂၀ ပြည့် နှစ်ကျော် နှစ်များ၌ အဆင့်အတန်း ကောင်းသော ပြင်သစ် ဇာတ်ကားများမှာ "ဂျက်ကျူ" (၁၉၁၉)၊ "လာရွေး" (၁၉၂၀)၊ "နပိုလီယန်" (၁၉၂၇) နှင့် "ဣတာလျံ မြက် ဦးထုပ်" (၁၉၂၈) တို့ဖြစ်ကြသည်။ အားဗယ် ဂန့်၊ ဇက် ဖေ ဒါ၊ ကဗယ်ကန်တီ၊ ဂျီအင်းရနွား၊ ဇူး ဒျူဗီဗီယေးနှင့် ရနေး ကလဲတို့သည် ကျော်ကြားသောပြင်သစ်ဒါရိုက်တာကြီးများ ဖြစ်ကြသည်။ ဆွီဒင်၊ ဖြိတိန်စသော နိုင်ငံများမှလည်း အန် တိုနီ အက်စကွစ်၊ ဗစ်တာ ဆီးစထရွမ်း၊ မောရစ္စ စတီးလာ၊ စီစီ ဟက်ပဝပ်၊ အဲလဖရက် ဟစ်ချကော့ စသော ဒါရိုက်တာ အကျော်အမော်ကြီးများ ထွန်းကားခဲ့သည်။

ကမ္ဘာ့အရပ်ရပ်တွင် အမေရိကန် ရုပ်ရှင် ကားများ အလွန်ခေတ်စား လူကြိုက်များလာသည်ကို ကာကွယ်ရန် ဥရောပနိုင်ငံများသည် ဆွေးနွေးကြပြီးနောက် အမေရိကန် ရုပ်ရှင်ကားများ အရေအတွက် ကန့်သတ်သွင်းရန် ဆုံးဖြတ် ကြသည်။ ထိုအခါ အမေရိကန် ရုပ်ရှင်လုပ်ငန်း၌ အတော် ထိခိုက်လာသဖြင့် အမေရိကန် ရုပ်ရှင်ကုမ္ပဏီများသည် မိမိ တို့ ရုပ်ရှင်ကားများကို နိုင်ငံခြားသားများ လိုလိုလားလား ရှိလာစေရန် ဥရောပတိုက်မှ ရုပ်ရှင်ပညာသည်များကို ငွေ ကြေးကောင်းကောင်း၊ အခွင့်အရေး ကောင်းကောင်းပေး ကာ ခေါ်ယူသည်။ ဆွီဒင်မှ ဒါရိုက်တာ ဆီးစထရွမ်းနှင့် စ တီးလာ၊ ဂျာမနီမှ အန်စ လျူဗစ်ရှ၊ မာနောင်း၊ ပေါ် လီနီ စ သော ဒါရိုက်တာကြီးများနှင့် ကွန်းရတ်ဗိတ်၊ အေမီး ဂျန်း နင်း၊ ပိုလာ နီဂရီ စသည့် ဇာတ်လိုက်ကြီးများ အမေရိကန် နိုင်ငံသို့ ရောက်လာသည်။

ဆိုဗီယက်ရုရှ နိုင်ငံတွင် ၁၉၁၇ ခုနှစ် တော်လှန်ရေး အ တွင်းက ရုပ်ရှင်သည် ဝါဒဖြန့်ရန် အကောင်းဆုံး ဖြစ်သည်ကို သိရှိသည်အလျောက် ရုပ်ရှင်လုပ်ငန်းကို ပြည်သူပိုင် လုပ် ကာ ဝါဒဖြန့်လုပ်ငန်း လုပ်ကိုင်သည်။ သို့ရာတွင် ဒါရိုက်တာ ကြီး အိုင်ဆင်စတိုင်း၏ "ပိုတင်မကင် စစ်သင်္ဘောကြီး" (၁၉၂၅)၊ တော်လှန်ရေး သရုပ်ဖော် "အောက်တိုဘာလ"၊ သို့မဟုတ် "ကမ္ဘာကို တုန်လှုပ်စေသော ဆယ်ရက်" (၁၉၂၇-၂၈)နှင့် "သ ဂျင်နရယ်လိုင်း" (၁၉၂၉)ဇာတ်ကား တို့သည်၎င်း၊ ဒါရိုက်တာ ပူဒေါ့ကင်၏ "အမေ" (၁၉၂၆)၊ "စိန့်ပီတာစဗတ် မြို့တော်၏ ဇာတ်သိမ်း" (၁၉၂၇)၊ "အာရှ တခွင်မှ မုန်တိုင်း"(၁၉၂၈) ဇာတ်ကားတို့သည်၎င်း၊ ဒါရိုက် တာကြီး တျူရင်၏"တပ်ကဆစ်"(၁၉၂၈)ဇာတ်ကားသည် ၎င်း၊ ဒါရိုက်တာကြီး ဒေါ်ဂျင်ကို၏ "လက်နက်တိုက်" (၁၉၂၉) ဇာတ်ကားသည်၎င်း အလွန် အဆင့်အတန်းမြင့် သော ဇာတ်ကားများ ဖြစ်ကြသည်။

ပဋမကမ္ဘာစစ် အတွင်းနှင့် စစ်ပြီးခေတ်တွင် ရုပ်ရှင်သည် အနောက်နိုင်ငံများ၌ သာမက အရှေ့နိုင်ငံများသို့လည်း ရောက်လာသည်။ ၁၉၁၂-၁၃ ခုနှစ်များတွင် အိန္ဒိယနိုင်ငံ၌ ရုပ်ရှင်လုပ်ငန်း အခြေစိုက်စ ပြုပြီးဖြစ်သော်လည်း အိန္ဒိယ နိုင်ငံ၏ ဇာတ်စံနစ်ကြောင့် ရုပ်ရှင်မင်းသား မင်းသမီး ရရှိနိုင် ရန် ခက်ခဲမှုသည် လုပ်ငန်း တိုးတက်ရေးအတွက် အတား အဆီး တခု သဖွယ် ဖြစ်ခဲ့သည်။ ထိုကြောင့် ၁၉၂၀ ပြည့်

နှစ်တွင်မှ စတင်ပျိုးထောင်ခဲ့ရသော မြန်မာရုပ်ရှင်လောကမှ ပညာသည်များထက် နိမ့်ကျနေသေးခြင်း ဖြစ်သည်။

မြန်မာနိုင်ငံတွင် ဗိလတ်သွား မြန်မာကိုယ်စားလှယ်ကြီး ဦးထွန်းရှိန်၏ ဈာပန အခမ်းအနား သတင်းကားကို လန်ဒန်အတ် ဦးအုန်းမောင်က ပဌမဆုံး စမ်းသပ် ရိုက်ကူး၍ ၁၉၂၀ ပြည့်နှစ်တွင် ရန်ကုန်မြို့ စီနီမာ ဒီပဲရစ်ရုံတွင် အမေရိကန် ဇာတ်ကားတကားနှင့် ပူးတွဲ ပြသရာ ပရိသတ်များ ကြိတ်ကြိတ်တိုး ကြည့်ရှုကြသည်။ (မြန်မာရုပ်ရှင် — လည်း ရှု။) ဦးအုန်းမောင်၏ လက်စွမ်းကို တွေ့မြင်ကြသဖြင့် ဝါသနာပါသူ တစုသည် ဘားမားဖလင်း အမည်နှင့် ပဌမဆုံး ရုပ်ရှင်ကုမ္ပဏီတခု တည်ထောင်သည်။ ယင်းကုမ္ပဏီက ပဌမဆုံး ဇာတ်လမ်းနှင့် ဇာတ်ကားဖြစ်သော အပိုင်းဆယ်ပိုင်း ရှည်သည့်"မေတ္တာနှင့် သူရာ"ဇာတ်ကားကို ရိုက်ကူးပြသသည်။ ဇာတ်လိုက်အဖြစ် ကိုညီပုနှင့် မရီတို့ ပါဝင်၍ ဇာတ်ဆောင်သူများ၏ အမှုအရာကို ဦးတုတ်ကြီးက သင်ပြပေးသည်။

၁၉၂၀ ပြည့်နှစ် မှ ၁၉၂၉ ခုနှစ်အတွင်း လန်ဒန်အတ်၊ မြန်မာအဆွေ (ဘားမားဖလင်းကို ဝယ်၍ အမည် ပြောင်းလိုက်သည်။)၊ ဗြိတိသျှဘားမားစသော မြန်မာရုပ်ရှင်ကုမ္ပဏီပေါင်း လေးဆယ်ကျော် ပေါ်ပေါက်ခဲ့သည်။ အပိုင်းရှည်ဇာတ်ကားကြီးများကိုလည်း ရိုက်ကူးလာကြသည်။ လန်ဒန်အတ်မှ ရတနာပုံ (၁၉၂၃)နှင့် မြန်မာအဆွေမှ မှိုင်းဝေဝေ (၁၉၂၅) ဇာတ်ကားများသည် အပိုင်းအရှည်ဆုံး၊ လူကြိုက်အများဆုံး ဖြစ်သည်။ ဇာတ်ကားတကားကို သုံးလေးရက်ခွဲ၍ပြရသည်။

ထိုးခန်း ကြိတ်ခန်းများသော စတန့်ခေါ် အကြမ်းဇာတ်ကားမျိုးကို ဗြိတိသျှဘားမား၏ ရွှေသဇင် ဇာတ်ကားမှ စတင်ခဲ့သည်။ ထိုအချိန်က ခမ်းခမ်းနားနား ရိုက်ကူးရာ၌ မြန်မာအဆွေ ကုမ္ပဏီသည် ထိပ်တန်းမှ ဖြစ်သည်။ ၁၉၂၈ ခုနှစ်တွင် ရိုက်ကူးသော ကြင်စဦးနှင့် ၁၉၂၉ ခုနှစ်တွင် ရိုက်ကူးသော ဝေလွှင်လွှင် ဇာတ်ကားများကို ရိုက်ကူးသူ ကာတွန်း ရွှေတလေး အမည်ခံ ဦးဘကလေးသည် သူ၏ ရုပ်ရှင်ကားများကို လူ့ဘဝဖြစ်စဉ်နှင့် နီးကပ်စေရုံမက သဘာဝကျ၍ အဆင့်အတန်းမြင့်အောင် ဆောင်ရွက်ခဲ့လေသည်။ (ဘကလေး၊ ဦး (ရွှေတလေး) — လည်း ရှု။)

ပဌမကမ္ဘာစစ်ပြီးခေတ်တွင် ကမ္ဘာ့ ရုပ်ရှင်ကားများကို အမျိုးအစား အလိုက် အမျိုးပေါင်းများစွာခွဲခြားနိုင်သည်။ "ပညတ်တော်ဆယ်ပါး" တို့ကဲ့သို့သော ခမ်းနားကြီးကျယ်သည့် ရုပ်ရှင်ကားမျိုး၊ "ဝှင်း နိုက်ဟု ဝပ်စ အင်ဖလားဝါး"တို့ကဲ့သို့ ရာဇဝင်အချစ် ဇာတ်လမ်းကားများ၊ ခေတ်ကြေးမုံဟု ခေါ်ထိုက်သော ထိုခေတ် လူတို့၏ အနေအထိုင် အခြေအနေကို ဖော်ပြသော "ရွှေတူးသမား"၊ "ဂျင်းတဲလမင်း ပရီဖားဗလွန်း" ဇာတ်ကားများ စသည်ဖြင့် ဖြစ်သည်။

**အသံထွက်ရုပ်ရှင်**

ရုပ်ရှင်ပေါ်စမှစ၍ ၁၉၂၇ ခုနှစ် အထိ ရုပ်ရှင်များတွင် ပုံတူရိပ်မှ အသံများ ပေါ်ထွက်လာခြင်း မရှိခဲ့သေးပေ။ အရုပ် ပါးစပ်မှ စကားပြော လှုပ်ရှားနေသော်လည်း အသံမကြားရချေ။ ဇာတ်ကောင်က စကားပြောသည့် အခါ ပြောသည့်စကားကို စာတမ်း ထိုးပေးလေသည်။ တီးဝိုင်းဖြင့် တီးလုံးများကိုလည်း လိုက်၍ တီးပေးရလေသည်။ လသာသော ည၊ ပင်လယ်ကမ်းခြေဒေသ စသော ရုပ်ရှင်အခန်းများကို ပြသနေလျှင် ညက်ညော ချိုသာသော တီးလုံးကို တီးပေးလေ့ ရှိသည်။ တိုက်ပွဲ ခိုက်ပွဲများ၊ သို့မဟုတ် မုန်တိုင်းကျနေသော အခန်းကို ပြနေလျှင် ပတ်ကြမ်းတိုက် တီးပေးသည်။ ဝါးနားဘရားသား ရုပ်ရှင်ကုမ္ပဏီမှ "ဒွန်ဝှန်း" ဇာတ်ကားတွင် သီချင်းဆိုခန်း၌ အသံထွက်ဓာတ်ပြား ဖွင့်ပေးရာ လူကြိုက်များလာကြောင်းကို သိလာသောအခါ လူ၏ပုံတူရိပ်ထွက်သည်နှင့် အသံနှင့်တထပ်တည်း ကျအောင် ထွက်ရန် တိုးတက် တီထွင်လာကြသည်။ ၁၉၂၇ ခုနှစ် အောက်တိုဘာလ ခြောက်ရက်နေ့၌ ပဌမဆုံးအသံထွက် ရုပ်ရှင်ကားဖြစ်သော "သဂျတ်ဆင်းဂါး" ဇာတ်ကား ပေါ်ထွက်လာသည်။

အသံထွက် ရုပ်ရှင် ရိုက်ကူးရာ၌ ရုပ်ရှင်တွင် ပါဝင်သူများ၏ အသံများကို မိုက္ကရိုဖုန်းဖြင့် ဖမ်းယူရသည်။ မိုက္ကရိုဖုန်းသည် အသံမျိုးစုံကို ဖမ်းယူသဖြင့် ရုပ်ရှင် ရိုက်ကူးရာ၌ ဇာတ်လမ်းတွင် ပါဝင်သူ၏ အသံတခုတည်းကိုသာ ဖမ်းယူနိုင်ရန်မှာ အရေးကြီးပေသည်။ ထို့အတွက် အသံထွက်ရုပ်ရှင် ရိုက်ကူးသော ဌာနများကို လူနေအိမ်ခြေနှင့် ဝေးကွာသည့် နေရာများတွင် တည်ဆောက်ထားကြခြင်းဖြစ်သည်။ အသံဖမ်းယူသည့် အခန်းတွင်းသို့ ပြင်ပအသံများ မရောက်ရန်ကိုလည်း ကာကွယ်ထားရပေသည်။ ရှေးခေတ် အသံထွက်ရုပ်ရှင် ရိုက်ကူးရာတွင် အသံကိုဓာတ်ပြားများဖြင့် ဖမ်းယူလေ့ရှိကြသည်။ ဓာတ်ပြားလည်ပုံကို အရုပ်နှင့် အံကိုက်ကျအောင် အနှေးအမြန် ညှိပေးကြရလေသည်။

ကင်မရာနှင့် အသံဖမ်းစက်တို့သည် တချိန်တည်း၌ ဇာတ်လိုက်ကို ဓာတ်ပုံလည်းရိုက်၊ အသံကိုလည်းဖမ်းယူရပေသည်။ သို့မဟုတ်လျှင် သူ၏ ပါးစပ် လှုပ်မှုနှင့် စကားလုံးများ ပေါ်ပေါက်လာမှုသည် ကိုက်ညီကြမည် မဟုတ်ပေ။ ထို့ကြောင့် ကင်မရာနှင့် ဖိုနိုဂရပ်တို့ကို ထိန်းသော စက်တို့သည် အသွားနှုန်း တမျိုးတည်းဖြင့် လည်ပတ်ကြရပေသည်။

အသံ ဖြစ်ပေါ်လာအောင် ဖိုနိုဂရပ် ဓာတ်ပြားဖြင့် ဖမ်းယူနည်းကို အသုံးမပြုဘဲ အခြားနည်းတခုကို အသုံးပြုနိုင်ပေသည်။ ထိုနည်းမှာ အသံကို အလင်းအဖြစ်သို့ ပြောင်းယူပြီးနောက် ထိုအလင်းကို ဖလင်ကော်ပြားပေါ်တွင် ဓာတ်ပုံရိုက်ယူခြင်း ဖြစ်သည်။ မိုက္ကရိုဖုန်းမှ လျှပ်စစ်ဓာတ်စီးကို

ဇောက်နေသော မီးအိမ်ထဲသို့ ဖြတ်၍ စီးသွားစေသည်။ အသံကျယ်က မီးရောင် လင်းလာ၍ အသံတိုးက မီးရောင် မှိန်သွားသည်။ မီးရောင်မှိန်ပုံ၊ လင်းပုံကို ရုပ်ရှင်ရိုက်ကူးသော ဖလင်ကော်ပြား၏ ကျဉ်းမြောင်းသည့် နံဘေးတွင် ဓာတ်ပုံ ရိုက်ယူသည်။ ထိုကြောင့် ရုပ်ရှင်ပြလိုက်သောအခါတွင် ပုံတူရုပ်နှင့်အတူ အသံပါ တပါတည်းပေါ်ထွက်လာခြင်း ဖြစ်သည်။

ထိုသို့ အသံပေါ်လာခြင်းမှာ ပုံတူရိုပ်ကို ထိုးသော အလင်းသည် မူလက မီးအိမ်မှ အလင်းလောက်ပင် တောက်သည်။ ထိုအလင်းရောင်သည် ဖိုတို အီလက်ထရစ် ဓာတ်အိုးသို့ ကျရောက်ကာ လျှပ်စစ်ဓာတ်စီးကို ဖြစ်ပေါ်စေသည်။ ထိုလျှပ်စစ်ဓာတ်စီးက ပိတ်ကား နောက်ဖက်ရှိ အသံချဲ့စက်၌ အသံကို ဖြစ်ပေါ်စေခြင်းကြောင့် ဖြစ်သည်။ ယခုအခါ အထက်ပါ နည်းနှစ်နည်းကို အသုံးနည်းလေသည်။ ကင်မရာနှင့် ရုပ်ရှင် ရိုက်သည်နှင့် တပြိုင်တည်းပင် အသံကို တိတ်ကြိုးခွေဖြင့် ဖမ်းယူကာ ဖမ်းယူထားသောအသံကို စိတ်တိုင်းကျဖြစ် မဖြစ် ချက်ခြင်း ဖွင့်၍ စမ်းသပ်နားထောင်ပြီး၊ စိတ်တိုင်းမကျက ချက်ခြင်း ပြန်လည် အသံသွင်းနိုင်သည်။ အသံကို စိတ်တိုင်းကျပါက အသံနက်ဂတစ် အဖြစ်သို့ ပြန်လည်၍ ကူးယူရသည်။

အသံထွက် ရုပ်ရှင်ကားများ ပေါ်ပေါက်လာခြင်းကြောင့် ရုပ်ရှင်လုပ်ငန်းတွင် ပြောင်းလဲမှုများ ပေါ်ပေါက်ခဲ့သည်။ အသံတိတ်ကားများမှ အချို့ ဇာတ်လိုက်များသည် အသံထွက်ကားများတွင် မပါဝင်နိုင်တော့ချေ။ ဇာတ်ကောင်များ၏ အပြောအဆို၊ လေယူလေသိမ်းနှင့် အသံတို့မှာ အသံထွက်ကားများ၌ အရေးကြီးလာသည့် အလျောက် အသံကောင်း အဆိုကောင်း ဇာတ်လိုက်သစ်များ ပေါ်ထွက်လာသည်။ အဆိုအက ဂီတသံစုံကျူး ဇာတ်ကားများလည်း ခေတ်စားလာသည်။

၁၉၃၂ ခုနှစ်တွင် ပဌမဆုံးသော မြန်မာအသံထွက် ဇာတ်ကားကိုရိုက်ကူးပြသနိုင်ခဲ့သည်။ သို့ရာတွင် အိန္ဒိယလူမျိုးပိုင် အင်ပီးရီးယယ်ကုမ္ပဏီမှ ဘုံဘိုင်မြို့တွင် သွားရောက် ရိုက်ကူးသောရုပ်ရှင်ကားဖြစ်သည်။ ယင်းမှာ ''ငွေပေးလို့မရ''ဇာတ်ကားဖြစ်သည်၊ အသံများ ကောင်းစွာ မပီသလှချေ။ ဗြိတိသျှဘားမား ရုပ်ရှင် ကုမ္ပဏီမှ ရန်ကုန်မြို့၌ပင် ရိုက်ကူးသော ပဠက္ကရားနှင့် ရွှေအိမ်သည် အသံထွက်အပိုင်းတို့ ဇာတ်ကားမှာမူ အသံပီသ၍ အောင်မြင်သည်ဟု ဆိုရပေမည်။ ဒုတိယ ကမ္ဘာစစ်မတိုင်မီက အဆင့်အတန်းမြင့်၍လူကြိုက်များသော မြန်မာ အသံထွက် ရုပ်ရှင်ကားများမှာ ဇွဲဥဒါရ၊ အပျိုစင်၊ ဇွဲထွံယ၊ ပန်းစေတီ၊ အချစ်ဆုံး၊ လေးလရာသီ ဂျပန်ပြည်၊ ဂျပန်ရင်သွေး၊ ချစ်စနိုး၊ မြားနတ်မောင်၊ ချစ်အမျှ၊ ချစ်ရေစင်၊ ဗိုလ်အောင်ဒင် စသည်တို့ဖြစ်ကြသည်။ ဗိုလ်အောင်ဒင်ဇာတ်ကားသည် စစ်ကြိုခေတ်နှင့် စစ်ပြီးခေတ်များတွင် အကြိမ်ကြိမ် အဖန်ဖန်ပြရ၍ ပြတိုင်း လူကြိုက် များပြီးလျှင် ဝင်ငွေကောင်းသော ဇာတ်ကား ဖြစ်သည်။

**ကာတွန်းရုပ်ရှင်**

ရုပ်ရှင်လောကတွင် ရုပ်ရှင်စံနစ် သက်သက်ဖြင့် အခြားတိုးတက်မှု တရပ်မှာ ဝေါလဘာဒစ်ဇနီ၏ ကာတွန်း ရုပ်ရှင် ပေါ်ပေါက်လာခြင်း ဖြစ်သည်။ (ဒစ်ဇနီ၊ ဝေါလတာ အီ — လည်းရှု။) ဒစ်ဇနီ၏ ကာတွန်းရုပ်ရှင်များကို ကမ္ဘာအရပ်ရပ်က လူကြိုက်များလာခဲ့ရာ ကာတွန်းရုပ်ရှင်ဇာတ်ကား အတော်များများ ပေါ်ထွက်လာလေသည်။ ကာတွန်းရုပ်ရှင် ရိုက်ကူးရာ၌ အရုပ်ငယ် ပုံပေါင်း မြောက်မြားစွာ ရေးဆွဲရသည်။ အရုပ်များကို အသံထွက်ရုပ်ရှင်အဖြစ် ရိုက်ကူးသောအခါ၌ ပန်းချီဆရာသည် စကားပြောသံ၊ သီချင်းဆိုသံတို့နှင့် အရုပ်၏ လှုပ်ရှားပုံများကို ကိုက်ညီအောင် ရေးဆွဲပေးရသည်။

မြန်မာရုပ်ရှင်လောက၌ ကာတွန်း ရုပ်ရှင်ကားများလည်း ပေါ်ထွက်ခဲ့သည်။ စာရေးဆရာ ဇဝနနှင့် ကာတွန်း ဦးဟိန်စွန်းတို့သည် ''လာမယ် လာမယ် မကြည်ရဲ့''သီချင်းကို ကာတွန်းရုပ်ရှင် ရိုက်ကူးခဲ့သည်။ ကာတွန်း ဦးဘဂျမ်းနှင့် ဦးဟိန်စွန်းတို့၏ ''ကြက်တောင်ကွ'' ဇာတ်ကားမှာမူ ဇာတ်လမ်း ပါရှိသဖြင့် ပဌမဆုံး မြန်မာကာတွန်း ရုပ်ရှင်ဇာတ်ကားဟု ခေါ်ဆိုရပေသည်။

**ရောင်စုံရုပ်ရှင်**

အဖြူအမဲရောင်နှင့်သာ ရိုက်သော ရုပ်ရှင်ကားများအဖြစ်မှ တဆင့်တက်၍ ရောင်စုံရုပ်ရှင်ကားများ ရိုက်ကူးရန် ပညာရှင်များ ကြိုးစားလာခဲ့ရာ ၁၉၃၀ ပြည့်နှစ် အစပိုင်းလောက်တွင်အကောင်အထည်ပေါ်လာခဲ့သည်။ ပဌမဆုံးသော အစအဆုံး ရောင်စုံရုပ်ရှင်ကားမှာ ''တိုး အော့ သ ဆီး'' ဇာတ်ကား ဖြစ်သည်။ အဖြူအမဲချည်းသာ ကြည့်ရှုနေရရာမှ ပကတိ ပြင်ပမှ အရောင်အတိုင်း ပိတ်ကားပေါ် တွင် မြင်ရသောအခါ ရုပ်ရှင်ကြည့် ပရိသတ်၏ မျက်စိပသာဒကို စွဲလမ်းစေသည်။ ယခုအခါ၌မူ နိုင်ငံခြား ရုပ်ရှင်ကုမ္ပဏီကြီးများသည် ရောင်စုံရုပ်ရှင်ကားများ လိုလိုချည်း ရိုက်ကူး ထုတ်လုပ်နေကြသည်။

မြန်မာနိုင်ငံ၌ ၁၆ မီလီမီတာ ဆေးရောင်စုံ ဇာတ်ကားကို ရန်ကုန်ရုပ်ရှင် ကုမ္ပဏီက ပဌမဆုံး ရိုက်ကူးပြသခဲ့သည်။ ၁၉၄၇ ခုနှစ်တွင် ဒါရိုက်တာရွှေဘော် ရိုက်ကူးသည့် ''ချစ်သွေးညီ'' ရုပ်ရှင်ကား ဖြစ်သည်။

**မှတ်တမ်းတင် ရုပ်ရှင်ကားများ**

အမေရိကန် လူမိုက်လောက ဇာတ်ကားများ၊ ဟာသ ဇာတ်ကားများ ရိုက်ကူးရာ၌ ကမ္ဘာ့စံပြ ဖြစ်ခဲ့သော ဖော်လီဝုဒ်သည် ရုပ်ရှင် ပရိသတ်၏ အဆင့်အတန်း မြင့်လာ

မှုကြောင့် နောက်ပိုင်း၌ ဣန္ဒြေရရနှင့် လူ့အရေး၊ လူ့ကိစ္စကို တင်ပြသော ဇာတ်ကားများကို ရိုက်ကူးခဲ့သည်။ လူ့လောက ကို အကျိုးပြုခဲ့သော ပါးစတား၊ ဇိုလာ၊ ဟွားရေး စသော ပုဂ္ဂိုလ်ကျော်ကြီးများ၏ အတ္ထုပ္ပတ္တိ ဇာတ်ကားများ၊ ကမ္ဘာ ကျော် ဝတ္ထုကြီးများကိုလည်း ရိုက်ကူးသည်။ ထို့ပြင် လုပ်ငန်း တခုခုဆိုင်ရာ လူတစုနှင့် လုပ်ငန်းများကိုလည်း ရိုက်ကူးသည်။ ဒုတိယ ကမ္ဘာစစ် အတွင်းက မှတ်တမ်းတင် ကားများသည် ဝါဒဖြန့်ရေးအတွက် အလွန်အရေးပါခဲ့သည်။

ဒုတိယ ကမ္ဘာစစ် နီးကပ်လာချိန်နှင့် စစ်အတွင်း၌ ဟော လိဝုနှင့် ဥရောပရုပ်ရှင်များတွင် စစ်နှင့်ဆိုင်သော ဝါဒဖြန့် သဘောတရားများ ပါလာသည်။ ဟောလိဝုမှ ဖရင့် ကက် ပရာ၏ "ကျွန်ုပ်တို့ ဘာကြောင့် တိုက်ရသလဲ"၊ ဂျွန်ဟပ် စတန်၏ "ဆန်ပီတြိုတိုက်ပွဲ" နှင့် "အလင်းဆောင်ပါလော့"၊ အက်ဒွပ်စတိုင်ခင်နှင့် လီ ဒါ ရော့ခမွန့်တို့၏ "ရဲဘော်မ" ဇာတ်ကားများသည် စစ်တပ်များ အတွက် ဝါဒဖြန့် မှတ် တမ်းတင်ကားများ ဖြစ်ကြသည်။

**စစ်အတွင်း ရုပ်ရှင်**

စစ်မက်ရေးကြောင့် ဥရောပ ရုပ်ရှင်လုပ်ငန်းကို ထိခိုက် ခဲ့သော်လည်း ဟောလိဝု ရုပ်ရှင်လုပ်ငန်းသည် များစွာ ထိ ခိုက်သည်ဟု မဆိုသာချေ။ ဇာတ်ကားရော ဒါရိုက်တာပါ အကယ်ဒမီဆု ရရှိသော "ကာဆာဗလန်ကာ" (၁၉၄၃) ဇာတ်ကား၊ ဇာတ်လိုက်မင်းသား ကလစ်ဖတန် ဝက်၏ ပွဲဦး ထွက် "လော်ရာ" စုံထောက်ဇာတ်ကား၊ ၁၉၄၅ ခုနှစ်တွင် ဝင်ငွေအကောင်းဆုံး ဖြစ်သော "လီဖဟာတူ ဟဲဗင်း" ဇာတ် ကားတို့သည် စစ်အတွင်း ထင်ရှားသည့် ဟောလိဝုမှ ရုပ်ရှင် ကားများ ဖြစ်ကြသည်။

ဗြိတိန်နိုင်ငံ၌မူ စစ်ဦးခေတ်လောက်က စတူဒီယို အချို့ ပိတ်လိုက်ရသည်။ အချို့ကို စစ်ဖက်မှ သိမ်းသည်။ ရုပ်ရှင် ပညာသည်အချို့ စစ်ထဲ လိုက်ကြသည်။ ရုပ်ရှင်သည် လူထု စိတ်ဓာတ် ပျက်ပြားမှုကို မဖြစ်စေရန် ဝါဒဖြန့်နိုင်သော လက် နက်ကောင်းတခု ဖြစ်သည့်အလျောက် အစိုးရ ပြန်ကြားရေး ဌာနနှင့် ရုပ်ရှင်ကုမ္ပဏီများက ရုပ်ရှင်လုပ်ငန်းကို ပြန်လည် ထူထောင်ကြသည်။ ဂျေ အာသာ ရင့် အော်ဂနိုက်ဇေးရှင်း အဖွဲ့ကြီး ပေါ်ပေါက်လာ၍ ဗြိတိသျှ ရုပ်ရှင်လုပ်ငန်းအတွက် အထောက်အပံ့ကြီးတရပ် ဖြစ်လာသည်။ ဗြိတိသျှ ကား ကောင်းများ ထွက်ပေါ်ရေး၊ နိုင်ငံရပ်ခြား၌ ဗြိတိသျှ ဇာတ် ကားများ တွင်ကျယ်စွာ ဖြန့်ချိရေးအတွက် သန်းနှင့်ချီ၍ အရှုံးခံကာ အားပေးရာ ဗြိတိသျှရုပ်ရှင်လုပ်ငန်း တိုးတက် လာပြီးလျှင် အဆင့်အတန်းမြင့်သော ဇာတ်ကားများ ပေါ် ထွက်ခဲ့သည်။ နိုဝယ် ကောင်းဝပ်၏ "ကျွန်ုပ်တို့ အမှုတော် ထမ်းရာ" ဇာတ်ကား၊ ကာရို ရိဒ်၏ "သ ဝေး အဟက်" ဇာတ် ကား၊ အန်တိုနီ အက်စကွစ်၏ "သ ဝေး တူ သ စတား" ဇာတ်ကားများသည် ဗြိတိန်လူထုအား စစ်သွေးကို နှိုးဆွ ပေးသော ဇာတ်ကားများ ဖြစ်ကြသည်။

ထူးခြားသစ်ဆန်းသည့် ဇာတ်လမ်းဇာတ်ကွက်များဖြင့် ရိုက်ကူး၍ စစ်နှင့် မသက်ဆိုင်သော ဇာတ်ကားကောင်းများ လည်း ပေါ်ထွက်ခဲ့သည်။ "သေရေးရှင်ရေး"၊ "တွေ့ရဆုံရ ထိုခဏ"၊ "သ ဂရိတ် ပရောဂရက်"၊ "အော့ဒမင်း အောဂက်"၊ "သန်းဒါး ရော့" ဇာတ်ကားများသည် အဆင့်အတန်း မြင့် လှသော ယင်းဇာတ်ကားမျိုး ဖြစ်သည်။

ရှိတ်စပီးယား၏ ပြဇာတ် များကိုလည်း ထိုခေတ်တွင် ထိထိမိမိနှင့်ရိုက်ကူးခဲ့သည်။ "ပဉ္စမ ဟင်နရီဘုရင်" နှင့် "ဟင်း မလက်" ဇာတ်ကားများသည် ဗြိတိသျှ ရုပ်ရှင်သမိုင်းတွင် မော်ကွန်းထိုးရလောက်အောင် ကောင်းမွန်သော ဆာလော ရင့် အော်လီဗီယာ၏လက်ရာ ဇာတ်ကားများ ဖြစ်ကြသည်။

စစ်အတွင်းက စစ်ရေးကြောင့်၎င်း၊ ဖလင်လိပ်နှင့် ရုပ်ရှင် ကရိယာ ရှားပါးမှုကြောင့်၎င်း မြန်မာနိုင်ငံ၌ ရုပ်ရှင် ရိုက် ကူးခြင်း လုံးဝ မပြုနိုင်ခဲ့ချေ။

အရှေ့တောင် အာရှတိုက် စစ်ဆင်ရေးအတွက် အခြေခံ ဖြစ်နေသော အိန္ဒိယနိုင်ငံ၌မူ မဟာမိတ် တပ်ပေါင်းစုနှင့် အိန္ဒိယရုပ်ရှင် ကုမ္ပဏီများသည် ဝါဒဖြန့် ကားပေါင်း မြောက် မြားစွာကို ရိုက်ကူးခဲ့သည်။ အိန္ဒိယ ရုပ်ရှင် လုပ်ငန်းသည် စစ်အတွင်းမှ စ၍ အရှိန်ရလာခဲ့ရာ စစ်အပြီးတွင် ဟောလိဝု နီးပါးမျှ တရှိန်ထိုး တိုးတက်လာလေသည်။ ၁၉၄၇ ခုနှစ် တွင် ရုပ်ရှင်ကားပေါင်း ၂၈၃ ကား ရိုက်ကူးနိုင်ခဲ့၍ စံချိန် တရပ် ဖြစ်ခဲ့လေသည်။ အိန္ဒိယရုပ်ရှင်သည် ကမ္ဘာကျော် ဖြစ်လာသည်။ "သကုန္တလာ" (၁၉၄၇) ဇာတ်ကားသည် ကမ္ဘာ၌ အကောင်းဆုံး ရုပ်ရှင်ကား တကားဖြစ်သည်။ အိန္ဒိယရုပ်ရှင်သမိုင်းတွင် စံတင်ထိုက်၍ ဝင်ငွေ အကောင်း ဆုံး ဇာတ်ကားမှာ "ချန္ဒရာလက္ခ" ဖြစ်သည်။ အိန္ဒိယရုပ်ရှင် နယ်တွင် နာမည်ကျော် ဇာတ်လိုက်များစွာ ပေါ်ထွက်ခဲ့ရာ ရှန်ထရမ်၊ ဂျေရှရီး၊ ရာဇ ကုမာရီ၊ မိုတီလား၊ ရတ်ချ ကပူး၊ ပရင်း နတ်၊ ဒီလစ် ကူးမား၊ နာဂစ်၊ ဆူရေးယား၊ နင်မီ၊ မဒူ ဗာလာ၊ တြီလော ကပူး၊ နီရွတ်ပါ ရွိုင်းတို့မှာ လူကြိုက်များ သူများ ဖြစ်ကြသည်။ အိန္ဒိယ ရုပ်ရှင်ကုမ္ပဏီများသည် ထုံး ဟောင်းပုံပြင်များကို အခြေပြုသော ရုပ်ရှင်ကားများကို အများအပြား ရိုက်ကူးလေ့ရှိကြသည်။

ရုပ်မြင်သံကြားစက်များ ခေတ်စားလာသောအခါ ရုပ် ရှင် လုပ်ငန်းများကို ထိခိုက်လာသည်။ ရုပ်ရှင်ကုမ္ပဏီကြီး များသည် မိမိတို့၏ ဇာတ်လိုက်များကို ရုပ်မြင်သံကြားလွှင့် ခြင်း၌ မပါစေရန် ဟန့်တားကြသည်။ ဥရောပနိုင်ငံများ သည် မိမိတို့ နိုင်ငံအတွက် မိမိတို့ လုံလောက်အောင် ရုပ်ရှင် ကားများ ရိုက်ကူးခြင်း၊ အဆင့်အတန်း တိုးတက်သော ကားများ ရိုက်ကူးခြင်း၊ အမေရိကန် ရုပ်ရှင်ကားများကို

အကန့်အသတ်နှင့် တင်သွင်းခြင်းတို့ကြောင့် ဟောလီဝုရုပ်ရှင်လုပ်ငန်းတွင် အနှောင့်အယှက်များဖြစ်လာသည်။ အော်လီဗီယာ လောရင့်၏ ဇာတ်ကားများ၊ "မျှော်တလင့်လင့်"၊ "တွေ့ရဆုံရ ထိုခဏ"၊ "ဖိနပ်နီနီ"၊ "တတိယလူ" ကဲ့သို့သော ဗြိတိသျှရုပ်ရှင်ကားများ၊ "ဖိနပ်တိုက်သမား"၊ "စက်ဘီးသူခိုး"၊ "ရောမ"၊ "ကာကွယ်မဲ့မြို့တော်"၊ "ပေဆန်" တို့ကဲ့သို့သော ဣတလီ ရုပ်ရှင်ကားများကား ကမ္ဘာ့ရုပ်ရှင်ပရိသတ်ကြိုက် ဥရောပကားများဖြစ်ကြသည်။ ထို့ကြောင့် ဟောလီဝုသည် နည်းသစ်တမျိုး ထွင်ရသည်။ ယခင်က မပြုကောင်းဟု ရှောင်ကြဉ်ခဲ့သော ဇာတ်ကားမျိုးကို ရိုက်ကူးခဲ့သည်။ ယင်းသို့ဖြင့် "ကရော့စ ဖိုင်းယား"၊ "ဂျင်းတဲလမင်း အဂရီမင့်" ဇာတ်ကားများ ပေါ်ထွက်ခဲ့လေသည်။

၁၉၅၀ ပြည့်နှစ်တွင် ဟောလီဝုသည်မရှိနိုင်သောကောင်းဗွိုင်ဇာတ်ကားများကို ရိုက်ကူးပြန်သည်။ ဂီတ အသားပေးသော ဇာတ်လမ်း၊ ဟာသဇာတ်လမ်း၊ တကယ့်ဖြစ်ရပ်မှန်ကို မှတ်တမ်းတင်ပြသော ဇာတ်လမ်း စသည်ဖြင့် အမျိုးမျိုးခွဲခြား ရိုက်ကူးသည်။ ဟောလီဝုသည် ရှေးကကဲ့သို့ ဥရောပတိုက်တွင် မတွင်ကျယ်နိုင်သောအခါ အရှေ့နိုင်ငံများ၌ လွှမ်းမိုးနိုင်ရန် ကြိုးစားပြန်သည်။ ၁၉၃၉ ခုနှစ်အထိ ဟောလီဝုထက်ပင် ရုပ်ရှင်ကားအရေအတွက်ပိုမိုထွက်သောဂျပန်သည် စစ်ရေးကြောင့် ရုပ်ရှင်ကား အထွက် နှေးလာသောအခါ အမေရိကန်ကားများက ထိုနေရာတွင် အစားဝင်ရန် ကြိုးစားလေသည်။ သို့ရာတွင် အိန္ဒိယ၊ အီဂျစ်၊ ဗရာဇီး၊ အာဂျင်တီးနားစသော နိုင်ငံများကလည်း ရုပ်ရှင်လုပ်ငန်း ပိုမိုခဲ့ထွင်ကာ ပိုမို ရိုက်ထုတ်နေကြသဖြင့် ဟောလီဝုအတွက် မှန်းခြေ မကိုက်ချေ။

ဒုတိယကမ္ဘာစစ်အပြီး ရုပ်ရှင်လုပ်ငန်းအတွက် အမြတ်ရလိုက်သော နိုင်ငံမှာ ချက်ကိုစလိုဗားကီးယားနိုင်ငံ ဖြစ်သည်။ ဂျာမနီသည် ဥရောပတိုက်၌ အကောင်းဆုံးသော ရုပ်ရှင်ပစ္စည်း ကရိယာတို့ကို ပြုလုပ်နိုင်သည်။ ချက်ကိုစလိုဗားကီးယားနိုင်ငံကို ဂျာမန်တို့ စစ်အတွင်းက သိမ်းပိုက်ထားစဉ်က ပရာဟာမြို့တော်အနီး ဗာရန်ဒေါ့တွင် နာဇီဝါဒဖြန့် ရုပ်ရှင်ကားများ ရိုက်ကူးရန် အကောင်းဆုံး စတူဒီယိုကြီးကို ဆောက်လုပ်ထားခဲ့သဖြင့် အမွေ ရလိုက်သည်။ ချက် ရုပ်ရှင်ကားများသည် များသောအားဖြင့် မှတ်တမ်းတင်ကားများ ဖြစ်သဖြင့် အဆင့်အတန်း ကောင်းမွန်သည်။ ကွန်မြူနစ်အုပ်စု နိုင်ငံများတွင် ဆိုဗီယက် ရုပ်ရှင်ကားများကဲ့သို့ ခေတ်စားလေသည်။

မြန်မာ ရုပ်ရှင်လုပ်ငန်းတွင်မူ စစ်ပြီးခေတ်၌ စစ်ကျန်ဖလင်များဖြင့် အသံတိတ် ရုပ်ရှင်ကားများ ပြန်လည် စတင်ရိုက်ကူးလာကြသည်။ နောက်မှ တဖြည်းဖြည်း အသံထွက်ကားများ ရိုက်ကူးခဲ့သော်လည်း ပစ္စည်းကရိယာ မပြည့်စုံမှုကြောင့် အသံပီသခြင်း၊ အရုပ်များ ကြည်လင်ပြတ်သားခြင်း မရှိလှချေ။ ၁၉၅၁ ခုနှစ်တွင် ရုပ်ပြ ဗဟုသုတ ပြန့်ပွားရေးအဖွဲ့တခု ဖွဲ့စည်းကာ အစိုးရက မှတ်တမ်းတင်ကားများ၊ ပညာပေးကားများ ရိုက်ကူးပြသရန် ဆောင်ရွက်ခဲ့သည်။ သို့ရာတွင် ၁၉၅၅ ခုနှစ်တွင် ယင်းအဖွဲ့ကို ရုပ်ရှင်လုပ်ငန်း မြှင့်တင်ရေးအဖွဲ့အဖြစ် အမည်ပြောင်းကာ ပြင်ပ ရုပ်ရှင်လုပ်ငန်းများကို လက်ခံရိုက်ကူးပေးခြင်း၊ ဖလင်ဆေးပေးခြင်း၊ ကူးပေးခြင်း၊ အသံသွင်းပေးခြင်း စသည်တို့ဖြင့် ရုပ်ရှင်ပညာအဆင့်အတန်း မြင့်မားအောင် ဆောင်ရွက်လျက်ရှိသည်။ ဆယ်နှစ်ခန့်ကြာမှ မြန်မာ့ရုပ်ရှင် အဆင့်အတန်း တိုးတက်လာလေသည်။

ဒုတိယကမ္ဘာစစ်ပြီး ခေတ်တွင် ကမ္ဘာ့အရပ်ရပ် ရုပ်ရှင်လုပ်ငန်း၊ အထူးသဖြင့် အမေရိကန် ရုပ်ရှင်လုပ်ငန်း တိုးတက်လာသည်။ အသံထွက်ရုပ်ရှင်၊ ရောင်စုံရုပ်ရှင်တို့ထက် ဆန်းကြယ်တိုးတက်သော ယခင်ရှုကွင်းထက် ပိုမိုကျယ်ပြန့်သည့် စီနီမာစကုပ် မြင်ကွင်းကျယ် ရုပ်ရှင်များ၊ သုံးဖက်မြင် သရီးဒီ ရုပ်ရှင်များ၊ ရုပ်ရှင်ကြည့် ပရိသတ်ပါ ရုပ်ရှင်ကားထဲ၌ ပါနေသကဲ့သို့ ခံစားရသော စီနီရာမာ ရုပ်ရှင်ကားများ ပေါ်ထွက်လာသည်။

ရုပ်ရှင်လောကတွင် အကြီးကျယ်ဆုံး အောင်မြင်မှု ဖြစ်သည့် စီနီရာမာရုပ်ရှင်ကို ၁၉၅၂ ခုနှစ် စက်တင်ဘာလ ၂၀ ရက်နေ့တွင် အောင်မြင်စွာ ပြသနိုင်ခဲ့သည်။ အသံတိတ် ရုပ်ရှင်မှ အသံထွက်ရုပ်ရှင် အဖြစ် ထုတ်လုပ်နိုင်သည့် ၁၉၂၇ ခုနှစ် အောင်မြင်မှုပြီးနောက် ဤအောင်မြင်မှုသည် အရေးအကြီးဆုံး ဖြစ်သည်။

အမေရိကန် ပြည်ထောင်စုနိုင်ငံ ဗရွတ်ကလင် မြို့သားဖရက်ဝေါလာဆိုသူ ဓာတ်ပုံပညာရှင်တဦးသည် ၁၉၃၇ ခုနှစ်ခန့်ကပင် မြင်ကွင်းကျယ် ရုပ်ရှင်သဘောကို စုံစမ်းလေ့လာခဲ့ဘူးသည်။ နောက်ဆုံးတွင် သူသည် အတွင်းဖက်သို့ လှိုက်ဝင်ပြီး သာမန်ထက် အလျားရှည်သော ပိတ်ကားပေါ်တွင် အရုပ်ထင်ရန် ကြိုးပမ်းလေသည်။ အမြင့် ၂၆ ပေ၊ အလျား ၇၅ ပေ၊ အခုံး ၁၄၆ ဒီဂရီ (လူ့မျက်စိအစုံနှင့် တသားတည်းနီးနီး) ရှိသော ပိတ်ကားကြီးပေါ်တွင် ပြသရသည်။

စီနီရာမာ ရုပ်ရှင် ရိုက်သည့်အခါ၌လည်း ကင်မရာတွင် ၂၇ မီလီမီတာ မှန်ဘီလူးသုံးခုကို ၁၄၆ ဒီဂရီ ဂွင်ဝင်အောင် ချိန်၍ တပြိုင်တည်း တပ်ထားပြီးလျှင် ဖလင် သုံးလိပ်ဖြင့် တပြိုင်တည်း ရိုက်ခြင်းဖြစ်သည်။ ယင်းသို့ဖြင့် ပိတ်ကားကျယ်ကြီးပေါ်တွင် အရုပ်အကွက် သုံးကွက် ထင်နေသော်လည်း ယင်းသုံးကွက်စလုံးသည် တဆက်တည်းနှင့် ပိတ်ကားအပြည့်တည်ရှိလေရာ ကြည့်ရသူတို့အဖို့ အရုပ်ကားတချပ်တည်းအသွင် မြင်ရသည်။

ပြသရာ၌ ပိတ်ကား ဘေး ကပ်လျက်တွင် အသံထိန်း




စီနီရာမာ ခေါ် သုံးဖက်မြင် ရုပ်လုံးပေါ် မြင်ကွင်းကျယ် ရုပ်ရှင်ကို ရိုက်ကူးပြီးနောက် ပြသပုံ

အင်ဂျင်နီယာ တဦး၊ ပိတ်ကားရှေ့ တည့်တည့်တွင် အရုပ်ထိန်း အင်ဂျင်နီယာတဦး ရှိရသည်။ ပြစက်သုံးခုတွင်လည်း ပြစက်သမား တဦးစီ ရှိကြသေးသည်။ ယင်းစက်များမှ တပြိုင်တည်း ပြသည့်အခါ လက်ဝဲဖက် အစွန်ဆုံး ပြစက်မှ ပိတ်ကား၏ လက်ျာဖက် အစွန်ကို ပြ၍ အလယ်ပြစက်မှ ပိတ်ကား အလယ်တည့်တည့်ကို ပြပြီးလျှင် လက်ျာဖက် အစွန်ဆုံး ပြစက်မှ ပိတ်ကား၏ လက်ဝဲဖက်ကို ထိုးပြသည်။

ယင်းသောအခါ ရုပ်ရှင်ကြည့်နေသူသည် ရုပ်ရှင်၌ ပါဝင်နေသူများနှင့်အတူ မိုးပေါ် ပျံသည့်အခါ ပါဝင် ပျံသွားရသကဲ့သို့ ဖြစ်လာသည်။ နက်ရှိုင်းသော ချောက်ထဲသို့ တရှိန်ထိုး ကျသည့်အခါ ပါဝင်ကျသွားသကဲ့သို့ ဖြစ်လာသည်။ ခံစားချက် အပြည့်အဝနှင့် ရုပ်ရှင်ကြည့်ကြရလေသည်။

ပဌမဆုံးသော စီနီရာမာ ရုပ်ရှင်မှာ မိုက်ကယ် တော့၊ လိုဝယ်တောမတ်နှင့် မိတ်ဆွေတစု စုပေါင်း ထုတ်လုပ်သော "သစ် အစ် စီနီရာမာ" ရုပ်ရှင်ကား ဖြစ်သည်။ ပဌမဆုံးသော စီနီရာမာ ရုပ်ရှင်ရုံသစ်ကြီးကို ဂျပန်နိုင်ငံ အိုဆာကာမြို့တွင် တည်ဆောက်ခဲ့သည်။

စီနီရာမာရုပ်ရှင်သည် ကင်မရာ သုံးလုံးနှင့် မြင်ကွင်းကျယ် ရိုက်ရသည်။ ကင်မရာ တလုံးတည်းနှင့် မြင်ကွင်းကျယ် ရိုက်နိုင်ရေးကို မိုက်ကယ် တော့ စိတ်ကူးကြံဆ တီထွင် ရိုက်ကူးရာ ၁၉၅၅ ခုနှစ် အောက်တိုဘာလတွင် နယူးယော့မြို့ ရီဗောလီ ရုပ်ရှင်ရုံတွင် ပြသသော "အိုကလာ ဟိုးမား" ရုပ်ရှင်ကားသည် ပဌမဆုံးသော အောင်မြင်မှု ဖြစ်သည်။ ဒုတိယ အောင်မြင်စွာ ရိုက်ကူးလိုက်သော ကားမှာ ၁၉၅၆ ခုနှစ်တွင် မိုက်ကယ်တော့ပင် ရိုက်ကူးခဲ့သော "ကမ္ဘာပတ်လည် ရက်ရှစ်ဆယ်" ကားဖြစ်သည်။ ယင်းရုပ်ရှင်ကားမျိုးကို တော့-အေအို ဖလင်ဟု ခေါ်သည်။ တော့-အေအို ဖလင်သည် ၆၅ မီလီမီတာ ဖလင်ဖြစ်၍ ဖလင်အလျားသည် အနံ၏ နှစ်ဆဖြစ်သည်။ တစက္ကန့်လျှင် ပုံပေါင်း ၃၀ ပိတ်ကားပေါ်၌ ထင်သည်။

ရုပ်ရှင်သည် လူတန်းစား အမျိုးမျိုးကို အကျိုးပြုသော လုပ်ငန်းတရပ် ဖြစ်သည်။ နေရှင်၏ အကျိုးကို သည်ပိုးဆောင်ရွက်သလောက် ပစ္စည်းမဲ့ လူတန်းစားဘဝကို သရုပ်ဖော်သည်။ ဆိုရှယ်လစ်ဝါဒ အကြောင်းကိုလည်း ပြောသည်။ ကွန်မြူနစ်ဝါဒ အကြောင်းကိုလည်း ပြောသည်။ တိုးတက်မှုကို ခြိမ်းကျူးသလောက် အဆင်မပြေမှုကို ပြက်ရယ် ပြုသည်။

ရုပ်ရှင်သည် ဖျော်ဖြေမှုကိုလည်း ပေးသည်။ ပညာကိုလည်း ပေးသည်။ တရားကိုလည်း ဟောသည်။ နိုင်ငံရေးဝါဒကိုလည်း ဖြန့်သည်။ ကုန်ပစ္စည်းကိုလည်း ကြော်ငြာလေသည်။

ပညာသင်ကြားရာ၌ ရုပ်ရှင်ကို တွဲဖက်သုံးခြင်းဖြင့် များစွာ အကူအညီ ရကြောင်း တွေ့ရှိရလေသည်။ သမိုင်းဖြစ်ရပ်များကို ရုပ်ရှင်ထဲတွင် မျက်ဝါးထင်ထင် ရှုမြင်ရခြင်းဖြင့် ပို၍ မှတ်မိလွယ်စေသည်။ နိုင်ငံခြားသားတို့၏ နေထိုင်ပုံ၊ ပြုမူပုံတို့ကို သိနိုင်ကြသည်။ စက်မှုလက်မှုလုပ်ငန်း အရပ်ရပ်ကိုလည်း ရုပ်ရှင်ရိုက်၍ ဗဟုသုတ ပေးနိုင်လေသည်။ အလွန်လျှင်မြန်စွာ လည်ပတ်နေသည့် စက်ကရိယာကို သာမန်မျက်စိဖြင့် မြင်ရပုံမျိုး ရိုက်ကူးပြသလျှင် စက်လည်ပတ်နေပုံကို ကောင်းစွာ လေ့လာနိုင်လေသည်။ ပန်းများ တဖြည်းဖြည်းပွင့်လာပုံ၊ အစေ့မှ အညှောက်ထွက်လာပုံ၊အပင်ပေါက်လာပုံ စသော ရုက္ခဗေဒဆိုင်ရာ ဗဟုသုတများ၊ ရေခဲများ ဖုံးလွှမ်းနေသည့် မြင့်မားသော တောင်ထိပ်များသို့ ခက်ခဲစွာ တက်နေကြပုံ၊ သဲကန္တာရထဲ၌ ကုလားအုပ်များနှင့် ခရီးသွားလာကြပုံစသော ဒေသန္တရဆိုင်ရာ ဗဟုသုတများ၊ သိပ္ပံပညာ လက်တွေ့ စမ်းသပ်ခြင်းများ၊ ဆေးပညာ ခွဲစိတ်မှုများကိုလည်း ရုပ်ရှင်ဖြင့် ရှင်းလင်းစွာ ပညာပေးနိုင်လေသည်။

တိုးတက်လျက်ရှိသော နိုင်ငံများရှိ ကျောင်းများတွင် ယခုအခါ ကျောင်းသားများကို ပညာသင်ကြားပေးရာ၌ သင်ရိုးသင်စဉ် နည်းလမ်းများဖြင့်သာ မဟုတ်ဘဲ၊ ဗဟုသုတ အဖုံဖုံကို ကျောင်းသားများ ရရှိကာ အကျိုးဖြစ်ထွန်းသည်ထက် ဖြစ်ထွန်းအောင် ရုပ်ရှင်ပြ၍ သင်ကြားသည့် ခေတ်မှီ သင်ကြားနည်းများဖြင့်လည်း သင်ကြား ပေးနေလေပြီ။ အဖြစ်အပျက် အကြောင်းအရာမှန်၏ တကယ့်သဏ္ဍာန်ကို ကျောင်းသားများ မျက်ဝါးထင်ထင်တွေ့မြင်ရသောကြောင့် ဦးခေါင်းထဲ၌ စွဲစွဲမြဲမြဲ မှတ်မိနိုင်ပေသည်။ ထို့ကြောင့် အချို့နိုင်ငံများရှိ ဆရာအတတ်သင် တက္ကသိုလ်ကျောင်းများ၏ ဆရာဖြစ် သင်တန်းများ၌ ရုပ်ရှင်ကားဖြင့် ပညာသင်ကြားနည်းကို ဆရာလောင်းများအား အထူးတလည်သင်ကြားပေးထားလေသည်။

ဗြိတိန်နိုင်ငံတွင် ရုပ်ရှင်ပြ၍ ပညာသင်ကြားရေးအတွက် ကျောင်းဆရာများသည် သင်နည်းများကို သတ်မှတ်ရေးဆွဲထားခဲ့ကြသည်။ ၁၉၃၇ ခုနှစ်တွင် ဗြိတိသျှ ပညာရေး ဘုတ်အဖွဲ့က ကျောင်းများတွင်ရုပ်ရှင်ရုံများထားရှိရန်ကို ထောက်ခံ အတည်ပြုခဲ့သည်။

ဆိုဗီယက်ရုရှ နိုင်ငံနှင့် ဂျာမနီနိုင်ငံတို့ရှိ ကျောင်းများတွင် ရုပ်ရှင်နှင့် တွဲဖက်၍ ပညာသင်ကြားခြင်းသည် အတော်ခေတ်စားနေလေပြီ။အချို့နိုင်ငံများတွင် စာကြည့်တိုက်များကဲ့သို့ ရုပ်ရှင်ကားများထားရာ ဌာနများကို ငွေအကုန်အကျခံကာ ဖွင့်ထားကြသည်။ ယင်းဌာနများမှ ပညာရေးဆိုင်ရာ ရုပ်ရှင်ကားများကို ကျောင်းများက ငှားယူ၍ ကျောင်းသားများအား ပြသကြသည်။ ယင်းသို့ဖြင့် ရုပ်ရှင်သည် ကမ္ဘာပေါ်တွင် အရေးပါသော အနုပညာတရပ်အဖြစ် ရပ်တည်ခဲ့လေသည်။

# သစ်၊ ရွှံ၊ ကျောက်တို့ကို အလှပုံဖော်သည့်အတတ်

**ရုပ်လုံးထု ဆရာ၏ အလုပ်သည် စိတ်ကူးဉာဏ်ကို ရွှံ၊ သစ်၊ ကျောက်၊ သတ္တုတို့ဖြင့် အကောင်အထည်ဖြစ်အောင် ဖော်သော အနုပညာရပ် ဖြစ်သည်ဟု အဓိပ္ပာယ်ဖွင့်ကြသည်။ ဤအနုပညာရပ်၏ သမိုင်းတလျှောက်တွင် လူတို့၏ အမွန်မြတ်ဆုံးသော အတွေးအခေါ်နှင့် မြော်ကိုးချက်များကို သရုပ်ဖော်ခဲ့သည်ကို တွေ့ရသည်။**

**ရုပ်လုံးထု အတတ်။** ။ရုပ်လုံးထု အတတ်နှင့် ပန်းချီဆေးရေး အတတ်တို့သည် အလွန်ရှေးကျသော လူတို့၏ အနုပညာအတတ်များ ဖြစ်သည်။ ခရစ်တော်မပေါ်မီ နှစ်ပေါင်း ၂၀,၀၀၀ ကျော်အထက်က ထုလုပ်ခဲ့သော ရုပ်လုံးများကိုပင် ဂူများ၊ သင်္ချိုင်းများမှ တူးဖော် တွေ့ရှိရသည်။ ရုပ်လုံးထု အတတ်သည် အခြားသော အနုပညာရပ်များ ကဲ့သို့ပင် လူတို့၏ စိတ်ကူး ဉာဏ်ကို အကောင်အထည် ပေါ်လာအောင် ဖော်ပြသော အနုပညာရပ် ဖြစ်၏။ ပန်းချီဆေးရေးနှင့် ပုံဆွဲအတတ်တို့တွင် ရုပ်ပုံကို အလျား၊ အနံဖြင့်သာ ဖော်ပြနိုင်၏။ ရုပ်လုံးထု အတတ်တွင်ကား အလျားနှင့် အနံကို သာမက၊ ရုပ်ပုံ၏ ထုထယ်ကိုပင် သရုပ်ဖော်နိုင်သည်။ ထို့ကြောင့် အချို့ ရုပ်လုံးများကို လေးဖက်လေးတန်မှ မြင်နိုင်သည်။ ရုပ်လုံးထုအတတ်သည် ကျောက်၊ ကျောက်ဖြူ၊ ရွှံစေး၊ သစ်သား၊ ဆင်စွယ်၊ ကြေးဝါ စသည်တို့ကို ခုတ်ထွင်းထုလုပ်ခြင်းအားဖြင့် အရာဝတ္ထုတခုခုကို ဖြစ်စေ၊ စိတ်ကူးဉာဏ်ကို ဖြစ်စေ ရုပ်လုံးဖော်သည့်အတတ် ဖြစ်သည်။

နောက်ခံ မျက်နှာပြင်နှင့် တစပ်တည်း ရုပ်လုံးဖော်ရာ၌ မျက်နှာပြင် အောက်သို့ နှိမ့်၍ ထုလုပ်သည်လည်း ရှိ၏။ မျက်နှာပြင် အထက်သို့ ကြွ၍ ထုလုပ်သည်လည်းရှိ၏။ အချို့သော ရုပ်လုံးတို့သည် တည်ငြိမ်သည့် အသွင်ကို ဆောင်၍ အချို့တို့မှာ လှုပ်ရှားသည့်အသွင်ကို ဆောင်သည်။

ရုပ်လုံး ရုပ်တုများကို သစ်သားဖြင့်ရင်း၊ ကျောက်ဖြင့်ရင်း၊ ရွှံစေးဖြင့်ရင်း၊ အရည်ကျို၍ရသော သတ္တုဖြင့်ရင်း ပြုလုပ်ကြသည်။ ထို ရုပ်တု ရုပ်လုံးများကို နေရာဌာနအမျိုးမျိုးတွင် တွေ့မြင်ကြရလေသည်။ ပုံတူ ရုပ်လုံးများ၊ အထိမ်းအမှတ် ရုပ်လုံးများ၊ ဗိသုကာရုပ်လုံးများ၊ ဥယျာဉ်တွင်း၌ အလှထားသည့် ရုပ်လုံးများအပြင် လှပဆန်းကျယ်၍ စိတ်ကူးယဉ်သက်သက်ဖြစ်သော သုခုမလက်ရာပြ ရုပ်လုံးများကို အများပင် မြင်ဘူးကြပေမည်။ ထိုရုပ်လုံး ရုပ်တုများကို အသုံးနှင့် ဆီလျော်အောင် အမျိုးအစားခွဲထား၏။ ပုံတူ ရုပ်လုံးများမှာ များသောအားဖြင့် လူတစုံတယောက်၏ ပုံသဏ္ဌာန်ကို ခေါင်းပိုင်း၊ သို့မဟုတ် ကိုယ်တဝက်မျှထုလုပ်ခြင်း ဖြစ်သည်။ ပုံတူရုပ်လုံးများ ထုလုပ်ခြင်းသည် အနောက်နိုင်ငံများတွင် အထူးခေတ်စားခဲ့သည်။ ယခုခေတ် လူများသည် ဓာတ်ပုံ ရိုက်ခြင်းဖြင့် အမှတ်အသား ထားရှိကြသကဲ့သို့ ရှေးအခါကလည်း ပုံတူရုပ်လုံးများ ထုလုပ်ခြင်းဖြင့် အမှတ်တရ ပစ္စည်းများကို ထားရှိခဲ့ကြလေသည်။

ရုပ်ထုဆရာကြီးများသည် ထင်ရှားသော ပုဂ္ဂိုလ်ကြီးများ၏ ပုံတူ ရုပ်လုံးများကို သော်၎င်း၊ မှတ်သားဖွယ် အဖြစ်အပျက်တခုခု၏ ရုပ်လုံးများကို သော်၎င်း ထုလုပ်ထားခဲ့လေ့ရှိကြသည်။ ထိုကဲ့သို့သော ရုပ်လုံးမျိုးကို အထိမ်းအမှတ်ရုပ်လုံးဟူ၍ ခေါ်နိုင်သည်။ ထို့မှတပါး ဗိသုကာရုပ်လုံးဟူ၍ ရှိသေးသည်။ ထိုရုပ်လုံးမှာ အဆောက်အအုံများ ဆောက်လုပ်သည့်အခါ အလှအပ ဖြစ်စေရန် တန်းဆာဆင်ကာ ထွင်းထုစီမံပြုလုပ်ထားသော ရုပ်လုံးများပင်ဖြစ်သည်။ ထိုရုပ်လုံးမျိုးကို အယူဝါဒဆိုင်ရာ အဆောက်အအုံများတွင် အများဆုံးတွေ့ရသည်။ ရှေးဟောင်းအီဂျစ်နှင့်ဂရိအဆောက်အအုံကြီးများတွင်လည်း အလားတူ ရုပ်လုံးများကို တွေ့ရလေသည်။

ပန်းဥယျာဉ် များထဲ၌ ရုပ်တု ရုပ်လုံးများကို ရံဖန် ရံခါ တွေ့ရတတ်သည်။ ဤရုပ်တုရုပ်လုံးမျိုးမှာ တမျိုးတည်း မဟုတ်ဘဲ လူရုပ်၊ ငှက်ရုပ်၊ နတ်ရုပ်တို့မှ စ၍ အနုပညာ မြောက်သော လှပသည့် ရုပ်တု ရုပ်လုံးဟူသမျှ ထားရှိတတ်ကြသည်။ အချို့သော ပန်းဥယျာဉ်များတွင် ရှေးခေတ်က ထုလုပ်ခဲ့သော ကျောက်ရုပ်များကို ယခုတိုင် တွေ့ရသည်။

လောကတွင် အကယ်စင်စစ် မရှိသော်လည်း လူတို့၏ အာရုံတွင် ထင်မြင်နေသော ပုံသဏ္ဌာန်များကိုလည်း ရုပ်လုံးထွင်းထု ထားရှိတတ်ကြသည်။ အဆိုပါ ရုပ်လုံးမျိုးမှာ မြန်မာ အနုပညာတွင် တွေ့ရှိနိုင်သော မနုဿီဟရုပ်၊ ပဉ္စရူပရုပ် အစရှိသည့် ရုပ်လုံးမျိုး ဖြစ်ပေသည်။

အထက်ပါ အမျိုးအစားများအနက် လက်ရာ အထူးပြောင်မြောက်၍ မည်သည့်နေရာတွင်မဆို လျောက်ပတ်စွာ အသုံးပြုနိုင်သော လက်ရာများကို အမွှမ်းတင်ရုပ်လုံးများဟု ခေါ်လေသည်။ အမွှမ်းတင် ရုပ်လုံးများမှာ ထုလုပ်စဉ်က မည်သည့် နေရာ မည်သည့် အမျိုးအစားတွင် သုံးရန်ဟု မရည်ရွယ်ဘဲ ထုလုပ်၍ ပြီးမြောက်သောအခါ နေရာတိုင်း၌ သုံးနိုင်လောက်အောင် လက်ရာ ကောင်းမွန်လှပသည့် ရုပ်လုံးများ ဖြစ်ကြပေသည်။

ရုပ်လုံးဖော် အတတ်သည် မည်သည့်ခေတ်က မည်သို့ စတင် ပေါ်ပေါက်လာသည်ကို အတိအကျမသိရသော်လည်း လူတို့တွင်ရှိသော ရှေးအကျဆုံး အနုပညာ ဖြစ်ကြောင်းကိုကား သိရပေသည်။ လူသည် ကလေးဘဝကတည်းကပင် မိမိတွေ့မြင်ရသော အရာဝတ္ထုတို့၏ ပုံသဏ္ဌာန်ကို ရွှံစေးများဖြင့် တူအောင်ပြုလုပ်ပြီးလျှင် ကစားတတ်သည်။ ထို့ကြောင့်



ကမ္ဘာကျော် ရုပ်ထုဗိသုကာ အက်ပစတိန်း ရုပ်ထု အချောကိုင်နေစဉ်။ ရုပ်လုံးထုဆရာသည် ပန်းချီဆရာကဲ့သို့ ပုံကြမ်းကို ဦးစွာရေးဆွဲပြီး နောက် ပုံစံငယ် ပြုလုပ်ရသည်။

ပန်းပုပညာသည် အဆိုပါ လူတို့၏ အတု ခိုးတတ်သော ညာဉ်မှ တစတစ ပေါက်ဖွား တိုးတက်လာသည်ဟု ယူဆရပေသည်။

ရုပ်လုံးထု ပုံများသည် ပန်းချီကားကဲ့သို့ ပျက်စီးလွယ်သော အနုပညာလက်ရာ မဟုတ်သဖြင့် လူတို့၏ယဉ်ကျေးမှုကို ပိုမိုပြည့်စုံစွာ ကာလကြာရှည် ထုတ်ဖော်နိုင်ပေသည်။

ရှေးအခါက ရုပ်လုံးထု ဆရာတို့သည် ကျောက်ဖြူတုံးကို ဖြစ်စေ၊ သစ်သားတုံးကို ဖြစ်စေ ခုတ်ထွင်းခြင်း အားဖြင့် အလိုရှိသော ရုပ်လုံးပုံ ဖော်ယူကြ၏။ မိမိစိတ်ကူးရသော ပုံကို တခါတည်းဖြင့် ခုတ်ထွင်း ထုလုပ်မရသောအခါ၌ ပုံစံငယ်ကို ပဌမဦးစွာ အတိအကျ ပြုလုပ်ပြီးမှ လိုရာပုံကြီးကို ဆက်လက် လုပ်ကိုင်သည်။ ယခုအခါ ရုပ်လုံးထု ဆရာတို့သည် ပန်းချီဆရာကဲ့သို့ ပုံကြမ်းကို ဦးစွာရေးဆွဲကြ၏။ ထိုနောက် ဖယောင်းဖြင့်ဖြစ်စေ၊ ရွှံ့စေးဖြင့် ဖြစ်စေ ထိုပုံကြမ်းနှင့်တူသော ရုပ်ပုံငယ်ပုံစံကို ပြုလုပ်သည်။ တဖန် ပုံစံငယ်မှ တဆင့် အလိုရှိရာအရွယ်အစား ပုံတူကို ရွှံ့စေးဖြင့် ပြုလုပ်ရသည်။ ထိုပုံစံကို ပလပ်စတာအော့ပဲရစ်နှင့်မံပြီးလျှင် ခြောက်သွေ့သောအခါ ပလပ်စတစ်သွန်းပုံကို ချွတ်၍ ပုံလောင်းယူသည်။ ပမာအားဖြင့် ရုပ်လုံးကို ကျောက်ဖြူသားဖြင့် ထုလုပ်မည် ဆိုလျှင် ထိုလောင်းပြီး ပုံစံအတိုင်း ကျောက်ကို ခုတ်ထွင်း ထုလုပ်ရလေသည်။ ပုံစံအတိုင်း အတိအကျ ရရှိနိုင်ရန် အတွက် လိုအပ်သော စက်ကရိယာဖြင့် ကျောက်တုံးကို တိုင်းတာမှတ်သားပြီးမှ ခုတ်ထွင်းရသည်။ ကြေးဝါ ရုပ်လုံးထုလုပ်ရာ၌ သွန်းပုံထဲသို့ အရည်ကျိုထားသော ကြေးဝါကို လောင်းထည့်သည်။

**အီဂျစ်။** ။အီဂျစ် လူမျိုးတို့သည် သေသူ၏ဝိညာဉ် မဆုံးနိုင်ဟူသော ယုံကြည်ချက်ဖြင့် လူတယောက် သေဆုံးလျှင် သေဆုံးသူ၏ အသုံးအဆောင် ပစ္စည်းများနှင့် ရုပ်တုကလေးများကို အလောင်းနှင့်အတူ မြှုပ်နှံသဂြိုဟ်လေ့ ရှိကြသည်။ ဂူသင်္ချိုင်းများကို ဆောက်လုပ်ပြီးလျှင် ဂူနံရံများတွင် အရုပ်များကိုလည်း ထုလုပ် ထားကြသည်။ ဂူနံရံပေါ်တွင် ရုပ်လုံးနှိမ့်၊ ရုပ်လုံးကြွများကို ထုလုပ်ကြသည်။ ရုပ်အလောင်းများကိုလည်း မပုပ်မသိုးရအောင် ဆေးစိမ် စိမ်၍ ခေါင်းထဲ၌ထည့်ပြီးလျှင် ခေါင်းပေါ်တွင် ရုပ်လုံးများ ထွင်းထုထားသည်။ ဖါရိုး ဘုရင်များ၏ ပုံတူများကိုလည်း အလွန်မာကျောသော ကျောက်ဖြူဖြင့် ထွင်းလုပ်ထားကြသည်။

အီဂျစ် ရုပ်တုများသည် ပုံသဏ္ဍာန်အားဖြင့် လူနှင့်တူသော်လည်း ဟန်အမူအရာတို့မှာ အသက်မဝင်လှချေ။

ဂီဇာအရပ်မှ ဇဖင့်ရုပ်ကဲ့သို့ ကြီးမားသော ရုပ်လုံးများကို ထုလုပ်လေ့ ရှိကြသည်။

**မက်ဆိုပိုတေးမီးယား။** ။အီဂျစ် နိုင်ငံမှာကဲ့သို့ပင် ဗက်ဗီလုံးနှင့် အဆီးရီးယား နိုင်ငံများတွင်လည်း ရုပ်လုံးထုပညာ ထွန်းကားခဲ့သည်။ အဆိုပါ နိုင်ငံများတွင် ရုပ်လုံးထု ပညာ အဆင့် အတန်းသည် အီဂျစ်နိုင်ငံမှာထက် အတန်ငယ်ပို၍ မြင့်လာသည်ဟု ဆိုရပေမည်။ အဘယ်ကြောင့် ဆိုသော် ဗက်ဗီလုံးနှင့် အဆီးရီးယား ရုပ်လုံးများမှာ ကိုယ်အင်္ဂါ အစိတ်အပိုင်းများ ထင်ရှားပီသ၍ အသက်ရှိသကဲ့သို့ ထင်ရ အောင် ကြံကြံဖန်ဖန် ဖြစ်နေသည်။ အဆီးရီးယန်း လူမျိုးတို့ သည် ရုပ်လုံး ထုလုပ်ရာ၌ ကျောက်တုံး ကျောက်ပြားများ ကိုသာမက ရွှံ့စေးနှင့် အင်္ဂတေကိုလည်း အသုံးပြုကြသည်။ အဆောက်အအုံ နံရံများတွင် စစ်သူရဲကောင်းများ၊ စစ်တပ် ချီတက်ဟန်များ၊ တိုက်ပွဲများ၊ ခြသေ့ရုပ်များကို ထုလုပ်ကြ လေသည်။

**ဂရိ။** ။ဂရိလူမျိုးများသည် အနုပညာရပ်များတွင် အလွန် မျက်စိ ယဉ်၍ အချိုးအစား ကျနမှု၊ သဘာဝကျမှုတို့ကို အလွန်လေးစားသူများ ဖြစ်ကြသည်။ ဂရိနိုင်ငံသည် ပကတိ အသွင်အပြင်အားဖြင့် ကျောက်တောင် ထူထပ်သော နိုင်ငံ ဖြစ်ရကား ရုပ်လုံးများ ထွင်းထုရန်နှင့် အဆောက်အအုံများ တည်ဆောက်ရန် ကျောက်ကို လိုသလောက် ရနိုင်သဖြင့် ဂရိတို့သည် ကျောက်ဆစ်အတတ်၌ အခြားသော နိုင်ငံများ ထက် ပိုမို တိုးတက်နိုင်ကြလေသည်။ ဂရိတို့သည် ရုပ်လုံး ထုအတတ်တွင် အီဂျစ် အစရှိသော မြေထဲပင်လယ်တဝိုက်ရှိ နိုင်ငံများ၏ ရှေးကျသောနည်းစံနစ်များကို လိုက်နာ အသုံး ပြုခဲ့ကြသည်။ သူတို့၏ ကိုယ်ပိုင် နည်းစံနစ်များကိုမူကား ခရစ်မပေါ်မီ အနှစ် ၆၀၀ ခန့်တွင်မှသာ စတင် အသုံးပြုလာ ကြလေသည်။ ဂရိ ရုပ်ထုပညာ အဆင့်အတန်းသည် ဘီစီ ၄၀၀ ခန့်တွင် အမြင့်ဆုံးသို့ရောက်ရှိခဲ့လေသည်။ ဤခေတ်ကို အက်သင်းမြို့ အုပ်ချုပ်ရေး ခေါင်းဆောင် ပရီးကလီးအား အစွဲပြု၍ ပရီးကလီးခေတ် ဟူ၍လည်း ခေါ်စမှတ် ပြုကြ သည်။ (ဂရိ အနုပညာ — လည်းရှု။)

**ရောမ။** ။ရောမတို့က ဂရိနိုင်ငံကို စိုးမိုးလာသောအခါ ဂရိ အနုပညာသည် မှေးမှိန်ခဲ့လေသည်။ ဂရိတို့ ထုသွန်းလုပ် ထားသော ကျောက်ရုပ်နှင့် ကြေးရုပ်ပေါင်း များစွာတို့မှာ လည်း ရောမတို့က ဖျက်ဆီးပစ်ခြင်းကြောင့်၎င်း၊ ရောမနိုင်ငံ အပြန်တွင် ယူဆောင် သွားခြင်းကြောင့်၎င်း ဂရိနိုင်ငံ၌ ကွယ်ပျောက်လုမတတ် ဖြစ်ခဲ့လေသည်။ ဂရိ အနုပညာသည် များမှာလည်း ရောမလူမျိုးများ၏ လက်ခစားများအဖြစ်သို့ ရောက်ရှိသွားကြတော့သည်။

ရောမလူမျိုးတို့သည် စီးပွားရေးနှင့် စစ်မက်ရေးရာတွင် ထွန်းပေါက်သူများ ဖြစ်ကြသည်။ အနုပညာ ဖက်တွင်ကား ကိုယ်ပိုင် အစွမ်းအစဟူ၍ မရှိသလောက် ခေါင်းပါးသည်။ စင်စစ်အားဖြင့် ရောမအနုပညာမှာ ဂရိတို့ထံမှ ရရှိသော ပညာသာလျှင် ဖြစ်၏။ သို့ရာတွင် ပုံတူ လူရုပ်လုံးများ ထုလုပ် ရာတွင်ကား ရောမ အနုပညာသည်များသည် သူမတူအောင် လက်စွမ်း ထက်လှပေသည်။ ထိုခေတ်က လက်ရာများကို သာလွန်သော လက်ရာဟူ၍ ယနေ့တိုင် မတွေ့ရှိရသေးချေ။ (ရောမပန်းချီနှင့် ရုပ်လုံးထု အတတ် — လည်းရှု။)

**အိန္ဒိယနိုင်ငံ။** ။ဥရောပ တိုက်တွင် ရုပ်လုံးထု အနုပညာ သည် ခရစ်ယန် အယူဝါဒနှင့်အတူ ထွန်းကား တိုးတက်လာ သကဲ့သို့ပင် အိန္ဒိယနိုင်ငံတွင်လည်း ဗုဒ္ဓအယူဝါဒ ထွန်းကား လာသောအခါ ကျောက်ဆစ်အတတ်၊ ပိသုကာအတတ် စသည့် အနုပညာရပ်များ တိုးတက်လာပေသည်။ ဗုဒ္ဓမြတ် စွာ ဘုရားသခင်၏ ရုပ်ပွားတော် ဆင်းတုတော်များကို ကျောက်သားဖြင့်၎င်း၊ သစ်သား ပေါ်တွင်၎င်း ထုလုပ်၍ ကိုးကွယ်ကြသည်။ ထို့ပြင် ဗုဒ္ဓဝင် ဇာတ် နိပါတ်တော်တို့ကို လည်း စေတီ တန်တိုင်း နံရံ စသည်တို့တွင် ထုလုပ် ဖော်ပြ ထားကြသည်။ သို့ရာတွင် ကျွန်ုပ်တို့ ယခု ဖူးမြင်နေရသော မြတ်စွာဘုရားသခင်၏ ရုပ်ပွားတော် ဆင်းတုတော်များကဲ့ သို့သော ရုပ်လုံးများမှာမူကား မြတ်စွာဘုရား ပရိနိဗ္ဗာန် စံလွန်တော်မူပြီးနောက် အနှစ်ရာပေါင်းများစွာ ကြာရှိမှသာ



ဂရိ အနုပညာပြ ရုပ်လုံး



ကြေးရုပ်လုံးသွန်းပြီးနောက် အချောကိုင်နေစဉ်

စတောင် ပေါ်ပေါက်လာခဲ့သည်။ အကောင်းဆုံးနှင့် အသပ္ပါယ်ဆုံး ရုပ်ပွားဆင်းတုတော်များသည် ခရစ်နှစ် ၃၂၀ ခုလောက်တွင် ပေါ်ပေါက်ခဲ့သည်။

ကျောက်ဆစ်ဆရာနှင့် ပန်းပုဆရာတို့သည် မြတ်စွာဘုရား၏ ရုပ်တုတော်များကို အနေအထား အမျိုးမျိုးဖြင့် ရှေးဂရိတို့၏ နတ်ရုပ်များကဲ့သို့ ထွင်းထု သွန်းလုပ်ကြသည်။ ရုပ်တုတော်ကိုးကွယ်ခြင်း အလေ့အထသည် အရှေ့ဖက် အာရှနိုင်ငံများဖြစ်သော မြန်မာ၊ ယိုးဒယား၊ တရုပ်၊ ဂျပန် အစရှိသည့် နိုင်ငံများသို့ ပျံ့နှံ့ခဲ့လေသည်။ (အိန္ဒိယ အနုပညာနှင့် စာပေ — လည်းရှု။)

**မြန်မာနိုင်ငံ။** ။ဗုဒ္ဓအယူဝါဒသည် အိန္ဒိယနိုင်ငံတွင် မှေးမှိန်၍ သွားသည့် အခါ၌ မြန်မာနိုင်ငံတွင် တစထက်တစတိုးတက် ထွန်းကားလာခဲ့သည်။ ဗုဒ္ဓဝါဒီ မြန်မာလူမျိုးများသည် မြတ်စွာဘုရားသခင်၏ ကိုယ်စားဖြစ်သော စေတီပုထိုးများနှင့် ရုပ်တုဆင်းတုများကို အများအပြား တည်ဆောက်ကြခြင်းဖြင့် သာသနာတော်ကို ပြုစုကြသည်။ ရှေးခေတ်မြန်မာတို့တည်ခဲ့သော အဆောက်အအုံနှင့် ရုပ်တုဆင်းတုများမှာ လက်ဦးအစတွင် အိန္ဒိယနိုင်ငံရှိ အဆောက်အအုံနှင့် ရုပ်ပွားတော်များကို နမူနာယူကာ တည်ဆောက် ထုလုပ်ခဲ့ကြသော်လည်း နောင်အခါ၌ကား မြန်မာနည်း စစ်စစ်ဖြင့် တည်ဆောက် လာကြသည်။ မြန်မာတို့သည် ကျောက်ဆစ်အတတ်၊ ပန်းပုအတတ်၊ ပန်းတဥ်းအတတ်များကို ကောင်းစွာ ကျွမ်းကျင် တတ်မြောက်ကြပေသည်။ (မြန်မာ အနုပညာ — လည်းရှု။)

**တရုပ်နိုင်ငံ။** ။တရုပ်အနုပညာတွင် ရုပ်လုံးဖော်အတတ်သည် အထူးပင် အရေးပါ အရာရောက်သော အတတ်ပညာဖြစ်သည်။ တရုပ်တို့သည် ရွှံ့စေးဖြင့် ၎င်း၊ ကြေးဖြင့် ၎င်း၊ ရွှေ ငွေတို့ဖြင့် ၎င်း၊ ကျောက်အစရှိသည့် မာကျောသော အရာဝတ္ထုတို့ဖြင့် ၎င်း၊ သစ်သားဖြင့်၎င်း ရုပ်လုံးများ ထွင်းထု သွန်းလုပ်နိုင်ကြသည်။ ကျောက်စိမ်းတုံးကြီးများကို အထူး နှစ်သက်ကြသည်။ တရုပ်တို့ ထုလုပ်လေ့ရှိသော ရုပ်လုံးများမှာ စိတ်ကူးယဉ် အနုပညာ လက်ရာပြ ဖြစ်သော နဂါးရုပ်ကြီးများ၊ နတ်ရုပ်များ၊ အလှအပ ငှက်ရုပ်များပင်ဖြစ်သည်။ ဗုဒ္ဓဝါဒီ ရဟန်း သံဃာတို့သည် ဗုဒ္ဓရုပ်ပွားတော်ကို အရွယ်အစားစား ထွင်း ထု သွန်းလုပ်ကာ ကိုးကွယ်ကြလေသည်။

ရုပ်လှင့်ရုပ်ဖမ်းခြင်း။ ။တယ်လီဗစ်ရှင်း — ရှု။

# အမြင့်သဘင်

ရှေးအခါက သဘင်ပညာတွင် မြေဝိုင်းဇာတ်နှင့် ရုပ်စုံဇာတ်ဟူ၍နှစ်မျိုးရှိသည့်အနက် မြေဝိုင်းဇာတ်သည် မြေပေါ်၌ ကရသဖြင့် အနိမ့်သဘင်ဟု ခေါ်၍ ရုပ်စုံဇာတ်သည် စင်ပေါ်၌ ကရသဖြင့် အမြင့်သဘင်ဟုခေါ်လေသည်။ အနိမ့်သဘင်နှင့် အမြင့်သဘင်တွင် အမြင့်သဘင်သည် အခက်ဆုံး၊ အနက်ဆုံး၊ အရင်ဆုံးဟု ပညာရှင်တို့ မှတ်ယူခဲ့ကြလေသည်။

**ရုပ်သေး။** ။ရုပ်သေးဆိုသည်မှာ ခေါင်း၊ ခြေ၊ လက်စသော ကိုယ်အင်္ဂါ အစိတ်အပိုင်းတို့ကို လှုပ်ရှား၍ လူ့သဏ္ဌာန် ဟန်အမူအရာနှင့် ကပြနိုင်စေရန် စီမံပြုလုပ်ထားသော အရုပ်များဖြင့် ခင်းကျင်း ကပြခြင်းကို ခေါ်သည်။ ကမ္ဘာ့ ရုပ်သေးသဘင်တွင် အကြမ်းအားဖြင့် ရုပ်သေး လေးမျိုးလေးစား ရှိလေသည်။ ယင်းတို့မှာ (၁) လက်သွင်းရုပ်သေး၊ သို့မဟုတ် လက်ရုပ်သေး၊ (၂) ခြေ၊ လက်၊ ခေါင်း၊ ခါးတို့တွင် ကြိုးအများတပ်ကာ ဒလက်တွင် ချည်ပြီး ကပြရသောကြိုးဆွဲရုပ်သေး၊ (၃) အရုပ်တွင်းသို့ တုတ်တချောင်းလျှိုသွင်းပြီး ခြေလက်တို့တွင် နန်းကြိုးငယ်၊ တုတ်ချောင်းငယ်တို့တပ်ဆင်ကာ ဆွဲငင်လှုပ်ရှား ကပြရသော တုတ်ထိုးရုပ်သေး၊ (၄) ကတ်ထူပြားကို ပြုလုပ်ထားသည့် အရုပ်ကို စင်နောက်ဖက်မှ မီးထိုးပေးကာ အရိပ်ကိုလှုပ်ရှားပြရသော ရုပ်သေး စသည်တို့ဖြစ်၏။

လက်သွင်း ရုပ်သေး၊ သို့မဟုတ် လက်ရုပ်သေး ဆိုသည်မှာ ခေါင်းတခုတည်းတွင်သာ သစ်သား ထည့်တပ်ပြီးလျှင် ကျန်အပိုင်းတို့တွင် ပိတ်စတို့ဖြင့် ဆက်စပ်ချုပ်လုပ်ထားသည်။ အရုပ်၏အတွင်းပိုင်းသည် အခေါင်းပေါက်ဖြစ်၏။ လက်သွင်း

သောအခါ လက်ညှိုးက ခေါင်းပေါက်တွင်းသို့ သွင်းပြီးလျှင် လက်မနှင့် လက်ခလယ်တို့က လက်ပေါက်များ အတွင်းသို့ သွင်းရသည်။ လက်သွင်း ရုပ်သေးတွင် ရုပ်သေးစင်ပါသော် လည်း စင်တွင် ကြမ်းပြင် မပါချေ။ နောက်ခံကားနှင့် တကူ ရှေ့ကာ ကားဖြင့်လည်း ထားရှိရသည်။ ကပြသော အခါ ရုပ်သေးရုပ်၏ အထက်ပိုင်းသာ ပေါ်နေပြီးလျှင် အရုပ်ကိုင်သူက အောက်ဖက်ကနေရသည်။ ရုပ်သေးစင်တွင် ထွန်းထားသည့် မီးသည် အရုပ်နှင့် နောက်ခံကားပေါ် သို့ တည့်တည့်ကျနေရန် လိုသည်။

ကြိုးဆွဲ ရုပ်သေးမှာမူကား အရုပ်ကို သစ်သားဖြင့် ပြုလုပ်၍ တောက်ပြောင်သော ဖဲ ကတ္တီပါစများဖြင့် ဝတ်ဆင်ပေးထားတတ်သည်။ ခြေဆစ် လက်ဆစ် ခါးဆစ် စသည်တို့တွင် ပတ္တာဆက် တပ်ဆင်ထားသဖြင့် အဆစ်တို့ကို လိုသလို ချိုးနိုင်သည်။ မျက်နှာခြေလက် စသည်တို့ကို ဆေးခြယ်ရသည်။ ခြေကြိုး၊ လက်ကြိုး၊ ခါးကြိုး စသည်တို့ကို ဒလက်တွင်ချည်ကာ ကျွမ်းကျင်စွာ ကပြ အသုံးတော်ခံနိုင်သည်။ သို့သော် ကျွမ်းကျင်မှုကို လွယ်လင့်တကူ မရရှိနိုင်ပေ။ အလေ့အကျင့်များစွာ လိုသည်။ ရုပ်သေးလေးမျိုးတွင် အခက်ဆုံး အမျိုးအစားလည်း ဖြစ်သည်။ မြန်မာရုပ်သေးသည် ဤကမ္ဘာ့ရုပ်သေး ဒုတိယအမျိုးအစားတွင် ပါဝင်သည်။

တုတ်ထိုးရုပ်သေး ဆိုသည်မှာ အရုပ်အတွင်း ဇက်အထိ တုတ်ချောင်းကြီး တချောင်း လျှိုသွင်းထားသည်။ ခြေလက် အတောင် နှုတ်သီး စသည်တို့ကို တုတ်ချောင်းငယ်၊ သို့မဟုတ် နန်းချောင်းငယ်များနှင့် ဆက်သွယ် လှုပ်ရှားကပြရသည်။ စင်မှာ လက်ထိုးရုပ်သေး ကပြသော ရုပ်သေးစင်မျိုးနှင့် အတူတူပင် ဖြစ်၏။

အရိပ် ရုပ်သေး ဆိုသည်မှာ တုတ်ထိုးရုပ်သေးနှင့် အတူတူပင် ဖြစ်၍ ကပြပုံလောက်သာ ကွာခြားသည်။ အရုပ်တို့မှာ များသောအားဖြင့် ကတ်ထူပြားကို ညှပ်ကာ ပြုလုပ်ထားခြင်း ဖြစ်သည်။ တုတ်ကြီး တပ်ဆင်ကာ ခေါင်း ခါး ခြေလက်တို့ကို တုတ်ချောင်းငယ်၊ နန်းချောင်းငယ်တို့နှင့် ဆက်သွယ်ထားပုံတို့မှာ တုတ်ထိုး ရုပ်သေးအတိုင်း ဖြစ်၏။ ငှက်ရုပ်ဆိုလျှင် နှုတ်သီး ဟပြသည်။ အတောင် ခတ်ပြသည်။ အမြီး ခါပြသည်။ ခြေ လှမ်းပြသည်။ စင် ပြင်ထားပုံမှာ ရှေ့တွင်



ရွှေဘို တင်မောင် ရုပ်သေးအဖွဲ့မှ မင်းသား မင်းသမီး နှစ်ပါးသွားဟန် ကကြိုး

ပိတ်ဖြူကားကြီးချထားပြီးလျှင် ပိတ်ဖြူကားနောက် ခပ်လှမ်းလှမ်းတွင် အရုပ်ထားသည်။ အရုပ် နောက်က မီးထိုးပေးသည်။ အရိပ်ကို ပိတ်ဖြူကားပေါ်တွင် တွေ့မြင်ရသည်။

ရုပ်သေး သဘင်သည် မြေထဲပင်လယ် တဝိုက်မှ အီဂျစ်၊ ဂရိ၊ ရောမ စသော ကမ္ဘာ့ ရှေးခေတ်ယဉ်ကျေးမှုများ ထွန်းကားခဲ့စဉ်ကပင် ပေါ်ပေါက် နေပြီဟု ဆိုသည်။ ရုပ်သေး သဘင်သည် ရှေးဦးမဆွကပင် လူထုကို ဖြေဖျော်ရန်အတွက် ပွဲလမ်းသဘင်မျိုး ဖြစ်ခဲ့သည်ဟုလည်း ဆိုသည်။ အလယ်ခေတ်တွင် ဥရောပတိုက်ရှိ ဣတလီ၊ ဂျာမနီ၊ ပြင်သစ်နှင့် အင်္ဂလန်နိုင်ငံတို့တွင် ရုပ်သေးသဘင်သည် ခေတ်စားခဲ့၏။ ဣတလီနိုင်ငံတွင် ရုပ်သေးသဘင်ကို သာသနာ့ဖက်မှ ပုဂ္ဂိုလ်များက ခရစ်တော်ဖွားတော်မူခန်းကဲ့သို့သော အယူဝါဒရေးရာ ဇာတ်လမ်း ဇာတ်ကွက်များကို ကပြရန်အတွက် အသုံးပြုခဲ့ရာ ဣတလီနိုင်ငံမှ တဆင့် ဥရောပတိုက်ရှိ အခြား နိုင်ငံများသို့ ပျံ့နှံ့သွားတန်ရာသည်ဟု ယူဆကြလေသည်။

တရုပ်နိုင်ငံတွင် ရုပ်သေးပညာရပ်သည် စာဟောင်း ပေဟောင်းများအရ လွန်ခဲ့သော နှစ် ၂၀၀၀ ကျော်လောက်ကပင် ပေါ်ပေါက်ခဲ့ကြောင်း သိရ၏။ အိန္ဒိယနိုင်ငံတွင်လည်း ရုပ်သေးပညာ ရပ်သည် နှစ်ပေါင်း ထိုမျှလောက်ပင် ကြာခဲ့ကြောင်း သိရပြန်သည်။ အိန္ဒိယနိုင်ငံ၏ ရုပ်သေးသဘင်ယဉ်ကျေးမှုများသည် ဆူမတြာ၊ဂျားဗား အစရှိသည့် အင်ဒိုနီးရှားနိုင်ငံ အပါအဝင် ကျွန်းများ၊ မလ္လာယုနှင့် ယိုးဒယားတို့ဖက်သို့ ဆင်းသက်လာခဲ့ပြီးလျှင် ထိုနိုင်ငံများတွင် မိမိတို့ ဘာသာနှင့် လူမျိုးအကြိုက် လိုက်ကာ ချဲ့ထွင် ပြင်ဆင်၍ ကပြခဲ့ကြလေသည်။ ဂျားဗားကျွန်းတွင် အထူးသဖြင့် အရိပ်ရုပ်သေးပွဲများမှာ လူကြိုက်များဆဲပင် ဖြစ်၏။

မြန်မာ ရုပ်သေးသဘင်သည် မြန်မာသက္ကရာဇ် ၁၁၃၈ ခုနှစ်တွင် နန်းတက်သော ငစဉ့်ကူးမင်း လက်ထက် သဘင်ဝန်ရာထူးဖြင့် ထမ်းရွက်ရသူ ဦးသော်က စတင် တီထွင်ခဲ့သည်ဟု ဆိုသည်။ "ရုပ်သေးအစ၊ ကျုံးသုံးတန်နှင့် ပုဂံက" ဟူသော စကားအရ မြန်မာ ရုပ်သေးသဘင်သည် သက္ကရာဇ် ၁၂၀၈ ခုနှစ်၌ နန်းတက်သော ပုဂံမင်း လက်ထက်တွင် စတင်ပေါ်ပေါက်သည်ဟုလည်းဆိုရန်ရှိသည်။ တဖန်တုံ မြဝတီမင်းကြီးဦးစ တီထွင်သည်ဟုလည်း အချို့က ဆိုပြန်သည်။ သက္ကရာဇ် ၁၁၉၉ ခုနှစ်တွင် ရွှေဘိုမင်းတရား အထွတ်အမြတ်သို့ရောက်သောအခါ မရီးတော် နန်းမတော် မယ်နု၊ စလင်းမင်းသားကြီး မောင်အိုတို့နှင့် အလိုတူ အလိုပါဟူ၍ မြဝတီမင်းကြီးလည်း အကျဉ်းချထားခြင်း ခံရသည်။ ယင်းကဲ့သို့အကျဉ်းချထား ခံနေရစဉ် အတွင်း စိတ်ညစ်ညူးသဖြင့်၎င်း၊ ပျင်းရိငြီးငွေ့သဖြင့်၎င်း အဝတ်စုတ်များကို အရုပ်လုပ်ပြီးလျှင် ကပြစေရာမှ ရုပ်သေးပေါ်ပေါက်လာကြောင်း အချို့ကဆိုသည်။ သို့သော် သက္ကရာဇ် ၁၁၇၀ ပြည့်နှစ်လောက်တွင် ရေးသားသော အီနောင် နန်းတွင်း ဇာတ်တော်ကြီးတွင် သရေဇာတ်ဟူ၍ ရုပ်သေးအကြောင်း ဖော်ပြပါရှိသည်ကို တွေ့ရပြီးလျှင် အင်းဝခေတ် ဒုတိယမင်းခေါင်လက်ထက် သက္ကရာဇ် ၇၄၆ ခုနှစ်က ရှင်မဟာရဋ္ဌသာရ ရေးသော ဘူရိဒတ်လင်္ကာကြီး၌၎င်း၊ သက္ကရာဇ် ၇၉၁ ခုနှစ်တွင် ရှင်မဟာရဋ္ဌသာရပင် ရေးသားသော သံဝရပျို့၌၎င်း ရုပ်သေးအကြောင်း ဖော်ပြထားသည်ကို တွေ့ရသဖြင့် မြန်မာ ရုပ်သေးသဘင်သည် အင်းဝခေတ်ကပင်လျှင် ပေါ်ပေါက်နေပြီ ဖြစ်ကြောင်း ဆိုနိုင်လေသည်။ ထိုမှတပါး သုတေသီအချို့ကလည်း မြန်မာရုပ်သေးသည် မြန်မာ့မူပိုင် ဖြစ်သည်ဟု ဆိုလေသည်။



ဟိမဝန္တာခန်းတွင် လူယော်များအကြိုက် ဇော်ဂျီအက

ရှေးအခါက ရုပ်သေး သဘင်ကို အမြင့်သဘင်၊ ဇာတ်ကို အနိမ့်သဘင်ဟု ခေါ် ဆိုခဲ့ကြပြီးလျှင် ဇာတ်၊ အငြိမ့်၊ ရုပ်သေး စသည့် သဘင်သုံးမျိုးတွင် ရုပ်စုံသဘင်သည် အခက်ဆုံး၊ အနက်ဆုံး၊ အရင့်ဆုံးဟူ၍ ပညာရှင်အပေါင်းတို့မှတ်ယူခဲ့ကြပေသည်။

မြန်မာ ရုပ်သေးသဘင့်သည် အလွန် စည်းကမ်း ကလနားကြီးသော သဘင်မျိုး ဖြစ်သည်။ ရုပ်သေး ကပြရန် စင်ကိုပင် ထင်သလို မဆောက်လုပ်ရပေ။ ရုပ်သေးစင် အကယ်၍ လယ်ကွက်ထဲတွင် ဆောက်သည်ဆိုပါက လယ်ကန်သင်းကို ခွ၍ မဆောက်ရဘဲ မလွှဲ မရှောင်သာ၍ ဆောက်ရလျှင်လည်း လယ်ကန်သင်းကို ဖြတ်ထားရလေသည်။ ရုပ်သေးစင်သည် အမြင့် သုံးတောင်၊ မျက်နှာစာ အကျယ် အဝန်း ခုနစ်ပင်ခြောက်ခန်းဖြစ်၍ ခန်းဖွင့် ငါးတောင် ရှိရသည်။ လကျာ



မြန်မာရုပ်သေးတွင် ကြိုးဆွဲပညာသည် တန်ဖိုးအရှိဆုံးနှင့် အခက်ဆုံးဖြစ်သည်။ သစ်သားရုပ်များကို လူ့အမူအရာနှင့် ပကတိတူအောင်၊ သဘာဝ ကျနိုင်သမျှကျအောင် အရုပ်ကြိုးတပ်၍ ဆွဲရသည်။ ယနေ့ မြန်မာဇာတ်သဘင်များတွင် ခေတ်စားနေသော စင်တော်မင်းသား စင်တော် မင်းသမီး၊ အရုပ်ထိုင်၊ အရုပ်ပြေး၊ အရုပ်တက်စသည့် ကကြိုးကဟန်များမှာ ရှေးမြန်မာရုပ်သေးသဘင်၏အမွေအနှစ်များပင်ဖြစ်သည်။



ဟီမဝန္တာခန်း ထွက်သောအခါ မျောက်ရုပ်ကို လက်တန်းပေါ်မှရှင်း၊ ဘီလူးရုပ်ကို လက်တန်းထိပ်မှရှင်း ဆွဲယူရသည်။



ရုပ်သေးစင်ပေါ်တွင် ရက်ကန်းစင်ကို သရုပ်ပါပါ တပ်ဆင်ပြသစဉ်



မင်းသားရုပ်ကို ခန့်ညား တည်ကြည်၊ လှပတင့်တယ် ရှုချင်စဖွယ် ဖြစ်အောင် ပြင်ဆင်ရသည်။

ဖက် လက်ဝဲဖက်တို့တွင် ငါးပင် လေးခန်း၊ ခန်းဖွင့် ငါးတောင် ရှိရ၍ ရုပ်သေးစင် နောက်ဖက်တွင် သုံးပင် နှစ်ခန်း၊ ခန်းဖွင့် ငါးတောင် ရှိရသည်။ ရုပ်သေးစင်ဆောက်ရာ၌ ကြသောင်းဝါး၊ ကြခတ်ဝါးများကို မသုံးရဘဲ၊ အမိုးမှာလည်း သက်ငယ်ပျစ်ကိုသာ မိုးရ၏။ ဝါးများကို ဆက်သောအခါ တော့ဆက်မလုပ်ရ၊ ဝါးအခေါင်းထဲသို့ အခြားဝါးတလုံးသွင်း၍ မဆက်ရပေ။ ရှေ့လက်တန်းတွင် မင်းပေါက် ချန်လှပ်ထားရ၍ မင်းပေါက်သည် ဆိုင်းဝိုင်းနှင့် တည့်နေရသည်။ ပွဲခင်းအတွင်းရှိ မင်းလမ်းနှင့်လည်း တည့်နေရသည်။ မတည့်လျှင် ခိုက်ရန် ဖြစ်ပွားတတ်သည်ဟု အယူရှိကြ၏။ မင်းပေါက်ထားရာ၌ လက်တန်းဝါးကို ခေါင်းချင်း ဆိုင်ထားရသည်။ သက်ငယ်ပျစ်များ မိုးရာတွင်လည်း အပျစ်စဉ် မှန်စေရသည်။ ရုပ်သေးစင် ဆောက်လုပ်ရာတွင်လည်း ရွာကို ကျောပေး၍ မဆောက်လုပ်ရပေ။

ရုပ်သေး ကပြရမည့် ပညာသည်များမှာ ရှေးအခါက ယောကျ်ား ပညာတတ်များသာ ကပြရသည်။ မည်သည့် မိန်းမမျှ မပါဝင်ရပေ။ ထို့ကြောင့်ပင် ရုပ်သေး မင်းသမီးများမှာ ယောကျ်ားမင်းသမီးများချည့်သာ ဖြစ်ခဲ့လေသည်။

မြန်မာ ရုပ်သေးသဘင်တွင် ရုပ် ၂၈ ပါးကို အစွဲပြုပြီးလျှင် အရုပ် ၂၈ ရုပ် ပါဝင်မြဲ ဖြစ်သည်ဟု ဆိုသည်။

ထို ၂၈ မျိုးသော အရုပ်တို့မှာ (၁) နတ်ကတော်ရုပ်၊ (၂)မြင်း၊(၃)ဆင်၊(၄)ကျား၊(၅)ဆင်ထိန်း၊(၆) ကုမ္ဘောဘီလူး၊ (၇) ကုမ္ဘဏ်ဘီလူး၊ (၈) ကြက်တူရွေး၊ (၉) ငှက်ရုပ်၊ (၁၀) ဂဠုန်၊ (၁၁) နဂါး၊ (၁၂) ဇော်ဂျီ၊ (၁၃) သင်္ချေး၊ (၁၄) စုန်းမ၊ (၁၅) နတ်၊ (၁၆) နေရာထိုင်ခင်း အရုပ်၊ (၁၇) ရှင်ဘုရင်၊ (၁၈) ရွှေနန်းဆက် မိဖုရား၊ (၁၉) မင်းသားလတ်၊ (၂၀) မင်းသားနု ရုပ်၊(၂၁) မင်းသမီး၊ (၂၂) သံချိုလက်စွဲ၊ (၂၃) သံပျက်လက်စွဲ၊(၂၄) မင်းကြီး သက်တော်ရှည်၊ (၂၅) ရွှေတိုက်ဝန်၊ (၂၆) ဝန်ထောက်၊ (၂၇) ဂုတ်ဝန်၊ (တခါတရံ) မြို့တော်ဝန်၊ (၂၈) ပုဏ္ဏား (တခါတရံ) ဆရာတော်ရုပ်တို့ ဖြစ်သည်။

အခြားမှတ်တမ်းထစောင်တွင် (၁) နတ်ကတော်ရုပ်-၂၊ (၂)မြင်းရုပ်-၁၊ (၃) ဆင်ဖြူဆင်မဲ-၂၊ (၄) ကျားရုပ်-၁၊ (၅)မျောက်ရုပ်-၁၊(၆)ကြက်တူရွေး-၁၊(၇) နဂါးရုပ်-၁၊ (၈)ဘီလူးရုပ်-၂၊ (၉)ဇော်ဂျီ-၁၊ (၁၀)ဝန်ကြီး-၄၊(၁၁) မင်းသား-၁၊ (၁၂) ရှင်ဘုရင်-၁၊ (၁၃) မင်းသမီး-၁၊(၁၄) မင်းသားကြီး မျက်နှာနီနှင့် မျက်နှာဖြူ-၂၊ (၁၅) ပုဏ္ဏား-၁၊ (၁၆) ရသေ့-၁၊ (၁၇) နတ်-၁၊ (၁၈) ဗြဟ္မာ-၁၊ (၁၉) အမယ်အို-၁၊(၂၀)လူပြက်-၂ ဟူ၍ ဖော်ပြထားလေသည်။

အရုပ်များ ထုလုပ်ရာတွင် လူ မြင်း နတ်ရုပ်များကို ယမနေသား၊ သစ်မဉ္ဇူသားများဖြင့် ထုလုပ်ရမည်။ ကျန် အရုပ်များကို လက်ပံ သံသတ်ပင်သားများဖြင့် ထုလုပ်အပ်သည်။ မည်သည့် အရုပ်မဆို အင်္ဂါစုံ ပါစေရမည်ဟု ဆိုသည်။ များသောအားဖြင့် ယမနေသားကို မင်းသမီးရုပ် ထုရာတွင်သာ အသုံးပြုလေ့ ရှိသည်။ ရှင်ဘုရင်ရုပ်၊ မင်းသားရုပ်တို့ကိုထုလုပ်သောအခါ ကေရာဇ်သားကို အသုံးပြုသည်။ ဝန်ကြီးရုပ်၊လက်စွဲတော်ရုပ် စသည်တို့ကို လက်ပံသား၊ ပုန်းမဲစသား၊ မအူသားများကိုအသုံးပြုသည်။ အရုပ်၏အမြင့်မှာ တတောင့်ထွာ တတောင့်တမိုက်ခန့်သာ ရှိလေသည်။

အရုပ်ကို ဆေးခြယ်သော အခါ တိရစ္ဆာန်ရုပ်များကို အကောင်အထည် ပေါ်ရှဲလောက်သာ ဆေးခြယ်ရန် လိုသည်။ လူရုပ်များကို ဆေးခြယ်သောအခါ အထူး ဂရုပြု၍ ရှင်ဘုရင်ရုပ်၊ ဝန်ကြီးရုပ်များဆိုလျှင် ခန့်ညား တည်ကြည်အောင် ခြယ်ရသည်။မင်းသားရုပ်၊ မင်းသမီးရုပ်၊ အပျိုတော်ရုပ်များကို လှပတင့်တယ် ရှုချင်စဖွယ် ဖြစ်အောင် ခြယ်ရသည်။ လက်စွဲတော်ရုပ် (ဝါ) လူပြက်ရုပ်တို့ကိုမူကား ကြည့်ရှုရုံမျှဖြင့် ရယ်ရွှင်စရာဖြစ်လာအောင် ခြယ်ရသည်။သို့သော် များသောအားဖြင့် လူရုပ်များကို ခပ်ပြုံးပြုံး ရေးခြယ်ထားလေ့ ရှိလေသည်။

ရုပ်စုံ ထွက်သောအခါ သူ့အရုပ်နှင့် သူ့တီးကွက် သတ်မှတ်ထားချက်ရှိသည်။ ဥပမာအားဖြင့် ရှင်ဘုရင်ရုပ် ဆိုလျှင် ထွက်လာပြီးသော် နန်းပေါ်မှာ ထိုင်ရသည်။ ထိုနောက် ကန်တော့ခံသည်။တီးကွက်မှာ စမုတ်ခံတီးရသည်။ နန်းတွင်းဝန်၊ ဂုတ်ဝန်၊ တပတ်ဝန်၊ ပြည်ခံဝန် (ဝါ) ခါးကြပ်ဝန်တို့ထွက်လျှင် သပြေခံ၍ အခန်းခန်း တီးပြီးလျှင် သပြေနှင့်ပင် နန်းသို့ဝင်ရသည်။ အပျိုတော်ထွက်လျှင် ဘွဲ့ခံတီး၍ သံစုံညှပ်ကာ မြမြမောင်းမောင်းနှင့် သတ်၍ ဝင်ရသည်။

ဆင်ရုပ် ကျားရုပ် ထွက်လာသောအခါ "သောင်းလုံးမြေလျှံ" ကို တီးရသည်။ နဂါးရုပ်ထွက်သော အခါ "ရွှေနဂါးကြီးခြုံစရာဖဲကတ္တီပါ။ ကတ္တီပါ ရှာပါအုံး၊ မိုးတောင်ကချုန်း" တီးရသည်။ ဂဠုန် ထွက်သောအခါ ဗိန်းဗောင်းကို ရှမ်းရသည်။ ဘီလူးရုပ်၊ ကျေးရုပ် ထွက်သောအခါ ချတ် "မြမန်းဂီရိ" ကို တီးရသည်။ ဇော်ဂျီထွက်သောအခါ "လွမ်းစရာ သည်မိုင်လယ်မှာ" တီးရသည်။ မြင်းရုပ် ထွက်သောအခါ "ရွှေဘို မြင်းရယ်လေး" တီးရလေသည်။

ထို့ပြင် အရုပ်ထွက်ရာတွင်လည်း စည်းကမ်းများ ရှိသေးသည်။ လက်ဝဲဖက် လက်တန်းထိပ်မှ စ၍ မြင်းထွက်လျှင် လကျ်ာဖက် ထီးနန်းစိုက်မည်ဟု သိရသည်။ အလယ်မင်းပေါက်မှ မြင်း စ၍ ထွက်လျှင် လကျ်ာဖက်တွင် တပြည်ထောင်၊ လက်ဝဲဖက်တွင် တပြည်ထောင် ထီးနန်းစိုက်မည်ဟု သိရသည်။

တနည်း ပိတ်လက်တန်းရှေ့တွင် သစ်ပင်နှစ်ပင် စိုက်လျှင် နှစ်ပြည်ထောင် ထီးနန်းစိုက်မည်ဟု ပရိသတ်က သိရ၏။ နှစ်ပြည်ထောင် ထီးနန်း စိုက်သောအခါ လကျ်ာဖက်တွင်

နန်းတော်နန်းဆောင်ပုံချပြီးမှ လက်ဝဲဖက်တွင် နန်းတော်ချရသည်။ နန်းတော် နန်းဆောင်ပုံများ သလွန်တော်များကို လက်တန်းပေါ်က ကျော်၍ ချစိုက်ရသည်။ လက်တန်းဖုံးအောက်မှ ထုတ်၍ ချစိုက်ရိုး ထုံးစံမရှိပေ။ ဟိမဝန္တာခန်းထွက်ခါနီး သစ်ပင်တို့ကို ချစိုက်သောအခါ လက်တန်းဖုံးအောက်ကထုတ်၍ ချစိုက်ရသည်။ ဟိမဝန္တာခန်း ထွက်သောအခါ မျောက်ရုပ်၊ ဝိဇ္ဇာ ဇော်ဂျီရုပ်၊ ငှက်ဂဠုန်ရုပ်များသည် ခုန်လွှား ပျံတက်နိုင်သော သတ္တဝါများ ဖြစ်သည့်အလျောက် လက်တန်းထိပ်မှ စတင်မထွက်ရဘဲ၊လက်တန်းပေါ် မှခုန်ထွက်ခုန်ဝင်ရသည်။ဘီလူးရုပ်၊ ကျားရုပ်၊ ဆင်ရုပ်များ ထွက်သောအခါ လက်တန်းထိပ်မှဆွဲယူရသည်။နဂါး၊ မိကျောင်း စသည့် ရေ၌ ကျက်စားသော တိရစ္ဆာန်အရုပ်များ ထွက်သောအခါ ဆင်ရုပ်၊ မြင်းရုပ်တို့ကဲ့သို့ မြောက်မဆွဲရပဲ ရုပ်စုံစင် ကြမ်းပြင်နှင့် လွတ်မထွက်သွားရန် သတိထားရလေသည်။

ရုပ်သေးကပြပုံမှာ ပဌမပိုင်းတွင်ညဥ့်ဦးယာမ်သဘာယာမ်ပွဲဖြစ်၍ လူစုသည့်အနေနှင့် လူငယ်များအကြိုက် ဟိမဝန္တာမှ မြင်း၊ မျောက်၊ ကျား၊ ဆင်၊ ဇော်ဂျီ စသည်တို့ကို ပွဲထုတ်လေသည်။ ဤပဌမပိုင်းကို ဟိမဝန္တာခန်းဟုလည်း ခေါ်သည်။ မြန်မာတို့၏ ဇာတ်သဘင် အစဉ်အလာအရ မည်သည့် ဇာတ်ကို ကပြသည်ဖြစ်စေ ပဌမ တိုင်းပြည် တည်ရသည်။ ကမ္ဘာရှိမှလည်း တိုင်းပြည် တည်နိုင်သဖြင့် တိုင်းပြည်မတည်ခင် ကမ္ဘာတည်ပြဖို့ လိုသည်။ ကမ္ဘာ တည်ပုံ ပျက်ပုံ ဗုဒ္ဓအယူဝါဒအရ ကမ္ဘာအသစ် ဖြစ်လာခါနီးတွင် ကမ္ဘာပြုမိုးကြီးရွာ၍ ထိုအခါတွင် အာကာသတွင် ရေလောကဓာတ်ကြီး တည်လာကာ၊ ရေ ခြောက်သွားလျှင် မြေမျက်နှာပြင်သည် စည်မျက်နှာပြင်ကဲ့သို့ တညီတည်း ပေါ်ထွန်း လာသည်။ ထိုနောက် နေလနက္ခတ် ပေါ်လာ၍ ဥတုသမုဋ္ဌာန်ကြောင့် အနိမ့်အမြင့် ရှိလာပြီးလျှင် တောတောင် ရေမြေဖြစ်ပေါ်လာကြသည်။ မြင့်မိုရ် ဟိမဝန္တာ တောတောင် ရေ မြေ သမုဒ္ဒရာတို့ ပေါ် ထွန်းလာသည်။ ထိုကြောင့် ကမ္ဘာကြီး တည်ပြသည့်အခန်းကို ထွင်ကာ လူလည်း စုရာရောက်၊ ကလေးများလည်း ပျော်ဖြေရာ ကျစေရန် ကမ္ဘာတည်ပြီးနောက် ဟိမဝန္တာ တောထဲတွင် ဘာသာဘာဝ ဟိမဝန္တာသူ ဟိမဝန္တာသားတို့ ပျော်မြူးနေကြဟန်ကို ကလေးများအတွက် ပြသခြင်းဖြစ်၍ ဟိမဝန္တာခန်းဟု ခေါ်သည်။

ဦးစွာ ပဌမ နတ်ကတော် (အပျိုတော်) ထွက်ပြီးလျှင် မြို့တော်ရှင်၊ နယ်တော်ရှင် ခေါ်သော နတ်ကြီးများကို ကန်တော့၍ ဆုမွန်ကောင်းတောင်းသော သီချင်းများ သီဆိုလျက် ဆိုင်းဝိုင်းကမူ နတ်ချင်းများကို တီးမှုတ်ပေးနေရလေသည်။ နတ်ကတော်သည် အပျိုတော် ၁၂ ခန်းကုန်အောင် ကပြရသည်။

နတ်ကတော်ပြီးလျှင် မြင်းရုပ်ထွက်၏။သဘောမှာ ကမ္ဘာဦးတွင် မြင်းခေါင်းသဏ္ဌာန်ရှိသော အဿဝဏီနက္ခတ် ပေါ်လာခြင်းကို ရည်ညွှန်းခြင်း ဖြစ်သည်ဟု ဆို၏။ ထိုမြင်းရုပ်ကို ပရိသတ်ဖက်သို့ ဦးခေါင်းလှည့်ကာ ဘေးတိုက် ထွက်စေရာ မြင်းတက် ယိုးဒယားစသော တီးလုံးသွားများဖြင့် ဆိုင်းချက်က ပို့ပေးရလေသည်။

မြင်း ဝင်ပြီးသော် မျောက်၊ ကျား၊ ဆင်၊ ဇော်ဂျီစသည်တို့ အစဉ်အလိုက် ထွက်ကြရသည်။

ထိုသို့ ပဌမပိုင်း အရုပ်များကို အစဉ်အလိုက် တီးကွက်၊ အမျိုးမျိုးသော ဆိုင်းချက်ဖြင့် စံနစ်တကျ ပွဲထုတ်ပြီးနောက် ဒုတိယပိုင်း တွင်ကား တိုင်းပြည်တပြည်ကို တည်ရခြင်းသဘော ထင်ရှားအောင် ဘုရင်နှင့် ဝန်ကြီးများ စထုတ်ရ၏။ ထိုအခန်းမှ စ၍ ပြလိုရာ ဇာတ်ကြောင်း ဖော်ရလေသည်။ ထိုနောက် မင်းသား၊ မင်းသမီး နှစ်ပါးသွားခန်းပြီးလျှင် နောက်ဆုံး ဇာတ်လမ်းအလျောက် လွမ်းခန်း ဆွေးခန်းများကို ပြသကြသည်။

ရုပ်သေးသဘင် (ဝါ) အမြင့်သဘင်များ၏ စည်းစံနစ်အတွက် သက္ကရာဇ် ၁၁၈၃ ခုနှစ် စစ်ကိုင်းမင်းတရားကြီးသည် အမရပူရမြို့တော်၌ စိုးစံတော်မူစဉ် ရွှေတောင်မြို့စား သဘင်ဝန်ဦးသော်၏အမိန့်တော်ပြန်တမ်းတွင်ဖော်ပြပါရှိသည်မှာ—

"× × × ရုပ်သေးမှာ ၅၅၀ နိပါတ်၊ ရာဇဝင်၊ မဟာဝင်၊ ဇင်းမယ် စသော ဇာတ်များ၊ သိုက်နှင့် ဝတ္ထုများ၊ ဘုရားသမိုင်းများကို ခင်းကျင်းပြသနိုင်၏။ × × × ပွဲကို သုံးညဥ့်ကပြရမည်။ အစညဥ့်တွင် ရှေးဦးစွာ ဆိုင်းမှ (လေ၊ မီး၊ မိုး) ဟု သုံးကြိမ်တီးပြီးမှ နတ်မိန်းမ စ၍ထွက်ရမည်။ ဇမ္ဗူဒိပ်ကျွန်း လက်ျာထွန်းသောကြောင့် လက်ျာဖက်မှ စ၍ထွက်ရမည်။ ပဌမစင်တိုင်၊ ဒုတိယ နယ်ရှင်တိုင်၊ တတိယ ပွဲကြည့်ပရိသတ်ကို တိုင်တည်ရမည်။ သို့ တိုင်တည်ရာတွင် မင်းသားလုပ်သူ မင်းသမီးလုပ်သူ နှစ်ဦးမှတပါး အခြားလူ သီဆိုခြင်းမပြုရ။ ဆိုင်းဆရာများက တီးခွင့် ရှိသော ၃၇ ချင်း သံချပ်ကြီးများ တီးမှုတ်၍ ဆုံးလျှင် လက်ရုံးတန်းအထက်သို့ အထိအခိုက် မရှိအောင် မ၍ တင်ရမည်။

၎င်းနောက် တောသုံးထောင် ရှိသည်ကို ရည်ရွယ်၍ တောပင် သုံးပင် စိုက်ရမည်။ တောပင်မှာ ဓာတ်နံကောင်းသောသစ်ပင်မှ ယူရမည်။နွယ် စသည်တို့ကို မယူရ။တောပင်ကို စကြဝဠာတန်တိုင်းကို ရည်ရွယ်၍ ကာရံထားသော လက်တန်းအဝတ် အောက်မှ အထက်သို့ စိုက်ထူရမည်။ ထိုနောက် နဂါး ဂဠုန်ထွက်ရမည်။ နဂါးမှာ အောက်မှ အထက်သို့၊ ဂဠုန်မှာ အထက်မှ အောက်သို့ ထွက်ပြရမည်။ ဘေးမှ မထွက်ရ။ ထိုနောက် ယက္ခကုမ္ဘဏ်ကို ပြရမည်။ ယက္ခမှာ လက်ျာ၊ ကုမ္ဘဏ်မှာ လက်ဝဲ ထွက်ရမည်။ မျောက်ထွက်လျှင် တောပင်ထိပ်မှ ကြောက်လန့်သည့်ပုံ ပြရမည်။ ထိုနောက် ဆင်ကျား—ဆင်မှာ လက်ဝဲ၊ ကျားဆွဲ လက်ျာ ထွက်ရမည်။



ရုပ်သေး ဟာသပြကွက်တွင် ပါဝင်သည့် မစ်ကီကြွက်နှင့် ဂူဖီလူရှင်တော်

ထိုနောက် မြင်း ထွက်ရမည်။ မြင်းမှာ နန်းတည်ရာဖက်သို့ မျက်နှာမူ၍ ပဌမလေးဖက်၊ ဒုတိယ ဆင်ရံ၊ တတိယ ဒုန်းဟု သုံးမျိုး ကရမည်။ ၎င်းနောက် နန်းရှိရာဖက်သို့ ဝင်ရမည်။ ထိုနောက် ဝိဇ္ဇာ ဇော်ဂျီဟူသော ဇော်ဂျီကို ပြရမည်။ ဆေးကြိတ်ဟန်၊ ဆေးကြူးဟန်ပြ၍ လုပသော ကကွက်များဖြင့်သာ ပြရမည်။ ဇော်ဂျီမှာ အလယ်မင်းပေါက်က သော်၎င်း၊ လက်တန်းပေါ်ကသော်၎င်း ထွက်ဝင် ကပြခွင့် ရှိသည်။ ၎င်းနောက် ကပြမည့်ဇာတ်အလျောက် ထီးနန်းကို လကျ်ာဖက်တွင် ချရမည်။ နန်းပြိုင်ဖြစ်မူ လကျ်ာဖက်က အလျင်ချရမည်။ ရသေ့ကျောင်း ပါမူ ထိုနန်းနှင့်အတူ ချရမည်။ ၎င်းနောက် (၁) နန်းရင်းဝန်၊ (၂) တရားဝန်၊ (၃)ဝန်ထောက်တော်မင်း၊ (၄) မြို့ဝန်မင်းဟူသော အစဉ်အတိုင်း လက်ဝဲမှ ယာသို့ သိမ်မွေ့စွာ ညီလာဝင်ရမည်။ ညီလာမစုံမီ ဓမ္မသတ်၊ ရာဇသတ်၊ ဖြတ်ထုံးများကို တည်ကြည်လေးနက်သော အသံဖြင့် ဆွေးနွေးပြောဆိုရမည်။ ထိုနောက် စမုတ်ခံကို တီး၊ ထွက်စည် ယွန်းပြီးသည်နှင့်တပြိုင်နက် ဘုရင်နန်းထိုင်ပြီး ဖြစ်ရမည်။ ၎င်းနောက် ညီလာခံပြီးလျှင် ဇာတ်ပန္နက် ရိုက်ရမည်။ မည်သည့်ဇာတ်ကို ကပြသည် ဖြစ်စေ နန်းပေါ်မှ ရှင်ဘုရင် ငိုခြင်း မပြုရ။ ရာဇဣန္ဒြေ နှင့်သာ ပြောဆိုရမည်။ ၎င်းနောက် ဇာတ်ကြောင်းကို အသင့် ဖြစ်အောင် ညွှန်း၍ လေပြေချ။ လေပြေမှာ သိုက်တပေါင်စသော လင်္ကာများ ပဌမညဥ့်တွင် ရွတ်ဆိုခြင်း မပြုရ။ နောက်ညဥ့်မှသာ ရွတ်ဆိုရမည်။ ဇာတ်လမ်း အလျောက် ကပြရမည့်ပွဲမှာ မည်သည့်အခါမဆို သုံးညဥ့်ကပြရမည်။

× × ×

ပြသ ပြောဆို သီကုံးရာတွင် သာသနာ၊ ရာဇာ၊ ဘာသာများကို မထိပါးစေရ၊ ပြက်လုံးများမှာ ရဟန်း ပုဏ္ဏား ကြားမကောင်းသော ပြက်ရယ်မှု မပြုရ။ လွန်ကြူးခဲ့သော သူအား ကိုယ်ကိုသော်၎င်း၊ လက်ကိုသော်၎င်း၊ လျှာကိုသော်၎င်း လှီးဖြတ်ခွင့် ရှိစေရမည်။”

× × ×

မြန်မာ ဘုရင်များ လက်ထက်တွင် ရုပ်သေးစင်များကို (၁)စင်တော်ကြီး၊ (၂) စင်တော်ကလေး၊ (၃) သမီးတော်စင်၊ (၄) ဝင်းစင်ဟူ၍ ခွဲခြားထားခဲ့သည်။ စင်တော်ကြီးဆိုသည်မှာ ဘုရင်မင်းမြတ်၏အမိန့်ဖြင့်သာ တည်ထောင်ထားသော ရုပ်သေးအဖွဲ့ ဖြစ်သည်။ ထင်ပေါ် ကျော်ကြားပညာသား ပါပါ ကပြ အသုံးတော်ခံနိုင်သော ပညာသည်များကို မြို့စားရွာစား ချီးမြှောက်တော် မူလေ့ရှိသည်။ စင်တော်ကြီးသည် ဝဲဆိုင်း ယာဆိုင်းနှင့် တကွ မင်းတက်လှေကား ပါရသည်။ စင်ထောင့်၌ ငှက်ပျောပင်စိုက်ခွင့် ရာဇမတ် ကာခွင့်များလည်း ရရှိသည်။ စင်တော်ကြီးတွင် ကြာယပ် နှဖူးစည်း တပ်ရသည်။ သိုင်းများလည်းရသည်။ ရုပ်စုံစင်တော်ကြီးအတွက် တစင်စာ ကိရိယာအစုံအလင်ကို ရွှေတိုက်တော် အမိန့်နှင့် ဆိုင်ရာတို့က ထုတ်ပေးရသည်။ မင်းတုန်းမင်းနှင့် သီပေါမင်းတို့ လက်ထက်က စင်တော်ကြီးများနှင့် တကွ လကျ်ာဆိုင်းတော်၊ လက်ဝဲ ဆိုင်းတော်တို့သည် မြို့တော်တွင်းမှာသာ ကပြ တီးမှုတ်ကြရသည်။ စင်တော်ကလေး ဆိုသည်မှာလည်း ဘုရင်၏အမိန့်ဖြင့် တည်ထောင်ထားသော ရုပ်သေးအဖွဲ့ပင် ဖြစ်၏။ သို့ရာတွင် စင်တော်ကြီးကဲ့သို့ အခွင့်အရေးများ မရရှိပေ။ သမီးတော်စင်မှာ ဘုရင့်သမီးတော်များ၏ အမိန့်ဖြင့် တည်ထောင်ထားသော ရုပ်သေးအဖွဲ့ဖြစ်၍ ဝင်းစင်မှာကား အရပ်စင်ပင် ဖြစ်သည်။ စင်တော်ကလေး၊ သမီးတော်စင်နှင့် ဝင်းစင်ခေါ် အရပ်စင်တို့မှာ စင်တော်ကြီးကဲ့သို့ အခွင့်အရေး မရကြပေ။ သို့သော် စင်တော်ကလေးနှင့် သမီးတော်စင်တို့မှာမူကား ထိုက်သည့်အားလျော်စွာ ချီးမြှောက်ခြင်းကို ခံရတတ်သည်။ စင်တော်ကလေးနှင့် သမီးတော်စင်တို့မှာ မြို့တော်တွင်း ကပြသည် ဖြစ်စေကာမူ အမိန့်တော် ခံရသေးသည်။ ဝင်းစင်ကလေးမှာမူကား အမိန့်တော်မခံရဘဲ ငှားသူရှိလျှင် ကပြနိုင်လေသည်။

အမရ ပူရနှင့် ရတနာပုံ ခေတ်တွင် ရုပ်သေးမင်းသားမင်းသမီးများအဖြစ် ကျော်ကြားခဲ့သူ အများအပြား ရှိခဲ့ရာ မင်းသားအဖြစ် ဦးသာပြော၊ ဆရာလှိုက်၊ ဦးအောင်တိုးတို့နှင့် မင်းသမီးများမှာ ဦးသာဇံ၊ ဦးချင်းတောင်၊ ဦးပါတူ၊ ဆရာမူ၊ ဆရာစံ၊ ဆရာမြင်၊ ဆရာမြဲ၊ ဦးပန်းညိုတို့ ဖြစ်လေ

သည်။ သီပေါမင်း ပါတော်မူပြီးနောက်တွင်ကား မင်းသား ဦးပုန်းမို၊ ဦးလူထွား၊ ပုဂံသား ဦးဘကျော် (ဦးဘကျော် လည်း ဟူ၏။) ဦးရွှေစင်၊ ပုဆိုးခြုံ ဦးရွှေလုံး၊ မအူးထိုး ဦးညို မှိုင်း၊ ချဲဦးသစ်၊ ဦးကြီးပေါင်တန်း၊ ဦးအုံးခိုင်၊ ဆရာဥာဏ်၊ ဦးသာဖန်၊ ဦးကြွယ်ကြီး၊ ပိဋကတ်ဆရာမောင်၊ ဆရာသျှန်၊ ဦးစိန်ခို၊ စပယ်သက်၊ ဦးဘလွန်း၊ စပယ်တင်တို့ဖြစ်၍ မင်းသမီးများအဖြစ် ဆရာပု၊ ဦးဖူးညို၊ ဦးသန့်၊ ဦးဘိုးဝန်၊ ဦးဘေကလေး၊ ဦးပျားအုံ၊ ဦးမြွားကလေး၊ ဦးမျှင်၊ ပန်းခုံတော် မင်းသမီး မောင်ဝေ၊ ဦးရှမ်းဖြူ၊ ဦးပေါက်တူး၊ ဦးပေါက်ဆိန် တို့သည် ပရိသတ် နှုတ်များတွင် တင်ရှိ လောက်အောင် စွမ်းဆောင် နိုင်ကြပေသည်။ အထူးသဖြင့် "အပြောတွင် ဦးဖူးညို၊ အဆိုတွင် ဦးပု"ဟုပြောစမှတ်ရလောက်အောင်ပင် ရုပ်သေး မင်းသမီး ဦးဖူးညိုနှင့် ဦးပုတို့သည် နာမည်ရသည့် ဖက်ဒွဲ ထူးခြားလှပေသည်။ ရုပ်သေးမင်းသမီး လုပ်သူသည် "ရုပ်သေးမှာ အသံ၊ ဇာတ်မှာဟန်" ဆိုသည့်အတိုင်း အသံ ကောင်းရန်နှင့် အပြောကောင်းရန် အရေးကြီးသည်။ ရှေး ခေတ် ရုပ်သေး မင်းသား မင်းသမီးလုပ်သူများသည် အသံ ကောင်း၊ အပြောကောင်းလှသဖြင့် အရုပ်ကလေးများက သရုပ်ဆောင် ကပြသည်ကိုပင် ပရိသတ်များ ငိုကြ ရယ်ကြ ရလေသည်။

ကမ္ဘာ့ကြိုးဆွဲရုပ်သေးတွင် သာမန်အားဖြင့် ပခုံး နှစ်ကြိုး၊ ဦးခေါင်း နှစ်ကြိုး၊ လက် နှစ်ကြိုး၊ ခြေ နှစ်ကြိုး၊ ခါး တကြိုးဟူ၍ ကိုးကြိုးသာ ရှိသည်။ ယင်းတို့ကို ဒလက်တွင် စုချည်ကာ ကျွမ်းကျင်စွာ ကပြ အသုံးတော်ခံသည်။ မြန်မာ ရုပ်သေး တွင် ရှေးအခါက မင်းသားရုပ်မှာ ဦးခေါင်း နှစ်ကြိုး၊ ပခုံး နှစ်ကြိုး၊ခါး တကြိုး၊ လက်မောင်း နှစ်ကြိုး၊ လက်ဖျား နှစ်ကြိုး များသာ တပ်၍ သိမ်သိမ် မွေ့မွေ့ ယဉ်ကျေးစွာ လက်ဟန် ခြေဟန် ဦးခေါင်းဟန်လောက်သာ ကြိုးဟန် ရှိလေသည်။ မင်းသမီးမှာ ဒူးကြိုး၊ ခြေကြိုး နှစ်ခုစီ တိုးရသည်။ ထိုသို့ တိုးရခြင်း အကြောင်းမှာ ဘုရင့်ရှေ့တော်တွင် အသုံးခံရ သဖြင့် ကြိုးဆွဲသူက မိမိခြေဖျားပေါ် တွင် မင်းသမီးရုပ်တင်၍ ယိမ်းနွဲ့သော အမူအရာ ဖြစ်အောင် ခြေထိုး၍ မကရ၊ သို့ အတွက် ခြေထိုးမည့်အစား ခြေကြိုးတပ်ပေးရလေသည်။

မြန်မာရုပ်သေးတွင် ကြိုးဆွဲပညာသည် တန်ဖိုး အရှိဆုံး နှင့် အခက်ဆုံး ဖြစ်သည်။ သစ်သားရုပ်များကို လူ့အမူအရာ နှင့် ပကတိ တူအောင် သဘာဝကျနိုင်သမျှ ကျအောင် အရုပ် ကြိုးတပ်၍ ဆွဲရသည်။ ရုပ်သေးခေတ် ကောင်းစားခဲ့စဉ်က အပျိုတော်တွင် ကြိုး ၆၀ ထက် မနည်း ရှိခဲ့ဘူးသည်ဟုဆို သည်။ ၁၂၈၅ ခုနှစ်ဆီက ပေါ်ပေါက်ခဲ့ဘူးသော ကြိုးဆွဲ ဦးဝင်း ဆိုသူ၏ အရုပ်မှာ ကြိုးပေါင်း ၆၀ ရှိ၍ ထိုအရုပ်မှာ ဒလက်ကို ကိုင်ရုံမျှနှင့် အရုပ်ကလေး လှုပ်နေသည်ဟု ဆိုလေ သည်။ မြန်မာ ရုပ်သေးသဘင်မှ ကဟန် အချို့ကို မြန်မာ ဇာတ်သဘင်သည်တို့က မှီးကာ အရုပ်ဟန်သက်သက် အက (စင်တော်မင်းသား၊ သို့မဟုတ် စင်တော် မင်းသမီးဟန်)၊ အရုပ်နှင့်လူ ပေါင်းစပ်ကဟန်၊ ယိုးဒယားမူ၊ သို့မဟုတ် ရှေး မြန်မာအကတွင် အရုပ်ဟန် ပေါင်းစပ်ထားဟန် စသည်ဖြင့် အကဟန် အမျိုးမျိုး တီထွင် ကွန့်မြူး လာကြပေသည်။ ယနေ့ မြန်မာသဘင်များတွင် ခေတ်စားနေသော စင်တော် မင်းသား၊ စင်တော်မင်းသမီး၊ အရုပ်ထိုင်၊ အရုပ်ပြေး၊ အရုပ် တက် စသည့် ကကြိုး ကဟန်များမှာ ရှေး မြန်မာရုပ်သေး သဘင်၏ အမွေအနှစ်များပင် ဖြစ်ပေသည်။

ကြိုးဆွဲရာတွင် မင်းသမီးရုပ်ကို ကြိုးဆွဲ အကောင်းဆုံး က ဆွဲရသည်။ အဆွဲခက်သည်မှာ ကြိုးနည်းပြီးလျှင် ဟန် များများ ဆွဲရသည့် ဇော်ဂျီရုပ် ဖြစ်သည်။ ဇော်ထွက်သည့် အခါ မင်းသမီး ကြိုးဆွဲသည် ဇော်ရုပ်ကိုဆွဲရသည်။ အပျို တော်ရုပ်ကိုလည်း ထိုသူပင် ဆွဲရသည်။ ထို့ကြောင့် အပျို တော်ထွက်ကတည်းကဖြစ်စေ၊ ဇော်ထွက်ကတည်းကဖြစ်စေ ရုပ်သေးစင်မှ မင်းသမီးကြိုးဆွဲ ကောင်း မကောင်းကို သိနိုင် သည်။ အတော်ဆုံးလူသာ ဇော်ရုပ်ကို ဆွဲရသဖြင့် ဇော်ဆွဲ ဆိုလျှင် လူတော် လူမော် အဓိပ္ပာယ်ရလေသည်။

**ရမ္မဆေး, ဆာ ဝီလျံ (ခရစ် ၁၈၅၂–၁၉၁၆)။** ။ဗြိတိသျှ လူမျိုး ဓာတုဗေဒပညာရှင် ဆာ ဝီလျံရမ္မဆေးသည် ၁၈၅၂ ခုနှစ် အောက်တိုဘာလ ၂ ရက်နေ့တွင် စကော့တလန်ပြည် ဂလပ်စဂိုးမြို့၌ဖွားမြင်သည်။ ဂလပ်စဂိုးမြို့နှင့်ဂျာမနီနိုင်ငံတွင်


ဗြိတိသျှ သိပ္ပံပညာရှင် ဆာ ဝီလျံရမ္မဆေးသည် အားဂွန် ဓာတ်ငွေ့ကို ရှာဖွေ တွေ့ရှိခဲ့သည်။

ပညာ သင်ကြားခဲ့သည်။ ၁၈၈၁ ခုနှစ်မှ ၁၈၈၇ ခုနှစ် အထိ ဗရစ္စတို တက္ကသိုလ်တွင် ကျောင်းအုပ်ကြီးအဖြစ် ဆောင်ရွက်ခဲ့သည်။ တဖန် ၁၈၈၇ ခုနှစ်မှ ၁၉၁၂ ခုနှစ် အထိ လန်ဒန်တက္ကသိုလ်တွင် ဓာတုဗေဒ ပါမောက္ခအဖြစ် အမှုထမ်းသည်။

ဝီလျံ ရမ္မဆေးသည် ဓာတုဗေဒ ပညာ၌ ထူးချွန်သည်။ ၁၈၉၄ ခုနှစ် မတိုင်မီက လေထဲ၌ အောက်ဆီဂျင်နှင့် နိုက်ထရိုဂျင် ဓာတ်ငွေ့ နှစ်မျိုးတည်းသာ ပါရှိသည်ဟု လူများက သိကြ၏။ ၁၈၉၄ ခုနှစ်တွင် ဝီလျံရမ္မဆေးသည် လော့ရေးလီနှင့် အတူ လေထဲ၌ အောက်ဆီဂျင်နှင့် နိုက်ထရိုဂျင်အပြင် အခြားဓာတ်ငွေ့သစ် တမျိုးလည်း ပါဝင်ကြောင်း ရှာဖွေတွေ့ရှိလေသည်။ ထိုဓာတ်ငွေ့သစ်ကို အားဂွန် ဟု အမည်ပေးသည်။ ရမ္မဆေးသည် အားဂွန် အပြင် အခြားဓာတ်ငွေ့သစ် လေးမျိုးကိုလည်း ရှာဖွေတွေ့ရှိခဲ့ရာ ယင်းတို့မှာ ဟီလီယမ်၊ နီယွန်၊ ကရစ်ပတွန်နှင့် ဇီနွန်တို့ဖြစ်သည်။ (နီယွန်၊ ဇီနွန်၊ ဟီလီယမ်၊ အားဂွန် — ရှု။)

ထိုကဲ့သို့ သိပ္ပံပညာ၌ ထူးချွန်သောကြောင့် ဝီလျံ ရမ္မဆေးသည် ၁၉၀၂ ခုနှစ်တွင် ဆာဘွဲ့ချီးမြှင့်၍ သူကောင်းပြုခြင်း ခံရသည့် အပြင် ၁၉၀၄ ခုနှစ်တွင် ဓာတုဗေဒပညာ အတွက် နိုဗဲဆုကိုလည်း ဆွတ်ခူး ရရှိခဲ့လေသည်။

ဆာ ဝီလျံ ရမ္မဆေးသည် ၁၉၁၆ ခုနှစ် ဇူလိုင်လ ၂၃ ရက်နေ့တွင် ကွယ်လွန်သည်။

**ရမ်းဗရန့်**(ခရစ် ၁၆၀၆–၁၆၆၉)။ ။ဒပ်ချ်လူမျိုး နာမည်ကျော် ပန်းချီဆရာ ရမ်းဗရန့် ဗန်ရင်းသည် ၁၆၀၆ ခုနှစ် ဇူလိုင်လ ၁၅ ရက်နေ့တွင် ဟော်လန်နိုင်ငံ လေဒင်မြို့၌ ဖွားမြင်သည်။ ဖခင်မှာ စက်ပိုင်ရှင် တဦးဖြစ်၏။ မိဖများက ရမ်းဗရန့်ကို ဦးစွာ လက်တင် စာသင်ကျောင်းသို့ ပို့ပြီးနောက် လေဒင် တက္ကသိုလ်၌ ပညာ ဆက်လက် သင်ကြားစေသည်။ သို့ရာတွင် သူသည် စာပေဖက်၌ စိတ်မဝင်စားချေ။ ပန်းချီဖက်၌သာ စိတ်ထက်သန်သဖြင့် ဣတလီပြန် ပန်းချီဆရာ တဦးထံတွင် သုံးနှစ်မျှတပည့်ခံသင်ကြားစေသည်။ထိုနောက် အမ္မစတာဒမ်မြို့တွင် ပီတာ လာ့စမန်ဆိုသူထံ၌ ပန်းချီပညာကို ခြောက်လခန့် ဆက်လက်လေ့လာသည်။ ၁၆၂၆ ခုနှစ်တွင် လေဒင်မြို့သို့ ပြန်လာပြီးလျှင် ငါးနှစ်မျှ ပန်းချီရေးဆွဲလျက် နေထိုင်လေသည်။ ထိုအတောအတွင်း ပန်းချီ ပညာနှင့် အက်ချင်းခေါ် စားဆေးဖြင့် ပုံဆွဲခြင်း အတတ်ကို လေ့လာသည်။ ရမ်းဗရန့်သည် မိမိအိမ်သူအိမ်သားနှင့် နေ့စဉ်တွေ့မြင်ရသော ပုဂ္ဂိုလ်များကို ပုံစံပြု၍ ပုံတူများ ရေးဆွဲလေ့ ရှိ၏။ သူ၏ ပုံတူကားပေါင်း ၅၀ ကျော်မျှတွင် ရေးဆွဲနည်း စံနစ် အမျိုးမျိုးပြောင်း၍ သရုပ်ဖော်ထားသည်ကို တွေ့ရသည်။

၁၆၃၁ ခုနှစ်သို့ ရောက်သော် ရမ်းဗရန့်၏ သတင်းမှာ ကျော်ကြားလာပြီ ဖြစ်၍ အမ္မစတာဒမ်မြို့သို့ ပြောင်းရွှေ့



ရမ်းဗရန့်၏ ကိုယ်တိုင် ရေးဆွဲသည့် ပုံတူ ပန်းချီကား

အခြေစိုက် နေထိုင်လေသည်။ ၁၆၃၄ ခုနှစ်တွင် ရုပ်ရည်လှပသော ဆတ်စကီယာ ဆိုသူ အမျိုးသမီးနှင့် လက်ထပ်သည်။ သမီး သုံးယောက်နှင့် သားတယောက် ထွန်းကား ခဲ့သော်လည်း သမီးများမှာ ကလေး အရွယ်ကပင် ပျက်စီးကုန်၏။ ထိုအချိန်တွင် ရမ်းဗရန့်သည် မိမိ၏ဇနီးကို ပုံစံပြုလျက် ပုံတူကား များစွာ ရေးဆွဲခဲ့သည်။ နာမည်လည်း ထင်ရှားလာ၍ ပစ္စည်းဥစ္စာလည်း ကြွယ်ဝချမ်းသာ လာလေသည်။

၁၆၄၂ ခုနှစ်တွင် ဇနီးသည် ကွယ်လွန်သည်။ ထိုနောက် နှစ်သုံးဆယ် စစ်ပွဲကြောင့် ဥရောပတိုက် မြောက်ပိုင်းတွင် စီးပွားရေးကပ် ဆိုက်လာရာ ရမ်းဗရန့်သည် မိမိ၏ ပန်းချီကားများကို လေလံတင်၍ လျှော့ဈေးဖြင့် ရောင်းရသည် အထိ အခြေ ဆိုးလာခဲ့လေသည်။ နောက်ဆုံး၌ လူမွဲ တယောက် အဖြစ်ဖြင့် ၁၆၆၉ ခု နှစ် အောက်တိုဘာလ ၄ ရက်နေ့တွင် ကွယ်လွန်လေသည်။

ရမ်းဗရန့်၏ ပန်းချီကားများသည် အလင်း အမှောင် ပေးပုံ သိမ်မွေ့ခြင်း၊ ဆေးရောင်သုံးပုံ နူးညံ့ခြင်း၊ ဆေးသား ချောညက်ခြင်းတို့ဖြင့် ပြည့်စုံ၏။ပန်းချီကားပေါင်း ၇၀၀ ခန့် ရေးဆွဲခဲ့သည်အနက် ၅၀၀ မျှ ကျန်ရှိသေးသည်။ ယခုအခါ အမ္မစတာဒမ်မြို့ တော်ဝင် ပြတိုက်၌ရှိသော "ညဉ့်စောင့်များ" အမည်ရှိ ပန်းချီကားမှာ ရမ်းဗရန့်၏ ထင်ရှားသည့် လက်ရာတခု ဖြစ်ပေသည်။ ထိုပန်းချီကားကို ၁၆၄၂ ခုနှစ်

တွင် ရေးဆွဲခဲ့သည်။ ရမ်းဗရန့်သည် သက်ရှိအရွယ် လူပေါင်း ၂၉ ဦးပုံတွင် အလင်း အမှောင် ဆေးရောင်ဆေးသား စသည် တို့ကို ကျွမ်းကျင်စွာ ဆက်စပ် ရေးဆွဲထားသဖြင့် အသက် ဝင်လျက်ရှိပေသည်။ ပန်းချီကား အလယ်လောက်တွင် အဝါ ရောင် ဝတ်ဆင်သော မိန်းကလေးတယောက်ပုံကို ထည့်ခြင်း အားဖြင့် ပတ်ဝန်းကျင် အမှောင်ထုကို ပြေအောင် ပြေပေး ထားလေသည်။ (နယ်သာလန် အနုပညာ — လည်း ၅။)

**ရမ်းဗြဲမြို့။** ။ရမ်းဗြဲမြို့သည် ရခိုင်တိုင်း ကျောက်ဖြူခရိုင် ရမ်းဗြဲမြို့နယ်၏ ရုံးစိုက်ရာမြို့ဖြစ်၍ ရမ်းဗြဲကျွန်း၏ အရှေ့ဖက် ကမ်း အနီးတွင် တည်ရှိသည်။ ရခိုင်တိုင်းကို အင်္ဂလိပ်တို့ သိမ်းပိုက်ပြီးသော အခါတွင် ရမ်းဗြဲမြို့သည် ရမ်းဗြဲခရိုင်၏ မြို့တော် ဖြစ်ခဲ့၏။ ၁၈၅၂ ခုနှစ်တွင် ရမ်းဗြဲနှင့် အမ်းခရိုင်ကို ပေါင်း၍ ကျောက်ဖြူခရိုင်ဟု ဖွဲ့စည်းသောအခါ ခရိုင် ဌာန ချုပ်ရုံးကို ကျောက်ဖြူမြို့သို့ ရွှေ့လိုက်သဖြင့် ရမ်းဗြဲမြို့သည် မြို့နယ်ရုံးစိုက်ရာမြို့အဖြစ်သာ ကျန်ရစ်တော့သည်။ ထိုအခါ၌ လူဦးရေ ၉,၀၀၀ ခန့် နေထိုင်ခဲ့သော ရမ်းဗြဲမြို့တွင် လူဦးရေ တဖြည်းဖြည်းနည်းပါးလာခဲ့သည်။ ၁၉၅၃ ခုနှစ် သန်းကောင် စာရင်းအရ လူဦးရေ ၃,၇၉၂ ယောက်သာရှိတော့သည်။

ရမ်းဗြဲမြို့သည် ကျောက်ဖြူမြို့မှ မိုင် ၅၀ ခန့်ဝေး၍ ရေ ကြောင်းမှ သွားလာနိုင်သည်။ ရမ်းဗြဲမြို့နယ်မှ ဆန်၊ မဲနယ်၊ သကြား၊ ထုံးနှင့် ရေနံ ထွက်သည်။

**ရှဲလို။** ။ညောင်ရမ်းမင်းဆက် ပင်းတလဲမင်း (မြန်မာ ၁၀၁၀–၁၀၂၃) လက်ထက်တွင် တရုပ်ပြည်၌ မင် မင်းဆက် ပျက်ပြုန်း၍ မန်ချူးမင်းဆက် ကြီးစိုးလာလေသည်။ ဥတည် ဘွား ရှဲလိုသည် မင် မင်းဆက်တွင် နောက်ဆုံးမင်း ဖြစ်၍ ထီးနန်း ဆုံးပြီးနောက် ယူနန်နယ်တွင်းသို့ ဝင်ရောက်ကာ အခိုင်အလုံ နေထိုင်လေသည်။ ရှဲလိုသည် သိန္နီ၊ မိုင်းမော စသော နယ်စပ်ရှိ လက်နက်နိုင်ငံမြို့ရွာတို့ကို အခွန်တောင်း သဖြင့် မြန်မာမင်းက စစ်သည်တော်တို့ကို ချီတက်တိုက်ခိုက် စေသည်။ တရုပ်တို့ မခုခံနိုင်၍ ဆုတ်ပေးရလေသည်။

ထိုနောက် တရက် (မန်ချူး) တို့က မိုင်းဆည်တွင်နေသော ဥတည်ဘွား ရှဲလိုကို လာရောက် တိုက်ခိုက်ကြရာ အင်အား ကြီးမား လှသောကြောင့် တပ်ပျက်ပြီးလျှင် မြန်မာနိုင်ငံထဲ သို့ ဝင်ရောက် ခိုလှုံ နေရလေသည်။ ရှဲလိုသည် ဗန်းမော် စော်ဘွားမှ တဆင့် ဘုရင်မင်းမြတ်ထံ ရွှေပိသာ တရာ ဆက် ၍ မြန်မာနိုင်ငံတွင် ခိုလှုံခွင့် လျှောက်ထားလေသည်။ မင်း တရားကြီးကလည်း လက်နက်ချ အညံ့ခံ၍ ဝင်လာလျှင် လက်ခံမည်ဟု အမိန့်တော် ချမှတ်သည့်အတိုင်း ရှဲလိုနှင့်တကွ အခြွေအရံတို့ကို စစ်ကိုင်းမြို့ ဆင်မျှားရှင်အရပ်တွင် နေရာ ချထား ပေးလေသည်။

တရုပ်ပြည်တွင် မင်းပြောင်း မင်းလွှဲအချိန် ဖြစ်နေခိုက် နယ်ခြားဒေသတို့၌ လုယက် တိုက်ခိုက်မှုများ ထူပြောလျက် ရှိလေသည်။ ရှဲလို၏ ကျေးကျွန် စစ်တပ်အချို့နှင့် အခြား တရုပ်စစ်တပ်တို့သည် မိုးနဲ၊ ညောင်ရွှေ စသော နိုင်ငံတော် အစွန်အဖျားရှိ မြို့များကို တိုက်ခိုက် သိမ်းယူကြလေသည်။ မြန်မာစစ်တပ်တို့သည် မေမြို့အနီး ဝက်ဝင်အရပ်၌ တရုပ်တို့ ကို ဆီးကြို တိုက်ခိုက်ရာ အားမတန်သဖြင့် ပရမ်းပတာ ဆုတ်ခွာလာခဲ့ရလေသည်။ တရုပ်တို့က ဖိတိုက်လာသော ကြောင့် မြစ်ငယ်မြစ်ကို ဖြတ်ကူးသည်တွင် မြန်မာ စစ်သည် တော် မြောက်မြားစွာ ရေနစ် သေဆုံးခဲ့လေသည်။ တရုပ် တို့လည်း အင်းဝမြို့တော်အနီးရှိ တောင်ပလုနှင့် တန်တားဦး တို့ကို သိမ်းယူ၍ ကျေးရွာများကို လုယက်ဖျက်ဆီးကြသည်။ ကျောင်းကန်များကို မီးတိုက်ကြသည်။ ရဟန်း၊ လူသူတို့ကို သတ်ဖြတ်ကြသည်။ ရှင်လူ ရဟန်းအပေါင်းတို့ အဝေးသို့ ပြေးကြရသည်။ ထိုနောက် တရုပ်တို့သည် တောင်ဖက် ကျောက်ဆည် လယ်တွင်းနယ်များတွင် အခိုင်အလုံ တပ် တည် နေထိုင်၍ လှည့်လည် တိုက်ခိုက် လုယက်ကြသဖြင့် ပြည်သူတို့ လယ်ယာမလုပ်နိုင်သဖြင့် အစားအစာ ရှားပါး ငတ်မွတ်ကြလေသည်။

ထိုနောက် ညီတော် ပြည်မင်းသည် နောင်တော်ပင်းတလဲ မင်းထံမှ ထီးနန်းကို ၁၀၂၃ ခုနှစ်တွင် သိမ်းပိုက်အုပ်စိုးလေ သည်။ ပြည်မင်း နန်းတက်သည့်နှစ်၌ပင် မြန်မာနိုင်ငံအတွင်း အခိုင်အလုံ နေထိုင်ကြသောတရုပ်တို့ကို တိုက်ခိုက်စေသည်။ တရုပ်တို့ ဆုတ်ခွာရသည်။ မင်းကြီးသည် စစ်ကိုင်းတွင် နေထိုင်သော ဥတည်ဘွား ရှဲလို၏ကျွန် ၇၀၀ ကျော်တို့ကို လည်း သစ္စာတော်ပေးရန် ထူပါရုံဘုရားသို့ ခေါ်ဆောင်စေ ပြီးလျှင် ကျေးရွာ အသီးအသီးတို့၌ အစုစုခွဲထားရန် အမိန့် တော်ချမှတ်လေသည်။ တရုပ်တို့က မိုင်းဆည်စားပါမှ လိုက် မည်ဆို၍ ထူပါရုံဘုရားသို့ အတူတကွ ရောက်ရှိလာကြသည် တွင် မိုင်းဆည်စားက မိမိကို သတ်မည်ထင်သဖြင့် ရဲမက် တော် တဦးလက်မှ ဓားကို လုယူပြီးလျှင် ရဲမက်တို့ကို စတင် တိုက်ခိုက်လေသည်။ ထိုအခါ ရဲမက်တော်တို့က တရုပ်တို့ကို ဝန်းရံ၍ သေနတ်အမြောက်တို့ဖြင့် တယောက်မကျန် ပစ် ကြလေသည်။ ဥတည်ဘွား ရှဲလိုကိုမူ အသက်ချမ်းသာခွင့် ပေးသနားတော်မူသည်။

ထိုနှစ်အတွင်း ယူနန်ဘုရင်ခံက စစ်သည် အလုံးအရင်း နှင့် မန္တလေးခရိုင် အောင်ပင်လယ် အရပ် အထိ ချီလာပြီး လျှင် ဥတည်ဘွား ရှဲလိုကို ပေးအပ်ရန်တောင်းဆိုလာသည်။ ပြည်မင်းလည်း မြန်မာပြည်တွင်း၌ အားနည်း၍ ရဲမက်တော် တို့ ပင်ပန်းနေသည်က တကြောင်း၊ ဘိုးတော် (ထူပါရုံ ဒါယ ကာ ဘုရင် နရပတိ) လက်ထက်တွင် ဗန်းမော်စော်ဘွား ထွက်ပြေးစဉ်က တရုပ်တို့က ထုတ်ပေးခဲ့ဘူးသော ထုံးကို

ထောက်၍ တကြောင်း ရှုလိုကို သားမြေးတို့နှင့်တကွ မေးတော်မူသည်။

တရုပ်တို့သည် ရှုလိုကို ဆောင်ယူ၍ ယူနန်ပြည်မြို့ ဈေးကွက်တွင် လည်ပင်းကို ကြိုးနှင့်ချည်၍ အဆုံး စီရင်ခဲ့ကြသည်။ ထိုအချိန်က ရှုလို၏အသက်မှာ ၃၈ နှစ်ရှိပြီ ဖြစ်သည်။ အသက် ၁၄ နှစ် အရွယ်ရှိ သူ၏ အမွေစား အမွေခံ သားကိုလည်း အထက်ပါ နည်းအတိုင်းပင် သတ်ပစ်ကြသည်။ ရှုလိုနှင့် တကွ အိမ်သူ အိမ်သား အားလုံးတို့သည် ရောမကက်သလစ်ဂိုဏ်းဝင် ခရစ်ယန် အယူဝါဒသို့ ပြောင်းကြသည်ဟု ဆိုသည်။ ခရစ်ယန် အယူဝါဒသို့ ပြောင်းပြီးနောက် ရှုလို၏ သားကြီးကို ကွန်စတန်တင်းဟူ၍၎င်း၊ မိဖုရားကြီးကို အန်းဟူ၍ ၎င်း အသီးအသီး အမည်ပြောင်း၍ မှည့်ခေါ်သည်ဟုလည်း ဆိုလေသည်။

ရုံးပတီပင်။ ။ရုံးပတီပင်ကို ရုက္ခဗေဒ အလိုအရ ဟိဗိစကပ် အက်စကူလင်တပ်ဟု ခေါ်သည်။

ရုံးပတီစေ့များကို မိုးမစမီ မေလ၊ သို့မဟုတ် ဇွန်လဆန်းစလောက်တွင် စိုက်ပျိုးသင့်သည်။ အစေ့များကို မစိုက်ပျိုးမီ မြေများကို ဆွ၍ မြေဘောင်ဖြစ်အောင် ပြုပြင်ပေးသင့်သည်။ ထိုမြေဘောင်၏ အကျယ်ကို နှစ်ပေမျှ ထားသင့်၍ မြေဘောင် တခုနှင့်တခုကို တပေစီ ခြားထားသင့်သည်။ သို့မဟုတ် ခြောက်လက်မနက်သည့် ကျင်းများကို တူး၍ စိုက်ပျိုးသင့်သည်။ အစေ့များကို ဆွထားသည့် မြေကြီးတွင် တင်ရုံသာသာမျှ ထားရသည်။ တစေ့နှင့်တစေ့ကို နှစ်ပေမျှစီ ခြား၍ စိုက်သင့်သည်။ ထိုနောက် အစေ့များပေါ်တွင် မြေဆီလွှာ၊ သို့မဟုတ် နွားချေး မြေဩဇာဖြင့် ဖုံး၍ ရေလောင်းပေးရသည်။ ထိုနောက်တွင် ရေကို ရက်သတ္တပတ်အတွင်း နှစ်ကြိမ်၊ သို့မဟုတ် သုံးကြိမ်မျှသာ လောင်းပေးရ လေသည်။ ရုံးပတီသီး ၁၀၀ ရှိ အစေ့များကို မြေဧက တဧကတွင် စိုက်ပျိုး နိုင်လေသည်။ အပင်ကလေးများ သုံးလက်မခန့် ကြီးမြင့်လာသောအခါ တပင်နှင့်တပင် တတောင်ခန့် ကွာ၍ ပေါက်နိုင်စေရန်နှင့် သန်စွမ်း ကြီးထွားသော အပင်များသာ ကျန်ခဲ့စေရန် အပင်များကို ပါးပေးရသည်။ ရုံးပတီပင်ကလေးများ ရှစ်လက်မခန့် မြင့်လာကြသောအခါတွင် အပင်ကလေးများ၏ အခြေတွင် ပြာများဖြစ်စေ၊ နွားချေးများ ဖြစ်စေ၊ ထို နှစ်မျိုး ရောထားသည်ကို ဖြစ်စေ ဖြူးသိပ်၍ ပေးရသည်။ အပင်ကလေးများ နှစ်ပေမျှ မြင့်လာကြသောအခါတွင် အပင်ကလေးများ၏ ခေါင်ညွန့်များကို နှိမ်ပေးရသည်။ အပွင့်များပွင့်လာသောအခါတွင် ရေများများ လောင်းပေးရသည်။ သို့မဟုတ်လျှင် ပိုးကောင်များ ကျရောက်လာတတ်သည်။ ပိုးကောင်များ ကျရောက်လာသည်ကို တွေ့လျှင်



အရသာချိုသည့် ရုံးပတီ

ပြာများဖြင့် ဖြူးပေးလျှင် အပင်များ ကောင်းလာသည်ကို တွေ့နိုင်ပေသည်။ ငှက်စာဆော်ဖြစ်သော လက်ဦးသီးများသည် စိုက်ပြီးနောက် သုံးလခန့်ကြာသည်တွင် ခူးယူ စားသုံးနိုင်လောက်အောင် ကြီးထွားလာကြသည်။

ရုံးပတီသီးကို မီးကင်၍၎င်း၊ ရေနွေးဖျော၍၎င်း ငပိရေနှင့် တို့စားကြ၏။ သနပ်လုပ်၍လည်းစားကြ၏။ ကြော်ချက် ချက်၍လည်း စားကြ၏။ ထိုပြင် ဟင်းချို ချက်၍၎င်း၊ ခရမ်းသီး၊ အာလူး၊ ပဲသီး စသည်တို့နှင့် ရောနှော ချဉ်ရေဟင်းချက်၍၎င်း စားကြသည်။

မြန်မာဆေးကျမ်းအလိုအားဖြင့် ရုံးပတီသီးသည် ကျိခဲ့၏။ လေ၊ သလိပ်ကို ပျက်စေတတ်၏။ အကြောအခြင်တို့ကို လေးလံ တောင့်တင်းစေတတ်၏ဟု ဆိုလေသည်။

ရုံးပင်။ ။ရုံးပင် နှစ်မျိုးနှစ်စားရှိရာ တမျိုးကို ရုက္ခဗေဒ အလိုအားဖြင့် အေနိုဂျီးဆပ်အကျူမိနာတာ ဟု ခေါ်၍ တမျိုးကို အေနိုဂျီးဆပ် ဖိလိရီအီး ဖိုလီယာဟု ခေါ်သည်။

မြန်မာနိုင်ငံတွင် မိုးများ၍ နွေအခါ၌ အရွက်ကြွေသော သစ်တောများတွင် ရုံးပင်ကို တွေ့နိုင်သည်။ ရုံးပင် နှစ်မျိုး ရှိရာတွင် တမျိုးသည် အမြင့်ပေတရာထိရှိ၍ ပင်စည်လုံးပတ် ရှစ်ပေကိုးပေခန့်ရှိလျက် ကျန်တမျိုးမှာ ထိုအပင်ထက် အ

နည်းငယ် ငယ်သည်။ ထိုပြင် အပင်၏အရွက်နှင့် အခေါက်တို့သည်လည်း တမျိုးနှင့်တမျိုး မတူကြသဖြင့် ခွဲခြားရန် မခဲယဉ်းချေ။

ရှုံးပင်နှစ်မျိုးလုံး၏ အသားရောင်မှာ ဝါကြန့်ကြန့် ဖြစ်၍ အတော်အသင့် မာသည်။ ရှုံးသားသည် ပွတ်ပြင်ရ ခက်၏။ သို့သော် ပုဆိန်၊ တူ အစရှိသည်တို့၏ လက်ကိုင်ရိုးများပြုလုပ်ရန် အကောင်းဆုံးသစ်သား ဖြစ်သည်။ ရှုံးသား မီးသွေးကို ပန်းပဲဖိုနှင့် ပန်းထိမ်ဖိုများအတွက် အသုံးပြုနိုင်သည်။ ရှုံးသားသည် အသားသေအောင် ပြုပြင်ပေးရာတွင် ကောက်ကွေး ကွဲအက်တတ်သဖြင့် မိုးတွင်းအခါ၌ ထိုသစ်ကို ခွဲဖြတ်စိတ်ပြဲပြီးလျှင် ဂရုစိုက်၍ တဖြည်းဖြည်း ခြောက်သွေ့လာစေရသည်။ ရှုံးသားသည် အကြမ်းထည် အဆောက်အအုံများ ဆောက်လုပ်ရာတွင် အသုံးချနိုင်သဖြင့် ယခင်ကထက်ပို၍ ယခုအချိန်တွင် ရှုံးသားကို အသုံး များလာကြလေသည်။ထိုပြင် အဆောက်အအုံများကို ဒိုင်းကန်မြားထောက်ရန်လည်း အသုံးပြုနိုင်ပေသည်။ မီးရထားလမ်း အောက်ခံဇလီဖားတုံးများအဖြစ်လည်း အသုံးပြုနိုင်သည်။ ရှုံးသားသည် ပျော့ပျောင်း၍ ခိုင်ခံ့သဖြင့် လှေလှော်တက်များနှင့် တက်မများ ပြုလုပ်ရန် သင့်တော်သော အသားဖြစ်လေသည်။ သို့သော် လေးသဖြင့် အသုံးနည်းကြသည်။ လှည်းသန်နှင့် ရထားသန်များ ပြုလုပ်ရန်လည်း သင့်တော်သော အသား ဖြစ်သည်။

တနင်္သာရီတိုင်း တောင်ဖက်ပိုင်း၌ ပေါက်ရောက်သော အနန်းဖိုပင်သည် အမှန်အားဖြင့် ရှုံးပင်အငယ်မျိုးဖြစ်သည်။

**ရှာင်နယ် (ရေင်နယ်)။** ။ ရှာင်နယ်သည် ရှမ်းပြည်တောင်ပိုင်း မြေလတ်ဒေသတွင် မြောက်ဖက်အကျဆုံး တည်ရှိသောနယ်တနယ် ဖြစ်သည်။ မြောက်ဖက်တွင် ဘော်နယ်၊ အရှေ့ဖက်တွင် ရပ်စောက်နယ်နှင့် ပင်းတယနယ်၊ တောင်ဖက်တွင် ပင်းတယနယ်နှင့် မိတ္ထီလာခရိုင်၊ အနောက်ဖက်တွင် မိတ္ထီလာခရိုင်နှင့် ကျောက်ဆည်ခရိုင်တို့ အသီးအသီး ရှိကြသည်။ နယ်အကျယ်အဝန်းမှာ ၃၅၆ စတုရန်းမိုင် ရှိ၍ ကျေးရွာ အုပ်စုပေါင်း ၆၀ ရှိသည်။ လူဦးရေ ၈၆၇၂ (၁၉၃၁) ယောက် ရှိပြီးလျှင် မြန်မာ၊ ဓနု၊ တောင်ရိုး၊ တောင်သူ (ပအိုး)၊ ရှမ်း၊ ပလောင်နှင့် အခြား တောင်တန်းသားများ နေထိုင်လျက် ရှိကြသည်။ ရှာင်နယ်၏ ရုံးစိုက်မြို့မှာ နယ်၏ မြောက်ပိုင်းရှိ ရှာင်မြို့ (ရေင်မြို့) ဖြစ်သည်။

ရှာင်နယ် အရှေ့ဖက်ပိုင်းသည် ခြောက်သွေ့၍ လှိုင်းတွန့်ထသကဲ့သို့ မညီမညာ ရှိနေသည်။ အနောက်ဖက်ပိုင်းသည် တောင်ထူထပ်ပြီးလျှင် ပျမ်းမျှခြင်းအားဖြင့် ပေ ငါးထောင် ကျော်မြင့်သော တောင်တန်းရှိသည်။ ပန်းလောင်မြစ်နှင့် ယင်း၏ လက်တက်များသည် အနောက်ပိုင်းကို ဖြတ်သန်းစီးဆင်းသည်။ ထိုမြစ်သည် ရေစီး သန်သဖြင့် သစ်ဖောင် ဝါးဖောင်မျှောရန်အတွက်သာ အသုံးချနိုင်သည်။ မြစ်စီးဆင်းရာ တလျှောက်တွင် အဖိုးတန် ကျွန်းသစ်တောများ ရှိသည်။ ပန်းလောင် မြစ်ဝှမ်းဒေသသည် ပူပြင်းသော်လည်း အရှေ့ဖက်ပိုင်းထက် မိုးများသည်။

ပုဂံပြည်ရှင် အလောင်းစည်သူ မင်းသည် ဖောင်စကြာဖြင့် ယခုရှာင်တည်ရှိရာဒေသသို့ တိုင်းခန်းလှည့်လည်ရောက်ရှိခဲ့ရာ ထိုဒေသတွင် နောက်ကျ ကျန်ရစ်သော ဗိုလ်ပါ ပရိသတ်တို့ကို ရပ်ဆိုင်း ငံ့လင့်တော်မူရသောကြောင့် ရပ်ငံ့ဟု တွင်ကြောင်း၊ အလောင်းစည်သူမင်း ရပ်ငံ့တော်မူနေစဉ် ယင်းရှာင်မြို့ မြောက်ဖက် ရွှေပွင့်လင်း စေတီတော်ကို တည်တော်မူသည်။ ထိုအခါ၌ မင်းကြီး၏ ဆင်ဖြူတော်သည် လွတ်ထားရာမှ ရေမွတ်သိပ်သောကြောင့် အနောက်ဖက်ကုန်းမြင့်ရာ မြေကွက်ကို အစွယ်ဖြင့် ထိုးလျှင် သန့်ရှင်းကြည်လင်သော ရေများ ထွက်လာသောကြောင့် ဆင်ဖြူတော်သည် ရေ ဝလင်စွာ သောက်သုံးရသည်။ ထိုအချင်းအရာကို ဆင်ထိန်းများ တွေ့မြင်၍ ရေကိုခပ်ယူပြီးလျှင် မင်းကြီးထံ ဆက်သလျက် ဆင်ဖြူတော် တူး၍ရသောရေ ဖြစ်ကြောင်း လျှောက်ထားသည့်အခါ မင်းတရားကြီးလည်း ဝမ်းမြောက် ဝမ်းသာ ထိုရေကို မြစမ်းသုံးဆောင်တော်မူသည်။ ရေအရသာမှာ ခတ်နေ့်နေ့်ရှိသည်ဟု မိန့်တော်မူသည့် အစွဲပြု၍ ရေင်သမုတ်ကြပြန်သည်။ထိုကြောင့် ထိုဒေသကို ရပ်ငံ့၊ ထို့နောက် ရေင်ဟု ခေါ်လာခဲ့ရာ မြန်မာတို့က ရှာင်ဟု ခေါ်ကြသည်ဟု ဆိုသည်။

ရှာင်နယ်သည် ရှေးအခါက ငွေခွန်မှူး အုပ်ချုပ်ရသော နယ်ဖြစ်သည်။ နောင်အခါတွင် ရှာင်နယ်ကို နယ်ရှင်မြို့စား စော်ဘွား အစဉ်အဆက်တို့က အုပ်ချုပ် လာခဲ့လေသည်။ အင်္ဂလိပ်အစိုးရ လက်ထက်က ရှမ်းပြည်နယ် ဒေသကို ပဒေသရာဇ် ရှမ်းပြည်နယ်ဟု ခေါ်တွင်စေလျက် မြန်မာပြည်ဘုရင်ခံ၏ တိုက်ရိုက် အုပ်ချုပ်မှုအောက်တွင် ထားရှိခဲ့သည်။ နယ်ရှင် မြို့စား၊ စော်ဘွားတို့ကလည်း မိမိတို့ဆိုင်ရာ နယ်ပယ်များကို အစဉ်အလာ ဥပဒေအရ အုပ်ချုပ်ခဲ့ကြလေသည်။ ၁၉၄၈ ခုနှစ်တွင် မြန်မာနိုင်ငံသည် လွတ်လပ်ရေး ရသောအခါ ရှမ်းပြည်နယ်သည် ပြည်ထောင်စု မြန်မာနိုင်ငံတော် အတွင်း၌ ကိုယ်ပိုင်အုပ်ချုပ်ခွင့် ရသော ပြည်နယ်တနယ်အဖြစ် ပါဝင်ခဲ့သည်။ သို့ရာတွင် နောင်အခါ ရှမ်းပြည်နယ်ဒေသမှ စော်ဘွားကြီးတို့သည် မိမိတို့၏ အုပ်ချုပ်ရေး အာဏာများကို ပြည်သူလူထုလက်သို့ ပြန်လည် အပ်နှင်းရန် ဆုံးဖြတ်ခဲ့ကြလေသည်။ ထိုသို့အားဖြင့် ၁၉၅၉ ခုနှစ် ဧပြီလ ၂၉ ရက်နေ့တွင် ရှမ်းပြည်နယ် ပြည်သူ့ အုပ်ချုပ်ရေး ပန္နက်ချအခမ်းအနားကို တောင်ကြီးမြို့၌ ကျင်းပ ခဲ့လေသည်။ ရှာင်နယ်ရှင် စော်ဘွားကြီး စဝ်ခွန်ရီသည်လည်း မိမိနယ် အုပ်ချုပ်ရေး

အာဏာများကို ရှမ်းပြည်နယ်အစိုးရလက်သို့ လွှဲအပ်ပေးခဲ့လေသည်။

စော်ဘွားများ အုပ်ချုပ်ရေးအာဏာ စွန့်လွှတ်ပြီးနောက် ရှမ်းပြည်တွင် ပြည်မကဲ့သို့ အုပ်ချုပ်ရေးစနစ်ကို တီထွင်လိုက်သည့်အခါ ရွှေနယ်သည် ရှမ်းပြည်တောင်ပိုင်း၊တောင်ကြီးခရိုင်တွင် ပါဝင်သော မြို့နယ်တခု ဖြစ်လာလေသည်။

**ရွှေးပင်။** ။ရွှေးပင်သည် ရွှေးကြီးပင်နှင့်ရွှေးငယ်ပင်(ချင်ရွှေးပင်) ဟူ၍ရှိရာ ရွှေးကြီးပင်ကို ရုက္ခဗေဒအလိုအရ အန်ဒီနန်သီရာ ပါဗိုနီနာဟုခေါ် သည်။ (ချင်ရွှေးပင်—လည်းရှု။)

မြန်မာနိုင်ငံတွင် ရွှေ၊ ငွေ၊ ဘယဆေး အစရှိသည်တို့ကို ချိန်တွယ်ရာ၌ ရွှေးစေ့ အကြီး အငယ် (ရွှေးကြီးစေ့နှင့် ချင်ရွှေးစေ့)တို့ကို ပဲ၊ မူး၊ မတ်၊ ကျပ် စသည့် အလေးငယ်တို့နှင့် ပေါင်းဖက်၍ ယနေ့တိုင် အသုံးပြုလျက် ရှိကြလေသည်။ ရွှေးနှစ် နှစ်မျိုးစလုံးသည် ကြက်ဥပုံ ဖြစ်၍ ကြက်သွေးရောင်တွင် အစွန်းတဖက်၌ အမည်းစက်များဖြင့် လှပသော အစေ့များ ဖြစ်သည်။ ရွှေးငယ်၊ သို့မဟုတ် ချင်ရွှေး နှစ်စေ့သည် ရွှေးကြီးတစေ့နှင့် ညီမျှ၍ ရွှေးကြီးစေ့ ခြောက်ဆယ်သည် တကျပ်သားနှင့် ညီမျှလေသည်။

ရွှေးငယ်ပင် (ချင်ရွှေးပင်) များသည် နွယ်ပင်များ ဖြစ်ကြ၍ မြန်မာနိုင်ငံအထက်ပိုင်းတွင် အတွေ့ရများသည်။ ရွှေးကြီးပင်များကို မြန်မာနိုင်ငံ မြေပြန့်သစ်တောများ၌ တွေ့ရှိရသည်။ သို့သော် မြန်မာနိုင်ငံမှာထက် ကပ္ပလီကျွန်းစုတွင် ပို၍ တွေ့ရသည်။ အမြင့်ပေ ၆၀ ခန့်နှင့် တည့်မတ်သော ပင်စည်ရှိ၍ အရိပ်ကောင်းပေးနိုင်သည့် အခက်အရွက်တို့ဖြင့် လှပသော သစ်ပင်ဖြစ်သည်။ ဆောင်းဥတု၌ ရွက်ဟောင်းကြွေ၍ နွေခါတွင် ရွက်စုံထွက်လျက်ရှိသဖြင့် လမ်းနံဘေး၌ စိုက်ပျိုးရန် သင့်သော အပင်မျိုး ဖြစ်သည်။ အကိုင်းဖြတ် စိုက်နည်းဖြင့် အပင်သစ်ပွားအောင် ပြုလုပ်နိုင်သည်။ ထိုပြင် အကြီးမြန်သော သစ်ပင်လည်းဖြစ်သည်။ ရွှေးပင်များသည် စိုထိုင်းသော ရာသီကို နှစ်သက်ကြသည်။

ရွှေးပင်၏ အခေါက်သည် ညိုမရောင်ဖြစ်၍ ကြမ်းတမ်းသည်။ အလျား တလက်မခန့်ရှိသောအရွက်များသည် ရိုးတံတဖက်တချက်တွင် မျက်နှာချင်းဆိုင် ထွက်ကြသည်။ အနံ့သင်းသော ပန်းပွင့်အဝါကလေးများပွင့်၍ ရှစ်လက်မခန့် ရှည်သော အသီးတောင့်များသည် ကောက်ကွေးလျက် ရှိသည်။ အသီးတောင့်များမှည့်လာလျှင် အသီးခွံ ထက်ခြမ်းကွဲသွားပြီးလျှင် နီရဲရဲအစေ့များ ထွက်ကျလာကြသည်။

ရွှေးပင်၏ အသားသည် နီ၍မာသည်။ အကြောအမျှင်များ သိပ်သည်း၍ အရောင်တင်၍ရသော သစ်သားဖြစ်သည်။ ထို့ကြောင့် စားပွဲ၊ ဘီရို၊ ကုလားထိုင်စသော အိမ်အသုံးအဆောင်များနှင့် အဆောက်အအုံများ ဆောက်လုပ်ရာ၌ အသုံးဝင်သည်။ သို့သော် အနှစ်သား ကောင်းကောင်း ရရှိရန် လွန်စွာခဲယဉ်းလေသည်။

ရွှေးစေ့များကို အထက်တွင် ဖော်ပြခဲ့သည့်အတိုင်း ချိန်တွယ်ရာ၌ အသုံးပြုနိုင်သည့်အပြင် အနာအုံဆေးအဖြစ်ဖြင့်လည်း အသုံးချနိုင်သည်။

ရွှေးကြီးပင်ကို တနင်္သာရီတောင်ပိုင်း ရပ်များတွင် ရွှေးနီပင်ဟု ခေါ်ကြသည်။

**ရှက်မပြတ်သစ်တော။** ။အမြဲစိမ်းသစ်တော — ရှု။

**ရှက်လုပန်းပင်။** ။ဤပန်းပင်သည် အပွင့်ကြောင့် မထင်ရှားပဲ၊ အရွက်များလုပတင့်တယ်ခြင်းကြောင့် ရှက်လုပန်းဟု မြန်မာနိုင်ငံတွင် ထင်ရှားကျော်ကြားနေသည်မှာ နှစ်ပေါင်းတရာခန့်ရှိပြီဟု မှန်းဆရသည်။ သပြေညွန့်၊ ကံ့ကော်ညွန့် စသည်တို့ကို ပန်းခေါ် သကဲ့သို့ ရှက်လုပင်ကို အရွက်လှသဖြင့် ရှက်လုပန်းဟုခေါ် သည်။ အိန္ဒိယနိုင်ငံ၌ ယင်းရှက်လုပန်းပင်ကို အောင်မြင်စွာ စမ်းသပ် စိုက်ပျိုးကြသည်မှာ နှစ်ပေါင်းတရာ့နှစ်ဆယ်ခန့် ရှိကြောင်းကို ဥယျာဉ်ပန်းမာလ် ပညာကျော် မစ္စတာဖာမင်းဂျားက ယူဆသည်။ ယင်းပန်းပင်၏ ဇာတိအရပ်သည် ပသျှူးကျွန်းဆွယ်နှင့် ဆူမတြားကျွန်းကြီး၏အကြားတွင်ရှိသောမလက္ကားကျွန်းငယ်ပင်ဖြစ်သည်။

ရှက်လုပန်းပင်သည် ကိုဒီအီယံဟူသော ရုက္ခဗေဒအမည်ဖြင့် မထင်ရှားပဲ အင်္ဂလိပ်အမည်ဖြင့် ကရိုတွန်ဟုကျော်ကြားသဖြင့် အင်္ဂလိပ်စာတတ်များအတွက် ဤအပင်ကို မမြင်ဘူးလျှင် ကနခိုပင်ဟု အထင်မှားတတ်သည်။

ယင်းပန်းပင်သည် အလွန်သေးငယ်၍ ရနံ့ကင်းသော အပွင့်ကလေးများ ပွင့်လေ့ရှိသော်လည်း အရွက်များ လှပတင့်တယ်သကဲ့သို့ မလှပချေ။ ရှက်လုရွက်များမှာမူ အရောင်စုံ၍ စုံပြေသည့်အပြင် အလွန်မာကျောသဖြင့် လူကြိုက်များလေသည်။ အပင်တပင်တည်းကပင် အရွက်ကိုလိုက်၍ အဆင့်ဆင့် အရောင်ပြောင်းတတ်သဖြင့် မူရင်းအပင်ငယ်နှင့် အပင်ကြီးသည် မတူပဲ တမူကွဲနေသည်ကို ရံဖန်ရံခါ တွေ့ရတတ်သည်။

မူရင်းပေါက်ရောက်ရာ အရပ်ဖြစ်သော မလက္ကားကျွန်းတွင် ရှက်လုပန်းပင်အမျိုးပေါင်း သုံးရာကျော်ရှိရာ၊ ယင်းပန်းပင်သုံးရာကို အမည်နာမပေးပြီးကြောင်းသိရလေသည်။ မြန်မာနိုင်ငံတွင် ရှက်လုပန်းမျိုးပေါင်း ခုနစ်ဆယ်ကျော်ခန့်ရှိသည့်အနက် ဤစာတန်းရေးသူ ကိုယ်တိုင်ပင် မျိုးပေါင်းငါးဆယ်ကျော် စိုက်ဖူးသည်။

စိုက်ပျိုးနည်း

ရှက်လုပန်းပင်ကို မည်သူမဆို အလွယ်တကူ စိုက်ပျိုးနိုင်သည့်အပြင် များသောအားဖြင့် မြေမရွေးပဲ ဖြစ်ထွန်း

နိုင်သည်။ ရာသီဥတု၏ ဒဏ်ကိုလည်း ခံနိုင်ရည်ရှိသည်။ သို့ရာတွင် သဘာဝကျကျနှင့် အရွက်ရောင်များ လှပတင့်တယ်စေလိုလျှင် ယင်းပန်းပင်များကို အသင့်အတင့် အရိပ်အနည်းငယ်အောက်တွင် စိုက်ရသည်။ နေပူခံအဖြစ် စိုက်လျှင် အရိပ်တွင်း စိုက်သော အပင်များနှင့် အရွက်ရောင်မှာ ခြားနားသည်ကို တွေ့ရတတ်သည်။

ရွက်လှပန်းပင်များကို ပန်းအိုးတွင် ဖြစ်စေ၊ သံပုံးတွင် ဖြစ်စေ၊ စည်ပိုင်းတွင် ဖြစ်စေ အောင်မြင်စွာ စိုက်ပျိုးနိုင်သော်လည်း မြေပေါ်တွင် စိုက်ပျိုးသည်က ပိုမို၍ ဖြစ်ထွန်းသည်။ အဘယ်ကြောင့်ဆိုသော် မြေကြီးပေါ်၌ စိုက်ပျိုးသော အပင်သည် ပန်းအိုးထဲတွင် စိုက်ပျိုးသည့် အပင်ထက် ပိုမို၍ အမြစ်များ တိုးပွားထွက်သဖြင့် အကိုင်းအခက်အလက် အတက် အရွက်များလည်း ဝေဆာစွာ ထွက်နိုင်လေသည်။ ရေဝပ်သော မြေတွင် ရွက်လှပန်းပင်သည် မဖြစ်ထွန်းချေ။ ယင်းပန်းပင်ကို အိုးတွင် ဖြစ်စေ၊ စည်ပိုင်းတွင် ဖြစ်စေ စိုက်ပျိုးလိုလျှင် ရေပို ရေလျှံ ထွက်သာအောင် အောက်ခြေခံတွင် အပေါက်များ အနည်းငယ် ချုပေး၍ အပေါက်များ၏ အပေါ်ယံက လုံလောက်စွာ အုတ်ခဲကျိုးငယ်များနှင့် မီးသွေးခဲများ အထူသုံးလက်မခန့် ထည့်ပေးရသည်။

## မြေစပ်နည်းနှင့် မျိုးပွားနည်း

ဥယျာဉ်ခြံမြေဟူသမျှကို ရွက်လှပန်းပင်အတွက် အသုံးပြုနိုင်သည်။ ပန်းအိုးနှင့်ဖြစ်စေ၊ သံပုံးနှင့် ဖြစ်စေ စိုက်ပျိုးလိုလျှင် (၁) နွားချေး မြေဆွေးတဆ (၂) သစ်ပုပ်မြေဆွေးတဆ (၃) ဥယျာဉ်ခြံမြေတဆ (၄) မြစ်တွင်းမှရသော သဲတဆဝက် (၅) အင်တေကျိုးဟောင်း တဆဝက်၊ သို့မဟုတ် ကွန်ကရစ်ဟောင်း ခဲကျိုးငယ်များ တဆဝက်တို့ကို သမအောင် ရောမွှေ၍ အိုးထဲသို့ထည့်ပြီးလျှင် ရွက်လှပင်ကိုစိုက်ပျိုးရမည်။ သို့မှသာလျှင် ပြပွဲဝင်နိုင်လောက်အောင် လှပသော ပန်းပင်များရရှိရန် စိတ်ချရပေမည်။ ရွက်လှပန်းပင် မျိုးပွားလိုလျှင် ရင့်ခါစ ခဲတံချောင်းခန့် ရှိသော အကိုင်းငယ်ကို တထွာသာသာမျှသာ ဖြတ်ယူ၍ သဲသန့်သန့် ထည့်သော အိုးငယ်တွင် မိုးဦးစအခါမှာ ပျိုးယူရမည်။ ထိပ်ဖခြောက်လက်မခန့် အိုးငယ်များကို အသုံးပြုနိုင်သည်။ တလမှ တလခွဲခန့်ကြာလာသောအခါ အမြစ်များ ဖွာ၍ထွက်လာသည်။ ထိုအခါ မိုးလည်း မှန်လာပြီ ဖြစ်သဖြင့် အိုးခပ်ကြီးကြီးတွင်ဖြစ်စေ၊ စည်ပိုင်းတွင်ဖြစ်စေ ရွှေ့ပြောင်း စိုက်နိုင်သည်။

## ဂရုစိုက်ရန် အချက်များ

(၁) အိုးတွင် စိုက်ပျိုးသော အပင်များကို တနှစ် တကြိမ် အထက်ပါစပ်ဖော်နည်းအတိုင်း မြေကို စပ်၍ မြေလဲပေးသင့်သည်။ (၂) သုံးနှစ်တကြိမ် မိုးဦးကျစအခါတွင် အပင်ကြီးများကို အိုးမှထုတ်ပေ၍ အမြစ်ဟောင်းများ ဖြတ်သင့်သလောက် ဖြတ်တောက်၍ ရေစင်စင်ဆေးကြောပေးပြီးလျှင် မြေသစ်လဲပြီး အိုးသစ်တွင် တပန်ပြန်၍ စိုက်ရမည်။ (၃) ပန်းအိုးများထဲတွင်လည်း မြေပေါ်စိုက်သော အပင်များကဲ့သို့ ရေဝပ်၍ မနေစေသင့်ချေ။ (၄) ပန်းပင်အနီးပတ်ဝန်းကျင် မြေကြောတင်း၍နေခဲ့လျှင် မြေကို တူးဆွပေးပြီးလျှင် မြေဩဇာလျော့ပါးနေသည်ဟု ထင်ပါက မြေစာကျွေးသင့်သည်။ (၅) ရွက်လှပင်များ နှစ်တောင်ခန့်မြင့်မားလာသောအခါ ကြည့်၍ ကောင်းအောင် ဓားနှင့် ဖြစ်စေ၊ သစ်ပင်ညှပ်ကတ်ကျေးနှင့် ဖြစ်စေ ဖြတ်တောက်ပေးရသည်။ (၆) အလွန်အဖိုးတန်သော ရွက်လှပန်းပင်ဖြစ်ခဲ့လျှင် အထက်ပါ နည်းအတိုင်း အကိုင်းများကို ဖြတ်တောက်၍ မပျိုးပဲ မိုးဦးစတွင် မြေထုပ်စည်းပြီးသကာလ တလခန့်ကြာသောအခါသေချာစွာမြေထုပ်အောက်နားဆီက လက်နှစ်ဆစ်သာသာခန့်နေရာမှ ကတ်ကျေးဖြင့် ဖြတ်၍ စိုက်ပျိုးရပေမည်။

## ရွက်လှမျိုးများ

လွန်ခဲ့သော နှစ်ပေါင်း တရာ့နှစ်ဆယ်ကျော်ခန့်က ရွက်လှမျိုးပေါင်း ၁၀၀ ကျော်ရှိသည့်အနက် အလှအပဆုံး မျိုး ၅၀ ကိုသာ အိန္ဒိယနှင့် မြန်မာနိုင်ငံတွင် စိုက်ပျိုးလေ့ရှိကြောင်း မှတ်သားရဖူးသည်။ လွန်ခဲ့သည့် နှစ်ပေါင်း ၅၀ ကျော်ခန့်က မန္တလေးမြို့တွင် ရွက်လှပန်းပင် စိုက်ပျိုးရေး ခေတ်စားခဲ့ဘူးသဖြင့် ယခုအခါ အင်္ဂလိပ် နှင်းဆီပန်းများ ခေတ်စားသကဲ့သို့ ပန်းပင်မျိုးကောင်းလျှင် တပင်ကို အဖိုးငွေ ၂၅ ကျပ်မှ ၅၀ ကျပ်အထိပင် ပေး၍ ဝယ်ယူရကြောင်း မှတ်သားရဖူးသည်။ ကျော်ကြားထင်ရှားသော ရွက်လှပန်းပင်များ၏ အမည်အချို့မှာ (၁) ပုလဲမင်းသမီး (၂) ပဥ္စရူပ (၃) နဂါးဆံဒွန် (၄) ကြက်မြီးလိမ် (၅) လှကေသီ (၆) ဆာအက်ရှလေအီဒင် (၇) ဆာရစ်ချတ်ကတ် (၈) ဆာမက်အာသာ (၉) လိမ်မော်မင်းသား (၁၀) ဇာဘုရင် (၁၁) ဒွါရာဝတီ မဟာရာဇာ (၁၂) ဂရန်ဒေး (၁၃) မကာသူရိ (၁၄) ဆန်းဆက် (၁၅) ဝေလမင်းသား (၁၆) အယ်လက်ဇန်းဒါး (၁၇) အယ်လဗန်မြို့စား (၁၈) မြွေဟောက်ပါးပျဉ်း (၁၉) နေရိုရီ (၂၀) နားပန်ကြီး (၂၁) မာလာကြီး (၂၂) မင်းသားကြီး (၂၃) လိပ်ခုံး (၂၄) ကြက်မြီးလိမ်စိမ်း (၂၅) သရက်ရွက် (၂၆) မောင့်မမေ့ (၂၇) သော်တာပင် (၂၈) နေသူရိန် (၂၉) ပတ္တမြားကြိုးလိမ် (၃၀) ဗာဂျာတွန် (၃၁) လစက်ရောင် (၃၂) ဖြဟ္မာလက်ညှိုးမှ စသောအမည်ပေါင်း ငါးဆယ်ကျော်ခန့် မြန်မာနိုင်ငံတွင် ရှိမည်ဟု မှန်းဆရသည်။ အထူးမှတ်သားဖွယ် တရပ်မှာ လွန်ခဲ့သည့် နှစ်ပေါင်း ငါးဆယ်ကျော်ခန့် အချိန်အခါက ကန်တော်ကလေး စိုက်ပျိုးပန်းဥယျာဉ်အသင်းပိုင် ခြံတွင် ယင်းရွက်လှပန်းပင်များကို အင်္ဂလိပ်လို အမည်များတပ်၍

ရောင်းချသော်လည်း မန်းနေပြည်တော်သို့ ရောက်သောအခါ မြန်မာလို စိတ်ကူးယဉ် အမည်များ ပေးကြပြန်သဖြင့် ယင်းပန်းပင်များ၏ အမည်သစ်များကို မှတ်သားခေါ်ဝေါ်ရသည်မှာ နားထွေးစရာပင်ဖြစ်ရချေတော့သည်။ သို့ရာတွင် သဘော်သီးလက်သုပ်ကို "မြမန်းသုပ်"၊ "နှမ်းဖတ်ချဉ်" ကို "ဇေယျာဘုံ" ခေါ် သလောက် မရှုပ်ထွေးဟုဆိုရချေမည်။ ပုံစံပြရမည်ဆိုသော် ရွက်လှပန်းအမည် အင်္ဂလိပ်လို ဆန်းဆက်ကို "နေရီရီ"၊ ဂရန်းဒေးကို "မြတ်လုကြီး"၊ ဗျူးတီးကို "လှယဉ်ကျေး" စသည်ဖြင့် မြန်မာ့ အမြင်နှင့် မြန်မာ့အသွင်ကို ဖော်ထုတ်ကာ အမည်ပေးကြသဖြင့် ရွှေမန်းတို့၏ ဝါသနာထုံသလို "မာလာစုံ" ဘွဲ့နှင်းခံရချေတော့သည်။ ဦးသာမြတ်

**ရှမ်းမဲ့,အားဝင်း** (ခရစ် ၁၈၉၁–၁၉၄၄)။ ။မာရှယ်အားဝင်း ရှမ်းမဲ့သည် ဟစ်တလာ၏ လက်စွဲ စစ်သူကြီးတဦးဖြစ်၍ ဒုတိယ ကမ္ဘာစစ်အတွင်းက ဂျာမန် စစ်တပ်များကို ဦးစီး အုပ်ချုပ်ကာ မြောက်အာဖရိကနှင့် ဥရောပတိုက်တို့တွင် တိုက်ပွဲအမြောက်အမြားကို ဆင်နွှဲခဲ့လေသည်။ ရှမ်းမဲ့သည် ရဲစွမ်းသတ္တိနှင့်ပြည့်စုံ၍ အသက်ဆံဖျား စွန့်စားတိုက်ခိုက်ရခြင်းကို နှစ်သက်သူ ဖြစ်ပေသည်။

ရှမ်းမဲ့သည် ၁၈၉၁ ခုနှစ် နိုဝင်ဘာလ ၁၅ ရက်နေ့တွင် ဂျာမနီနိုင်ငံ ဆွာဗီးယားပြည်နယ် ဟိုက်ဒင်ဟိုင်းမြို့၌ ဖွားမြင်ခဲ့လေသည်။ ၁၉၁၀ ပြည့်နှစ်တွင် စစ်ထဲသို့ ဝင်ရောက်အမှုထမ်းခဲ့ပြီးလျှင် ပဌမကမ္ဘာစစ်အတွင်းက ဒု ဗိုလ်အဖြစ် စစ်မျက်နှာ များစွာတို့တွင် ပါဝင်တိုက်ခိုက်ခဲ့သည်။ စစ်အပြီးတွင် ဂျာမန်စစ်အမှုထမ်း အမြောက်အမြား အလုပ်လက်မဲ့ဖြစ်သွားလေရာ ထိုအထဲတွင် ရှမ်းမဲ့လည်း တဦးအပါအဝင်ဖြစ်ခဲ့သည်။

ရှမ်းမဲ့သည် တူးဗင်းဂျင်တက္ကသိုလ်ကျောင်းတွင် ခေတ္တမျှတက်ရောက် သင်ကြားပြီးနောက် ဟစ်တလာတန်ခိုးကြီးလာသော အခါ နေရှင်နယ်ဆိုရှယ်လစ် ပါတီ (နာဇီပါတီ) သို့ဝင်လေသည်။ မကြာမီ မုန်တိုင်းတပ်ဗိုလ်မှူး အဖြစ်၎င်း၊ ဟစ်တလာ၏ သက်တော်စောင့် ဗိုလ်မှူးအဖြစ်၎င်း ခန့်ထားခြင်း ခံရလေသည်။

ဂျာမန်တို့သည် ၁၉၃၈ ခုနှစ်တွင် ဩစတြီးယားနိုင်ငံကို ချီတက် သိမ်းပိုက်စဉ်က၎င်း၊ ၁၉၃၉ ခုနှစ်တွင် ချက်ကိုဆလိုဗားကီးယားနှင့် ပိုလန်နိုင်ငံတို့ကိုသိမ်းပိုက်စဉ်က၎င်း ရှမ်းမဲ့သည် ဟစ်တလာ၏ ဌာနချုပ်တွင် ရှိနေခဲ့၏။ ထိုအချိန်လောက်တွင် ရှမ်းမဲ့သည် တင့်ကားဖြင့် တိုက်စစ်ဆင်ရာတွင် အထူးကျွမ်းကျင်သူ ဖြစ်နေလေပြီ။

၁၉၄၀ ပြည့်နှစ်တွင် ရှမ်းမဲ့သည် ပြင်သစ်တိုက်ပွဲ၌ သံချပ်ကာကား တပ်ကို ကွပ်ကဲ၍ အောင်မြင်စွာ တိုက်ခဲ့သည်။



ဒုတိယ ကမ္ဘာစစ်အတွင်းက ထင်ရှားသော ဂျာမန်စစ်ဗိုလ်ချုပ် ရှမ်းမဲ့

၁၉၄၁ ခုနှစ်တွင် ဟစ်တလာက ရှမ်းမဲ့အား မြောက် အာဖရိကတိုက်သို့ ဂျာမန် အာဖရိက တပ်များ၏ သေနာပတိချုပ်အဖြစ် စေလွှတ်လိုက်သည်။ ရှမ်းမဲ့သည် သံချပ်ကာ ကားတိုက်ပွဲများတွင် အံ့ဩလောက်အောင် အောင်မြင်စွာတိုက်ခိုက်နိုင်ခဲ့သည်။ ၁၉၄၂ ခုနှစ် မေလတွင် အီဂျစ်ပြည်ရှိ ဗြိတိသျှတပ်များသည် ရှမ်းမဲ့၏ ထိုးစစ်ဒဏ်ကို မခံနိုင်ဘဲ အားလမိန်းအထိ ထွက်ပြေး ဆုတ်ခွာ ကြရလေသည်။ သို့သော် နောင်အခါတွင် ဗိုလ်ချုပ်ရှမ်းမဲ့သည် ဗိုလ်ချုပ် မောင်ဂိုမာရီ ကွပ်ကဲဦးစီးသော ဗြိတိသျှတပ်များက ထိုးစစ်ဆင်ကာ တိုက်ခိုက်ခြင်းကြောင့် သဲကန္တာရကြီးကို ဖြတ်ကျော်ကာ တျူနစ်ဇီးယားအထိ ဆုတ်ခွာခဲ့ရလေသည်။ ထိုသို့ သဲကန္တာရကြီးကို ဖြတ်ကျော်ကာ အောင်မြင်စွာဆုတ်ခွာနိုင်ခဲ့သောကြောင့်ပင် သူ့ကို "သဲကန္တာရမြေခွေး"ဟူ၍ အမည်တပ်ခေါ်ကြသည်။ သို့သော် နောင်အခါတွင် ရှမ်းမဲ့၏တပ်များသည် တျူနစ်ဇီးယားတွင် လက်နက်ချ အညံ့ခံလိုက်ရလေသည်။

အာဖရိက မြောက်ပိုင်းတွင် အရေးမလှကြောင်း သိရှိရသောအခါ ဟစ်တလာသည် ရှမ်းမဲ့အား ဘာလင်သို့ ပြန်လည် ခေါ်ယူခဲ့သည်။ ၁၉၄၃ ခုနှစ်တွင် ရှမ်းမဲ့သည် ဣတလီရှိ ဝင်ရိုးတန်းတပ်များကို အုပ်ချုပ် ခဲ့ရသည်။ ပြင်သစ်နိုင်ငံ နော်မန်ဒီကမ်းခြေသို့ မဟာမိတ်တပ်များ တက်ရောက်ပြီးနောက်တွင် ပြင်သစ်နိုင်ငံရှိ ဂျာမန်တပ်များကို ကွပ်ကဲဦးစီး

ခဲ့ရလေသည်။ ၁၉၄၄ ခုနှစ် ဇူလိုင်လ ၁၇ ရက်နေ့တွင် ရှမ်းမဲ သည် ကားတစင်းဖြင့် ခရီးသွားခဲ့စဉ် မဟာမိတ်လေယာဉ်ပျံ တစင်းက တိုက်ခိုက်သဖြင့် ဒဏ်ရာများ ရရှိခဲ့သောကြောင့် ထိုနှစ် အောက်တိုဘာလ ၁၅ ရက်နေ့တွင် ကွယ်လွန်သွားပြီ ဟုကျေညာခဲ့လေသည်။ သို့သော်အချို့က ဟစ်တလာအား လုပ်ကြံမှုတွင် ပါဝင်သဖြင့် အဖမ်းခံခဲ့ရသည်တွင် သူ့ကိုသူ သတ်သေခဲ့သည်ဟု ဆိုလေသည်။

**ရှရကာရည်။** ။ပုန်းရည် — ရှု။

**ရှရိမန်ဂျုံပင်။** ။ရှရိမန်ဂျုံပင်သည် အမြင့်သုံးပေခန့်ရှိ၍ နှလုံးပုံအရွက်များ ထွက်သည်။ ထိုအပင်၏ အပွင့်များ၌ ဝတ်ရည်များ ရှိသဖြင့် ပျားများ လာရောက်ကြသည်။ ရှရိမန် ဂျုံပင်မှ ရရှိသော ပျားရည်သည် လူကြိုက်အများဆုံး ဖြစ်သည်။ အရောင်မှာ နက်၍ အနံ့ကောင်းသည်။

ရှရိမန် ဂျုံပင်၏ အသီးရောင်မှာ အမည်း၊ သို့မဟုတ် ညို မှိုင်းရောင် ဖြစ်၍ သုံးမျက်နှာရှိသည်။ ဂျုံ၊ ပြောင်းနှင့် စပါး တို့သည် ကောက်နှံများ ဖြစ်ကြပြီးလျှင် မြက်မျိုးရင်းဝင် များ ဖြစ်ကြ၏။ ရှရိမန် ဂျုံမှာမူ ထိုကောက်နှံများနှင့် အ ဆက်အသွယ် မရှိသော်လည်း ယင်းအား ကောက်နှံဟူ၍ပင် ယူဆကြလေသည်။

ရှရိမန် ဂျုံပွင့်တပွင့်မှ အစေ့တစေ့ ရရှိနိုင်သည်။ ထိုအစေ့ များကို စုထောင်းပြီးလျှင် မှုံ့ အဖြစ်နှင့် ဖြစ်စေ၊ ကြက်၊ ငှက်များအတွက် အစာအဖြစ်နှင့် ဖြစ်စေ အသုံး ပြုကြ သည်။ ရှရိမန်ဂျုံတွင် စတာ့ (ကစီ) အမြောက်အမြား ပါရှိ သော်လည်း ဂျုံနှင့်စပါးတို့ကဲ့သို့သော ကောက်နှံစစ်များမှာ ကဲ့သို့ အဆီနှင့် ပရိုတင်းများ မရှိလှချေ။

ရှရိမန်ဂျုံပင်သည် အာရှတိုက် အလယ်ပိုင်းတွင် မူလ ပေါက်ရောက်သည်။ ထိုနောက်တွင် တရုတ်ပြည်သို့ယူဆောင် သွားပြီးလျှင် စိုက်ပျိုးယူကြသည်။ တရုတ်ပြည်၌ ရှရိမန်ဂျုံ ပင်ကို နှစ် ရာပေါင်းများစွာ စိုက်ပျိုးခဲ့ကြလေသည်။ ထို နောက် အာရှတိုက်မှ တဖန် ဥရောပတိုက်သို့ ယူဆောင်၍ စိုက်ပျိုးကြသည်။ ထိုနောက်မှ ရှရိမန် ဂျုံပင်ကို အမေရိက တိုက်သို့ ယူဆောင်ပြီးလျှင် စိုက်ပျိုးကြသည်။ တခါက ရှရိ မန်ဂျုံသည် အရေးပါခဲ့သော်လည်း ယခုအခါတွင်မူ ရှေးက ကဲ့သို့ အရေးမပါလှတော့ချေ။

ရှရိမန်ဂျုံကို ကမ္ဘာကရှေးကကဲ့သို့ဂရုမမူကြသော်လည်း ထိုအပင်ကို အမြောက်အမြားပင် စိုက်ပျိုးလျက် ရှိကြပေ သေးသည်။ ထိုသို့စိုက်ပျိုးကြသည်မှာ ထိုရှရိမန် ဂျုံသည် ခံနိုင်ရည် ရှိပြီးလျှင် အပင်၌ ရောဂါကျရောက်ခြင်း နည်း ပါးသောကြောင့် ဖြစ်သည်။ စိုက်ပျိုးရာ၌လည်း မြေကြီး ကို ဂရုတစိုက် ပြုပြင်ပေးရန် မလိုချေ။ ရှရိမန်ဂျုံသည် မြေ ဩဇာ ညံ့ဖျင်းသော မြေ၌လည်း ပေါက်နိုင်သည်။ ထိုပြင် အခြား ကောက်နှံမျိုးများအတွက် ရေများလွန်းသော နေ ရာများတွင်လည်း ပေါက်နိုင်သည်။ နှင်းပေါက်ခဲနှင့် အခြား အဖျက်အဆီးများ ရှိသော နေရာမျိုး များတွင် ထိုရှရိမန် ဂျုံပင်များကို နွေကူးရာသီ နောက်ပိုင်းတွင် စိုက်ပျိုးလေ့ ရှိကြသည်။ ရှရိမန်ဂျုံသည် အပွားလွယ်သဖြင့် အစေ့များ ကို ကျဲကျဲစိုက်ရသည်။ ပေါက်ရာတွင် သိပ်သည်းစွာပေါက် သဖြင့် အခြားမလိုလားအပ်သည့် အပင်များကို ပျက်စီး သွားနိုင်စေသည်။

အင်္ဂလန် နိုင်ငံတွင် ရှရိမန် ဂျုံပင်ကို အမဲအဖြစ်နှင့်မွေးမြူ ထားသော ငှက်များရှိရာဒေသတွင် နယ်နိမိတ်အဖြစ်ငှင်း၊ ငှက်စာအဖြစ်ငှင်း စိုက်ပျိုးလေ့ ရှိကြသည်။

ရှရိမန် ဂျုံ၏ ရုက္ခဗေဒအမည်မှာ ဖက်ဂိုပိုင်ရမ် အက်စကူ လင်တမ် ဖြစ်သည်။

**ရှားစောင်းမျိုး။** ။ရှားစောင်းမျိုးအားလုံးသည်"ကက် တစီအီး" မျိုးရင်းဝင်များ ဖြစ်ကြလေသည်။ ရှားစောင်း မျိုးစိတ်အမြောက်အမြားရှိရာ မျိုးစိတ်ပေါင်း ၁၀၀၀ ခန့်ကို အမည် ပေးပြီးကြလေပြီ။ ရှားစောင်းမျိုးသည် မျိုးစိတ် များပြားသလောက် ပုံသဏ္ဌာန်နှင့် အရွယ်တွင်လည်း အမျိုး မျိုး ကွဲပြားကြသည်။ ရှားစောင်းမျိုး အားလုံးလိုလိုပင် အမေရိကန်နိုင်ငံ၌ ပေါက်ရောက်၍ မက္ကဆီကိုနိုင်ငံ၌ သိရှိပြီး ရှားစောင်းမျိုးစိတ်ပေါင်း ထက်ဝက်ခန့်ပေါက်ရောက်သည်။

ရှားစောင်းမျိုးသည် များသောအားဖြင့် သွေ့ခြောက် သည့်နေရာများတွင်ပေါက်ရောက်လေ့ရှိကြ၍ မိုးပါးရာအရပ် များတွင် ပေါက်ရောက်ရန် အထူး သင့်လျော်သည်။ ကမ္ဘာ့ အခြားနေရာများရှိအပင်များသည် ယင်းတို့၏အစာအတွက် ယင်းတို့ရှိ အရွက်များတွင် အစာကို လုပ်ယူ ကြသည်။ အ ရွက်များမှ ရေကိုလည်း စွန့်လွှတ်ပစ်ကြသည်။ ရှားစောင်း မျိုးတွင်မူ ရေငွေ့ကိုပို၍ကောင်းမွန်စွာသိုလှောင်ထားနိုင်ရန် အတွက် အရွက်များသည် များသောအားဖြင့် ပျောက်ကွယ် ၍ သွားကြသည်။ ရှားစောင်းမျိုးရှိ အသားများသော ပင် စည်များက အပင်အတွက် အစာကို လုပ်ပေးကြသည်။ ထို ပင်စည်များက ရေကို သိုလှောင် ထားနိုင်ကြသည်။ အချို့ ရှားစောင်းမျိုး၏ ပင်စည်ပုံသဏ္ဌာန်သည် စည်ကဲ့သို့ပင် ဖြစ် နေရာ ရှားစောင်းမျိုး၏ ထိပ်ပိုင်းကို ဓားဖြင့်လှီး၍ အတွင်း ရှိ အသားကို ချေကြည့်လျှင် စေးကပ်သည့်အရည် ငါးဆယ် ဝင် ပုလင်းဖြင့် အများအပြား ရရှိသည်ကို တွေ့ရပေသည်။

ရှားစောင်းမျိုးတွင် များသောအားဖြင့် ချွန်ထက်သည့် ဆူးများရှိကြ၍ ထိုဆူးများက အပင်များကို ထိုဒေသနေ တိရစ္ဆာန်တို့၏ ဘေးရန်မှ ကာကွယ်ပေးနိုင်ကြသည်။ ရှား စောင်းမျိုး၏ အကိုင်းသစ်များနှင့် လှပသော အပွင့်များ

သည် ဆူးထွက်သည့် နေရာများမှ ထွက်ကြ ပွင့်ကြသည်။

ရှားစောင်းမျိုး၏ အမြစ်များသည် မြေမျက်နှာပြင်နှင့် ကပ်လျက် ရှိကြပြီးလျှင် ဖော့ကဲ့သို့သော အခေါက်များဖုံး အုပ်လျက် ရှိကြသည်။ ထိုသို့အမြစ်များ မြေမျက်နှာပြင်နှင့် ကပ်လျက် တည်ရှိကြခြင်းမှာ ထိုအပင်မျိုး ပေါက်ရောက်ရာ သဲကန္တာရ အတွင်း၌ မိုးအနည်းငယ် ရွာသွန်းသောအခါ တွင် ဖြစ်စေ၊ လျင်မြန်စွာ ရေလွှမ်းမိုးသောအခါတွင် ဖြစ်စေ ရေကို ရုတ်တရက် ဖမ်းယူနိုင်ရန် အတွက် ဖြစ်သည်။ ထို့ပြင် ထိုအမြစ်များသည် အတော်ဝေးဝေးသို့ တိုင်အောင် ဖြာ ထွက်လျက် ရှိကြသည်။ သုံးပေထက် ပို၍ မမြင့်သော ရှား စောင်းမျိုး အပင်ကလေးတပင်တွင် ဆယ်ပေ၊ သို့မဟုတ် ထိုမျှမက ရှည်သော အမြစ်များ ရှိနိုင်လေသည်။

ရှားစောင်းမျိုးတွင် ပုံသဏ္ဍာန်နှင့် အရွယ် အမျိုးမျိုးရှိ သည့် အတိုင်း အချို့ရှားစောင်းမျိုးသည် နိမ့်၍ အားနည်း သည့် ချုံများသာ ဖြစ်ကြသည်။အချို့ရှားစောင်းမျိုးသည် စပျစ်ပင်ကဲ့သို့ ပေါက်ပြီးလျှင် အမြစ်များကို အပြင်သို့ ဖော် ထုတ်ထားကြသည်။ အချို့သည် ဖြောင့်မတ်စွာပေါက်ကြ၍ အချို့က သစ်ပင်ကြီးများကဲ့သို့ပင် ကြီးထွားကြသည်။ ရှား စောင်းမျိုး၌ အကြီးဆုံးသည် စီးရီးယပ်မျိုးစု၌ ပါဝင်သည်။ ဆက္ကွားရိုးခေါ် ရှားစောင်းကြီးမျိုးသည် ထိုအုပ်စု၌ပါဝင်၏။ အယ်ရီဇိုးနားပြည်နယ်နေ တိုင်းရင်းသားများသည် ထိုရှား စောင်းကြီးမျိုး၏ သွေ့ခြောက်နေသော အသားများသည့် အကိုင်းများကို ထင်းအဖြစ် အသုံးပြုကြပြီးလျှင် သူတို့နေ ထိုင်သည့်အိမ်များကိုလည်း ထိုအကိုင်းများနှင့်ပင် ဆောက် လုပ် ကြသည်။ အဆိုပါ ရှားစောင်းကြီးမျိုး၏ အသီးများ သည် ဇွန်နှင့် ဇူလိုင်လများတွင် မှည့်၍ ထိုအသီးများကို တိုင်းရင်းသားများက အစိမ်းလိုက် ဖြစ်စေ၊ အခြောက်လှန်း ၍ ဖြစ်စေ စားကြသည်။ ထိုရှားစောင်းကြီးမျိုးသည် ပေ ၄၀ မှ ၅၀ ထိ ကြီးထွားကြပြီးလျှင် ခန့်ညားသည့်အပွင့်များ ပွင့်ကြလေသည်။

ပူသည့် ဒေသများတွင် ပေါက်ရောက်သော အပင်များကို စိုက်ပျိုးနိုင်ရန် အပူခံထားသည့် ဖန်အိမ်များတွင် စိုက်ပျိုး သည့် လှပသော ရှားစောင်းမျိုး အမြောက်အမြားသည် လည်း စီးရီးယပ် အုပ်စုဝင်များ ဖြစ်ကြသည်။ ထိုအပင်များ အနက် ညဥ့်ဖက်တွင် ပွင့်သော စီးရီးယပ်ပင်မျိုးသည် ညဥ့် အခါ၌ ကြီးမား၍ လှပသော ပန်းပွင့်ဖြူကြီးများကို ပွင့် ကြ၏။ သို့သော် ထိုပန်းပွင့်ကြီးများသည် နေရောင် ရောက် ချိန်လောက်တွင် ညှိုးနွမ်း၍ သွားကြလေသည်။

အချို့ ရှားစောင်းမျိုးသည် အလွန်ဆူးများသည့် ဘော လုံးကဲ့သို့ဖြစ်နေသည်။ အိုပန်ရှားမျိုးစုတွင် ပါဝင်သော ရှား



မိုးခေါင် ရေရှား အပူပိုင်း ဒေသများ၌ တွေ့မြင်ရသော ရှားစောင်း အမျိုးမျိုး



မက္ကဆီကိုနိုင်ငံတွင် ပေါက်သည့် ပင်စည်တိုင်ရှည်သော ရှားစောင်းမျိုး

စောင်းတမျိုး၏ ပင်စည်သည် ပြားနေ၏။ ထိုအပင်မျိုးမှ အဝါ၊ သို့မဟုတ် နီကြန်ကြန်အပွင့်များပွင့်သည်။ အသီးမှာ ပန်းသီး ပုံသဏ္ဌာန် ဖြစ်၍ စားရာတွင် အရသာ ရှိပြီးလျှင် ရေငတ်ပြေစေသည်။

မက္ကဆီကို နိုင်ငံသားတို့သည် မိမိတို့ ပြည်တွင်း၌ ပေါက်ရောက် နေကြသော ရှားစောင်းမျိုး အမြောက်အမြားကို အသုံးချနိုင်ကြလေသည်။ အိုပန်ရှားခေါ် ရှားစောင်းတမျိုး၏ အရွက်များသည် ပြားနေ၍ ထိုအရွက်ပြားများ၏အညှာများကို မက္ကဆီကို ပြည်သားများက ပြုတ်၍ဖြစ်စေ၊ ကြော်၍ ဖြစ်စေ စားသောက်ကြသည်။ အပွင့်များကိုမူ ဟင်းရွက်များအား သုတ်၍ စားကြရာတွင် ထည့်၍ စားကြသည်။ အရည်ရွှမ်းသော အသီးများကိုမူ အစိမ်းလိုက်ဖြစ်စေ၊ ချက်၍ဖြစ်စေ စားကြသည်။ ရှားစောင်းမျိုး အမြောက်အမြား၏ အစေ့များကို ထောင်း၍ ကိတ်မုန့်များပြုလုပ်ယူကြသည်။ ချုံသဖွယ် ပေါက်သည့် ရှားစောင်းမျိုးကို လူနေအိမ်၏ ပတ်လည်တွင် ခြံစည်းရိုးသဖွယ် စိုက်ပျိုးထားကြသည်။

လူသာ ဗားဗင့်ခေါ် အပင်မျိုးစပ် ပါရဂူတဦးက ရှားစောင်းတမျိုးကို ဆူးမရှိသော ရှားစောင်းအဖြစ်သို့ ပြောင်းလဲ ပေးနိုင်သဖြင့် ထိုရှားစောင်းမျိုးသည် လူနှင့် တိရစ္ဆာန်အတွက် အစာပင် ဖြစ်သွားလေသည်။ (ဗားဗင့်၊ လူသာ — လည်း ရှု။)

ရှားစောင်းမျိုးသည် ရေကြိုက်သောအပင်မျိုး မဟုတ်သဖြင့် ရှားစောင်းမျိုးအငယ်စားများကို သဲများသည့် မြေဆီလွှာထည့်ထားသော အိုးငယ်များတွင် စိုက်၍ နေပူတွင် ထားတတ်ကြသည်။ ထိုအပင်များကို အလှစိုက်ပျိုးလေ့ရှိကြသည်။ ရက်သတ္တတပတ်လျှင် တကြိမ်ထက်ပို၍ ထိုအပင်မျိုးကို ရေမလောင်းရချေ။

ရှားစောင်းမျိုးများပေါက်ရောက်သော သဲကန္တာရအနီးနေ တိုင်းရင်းသားများသည် ရှားစောင်းမျိုး၏ပင်စည်မှရရှိသော အရည်များကို ဆေးဝါးအဖြစ်သော်၎င်း၊ စိမ်ရည်အဖြစ်သော်၎င်း ပြုလုပ်၍ အသုံးပြုကြသည်။

**ရှားပင်။** ။ရှားပင်ကို ရုက္ခဗေဒ အလိုအားဖြင့် အကေးရှား ကက်တီချူဟု ခေါ်သည်။

ရှားသား မီးသည် မီးရှိန် အလွန်ကောင်းသဖြင့် မီးပြင်းတိုက်ရန် လိုသည့်အခါတွင် ရှားသားကို အသုံးပြုလေ့ရှိကြသည်။ ရှားသားမီးသွေးသည် ပဌမတန်းမီးသွေးတွင် ပါဝင်လေသည်။ ရှားပင်မှရရှိသော ရှားစေးကို ကွမ်းသီး၊ ထုံးတို့နှင့် ရောစပ်၍ ကွမ်းစားရာတွင် ထည့်စားလေ့ရှိကြသည်။ တံငါ ပိုက်ကွန်များဆေးဆိုးရန် ဆိုးဆေးအဖြစ် ရှားစေးကို အသုံး ချကြသည်။ ယဉ်းနေသော အနာနှင့် ရင်ပတ်နာအတွက် ရှားစေးကို အသုံးပြုနိုင်သည်။

မြန်မာနိုင်ငံ မိုးနည်းပိုင်းရှိ မြေပြင် သစ်တောများတွင် ရှားပင်ကို တွေ့ရှိ နိုင်သည်။ နွေအခါတွင် အရွက်ကြွေ



ဆေးဖက်ဝင်သည့် ရှားပင်၏ အသီးနှင့် အရွက်များ

သော အရွက် အလတ်စားမျိုးသစ်ပင် ဖြစ်သည်။ မိတ္တီလာ ခရိုင်ကဲ့သို့ မိုးအလွန်ပါးသော ဒေသများတွင် ရှားပင်များ သည် သေးလို၍အပင်ငယ်မျှသာဖြစ်သည်။ သို့သော် မိုးရေ ချိန် လက်မတရာခန့်ရှိသည့် ယောနယ်အတွင်း ဆောနှင့် ဂန့်ဂေါမြို့နယ်တို့တွင် ရှားပင်များသည် ကြီးထွားသန်စွမ်း စွာ ပေါက်လျက်ရှိကြလေသည်။ မိုးအတော်အတန် များ၍ ရေမတင်သော သဲဆန်သည့် မြေတွင် ရှားပင်များ ပေါက် ရောက် နိုင်သည်။ ထို့ကြောင့် မြစ်ကမ်းတလျှောက်ရှိ သစ် တောများတွင် ရှားပင်တို့ကို တွေ့နိုင်လေသည်။ သာဓက အဖြစ် ဖော်ပြရလျှင် စစ်တောင်း မြစ်ကမ်း တလျှောက်ရှိ သစ်တောများတွင် ရှားပင်များ ပေါက်ရောက်လျက်ရှိကြ သည်ကို တွေ့နိုင်ပေသည်။

ရှားပင်သစ် ပွားလာစေရန် အစေ့ကို ပျိုး၍ စိုက်ယူကြ သည်။ ပျိုးထားသည့် ရှားပင်ငယ်များ အကြီးမြန်စေရန် အလင်းရောင် အထူးလိုသည်။ ရှားပင် သစ်များ သဘာဝ အလျောက် မျိုးဆက်ပေါက်ပွားသောအရပ်များမှာ ဖုံးဆိုး ရပ်များ၊ မြစ်ကမ်းဘေးများနှင့် မိုးပါးသောအရပ်၌ အပင် များ ခပ်ကျဲကျဲပေါက်သည့် တောများ ဖြစ်သည်။ ရှားကိုင်း ရှားခက်တို့တွင် ဆူးများ ရှိသည်။

ရှားသားသည် အရောင် နီ၍ အလွန်မာသည်။ ပွပြင်ရ ခက်သည်ဟု ဆိုသော်လည်း ခိုင်ခံ့သဖြင့် အိမ်တိုင်များနှင့် ထွန်ယက်သည့်ကရိယာများ ပြုလုပ်ရာတွင် အသုံး ပြုကြ သည်။ အထူးသဖြင့် ထွန်သွားများကို ရှားသားဖြင့် ပြုလုပ် ကြသည်။ လှည်း၊ လှည်းဘီး၊ ဆန်ထောင်းရန် ကျည်ပွေ့၊ ဆီကြိတ်ဆုံ၊ ဓားလှံ စူးဆောက်စသည်တို့၏ လက်ကိုင်ရိုးနှင့် ရေတွင်း ဗောင်တို့ကိုလည်း ရှားသားဖြင့် ပြုလုပ်လေ့ ရှိကြ လေသည်။

**ရှားလမိန်းဘုရင်** (ခရစ် ၇၄၂–၈၁၄)။ ။လက်တင် အ မည်ဖြင့် ကာရိုလပ် မဂ္ဂနပ် (ချားသဂရိတ်) ဟု ခေါ်တွင်သော ရှားလမိန်းဘုရင်သည် ဥရောပ အလယ်ခေတ် သမိုင်းတွင် ဘုန်းလက်ရုံးနှင့် ပြည့်စုံ၍ တန်ခိုးကြီးမားသော ဘုရင်ကြီး တပါး ဖြစ်ပေသည်။ ဥရောပ အလယ်ခေတ် ကဗျာ စာဆိုတို့ က တေးကဗျာ လင်္ကာတို့ဖြင့် တခမ်းတနား ဖွဲ့ဆိုချီးကျူးကြ ရသော လူရည်ချွန်ပုဂ္ဂိုလ်ကြီးတဦးလည်းဖြစ်သည်။ ခြောက် ရာစု နှစ်လောက်တွင် ရောမ နိုင်ငံတော်ကြီး ပျက်သုဉ်းပြီး နောက် ဥရောပတိုက်ရှိ ပြည်နယ်နိုင်ငံများတွင် ယဉ်ကျေး မှုများ ဆုတ်ယုတ်ပျက်ပြား၍ အမှောင်ခေတ်ကြီး ကျရောက် နေခဲ့သည်။ ထို အမှောင်ခေတ်ကြီးကို ရှားလမိန်း ဘုရင်ကြီး သည် မိမိ၏ ဘုန်းလက်ရုံးအရောင်ဖြင့် အလင်းဆောင်ပေး ကာ ပျက်သုဉ်းနေခဲ့သော ရောမနိုင်ငံတော်ကြီးအား ပြန်၍ အသက်ဝင် လှုပ်ရှားစေခဲ့လေသည်။

ရှားလမိန်းဘုရင်သည် ပြင်သစ် နိုင်ငံ အရှေ့ မြောက်ဖက် အစွန်နှင့် ရိုင်းမြစ်၏ လက်ျာဖက်ကမ်း တလျှောက်ရှိ နေရာ တွင် ပေါ်ထွန်းခဲ့သော ဖရန့် နိုင်ငံ၏ ဘုရင်တပါး ဖြစ်သည်။ ခရစ် ၇၆၈ ခုနှစ်မှ ၈၁၄ ခုနှစ် အထိ ဖရန့်နိုင်ငံ၏ ဘုရင်အဖြစ် အုပ်စိုးခဲ့၍ ၈၀၀ ပြည့်နှစ်မှ ၈၁၄ ခုနှစ်အထိ အနောက် ရောမ နိုင်ငံတော်၏ ကေရာဇ်အဖြစ် စိုးမိုးခဲ့သည်။ ရှားလမိန်း ဘုရင်၏ လက်ထက်တွင် ဖရန့်နိုင်ငံသည် အထွတ်အထိပ်သို့ ရောက်ခဲ့သည်။ ဂျာမန်အနွယ် ဘုရင်များအနက် ကေရာဇ် ဘွဲ့ကို ပဌမဆုံး ခံယူခဲ့သည်။ နန်းသက် ၄၆ နှစ်အတွင်း စစ်ပွဲ ပေါင်း ၅၂ ပွဲကို စစ်ဆင် တိုက်ခိုက်ခဲ့၍ တိုက်ပွဲတိုင်းတွင် အောင်မြင်သည်သာ များခဲ့သည်။ ကမ္ဘာ့သမိုင်းတွင် စစ်သား ကောင်းတဦး အဖြစ်သာ မက အအုပ်အချုပ် လိမ္မာသော နိုင်ငံပြု သုခမိန်တဦး အဖြစ်လည်း မှတ်တမ်း တင်ကြရ လေသည်။

ထိုဘုရင်ကြီးသည် ခရစ်ယန် အယူဝါဒကို ခြိုးခြံ့ကိုးကွယ်၍ ... 

ထိုဘုရင်ကြီးသည် ခရစ်ယန် အယူဝါဒကို ခြိုးမြှောက်အား ပေးသည်။ ပြည်နယ်အများအပြားကို တိုက်ခိုက် သိမ်းပိုက် နိုင်ခဲ့ရာ နိုင်ငံအတွင်း၌ ဖရန့်၊ လောင်းဗတ်၊ ဆက္ကဆွန်နှင့် ဂျာမန် စသဖြင့် လူမျိုးအမျိုးမျိုး ပါဝင်နေသည်။ မယဉ် ကျေးသေးသောအခြေအနေ၌ရှိနေသေးသည့် လက်အောက် ခံ လူမျိုးများအား ခရစ်ယန် အဖွဲ့အစည်းများ၏ အကူအညီ ဖြင့် ယဉ်ကျေးအောင် ပြု၍ မိမိ၏ တအုပ်တချုပ်တည်း အောက်တွင် တညီတညွတ်တည်း ရှိစေရန် ကြိုးပမ်းသည်။ ခရစ်ယန် ဘုရားရှိခိုးကျောင်းများကို အနှံ့အပြား တည် ဆောက်၍ ခရစ်ယန် သာသနာပြု လုပ်ငန်းများကို ထိထိ ရောက်ရောက် ဆောင်ရွက်သည်။ ပညာရေးဖက်၌ တိုးတက် ပြုပြင်ရေးများကို ပြုလုပ်စေပြီးလျှင် ကုန်သွယ်ရေးနှင့် စိုက် ပျိုးရေးဖက်၌လည်း ဖွံ့ဖြိုးတိုးတက်စေသည်။ ရှားလမိန်း ဘုရင်ကြီးသည် ဥရောပ အလယ်ခေတ် ဘုရင်များ အနက် အနောက်ဥရောပ၏ လူနေမှုတိုးတက်ရေးအတွက် အဆောင် ရွက်ဆုံးဟု ဆိုရပေမည်။

ရှားလမိန်းသည် ၇၄၂ ခုနှစ်တွင် ဖွားမြင်၍ ထင်ရှားသော ဖရန့်ဘုရင်များဖြစ်ကြသည့် ပက်ပင်-သ-ရှော့၏ သားတော် ကြီးဖြစ်၍ ချားမာတယ် ဘုရင်ကြီး၏ မြေးတော်ဖြစ်သည်။ ပက်ပင် ဘုရင်သည် ဖရန့် ထီးနန်းကို နှလုံးရည် လက်ရုံးရည် မရှိ၊ ရုပ်သေးရုပ်များသာ ဖြစ်သော မာရိုဗင်းဂျီယန် မင်း ဆက်တို့လက်မှ လုယူ ဆက်ခံ ခဲ့သည်။ ချားမာတယ် ဘုရင် ကြီးသည် တူးဝါးမြို့တွင် ဆာရဆင်တို့က ခရစ်ယန် အယူဝါဒ ကို လွှမ်းမိုးလာမည့် အန္တရာယ်မှ ကယ်တင်ခဲ့သူဖြစ်လေသည်။

ရှားလမိန်း ဘုရင်သည် သက်တော် ၂၆ နှစ်အရွယ် ၇၆၈ ခုနှစ်တွင် ခမည်းတော်၏ ရိုက်ရာကို ဆက်ခံသည်။ သို့သော် ဖရန့် မြောက်ပိုင်း နိုင်ငံကိုသာ ရှားလမိန်းက အုပ်ချုပ် ရ၍ တောင်ပိုင်းကို ညီတော် ကာလိုမန်က အုပ်ချုပ်ရသည်။



မြင်းသစ်နှင့် ရောမ ကေရာဇ်ဘုရင် ရှားလမိန်း

၇၇၁ ခုနှစ်တွင်မူ ကာလိုမန် ကံတော်ကုန်သဖြင့် ရှားလမိန်းသည် ဖရန့်တနိုင်ငံလုံးကို အုပ်စိုးရလေသည်။

ထိုခေတ်အခါက ဥရောပတွင် တနယ်တမင်း အချင်းချင်း စစ်ခင်း၍ နေကြသဖြင့် ပြည်နယ် နိုင်ငံတို့သည် မငြိမ် မသက် ရှိနေကြပြီးလျှင် ဘုရင်များသည်လည်း စစ်တိုက်ယင်းသာ အချိန် ကုန်နေကြလေသည်။ ရှားလမိန်း၏ ပဌမဆုံး စစ်ဆင်မှုသည် လောင်းဗတ်ပြည်သို့ ချီတက်တိုက်ခိုက်ခြင်းဖြစ်သည်။ တိုက်ရသော အကြောင်းမှာ လောင်းဗတ် ပြည့်ရှင် ဒက်ဆီဒီရီးယပ်သည် ရှားလမိန်း၏ ညီတော် ကာလိုမန်၏ လူမမယ် ရင်သွေးတော် နှစ်ပါးအား ဖရန့် တောင်ပိုင်းနိုင်ငံ၏ ထီးနန်းကို ဆက်ခံနိုင်ရန် အားပေး အားမြှောက် ပြုသောကြောင့် ဖြစ်သည်။ ထိုအရေးနှင့် စပ်လျဉ်း၍ လောင်းဗတ်ပြည့်ရှင်သည် ပုပ်ရဟန်းမင်း အက်ဒရီယန်အား နှောင့်ရှက်တိုက်ခိုက် လာသည်။ ရှားလမိန်းသည် ပုပ်ရဟန်းမင်းအား ကူညီ အားပေးနေသူ ဖြစ်၍ တကြောင်း၊ ဒက်ဆီဒီရီးယပ်အား နှိမ်နင်းလို၍ တကြောင်း ဣတလီပြည်သို့ ချီတက်၍ လောင်းဗတ်တပ်များအား တိုက်ခိုက် ချေမှုန်းလေသည်။ ထိုနောက် လောင်းဗတ်ပြည်နှင့် ယင်းပိုင် နယ်ပယ်များကိုလည်း သိမ်းယူ၍ လောင်းဗတ်ဘုရင် အဖြစ် ဘိသိက်ခံယူသည်။ ၇၇၄ ခုနှစ်တွင် ဣတလီပြည်မှ မထွက်ခွာမီ ရောမမြို့သို့ သွားရောက်၍ ရှားလမိန်း၏ ခမည်းတော်က ပုပ်ရဟန်းမင်းအား နယ်မြေများ လှူဒါန်းခဲ့သည်ကို ပို၍ ခိုင်ခိုင်လုံလုံဖြစ်အောင် ဆောင်ရွက်သည်။ ထိုနယ်မြေတို့သည် နောင်အခါ ပုပ်ရဟန်းမင်းပြည်နယ်ဟူ၍ ဖြစ်လာသော နယ်မြေတို့၏ မူလအစဖြစ်လေသည်။

ရိုင်းမြစ်ဝှမ်း အောက်ပိုင်းနှင့် ဂျတ်တလန် ကျွန်းဆွယ် အကြား ဒေသများ၌ နေထိုင်ကြသော ဂျာမန် အနွယ် ဆက္ကဆွန်များသည် ဖရန့် နိုင်ငံကို မကြာခဏ ထိပါးလာသဖြင့် ရှားလမိန်းဘုရင်သည် ၇၇၄ ခုနှစ်မှ အစပြု၍ ယင်းတို့အား တိုက်ခိုက် နှိမ်နင်းရပြန်သည်။ သို့သော် ဆက္ကဆွန်များသည် တော်ရိုင်းဖြင့် အညံ့မခံဘဲ အဖန်ဖန် ထကြွပုန်ကန်နေကြသောကြောင့် ယင်းတို့အား ၁၀ နှစ်နီးပါးမျှ တိုက်ခိုက်နှိမ်နင်းရသည်။ ၇၈၅ ခုနှစ်သို့ ရောက်မှသာလျှင် ရှားလမိန်းသည် ဆက္ကဆွန်ပြည် အတွင်း ခရစ်ယန် အယူဝါဒ ပျံ့နှံ့ရေးနှင့် ငြိမ်ဝပ်ပိပြားရေးကို ဆောင်ရွက်ရလေသည်။

ထိုအတောအတွင်း ရှားလမိန်းသည် စပိန်ပြည်မှ မွတ်စလင် အယူဝါဒီ မူးဝါးလူမျိုးတို့အား ချီတက် တိုက်ခိုက်သည်။ တိုက်ပွဲတိုင်းတွင် ရှားလမိန်း၏ တပ်များက အောင်မြင်ခဲ့သော်လည်း ပီးရနီး တောင်တန်း၏ တောင်ဖက်ပိုင်း တိုက်ပွဲများတွင်မူ ရှားလမိန်း၏တပ်များ အရေးမလှခဲ့ပေ။ ရှားလမိန်း၏ လက်ရုံး တဆူဖြစ်၍ ထိုခေတ်က ကျော်ကြားလှသော သူရဲကောင်းကြီး ရိုလန်သည် ထိုတိုက်ပွဲတွင် ကျဆုံးခဲ့ရလေသည်။ ရှားလမိန်းသည် အရှေ့ဖက်သို့လည်း နယ်ချဲ့ပြန်သည်။ ဗာဗေးရီးယား ပြည်ကို တိုက်ခိုက်သိမ်းပိုက်၍ ဗာဗေးရီးယားပြည့်ရှင်ကို နန်းချသည်။ ဗာဗေးရီးယားပြည်ကို သိမ်းပိုက်လိုက်ခြင်းဖြင့် ရှားလမိန်းသည် ဟန်ဂေရီယန် မြေပြန့် ဒေသမှ စစ်လိုလားသော အားဗားလူမျိုးများနှင့် စစ်ပြိုင်ရပြန်သည်။ နောက်ဆုံးတွင် ရှားလမိန်း ဘုရင်ကြီးသည် အားဗားတို့အား နှိမ်နင်း အောင်မြင်သည်။ ယင်းသို့ဖြင့် ရှားလမိန်း၏ လက်အောက်ခံနိုင်ငံတော်သည် မြောက်ဖက်၌ ဒိန်းမတ်ပြည်မှသည် တောင်ဖက် ပီးရနီး တောင်တန်းအထိ၊ အရှေ့ဖက်၌ အဲလဗမြစ်မှသည် အနောက်ဖက် အတ္တလန္တိတ် သမုဒ္ဒရာအထိ ကျယ်ပြန့်ခဲ့လေသည်။

ခရစ် ၈၀၀ ပြည့်နှစ်တွင် ရှားလမိန်းသည် ရောမမြို့၌ရောက်ရှိနေစဉ် အတွင်း နာတာလူး ပွဲတော်နေ့ (ဒီဇင်ဘာလ ၂၅ ရက်နေ့)တွင် ပုပ်ရဟန်းမင်း အက်ဒရီယန်အား ဆက်ခံသူ ပုပ်ရဟန်းမင်း တတိယလီယိုက ရှားလမိန်းအား ကာရိုလပ်ဩဂတ်စတပ်ဟူသောဘွဲ့ဖြင့် ခြီးမြှင့်၍ ရောမကေရာဇ်အဖြစ် ဘိသိက်သွန်းလေသည်။ ဤသို့ ဘိသိက်သွန်းလိုက်ခြင်းဖြင့် ရှားလမိန်းတွင် ကေရာဇ်ဘွဲ့ ခံယူရခြင်းကြောင့် တန်ခိုးအာဏာ ထိထိရောက်ရောက် တိုးတက်လာခြင်း မရှိသော်လည်း ခရစ်ယန် အယူဝါဒကို ကာကွယ်စောင့်ရှောက် ခြီးမြှင့်မြှောက်စားကာ ခရစ်ယန် လောကတွင် ငြိမ်းချမ်းရေးကို

ထိန်းသိမ်း ထားရှိပေးမည့် ခရစ်ယန် နိုင်ငံတော် (ဝါ) ရောမ သာသနာစောင့် နိုင်ငံတော် ပေါ်ပေါက် လာခဲ့လေသည်။ (ရောမသာသနာစောင့် နိုင်ငံတော် — လည်း ရှု။)

ရှားလမိန်း ဘုရင်ကြီးသည် စစ်ရေး၌ ထူးချွန်သလောက် အုပ်ချုပ်ရေး၌လည်း လိမ္မာသည်။ တကွဲတပြား ဖရိုဖရဲ ရှိနေခဲ့သော ဥရောပ ပြည်နယ်များကို ပြန်လည် စုစည်း၍ ငြိမ်ဝပ် ပိပြားစေပြီးလျှင် ဖွံ့ဖြိုးတိုးတက်အောင် ဆောင်ရွက်သည်။ သို့သော် ရှေးခေတ် ရောမ နိုင်ငံတော်၏ စည်ပင် ထွန်းကားပုံကိုကား မမှီနိုင်ချေ။ မိမိ၏ နိုင်ငံတော်အတွင်း စာပေပညာ ပြန့်ပွား ထွန်းကားရေးကို အားပေးသည်။ စာသင်ကျောင်းများ ဆောက်လုပ်၍ နိုင်ငံရပ်ခြားမှ စာပေ ကဝိကြီးများကို မိမိနန်းတော်သို့ ပင့်ဆောင်ကိုးကွယ်ကာ ပညာ ဖြန့်ဝေပေးသည်။ ယဉ်ကျေးမှု အနုပညာ ရပ်များ ပြန်လည် ပေါ်ထွန်းလာစေရန်လည်း အားပေး ဆောင်ရွက်သည်။ ယင်းသို့ဖြင့် ရှားလမိန်း၏နန်းသက်အတွင်း အမှောင်ခေတ် ကျရောက်နေခဲ့သည့် ဥရောပတိုက်ကြီးကို အလင်းရောင် ပြန်ပေးမည့် စာပေ အနုပညာစသည့် ယဉ်ကျေးမှုတို့ ပြန်လည် ထွန်းကားနိုင်ရန် အရှိန် ရလာလေသည်။ ထိုဘုရင်ကြီးသည် စိုက်ပျိုးရေး ကုန်သွယ်ရေး အဆောက်အအုံ တည်ဆောက်ရေးတို့ကိုလည်း အားပေး ဆောင်ရွက်လေသည်။

ရှားလမိန်း ဘုရင်ကြီး၏ လက်ထက်တွင် ကံကျေးချစံနစ် ပေါ်ပေါက် ခဲ့သည်။ ထိုစံနစ်သည် ရှေး ရောမအစိုးရ စံနစ်နှင့် လုံးဝ မတူချေ။ ဥရောပတိုက်တွင် ရောမနိုင်ငံတော်ကြီး ပျက်ယွင်း၍ မယဉ်ကျေးသော လူမျိုးတို့ ဝင်ရောက် စိုးမိုးနေခဲ့သဖြင့် အအုပ်အထိန်း ကင်းမဲ့သကဲ့သို့ ရှိနေရာ အအုပ်အထိန်း ရှိနိုင်သလောက် ရှိစေသော စံနစ်တခုပင်တည်း။ ယင်းစံနစ်သည် ဥရောပသားတို့၏ နေထိုင်မှု၊ ဆက်ဆံမှု၊ အုပ်ချုပ်မှုတို့၏ တိုးတက်ရေး လမ်းမကြီးတွင် ပဌမ စခန်း ဖြစ်လေသည်။ ရှားလမိန်း ဘုရင်သည် လက်အောက်ခံ ပြည်နယ်များတွင် အုပ်ချုပ်ရေးစံနစ် တမျိုးတည်း ထားရှိ စေသည်။ သို့သော် ပြည်နယ်အလိုက် ရှိနေသော တရား ဥပဒေများကိုမူ ဆက်လက် လိုက်နာကျင့်သုံးခွင့် ပြုသည်။

ထိုဘုရင်ကြီးသည် ဘုန်းတန်ခိုးကြီးမား၍ ထင်ရှား သလောက် အရပ်အမောင်း မြင့်မားပြီးလျှင် ကြံ့ခိုင် သန်စွမ်း ဖျတ်လတ်သည်။ ထိုခေတ် အခါက ဘုရင်များ နည်းတူ စာရေး စာဖတ်ခြင်းကို ထိရောက်စွာ သင်ကြားဆည်းပူးခြင်း မပြုခဲ့သော်လည်း လက်တင်ဘာသာကို ဖတ်နိုင်သည်။ ဂရိဘာသာ စကားကို နားလည်သည်။ ရှေးက ရောမ နိုင်ငံတော်အား ဖျက်ဆီးခဲ့သော ဂျာမန် အရိုင်းလူမျိုးများ၏ အဆက်အနွယ် ဖြစ်သော်လည်း အနောက် ရောမနိုင်ငံတော်ကို ပြန်လည်ထူထောင်သူ၊ခရစ်ယန်သာသနာစောင့်ကေ့ရာင်တပါး ဖြစ်ပေသည်။ အရှေ့ ရောမ နိုင်ငံတော် ဖြစ်သော ဗိုင်ဇင်းတိုင် နိုင်ငံ၏ ကေ့ရာင်ကလည်း ရှားလမိန်းအား (အနောက်) ရောမ နိုင်ငံတော်၏ ကေ့ရာင်အဖြစ် အသိအမှတ်ပြုလေသည်။

၈၁၄ ခုနှစ်၌ ရှားလမိန်း ဘုရင်ကြီး နတ်ရွာစံပြီး နောက်တွင် ဘုရင်ကြီးအား ဆက်ခံသူတို့သည် အရည်အချင်း အမြော်အမြင် ဉာဏ်ပညာနည်းပါးသူတို့ဖြစ်ကြသဖြင့် နိုင်ငံတော်ကြီး တဖန် ပြိုကွဲသွားပြန်လေသည်။

**ရှိခိုးကောင်။** ။မောင်းထောင်းကောင် — ရှု။

**ရှီကားဂိုးမြို့။** ။ရှီကားဂိုးမြို့သည်အမေရိကန်ပြည်ထောင်စု၏ ဒုတိယအကြီးဆုံးမြို့ ဖြစ်၍ အီလီနွိုင်ပြည်နယ်တွင် တည်ရှိသည်။ မီရှီဂန် ရေအိုင်ကြီး၏ ကမ်းပါးအနီး ရွံ့တော ပွက်တောထဲ၌ တည်ထားသော ကျီးတိုးကျဲတဲ အိမ်ခြေစုကလေး တခု အဖြစ်မှ အနှစ်တရာခန့်အတွင်း အံ့လောက်စဖွယ် အကြီး အကျယ် ပြောင်းလဲတိုးတက်လာသော မြို့ကြီးဖြစ်သည်။ ယင်းသို့ ထူးကဲလှစွာ ဖွံ့ဖြိုးတိုးတက်လာရသော အကြောင်းရင်းမှာ မြို့၏ တည်နေပုံ ပထဝီဝင် အနေအထား ကောင်းမွန်ခြင်းကြောင့် ဖြစ်ပေသည်။

ရှီကားဂိုးမြို့သည် မီရှီဂန် ရေအိုင်ကြီး၏ တောင်ဖက်စွန်း၌ တည်ရှိ၍ ရှီကားဂိုး မြစ်၏ သဘာဝသင်္ဘောဆိပ်ကောင်းပေါ်၌ မြို့တည်ထားသည်။ ထို့ပြင် မစ်စစ်စပီမြစ်ဝှမ်း၏ ဂျုံစပါးအထွက်ကောင်းသော ဒေသများနှင့်လည်း ကပ်လျက်ရှိသည်။ ထိုမြို့ကြီး၏ တည်နေရာသည် မီရှီဂန် ရေအိုင်ကြီး အတွင်း ကူးသန်းသွားလာနေသော သင်္ဘောကြီးငယ်များဆုံရာ၊တိုက်ဖြတ် မီးရထားလမ်းများဆုံရာ အချက်အခြာ ကျနေပေသည်။ထို့ကြောင့် ၁၉ ရာစုနှစ်အစပိုင်း၌ နယူးယော့မြို့ကြီး ထိပ်တန်းသို့ ရောက်သည့်အချိန်တွင် ကျေးရွာ ဇနပုဒ်ကလေးမျှသာ ဖြစ်နေသေးသော ရှီကားဂိုးသည် ယခုအခါ နယူးယော့မြို့မှလွဲလျှင်လူဦးရေများပြားမှုနှင့်စည်ကားဖွံ့ဖြိုးမှု၌ ဒုတိယ လိုက်နိုင်သည်။ ကမ္ဘာတွင် ဆဋ္ဌမ အကြီးဆုံး မြို့ကြီးလည်း ဖြစ်သည်။ ရှီကားဂိုးမြို့ကို တည်ထောင်သည့် ၁၈၃၃ ခုနှစ်တွင် လူဦးရေ ၁၅၀ ခန့်မျှသာ ရှိခဲ့သော်လည်း ယခုအခါ လူဦးရေ သုံးသန်းခွဲကျော် ရှိနေသည်။ လူဦးရေ ထိုမျှတိုးတက်များပြားရုံသာမက၊ မြို့ဧရိယာသည်လည်း ၁၈၃၇ ခုနှစ်မှ ၁၉၃၇ ခုနှစ်အတွင်း စတုရန်း ၂½ မိုင်မှ ၂၁၂ ⅗ မိုင်အထိ တိုးတက် ကျယ်ပြန့်လာခဲ့လေသည်။

မြို့တည်မည့် နေရာတွင် အမေရိကန် အစိုးရက ဖို့ဒီယာဗွန်းအမည်ဖြင့် နယ်ခြားကင်းတပ်စခန်းတခုကို ၁၈၀၄ ခုနှစ်က ချထားခဲ့သည်။ သို့သော် အင်ဒီးယန်း လူရိုင်းများက တပ်သားများကို သတ်ပစ်သည်။ လူနေအိမ်ခြေ စတည်သည့် နေရာမှာ ထိုစဉ်က ကြက်သွန်ရိုင်းများ ပေါက်ရောက်

သည့်နေရာဖြစ်သည်။ ကြက်သွန်ရိုင်းကို အင်ဒီးယန်းလူမျိုးတို့ စကားဖြင့် ခေါ်ဝေါ်သည့် အနီးကပ်ဆုံး အသံထွက်မှာ ရှီကက်အွန်း ဖြစ်သည်။ ထိုကြောင့် ထိုအရပ်ကိုလည်း ကြက်သွန်ရိုင်းများ ပေါက်ရောက်ရာဟူ၍ ရှီကက်အွန်းဟု ခေါ်ဝေါ်ရာမှ ကာလရွေ့လျောသော် ရှိကားဂိုးဟူ၍ ဖြစ်လာခဲ့လေသည်။

မြို့တည်စ အခါက ရွှံ့နွံ ထူပြောသော အရပ်ဒေသ ဖြစ်သဖြင့် ရောဂါဘယ များပြားလှသည်။ နောင်အခါ ရွှံ့တောပွက်တော့များကို မြေဖို့၍ မြို့မြေမျက်နှာပြင်ကို ၁၂ ပေမှ ၁၄ ပေအထိမြင့်တက်စေပြီး ကျန်းမာရေးနှင့်ညီညွတ်အောင် ပြုပြင် ခဲ့ကြသဖြင့် ကူးသန်းသွားလာရေးနှင့် ကုန်သွယ် စီးပွားရေး အတွက် အချက်အခြာ ကျသော အရပ်လည်း ဖြစ်သည်တကြောင်းကြောင့် ရှိကားဂိုးမြို့သည် တရှိန်ထိုး ဖွံ့ဖြိုးတိုးတက်လာခဲ့သည်။ သဘော်လမ်း၊ မီးရထားလမ်း၊ မော်တော်ကားလမ်း၊ လေယာဉ်လမ်းတို့၏ လမ်းဆုံမြို့ကြီးလည်း ဖြစ်လာ၍ ကမ္ဘာပေါ်တွင် သယ်ယူပို့ဆောင်ရေးအကောင်းဆုံးရှိသော မြို့ကြီးလည်း ဖြစ်ပေသည်။ သယ်ယူပို့ဆောင်ရေးကောင်းမွန်သဖြင့် ရှိကားဂိုးမြို့သည် သိုး ဆိတ် ဝက် နွားမွေးမြူရေး လုပ်ငန်း၊ အသားစည်သွတ်လုပ်ငန်း၊ ကောက်ပဲသီးနှံ ရောင်းဝယ်ရေးလုပ်ငန်း၊ သစ်လုပ်ငန်းများ၏ အချက်အခြာမြို့ဖြစ်သည်။ ထို့ပြင် သံ၊သံမဏိပစ္စည်းလုပ်ငန်း၊ စက္ကူနှင့် ပုံနှိပ်လုပ်ငန်း၊ အဝတ်အထည် လုပ်ငန်း စသည်တို့သည်လည်း မြို့၏အရေးပါသောလုပ်ငန်းများတွင်ပါဝင်ကြသည်။

ရှိကားဂိုးမြို့၏ လမ်းများကို စံနစ်တကျ ဖောက်လုပ်ထား၍ လမ်းများကို ရှာဖွေရန် လွယ်ကူသည်။ အချို့ လမ်းရှည်ကြီးများသည် မြို့ဆုံးမြို့ဖျားတိုင်အောင် ရှည်လျားသည်။ အချို့ လမ်းများကို ထောင့်ဖြတ် ဖောက်လုပ် ထားသည်။ မြို့တွင်း ရေပေးစံနစ်၊ သန့်ရှင်းရေး စံနစ်တို့ကိုလည်း ကြံဖန်တီထွင် လုပ်ကိုင်ထားသဖြင့် အထူးကောင်းမွန်လှပေသည်။

ကျဉ်းမြောင်းသော ရှိကားဂိုးမြစ်သည် မြို့ကို ဖြတ်သန်း၍ မီရှီဂန်အိုင်ကြီးအတွင်းသို့ စီးဆင်းသည်။ တနေရာတွင် မြစ်သည် နှစ်ခွခွဲထွက်ရာ အင်္ဂလိပ် အက္ခရာ "ဝိုင်"ပုံသဏ္ဍာန်ဖြစ်ပေါ်သဖြင့် မြို့ကို မြောက်ပိုင်း၊ တောင်ပိုင်းနှင့် အနောက်ပိုင်း ခွဲခြားထားသကဲ့သို့ ရှိသည်။ မီးရထားလမ်းမြင့်များဖြင့် လေးဖက် လေးတန် ဝိုင်းရံလျက်ရှိသော "လူ" ခေါ် ရပ်ကွက်သည် ရောင်းရေးဝယ်တာ အစည်ကားဆုံးဖြစ်သည်။ မြစ်ကူး တန်တားကြီးများ၊ ကျယ်လွင့်သော ပန်းခြံ ဥယျာဉ်များ၊ ရိပ်သာလမ်းမကြီးများဖြင့် ရှိကားဂိုးမြို့သည် သာယာလှ ပေသည်။ ရှိကားဂိုးမြို့တွင် ပညာရေးအဖွဲ့အစည်း အဆောက်အအုံများ ပေါများသည်။ ကင်ဒါဂါတင် သူငယ်တန်းကျောင်းမှအစပြု၍ လက်မှုစက်မှုအသက်မွေးဝမ်းကျောင်း အတတ်သင် ကျောင်းများ အပါအဝင် ကောလိပ်များ တက္ကသိုလ်များအထိ ကျောင်းပေါင်း ၄၀၀ ကျော်ရှိသည်။ ရှိကားဂိုး တက္ကသိုလ်သည် ကမ္ဘာကျော် တက္ကသိုလ်တခု ဖြစ်သည်။ နော့ဝက်စတင်း၊ လွိုင်ယိုလာ စသော အခြား တက္ကသိုလ်များလည်း ရှိသေးသည်။

ရှိကားဂိုးမြို့တွင် လှပကြီးကျယ်ခန့်ညားသောအဆောက်အအုံကြီးများရှိသည်။ အနုပညာ ဗိမာန်၊ ရှိကားဂိုး သဘာဝ သမိုင်း ပြတိုက်၊ ရှက်အကွေရီယမ်၊ သိပ္ပံနှင့်စက်မှု ပြတိုက် စသည်တို့ကား ကမ္ဘာကျော် အဆောက်အအုံများ ဖြစ်ကြပေသည်။

ရှိကားဂိုးမြို့၌ ပဌမဆုံး ခြေချသော မျက်နှာဖြူတို့မှာ မားကက်နှင့် ဂျိုးလီယက် အမည်ရှိ နယ်သစ်ရှာ ပြင်သစ် လူမျိုးများ ဖြစ်ကြ၍ ၁၆၇၃ ခုနှစ်တွင် ရှိကားဂိုး ဖြစ်လာမည့် အရပ်ကို ရောက်ခဲ့ကြသည်။ ထိုအရပ်၌ ပဌမဆုံး အခြေစိုက် နေထိုင်သော မျက်နှာဖြူလူမျိုးသည် ဂျွန်ကင်ဇီဖြစ်၍ ဖို့ဒီယာဗွန်းကို တည်ဆောက်နေစဉ်က ဖြစ်လေသည်။

**ရှီးလား, ဂျေ အက်(ဖ)** (ခရစ် ၁၇၅၉–၁၈၀၅)။ ။ ယိုဟန်း ဖရီးဒရစ် ဖွန်ရှီးလားသည် ပြဇာတ်နှင့် ကဗျာ ရေးသားရာတွင် ထင်ရှားကျော်ကြားသော ဂျာမန် စာဆိုပညာရှင်တဦးဖြစ်ပေသည်။ သူ့ခေတ် သူ့အခါက စာဆိုကြီးဂါတာမှလွဲလျှင် ပြဇာတ်အရေးအသား၌အတော်ဆုံးဟူ၍ နာမည်ကျော်ကြားခဲ့သည်။ ရှီးလား၏ ပြဇာတ်များသည် ဇာတ်ကြောင်းဖွဲ့ပုံ၊ ဇာတ်ကောင်များကို သရုပ်ဖော်ပုံတို့၌ သူမတူအောင် ကောင်းမွန်လေသဖြင့် ရုံတင်ပြသရာတွင် ပဌမတန်းပြဇာတ်များ ဖြစ်ခဲ့လေသည်။ ထို့ပြင် လူ့ဂုဏ် သိက္ခာနှင့် လွတ်လပ်မှုကို အရေးထားလေးစားရန် လှုံ့ဆော်တိုက်တွန်းသော ပြဇာတ်များလည်း ဖြစ်ကြသည်။ ရှီးလားသည် ငယ်စဉ်ကပင် ဖိနှိပ်ချုပ်ချယ်မှုကို ရွံရှာမုန်းတီးသည့်အလျောက် သူ၏ပြဇာတ်များသည် မတရားချုပ်ချယ်မှုများကိုပြင်းထန်စွာ ရှုတ်ချ၍ ဂျာမန်လူထုအား မတရားမှုများကို တော်လှန်ရေးစိတ်ဓာတ်များ သွင်းပေးခဲ့သည်။

ရှီးလားသည် ဗပ်တင်ဗတ် နယ်ရှိ မားဗက်မြို့ကလေး၌ ၁၇၅၉ ခုနှစ် နိုဝင်ဘာလ ၁၀ ရက်နေ့တွင် မွေးဖွားသည်။ ဖခင်သည် ဗပ်တင်ဗတ်နယ်စားကြီး၏ စစ်တပ်မှ ဆေးဖက်ဆိုင်ရာ အရာရှိတဦး ဖြစ်သည်။ နယ်စားကြီးသည် မိမိလက်အောက်ခံ အရာထမ်း အမှုထမ်းများ၏ သားသမီးများအား ပညာ သင်ကြားပေးပြီးလျှင် မိမိစိတ်ကြိုက်အတိုင်း ပုံသွင်းနိုင်ရန် စစ်ကျောင်းတကျောင်း ဖွင့်သည်။ စစ်ကျောင်း ဆိုသော်လည်း စစ်ပညာသာမက ဥပဒေပညာ စသည်တို့ကိုလည်း သင်ကြားပေးသည်။ ကျောင်း၏ စည်းကမ်းစံနစ်တို့မှာ စစ်တပ်စည်းကမ်း စံနစ်အတိုင်း ဖြစ်သည်။ ရှီးလားသည် ထိုကျောင်း၌ မနေလိုသော်လည်း ဖခင်က မင်းမှုထမ်း ဖြစ်



ဂျာမန် ပြဇာတ်ရေးဆရာကြီး ရှီးလား

နေ၍ အာဏာမဖီဆန်ဝံ့သဖြင့် ထိုကျောင်း၌ ပညာ ဆည်းပူးရသည်။ သို့သော် လူ့အခွင့်အရေးနှင့် လွတ်လပ်မှု ချုပ်ချယ်ခြင်းများကို ထိုစဉ်ကပင် မနှစ်သက်ဘဲ တော်လှန်ရေး စိတ်ဓာတ်များ တစတစ မွေးမြူခဲ့လေသည်။

ရှီးလားသည် ထိုကျောင်း၌ ဥပဒေ ပညာကို ဆည်းပူးသည်။ ထိုနောက် ထိုကျောင်းကို စတပ်ဂတ်မြို့သို့ ပြောင်းရွှေ့ ဖွင့်လှစ်သောအခါ ထိုကျောင်း၌ ဆေးအတတ်ပညာ သင်ကြားရေး ဌာနကိုပါ ဖွင့်လှစ်သည်။ ထိုအခါ ရှီးလားသည် ဗဟုသုတ ဆည်းပူးနိုင်ရန် ဆေးအတတ်ပညာကို လေ့လာဆည်းပူးသည်။ ထိုစဉ်အတွင်း ငယ်စဉ်ကပင် စာပေဝါသနာ ထုံခဲ့သူ ဖြစ်၍ စာပေများကို ရေးသားလေ့ကျင့် နေခဲ့သည်။ သူသည် "ထားပြများ" အမည်ရှိ ပြဇာတ်ထုခုကို လျှို့ဝှက်စွာ ရေးသားခဲ့လေသည်။

၁၇၈၀ ပြည့်နှစ်တွင် ရှီးလားသည် ကျောင်းမှ ထွက်ရ၍ စတပ်ဂတ်ရှိ စစ်တပ် တတပ်တွင် ဆရာဝန်အဖြစ် အမှုထမ်းရသည်။ အလုပ်ပင်ပန်း၍ လစာ ရိက္ခာ ကောင်းစွာမရသဖြင့် သုံးစွဲဖို့ ငွေကြေး ပို၍ရလိုရငြား ရှီးလားသည် ငွေချေးပြီးလျှင် သူ လျှို့ဝှက်စွာ ရေးသားခဲ့သော "ထားပြများ" ပြဇာတ်ကို ပုံနှိပ်ထုတ်ဝေသည်။ ထိုပြဇာတ်သည် စာပေလောကသို့ ဂယက် မရိုက်သေးသော်လည်း ပြဇာတ်များကို ရုံတင်မြှုပ်သူ ပြဇာတ် ဒါရိုက်တာကြီး တဦးသည် ရှီးလား၏ ပြဇာတ်ကို သဘောကျနေခဲ့သည်။ ထို့ကြောင့် ရှီးလားအား ထိုပြဇာတ်ကို ရုံတင်ပြသနိုင်အောင် ပြန်၍ ပြုပြင်ရေးသားစေပြီးသော် မန်းဟိုင်းမြို့ ပြဇာတ်ရုံတွင် ၁၇၈၂ ခုနှစ်၌ ရုံတင်ပြသရာ အထူး အောင်မြင်လေသည်။

ထိုအခါ စစ်တပ်မှ ဆရာဝန်ကလေးသည် ပြဇာတ်အရေးကောင်းသည်ဟု နာမည်ကြီးလာသည်။ ရှီးလားသည်လည်း မိမိပြဇာတ်၏ အောင်မြင်မှုအတွက် အားတက် ပြီးသော် နောက်ထပ် ပြဇာတ်တပုဒ် ရေးသားသည်။ သို့သော် မိမိတို့၏ အရှင်သခင် နယ်စားကြီးက မနှစ်သက်သဖြင့် ချုပ်ချယ်မှုများ ပြုလာသည်။ ထို့ကြောင့် ရှီးလားသည် ဖပ်တင်ဖတ်နယ်မှ ထွက်ပြေးပြီးလျှင် ပလက်တနိတ်နယ်၌ သွားရောက်ခိုလှုံနေထိုင်၍ ပြဇာတ် ရေးသားနေခဲ့သည်။ ထိုနောက် နယ်စားကြီးက သူ့အပေါ်တွင် နောက်ထပ် အရေးယူ ချုပ်ချယ်မှုများ မပြုတော့ကြောင်း သိရလျှင် ရှီးလားသည် မန်းဟိုင်းသို့ ပြန်လာကာ ရုံတင်ပြသရန် ပြဇာတ်များကို ရေးသားနေခဲ့သည်။

သုံးနှစ်ခန့်ကြာလျှင် မန်းဟိုင်း ပြဇာတ်ရုံအတွက် ပြဇာတ်များလည်း ရေးမပေးရတော့သဖြင့် ရှီးလားသည် ကျပ်ကျပ်တည်းတည်း ဖြစ်လာသည်။ ထို့ကြောင့် မိတ်ဆွေဝတ်လုံတော်ရ တဦး၏ ဖိတ်ခေါ်ချက်အရ ဒရက်ဇဒင်မြို့သို့ သွားရောက်နေထိုင်ပြီးလျှင် သူ၏ လက်ရာမွန်တခုဖြစ်သော "ဒွန်ကာလော့" ပြဇာတ်ကို ရေးသားသည်။ ထိုပြဇာတ်နှင့် စပ်လျဉ်း၍ ရာဇဝင်သမိုင်းများကို သုတေသန ပြုလုပ်ရပေရာ ရှီးလားသည် ရာဇဝင်သမိုင်းများကို များစွာစိတ်ဝင်စားလာ၍ သုတေသနလုပ်ငန်းများစွာကို ဆောင်ရွက်ခဲ့လေသည်။

"ဒွန်ကာလော့" ပြဇာတ်ကို ၁၇၈၇ ခုနှစ်တွင် လိုက်ပဆစ်မြို့ ပြဇာတ်ရုံ၌ ရုံတင်လေရာ ရှီးလား၏ အမည်သည် အလွန်ထင်ပေါ် ကျော်ကြားသွားလေသည်။ နာမည်ကျော်ကြားမှုကို ရရှိခဲ့သောမှ ထိုခေတ်က ဂျာမန် ပြဇာတ်ရေးဆရာအကျော်အမော်ဖြစ်သော ဂါတာနှင့် အကျွမ်းတဝင် ဖြစ်ကာ အထူးပင် ခင်မင်ရင်းနှီးသွားကြသည်။ ရှီးလားသည် ရာဇဝင် သမိုင်းဖက်၌လည်း ထက်မြက်ကြောင်းကို သိသဖြင့် ဂါတာသည် ၁၇၈၈ ခုနှစ်တွင် ရှီးလားအား ဂျီနား တက္ကသိုလ်၌ သမိုင်းပါမောက္ခရာထူး ရရှိအောင် ဆောင်ရွက်ပေးသည်။

ရှီးလားသည် ကျန်းမာရေး မကောင်းသဖြင့် ထိုရာထူးတွင် ကြာကြာမဆောင်ရွက်နိုင်ခဲ့ပေ။ ထို့ကြောင့် ရာဇဝင်သမိုင်း နှင့် ဒဿနိကဗေဒ ဆိုင်ရာ စာပေများကို ရေးသားပြုစုခဲ့ရာ "နှစ်သုံးဆယ်စစ်ပွဲ" စာအုပ်ကြီးသည် ရှီးလား၏ အကောင်းဆုံး လက်ရာတခု ဖြစ်လေသည်။ ၁၇၉၉ ခုနှစ်တွင် ဂါတာ၏ တိုက်တွန်းချက်အရ ရာဇဝင် သမိုင်း ဇာတ်လမ်းဖြစ်သော "ဗာလင်ရှတိုင်း" ပြဇာတ်ကို ရေးသားခဲ့လေရာ ရှီးလား၏ အကောင်းဆုံး ပြဇာတ်လက်ရာဟု အသိအမှတ်

ပြုကြရသည်။ ရုံတင် ပြသရသော ဂျာမန် ပြဇာတ်များ အနက် အကောင်းဆုံးဟုလည်း အသိအမှတ် ပြုကြလေသည်။

ထိုနှစ်တွင်ပင် ရှီးလားသည် ဗိုင်းမားမြို့သို့ ရွှေ့ပြောင်းပြီးလျှင် ဂါတာနှင့် တမြို့တည်းနေထိုင်ကာ ကဗျာနှယ်သော ပြဇာတ်များကိုလည်း ရေးသားခဲ့သည်။ ရှီးလားသည် မကွယ်လွန်မီကလေးတွင် နာမည်ကျော်“ဝီလျံတဲ”ပြဇာတ်ကို ရေးသားခဲ့သည်။ ထိုပြဇာတ်သည် မတရား ဖိနှိပ်ချုပ်ချယ်မှုကို တော်လှန်သော တော်လှန်ရေး ပြဇာတ် ဖြစ်၍ ထိုပြဇာတ်အတွက် ရှီးလားသည် ပို၍ နာမည်ကျော်ကြားခဲ့သည်။ ထိုပြဇာတ်သည်လည်း အကျော်ကြားဆုံးသော ပြဇာတ်တခု ဖြစ်၍ ထိုပြဇာတ်၏ အင်္ဂလိပ် ဘာသာပြန်ကို အင်္ဂလိပ်စာသင်ကြား တတ်မြောက်သူတို့ ဖတ်ဖူးကြပေလိမ့်မည်။

၁၈၀၅ ခုနှစ် မေလ ၉ ရက်နေ့တွင် ရှီးလား ကွယ်လွန်သည်။ ဂျာမန် ပြဇာတ် လောကတွင် ဂါတာနှင့် ရှီးလား၏ အမည် နှစ်ခုကို ထိပ်တန်းမှာ ထားကြရသည်။ ယင်းတို့ နှစ်ဦးသည် ပညာတူသူများ ဖြစ်သော်လည်း တဦးနှင့်တဦး အလွန် ချစ်ခင် ရင်းနှီးသည်။ ရှီးလားသည် ဂါတာထက် ငယ်သူဖြစ်၍ ဂါတာကို လေးလေးစားစားနှင့် ချစ်ခင်သည်။ ရှီးလားကွယ်လွန်သောအခါ ဂါတာသည် အလွန် စိတ်ထိခိုက်သွားသည်။ ဂါတာကွယ်လွန်သောအခါ ရှီးလား၏ဂူအနား၌ မြှုပ်နှံကြရလေသည်။ (ဂါတာ, ဖွန် ယိုဟန်းဝုဖဂန် — လည်းရှု။)

**ရှူးပျံ။** ။ရှူးပျံဟူသော အကောင်မျိုးကို ပုဂံ တည်စခေတ်က ဝက်ကြီး၊ ငှက်ကြီး၊ ကျားကြီးတို့နှင့် အတူ ပြူစောထီး နှိမ်နင်းရသော ပြည်သူ့ရန်သူကြီး တပါးအဖြစ် ရာဇဝင် ဒဏ္ဍာရီများမှ ကျွန်ုပ်တို့ သိရှိရသည်။ ယင်းသို့ ဖတ်ရှုသိရှိရသော်လည်း ရှူးပျံကို ကိုယ်တွေ့မျက်မြင် ကြုံဘူးသူ အလွန် ရှားပေသည်။ အထက်တွင် ဖော်ပြခဲ့သော ရှူးပျံကြီးမှာ တကယ် ကြောက်စရာကောင်းသည့် သတ္တဝါကြီး ဖြစ်ကောင်း ဖြစ်မည် မှန်သော်လည်း စင်စစ် ရှူးပျံဆိုသည်မှာ ကြောက်မက်ဖွယ်ရာ ကြီးကြီးမားမား တိရစ္ဆာန်မျိုး ကား မဟုတ်ပေ။

ရှူးပျံဟူ၍ ခေါ်ဝေါ်ကြသော်လည်း ရှူးပျံသည် ငှက်ကဲ့သို့ တောင်ပံခတ်၍ ပျံသန်းနိုင်သည် မဟုတ်ချေ။ ရှူးပျံသည် ရှဉ့်မျိုးတွင် ပါဝင်၍ သစ်ပင်တပင်မှ တပင်သို့ များသောအားဖြင့် အမြင့်မှ အနိမ့်သို့ ခုန်လွှား မသွားဘဲ လေထဲမှ ပျံဝဲဆင်းသက်နိုင်သော သတ္တဝါမျိုး ဖြစ်သည်။

ရှူးပျံ၏ ကိုယ်နံဘေး တဖက်တချက်တွင် ရှေ့ခြေနှင့် နောက်ခြေတို့ဖြင့် ဆက်တွဲနေသော အရေပြားသည် ခေါက်လိပ်၍နေသည်။ ရှူးပျံသည် သစ်ပင်တပင်မှ တပင်သို့ ကူးရန် ခြေထောက်များကို ဘေးသို့ ကားထုတ်လိုက်သောအခါ ခေါက်လိပ်နေသောအရေပြားသည် လေထီးကဲ့သို့ ဖြန့်ကား



သစ်သီးများကိုသာ စားသောက်လေ့ရှိသည့် ရှူးပျံ

ထွက်လာသဖြင့် ရှူးပျံသည် ပျံဝဲနိုင်ခြင်း ဖြစ်သည်။ ယင်းသည် အမြင့်မှ အနိမ့်သို့ ပျံဝဲဆင်းလာ၍ တဖန် တည့်တည့်သွားရာမှ အထက်သို့ ခပ်စောင်းစောင်း တက်သွားပြန်ပြီးနောက်တွင် ဝိုက်ချ ပျံဝဲ ဆင်းနိုင်သည်။ သာမန်အားဖြင့် ပေ ၅၀-၆၀ အထိ ပျံဝဲနိုင်၍ ရံဖန်ရံခါ ပေ ၂၀၀ ကျော်မျှ ပျံဝဲသွားနိုင်လေသည်။

ရှူးပျံနှစ်မျိုး ရှိသည်။ တမျိုးသည် ဥရောပ၊ အာရှနှင့် မြောက်အမေရိကတိုက်တို့၌ တွေ့ရသော ဆီယူရော့ပတာရီနီး မျိုးရင်းဝင် ရှူးပျံတို့ဖြစ်သည်။ စကင်ဒီနေးဗီးယားမှ ဂျပန်ကျွန်းများအထိ၊ မလ္လာယုကျွန်းဆွယ်၊ မြောက် အမေရိကတိုက် ကနေဒါမှ ဂွာတီမားလနိုင်ငံတို့အထိ ဒေသများ၌ ထိုမျိုးရင်းမှ မျိုးခွဲဖြစ်သော ရှူးပျံအမျိုးမျိုးကို တွေ့ရသည်။ အိန္ဒိယနှင့် မလ္လာယု ဒေသများ၌မူ မျိုးစိတ် အများအပြားကို တွေ့ရလေသည်။

ဆီယူရော့ပတာရီနီး မျိုးရင်းဝင် ရှူးပျံတို့သည် ရှဉ့်အစစ်နှင့် နီးစပ်သည်။ အချို့ ရှူးပျံမျိုးတို့သည် အရွယ်ကြီး၍ အမြီးဖျားမှ နှာဖျားအထိ အလျားတပေခန့် ရှိသည်။ အမွေးရောင်မှာ အချို့သည် နီကြန်ကြန်၊ အချို့သည် အနီပေါ် အဖြူကွက်၊ အချို့သည် အနက်ရောင်ဖြစ်သည်။ အမေရိကန် ပြည်ထောင်စု၌ အတွေ့ရများသော ရှူးပျံတို့သည် အလျား ဆယ်လက်မခန့်ရှိ၍ မျက်လုံးတို့သည် ပြူးကျယ် နက်မှောင်သည်။ အမွေးသည် ပြောင်ချောနူးညံ့သည်။ သစ်ပင်အိုများ၏ ပင်စည် အရောင်နှင့် တူသော အမွေးရောင်ရှိသဖြင့် ယင်းတို့ကို တောထဲတွင် ရုတ်တရက် ရှာမတွေ့နိုင်ချေ။

ရှူးပျံတို့သည် သစ်ပင်ပေါ်၌ နေလေ့ရှိ၍ မြေပြင်ပေါ်၌ ကျက်စားလေ့ မရှိပေ။ ညဉ့်အခါ၌သာ အစာရှာ ထွက်ကြ၍ ခွံမာသီး၊ သစ်ရွက်နု အဖူးအကိုင်းများ၊ ငှက်ဥနှင့် တခါတရံ ငှက်ပေါက်စများကို ရှာဖွေစားသောက်လေ့ ရှိသည်။ ရှူးပျံများကိုဖမ်း၍ ယဉ်ပါးအောင် သင်ကြားလျှင်ရလွယ်သည်။ သို့သော် အလွန် ဖျက်ဆီးတတ်သော သတ္တဝါမျိုးဖြစ်သည်။

အရွယ်ငယ်သော ရှူးပျံမျိုးတို့ကို မြောက် အမေရိက တိုက်နှင့်ဥရောပတိုက်တို့တွင် တွေ့ရသည်။ ၁၈ လက်မကျော် အလျားရှိ၍ အမွေးထူသော ရှူးပျံမျိုးကို ဟိမဝန္တာတောင် တန်းဒေသများ၌ တွေ့ရှိနိုင်လေသည်။

အာဖရိကတိုက်၌ တွေ့ရသော ရှူးပျံ အမျိုးမျိုးတို့သည် အနံ့မာလျူရီဒီးမျိုးရင်းတွင် ပါဝင်ကြသည်။ ထိုမျိုးရင်းဝင် ရှူးပျံမျိုးတို့တွင် နံဘေး၌ အရေပြားလိပ် မပါသော ရှူးပျံ တို့လည်း ပါဝင်သည်။ ထိုမျိုးရင်းဝင် ပျံဝဲနိုင်သော ရှူးပျံ မျိုးတို့တွင် အရေပြားကို လက်ကောက်ဝတ်၌ အရိုးနုဖြင့် ထောက်ကန်ထားမည့် အစား၊ တံတောင်ဆစ်၌ အရိုးတခု ဖြင့် ထောက်ကန် ထားသည်။ ပျံဝဲနိုင်သော ရှူးပျံမျိုးစု နှစ် စုရှိရာ ယင်းတို့မှာ အနံ့မာလရပ်နှင့် အစ်ဒျူးရပ်မျိုးစုတို့ ဖြစ် သည်။ ပုံပန်းသဏ္ဌာန်သည် ရှဉ့်နှင့်တူ၍ အနေအထိုင် အလေ့ အကျင့်တို့မှာ ဖော်ပြခဲ့သော ရှူးပျံတို့ကဲ့သို့ပင် ဖြစ်သည်။

**ရှူးဗတ်, ဖရန့်ဇ ပီတာ** (ခရစ် ၁၇၉၇–၁၈၂၈)။ ။အ နောက်တိုင်း ဂီတလောကတွင် အမြင့်ဆုံး နေရာ၌ ထားရ သော ဂီတအနုပညာရှင်တဦး ဖြစ်သူ ဖရန့်ဇ ပီတာ ရှူးဗတ် သည် ဩစတြီးယန်းလူမျိုး ဖြစ်သည်။ ဂီတဝေဖန်ရေး ပုဂ္ဂိုလ် တို့က ရှူးဗတ်သည် ကဗျာအဆန်ဆုံးသော ဂီတပညာရှင်ဟု ဖော်ပြ ကြသည်။ ရှူးဗတ်အဖို့ သူတွေ့မြင်ရသမျှကို ဂီတ အဖြစ် ပြောင်းလဲနိုင်စွမ်းရှိသူ ဟူ၍ပင် ဆိုကြရလောက် အောင် ဂီတဖက်၌ ပါရမီ ထူးချွန်လှသူ ဖြစ်သည်။ သို့သော်



ဩစတြီးယန်း ဂီတပါရဂူ ရှူးဗတ်

ရှူးဗတ်၏ ဘဝသည် ဥက္ကာ၊ သို့မဟုတ် ကြယ်ပျံတခုနှင့် နှိုင်း ယှဉ်ရပေမည်။ ကြယ်ပျံသည် ကောင်းကင်၌ ရုတ်တရက် ထိန်ထိန်ညီးမျှ ပေါ်ထွက်လာပြီးလျှင် တခဏချင်း၌ ချုပ် ငြိမ်းသွားသကဲ့သို့ ရှူးဗတ်၏ ဘဝသည်လည်း တခဏမျှသာ ထွန်းလင်း တောက်ပြောင်ရပြီးသော် ငယ်ငယ် ရွယ်ရွယ်နှင့် ဘဝဇာတ်သိမ်းခဲ့ရသည်။ ရှူးဗတ်သည် ၃၁ နှစ်အရွယ်အထိ သာ အသက်ရှည်ခဲ့၍ တိုတောင်းလှသော သူ့ဘဝ တသက် တာအတွင်း တေးဂီတအပုဒ်ပေါင်း ၆၀၀ ကျော်ကို ရေးဖွဲ့ သီကုံးခဲ့ရာ ဂီတပြဇာတ်များအပြင် ဆင်ဖနီဂီတ စသော တေးကြီး ဘွဲ့ကြီး သီချင်းကြီး သီချင်းခံများလည်း ပါဝင် လေသည်။

ဂီတ ပါရမီ ထူးကဲလှသော ရှူးဗတ်သည် ဆင်းရဲ နွမ်းပါး သော မိဘများမှ ဆင်းသက်ပေါက်ဖွားခဲ့သည်။ ၁၇၉၇ ခုနှစ် ဇန္နဝါရီလ ၃၁ ရက်နေ့တွင် မွေးဖွား ခဲ့၍ ငယ်စဉ်က ဂီတ ပညာကို ဖြစ်သလို သင်ယူခဲ့ရရှာသည်။ဖခင်ဖြစ်သူ ကျောင်း ဆရာသည် ဂီတသမားလည်းဖြစ်ပေရာ ရှူးဗတ်အား တယော နှင့်ပီယာနိုးတီးနည်းကို မိမိတတ်သမျှ သင်ကြားပေးခဲ့သဖြင့် ရှူးဗတ်သည် ငါးနှစ်သားအရွယ်၌ပင် ဂီတအခြေခံ ရှိနေခဲ့ ပြီဖြစ်သည်။ ကျောင်းစာသင်သည့် အရွယ်တွင်လည်း ရှူး ဗတ်သည် ကျောင်းစာထက် သီချင်းရေးစပ်ရန်ကို ပို၍ စိတ် အား သန်နေခဲ့လေသည်။

ရှူးဗတ်သည် ၁၁ နှစ်သားအရွယ်မှ စ၍ ဂီတဖက်၌ ထူး ချွန်သည့် အရည်အသွေး ပြလာသည်။ ၁၄ နှစ်အရွယ်တွင် သီချင်းကြီး သီချင်းခံများကို စပ်ဆိုနိုင်၍ ၁၉ နှစ်သား အရွယ်တွင် စပ်ဆိုခဲ့သော "သအားလကင်း" နှင့် "သဝမ်းဒါး ရား" သီချင်းနှစ်ပုဒ်သည် ရှူးဗတ်၏အကောင်းဆုံး တေးဂီတ များတွင် ပါဝင်ခဲ့လေသည်။

တေးဂီတများကို ရေးသား စပ်ဆိုခဲ့သော်လည်း ရှူးဗတ် အတွက် အကျိုးခံစားမှု ထိုက်ထိုက်တန်တန် မရခဲ့သည် မှာ ရှူးဗတ်ကွယ်လွန်သည့် တိုင်အောင်ဖြစ်သည်။ ဂီတဝါသ နာ အလွန်ထက်သန်လှသော်လည်း ဝမ်းရေးအတွက် မလုံ လောက်သဖြင့် ဖခင်နှင့်အတူ ကျောင်းဆရာအလုပ် ဝင်၍ လုပ်ကိုင် ရသည်။ သို့သော် တေးသီချင်းများကိုကား ရေးမြဲ ရေးလျက် ရှိသည်။ ထိုအခါ ဂီတမြတ်နိုး၍ ငွေကြေး ပြည့်စုံ သူ ဖွန်ရှိုးဗားအမည်ရှိလူငယ်တဦးသည် ရှူးဗတ်၏တေးဂီတ များကိုနားဆင်ရသဖြင့်နှစ်ခြိုက်သောကြောင့် ရှူးဗတ်အား ကျောင်းဆရာအလုပ်မှ ထွက်စေပြီးလျှင် တေးဂီတများကို သာ ရေးသားနိုင်စေရန် ငွေကြေးထောက်ပံ့လေသည်။

ထိုအခါ ရှူးဗတ်သည် တေးဂီတများကို အားသွန်ရေးစပ် သည်။ သို့သော် ဂီတလောကမှ ပုဂ္ဂိုလ်များက ရှူးဗတ်၏ တေးဂီတများကို အားပေး ထောက်ခံခြင်း မပြုကြချေ။ ရှူးဗတ်၏ တေးဂီတများကိုလည်း တန်ရာ တန်ဖိုးနှင့် ဝယ်ယူ

ပုံနှိပ်ရောင်းချခြင်းလည်း မရှိကြချေ။ ထိုကြောင့် ရှူးဗတ်သည် မိမိ၏တေးဂီတများကို တပုဒ်လျှင် ဆင့် ၂၀ မျှလောက်ဖြင့်ပင် ရောင်းချခဲ့ရသည်။ တခါတွင် မိမိ၏ ကြေးရှင်တဦးအား ငွေဖြင့် ကြေးမဆပ်နိုင်သဖြင့် ဂီတပြဇာတ်တခုရေးစပ်သီကုံး၍ ကြေးဆပ်ခဲ့ရာ ကြေးရှင်၏ အစေခံသည် ထိုဂီတစာမူများကို မီးမွှေးရန် အသုံးချခဲ့သဖြင့် ရှူးဗတ်၏ လက်ရာကောင်း ဂီတပြဇာတ်တပုဒ်သည် ကမ္ဘာ့မြေပေါ်မှ အမှတ်မထင် ကွယ်ပျောက် ဆုံးရှုံးခဲ့ရလေသည်။

ရှူးဗတ်သည် မိမိ၏ တေးဂီတများကို ဂီတလောကမှ ထောက်ခံ အားပေးခြင်း မရှိ၊ ဂီတစာမူများကို ရောင်းချ၍ တန်ရာတန်ဖိုး မရရှိဘဲ အပေါစား ဖြစ်ခဲ့ရသည်ကို အလွန်စိတ်မချမ်းမသာ ဖြစ်ခဲ့ရှာသည်။ သို့သော် ဝါသနာကိုကား မစွန့်နိုင်ရှာ။ မိတ်ဆွေ သူငယ်ချင်းများကိုလည်း အလွန်ခင်မင်တတ်သူ ဖြစ်သည်။ သူ့အဖို့ မိမိဝါသနာ သန်သော တေးဂီတများကို ရေးစပ်ခြင်း၊ ယင်းတို့ကို သူငယ်ချင်းများအား သီဆိုတီးမှုတ်ပြခြင်းဖြင့် မိမိ၏ စိတ်မချမ်းသာမှုကို ဖြေဖျောက်ရရှာသည်။

၁၈၁၈ ခုနှစ်တွင် ကောင့် အက်စတာဟေဇီ၏ သား သမီးများကို ဂီတပညာ သင်ကြားပေးရန် အလုပ်ရရှိ၍ ဝင်ငွေလည်းမှန်၊ ဝါသနာပါသော အလုပ်ကိုလည်း လုပ်ရသဖြင့် ရှူးဗတ်သည် အတန်ငယ် စိတ်ချမ်းသာမှုရရှိသည်။ သို့သော် သူငယ်ချင်းများ အပေါ် အလွန်ပူစုသဖြင့် ရှူးဗတ်သည် ကြေးမကင်းနိုင်ဘဲ ချောင်ချောင်လည်လည်မနေခဲ့ရရှာပေ။

၁၈၂၁ ခုနှစ်ခန့်တွင် ရှူးဗတ်၏တေးဂီတများကို အသိအမှတ် ပြုလာကြ၍ သူ၏ ဂုဏ်သတင်း ကျော်ကြားစပြုလာသည်။ ရှူးဗတ်ကား တေးဂီတများကို အပတ်တကုတ် ရေးဖွဲ့လျက်ပင် ရှိသည်။ သူ့အဖို့ တနေ့လျှင် တေးဂီတ လေးငါးခြောက်ပုဒ်ကို ရေးထုတ်ရန် အပန်းမကြီးလှချေ။ ရှူးဗတ်အတွက် တေးဂီတရေးစပ်ရန် တီးလုံးတီးကွက်များကို အစဉ်အမြဲ နားထဲကြားနေရဘိသကဲ့သို့ သီချင်းများကို တောက်လျှောက်ရေးချသွားနိုင်သည်။ ၁၈၂၆ ခုနှစ်တွင် သူ၏တေးဂီတများကိုလူကြိုက်များလာသဖြင့် ထိုနှစ်တွင် ရှူးဗတ်သည် တေးဂီတအပုဒ်ပေါင်းများစွာကို ရေးသားခဲ့သည်။ ရှူးဗတ်ကွယ်လွန်မည့် ၁၈၂၈ ခုနှစ်တွင် ရေးသားခဲ့သည့် တေးဂီတများထဲတွင် သူ၏ အကောင်းဆုံး လက်ရာများ ပါဝင်သည်။ ရှူးဗတ်၏ အကောင်းဆုံး လက်ရာများထဲတွင် ရှေ့ဦး ဖော်ပြခဲ့သော တေးဂီတနှစ်ပုဒ်အပြင် "ဆီလဗီယာ မည်သူနည်း"၊ "နားထောင် နားထောင် မိုးစွေမောင်" တေးဂီတကြီးများလည်း ပါဝင်သည်။

ရှူးဗတ်သည် တေးဂီတများကိုသာ တရေးတည်း ရေးခဲ့ရ၍ ကိုယ်ခန္ဓာပင်ပန်းသည့် ဒဏ်၊ ဂီတလောကမှ သူ့အား အသိအမှတ် မပြုခဲ့သဖြင့် အားငယ် ဝမ်းနည်းခဲ့ရ၍ စိတ်ပင်ပန်းသည့်ဒဏ်၊ ဆင်းဆင်းရဲရဲ နေခဲ့ရသည့်ဒဏ်တို့ကြောင့် ရောဂါဖိစီးလာပြီးလျှင် ဗီယင်းနားမြို့၌ပင် ၁၈၂၈ ခုနှစ် နိုဝင်ဘာလ ၁၉ ရက်နေ့တွင် ကွယ်လွန်သွားလေသည်။

ရှူးဗတ်၏ ပုံပန်းသဏ္ဌာန်သည် ပုတိုက်တိုက် ဖြစ်သည်။ မျက်စိမှုန်သည်။ လူများများနှင့် တွေ့ရလျှင် ရှက်တတ်သည်။ ရိုးသားဖြောင့်မတ်၍ စိတ်ကောင်းရှိသည်။ တင်းတိမ်ရောင့်ရဲနိုင်သောသဘောရှိသည်။ အိမ်ထောင်မရှိချေ။

**ရှူးမန်း, ရောဗတ် (ခရစ် ၁၈၁၀–၅၆)။** ။ရောဗတ် ရှူးမန်းသည် ဂျာမန်လူမျိုး ဂီတအနုပညာရှင် တဦးပေတည်း။ တေးဂီတရေးစပ်သည့် ဖက်တွင် ရှူးဗတ်နှင့် တတန်းတည်းထား၍ စန္ဒရားအတီးနှင့် စန္ဒရားတီးကွက်တီးလုံး ရေးသားရာတွင် ဂီတပါရဂူကြီးများဖြစ်ကြသော ဖရက်ဒရစ် ရှိုပန်နှင့်၎င်း၊ ဖရန့်လဇ္ဇနှင့်၎င်း တန်းတူထားရသော ဂီတပါရမီရှင်ကြီးဖြစ်ပေသည်။ (ရှူးဗတ်,ဖရန့်ဇပီတာ။ ရှိုပန်,ဖရက်ဒရစ်။ လဇ္ဇ,ဖရန့် — ရှု။) အနောက်တိုင်းဂီတလောက၏အဖိုးတန်ပတ္တမြားကြီးများဖြစ်ကြသော ရှိုပန်၊ ရှူးဗတ်၊ ဗရမ်း၊ ဗေးရလီအိုးနှင့် မင်ဒယ်ဇုန်တို့ နံ့ထဲ နစ်နေခဲ့ခြင်းကို ရှူးမန်းက ဖော်ထုတ် အရောင်တင် အကွက်ဖော်ပေးခဲ့ရာ ထိုအချက်တခုတည်းနှင့်ပင် ရှူးမန်းအား ဂီတလောကကို ကျေးဇူးပြု



ဂျာမန် ဂီတအနုပညာရှင် ရောဗတ် ရှူးမန်း

သော ဂုဏ်ထူးဆောင် ပုဂ္ဂိုလ်ကြီးအဖြစ် နေရာထား လေးစားကြရပေသည်။ (ဗရမ်း, ယိုဟန်းနက်။ မင်ဒယ်ဇုန်, ဂျေအယ်အက် (ဖ) — လည်း ရှု။)

ရှူးမန်းသည် ဂျာမနီနိုင်ငံ ဆက်ဆွန်နီပြည်နယ်၊ ဆဗစ်ကောင်းမြို့သားဖြစ်သည်။ ၁၈၁၀ ပြည့်နှစ် ဇွန်လ ၈ ရက်နေ့တွင် မွေးဖွားခဲ့၏။ မိဘများသည် စာအုပ်ပုံနှိပ်ထုတ်ဝေသူများဖြစ်ကြ၍ ပစ္စည်းဥစ္စာကုံလုံကြွယ်ဝသည်။ ရှူးမန်းသည် ငယ်စဉ်ကပင် ဂီတဝါသနာထုံခဲ့သည်။ဖခင်ကြီးကွယ်လွန်ပြီးနောက်တွင် မိခင်၏ အလိုဆန္ဒအရ ဟိုင်ဒယ်ဗတ်တက္ကသိုလ်၌ ဥပဒေပညာကို နှစ်နှစ်မျှဆည်းပူးခဲ့ရသည်။ သို့သော် ရှူးမန်းသည် ဂီတဖက်သို့ ပို၍ စိတ်အားသန်နေသဖြင့် မိခင်က အလျှော့ပေးရလေသည်။

ရှူးမန်းတွင် စန္ဒရားအတီးကျော်တဦး ဖြစ်လာရန် ရည်မှန်းချက် ရှိခဲ့သည်။ ငယ်စဉ်ကပင် စန္ဒရားတီးကျွမ်းကျင်သည်။ ထို့ကြောင့် လိုက်ပဆစ်မြို့မှ နာမည်ကျော် စန္ဒရားဆရာကြီးဖရက်ဒရစ်ဗိ၏ထံတွင် ပညာဆည်းပူးသည်။ပညာဆည်းပူးနေစဉ် စန္ဒရားတီးသည့် လက်အနေအထား စံနစ်သစ်တခုကို တီထွင်ရာမှ ယာဖက်လက်ကို ထိခိုက်အနာတရဖြစ်သွားသောကြောင့် သူ၏ ဘဝ လမ်းကြောင်းသည် တမျိုးတဖုံ ပြောင်းလဲခဲ့လေသည်။

ယာဖက်လက် မသန်တော့သဖြင့် မြော်မှန်းချက်အတိုင်း စန္ဒရားအတီးကျော်မဖြစ်နိုင်တော့သော်လည်း ဂီတဝါသနာကို မစွန့်နိုင်သော ရှူးမန်းသည် တေးဂီတများ ရေးစပ်ခြင်းပြုသည်။ ၁၈၃၄ ခုနှစ်တွင် ဂီတမဂ္ဂဇင်းတစောင်ကို တည်းဖြတ်ထုတ်ဝေသည်။ ထိုမဂ္ဂဇင်းမှတဆင့် ရှိုပန်၊ ဗရမ်း၊ မင်ဒယ်ဇုန်၊ ဗေးရလီအိုး စသော နံ့နစ်ပတ္တမြား ဂီတပါရမီရှင်များ၏ အရည်အသွေးကို ဖော်ထုတ်ခဲ့သည်။ ထိုမဂ္ဂဇင်းမှ ရှူးမန်း၏ ဂီတဆောင်းပါးများသည် သူ့ခေတ်က ဂီတလောကကို အတော်ပင် လွှမ်းမိုးနိုင်ခဲ့လေသည်။

ရှူးမန်းရေးစပ်သော တေးဂီတများသည် များသောအားဖြင့် စန္ဒရားတေးဂီတများ၊စန္ဒရား တီးလုံးတီးကွက်များဖြစ်သည်။ ယင်းတို့သည် အနောက်တိုင်းဂီတလောက၌ လူကြိုက်များ၍ ထင်ရှားသောတေးဂီတများဖြစ်ကြပေသည်။ ၁၈၄၀ ပြည့်နှစ်တွင် ရှူးမန်းသည် မိမိ၏ စန္ဒရားဆရာ ဖြစ်သော ဗိ၏သမီး ကလာရာနှင့် လက်ထပ် လိုက်သည်။ ဗိက သဘောမတူသဖြင့် တရားတပေါင်ဖြစ်ကြရသေးသည်။ ကလာရာသည် ဥရောပတိုက်၌ အတော်ဆုံးသောစန္ဒရားအတီးကျော်တဦးဖြစ်၍ ရှူးမန်း၏ တေးဂီတများကို ပွဲထုတ်ပေးသည်။ ရှူးမန်းသည် သူတို့နှစ်ဦး လက်ထပ်ကြသည့် နှစ်မှ ၁၈၅၄ ခုနှစ်အတွင်း ဇနီးသည်၏ အားပေးမှုကြောင့် တေးဂီတအပုဒ်ပေါင်း ၂၅၀ ကျော်ကို ရေးစပ်ခဲ့သည်။ ရှူးမန်းသည် အလုပ်ငွဲကောင်းသူ ဖြစ်ရာ ကျန်းမာရေးကို ထိခိုက်လာသည်။ ထို့ကြောင့် စိတ်ဂယောင်ချောက်ချားဖြစ်တတ်သည့် ဝေဒနာ ပေါ်ပေါက်လာတတ်သည်။ ဇနီးဖြစ်သူကလည်း ဂရုတစိုက်ပြုစုကုသရှာသည်။သို့သော်တဖြည်းဖြည်းရောဂါရင့်လာသဖြင့် ၁၈၅၄ ခုနှစ်တွင် သတိလက်လွတ်ဖြစ်ကာ ရိုင်းမြစ်ထဲခုန်ချသည်။ သို့သော် ကယ်သူဦး၍ အသက်မသေခဲ့သော်လည်း မကြာခဏ စိတ်ဖောက်ပြန်လာသဖြင့် စိတ္တဇဆေးရုံတခုသို့ပို့ထားရသည်။ နှစ်နှစ်မျှအကြာ ၁၈၅၆ ခုနှစ် ဇူလိုင်လ ၂၉ ရက်နေ့တွင် ထိုဆေးရုံ၌ပင် ကွယ်လွန်အနိစ္စ ရောက်သွားရှာလေသည်။

**ရွှေတော်သွင်း စာချွန်တော်။** ။ကမ္ဘာပေါ်ရှိ အချို့သော နိုင်ငံများတွင် တသီးပုဂ္ဂလလွတ်လပ်မှု အခွင့်အရေး အပါအဝင် အချို့သောအခွင့်အရေးများကို နိုင်ငံသူနိုင်ငံသားတိုင်း ရယူခံစားနိုင်သော မူလအခွင့်အရေးများဟူ၍ သတ်မှတ်ထားတတ်လေသည်။ ယင်းမူလအခွင့်အရေးများကို အချို့သောနိုင်ငံများ၌ ဖွဲ့စည်းအုပ်ချုပ်ပုံအခြေခံဥပဒေတွင် ထည့်သွင်း ဖော်ပြထားသည်။ စင်စစ်ဆိုလျှင် မူလအခွင့်အရေးများကို မည်သို့ပင် အခြေခံ ဥပဒေတွင် ထည့်သွင်း ဖော်ပြထားစေကာမူ ထိုအခွင့်အရေးများကို ရယူခံစားနိုင်စေရန်အတွက် အာမခံမည့် အစီအမံများ ရှိရပေဦးမည် ဖြစ်ပေသည်။

မူလအခွင့်အရေးများတွင် အပါအဝင် တသီးပုဂ္ဂလ လွတ်လပ်မှု အခွင့်အရေး ဆိုသည်မှာ လူတဦးတယောက်အား တရားဥပဒေ အရ မဟုတ်ဘဲ ဖမ်းဆီးခြင်း၊ ချုပ်နှောင်ခြင်း၊ အနိုင့်အထက်ပြုခြင်းတို့မှ လွတ်လပ်ခွင့်ကို ဆိုလိုပေသည်။ အင်္ဂလန်နိုင်ငံတွင် တသီးပုဂ္ဂလလွတ်လပ်မှု အခွင့် အရေးကို တရားရုံးများက ကာကွယ်စောင့်ရှောက်ပေးသည်။ ထိုနိုင်ငံတွင် တဦးတယောက်သော သူကို ပြစ်မှုတစုံတခုဖြင့် စွပ်စွဲခြင်း မရှိဘဲနှင့်သော်၎င်း၊ ထိုပြစ်မှုဖြင့် ရုံးတင်စစ်ဆေးအပြစ်ပေးခြင်းမခံရဘဲနှင့်သော်၎င်း မည်သို့မျှ ဖမ်းဆီးထားခြင်း မပြုနိုင်ချေ။ ပြစ်မှုဖြင့် စွပ်စွဲဖမ်းဆီးထားလျှင်လည်း မကြာမတင် တရားရုံးတွင် စစ်ဆေးရမည်။ ထိုသို့မဟုတ်ဘဲ ဖမ်းဆီးထားလျှင် မတရား ချုပ်နှောင်ထားခြင်း မည်ပေသည်။

မတရား ဖမ်းဆီးချုပ်နှောင်ခြင်း ခံရသူသည် မိမိအားဖမ်းဆီး ချုပ်နှောင်သူအား အပြစ်ရစေရန် တရားစွဲဆို နိုင်သည်။ လျော်ကြေးလည်း တရားစွဲ တောင်းဆိုနိုင်သည်။ ထိုမှတပါး ရွှေတော်သွင်း စာချွန်တော်အမိန့် ထုတ်ဆင့်ပေးပါရန် ရုံးတော်တရပ်ရပ်သို့ ဖမ်းဆီး ချုပ်နှောင်ထားခြင်း ခံနေရသူကိုယ်တိုင်ဖြစ်စေ၊ သူ၏ ကိုယ်စား တဦးတယောက်က ဖြစ်စေ လျှောက်ထားနိုင်သည်။

ရွှေတော်သွင်း စာချွန်တော်အမိန့် ဟူသည်မှာ "သူ၏ကိုယ်ကို ဆောင်ကြဉ်းခဲ့" ဟူ၍ အနက်ပေါ်လွင်သည့် လက်

တင် ဘာသာစကား "ဟေးဗီယပ်ကော်ပတ်" ကို ဆီလျော်အောင် ပြန်ဆိုထားခြင်းဖြစ်လေသည်။ ရွှေတော်သွင်း စာချွန်တော်အမိန့် ထုတ်ဆင့်ပေးပါရန် ရုံးတော်သို့ လျှောက်ထားသောခါ ရုံးတော်က ချုပ်ထားသူ ရဲအရာရှိ၊ သို့မဟုတ် ထောင်မှူးအား အချုပ်ခံနေရသူကို ရုံးတော်သို့ခေါ် ဆောင်လာရန် အမိန့်ထုတ်ပေးပြီးလျှင် အဘယ်ကြောင့် ထိုသို့ ဖမ်းဆီးချုပ်နှောင်ထားရကြောင်းကို ထုချေလွှာ တောင်းဆိုလေသည်။

အကယ်၍ တရားဝင်သော အကြောင်း တစုံတရာ မရှိဘဲလျက် ဖမ်းဆီး ချုပ်နှောင် ထားခဲ့လျှင် အချုပ်ခံနေရသူအား လွှတ်လိုက်ရသည်။ ထိုသို့မဟုတ်လျှင်လည်း နည်းလမ်းတကျ စစ်ဆေးခြင်း ပြုရသည်။ ရွှေတော်သွင်း စာချွန်တော်အမိန့်၏ အဓိကရည်ရွယ်ချက်သည် လူများအား တရား သဖြင့် ရုံးတင်စစ်ဆေးခြင်း မပြုဘဲ ကြာမြင့်စွာဖမ်းဆီးချုပ်နှောင် ထားခြင်းကို ကာကွယ်ရန်ပင် ဖြစ်၏။ ထို့ပြင် အုပ်ချုပ်ရေးဌာနက တရားဥပဒေအတိုင်း တသဝေမတိမ်းလိုက်နာ ဆောင်ရွက်ရန်အတွက်လည်း ဖြစ်၏။ တရားရုံးတော်များ၏ အကူအညီဖြင့် အုပ်ချုပ်ရေးဌာန၏ တရားလက်လွတ်အပြုအမူများကို တားဆီးနိုင်အောင် စီမံထားခြင်းပင်တည်း။ ထိုသို့ လူများ၏ လွတ်လပ်ရေးကို စောင့်ထိန်းပေးသဖြင့် ရွှေတော်သွင်း စာချွန်တော်အမိန့်ကို တသီးပုဂ္ဂလ လွတ်လပ်ရေး စာချွန်တော်အမိန့် ဟူ၍လည်း တနည်းအားဖြင့် ခေါ်စမှတ် ပြုကြလေသည်။

ရွှေတော်သွင်း စာချွန်တော်၏ မူလအစသည် အင်္ဂလန်နိုင်ငံဖြစ်သည်။ အင်္ဂလန်နိုင်ငံ့အရှင် ဂျွန်ဘုရင်သည် လူသမိုင်းတွင် ပြည်သူ့ အခွင့်အရေးကို ပဌမဆုံး သတ်မှတ်ပေးသော "မဂ္ဂနာကာတာ" စာချုပ်ကြီးကို လက်မှတ် ရေးထိုးရသောအခါ လူတဦးတယောက်အား နိုင်ငံ၏ တရားဥပဒေအရမဟုတ်ဘဲ မတရားသဖြင့် ဖမ်းဆီးခြင်း၊ ချုပ်နှောင်ထားခြင်းမပြုပါဟု ကတိပေးရသည်။ (မဂ္ဂနာကာတာ — ရှု။) ယင်းသို့ဖြင့် ရွှေတော်သွင်း စာချွန်တော်ဟု ပေါ်ပေါက်လာသည်။ သို့သော် စတူးဝပ်မင်းများ လက်ထက် ကျမှသာလျှင် ထိုစာချွန်တော်ကို စတင်အသုံးပြုနိုင်ခဲ့ကြသည်။ ထိုအခါမှစ၍ ရွှေတော်သွင်း စာချွန်တော်သည် အင်္ဂလိပ်မူလ ဥပဒေများ၏ တစိတ်တဒေသဖြစ်လာ၍ နောင်အခါတွင် အမေရိကန် ပြည်ထောင်စုနှင့် ကနေဒါနိုင်ငံတို့တွင်လည်း ထိုနိုင်ငံများ၏ တရား ဥပဒေ အစိတ်အပိုင်း တရပ်ဖြစ်လာသည်။

နိုင်ငံတော်သစ္စာဖောက်မှု၊ သို့မဟုတ် သေဒဏ်၊ သို့မဟုတ် တသက်တကျွန်းဒဏ်ပေးနိုင်သော ရာဇဝတ်မှုကြီးနှင့်မဟုတ်ဘဲ အခြားပြစ်မှုများကြောင့် ဖမ်းဆီးချုပ်နှောင်ထားခြင်းခံနေရသူများသည် ရွှေတော်သွင်း စာချွန်တော် အမိန့်ထုတ်ဆင့်ပေးရန်နှင့် အာမခံပေးရန် လျှောက်ထားတောင်းဆိုနိုင်သည်။

သို့ရာတွင် နိုင်ငံတော်၌ တမျိုးသားလုံးနှင့် သက်ဆိုင်သော အရေးတကြီးကိစ္စများ ပေါ် ပေါက်နေပါက တသီးပုဂ္ဂလ လွတ်လပ်မှုအခွင့်အရေး ရယူနိုင်ခွင့်ကို နိုင်ငံတော်အစိုးရက ခေတ္တ ရပ်ဆိုင်းထားနိုင်လေသည်။

ရွှေတော်သွင်းစာချွန်တော်ကို တရားမဝင်သော ဖမ်းဆီးချုပ်နှောင်ထားခြင်းများအတွက် အပြင်၊ အခြားအသုံးပြုရသော နေရာများရှိသေးသည်။ ခင်ပွန်းသည်က ဇနီးသည်အား မတရားချုပ်တီးထားကာ ညှဉ်းပန်း နှိပ်စက်နေလျှင်လည်း ရွှေတော်သွင်း စာချွန်တော်ကို အသုံးပြုနိုင်သည်။ ကွာရှင်းထားသော မိဘတဦးဦးသည် တရားရုံးက ခွင့်ပြုထားသည့်အချိန်ထက် ကျော်လွန်ကာ မိမိ၏ သားသမီးကို ထိန်းသိမ်းထားသေးပါလျှင် တဖက်က တရားရုံးတွင် ရွှေတော်သွင်း စာချွန်တော်ဖြင့် လျှောက်ထား၍ ထိုသားသမီးကို ခေါ် ယူနိုင်ခွင့် ရှိလေသည်။

**ရှေး ကုကိချင်း။** ။ချင်းလူမျိုး — ရှု။

**ရှေးခေတ် အီဂျစ်။** ။အီဂျစ်၊ ရှေးခေတ် — ရှု။

# ရှေးခေတ်လူနေမှုစံနစ်ကို တူးဖော်လေ့လာသော ပညာ

**မြေပုံကြီးများနှင့် ဖုံနွယ်ပိမ့်ပေါင်းတို့ကို တူရွင်းပေါက်ပြားဖြင့် တူးဆွ၍ တိမ်မြုပ်နေသော ရှေးဟောင်း ယဉ်ကျေးမှုများကို အလင်းသို့ ရောက်အောင် ဖော်ထုတ်ပေးသည့် ပညာရပ်ဖြစ်သည်။**

**ရှေးဟောင်း ပစ္စည်း တူးဖော်ရေး။** ။ရှေးဟောင်းပစ္စည်းတူးဖော်ရေးဟူသည်မှာ ရှေးခေတ်လူဟောင်းတို့၏လူနေမှုစံနစ်ကိုလေ့လာသော သိပ္ပံပညာတရပ်ဖြစ်ပေသည်။ လူတို့သည် နေထိုင်ဝတ်စားမှုအတွက်၎င်း၊ သွားလာလုပ်ကိုင်မှုအတွက်၎င်း ဝတ္ထုပစ္စည်း အမျိုးမျိုးကို ပြုလုပ် သုံးဆောင်နေကြ၏။ တခေတ်ထက် တခေတ် စိတ်ကူးဉာဏ် အဆန်းပေါ် ပေါက်တိုင်း လိုအင်ဆန္ဒ ထူးထွေ များပြားတိုင်း အသုံးအဆောင် ကရိယာပစ္စည်း အမျိုးမျိုးကို အဆန်းတကြယ်တီထွင် လုပ်ကိုင်နေကြသည်ကိုလည်း ကျွန်ုပ်တို့ မျက်မြင်ဒိဋ္ဌဖြစ်ချေသည်။ ဤသို့ အသစ်အဆန်း ပေါ် ပေါက်လာသော ဝတ္ထုပစ္စည်းတို့သည် လူတို့၏ သွားလာမှု၊ လုပ်ကိုင်မှု၊ စည်းစိမ်ခံမှု စသည်တို့အတွက် အထောက်အပံ့ ဖြစ်သည်အားလျော်စွာ လူတို့၏ ယဉ်ကျေးမှုစံချိန်ကိုလည်း တစိတ်တပိုင်းအားဖြင့် ညွှန်ပြရာ ရောက်လေသည်။ ထို့ကြောင့် ယခုခေတ်



လန်ဒန်မြို့အနီး တွေ့ရှိရသော ရှေးရောမ နန်းတော်ရာကို စံနစ်တကျ တူးဖော်နေစဉ်

၌ လူတို့ကပန်တီးသော ဝတ္ထုပစ္စည်းများသည် ယခု လူတို့၏ သဘာဝကို ထင်ရှားစေသည့် အလား၊ ရှေးခေတ်က ရှေးဟောင်း ပစ္စည်းများသည်လည်း သက်ဆိုင်ရာခေတ်မှ လူများ၏ ယဉ်ကျေးမှု အဆင့်အတန်းကို ဖော်ပြလျက် ရှိသည်မှာ ယုံမှားဘွယ်ရာ မရှိချေ။ ဤသို့အားဖြင့် ရာထောင်မကသော နှစ်ပေါင်းများစွာက ရှေးခေတ်လူတို့ အသုံးပြုကြသည့် အရာဝတ္ထုတို့အနက်မှ ကြွင်းကျန်၍ တိမ်မြုပ်နေသော ပစ္စည်းများကို ရှာဖွေဖော်ထုတ်ပြီးလျှင် တခုစီ လေ့လာ သုံးသပ်၍ ရှေးခေတ်လူမျိုးစုတို့၏ ယဉ်ကျေးမှုကို သုတေသန ပြုလုပ်သည့် လုပ်ငန်းတရပ်ပေါ်လာလေသည်။ ယင်းလုပ်ငန်းရပ်သည် တစတစ တိုးတက်လာပြီးလျှင် သိပ္ပံပညာရပ် တရပ်အနေဖြင့် အသိအမှတ်ပြု၍ အင်္ဂလိပ်အခေါ် အားဖြင့် အာကီအိုလော်ဂျီဟု အမည် တွင်လာလေတော့၏။ ထိုစကားရပ်သည် ပေါရာဏိက ဗေဒ၊ သို့မဟုတ် ရှေးဟောင်းဆိုင်ရာ ယဉ်ကျေးမှု သုတေသနဟု ပါဠိလို မြန်မာလို အသီးအသီး အဓိပ္ပါယ် ရလေသည်။

ရှေးဟောင်း ပစ္စည်းများကို တူးဖော်၍ လေ့လာစူးစမ်းမှုကို မည်သူက စတင်ခဲ့သည်ဟု ပြောနိုင်ရန် ခဲယဉ်းလှပေသည်။ ဘီစီ ၆ ရာစုခေတ်က ဗက်ဗီလုံးပြည့်ရှင် ဘုရင် နဗျူးနေ့သည် ရှေးကျသောအဆောက်အအုံ အပျက်အစီးများကို ယင်းတို့အား မည်သူ ဆောက်လုပ်ခဲ့သည်ကို သိလိုသဖြင့် တူးဖော်လေ့လာခဲ့သည်ဟု ဆိုသည်။ ကွန်စတန်တင်း သ-ဂ-ရိတ်သည် ယေရှုသခင်၏ ဂူသင်္ချိုင်းတော်ကို တူးဖော်ရန် အဖွဲ့တဖွဲ့ စေလွှတ်ခဲ့ဘူးကြောင်းလည်း သိရှိရလေသည်။

ဥရောပတိုက်တွင် ရီနေဆွန်းခေတ် (ဉာဏ်သစ် အရေးပုံခေတ်)က ကြွယ်ဝချမ်းသာသော မင်းညီမင်းသားများ၊ ပုပ်ရဟန်းမင်းများသည် ရှေးဟောင်း အနုပညာပစ္စည်းများကို အဖိုးကြီးစွာပေး၍ အမြတ်တနိုး ဝယ်ယူစုဆောင်းသည့် အလေ့အထ ခေတ်စားခဲ့သည်။ စုဆောင်းသူတို့သည် ယင်းဝတ္ထု ပစ္စည်းတို့၏ ရှေးကျမှု၊ လှပ ဆန်းကြယ်မှုတို့ကို အကြောင်းပြု၍ မြတ်နိုးခြင်းသာလျှင် ဖြစ်ကုန်ကြ၍ ယင်းပစ္စည်းများပေါ် ပေါက်သောခေတ်တို့တွင် အဖက်ဖက်၌ မည်သို့သော ယဉ်ကျေးမှု အဆင့်အတန်းရှိသည်ကို ချင့်ချိန်ဝေဖန်ခြင်း မပြုကြချေ။

ငွေကြေး တတ်နိုင်သော ရှေးဟောင်းပစ္စည်း စုဆောင်းသူများအား ရောင်းချရန် ရှေးဟောင်း ပစ္စည်းများကို လိုက်လံရှာဖွေတူးဖော်ရောင်းစားသူများ ပေါ်ပေါက်ခဲ့သည်။ ထိုသူတို့သည် ပစ္စည်းများ၏ သမိုင်းတန်ဖိုး၊ ယဉ်ကျေးမှု တန်ဖိုးကို သိသူများ မဟုတ်ကြလေရာ၊ ထိုစဉ်က ဈေးကောင်း ရနိုင်မည့် ပစ္စည်းမျိုးကိုသာ ဂရုတစိုက် ရှာဖွေတူးဖော်ခဲ့သဖြင့် သမိုင်းတန်ဖိုး၊ယဉ်ကျေးမှုတန်ဖိုး များစွာရှိသော အဆောက်အအုံ ရှေးဟောင်းပစ္စည်း များစွာတို့မှာ ပျက်စီး ပျောက်ပျက်ကုန်ခဲ့ရလေသည်။

နောင်ကာလတွင်မှသာလျှင် ပညာရှင်များက ရှေးဟောင်းပစ္စည်းတို့ကို တင့်တယ်လှပမှု၊ သို့မဟုတ် နှစ်ပရိစ္ဆေဒကြာမြင့်စွာ တည်တံ့ ခိုင်မြဲမှုပေါ်တွင် တန်ဖိုးထားသော မြတ်နိုးမှုကိုသာ ပဓာန မပြုဘဲ၊ ယင်းပစ္စည်းဟောင်းများနှင့် သက်ဆိုင်သော ခေတ်ကာလ အပိုင်းအခြားတို့၏ ယဉ်ကျေးမှု အဆင့်အတန်းများ၏ သာဓကများအဖြစ် အသုံးပြုလေတော့သည်။

ရှေးဟောင်း သုတေသနပြုနိုင်သည့် ပစ္စည်းများကို ရှေးဟောင်း အဆောက်အအုံများနှင့် ရှေးဟောင်း အသုံး အဆောင်ပစ္စည်းများ ဟူ၍ နှစ်မျိုးခွဲခြား လေ့လာနိုင်သည်။ ထိုမှ တဆင့်ပွား၍ အဆောက်အအုံ တမျိုးစီ၊ သို့မဟုတ် ဝတ္ထုပစ္စည်း တမျိုးစီကို ခွဲခြားပြီးလျှင် ကျယ်ပြန့်သော ယဉ်ကျေးမှု သုတေသနကို အပိုင်းပိုင်း အစိတ်စိတ် သုံးသပ်လေ့လာနိုင်လေသည်။ ပုံစံပြရသော် မြေကြီးအောက်တနေရာမှ ရုပ်တုတခုကို တူးဖော်တွေ့ရှိရသည်ဆိုအံ့။ ထိုရုပ်တု၏ သဘာဝဝတ္ထုမှာ ကြေးလော၊ သံလော၊ ရွှေငွေလောဟု စစ်ဆေး ကြည့်ရှုခြင်း၊ ထိုရုပ်တု၏ အနုပညာလက်ရာမြောက်ပုံကို ဝေဖန်သုံးသပ်ခြင်း၊ မည်သည့်လူမျိုး၊ သို့မဟုတ် မည်သည့် ဝါဒီတို့က ထုလုပ်သည့်ရုပ်တုမျိုး ဖြစ်သည်ကို စူးစမ်းခြင်း၊ ယင်းရုပ်တု တွေ့ရှိသော ဒေသနှင့် မြေလွှာအပိုင်းအခြားကို ထောက်၍ မည်သည့်ခေတ်လောက်က တိမ်မြုပ်ခဲ့သည်ကို မှန်းဆခြင်း စသည်တို့ ပြုလုပ်နိုင်ရုံမျှသာ မက ရှေးဟောင်းအယူဝါဒ ဘာသာရပ်တခုကို သီးခြား သုတေသနပြုသူ အဖို့လည်း ယင်းရုပ်တုသည် အထောက်အထား ပစ္စည်းတရပ် ဖြစ်နေချေမည်။ ပန်းပုပညာ တီထွင်တိုးတက်

ပုံ လေ့လာသူအဖို့လည်း တနည်းတဖုံ အသုံးဝင်ချေမည်။ သဘာဝသတ္တုများအကြောင်း လေ့လာသူအဖို့လည်း အထောက်အပံ့တရပ် ဖြစ်ချေမည်။ ဤသို့အားဖြင့် ဘာသာရပ်ပေါင်းများစွာကို ကျေးဇူး ပြုပေသောကြောင့် ရှေးဟောင်းသုတေသနတွင် ဘူမိဗေဒ၊ ဇီဝဗေဒ၊ ဓာတုဗေဒ စသောပညာရပ်များ အကျုံးဝင်လျက် ရှိတော့၏။ အထူးသဖြင့် မြေအောက်၌ တိမ်မြုပ်နေသော ရှေးဟောင်း ပစ္စည်းတို့ကို စံနစ်တကျ တူးဖော်ကာ ဆိုခဲ့ပြီးဖြစ်သော ဘာသာရပ်များနှင့် ညှိနှိုင်း လေ့လာ ဝေဖန်ရသဖြင့် သိပ္ပံပညာ၏ အကိုင်းအခက် ပညာတရပ်အနေနှင့် အသိအမှတ် ပြုကြ၏။ ရှေးဟောင်းသုတေသန ပြုလုပ်ရာ၌ သမိုင်း၊ ဂန္ထဝင်၊ ဒေသန္တရနှင့် ဘာသန္တရ ဗဟုသုတပြည့်ဝမှုရှိရန်လည်း အထူးလိုအပ်လေသည်။ ထို့ကြောင့် ရှေးဟောင်း သုတေသနသည် ရှေးပဝေဏီက အယူအဆ အလေ့အထများနှင့်သာ သက်ဆိုင်သောလုပ်ငန်း မဟုတ်ဘဲ၊ မျက်မှောက်ခေတ် ယဉ်ကျေးမှုအဖြာဖြာနှင့် ဆက်စပ် အကျုံးဝင်လျက်ရှိသော ဘာသာရပ်ဖြစ်လေသည်။

ရှေးဟောင်း သုတေသနကြောင့်ပင်လျှင် သစ်သီး ဝလံကို သာရှာဖွေစားသောက်ကြသော လူရိုင်းများခေတ်၊ကျောက်လက်နက် ကရိယာတို့ကို အသုံးပြုကာ အမဲသားငါး ရှာဖွေစားသောက်သော လူများခေတ်၊ ကြေးသတ္တုပစ္စည်းများနှင့် သံသတ္တုပစ္စည်းများ လုပ်ကိုင် အသုံးပြုသောခေတ် စသည်ဖြင့် ယဉ်ကျေးမှု ပြောင်းလဲတိုးတက်ပုံအဆင့်ဆင့်ကို သိရှိရလေသည်။ ထို့မျှမက အီဂျစ် နိုင်ငံ၊ ဂရိနိုင်ငံ၊ ရောမနိုင်ငံနှင့် အာရှတိုက် အနောက်စွန်း ဒေသများ၏ သမိုင်းတို့ကို ရှေးခေတ်ဦးအထိ တိုင်အောင် ကျယ်ပြန့်စွာ ဖြည့်စွက်မှတ်တမ်း တင်နိုင်လေသည်။ တရုပ်နိုင်ငံ၊ အိန္ဒိယနိုင်ငံနှင့် အာရှတိုက် အရှေ့တောင်စွန်း ဒေသများ၏ ရှေးဟောင်းယဉ်ကျေးမှုကိုလည်း ဖော်ထုတ်နိုင်ခဲ့၏။ရှေးဟောင်းသုတေသန၏ အကျိုးကျေးဇူးများပုံကို ထင်ရှားစွာ သိလွယ်ရန် သာဓက ပြရမည်ဆိုလျှင် အိန္ဒိယနိုင်ငံ ရှေးဟောင်းသုတေသနဌာန၏ ကြိုးစားဆောင်ရွက်မှုကြောင့် ယခုအခါ ပါကစ္စတန်နိုင်ငံရှိ အိန္ဒုမြစ်ဝှမ်းတွင် မိုဟင်ဂျိုဒါရို၊ ဟာရပ္ပ စသောဒေသတို့၌ သမိုင်းခေတ်ထက် ရှေးကျသည့် ခရစ်မပေါ်မီ နှစ်ပေါင်း သုံးထောင်ခန့်က ထွန်းကားခဲ့သော မြို့တော်ဟောင်းကြီးများကို ရှာဖွေတူးဖော်ပြသနိုင်၍ ထိုခေတ်၏ ယဉ်ကျေးမှု အဖြာဖြာကို အိန္ဒိယသမိုင်း၊ ကမ္ဘာ့သမိုင်း၌ သွတ်သွင်းမှတ်တမ်းတင်နိုင်လေသည်။ထို့ပြင် နှစ်ပေါင်းများစွာ တိမ်မြုပ်နေ၍ လုံးဝ ဖုံးပိတ်ပျောက်ကွယ်သွားလုနီးပါးဖြစ်သော ဗုဒ္ဓဖွားမြင်တော်မူရာ လုမ္ဗနီသာမော အင်ကြင်းတောမှစ၍ ဝိဇ္ဇာသုံးပါးနှင့်တကွ သဗ္ဗညုဉာဏ်ပွင့်ကာ ဘုရားအဖြစ်သို့ရောက်ရာ ဗောဓိပင်နှင့် ရွှေပလ္လင်၊ အနိမိသ စင်္ကမစသည့် သတ္တဌာန၊ဥရုဝေဠတောဟူသော ဝါကပ်မှုများစွာပြုကာ ဓမ္မဒေသနာ များစွာပြုရာ သာဝတ္ထိပြည် ဇေတဝန်ကျောင်းတော်၊ တရားဦးဟောရာ မိဂဒါဝုန်၊ တာဝတိံသာမှ သက်တော်မူရာ သင်္ကဿနဂိုရ်၊ ပရိနိဗ္ဗာန်စံတော်မူရာ ကုသိနာရုံစသော အဋ္ဌမဟာဌာနတို့ကို ဓမ္မာသောက မင်းတရား၏ ကမ္ပည်းကျောက်စာတိုင်နှင့်တကွ တူးဖော်တွေ့ရှိကာ စောင့်ရှောက်ထားနိုင်ခဲ့လေသည်။ ထို့မှတပါးလည်း ဂန္ဓာရတက္ကသိုလ်၊ နာလန္ဒ တက္ကသိုလ် ဟောင်းကြီးများကို တူးဖော်၍ အထင်အရှား ပြသနိုင်ခဲ့လေသည်။

စင်စစ်အားဖြင့် ရှေးဟောင်းပစ္စည်း တူးဖော်ရေးကို စံနစ်ကျနစွာဖြင့် ကြီးကြီးကျယ်ကျယ် ဆောင်ရွက်ခြင်းသည် ဣတလီနိုင်ငံရှိ ပွန်ပီယိုင်မြို့နှင့် ဟာကျူလေနီယမ် ရှေးမြို့ဟောင်းကြီးများကို ၁၈ ရာစုနှစ် အတွင်းက တူးဖော်ရာ၌ စတင်ခဲ့ပေသည်။ ထိုမြို့ကြီးများသည် ထိုခေတ် မတိုင်မီ ရာစုနှစ်ပေါင်း များစွာက ဗီဆူးဗီးယပ် မီးတောင် ပေါက်ကွဲသဖြင့် ချော်ရည် ချော်မြုပ်များ ဖုံးလွှမ်းပြီး မြို့လုံးပျောက်ဖြစ်ခဲ့ရသော မြို့ကြီးများပေတည်း။ ယင်းတို့ကို စံနစ်တကျ တူးဖော်ကြည့်ရာ ထိုခေတ်အခါက လူနေမှု စံနစ်ကို ခြေရာလက်ရာမပျက် အံ့ဩဖွယ်ရာ တွေ့ရှိခဲ့ကြရလေသည်။ ထိုမြို့ကြီးများကို တူးဖော်ခြင်းသည် နှစ်ပေါင်း ငါးဆယ်ကျော်ခန့် ကြာမြင့်ခဲ့လေသည်။

ထိုခေတ်ထဲတွင်ပင် ဂျာမန် ပညာရှင် ယိုဟန်း ဗင်ကယ်လမန်းသည် ရောမမြို့၌ ရှေးဟောင်းပစ္စည်းများကို လေ့လာသုတေသန ပြုသည်။ ထိုပုဂ္ဂိုလ်ကြီးက ရှေးဟောင်းပစ္စည်းများကို စံနစ်တကျတူးဖော်၍ ရှေးဟောင်းယဉ်ကျေးမှု လေ့လာခြင်းသည် အနုစာပေ၊ ပန်းချီ၊ ပန်းပု၊ ဗိသုကာစသောလူ့သမိုင်းနှင့် ဆက်သွယ်သည့် ပညာရပ်များနှင့် ကွာခြား၍ သီးသန့်ပညာရပ်တခုဖြစ်ကြောင်းကို ထုတ်ဖော်ခဲ့လေသည်။

ထိုနောက်တွင် အီဂျစ်၌ ရိုဇက်တာ ကျောက်စာကို ဖတ်ကြားရှင်းလင်းနိုင်သော အောင်မြင်မှု ပေါ်ပေါက်ခဲ့သည်။ ရှေးဟောင်း ယဉ်ကျေးမှုကို စူးစမ်း ထုတ်ဖော်ရာ၌ ရှေးဟောင်းကမ္ပည်းကျောက်စာအရေးအသားသည် အထောက်အပံ့ အလွန်ပေးနိုင်ပေသည်။ (ရိုဇက်တာ ကျောက်စာ၊ မြန်မာနိုင်ငံ ရှေးဟောင်းပစ္စည်းနှင့် ကမ္ပည်း ကျောက်စာများ — ရှု။) အီဂျစ် နိုင်ငံသည် ခြောက်သွေ့သော ရာသီဥတုရှိ၍ သဲများ ဖုံးအုပ်နေတတ်သဖြင့် ရှေးဟောင်းပစ္စည်း တူးဖော်ရေး လုပ်ငန်းများကို ဆောင်ရွက်ရန် အလွန်ကောင်းပေသည်။ နှစ်ပေါင်း ထောင်နှင့်ချီ၍ ကြာမြင့်ပြီးလျှင် မြေအောက်မြုပ်နေသည့် အဖိုးထိုက် အဖိုးတန် ရှေးဟောင်းအဆောက် အအုံနှင့် ပစ္စည်းအသုံးအဆောင်များဖြင့်လည်း အလွန်တရာ ပေါများ ကြွယ်ဝလှပေသည်။ တူးဖော် တွေ့ရှိသမျှတို့သည်လည်း ရှေးခေတ် အီဂျစ်၏ အထက်တန်းကျ



အမေရိကန်နိုင်ငံ တက္ကဆပ်နယ်မှ တူးဖော်ရရှိသော
ရှေးဟောင်း တွားသွားကောင်ကြီး

သော ယဉ်ကျေးမှုကို ဝင့်ကြွားစွာ ဖော်ပြနိုင်ကြ၍ အံ့မခန်း နိုင်စရာ ဖြစ်ကြပေသည်။ (အီဂျစ်၊ ရှေးခေတ် — ရှု။)

ထိုနောက်တွင်မူ ရှေးဟောင်း ယဉ်ကျေးမှု လေ့လာရေး (ဝါ) ရှေးဟောင်းပစ္စည်း တူးဖော်ရေး အဖွဲ့များသည် တသုတ်ပြီးတသုတ် အာရှတိုက်သို့သွားရောက်ကြသည်။ တရုပ်တာကီစတန်၊ ကိုရီးယားစသော နိုင်ငံများတွင်လည်း ရှေးဟောင်းပစ္စည်း အသုံးအဆောင်များကို အများအပြား တူးဖော် တွေ့ရှိကြရပေသည်။ အီရန်နှင့် ဆီးရီးယား နိုင်ငံရှိ သမ္မာကျမ်းစာပါ ရှေးမြို့ဟောင်းကြီးများ၊ ရှေးခေတ် ဗက်ဗီလုံးနိုင်ငံနေရာ စသည်တို့ကိုလည်း တူးဖော် သုတေသနပြုခဲ့ကြသည်။ ဂရိနိုင်ငံနှင့် ဣတလီ နိုင်ငံများရှိ သမိုင်းမတင်မီခေတ်က ရှိခဲ့သော လူနေမှုတိုးတက်သည့် အခြေအနေကို ဖော်ပြကြသော ရှေးမြို့ဟောင်းကြီးများ၊ အဆောက်အအုံများကို ဖော်ထုတ်နိုင်ခဲ့ကြသည်။ ဥရောပတိုက်တွင် ရှေးရှေး လူရိုင်းမျိုးများ ဖြစ်ကြသော ဂေါ်သ၊ ကဲ၊ ဂေါလ၊ ဆလဗ်၊ ဂျာမန်တို့၏ နေထိုင်မှု စံနစ်တို့ကို မြေကြီးထဲမှ တူးဖော်ရရှိသော ပစ္စည်းအသုံးအဆောင်များအား လေ့လာသုတေသနပြုကာ ဆက်စပ်ယူကြရလေသည်။

အမေရိကတိုက်တွင်လည်း ရှေးဟောင်းပစ္စည်း တူးဖော်ရေးကို ဆောင်ရွက်ခဲ့ကြသဖြင့် ရှေးရှေး အခါက တောင်အမေရိကတိုက်တွင် အလွန် အဆင့်အတန်းမြင့်သော လူနေမှုစံနစ် ရှိခဲ့သည့် အင်ကားလူမျိုးများ (အင်ကားလူမျိုး — ရှု။) အမေရိကတိုက် အလယ်ပိုင်းမှ မာယန် လူမျိုးများ၊ မက္ကဆီကို နိုင်ငံမှ တောလတက်နှင့် အက်ဇတက်လူမျိုးများ (အက်ဇတက် လူမျိုး — ရှု။) ၏ ယဉ်ကျေးမှုတို့ကို သိရှိလေ့လာနိုင်ခဲ့ကြလေသည်။

မြန်မာနိုင်ငံတွင် ရှေးဟောင်း သုတေသနဌာနသည် လွန်ခဲ့သော နှစ်ပေါင်း ၅၀ ခန့်အတွင်း၌ မှော်ဇာ (သရေခေတ္တရာမြို့ဟောင်း)၊ ပုဂံ၊ ပဲခူး၊ တကောင်း၊ ဗိဿနိုးမြို့ဟောင်း၊ ဟန်လင်း၊ တံတေး၊ သံလျင်တို့တွင် ပြတ်တောင်းပြတ်တောင်း တူးဖော်ခဲ့၍ မှော်ဇာတတိုက်တွင် အတော်နှစ်ပ စွာ သုတေသန ပြုခဲ့လေသည်။ ရခိုင်ပြည်မှ ဝေသာလီမြို့ဟောင်း၊ တနင်္သာရီမှ သထုံ၊ထားဝယ်နှင့်တနင်္သာရီမြို့တို့တွင် တူးဖော်၍ သုတေသနပြုဖွယ်ရာများရှိသော်လည်း မဆောင်ရွက်ရသေးချေ။ (မြန်မာနိုင်ငံ ရှေးဟောင်းပစ္စည်း တူးဖော်ရေးနှင့် ကမ္ပည်းကျောက်စာများ — ရှု။)

ယင်းသို့ဖြင့် ရှေးဟောင်းပစ္စည်းများ တူးဖော်ရေးသည် ရှေးနှစ်ပေါင်း ထောင်နှင့်ချီ၍ ရှည်ဝေးသော ကာလမှ လူနေမှုစံနစ်တို့ကို ဖော်ထုတ်နိုင်ခဲ့သည်။ ရှေးဟောင်း ပစ္စည်း တူးဖော်ရေး (ဝါ) ရှေးဟောင်း ယဉ်ကျေးမှု သုတေသန လုပ်ငန်းသည် သိပ္ပံပညာတရပ် အနေဖြင့် တိုးတက်လာ၍ ရာဇဝင်သမိုင်းပညာရပ်ကို အလွန်အထောက်အပံ့ပေးသည်။

သို့သော် ထိုပညာရပ်က တဖန် သမိုင်း အထောက်အထားများကို အားကိုး ပြုရပြန်သည်။ ယင်းသို့ကြောင့် ထိုပညာနှစ်ရပ်သည် တခုနှင့်တခု အညမည ဖြစ်နေကြလေသည်။

ရှေးဟောင်းပစ္စည်း တူးဖော်ရေး၌ သိပ္ပံနည်းဖြင့် စံနစ်တကျ ဆောင်ရွက်သည်ဆိုသည်မှာ ဤသို့ဖြစ်သည်။ အဆောက်အအုံပစ္စည်းများ ရှိမည်ထင်သော နေရာကို အသေအချာတိုင်းထွာ၍ တူးဖော်ရေးကို ဂရုတစိုက်ဆောင်ရွက်ကြရသည်။ တခါတရံ မြေအောက်ရှိ အဖိုးတန် ပစ္စည်းများကို မထိခိုက်စေရန် ဖုံးနေသောမြေကြီးများကို ဇွန်းဖြင့် ကော်ခပ်ယူရသည်အထိ ဂရုစိုက်ကြရသည်။ တူးဖော် တွေ့ရှိသမျှကို စံနစ်တကျ ချက်ခြင်း မှတ်တမ်းတင်ရသည်။ ထိုပစ္စည်းများကို တနေရာမှ တနေရာသို့ သယ်ဆောင်ရေး အတွက် ဥပဒေစည်းမျဉ်းများဖြင့် သတ်မှတ်ထားလေသည်။ ပြတိုက်များ အနုပညာခန်းမဆောင်များတွင် တူးဖော်ရရှိသော ရှေးဟောင်းပစ္စည်းများကို ပညာရှင်သုတေသီများနှင့်ပြည်သူ လူထုတို့ လေ့လာကြည့်ရှုနိုင်ရန် ပြသထားလေသည်။

နှစ်ဆယ် ရာစုခေတ်တွင် လေယာဉ်ပျံများသည် ရှေးဟောင်းပစ္စည်း တူးဖော်ရေးကို များစွာ အကူအညီ ပေးခဲ့ကြသည်။ တူးဖော်မည့် နေရာသစ်များကို လေယာဉ်ပျံဖြင့် ပျံဝဲ၍ ရှာဖွေပေးသည့်ပြင် တွေ့ရှိပြီးသော နေရာ၏ အကျိုးအကြောင်း အချက်အလက်များကို ဖြည့်စွက်ပေးနိုင်သည်။

ထက်ကောင်းကင် လေယာဉ်ထက်မှ နေ၍ တူးဖော်မည့် နေရာကို ဓာတ်ပုံ ရိုက်ယူခြင်းဖြင့် နစ်မြုပ် ဖုံးအုပ်နေသော မြို့တည်ရာ အဆောက်အအုံများ၏ တည်ရာတို့၏ အနေ အထားကို မြေပြင်မှာ လိုက်၍ လေ့လာ စူးစမ်းသည်ထက် ကွက်ကွက် ကွင်းကွင်း တွေ့မြင်နိုင်စေသဖြင့် လုပ်ငန်းစတင်နိုင်မည့် သဲလွန်စကိုလည်း ရရှိစေနိုင်သည်။ တခါတရံ နက်ရှိုင်းသော တောတောင်ကြီးများအကြားမှ ရှေးဟောင်းမြို့ပျက်၊ အဆောက်အအုံပျက်များကို လေယာဉ်ပျံများပေါ်မှ သာ တွေ့မြင်ကြရသဖြင့် သုတေသီများကို ထိုနေရာများသို့ရောက်အောင် လေယာဉ်ပျံများက ပို့ဆောင် ပေးပြီးလျှင် တိမ်မြုပ်နေသော ရှေးဟောင်း ယဉ်ကျေးမှုများကို အလင်းသို့ရောက်လာနိုင်ရန် ဆောင်ရွက်ပေးကြလေသည်။

# ဆရာဝန်မလာမီ ပြုစုနည်း

**လူတိုင်း ဆရာဝန်မလာမီ လူနာပြုစုနည်းကို တတ်သိထားသင့်သည်။ အရေးပေါ် သူနာပြုစုရန်ကိစ္စ ပေါ်ပေါက် လာသည့်အခါ လိုအပ်သလို ပြုစုတတ်စေရန် အောက်တွင် ပြုစုနည်းများကို ဖော်ပြထားသည်။**

**ရှေးဦးသူနာပြု။** ။ဒဏ်ရာ အနာတရဖြစ်နေသူ၊ ရောဂါဝေဒနာတခုခု ခံစားနေရသူ တဦးတယောက်အား ရှောင်တခင်ပြုစုပေးမှုကို ရှေးဦးသူနာပြုခြင်းဟုခေါ်သည်။အရေးတကြီးဖြစ်နေချိန်တွင် ရှေးဦး သူနာပြုနည်းများသည် ဝေဒနာ ခံစားနေရမှုကို လျော့ပါးစေခြင်း၊ ဖြစ်ပြီး ဝေဒနာကို မတိုးစေခြင်းနှင့် တခါတရံ အသက်တချောင်းကို ကယ်ဆယ်နိုင်သည့် အခါမျိုးပင် ရှိခဲ့သည်။ ရှေးဦးသူနာပြု၏ ရည်ရွယ်ချက်သည် ဆရာဝန် တဦးတယောက် မရောက်လာမီ လူနာအား အခိုက်အတန့် သက်သာအောင် ပြုစုပေးရန်မျှသာ ဖြစ်လေသည်။

ရှေးဦး သူနာပြု အတတ်ကို ကောင်းစွာ အသုံးချကျက် ရှိသော ကမ္ဘာကျော် အဖွဲ့အစည်းကြီးသည် ကြက်ခြေနီအသင်းကြီးပေတည်း။ ထိုအသင်းကြီးသည် စစ်ကာလများတွင်၎င်း၊ ငြိမ်းချမ်းသော ကာလများတွင်၎င်း၊ မြေငလျင်ဘေး၊ မီးဘေး၊ ရေဘေးစသည်တို့ ဆိုက်ကပ်သော ကာလများတွင်၎င်း ရှေးဦး သူနာပြု အတတ်ဖြင့် ဝေဒနာ ခံစားနေရမှုတို့မှ သက်သာရေး၊ အသက်ကယ်ဆယ်ရေး လုပ်ငန်းတို့ကို ဆောင်ရွက်လျက် ရှိသည်။ (ကြက်ခြေနီအသင်း — လည်းရှု။)

လူသား အချင်းချင်း ကူညီယိုင်းပင်းရသော အလုပ်မျိုး၊ တဖက်သားအား စေတနာမေတ္တာဖြင့် ကူညီရသော အလုပ်မျိုးဖြစ်၍ ထိုမွန်မြတ်သော အတတ်ကို လူတိုင်း လူတိုင်း တတ်သိ ကျွမ်းကျင်နိုင်ရန် ကြိုးစားသင့်ကြပေသည်။ အချို့ကျောင်းများတွင် လေ့ကျင့်သား ရပြီးသော ကြက်ခြေနီအသင်းဝင်များသည် ရှေးဦးသူနာပြုအတတ် သင်ကြားရေးကို ဦးစီး ဆောင်ရွက် ပေးကြလေသည်။ ထိုအတတ်သည် ကင်းထောက် လုလင်နှင့် ကင်းထောက်မယ်များ တတ်သိ ကျွမ်းကျင်ထားအပ်သောအတတ်တရပ်လည်းဖြစ်ပေသည်။ ရှေးဦးသူနာပြုသည် အလေ့အကျင့် ကောင်းမွန်စွာရှိထားပါမှလည်း ကျွမ်းကျင် နိုင်သည်။ ယခုအခါ ကျောက်မီးသွေးစသော သတ္တုတူးဖော်ရေး ဌာနများ၊ စက်ရုံ အလုပ်ရုံများတွင်လည်း ရှေးဦးသူနာပြု အတတ်ကို သင်ကြား စေလျက် အဖွဲ့များ ဖွဲ့စည်း ထားကြလေသည်။

ရှေးဦးသူနာပြုတဦးသည် ဆရာဝန်၊ ဆရာမ နီးပါး ကျွမ်းကျင်တတ်မြောက်ရမည်ဟု မဆိုလိုချေ။ လူနာတွင် ခံစားနေရသော ဝေဒနာကို အခြေအနေပို၍ ဆိုးမသွားစေရန် ဖေးမ ပြုစုပေးရုံမျှသာဖြစ်လေသည်။ ရှေးဦး သူနာပြုမည့်သူ သတိထားရမည့် အချက်တရပ်သည်ကား မတော်တဆကိစ္စမျိုးနှင့် ကြုံခဲ့လျှင် ထိတ်လန့်တကြား မဖြစ်ဘဲ စိတ်အေးအေး ထား၍ ဖျတ်လတ်သွက်လက်စွာ လုပ်ကိုင် တတ်ရန် လိုအပ်သည်။ ထိတ်ထိတ်ပြာပြာဖြစ်လျက် ယောင်တီးယောင်တ မပြုလုပ်သင့်ပေ။ ပြုလုပ်သင့်သော ကိစ္စကို သေချာစွာ သိရှိ ကျွမ်းကျင်မှသာလျှင် ပြုလုပ်ထိုက်၍ ဝိုးတိုးဝါးတားဖြစ်နေလျှင် ကျွမ်းကျင်နားလည်သူ တဦးဦးကို ခေါ်ဆောင်စေသင့်သည်။ သို့မဟုတ်က မိမိတတ်ယောင်ကားနှင့်လက်တဲ့စမ်းမှုကြောင့် လူနာမှာ ဝေဒနာ ပို၍ တိုးသွားတတ်လေသည်။

ခရီးသွားယင်း လာယင်း လမ်းတွင် မတော်တဆထိခိုက်မှု ကိစ္စမျိုးကို ကြုံတွေ့ရသည် ဆိုပါစို့။ ထိုကိစ္စသည် သွေးထွက် သံယိုမှုလော၊ ရေနစ်ခြင်း၊ ဓာတ်လိုက်ခြင်းကဲ့သို့ ကိစ္စမျိုးလော၊ အဆိပ်သင့်သည့် ကိစ္စမျိုးလောဟု ရှေးဦးစွာ စူးစမ်းသင့်ပေသည်။

ကြီးကြီးကျယ်ကျယ် ဒဏ်ရာအနာတရ ဖြစ်သည်နှင့် တပြိုင်နက် လူနာသည် ထိတ်လန့်သွားတတ်သည်။ လူနာသည် မျက်နှာတခုလုံး ဖြူဖျော့နေပြီးလျှင် ခြေလက်များ အေးစက်စီးကပ်နေကာ သွေးခုန် အလွန် နှေးနေတတ်သည်။ ထိုအခါ လူနာကို ပက်လက်နေစေပြီးလျှင် ဦးခေါင်းနှင့် ကိုယ်ကို တပြေးတည်း ရှိစေရမည်။ လူနာ အအေးမမိစေရန် စောင်၊ သို့မဟုတ် အဝတ်ဖြင့် ခြုံပေးထားပြီးလျှင် ကော်ဖီ၊ လက်ဖက်ရည် စသော ခပ်နွေးနွေး သောက်စရာ တခုခုကို တိုက်ပေး၍ ကိုယ်တွင်း၌ပါ နွေးသွားအောင် ပြုပေးရမည်။ ရင်ပတ်၌ ဒဏ်ရာရခြင်း၊ သို့မဟုတ် နှလုံးရောဂါကြောင့် ဝေ



ကျောင်းများတွင် ကြက်ခြေနီအသင်းဝင်များက ရှေးဦးသူနာပြုအတတ် သင်ကြားပေးလျက်ရှိသည်။

ဒနာ ခံစားနေရသော လူနာဖြစ်လျှင်မူ စန့်စန့်လဲလျောင်း နေရက အသက်ရှူခက်နေတတ်သဖြင့် ဦးခေါင်းကို ခပ်မြင့်မြင့်ထားပေးရမည်။

ဒဏ်ရာ ကြီးကြီးကျယ်ကျယ်ဖြစ်တိုင်း လူနာသည် လန့်သွားတတ်သည်။ လူနာကို ကြမ်းတမ်းစွာ ကိုင်တွယ်ခြင်း၊ ဝေဒနာ နာကျင်ခြင်း၊ သွေးမတိတ်ခြင်းတို့ကြောင့် လူနာသည် ပို၍ ထိတ်လန့် လာတတ်သည်။ ဒဏ်ရာ ကြီးကျယ်လျှင် လူနာသည် ချက်ခြင်းမလန့်သည်တိုင်အောင် လန့်နေသကဲ့သို့ ပြုစုပေးရန်လိုသည်။ ထိုသို့လန့်နေခြင်းကို အထက်တွင် ဆိုခဲ့သည့်အတိုင်း ထွေးထွေးနွေးနွေး လဲလျောင်း နေစေပြီး ခပ်နွေးနွေး သောက်စရာ တခုခု တိုက်ပေးခြင်းဖြင့် အလန့်ပြေသွားအောင် ပြုလုပ်ပေးရမည်။ လူနာသည် အော်ကလီ ဆန်နေလျှင်ငင်း၊ သတိ လစ်နေလျှင်ငင်း သောက်စရာအရည်ကို မတိုက်သင့်ပေ။

ထိုသို့ အလန့်ပြေအောင် ပြုပြီးနောက်၊ လူနာကို ညင်သာစွာနှင့် သေချာစွာ စစ်ဆေးကြည့်ရမည်။ ထိုနောက်မှ ဆောင်ရွက်ဖွယ်ရှိသမျှကို ဆောင်ရွက်သင့်ပေသည်။

### ဒဏ်ရာများ

ဒဏ်ရာများသည် အမျိုးမျိုး အစားစားရှိသည်။ ကြီးသော ဒဏ်ရာ၊ ငယ်သော ဒဏ်ရာ၊ အစိတ်စိတ် ကွဲသော ဒဏ်ရာဟူ၍ အဖုံဖုံပင်ဖြစ်သည်။ ဒဏ်ရာတခုကိုပြုစုရာတွင် အရေးအကြီးဆုံး အချက်မှာ သွေးတိတ်အောင် ပြုပေးရန် ဖြစ်သည်။ အဝတ်အစား ဖုံးလွှမ်းနေသည့် နေရာတွင် ဒဏ်ရာရလျှင် ထိုနေရာမှအဝတ်ကို ဖယ်ရှား ပစ်ရမည်။

ဒဏ်ရာ သေးလျှင် တခဏဖြင့် သွေးတိတ်သွားနိုင်သည်။ ဒဏ်ရာကြီး၍ သွေးမတိတ်နိုင်လျှင် ဆိုင်ရာ သွေးကြောကြီးများတွင် သွေးတိတ်အောင် ဖိနှိပ်ပေးရမည့် နေရာများ ရှိသည်။ ပုံစံအားဖြင့် ဦးခေါင်း၌ ဒဏ်ရာရလျှင် နားထင်၌ ဖိနှိပ်ပေးရသည်။ လက်မောင်း၌ ဒဏ်ရာရလျှင် လက်မောင်းအောက်ဖက် အလယ်နားဘွင် ဖိနှိပ်ရသည်။ ဖိနှိပ်ရမည့် နေရာများသည် အရိုးပေါ်သို့ သွေးလွှတ်ကြောကြီးများ ဖြတ်ကျော်သွားသည့် နေရာမျိုး ဖြစ်သည်။ သွေးပြန်ကြော ဖြတ်သွားသည့် နေရာမျိုး၌ ဒဏ်ရာဖြစ်လျှင် ဒဏ်ရာပေါ်၌ ကျပ်ထုပ်၊ သို့မဟုတ် ဖိစရာ တခုခုဖြင့် ဖိ၍ ပတ်တီးစည်းထားရမည်။ ဖိစရာမရှိလျှင် ဒဏ်ရာနှုတ်ခမ်းစပ်ကို ဖိထားပေးရသည်။

အလွန်အမင်း သွေးထွက် နေသေးလျှင် 'တူနီကက်' ကို အသုံးပြုနိုင်သည်။ သို့သော် တူနီကက်ကို မသုံးဘဲ နေနိုင်သမျှ နေသင့်သည်။ တူနီကက်ကို အရမ်းမဲ့ သုံးသဖြင့် သွေးကြောပိတ်ရောဂါစသည်တို့ ဖြစ်တတ်သည်။ တူနီကက် သုံးနည်းမှာ ဒဏ်ရာအထက်နားတွင် အဝတ်ပိုင်းတခုခုကို ခပ်ချောင်ချောင် ချည်နှောင်၍ ကျောက်ခဲသေးသေး၊ သို့မဟုတ် သစ်သားတုံးငယ် တခုကို အဝတ်ချည်ထားသည့် အတွင်း ဒဏ်ရာအပေါ်နားရှိ သွေးလွှတ်ကြောကြီး ရှိမည့်

နေရာပေါ်တွင် သွင်းလိုက်ရမည်။ ထိုနောက် တုတ်ချောင်းတိုတို တခုကို တဖက်၌ လျှိုသွင်းပြီး ချည်ထားသည့် အဝတ်ကို တဖြည်းဖြည်း တင်းလာအောင် လိမ်ပေးရသည်။ ယင်းသို့ဖြင့် သွေးလွှတ်ကြောပေါ်သို့ ဖိအား ပို၍ ကောင်းလာစေရန်ဖြစ်သည်။ ခြေလက်တို့၌ ဒဏ်ရာရ၍ သွေးထွက်လွန်းသည့်အခါ၌သာ တူနီကက်ကို အသုံးပြုသင့်သည်။ သုံးသည့်အခါတွင်လည်း အစဉ်တစိုက် ဖိမထားဘဲ မကြာခဏ ဖိအားကို လျှော့ပေးသင့်လေသည်။

## အရိုးကျိုးခြင်းများ

အရိုးကျိုးခြင်းသည် ရိုးရိုးကျိုးခြင်း၊ အသားအရေပေါက်ပြဲ ကျိုးခြင်းနှင့် (အသည်း နှလုံးစသည့်)အခြား အင်္ဂါများ ထိခိုက် ကျိုးခြင်းဟူ၍ အကြမ်းဖျဉ်း သုံးမျိုးရှိသည်။ ခြေလက်တို့တွင် အရိုးကျိုးလျှင် လူနာအား သယ်ယူမသွားမီ ကျိုးသော ခြေလက်တို့ကို ကျပ်ဖြင့် မြှောင်၍ စည်းပေးရမည်။ ကျပ်အဖြစ် စည်းပေးနိုင်မည့် ထီး၊ တုတ်ချောင်းစသဖြင့် ရနိုင်ရာ အရာဝတ္ထုတခုခုကို သုံးနိုင်၍ ကျပ်သည် ကျိုးသည့်နေရာနှင့် အနီးဆုံး အဆစ်သို့ ရောက်အောင် ရှည်လျားရပေမည်။ သို့မှသာလျှင် ဒဏ်ရာရသည့် ခြေလက်တို့ကို မကောက်မကွေးဘဲ ရှိစေနိုင်သည်။ ထိုပြင် ကျပ်စည်းထား၍ တောင့်တင်းနေသဖြင့် ကျိုးသွားသော အရိုး၏ အစအနများသည် ကြွက်သွားများကို ထိုးမိစူးမိခြင်း မဖြစ်စေနိုင်တော့ပေ။

တံတောင်ဆစ် နေရာတွင် မဟုတ်ဘဲ လက်မောင်းအခြားတနေရာရာတွင် အရိုးကျိုးလျှင် လက်ကို သိုင်းထားပေးသင့်သည်။ သို့မှသာလျှင် လက်မောင်းကို မလှုပ်မရှား ထားနိုင်မည်။ ကျိုးသည့်အရိုး ပြန်ဆက်အောင် ပြုစုရမည့် တာဝန်သည် ဆရာဝန်၏ အလုပ်သာ ဖြစ်ပေသည်။

ညှပ်ရိုးကျိုးလျှင် ဖြစ်သည့်ဖက်မှ လက်မောင်းကို ရင်ပတ်နှင့် ကပ်၍ချည်ထားသင့်သည်။ ထိုအခါ ဆိုင်ရာ လက်မောင်း မလှုပ်ရှားသဖြင့် ကျိုးနေသည့် ညှပ်ရိုးကို ပို၍ မထိခိုက်နိုင်တော့ပေ။

နံရိုးများ ကျိုးလျှင် ရင်ပတ်ကို တင်းတင်းချည်ပေးထားက အနာအကျင် နည်းနိုင်သည်။ ဦးခေါင်းခွံတွင် ထိခိုက်ဒဏ်ရာ ရပါက ရေအေးအေး ဆွတ်ထားသော အဝတ်ဖြင့် အုပ်အုပ်ပေးကာ ဦးခေါင်းတွင် အအေးဓာတ် ရအောင် ပြုလုပ်ပေးရမည်။ ပတ်တီးကိုလည်း လျှော့လျှော့ ချည်ပေးရသည်။ ရုတ်တရက် သွေးအား တိုးတက်စေမည့် အရာများကို မပေးရ။ ဆရာဝန်ကို အလျင်အမြန် ပင့်စေရမည်။

အဆစ်မျက်ခြင်း၊ အကြောတင်ခြင်းတို့ ဖြစ်လျှင် ဖြစ်သည့်နေရာကို ရေအေးအေးထဲ၌ ချက်ခြင်း စိမ်ပေးပါ။ နာရီအနည်းငယ်ကြာလျှင် ထိုနေရာတဝိုက်ကို လူနာခံနိုင်သမျှ ရေနွေးပူပူဖြင့် အုပ်ပေးရမည်။

အဆစ်လွဲလျှင် အကြောတင်ခြင်း (အဆစ်ကို တွယ်နေသော အရွတ်ပါ နေရာလွဲခြင်း) ပါ ဖြစ်တတ်သည်။ လွဲသွားသည့် အဆစ်ကို နေရာတကျ ပြန်ဖြစ်အောင် မကြိုးစားပါနှင့်။ ဆရာဝန်တဦးဦးကိုသာပင့်ပါလေ။ ပခုံးဆစ်၊ တံတောင်ဆစ်အရိုးများ လွဲသွားလျှင် လက်ကို သိုင်းထားပေးရမည်။ ဖြစ်သည့်နေရာကို ရေအေးအေးဖြင့် အုပ်ပေးရမည်။

## သတိလစ်ခြင်း

ထိတ်လန့်ခြင်း၊ နေပူလျှပ်ခြင်း၊ သွေးလွန်ခြင်း၊ ချွေးလွန်ခြင်း၊ မူးမေ့ခြင်း၊ အရက်မူးခြင်းတို့ကြောင့် သတိလစ်တတ်သည်။ နေပူလျှပ်ခြင်း၊ အရက်မူးခြင်းနှင့် ဝက်ရူး ပြန်ခြင်းတို့ကြောင့် သတိလစ်သွားလျှင် မျက်နှာတခုလုံး နီရဲနေတတ်သည်။ ဦးခေါင်းကို ထောင်ပေးထားလျှင် သက်သာရာ ရစေနိုင်သည်။ အရက်မူးလွန်နေက ဦးခေါင်းကို အေးအောင် ပြု၍ အန်ဆေးတိုက်ပေးရန် လိုသည်။ ဝက်ရူးပြန်၍ သတိလစ်လျှင် အရက်မူး၍ သတိလစ်ပုံနှင့်ဆင်ဆင်တူသော်လည်း သတိလုံးဝကင်းနေကာ တစိတ်တဒေသ သွက်ချာပါဒ လိုက်သကဲ့သို့ ရှိနေတတ်သည်။ လျှာမကိုက်မိအောင် အပေါ်နှင့် အောက် သွားတန်း နှစ်တန်းကြားထဲသို့ တခုခုထည့်ထားပေးရသည်။ ရှုန်းကန်တွန့်လိမ့်နေလျှင် ချုပ်တီးမထားပါနှင့်၊ ထိခိုက်၍ ဒဏ်ရာ မရစေရန်သာ ဂရုစိုက်ရသည်။ သက်သာသွားပြီးနောက်တွင် အိပ်နေပါစေ။ ဘာမျှလည်း မတိုက်ကျွေးသင့်ပေ။

နေပူလျှပ်လျှင် တကိုယ်လုံး ခြစ်ခြစ်တောက် ပူနေတတ်သည်။ အပူလျှော့သွားအောင် ဂျိုင်းအောက်၊ မျက်နှာ၊ ဂုတ်၊ လက်ကောက်ဝတ်နှင့် ရင်ပတ်တို့ကို ရေအေးအေးဆွတ်ထားသော အဝတ်ဖြင့် အုပ်ပေးရသည်။ သို့မဟုတ် ရေခဲရနိုင်လျှင် ရေခဲ တင်ပေးရသည်။ လူနာ သတိရလာလျှင် ရေအေးအေးကို များများ သောက်ပါစေ။ ကော်ဖီ၊ ဝီစကီကဲ့သို့ အဖျော်ယမကာမျိုး မပေးသင့်ချေ။

အပူများလွန်း၍ ချွေးထွက်လွန်အား ကြီး၍ သတိလစ်ခြင်းမျိုးလည်း ဖြစ်တတ်သည်။ ထိုအခါ တကိုယ်လုံး အေးစက် စီးထန်းနေကာ သွေးခုန်လည်း မမှန်တော့ချေ။ ထိုသို့ဖြစ်လျှင် လူနာအား ဦးခေါင်းကို ကိုယ်ထက် နိမ့်နိမ့်ထား၍ လဲလျောင်းနေပါစေ။ ယင်း၏ ခြေလက်များ ပြန်၍ ပူနွေးလာအောင် ဆုပ်နယ်ပေးရမည်။ ထိုပြင် ရေနွေးပူပူထဲတွင် အဝတ်တခုကို နှစ်၍ ရေညှစ်ပြီး အုပ်ပေးရသည်။ ထိုပြင် ကော်ဖီ၊ နွားနို့၊ ရေနွေး စသော ပူပူနွေးနွေး သောက်စရာ တခုခု တိုက်ပေးရမည်။

ဒဏ်ရာတခုခု ရပြီး သတိမေ့နေလျှင် ထိတ်လန့်၍ သော်၎င်း၊ ဦးခေါင်းခွံကွဲ၍သော်၎င်း ဖြစ်နိုင်သည်။ သေနတ်ဒဏ်ရာသည် ကိုယ်တွင်း၌ သွေးထွက်စေသဖြင့် သတိ လစ်တတ်သည်။ မူးမေ့ခြင်းသည် လန့်သွားခြင်းတမျိုး ဖြစ်၍ လန့်



# ★ မြွေကိုက်လျှင်

## လူနာကို ငြိမ်သက်စွာ လှဲနေပါစေ

ဒဏ်ရာ၏ အထက်တွင် ကြိုးဖြင့်ဖြစ်စေ၊အဝတ်စ ရှည်ရှည်ဖြင့် ဖြစ်စေ ခတ်တင်းတင်း စည်းပေးပါ။ (မြွေဆိပ်များ ကိုယ်ထဲသို့ ပျံ့နှံ့မသွားစေရန် တားဆီးလိုက်ခြင်း ဖြစ်ပါသည်။) ဒဏ်ရာကို ဖန်ရည်၊ သို့မဟုတ် ရေများများဖြင့် လောင်း၍ သန့်ရှင်းအောင် ဆေးပါ။

ဓားသွားထက်ထက်ကို အနည်းငယ် မီးမြှိုက်၍ ဒဏ်ရာနေရာကို ကြက်ခြေခတ် × ပုံ ခွဲပေးပါ။ ခွဲရာတွင် အရှည် စပါးလုံးတထောက်ခန့်နှင့် အနက် စပါးလုံး တဝက်ခန့် ရှိရမည်။ (ဓားဒဏ်ရာမှ သွေးထွက်လျှင် အဆိပ်ပါသွားစေရန် ဖြစ်သည်။)

အဆိပ်ပါသော သွေးများ ကောင်းစွာထွက်စေရန်အတွက် ယင်းဒဏ်ရာတဝိုက်ကို နှာနှာညှစ်ပေးပါ။ အဆိပ်များ ထွက်သွားမှ စိတ်ချရမည်။

လက်ဖက်ရည်၊ ကော်ဖီ၊ သို့မဟုတ် ရေနွေးပူပူ တိုက်ပါ။ ပြီးလျှင် ဆရာဝန်၊ သို့မဟုတ် ကျန်းမာရေးမှူးထံသို့ အမြန်ခေါ်သွားပြီး အဆိပ်ပြေဆေး ထိုးရမည်။ သို့မှသာ ကောင်းစွာ စိတ်ချရမည်ဖြစ်ပါသည်။

မြန်မာနိုင်ငံ ကျေးလက်များတွင် မြွေအန္တရာယ် ကာကွယ်နိုင်ရန် ကြက်ခြေနီအသင်းကြီးမှ မြွေဘေးကာကွယ်နည်းကို အစဉ် သတိပေး ကူညီလျက်ရှိသည်။

သွားသည့်အခါ ပြုစုရသည့်နည်းအတိုင်း ပြုစုရလေသည်။

### အဆိပ်သောက်မိခြင်း

အဆိပ်သောက်မိလျှင် အစာအိမ်တွင်းမှ အဆိပ်များ ပြန်၍ အန်ထွက်အောင် ပြုလုပ်ပေးရသည်။ မှုံ့ဖုတ်ဆိုဒါကို ရေဖျော်၍ရှင်း၊ ရေတဖန်ခွက်တွင် ဆားကို စားပွဲဇွန်း နှစ်ဇွန်း သုံးဇွန်းခန့် ထည့်၍ရှင်း ခပ်များများ ခဏခဏ တိုက်ပေးရသည်။ အစာအိမ်ထဲ ရေများများ ဝင်သွားသဖြင့် အဆိပ်ပြယ်သွားတတ်သည့်ပြင် အဆိပ်များကိုလည်း ပြန်၍ အန်ထွက်နိုင်စေသည်။ ဆိုခဲ့သော အန်ဆေးကို ရုတ်တရက် မရနိုင်လျှင် လည်ချောင်းထဲသို့ လက်ဖြင့်နှိုက်၍ ကလိပေးပါကလည်း ပြန်အန်ထွက်နိုင်သည်။

အကယ်၍ အဆိပ်သည် အက်ဆစ်၊ သို့မဟုတ် အယ်လကလိုင်းအဆိပ်မျိုး ဖြစ်လျှင် အန်အောင် မပြုရပေ။ ထိုအက်ဆစ်မျိုး သောက်မိလျှင် နှုတ်ခမ်းများတွင် အပူလောင်ထားသည်ကို တွေ့ရတတ်သည်။ အက်ဆစ်အဆိပ်မျိုး သင့်လျှင် မှုံ့ဖုတ်ဆိုဒါရည်ကို တိုက်ပြီး ကြက်ဥအကာရည်၊ သို့မဟုတ် နို့တဖန်ခွက်ကို တိုက်ပေးရမည်။ အယ်လကလိုင်း အဆိပ်မျိုးသင့်လျှင် ရှာရကာရည် (ပုံးရည်)၊ သံပုရာရည် ကဲ့သို့ အချဉ်ဓာတ်ပါသော အရည်ကို တိုက်ပေးရသည်။ သို့မဟုတ် နွားနို့များများလည်း တိုက်ပေးနိုင်သည်။

### မြွေကိုက်ခြင်း(ပိုးထိခြင်း)

လယ်တောများတွင် အလုပ် လုပ်ရသူများ၊ တောကြို အုံကြား၌ အလုပ်လုပ်ရသူများသည် မကြာခဏ မြွေကိုက် (ပိုးထိ) ခံကြရသည်။ အဆိပ်ရှိသောမြွေမျိုး အကိုက်ခံရပါက သေဘေး နီးလှသည်။ ထိုကြောင့် တကိုယ်လုံး အဆိပ်မပြန့်စေရန် အလျှင်အမြန်ဆောင်ရွက်ကြရသည်။ ပိုးထိသည့် နေရာတဝိုက်မှ သွေးအသွားအလာကို တားဆီးနိုင်ရန် ပိုးထိသည့်နေရာ အထက်နားတွင် ကြိုးတချောင်းဖြင့် တင်းကျပ်စွာ စည်းပေးရသည်။ သို့မဟုတ် တူနီကက်ကို အသုံးပြုရသည်။ ပိုးထိခံရသောနေရာများမှာ များသောအားဖြင့် ခြေနှင့် လက်တို့တွင် ဖြစ်တတ်သည်။ ပိုးထိသည့် နေရာကို ဓားဖြင့် ခွဲ၍ သွေးများများ ထွက်အောင် ပြုပေးခြင်းဖြင့်လည်း အဆိပ်ကို ဆေးချနိုင်သည်။ ကွဲဟသွားသော ဒဏ်ရာထဲသို့ ပိုတက်စီယမ် ပါမန်ဂနိတ် (စက်စက်ယိုမှုန့်) ကို ဖြူးထည့်ပေးရမည်။ ဒဏ်ရာမှ သွေးကို ညှစ်နိုင်သမျှ ညှစ်ထုတ်၍ အဆိပ်များ ထွက်နိုင်သမျှ ထွက်အောင် ပြုပေးရသည်။ နှုတ်ခမ်းတွင် အနာ၊ သို့မဟုတ် ကွဲအက်ခြင်းမရှိသူတဦးဦးက အဆိပ်ကို ပါးစပ်ဖြင့် စုတ်ထုတ်နိုင်သည်။ မြွေဆိပ်သည် ဝမ်းထဲရောက်သွား၍ အန္တရာယ် မဖြစ်တတ်ပေ။

ခွေးကိုက်လျှင် ခွေး၏ သွားရည် စင်သွားအောင် ရေဖြင့် ဆေးချရသည်။ အိုင်အိုဒင်း ဆေးရည်ကို ထည့်ပေးပြီးလျှင် ခွေးရူးကိုက် ဆေးရုံသို့ ခေါ်ဆောင် သွားသင့်လေသည်။

### ရေနစ်ခြင်း

ရေသည် လူတို့ အသက်ရှင်ရေးအတွက် အလွန် အရေးပါလှသော်လည်း ရေနစ်ခြင်းကြောင့်လည်း အသက်ဆုံးရှုံးမှုများ ဖြစ်ကြရသည်။ ရေနစ်သူအား ကယ်ယူနိုင်သည့် နည်းလမ်းများကို တတ်သိထားပါလျှင် လူ့အသက်တချောင်း မတော်တဆ ဆုံးရှုံးရခြင်းမှ ကယ်တင်နိုင်ပေသည်။ လူတယောက်သည် ရေနစ်ပြီးနောက် သုံးကြိမ် သုံးခါ ပြန်၍ပေါ်သည်ဟူသော အများ၏ယူဆချက်သည် မခိုင်လုံချေ။ လက်များကို ဦးခေါင်းပေါ်သို့ ထောင်လျက်သားဖြင့် နစ်မြုပ်သွားပါမူ ရေနစ်သူသည် ပြန်မပေါ်လာတတ်ပေ။ လက်များကို ဘေး၌ ချလျက်သား နစ်မြုပ်သွားပါမူ ပြန်၍ပေါ်လာတတ်သေးသည်ဟု ဆိုကြသည်။

ရေနစ်နေသူအား အသက်ကယ်လှေ၊ သို့မဟုတ် အသက်ကယ် ဗော့ စသည်တို့ဖြင့်ကယ်ဆယ်နိုင်က အကောင်းဆုံးဖြစ်သည်။ သို့မှသာ ကယ်ရသူအတွက် အန္တရာယ်မများလှပေ။ ရေနစ်သူသည် ကြောက်အား လန့်အားဖြင့် ဆွဲမိ ဆွဲရာ ဖမ်းဆွဲတတ်ခြင်း၊ ကယ်သူကို အတင်းဝင်ဖက်ခြင်း စသည်ဖြင့် ပြုတတ်ရာ ကယ်သူရော နစ်သူပါ နှစ်ဦးလုံး နစ်မြုပ် သွားတတ်သည်။ လှေများ၊ ဗော့များ မရနိုင်လျှင်မူ ကယ်သူကိုယ်တိုင် ရေကူးကျွမ်းကျင်မှ ရေကူး၍ ကယ်ဆယ်ခြင်း ပြုသင့်လေသည်။

ရေကူး၍ ကယ်ဆယ်သည့်အခါ ဖြစ်နိုင်လျှင် ရေနစ်သူအား နောက်ဖက်မှနေ၍ ချဉ်းကပ်ပြီးလျှင် ဆံပင်၊ သို့မဟုတ် အင်္ကျီကော်လာ၊ သို့မဟုတ် လည်ပင်းစကိုဖမ်းဆွဲ၍ လွတ်နေသော လက်ခြေတို့ဖြင့် ခပ်ပြင်းပြင်း ကူးခပ်ယင်း ရေနစ်သူကို ဆယ်ရသည်။ နောက်ဖက်မှနေ၍ ချဉ်းကပ်ရန် မဖြစ်ဘဲ ရေနစ်သူသည် မြုပ်လုဆဲဆဲ ဖြစ်နေပါလျှင် ယာလက်ဖြင့် ရေနစ်သူကို ပက်လက်ဖြစ်သွားအောင် ဆွဲလှည့်လိုက်ရသည်။ ထိုနောက်မှ ရေနစ်သူ၏ ဦးခေါင်းကို မိမိ၏ လက်နှစ်ဖက်ဖြင့်ကိုင်၍ ကယ်ဆယ်သူကိုယ်တိုင်လည်း ပက်လက်လှန်ကာ ခြေဖြင့် ကူးခပ်ယင်း ရေနစ်သူကို ဘေးကင်းရာသို့ ယူဆောင်သွားရသည်။ အခြားတနည်းမှာ ကယ်ဆယ်သူသည် ဘေးစောင်း ကူးခပ်လျက် ပက်လက်ဖြစ်နေသော ရေနစ်သူကို လက်တဖက်ဖြင့်ခါးကို ဖက်၍ ခေါ်ဆောင်သွားရသည်။

အကယ်၍ ရေနစ်သူသည် အနားကပ်လာသော ကယ်သူ၏ လက်ကောက်ဝတ်ကို ကြောက်အား လန့်အားဖြင့် ဖမ်းကိုင်လျှင် ယင်း၏ရင်ပတ်ကို ခြေဖြင့်ကန်၍ ဖယ်ထုတ်ရသည်။ ရေနစ်သူသည် ကယ်သူ၏ လည်ပင်းကို အတင်းဖက်လာလျှင် သူ၏ ရင်ပတ်ကို လက်ဖြင့် တွန်းလိုက်ပြီး တခါတည်း ငုံ့ချလိုက်ရသည်။ ကယ်သူအား ရေနစ်သူကနောက်မှ နေ၍ ဖက်လာလျှင် သူ၏လက်မကို မြဲမြဲဖမ်းဆွဲပြီး သူ့လက်မောင်းကို ဆန့်ထုတ်လိုက်ကာ ဖက်ထားခြင်းမှ လွတ်

အောင် ပြုရသည်။ တချိန်တည်းမှာပင် သူနှင့် မျက်နှာချင်းဆိုင်လိုက်ပြီးလျှင် သူ့ရင်ပတ်ကို တွန်းထုတ် လိုက်ရသည်။ ရေနစ်သူသည် ကယ်သူက ပြောသည့်အတိုင်း ပြုလုပ်မည့် အခြေအနေမျိုး၌ ရှိနေလျှင် သူ့အား ကယ်သူနှင့် မျက်နှာချင်းဆိုင် နေပါစေ။ သူ၏လက်နှစ်ဖက်ကို ကယ်သူ၏ ပခုံးနှစ်ဖက်ပေါ်၌ အသီးအသီးတင်ထားစေ၍ ကယ်သူက ရေနစ်သူအား ရှေ့သို့ တွန်းပို့ယင်း ကူးခပ်သွားနိုင်လေသည်။

ရေနစ်သူသည် ရေထဲမြုပ်သွားပြီးလျှင် ရေမွန်းကာ သတိလစ်သွားတတ်သည်။ ရေထဲ မြုပ်၍သွားလျှင် ချက်ခြင်း မသေနိုင်ပေ။ ရေမွန်းနေခြင်းသာ ဖြစ်သည်။ အသက်မရှူနိုင်တော့သည်တိုင်အောင် နှလုံးသည် မိနစ် အနည်းငယ်မျှ ဆက်လက် ခုန်နေနိုင်သေးသည်။ ထို့ကြောင့် ရေနစ်ပြီး သတိလစ်နေသူကို ပြန်၍ ဆယ်ယူပြီးလျှင် အသက်ပြန်၍ ရှူနိုင်အောင် ဉာဏ်ကူ အသက်ရှူနည်းဖြင့် အလျင် ပြုပြင်ပေးရသည်။

ရေနစ်သူသည် ရေထဲ မြုပ်သွားစဉ်က အဆုတ်ထဲသို့ ရေများ ရှူသွင်းထားသဖြင့် အဆုတ်ထဲ ရောက်နေသော ရေများ ပြန်၍ အန်ထွက်အောင် ပဌမဆုံးပြုလုပ်ရသည်။ ရေနစ်သူကို ထူမပေးပြီးလျှင် နောက်ဖက်မှနေ၍ ဝမ်းပိုက်အောက်နားတွင် ဖက်ထားကာ ဦးခေါင်းကို ငိုက်ကျနေစေရသည်။ ယင်းသို့ဖြင့် ရေများပြန်၍ အန်ထွက်လာနိုင်သည်။ သို့သော် ရေနစ်သူကိုမတ်မတ်ထိုင်မပေးရန်သတိပြုရမည်။ အကြောင်းမူ အဆုတ်ထဲသို့ ရေပို၍ ဝင်သွားတတ်သောကြောင့် ဖြစ်ပေသည်။ အခြားတနည်းမှာ ရေနစ်သူကို ပခုံးပေါ်၌ မှောက်၍ ဦးခေါင်းကို ဇောက်ထိုးထားကာ ထမ်းပိုး၍ လျှောက်ပေးရသည်။

ရေ အန်ထွက်ပြီးလျှင် ရေနစ်သူကို မြေကြီးပေါ်၌ မှောက်ထားရသည်။ လက်တဖက်ကို မေးအောက်၌ ခံထားစေ၍ အခြားတဖက်ကို ဦးခေါင်းနှင့် ကပ်လျက် ဆန့်ထုတ် ထားရမည်။ မျက်နှာကို တဖက်သို့ စောင်းထားပြီးလျှင် ပါးစပ်ထဲ၌ ဆို့ပိတ်စရာရှိပါက ဖယ်ရှားပစ်ရသည်။

ထို့နောက် ရေနစ်သူ၏ တင်ပါးအနီး၌ ခွလျက် ဒူးထောက်ထိုင်ရသည်။ ယင်း၏ခါးအထက်နား တဖက်တချက်၊အောက်ဆုံး နံရိုးများ ရှိမည့်နေရာတွင် လက်ဖဝါး နှစ်ဖက်ကို မှောက်လျက် အသီးအသီး တင်ထားရမည်။ လက်ချောင်းများသည် နံရိုးများနှင့် မျဉ်းပြိုင်ရှိစေရသည်။ ထို့နောက် လက်မောင်းများကို ဆန့်တန်း၍ ကိုယ်ကို ရှေ့ကိုင်းပြီးလျှင် ကျောပြင်တလျှောက် တွန်း၍ ဖိသွားရသည်။ ထို့နောက် တဖန် ကိုယ်ကို ပြန်၍ မတ်လိုက်ပြီးလျှင် လက်ဖဝါးများကို မခွာဘဲလျက် ဖိအားကို လျှော့ပေးရသည်။ ဖိတွန်းခြင်းသည် ထွက်သက် ရှူထုတ်နိုင်ရန် အားပေး၍ ဖိအားလျှော့ပေးခြင်းသည် ဝင်သက် ရှူသွင်းနိုင်ရန် အားပေးသည်။ ဤနည်းအတိုင်း ဖိချည် လျှော့ချည် ပြုပေးရသည်။ ထိုဉာဏ်ကူအသက်ရှူနည်းကို ရှေး ဖားဉာဏ်ကူ အသက်ရှူနည်းဟုခေါ်၍ ဉာဏ်ကူ အသက်ရှူနည်းများ အနက် အလွယ်ဆုံးနည်းဖြစ်သည်။ တယောက်တည်းဖြင့် ဆောင်ရွက်နိုင်သော်လည်း အကူအညီရှိလျှင် လူပြောင်း၍ ပြုလုပ်နိုင်သည်။ ထိုနည်းအတိုင်း စိတ်ရှည်ရှည် ထား၍ ရေနစ်သူ အသက်ပြန်ရှူနိုင်သည့်တိုင်အောင်၊ သို့မဟုတ် ဆရာဝန်ကရေနစ်သူသေဆုံးပြီဟု ဆိုသည့်တိုင်အောင် ဇွဲကောင်းကောင်းဖြင့် ပြုပြင်ပေးရန် လိုအပ်သည်။ တခါတရံ ထိုနည်းဖြင့် ပြုပြင်ပေးသဖြင့် ရေနစ်ပြီး နာရီ အနည်းငယ် ကြာပြီးမှပင် ပြန်၍အသက်ရှင်လာကြသည့် အထောက်အထားများ ရှိလေသည်။

ဉာဏ်ကူ အသက်ရှူနည်းဖြင့် လျှပ်စစ်ဓာတ်လိုက်သူများကိုလည်း ကယ်ဆယ်နိုင်သည်။ ဓာတ်လိုက် သူများသည် ဓာတ်ကြိုးတွင် တွယ်ကပ်လျက်သား သတိလစ်နေတတ်ကြသည်။ယင်းသို့ တွယ်ကပ်နေရာမှ ပြုတ်ထွက်အောင် ပဌမဆုံး ဆောင်ရွက် ရသည်။ သို့သော် ကယ်သူပါ ဓာတ်မလိုက်အောင် သတိထားရမည် ။ ပဌမဆုံး ဓာတ်အား လာနေခြင်းကို ဖြတ်တောက်လိုက်ရသည်။ယင်းသို့ မဆောင်ရွက်နိုင်လျှင် ကယ်သူသည် ခြောက်သွေ့သော နေရာ၌ ရပ်၍ လက်တွင် ခြောက်သွေ့သော အဝတ်တခုဖြင့် ပတ်၍ (ဖြစ်နိုင်လျှင် လက်အိတ်စွပ်၍) ဓာတ်လိုက်နေသူကို ဖြုတ်၍ ချရသည်။ ခြောက်သွေ့သော သတင်းစာစက္ကူအထပ်ထပ် လက်ပတ်၍လည်း ဖြုတ်ချနိုင်သည်။ သို့မဟုတ် အင်္ကျီအိတ်တွင်းသို့ လက်လျှို၍ ဓာတ်လိုက်နေသူအား ကိုင်တွယ် ဖယ်ရှားရသည်။ အခြားတနည်းမှာ ခြောက်သွေ့သော ဝါးလုံးဖြင့် ဓာတ်လိုက်နေသူကို ဓာတ်ကြိုးမှ လွတ်အောင် ဖြုတ်ချရသည်။

ဓာတ်လိုက် နေသူသည် ဓာတ်ကြိုးမှ လွတ်သွားလျှင် ရေနစ်သူကို ပြုစုသည့် ဉာဏ်ကူ အသက်ရှူနည်းများဖြင့် ပြုပြင်၍ ပြန်ပြီး အသက်ရှူနိုင်အောင် ကြိုးစားရလေသည်။

ကြိုးဆွဲချ၍ သတိလစ်နေသူများ၊ ရေတွင်းဟောင်းများထဲ ဆင်းမိသဖြင့် ဓာတ်ငွေ့ သင့်ကာ သတိလစ်သူများကိုလည်း အဆိုပါ ဉာဏ်ကူ အသက်ရှူနည်းများဖြင့် ပြုစုနိုင်လေသည်။

## သယ်ယူ ရွှေ့ပြောင်းခြင်း

ဒဏ်ရာရသူကို မရွှေ့ပြောင်းဘဲ ထား၍ ဝေဒနာတိုးရန်မရှိဟု ယူဆလျှင် ရှိရင်းစွဲနေရာ၌ပင် မရွှေ့ပြောင်းဘဲ ထားသင့်လေသည်။ ရွှေ့ပြောင်း လှုပ်ရှားခြင်းသည် လူနာအားပို၍ ထိခိုက်နာကျင်စေတတ်သည်။ အရိုးကျိုးသွားသူ၊ သွေးထွက် များနေသူအဖို့ မလိုဘဲနှင့် ရွှေ့ပြောင်းလှုပ်ရှားစေခြင်းသည် လူနာ၏ အခြေအနေကို ပိုမိုဆိုးရွားစေလေသည်။

လူနာကို မရွှေ့ပြောင်းဘဲ မဖြစ်နိုင်လျှင် သတိနှင့်ညင်သာနိုင်သမျှ ညင်သာအောင် ရွှေ့ပြောင်း ပေးသင့်လေသည်။

ဒဏ်ရာကြီးသော လူနာကို လူနာတင် ထမ်းစင်ဖြင့် သယ်ယူရွှေ့ပြောင်းသင့်သည်။ အဆင်သင့် ပြုလုပ်ထားသော လူနာတင် ထမ်းစင်မရှိလျှင် အလွယ်တကူ ရနိုင်သော ပစ္စည်းများဖြင့် လူနာကိုတင်နိုင်သော စင်တခုဖြစ်အောင် ကြံဖန် လုပ်ကိုင်ယူရမည်။ တံခါးရွက် ဖြစ်စေ၊ တရုပ်ကပ် တံခါး၊ ဝင်းတံခါး စသည်တို့ကိုဖြစ်စေ လူနာတင်စင်အဖြစ် ဖန်တီး အသုံးပြုနိုင်သည်။ ဘေးမှ ဝိုင်းကြည့်နေသော ပရိသတ်ထဲမှ ကုတ်အင်္ကျီခပ်ခိုင်ခိုင် နှစ်ထည်ကို ငှါး၍ရနိုင်လျှင် ထိုအင်္ကျီလက်ကို ပြောင်းပြန်လှန်၍ သစ်သားလုံးခပ်ငယ်ငယ်နှစ်လုံးကိုဖြစ်စေ၊ တောင့်တင်းသော ဝါးလုံး နှစ်လုံးကို ဖြစ်စေ အင်္ကျီ တထည်၏ လက်ပေါက် တပေါက်စီတွင် တလုံးစီ လျှိုသွင်းပါ။ ထို့နောက် အခြား အင်္ကျီ တထည်ကိုလည်း ပဌမ အင်္ကျီနှင့် ကိုယ်ထည်ချင်း ဆက်လျက်ဖြစ်အောင် တဖက်တွင် ပဌမ အင်္ကျီကို ပြုလုပ်သကဲ့သို့ လုပ်ရမည်။ ထို့နောက်မှ အင်္ကျီများမှ ကျယ်သီးများကို တပ်လိုက်လျှင် လူနာ သယ်ယူနိုင်သည့် ထမ်းစင်တခုကို ရရှိပေလိမ့်မည်။

ဆန်စပါး စသည် ထည့်သည့် ဂုံအိတ်များကိုလည်း လူနာတင် ထမ်းစင်တခု ဖြစ်အောင် ဖန်တီးနိုင်သည်။ ထိုအိတ်များ၏ ဖင်ဖက် ထောင့်များတွင် အပေါက်နှစ်ပေါက် ဖောက်၍ တုတ်တန်း၊ ဝါးလုံးတမျိုးမျိုး ထိုးသွင်းလိုက်လျှင် လူနာတင် ထမ်းစင်ဖြစ်နိုင်လေသည်။ စောင်၊အိပ်ရာခင်းထူထူများကို ကွင်းပြုလုပ်၍ ဝါးလုံးသွင်းကာ လုပ်နိုင်သေးသည်။ သို့သော် မြန်မာတို့သည်မူ ပုခက်၊ သို့မဟုတ် ဆောင်ပန်းကို အသုံးများလေသည်။ ဖော်ပြခဲ့သောပစ္စည်းများတွင်ရရန်လွယ်ကူသောပစ္စည်းများဖြင့် လူနာတင် ထမ်းစင် ပြုလုပ်ပြီးသော် အရေး ကြီးဆုံး သတိပြုရန်မှာ ထိုထမ်းစင်ကို ခိုင်မခိုင် စိတ်ချရ မချရ စမ်းသပ်ပြီးမှ လူနာကို သယ်ယူသင့်သည်။ ထို့ပြင် ထမ်းစင်ကို သယ်သူများသည် ခြေလှမ်းညီညီနှင့် သွက်သွက်လှမ်းတတ်စေရမည်။ သယ်ယူသူ တဦးတယောက် ခြေလှမ်းမှားသွားလျှင် ထမ်းစင်သည် လှုပ်ရှား တိမ်းစောင်း သွားတတ်၍ လူနာအား ထိခိုက်စေနိုင်သည်။

ရရှိသော ဒဏ်ရာမှာ မကြီးကျယ်လှသော်လည်း လမ်းမလျှောက်နိုင်သူကို သယ်ယူရန်မှာ ကျွန်ုပ်တို့ ငယ်စဉ်အခါ ကစားသော ညောင်ရေအိုးစင် ပန်းအိုးစင် ကစားနည်းကို အသုံး ပြုနိုင်လေသည်။ လူနှစ်ယောက် မျက်နှာချင်းဆိုင် တယောက်လက်ကို တယောက် မြဲမြံစွာ ဆုပ်ကိုင်၍ ဆောင့်ကြောင့်ထိုင်ပြီးလျှင် ဒဏ်ရာရသူကို ထိုတွဲထားသော လက်ပေါ်တွင် ထိုင်ခိုင်းရမည်။ ထိုလူနာက တတ်နိုင်လျှင် လက်တွဲ



လူနာကို ရွှေ့ပြောင်းရာ၌ ညင်သာနိုင်သမျှ ညင်သာအောင် လူနာတင် ထမ်းစင်ဖြင့် သယ်ယူရွှေ့ပြောင်းသင့်သည်။



လူနာကို ထမ်းစင်ဖြင့် သယ်ဆောင်ရာတွင် ထမ်းစင်သယ်သူများသည် ခြေလှမ်းညီညီနှင့် သွက်သွက် လှမ်းတတ်စေရမည်။

ထားသူနှစ်ဦး၏ လည်ပင်းများကို လက်နှစ်ဖက်ဖြင့် ဖက်ထားရမည်။ ထိုနောက် လူနာသယ်သူများက မတ်တတ်ရပ်ကာ ဖြည်းညှင်းသာယာစွာ သယ်ယူ သွားကြရမည်။

နောက်တနည်းမှာ နောက်မှီ တောင့်သော တယောက်ထိုင်ကုလားထိုင်တွင် လူနာကို ထိုင်စေ၍ သူ့လက်များကို ပေါင်ပေါ်တွင် တင်ထားပါစေ။ လူနာသယ်မည့်သူ နှစ်ယောက်အနက် တယောက်က လူနာနှင့် မျက်နှာချင်းဆိုင်လျက် ကုလားထိုင် အရှေ့ခြေထောက်နှစ်ခုကို ကိုင်ထားရသည်။ အခြား တယောက်က သူတို့ကို ကျောပေး၍ ကုလားထိုင်နောက်မှီ ထိပ်နှစ်ခုကို မြဲမြံစွာ ဆုပ်ကိုင်၍ ကုလားထိုင်ကို မ ယူကာ နောက်မှီကို ကိုင်သူက ခေါင်းဆောင် လမ်းပြ၍ သယ်ယူသွားရမည်။ ထိုကဲ့သို့ သယ်ယူခြင်းသည် လူနာအဖို့ရင်း၊သယ်ယူသူများအဖို့ရင်း အနေအထား သက်သာချောင်ချိစေနိုင်သည်။

သယ်ယူ နိုင်မည့် သူသည် တောင့်တင်းသန်မာ၍ တဦးတည်းဖြစ်လျှင် မီးလောင်နေသော အဆောက်အအုံ တခုမှ လူများကို မီးသတ်သမားများ ကယ်ယူနည်း အတိုင်း လူနာကို ပခုံးဖြင့်ထမ်း၍ သယ်ယူနိုင်လေသည်။

လူနာများကို ကိုယ်တိုင် ကိုယ်ကျ သယ်ယူရသည့် အခြေသို့ မကြုံရသည့်တိုင်အောင် ထိုကဲ့သို့ အရေးကိစ္စမျိုးနှင့် ရင်ဆိုင်လျှင် သယ်ပုံသယ်နည်းများကို ကျွမ်းကျင် နားလည်ထားပါက အကြံဉာဏ်ပေး၍ရင်း၊ ကိုယ်ထိလက်ရောက် တတ်အားသမျှ ဆောင်ရွက်ပေးခြင်းဖြင့်ရင်း ကူညီနိုင်ပေသည်။

## ပတ်တီးစည်းနည်းများ

ရှေးဦး သူနာပြုတဦးသည် ထိုလုပ်ငန်းကို ဆောင်ရွက်ရာ၌ ရံဖန်ရံခါပင် ပတ်တီးစည်းပေးရသော ကိစ္စမျိုးနှင့် ကြုံရတတ်သည်။ ထို့ကြောင့် ရှေးဦး သူနာပြုတဦးသည် ပတ်တီးစည်းပုံ စည်းနည်းများကိုလည်း အခြေခံအားဖြင့် သိထားရန် လိုအပ်ပေသည်။

ပတ်တီးများသည် တြိဂံပုံ ပတ်တီး၊ ပတ်တီးလိပ်နှင့် အမြီးလေးခွပတ်တီးဟူ၍ သုံးမျိုး ရှိပေသည်။ မည်သည့် ဒဏ်ရာမျိုးမဆို ပတ်တီးစည်းပေးခြင်းဖြင့် ထိခိုက်ရှနမိ၍ ကွဲဟသွားသော အသားအရေများကို ပြန်လည် စေ့လာစေသည့်ပြင် အရိုးများ ကျိုး၍ ကျပ်များထည့်ပေးရလျှင် ထိုကျပ်များ မရွေ့နိုင်အောင် ပတ်တီးက ထိန်းပေးလေသည်။

ဒဏ်ရာများကို ပတ်တီးစည်းပေးရာ၌ တခါတရံ ဒဏ်ရာတည့်တည့် ပေါ်တွင် အဝတ်ခေါက် ခပ်ထူထူကလေး တခု တင်ပြီးမှ ပတ်တီးစည်းပေးသင့်လေသည်။ ပေါင်းတင်ထားသော ဆေးရုံသုံး ပတ်တီးမျိုးကို သုံးနိုင်လျှင် အကောင်းဆုံးဖြစ်သည်။ ထိုပတ်တီးမျိုး မရှိလျှင် သန့်ပြန့်သော ပဒုမ္မာစ၊

သို့မဟုတ် ပိတ်အဖြူ အပိုင်းအစများကို သုံးသင့်သည်။ သို့မဟုတ်လျှင် မသန့်ရှင်းသော ပတ်တီးမှ ရောဂါပိုးများသည် အနာတွင်းသို့ ရောက်ကာ ဒဏ်ရာမှာ ပိုမိုဆိုးရွားလာတတ်သည်။ စိုနေသော ပတ်တီးများကိုလည်း လုံးဝမသုံးသင့်ပေ။

**တြိဂံပုံပတ်တီး။** ထိုပတ်တီးမျိုးကို တကိုက်ပတ်လည်ခန့်ရှိသော အဝတ်ပိုင်းတစကို ထောင့်တန်းခေါက်ချ၍ ညှပ်လိုက်လျှင် တြိဂံပုံပတ်တီးနှစ်ခု ရနိုင်သည်။ ယင်းပတ်တီးမျိုးသည် ပြုလုပ်ရန် လွယ်ကူ၍ ဦးခေါင်း၊လည်ပင်း၊လက်၊လက်မောင်း၊ ရင်ပတ်၊ ခြေထောက် စသည်တို့၌ အသုံးပြုနိုင်လေသည်။

ကရေးဗက် ပတ်တီးသည် တြိဂံပုံ ပတ်တီးထိပ်ချွန်ကို တြိဂံပုံ၏ အောက်ခြေအလယ်တည့်တည့် ရောက်အောင် ခေါက်ချလိုက်ပြီးမှ မိမိအလိုရှိရာ အပြားအနေရအောင် ခေါက်ယူခြင်း ဖြစ်သည်။

**အမြီးလေးခွ ပတ်တီး။** ဦးခေါင်းတွင် ရရှိသော ဒဏ်ရာများအတွက် ထိုပတ်တီးမျိုးကို အသုံးပြုရသည်။ အလျားတကိုက် အနံ ၄ါးလက်မခန့်ရှိသော ပိတ်ပိုင်းတခုကို အလယ်၌ ဒဏ်ရာ ဖုံးမိရုံမျှ နေရာချန်ထားပြီးလျှင် ဘေးအစ နှစ်ဖက်ကို ခွဲချလိုက်ပါ။ ထိုနောက်မှ ဒဏ်ရာနေရာကို မခွဲဘဲ ချန်ထားခဲ့သော ပတ်တီးအပိုင်းဖြင့် အုပ်၍ အမြီးလေးခွအစများကို ခေါင်းပေါ်တွင် ကြက်ခြေခတ်ချည်ရသည်။ အထုံးများမပြေလွယ်အောင် အသေချည်ရလေသည်။

**ပတ်တီးလိပ်များ။** ယင်းတို့မှာ အမျိုးမျိုး အစားစား ရှိ၍ ဆေးဆိုင် စသည်တို့မှ ဝယ်ယူရရှိ နိုင်လေသည်။ ပိတ်စ၊သို့မဟုတ် ခေါင်းပေါင်းပါးစကိုအလိပ်လိုက်လုံးထားလေသည်။

ပတ်တီးစည်းလျှင် ဒဏ်ရာ အောက်ဖက်မှ နေ၍ အပေါ်ဖက်သို့ စည်းသွားရသည်။ ဒဏ်ရာသည် တဖြည်းဖြည်းရောင်ရမ်းလာတတ်သဖြင့် ပတ်တီးကို တင်းကျပ်စွာ စည်းမထားသင့်ပေ။ စည်းသည့်အခါ၌ အလိပ်ကို ညာလက်တွင် ကိုင်၍ ပတ်တီးအစကို ဘယ်လက်ဖြင့် ကိုင်ကာ စတင်စည်းမည့်နေရာတွင်ခိုင်မြဲစေရန် သုံးလေးပတ် ရစ်ပတ်လိုက်ပြီးမှ အလျော့အတင်းညီညာစွာဖြင့် စည်းသွားသင့်သည်။သို့မဟုတ်လျှင် ပတ်တီးသည် နေရာတွင် မမြဲဘဲရှိတတ်၍ တင်းကျပ်စွာ စည်းထားလျှင်လည်း သွေးအသွားအလာကို ထိခိုက်စေတတ်သည်။

ပတ်တီးများကို စည်းပေးရာ၌ ပတ်တီးသည် ဒဏ်ရာကို ကာကွယ်ပေးပြီးလျှင် ထိုနေရာ၌ တည်ငြိမ်စွာ ရှိစေ၍ လျော့ကျခြင်း မဖြစ်စေဘဲ လူနာမှာ သက်သာ ချောင်ချိမှု ဖြစ်နိုင်သမျှ ဖြစ်စေရမည်။ ပတ်တီးစည်းရာတွင် သတိပြုရန်အချက်ကား ပမာအားဖြင့် လက်မောင်းတွင် ဒဏ်ရာရလျှင် ဒဏ်ရာကို ဆေးထည့်၍ ပတ်တီးစည်းပြီးမှ လက်ကို သိုင်းထားရမည်ဖြစ်၍ ထိုသိုင်းထားရမည့် အနေအထားနှင့် လိုက်လျောညီစွာ ပတ်တီးကို စည်းပေးရလေသည်။ သို့မဟုတ်ဘဲ နေရိုးနေစဉ် အနေအထား အတိုင်း ပတ်တီးစည်းပေးလျှင် လက်ကို သိုင်းရသော အခါ၌ အနေအထား မကျဘဲ ဒဏ်ရာကို ထိခိုက်စေတတ်သည်။

ပတ်တီးစည်းပုံစည်းနည်း သုံးမျိုး ရှိလေသည်။ (၁)ဝက်အူရစ်ပုံစည်းနည်း (၂) ဝက်အူရစ် ပြောင်းပြန်ပုံစည်းနည်းနှင့် (၃) အဝိုင်းပုံ စည်းနည်း ဖြစ်ကြသည်။ ဝက်အူရစ်ပုံပတ်တီးမှာ ပဌမ တပတ်နှစ်ပတ်ပတ်လိုက်ပြီးလျှင် နောက်တပတ်ကို အပေါ်သို့ အနည်းငယ်ခပ်စွေစွေကလေး မြင့်တက်၍ စည်းသွားရလေသည်။

ဝက်အူရစ် ပြောင်းပြန်ပုံ ပတ်တီးမှာ ပတ်တီးကို တည့်တည့် အဝိုင်းတပတ် နှစ်ပတ် ပတ်လိုက်ပြီးလျှင် နောက်တကြိမ် ဝိုင်း၍ပတ်ရာတွင် ပတ်တီးအပေါ်၌ လက်မ ခံကာ ပတ်တီးကို ဒေါင့်ချိုးချ၍ ပတ်ရမည်။ နောက်တပတ်ကို အဝိုင်းပတ်၍ နောက်တပတ်ကို လက်မ ခံ၍ ဒေါင့်ချိုးချ၍ ပတ်ကာ ပတ်တီးစည်းသွားရမည်။ ဤပတ်တီးစည်းနည်းကို ခုံးမောက်သော ကြွက်သားများရှိသည့်နေရာများ၌ ဒဏ်ရာရလျှင် အသုံးချရသည်။

အဝိုင်းပုံ စည်းနည်းမှာ အဝိုင်းလိုက် ရစ်ပတ် သွားရရာ ပဌမအပတ်၏ အနံ သုံးပုံနှစ်ပုံမျှကို ဒုတိယအပတ်က ဖုံးအုပ်ကာဖြင့် တပတ်ပြီး တပတ် ရစ်ပတ်သွားရလေသည်။

ခြေလက်တို့တွင် ဒဏ်ရာရလျှင် စည်းနှောင်ရန် လွယ်ကူသော်လည်း မေး၊ ညှပ်ရိုး စသည့်နေရာမျိုးမှာ အချက် သိမထားလျှင် ပတ်တီးစည်းပေးရာ၌ အခက်အခဲ တွေ့ရလေသည်။ ထိုကြောင့် ထိုကဲ့သို့သောနေရာမျိုးတွင် ဒဏ်ရာ ရရှိခဲ့သော် မည်ကဲ့သို့ စည်းနှောင်ပေးရမည်ကို အနည်းငယ်ဖော်ပြလိုပေသည်။

လက်မောင်းတွင် ဒဏ်ရာရလျှင် ဒဏ်ရာကို ပတ်တီးစည်းပေးပြီးနောက် သိုင်းထားရန် လိုပေသည်။ ဒဏ်ရာရရှိထားသော လက်မောင်း မလှုပ်မရှား သက်သာစွာ ရှိစေရန် အရွယ်အစား သင့်တော်သည့်လက်သိုင်းကို အသုံးပြုနိုင်သည်။

ဒဏ်ရာသည် လက်ရုံးဖက်တွင်ဖြစ်လျှင် ဆေးထည့် ပတ်တီးစည်းပြီးနောက် လက်မောင်း၊ တံတောင်ဆစ်နှင့် လက်တို့ကို ထည့်ထား လောက်အောင် ကျယ်ဝန်းသော လက်သိုင်းဖြင့် သိုင်း ထားရသည်။ လက်သိုင်းများကို တြိဂံပုံ ပတ်တီးဖြင့် ပြုလုပ်နိုင်၍ အစွန်းထွက်နေသော အစများကို သပ်ရပ်စွာခေါက်ကာ ချိတ်ဖြင့် တွယ်ထားရသည်။

မေးရိုးကျိုးလျှင် တြိဂံပုံပတ်တီး နှစ်ခုကိုအသုံးပြုရသည်။ ကရေးဗက် ပတ်တီးအပြား ခပ်ကြီးကြီးနှင့် ခပ်သေးသေး နှစ်ခု ပြုလုပ်၍ အကြီးကို မေး၌သိုင်းကာ ထိပ်ပေါ်တွင် တင်ချည်ရသည်။ အသေးပတ်တီးကို အောက်နှုတ်ခမ်း အောက်မေး အရှေ့ဖက်ကိုဖုံး၍ ဂုတ်ဖက်သို့ ရောက်အောင် ပတ်တီးစ နှစ်စကို ဆွဲယူလာပြီး ချည်ရသည်။ ထိုနောက်မှ ပဌမ ပတ်တီးအစနှင့် နောက်ပတ်တီးအစ နှစ်စကို တွဲ၍ ချည်ရသည်။

ညှပ်ရိုးကျိုးလျှင် လက်မောင်း တခုလုံး မလှုပ်မရှားနိုင်စေရန် ပတ်တီး စည်းထားရလေသည်။ ညာဖက် ညှပ်ရိုးကျိုးလျှင် ညာဖက် ဂျိုင်းအောက်၌ အဝတ်ခေါက် ထူထူအလိပ်ကလေးတခု သွင်း၍ လက်မောင်းကို ထောင့်တန်းရင်ပတ်တွင် ကပ်ထားရသည်။ တြိဂံပုံ ပတ်တီးတခုကို ယူ၍ထိုလက်မောင်းကို သိုင်းကာ လက်ချောင်းကလေးများရှိရာဖက်၌ အထုံးချည်ရသည်။ ထိုနောက် တြိဂံပုံ ပတ်တီးထိပ်ကို လက်မောင်းပေါ်၌ ဖုံးချ၍ ချိတ်ဖြင့် တွယ်ထားရမည်။ တံတောင်ဆစ် မရွေ့ရှားနိုင်ဘဲ ပို၍ခိုင်မြဲစေလိုလျှင် ကရေးဗက် ပတ်တီးဖြင့် တံတောင်ဆစ် အပေါ်နား၌ ကန့်လန့်ဖြတ် ချည်ပေးနိုင်သည်။

ညှပ်ရိုး နှစ်ဖက်စလုံးကျိုးလျှင် လက်ရုံးနှစ်ခုကို ဝမ်းပိုက်ပေါ်တွင် ကန့်လန့်ဖြတ်၍ တင်ထားရသည်။ အတော်အတန်ရှည်လျားသော ပတ်တီးတခုကိုယူ၍ လက်မောင်းတဖက်၏ တံတောင်ဆစ်အထက်နားတွင် အနည်းငယ်ရစ်ပတ်လိုက်ပြီးသော် ကျောဖက်သို့ယူသွားကာ ထိုမှလှည့်၍ အခြား လက်မောင်းတဖက်တွင် ရစ်ပတ်ရသည်။ ထိုနောက်မှပတ်တီးစနှစ်ခုကို တံတောင်ဆစ် အရှေ့နားတွင် ချည်နှောင်ပေးရသည်။

ရှေးဦး သူနာပြုနည်းများကား ခဲခဲယဉ်းယဉ်း မပြုလုပ်ရဘဲနှင့် သူတပါးတို့ ခံစားရသော ဒုက္ခ ဝေဒနာများမှ သက်သာရာရအောင် ပြုနိုင်သောနည်းများ ဖြစ်လေသည်။ အရေးအကြောင်းရှိပါက လိုအပ်သော အကူအညီကို လျင်မြန်စွာပေးနိုင်၍ အသက်ပေါင်းများစွာကိုကယ်နိုင်ကြခြင်းသည် ရှေးဦးသူနာပြုနည်း တတ်မြောက်ကျွမ်းကျင်ထားကြခြင်းကြောင့်ဖြစ်ပေသည်။ရှေးဦးသူနာပြုစုနည်းများကား တတ်သိ နားလည်ထားရုံမျှနှင့် မလုံလောက်သေးဘဲ လေ့ကျင့်ထားရန်လည်း လိုအပ်လှပေသည်။ အရေးကြုံလျှင် ချက်ချက်ချာချာနှင့် စံနစ်တကျ ကူညီဆောင်ရွက် စီမံခန့်ခွဲပေးနိုင်ရန် ခေတ်မှီ အမျိုးသား အမျိုးသမီးများ တတ်သိကျွမ်းကျင်ထားထိုက်သော မွန်မြတ်လှသည့် ပညာရပ်တခု ဖြစ်ပေသည်။

**ရှဲလီ၊ ပါဆီ** (ခရစ် ၁၇၉၂–၁၈၂၂)။ ။တောတောင်၊ရေမြေ၊ လေပြေလေညှင်း၊ နေဝင် ဆည်းဆာ၊ ကျေးငှက် သာရကာနှင့် တိမ်တောင် တိမ်တိုက် စသော ဩကာသလောကကြီး၏ အကြောင်းကို သူမတူအောင် လှပသိမ်မွေ့သော အဖွဲ့ အနွဲ့တို့ဖြင့် ကဗျာ ဖွဲ့ဆိုနိုင်သောကြောင့် အင်္ဂလိပ်စာပေလောက၊ ကဗျာပိုင်းတွင် အကျော်ကြားဆုံးသော ကဗျာစာဆိုကြီးများတွင် ပါဆီရှဲလီသည် တဦး အပါအဝင် ဖြစ်ပေသည်။ ရှဲလီ၏ စိတ်ကူးယဉ်မှုများသည် ကောင်းကင်ဝေဟင်ယံထက်၌ လွင့်ပါးကျက်စားသည်သာ များခဲ့သဖြင့် မြေနှင့်ကင်းကွာခဲ့ပေသည်။ထိုကြောင့် ရှဲလီ၏ အဓိက ရည်



အင်္ဂလိပ် ကဗျာစာဆို ရှဲလီ

မှန်းချက်ဖြစ်သော လူလောကကြီးအား ဖိနှိပ် ချုပ်ချယ်မှု၊ ပူပန်ဆင်းရဲမှုတို့မှ ကင်းစင်စေ၍ စည်ပင် သာယာသော လောကကြီးကို ထူထောင်ပေးရန် တည်းဟူသော သူ၏ ပြုပြင်ရေး စိတ်ကူးယဉ်မှုများသည် အရာမထင်၊ လက်တွေ့ အကောင်အထည်ဖော်၍မရနိုင်ပေ။ သို့သော် ရှဲလီ၏ စိတ်ကူးယဉ်မှုများသည် သူ့အား ထိပ်တန်း ကဗျာစာဆိုကြီး တဦးအဖြစ်သို့ ပို့ဆောင်ပေးခဲ့လေသည်။

ရှဲလီသည် ၁၇၉၂ ခုနှစ် ဩဂုတ်လတွင် အင်္ဂလန်ပြည်၊ ဆပ်ဆက်နယ် ဟော်ရှမ်မြို့အနီး၌ မွေးဖွားခဲ့သည်။ ဖခင်သည် လူကုံထံတဦးဖြစ်သော ဆာ တင်မိုသီ ရှဲလီဖြစ်သည်။ ရှဲလီသည် ငယ်စဉ်ကပင် သေးသွယ် နွဲ့နှောင်း ချောမောလှပသည်။ ထိုကြောင့် အီတန်ကျောင်းတွင်နေစဉ်က မိန်းမပျိုကလေး တဦးကဲ့သို့ လှပသော ရှဲလီအား ကျောင်းသားကြီးများက အနိုင်ကျင့်ခဲ့ကြလေသည်။

ထိုစဉ်ကပင် ရှဲလီသည် အနိုင်ကျင့်မှု၊ ချုပ်ချယ်မှုတို့ကို ရွံမုန်းခဲ့သည်။ ရှဲလီသည် ကဗျာ လင်္ကာ သီကုံးဖွဲ့နွဲ့မှုကို ငယ်စဉ်ကပင် ဝါသနာထုံခဲ့၍ ဆန်းကြယ်သော စိတ်ကူးများဖြင့် ကဗျာလင်္ကာတို့ကို စပ်ဆို သီကုံးတတ်သည်။ အချို့သော ရှဲလီ၏စိတ်ကူးများသည် ထိုခေတ် အယူအဆနှင့် ဆန့်ကျင်နေသည့်ပြင် တခါတရံ သိမ်မွေ့စွာ စိတ်ကူးယဉ်နေတတ်ပြီး

လျှင် တခါတခါတွင်မူ မိမိ၏ အယူအဆကို ပြင်းပြင်း ထန်ထန် ဖော်ထုတ်တတ်ပြန်သည်။ ထို့ကြောင့် ရှဲလီ၏ အတွင်းသဘောကို အကဲမခတ်နိုင်အောင် ရှိကြရသဖြင့် ကျောင်းနေဖက်များက သူ့ကို "အရူးရှဲလီ" ဟု ပြောင်လှောင်ခေါ်ဝေါ်ကြလေသည်။

ရှဲလီ၏ခေတ်တွင် ပြင်သစ်တော်လှန်ရေး စိတ်ဓာတ်များ အငွေ့မသေသေးပေ။ ရှဲလီသည်လည်း ဖိနှိပ်ချုပ်ချယ်မှုကို ရွံမုန်းသော တော်လှန်ရေးစိတ်ဓာတ် ခိုအောင်းနေသူဖြစ်၍ တော်လှန်ရေးသဘောတရားများကို လေ့လာ ကျင့်သုံးခဲ့သည်။ အောက်စဖို့ တက္ကသိုလ်တွင် ပညာဆည်းပူးနေခိုက် ရှဲလီသည် "ဘုရား မရှိ" အယူဝါဒနှင့်စပ်လျဉ်းသော စာတန်း တခုကို ရေးသားခဲ့ရာ ကျောင်းမှ ထုတ်ပစ်ခံရသည်။ ထို့ပြင် ဖခင်ကလည်း အိမ်သို့ အလာမခံဘဲ ထောက်ပံ့ ပေးကမ်းခြင်းကို ရပ်ဆိုင်း ထားလိုက်သည်။

ရှဲလီသည် ဒဿနိကဗေဒ ပညာရှင်တဦးဖြစ်သော ဝီလျံဂေါ်ဒွင်နှင့်တွေ့ဆုံကာ တပည့်ခံလေသည်။ ဝီလျံဂေါ်ဒွင်က လူသားဟူသမျှ တူညီသော အခွင့်အရေး၊ တူညီသော လွတ်လပ်မှု ရရှိရေး သဘောတရားများကို ဟောပြောပြသည်။ ထိုအတွင်း ရှဲလီသည် ဟိုတယ်ဆိုင်ရှင်ဟောင်းတဦး၏ သမီးဖြစ်သူ ဟယ်ရီးယက် ဝက်စဗရုနှင့် တွေ့ဆုံ ရင်းနှီးရသည်။ ထိုမိန်းကလေးသည် အသက် ၁၆ နှစ်မျှသာရှိသေး၍ ရှဲလီက မိမိကဲ့သို့ ဖိနှိပ်မှု၊ မတရားချုပ်ချယ်မှုများကို ခံနေရသူဟု ယူဆသည်။ ထို့ကြောင့် ထိုမိန်းကလေးကို ကယ်တင် စောင့်ရှောက်ခြင်း သဘောဖြင့် ဟယ်ရီးယက်ကို ခိုးယူ ထွက်ပြေးသည်။ သူတို့ ဇနီးမောင်နှံသည် အိုင်ယာလန်၊ အင်္ဂလန်နေရာ အနှံ့အပြားသို့ လှည့်လည် သွားလာကာ အဖိနှိပ်ခံ လူတန်းစားများ အတွက် အကျိုးဆောင် လုပ်ငန်းများ ဆောင်ရွက်ပေးရန် ကြိုးစားသည်။ သို့သော် ရှဲလီ၏ ဆောင်ရွက်မှုများသည် အရာမထင်ပေ။

နောင်အခါ ရှဲလီသည် ဟယ်ရီးယက်အား ထားရစ်ကာ ဝီလျံ ဂေါ်ဒွင်၏သမီး မေရီ ဂေါ်ဒွင်နှင့်အတူ ဥရောပတိုက်သို့ ထွက်ခွာသွားသည်။ ဥရောပ တိုက်တွင်လည်း တနေရာမှ တနေရာသို့ လှည့်လည် သွားလာ နေခဲ့ကြသည်။ နှစ် နှစ်ခန့်အကြာ ၁၈၁၆ ခုနှစ် နိုဝင်ဘာလတွင် ရှဲလီ၏ဇနီး ဟယ်ရီးယက်သည် ရေထဲ ခုန်ဆင်းသေလိုက်သည်။ ထိုအတွက် ရှဲလီသည် အရှက်ကြီး ရှက်ပြီးလျှင် အလွန် စိတ်ထိခိုက်ခဲ့သည်။ သို့သော် မကြာမီ မေရီဂေါ်ဒွင်နှင့် လက်ထပ်လိုက်၍ ဟယ်ရီးယက်မှ ကျန်ရစ်သော သား သမီးတို့ကိုပါ ခေါ်ဆောင်ပြီးသော် ဣတလီနိုင်ငံသို့ သွားရောက် နေထိုင်ကြသည်။ မေရီဂေါ်ဒွင်သည် ရှဲလီနှင့် အသွင်တူသော ဇနီးသည်ဖြစ်၍ စာရေးဆရာမတဦး ဖြစ်လေသည်။ ရှဲလီသည် ၁၈၁၃ ခုနှစ်တွင် "မက်ဘ်ရင်မ"နှင့် ၁၈၁၈ ခုနှစ်တွင် "အစ္စလာမ် တော်လှန်ရေး" အမည်ရှိ ကဗျာများကို ရေးသား ပြုစုထုတ်ဝေခဲ့ရာ လူ့အခွင့်အရေး လွတ်လပ်မှုအတွက် ရေးသားသော ကဗျာများ ဖြစ်ကြသည်။ ရှဲလီ၏ လွတ်လပ်ရေး သဘောထားကို "လွတ်လပ်ရေး ကဗျာ" တွင် ပို၍ ပြင်းပြင်းထန်ထန် တွေ့ရသည်။ ထို့နောက် ရှဲလီသည် ရှေးဂရိစာဆိုများ၏ စာပေများကို လေ့လာ၍ ယင်းတို့၏ အငွေ့အသက်ပါသော ကဗျာများကို ဖွဲ့နွဲ့ခဲ့ပြန်သည်။ ၁၈၁၉ ခုနှစ်တွင် ဖွဲ့နွဲ့စပ်ဆိုသော "ပရိုမီးသယူး၏ လွတ်မြောက်ခြင်း" ကဗျာသည် ဂရိစာပေ တခုကို မှီးထား၍ နတ်တို့၏ဖိနှိပ်ချုပ်ချယ်မှု လက်အောက်မှ လူသားတို့အတွက် ရုန်းကန်တော်လှန်ပုံကို စပ်ဆို သရုပ်ဖော်ထားသည်။ ၁၈၂၁ ခုနှစ်တွင် ရှဲလီသည် မိမိ၏ ကဗျာ၊ ဝီလျံဝပ်စဝပ်နှင့် ဆင်မျူယယ်ကိုးလရစ်တို့၏ ကဗျာများကို ကာကွယ်ထားသော အက်ဆေးစကားပြေစာအုပ် တအုပ်ကို ပြုစုထုတ်ဝေသည်။ ထိုစကားပြေစာအုပ်သည် ကဗျာ၏ သဘောကို ဖော်ပြရှင်းလင်းသော အကောင်းဆုံး အင်္ဂလိပ် စကားပြေစာအုပ် ဖြစ်လေသည်။

ဣတလီတွင် နေထိုင်စဉ်အတွင်း ရှဲလီသည် လော့ ဗိုင်ရွန်၊ လေး ဟန့်စသော ကဗျာစာဆိုအကျော်အမော်များနှင့် ရင်းနှီးခင်မင်ခွင့် ရ၍ ရှဲလီ၏ အကောင်းဆုံး ကဗျာစာစုတို့သည် ထိုအချိန်ကာလ အတွင်း၌ ထွက်ပေါ်ခဲ့သည်။ ရှဲလီ၏ ကဗျာစုအနက် "မိုးစွေ့ငှက်" နှင့် "အနောက်လေ" ကဗျာသည် အထူး ကောင်းမွန်သည်။ ရှဲလီ၏ ကဗျာတို့သည် များသောအားဖြင့် ဖိနှိပ်ချုပ်ချယ်မှုကို တွန်းကန်လိုသော သဘောလွတ်လပ်မှုကို မြတ်နိုးသော အကြောင်းရင်းခံတို့ကို အခြေပြု၍ ဖွဲ့နွဲ့ထားခြင်း ဖြစ်သော်လည်း အဖွဲ့အနွဲ့ လှပသိမ်မွေ့မှုကြောင့် အကြောင်းရင်းခံကို မတွေးမိကြဘဲ လှပကြည်နူးဖွယ် ကဗျာများ အဖြစ်သာ များသောအားဖြင့် လက်ခံခဲ့ကြလေသည်။ သူ၏ကဗျာများကို အဓိပ္ပါယ် နက်နက်မတွေးဘဲ ချစ်မြတ်နိုးစွာ လက်ခံကြသော်လည်း ရှဲလီကိုမူ တော်လှန်ရေး စိတ်ကူးယဉ်သမား၊ တော်လှန်ရေး လှုံ့ဆော်အားပေးသူအဖြစ် ထားရှိကြ၍ လိုက်လှဲ ခြီးမြှောက်မှု မပြုကြချေ။ သို့သော် ကဗျာအရာတွင်မူ ရှဲလီကို မှီနိုင်သူ ရှားပေသည်။

ရှဲလီသည် မိမိနှင့် တခေတ်တည်းတွင် ပေါ်ထွန်းသော ဂျွန် ကီနှင့်လည်း ရင်းနှီးသည်။ ဂျွန် ကီ ကွယ်လွန်သောအခါ "အဒိုးနေး" ခေါ် လွမ်းချင်း ကဗျာဖြင့် ခြီးကျူး ဂုဏ်ပြုသည်။ ထိုကဗျာကို ဖွဲ့နွဲ့စဉ်က ရှဲလီသည် မိမိလည်း မကြာမီ ဂျွန်ကီ၏ နောက်သို့ လိုက်ရတော့မည်ကို မသိရှာချေ။ ၁၈၂၂ ခုနှစ် ဇူလိုင်လအတွင်း ရှဲလီသည် မိတ်ဆွေတဦးနှင့်အတူ မြေထဲပင်လယ်ကမ်းခြေ၌ လှေစီးထွက်ယင်း လေမုန်တိုင်းမိ၍ လှေမှောက်ပြီး ရေနစ်သေဆုံးခဲ့သည်။ ထိုစဉ်က ရှဲလီသည် ၂၉ နှစ်အရွယ်မျှသာ ရှိပေသေးသည်။

**ရှော,ဂျော့ဗားနတ်**(ခရစ် ၁၈၅၆–၁၉၅၀)။ ။ဂွသမား စာရေးဆရာကြီးဟု ကျော်ကြားလှသော ဂျော့ ဗာနတ် ရှောသည် ခေတ်သစ် အင်္ဂလိပ်စာပေလောကတွင် အထက် မြက်ဆုံးသော စာပေ ပညာရှင်ကြီး အဖြစ် အချို့သော စာ အကဲဖြတ် ပုဂ္ဂိုလ်များက ယူဆကြသည်။ ဂါလစ်ဗာ၏ခရီး စဉ် ဝတ္ထုကြီးကို ရေးသားခဲ့သူ ဂျွန်နသန် ဆွစ်မှ လွဲလျှင် လောကကြီးကို ပြက်ရယ်ပြုသော စာပေများကို အထိအမိ ဆုံး ရေးသားနိုင်စွမ်းသူဖြစ်သည်။ သူ့ခေတ်တွင် ပေါ်ပေါက် နေသည့် အယူအဆ၊ လုပ်ပုံ ကိုင်ပုံများကို ထိလှ မိလှသော စကားလုံးများ အာဘော်များဖြင့် သရော် ပြောင်လှောင် ပြီးလျှင် ကလိလေ့ ဆွလေ့ရှိရာ သူ၏ ဆွလုံး ထေ့လုံး များကို ဖတ်ရှုရသူများသည် အလွန် စွဲငြိကြရသည်။ ထေ့ လုံး ချိတ်လုံးများဖြင့် စာအရေး ကောင်းသလောက် စကား အခြေအတင် အပြောကောင်းလှသူလည်း ဖြစ်သည်။ ယုတ္တိ တန်သည် ဖြစ်စေ မတန်သည်ဖြစ်စေ အကျိုးအကြောင်း သင့်တင့် ဆီလျော်သည်ဟု ထင်မြင်လာအောင် စကားလုံး ပြောင်ပြောင်ဖြင့် အခြေအလဲ ကောင်းလှသည်။ ထိုကြောင့် သူ့ခေတ် သူ့အခါက အင်္ဂလန်ပြည်၌ အခြေအတင် စကား ပြောအကောင်းဆုံး ပုဂ္ဂိုလ်တဦး အဖြစ်ဖြင့်လည်း အသိ အမှတ် ပြုကြရလေသည်။

ရှောသည် စာပေပညာရှင် တဦးဖြစ်သည် သာမက ဟာ သဉာဏ်ရှင်သူလည်း ဖြစ်သည်။ သူ၏ ဟာသရွှင်၍ ပြောင် မြောက်သော စကားလုံးများကို သူ၏ စာပေနှင့် အဆိုအမိန့် များ၌ ဖတ်ရှုကြားနာကြရသည်။ ရှောပြောသမျှ၊ ဆိုသမျှ၊ လုပ်သမျှ၊ ကိုင်သမျှကို ကမ္ဘာက စောင့်ကြည့် အကဲခတ်ခဲ့ ကြရသည်။ ရှောသည် ဖခင်ထံမှ ရှင်သော ဟာသဉာဏ်ကို ၎င်း၊ မိခင်ထံမှ ရင့်သန်သော အနုပညာစိတ်တို့ကို၎င်း အမွေ ခံယူခဲ့လေသည်။

ကလောင်စွမ်း၊ လျှာစွမ်း ထက်လှသော ရှောသည် အိုင်း ရစ်လူမျိုးဖြစ်၍ အိုင်ယာလန်ပြည် ဒဗ္ဗလင်မြို့၌ ၁၈၅၆ ခုနှစ် ဇူလိုင်လ ၂၆ ရက်နေ့တွင် မွေးဖွားခဲ့သည်။ ရှောကို မွေးဖွား စဉ်က စ၍ ရှောတို့ မိသားစု၏ စီးပွားရေး အခြေအနေသည် ယိမ်းယိုင်စပြုလာသဖြင့် ရှော၏ ငယ်စဉ်က ပညာရေးသည် ရေရေရာရာ မရှိခဲ့ချေ။

ကျောင်းတွင် နေစဉ်က ထူးထူးချွန်ချွန် ဖြစ်မည့် အစွမ်း အစကို မပြခဲ့ချေ။ သို့သော် ဂီတ၊ အနုစာပေနှင့် ပန်းချီ ပညာရပ်တို့ကိုမူ စိတ်ပါလက်ပါ လေ့လာခဲ့သည်။ ဖခင်ကြီး သည် မိမိ၏အိမ်ထောင်စုကို ကောင်းစွာလုပ်ကျွေးခြင်း မပြု သဖြင့် မိခင်နှင့် နှမများကို လုပ်ကိုင်ကျွေးမွေးရန် ဟူသော ရည်ရွယ်ချက်ဖြင့် ၁၅ နှစ်သား အရွယ်တွင် ရှောသည် ကျောင်းမှ ထွက်လိုက်သည်။ စာရေး အလုပ်တခုတွင် လေး ငါးနှစ်ခန့် ဝင်ရောက် လုပ်ကိုင်မိလျှင် ဝါသနာ မပါသော



ဂွသမားစာရေးဆရာကြီးဟု ကျော်ကြားလှသော ခေတ်ပြဇာတ်ရေး ဆရာကြီး ဂျော့ ဗားနတ် ရှော

အလုပ် ဖြစ်သဖြင့် ငြီးငွေ့လာသည်။ ထိုကြောင့် အလုပ်မှ ထွက်လိုက်ပြီးလျှင် မိခင်ဖြစ်သူ ရောက်ရှိနေသော လန်ဒန်မြို့ သို့ လိုက်သွားလေသည်။

လန်ဒန်မြို့တွင် ရှောသည် ဂီတဝေဖန်ရေး ဆရာ အဖြစ် ဆောင်ရွက်ရာ အငတ်ငတ် အပြတ်ပြတ် ဖြစ်နေ၍ မိခင်ကြီး က စန္ဒရားတီးသင် ဆရာမအဖြစ် ဆောင်ရွက်ကာ ရှောအား ထောက်ပံ့ခဲ့ရသည်။ မိခင်၏ အထောက်အပံ့ကို ယူနေရစဉ် ၁၈၇၉ ခုနှစ်မှ ၁၈၈၃ ခုနှစ်အထိ နှစ်များအတွင်း ရှောသည် ဝတ္ထု ငါးပုဒ်ရေးသည်။ သို့သော် ပုံနှိပ် ထုတ်ဝေသူများက လက်မခံချေ။ နောင်အခါတွင်မူ ရှော၏ပညာဉာဏ် ရင့်သန် လာသည့် အလျောက် သူ၏ အရေးအသားများသည် ပြောင်မြောက် လာလေသည်။

၁၈၈၂ ခုနှစ်တွင် အမေရိကန် လူမျိုး ဟင်နရီ ဂျော့၏ ဟောပြောချက်များကို ကြားနာရသဖြင့် ရှောသည် ဝါဒ စိတ် ပြင်းထန်သော ဆိုရှယ်လစ်တဦး ဖြစ်လာသည်။ ထိုပြင် ကားလမတ်၏ "အရင်းအနှီး" ကျမ်းကြီးကိုလည်း အလွန် နှစ်ခြိုက် သဘောကျခဲ့သည်။ ထိုကြောင့် ဟိုက်ပတ်ဥယျာဉ် တွင် အလုပ်သမားလူတန်းစားတို့အား အရင်းရှင်ဝါဒ တိုက်

ဖျက်ရေးတရားများကို အပတ်စဉ် ဟောသည်။ သို့သော် အလုပ်သမားလူတန်းစားက ရှောအားပေါကြောင်ကြောင် လူတယောက်ဟု ယူဆသည်မှအပ သူတရား၌ သဘောမကျကြပေ။ ထိုအခါ ပညာတတ် လူတန်းစားကို တရားဟောရန် ရည်ရွယ်ကာ ၁၈၈၄ ခုနှစ်တွင် ဖေဗီယန်အသင်းတည်ထောင်သောအခါ၌ အသင်းဝင်အဖြစ်ဆောင်ရွက်သည်။ထိုအသင်းဝင်အဖြစ်ဖြင့် အရင်းရှင် စံနစ်ကို ပယ်ပယ်နယ်နယ် ရှုံ့ချတရားဟောသည်။ မိမိ၏ငေါ့သံ၊ချိတ်သံ၊ စောင်းသံ၊ထေ့သံများ၊ သာသာနှင့် နာနာနက်သော စကားလုံးများကို ပရိသတ်က လက်ခံလာသောအခါ ရှောသည် အားတက် လာသည်။ ထိုအခါမှစ၍ သူတပါး မခံချည့် မခံသာ ဖြစ်အောင် ကလိသော၊ ဆွပေးသောစကားအသုံးအနှုန်းများကို ဟောပြောရာ၌ရင်း၊စာပေရေးသားရာ၌ရင်းအသုံးပြုခဲ့လေသည်။

ထိုကာလများ အတွင်း ရှောသည် မိမိ ဝါသနာပါရင်း ပညာရပ်များကိုလည်း ဆက်လက် ဆည်းပူးရာ လိုက်စားသမျှ ပညာရပ်များတွင် ခြေခြေမြစ်မြစ် ရှိခဲ့သည်။ ၁၈၈၅ ခုနှစ်၌ "ပေါမော ဂေဇက်" သတင်းစာတွင် သတင်း ဝေဖန်သူအဖြစ် စတင်လုပ်ကိုင်သည်။ မကြာမီ လန်ဒန်မြို့ရှိ ဂီတနှင့် ပြဇာတ် အကဲဖြတ်များထဲတွင် ရှော၏ နာမည်သည် ထင်ပေါ်လာလေသည်။

ပြဇာတ်အကဲဖြတ်အဖြစ် ဆောင်ရွက်လျက် ရှိစဉ် ရုံတင်ကပြကြသော အင်္ဂလိပ် ပြဇာတ်များကို စိတ်တိုင်းမကျစရာ အများအပြား တွေ့ရသည်။ ထို့ကြောင့် ပြဇာတ် အဆင့်အတန်းမြင့်ရန် ရည်ရွယ်ချက်ဖြင့် ပြဇာတ်များကို ရေးသားခဲ့ရာ မကြာမီ သူ၏ မှန်းခြေအတိုင်း ပေါက်၍ သူ့ခေတ်တွင် ထူးခြားအောင်မြင်ဆုံးသော ပြဇာတ်ရေး ဆရာကြီးတဦး ဖြစ်လာသည်။

ရှောသည် သူ၏ ပြဇာတ်များတွင် သူ၏ဝါဒ အာဘော်များကို ထည့်သွင်း အသုံးပြုသည်။ သူ၏ ပြဇာတ်များသည် စင်စစ် ဇာတ်လမ်းအတွက် မဟုတ်ဘဲ သူ၏ အာဘော်များ အတွက် ကျော်ကြားကြလေသည်။ ရှောသည်ပြဇာတ်များကိုသာမက ဝတ္ထုပေါင်း များစွာကိုလည်း ရေးသားခဲ့သည်။ သူ၏ ပြဇာတ်နှင့် အခြား စာအုပ် စာတန်းများ အတွက် အကျိုးခံစားရ၍ ရှောသည် ကြွယ်တောင့်ကြွယ်ဝ နေနိုင်ခဲ့သည်။ သူ၏ ထူးခြားပြောင်မြောက်သော အရေးအသားများကြောင့် ၁၉၂၅ ခုနှစ်တွင် ကမ္ဘာ့စာပေဆုဖြစ်သော နိုဗဲဆုကြီးဖြင့် ချီးမြှင့်ခံရသည်။ ရှောသည် ထိုဆုကို လက်ခံသော်လည်း ဆုငွေဖြစ်သော ဒေါ်လာ ၃၅,၀၀၀(မြန်မာငွေ တသိန်းကျော်) ကိုမူ လက်မခံချေ။

ဗားနတ်ရှောသည် သူ၏ ထူးခြားသော အယူအဆများ၊ ယုံကြည်မှုများကို ပြဇာတ်များမှရင်း၊ စာအုပ်စာတန်းများမှရင်း ဖြန့်ဝေခဲ့သည်။သူ၏အယူအဆများသည် သူများနှင့် မတူ ထူးခြားသကဲ့သို့ သူ၏ဥပဓိရုပ်နှင့် အမူအကျင့်တို့သည်လည်း ထူးခြားသည်။သူသည် အမဲ သားငါး မစား၊ အရက် သေစာနှင့် ဆေးလိပ်ကိုလည်း သောက်သူ မဟုတ်ချေ။ ကျန်းမာရေးနှင့် ညီညွတ်အောင် နေထိုင်ခဲ့သဖြင့် အသက် ၉၀ ကျော်၍ ဇရာ ဖိစီးလာခဲ့သော်လည်း အခြားသူများ၏ အယူအဆနှင့် မတူသဖြင့် ဂွကျသည်ဟုဆိုကြသော ထူးခြားပြောင်မြောက်သည့် စာပေများကိုဆက်လက်ရေးသားနိုင်ခဲ့သည်။ မည်သို့ပင် ကျန်းမာရေးနှင့် ညီညွတ်အောင် နေထိုင်ပါသော်လည်း သခ်ါရ တရားကို ရှောင်ကွင်းမရသည့်အတိုင်း မတော်တဆလဲကျ၍ ဒဏ်ရာရသည်မှ ရောဂါ ဖောက်ပြန်လာကာ ၁၉၅၀ ပြည့်နှစ် နိုဝင်ဘာလ ၂ ရက်နေ့တွင် ကွယ်လွန် သွားလေသည်။

**ရှောလမုန်မင်းကြီး။** ။ဆောလမွန်ဘုရင် — ရှု။

**ရှိုပန်,ဖရက်ဒရစ်** (ခရစ် ၁၈၁၀–၁၈၄၉)။ ။အနောက်တိုင်း ဂီတ လောကတွင် စန္ဒရား တီးလုံး တီးကွက်များ ရေးသားရာ၌ရင်း၊ စန္ဒရား တီးရာ၌ရင်း အတော်ဆုံးသော ဂီတပညာရှင် တဦးကား ဖရက်ဒရစ် ဖရန်ဆွာ ရှိုပန် ဖြစ်သည်။ ရှိုပန်သည် စန္ဒရားတမျိုးတည်းအတွက်ထူးချွန်သည်။ ယင်း၏ တီးလုံးတီးကွက် သံရိုးသံဆန်းတို့သည် နားဆင်ရသူ အပေါင်း၏ စိတ်နှလုံးကို သိမ်းကျုံးဆွဲငင်နိုင်စွမ်းရှိ၍ ယင်း၏ စန္ဒရား လက်သံသည် သူမတူအောင် ငြိမ့်ညောင်း သာယာလှပေသည်။ ရှိုပန်နှင့် ခေတ်ပြိုင်၊ ပညာပြိုင် ဖြစ်ကြသော ဖရန့်လစ္ဇ၊ မင်ဒယ်ဇုန် အစရှိသည့် ဂီတပါရဂူကြီးများကပင် ရှိုပန်၏ ထူးခြားသော ဂီတစွမ်းရည်ကို ချီးကျူးကြရလေသည်။ (မင်ဒယ်ဇုန်,ဂျေးအယ်၊အက်(ဖ)။လစ္ဇ,ဖရန့် –ရှု။)

ဂီတပါရမီရှင် ရှိုပန်သည် အဖ ပြင်သစ်လူမျိုး၊အမိ ပိုလန်သူတို့မှ ဆင်းသက်လာသူ ဖြစ်၍ ပိုလန်ပြည် ဝါဆောမြို့အနီး၌ ၁၈၁၀ ပြည့်နှစ်တွင် မွေးဖွားခဲ့သည်။ ဂီတ ဝါသနာ ဗီဇပါလာသူဖြစ်၍ ငယ်စဉ်က ဗိုဟီးမီးယန်းလူမျိုးဂီတဆရာ ဇီဗီထံ၌ ဂီတပညာသင်ယူစဉ်ကပင် စန္ဒရားအတီး၌ အစွမ်းအစရှိကြောင်းပြလာသည်။ ထို့ကြောင့်ကိုးနှစ်သားမပြည့်မီကပင် ဂီတပဒေသာကပွဲကြီးတခု၌ လူထုပရိသတ်ကြီးရှေ့တွင် စန္ဒရား တီးပြခဲ့ရာ လူထု၏ ချီးကျူးထောမနာ ပြုခြင်းကို ခံယူခဲ့ရသည်။

နောင်အခါ ဖခင်ဖြစ်သူ ပြစ်သစ်ဘာသာ ပါမောက္ခအဖြစ် ဆောင်ရွက်လျက် ရှိသော ဝါဆောမြို့ လိုင်စီယမ်ကျောင်းတော်ကြီးတွင် စာပေပညာ ဆည်းပူးသည်။ သို့သော် တဖက်တွင် ဝါဆောမြို့ရှိ ဂီတအနုပညာသင်ကျောင်း၌လည်း ဂီတပညာကို ဆက်လက် ဆည်းပူးသည်။ ယင်းသို့ ပညာဆည်းပူးစဉ် စန္ဒရား တီးလုံးတီးကွက်များလည်း ရေး



ကမ္ဘာကျော် ဂီတစာဆို ရှိုပန်

စပ်ခဲ့သည်။ ထိုကဲ့သို့ စာပေတဖက်၊ ဂီတတဖက် လေ့လာလိုက်စားခဲ့၍ အားလပ်ချိန် မရှိအောင် ဖြစ်ခဲ့သဖြင့် ရှိုပန်၏ ကျန်းမာရေးသည် ချို့တဲ့လာခဲ့လေသည်။

၁၈၂၉ ခုနှစ်တွင် ရှိုပန်သည် ဗီယင်းနားမြို့သို့သွားရောက်သည်။ ထိုမှတဖန် ဗရက်ဇလိုး၊ ဒရက်ဇဒင်၊ ပရာဟ အစရှိသော ဥရောပမြို့ကြီးများ၌ လှည့်လည်၍ စန္ဒရားတီးပြပြီးနောက် ပါရစ်မြို့သို့ ရောက်လာသည်။ ပါရစ်မြို့သို့ ရောက်သည့်အချိန်တွင် ရှိုပန်သည် ငွေကြေး ပြတ်လတ်နေပြီးလျှင် စိတ်ပျက် အားငယ်နေလေသည်။ သို့သော် ရှိုပန်၏ ဂီတပညာစွမ်းကို သိလာကြ၍ ဝိုင်းဝန်းချီးမြှင့် မြှောက်စားလာကြရာ အထူးသဖြင့် အထက်တန်းစား အသိုင်းအဝန်းတွင် ရှိုပန်သည် အလွန် မျက်နှာပွင့်လန်းခဲ့သည်။ ထိုစဉ်က ပါရစ်မြို့တွင် ရှိနေကြသော ဂီတနှင့်အနုပညာရှင်ကြီးများဖြစ်ကြသည့် ဖရန့် လစ္ဇ၊ ဗေးရလီအိုး၊ မင်ဒယ်ဇုန်၊ ဗောလဇက်၊ ဟိုင်းနရစ် ဟိုင်းန စသည်တို့နှင့်လည်း သိကျွမ်း ရင်းနှီးခွင့်ရခဲ့သည်။

ပါရစ်မြို့တွင် မိတ်ကောင်းဆွေကောင်းများနှင့်တွေ့ဆုံရ၍ ကိုယ်စိတ်ချမ်းသာစွာ နေထိုင်ရသော်လည်း ရှိုပန်၏ ဂီတပညာကို ထိုခေတ် ပြင်သစ် ဂီတလောကက အားပေးသင့်သလောက် အားပေး ချီးမြှင့်ခြင်း မပြုခဲ့ချေ။ ထိုက်သင့်သည့် အတိုင်းသာ ချီးမြှင့်ခဲ့ပါလျှင် ရှိုပန်သည် တီးလုံး တီးကွက်များ ပုံနှိပ်ရောင်းချခြင်းဖြင့်ပင် ကြွယ်ဝချမ်းသာနိုင်ခဲ့ပေမည်။ ထိုသို့အားပေးမှု မရခဲ့သဖြင့် ရှိုပန်သည် ဂီတသင်ဆရာအဖြစ်သာ ဆောင်ရွက်ခဲ့ရလေသည်။

ရှိုပန်သည် အမျိုးသမီး လောက၌ အထူးသဖြင့် ခေတ်စားသူဖြစ်သည်။ ဂီတပါရဂူကြီးလစ္ဇ၏မိတ်ဖွဲ့ပေးမှုကြောင့် ထိုစဉ်က ဂျော့ဆန်းအမည်ခံ စာရေးဆရာမ အကျော်အမော် မဒမ်ဒျူဗန်းနှင့် ရင်းနှီးခဲ့ကြသည်။ ရှိုပန်သည် ကျန်းမာရေး ချို့တဲ့မှုကြောင့် ချောင်းဆိုးသွေးပါ ရောဂါဖြစ်လာသဖြင့် မဒမ်ဒျူဗန်းက ဂရုတစိုက် ပြုစု စောင့်ရှောက်ပေးလေသည်။

၁၈၃၈ ခုနှစ်တွင် ရှိုပန်၏ ကျန်းမာရေးအတွက် မဒမ်ဒျူဗန်းက ရှိုပန်အား မဂျော်ကာကျွန်း (စပိန်) သို့ ခေါ်ဆောင်သွားသည်။သို့သော် ထိုကျွန်းမှ ပြန်လာပြီး နောက်ပိုင်းတွင် သူတို့နှစ်ဦး စိတ်သဘောချင်း မတိုက်ဆိုင်ကြတော့ဘဲ အမုန်းကြီး မုန်းသွားကြသည်။ ယင်းတို့နှစ်ဦး သင့်မြတ်နေခဲ့ကြစဉ်က ရှိုပန်သည် အကောင်းဆုံးသော သံရိုးသံဆန်းတေးကွက်များကို စပ်ဆိုနိုင်ခဲ့သည်။ သူတို့နှစ်ဦး မုန်းကြပြီးနောက်တွင် ရှိုပန်သည် လက်စွမ်းပြ တီးလုံးတီးကွက်များကို မစပ်ဆိုတော့ချေ။ ရောဂါ အခြေအနေလည်း ပို၍ ဆိုးလာသည်။ ၁၈၄၈ ခုနှစ်တွင် ရှိုပန်သည် အင်္ဂလန်ပြည်သို့ သွားရောက်သည်။ သို့သော် ရှိုပန်သည် အလွန် အားအင်ချိနဲ့နေလေပြီ။ သူသည် စကော့တလန်ပြည် အက်ဒင်ဗာရာမြို့သို့လည်း သွားရောက်ခဲ့သေးသည်။ ထိုမြို့သို့ ရောက်ပြီးနောက်တွင် ရောဂါ အခြေအနေ အလွန် ဆိုးရွားလာသဖြင့် ပါရစ်မြို့သို့ပြန်လာရာ ၁၈၄၉ ခုနှစ် အောက်တိုဘာလတွင် ကွယ်လွန်လေသည်။

ရှိုပန်သည် အမိဖက်ကို နွယ်သဖြင့် ဇာတိ ဌာနေ ပိုလန်ပြည်ကို ချစ်မြတ်နိုးသည်။ များသောအားဖြင့် ရှိုပန်၏တီးလုံးတေးသွားတို့၌ ပိုလန်ရိုးရာ တေးသံသီချင်းများကို မှီး၍ထားသည်။ ယင်း၏အလှမ်းအဆေး တီးလုံးတေးသွားများသည် သူ၏ဌာနေ ပိုလန်ပြည်၏ ကံဆိုးပုံကို စောင်းပါး ရိပ်ခြည် ရိုးမယ်ဖွဲ့ထားခြင်းများ ဖြစ်ကြလေသည်။

**ရှိုး လူမျိုး။** ။ချင်းလူမျိုး — ရှု။

**ရှက်ကယ်လတန်, ဆာ အားနက် ဟင်နရီ** (ခရစ် ၁၈၇၄–၁၉၂၂)။ ။ဆာ အားနက် ဟင်နရီ ရှက်ကယ်လတန်သည် ပထဝီဝင်နှင့်သိပ္ပံပညာဆိုင်ရာ သုတေသနလုပ်ငန်းအတွက် တောင်ဝင်ရိုးစွန်းသို့လေးကြိမ်တိုင်တိုင်စွန့်စားသွားရောက်ခဲ့သော ဗြိတိသျှအမျိုးသားတဦးဖြစ်သည်။ပဌမဆုံးအကြိမ်တွင် ကပ္ပတိန် ရောဗတ်စကော့ (စကော့,အာ အက်

(ပ) — ၅။) ၏ အဖွဲ့ဝင်တဦးအဖြစ် လိုက်ပါသွားခဲ့ရာ ကျန်းမာရေး ချွတ်ယွင်း လာသောကြောင့် ခရီးပန်းတိုင် မရောက်မီ ပြန်လာခဲ့ရသည်။ ထိုကြောင့် စကော့တို့လူစု တောင်ဝင်ရိုးစွန်း၌ ယူနီယံဂျက်အလံကို တလွှားလွှား တဝင့်ဝင့် စိုက်ထူနိုင်ချိန် (၁၉၀၄ ခုနှစ်) ၌ ရှက်ကယ်လတန် မပါဝင်နိုင်ခဲ့ချေ။

ခရီး တဝက်တပျက်ဖြင့် ပြန်လာခဲ့ရသော ရှက်ကယ်လတန်သည် စိတ်အားမလျော့ချေ။ ထိုပြင် တောင်ဝင်ရိုးစွန်းဒေသသို့ စကော့တို့နှင့် အတော်အတန် ခရီးပေါက်အောင် ရောက်ခဲ့ဘူးပြီး ဖြစ်သဖြင့် ကြမ်းတမ်းခက်ခဲသော ခရီး အတွေ့အကြုံများကိုလည်း အလေ့အကျင့်ရှိပြီး ဖြစ်နေသည်။ ထိုကြောင့် တောင်ဝင်ရိုးစွန်းဒေသသို့ နောက်ထပ် သုံးကြိမ် သွားရောက်ခဲ့ရာ သူကိုယ်တိုင် ဦးစီးခေါင်းဆောင် ပြုခဲ့၍ ဒုတိယ အကြိမ်သည်ကား အအောင်မြင်ဆုံး အကြိမ် ဖြစ်လေသည်။

ရှက်ကယ်လတန်သည် ၁၉၀၇ ခုနှစ်တွင် တောင်ဝင်ရိုးစွန်းသို့ ဒုတိယအကြိမ် သွားရောက်ခဲ့သည်။ ထိုစဉ်က ရှက်ကယ်လတန်ခေါင်းဆောင်သောအဖွဲ့သည် ၁၉၀၉ ခုနှစ် ဇန္နဝါရီလ ၉ ရက်နေ့တွင် ထိုတောင်ဝင်ရိုးစွန်းနှင့် အနီးကပ်ဆုံးနေရာသို့ ရောက်ခဲ့၍ စကော့တို့၏ စံချိန်ကိုပင် ချိုးနိုင်ခဲ့သည်။ ထိုနေရာသည် တောင်ဝင်ရိုးစွန်းမှ ၉၇ မိုင်ခန့်မျှသာ ကွာဝေးတော့သည်။ထိုပြင် ရှက်ကယ်လတန်သည် တောင်ဝင်ရိုးစွန်းဒေသရှိ ပင်လယ်ရေပြင်မှ ပေ ၁၁,၆၀၀ ကျော်မြင့်သော အဲရီဗတ်တောင်ကိုလည်း တက်ခဲ့သည်။ တောင် သံလိုက်ဝင်ရိုးစွန်း၏ အတိအကျ တည်နေရာကိုလည်း သတ်မှတ်နိုင်ခဲ့သည်။ ထိုစဉ်က ရှက်ကယ်လတန်၏ စူးစမ်းတွေ့ရှိချက်များသည် ပထဝီဝင်နှင့် သိပ္ပံပညာရပ်များအတွက် အလွန် အဖိုးတန် အသုံးဝင်သော အချက်အလက်များ ဖြစ်လေသည်။

ထိုကြောင့် ဗြိတိသျှ အစိုးရသည် ရှက်ကယ်လတန်တို့အဖွဲ့၏ ခရီးစရိတ်အတွက် ပေါင်ပေါင်း ၂၀,၀၀၀ ကိုထည့်ဝင်လှူဒါန်း၍ ရှက်ကယ်လတန်အားလည်း ဆာဘွဲ့ဖြင့် ချီးမြှင့်လေသည်။

၁၉၁၄ ခုနှစ်တွင် ရှက်ကယ်လတန် ခေါင်းဆောင်သော အဖွဲ့သည် တောင်ဝင်ရိုးစွန်းကိုဖြတ်ကျော်ရန် ခရီးထွက်လာကြပြန်သည်။ ထိုတတိယအကြိမ်တွင်မူ ရှက်ကယ်လတန်၏ မှန်းခြေ မပေါက်တော့ချေ။ အဖွဲ့ဝင်များ စီးလာသော သင်္ဘောသည် ရေခဲစိုင်မျောများ ကြားထဲတွင် ပိတ်ညပ်မိနေသဖြင့် ရှက်ကယ်လတန်သည် မိမိ၏ အဖွဲ့ဝင်များ အား



၁၉၁၄ ခုနှစ်တွင် အင်ဒျူးရဲ့ဝါးရင့် အမည်ရှိ သင်္ဘောဖြင့် အန္တာတိတ်သို့ ဒုတိယအကြိမ် စွန့်စားရှာဖွေရန် ရှက်ကယ်လတန် ခရီးထွက်ခွာစဉ်



ဗြိတိသျှလူစွန့်စား ဆာ အားနက် ဟင်နရီ ရှက်ကယ်လတန်

လုံးကို မိုင်ပေါင်း ၁၈၀ ကျော်ဝေးသည့် ဘေးကင်းရာနေရာတခုသို့ အရောက် ပို့ဆောင် ပေးရသည်။ ထိုနောက် အဖွဲ့ဝင် တစုနှင့်အတူ အကူအညီ ရနိုင်မည့်နေရာသို့ ရောက်အောင် ရေခဲပြင်များကို ဖြတ်ကာ မိုင်ပေါင်း ၈၀၀ ကျော် အသက်ဆံဖျား ခက်ခဲပင်ပန်းစွာ လာခဲ့ရသည်။ အကူအညီရသောအခါမှ ဘေးကင်းရာ၌ ထားရစ်ခဲ့သော ကျန်အဖွဲ့ဝင်များကို သွားရောက်ကယ်ဆယ်ရသည်။ ရှက်ကယ်လတန်တို့၏ သင်္ဘောသည် ရေခဲတောင် ရေခဲစိုင်များကြားထဲ၌ ပိတ်ညပ်နေသဖြင့် ဒုက္ခတွေ့နေရသောအချိန်မှာ နေ့ရက်အားဖြင့် ၄၅၇ ရက် ရှည်ကြာသည်ဟု သိရှိရလေသည်။

ယင်းကဲ့သို့ ဒုက္ခမျိုးကို ကြုံတွေ့ရလင့်ကစား ရှက်ကယ်လတန်သည် စိတ်မပျက်ပေ။ ၁၉၂၁ ခုနှစ်တွင် စတုတ္ထ အကြိမ်တောင်ဝင်ရိုးစွန်းသို့ ခရီးထွက်ပြန်သည်။ ထိုအကြိမ်တွင်မူ လမ်းခရီး သင်္ဘောပေါ်တွင်ပင် တုတ်ကွေးဖျား မိရာမှ အဆုတ်ရောင်ရောဂါပါ ဖိစီးလာသဖြင့် ရည်ရွယ်ရင်း ခရီးပန်းတိုင်သို့ မရောက်မီ အသက်စွန့်သွားရလေသည်။

တော်ရုံ ဇွဲသတ္တိဖြင့် မစွန့်စားဝံ့သော စွန့်စားမှုမျိုးကို ပြုခဲ့သည့် ရှက်ကယ်လတန်သည် အိုင်ယာလန်ပြည်၊ ကီးလကီးမြို့၌ ၁၈၇၄ ခုနှစ် ဖေဖွာရီလ ၁၅ ရက်နေ့တွင် မွေးဖွားခဲ့သည်။ ဒါးလစ် ကောလိပ်ကျောင်း၌ ပညာဆည်းပူးခဲ့၍ ကောလိပ်မှထွက်လျှင် ကုန်သင်္ဘောများ၌ စတင် အမှုထမ်းသည်။ နောင်အခါ ရေတပ်မတော်၌ အရာရှိကလေးတဦး အဖြစ် အမှုထမ်းရွက် နေရာမှ တောင်ဝင်ရိုးစွန်း ခရီးသွားအဖွဲ့သို့ ဝင်ရောက်ခဲ့ခြင်း ဖြစ်လေသည်။ ရှက်ကယ်လတန်သည် ၁၉၂၂ ခုနှစ် ဇန္နဝါရီလ ၅ ရက် နေ့တွင် သင်္ဘောပေါ်၌ အနိဋ္ဌရောက်ရာ ဆောက်ဂျော့ဂျီးယားကျွန်းပေါ်တွင် မြှုပ်နှံ သင်္ဂြိုဟ်လိုက်ကြလေသည်။

ရှက်ကယ်လတန်သည် တောင်ဝင်ရိုးစွန်း ခရီးသွား မှတ်တမ်းများ ရေးသားထားခဲ့သည်။

**ရှက်ဖီးမြို့။** ။မား၊ ကတ်ကျေးစသောသံမဏိထည်ပစ္စည်းများနှင့် စပ်လျဉ်းလာလျှင် ရှက်ဖီးဟူသော အမည်ကို အလွန် ကြားဘူးနားဝ ရှိနေကြ၍ ထိုမြို့ထွက် မား၊ ကတ်ကျေးတို့သာလျှင် အကောင်းဆုံးဟု ယူဆလျက် ရှိကြသည်။ ရှက်ဖီး အမည်ရှိသော ထိုမြို့သည် အင်္ဂလန်ပြည် ယော့ရှိုင်ယာနယ်ရှိ မြို့ကြီးတမြို့ ဖြစ်သည်။ လန်ဒန်မြို့၏ အနောက်မြောက်ဖက် မိုင် ၁၆၀ ခန့် ကွာဝေး၍ စိမ်းစိုသာယာသော သစ်တောကြီးများ ဖုံးလွှမ်းနေသည့် တောင်ခြေရင်း၌ မြို့ကို တည်ထားသည်။ ဒါဗီရှိုင်ယာနယ်စပ်နှင့် နီးကပ်၍ ဟမ်းဗားမြစ်၏ မြစ်လက်တက်ဖြစ်သော ဒွန်မြစ်နှင့် ရှိမြစ်တို့ပေါင်းဆုံရာ အရပ်၌ တည်ရှိပြီးလျှင် ထိုမြစ်နှစ်မြစ်ကို စီး၍မြင်နေရသည်။ ၁၉၁၁ ခုနှစ်မှ စ၍ အင်္ဂလန်ပြည်၏ ပဥ္စမ အကြီးဆုံးနှင့် ယော့ရှိုင်ယာနယ်၏ ပဌမ အကြီးဆုံးမြို့ကြီး ဖြစ်လာသည်။ မြို့၏အကျယ်အဝန်းသည် ၃၉,၅၈၆ ဧက ဖြစ်၍ လူဦးရေမှာ ၄၈၈,၉၅၀ (၁၉၆၅) ခန့်ဟု ခန့်မှန်းရလေသည်။

မြို့၏ပတ်ဝန်းကျင်မှ သံ၊ ကျောက်မီးသွေး၊ ထုံးကျောက်၊ သဲကျောက် စသည်တို့ ထွက်ရှိခြင်း၊ မီးသွေးဖုတ်နိုင်သော သစ်တောများရှိခြင်း၊ ရေအားရနိုင်ခြင်းတို့ကြောင့် ရှက်ဖီးသည် စက်မှု လက်မှု ထွန်းကားသော မြို့တမြို့ဖြစ်လာနိုင်ခဲ့ပေသည်။ ယော့ရှိုင်ယာနှင့် ဒါဗီရှိုင်ယာ နယ် နှစ်နယ်၏ ကျောက်မီးသွေးတွင်းများနှင့် နီးနီးစပ်စပ် တည်ရှိနေခြင်းသည်လည်း ရှက်ဖီးမြို့၌ စက်မှုထွန်းကားရေးအတွက် အရေးပါခဲ့ပေသည်။ ၁၂ ရာစုနှစ်ကပင် ရှက်ဖီးမြို့ ဖြစ်လာမည့် ဒေသတွင် သံများကို တူးဖော်၍ သံထည် ပစ္စည်းကြိမ်များ လုပ်ကိုင်ခဲ့ကြသည်။ ထိုစဉ်က အနီးအနားရှိ သစ်တောကြီးများမှ ထင်းများခုတ်၍ မီးသွေးဖုတ်ကာ သံရည် ကျိုခဲ့ကြရသည်။ နောင်အခါတွင်မှ ကျောက်မီးသွေးကို အသုံးပြုလာကြသည်။ ၁၄ ရာစုနှစ်တွင် မားများကို ပြုလုပ်နိုင်လာကြ၍ ၁၅ ရာစုနှစ်တွင် ရေအားကို အသုံးပြုနိုင်လာကြသဖြင့် မား၊ ကတ်ကျေးစသည့် လုပ်ငန်းသည် အိမ်တွင်းမှုလုပ်ငန်း တရပ်အနေဖြင့် လျင်မြန်စွာတိုးတက်လာလေသည်။ နောင်အခါ စက်မှုအရေးပုံကြီး ပေါ်ပေါက်၍ စက်မှု လုပ်ငန်း၌ ရေနွေးငွေ့အားကို အခြားမြို့ရွာများတွင်အသုံးပြုလာကြသည်တိုင်အောင် ရှက်ဖီးမြို့၌ ရေအား အသုံးပြုခြင်းကို လက်မလွှတ်သေးပေ။ မား၊ ကတ်ကျေး စသော ဖြတ်တောက် ခွဲစိတ်မှု

နှင့် စပ်လျဉ်းသည့် သံထည်ပစ္စည်းများ လုပ်ငန်းသည်လည်း အိမ်တွင်းမှုလုပ်ငန်း အခြေအနေမှ တစတစ တိုးတက်၍ ကုမ္ပဏီများ ဖွဲ့စည်းလုပ်ကိုင်လာကြလေသည်။

၁၇၄၂ ခုနှစ်တွင် ဗင်ဂျမန် ဟန့်စမန်းအမည်ရှိ ရှက်ဖီးမြို့သား တဦးသည် မီးပြင်းအတိုက်ခံနိုင်သော သံမဏိ ပြုလုပ်နည်းကို စမ်းသပ် တွေ့ရှိလာသည်။ ထိုအခါ ဓား၊ ကတ်ကျေး စသည့် သံထည်ပစ္စည်းများကို သံမဏိဖြင့် ပြုလုပ် လာကြရာ ပို၍ ကောင်းမွန်လာသည်။ ထို့ကြောင့် ရှက်ဖီးမြို့တွင် သံမဏိ အလုပ်ရုံကြီးများ ပေါ်ပေါက် လာသည်။ သံမဏိ လုပ်နည်း ကိုင်နည်းများကိုလည်း တိုးတက် တီထွင် လုပ်ကိုင်ကြသည်။ ကြေးနီ ပစ္စည်းများကို ဓာတ်ရည် စိမ်၍ ငွေထည်ကဲ့သို့ ပြုလုပ်နည်းကိုလည်း တီထွင် လုပ်ကိုင်ခဲ့ကြရာ ထိုလုပ်ငန်းသည် ရှက်ဖီးမြို့၏ အရေးပါသော လုပ်ငန်းတရပ် ဖြစ်ပေသည်။ ရှက်ဖီးမြို့မှ ထွက်သော ငွေရည်စိမ် လက်ဖက်ရည်အိုး၊ ဇယောင်းတိုင်ခုံ စသည်တို့ကို ကမ္ဘာအနှံ့အပြား၌ အမြတ်တနိုး သုံးစွဲကြလေသည်။

ရှက်ဖီးမြို့ ဖြစ်လာမည့်ဒေသတွင် စတင် အခြေတည်ခဲ့သူမှာ နော်မန်မှူးမတ်တဦး ဖြစ်သည်။ ထိုမှူးမတ်သည် ထိုဒေသတွင် ၁၂ ရာစုနှစ်ခန့်က ရဲတိုက်ကြီး တခုကို စတင် တည်ဆောက်၍ လူနေအိမ်ခြေကို စတင်ခဲ့သည်။ နောင်အခါ တစတစ လူနေအိမ်ခြေများပြား၍ မြို့ဖြစ်လာသည်။ သံထည်ပစ္စည်း လုပ်ငန်း တွင်ကျယ်လာသောအခါ ရှက်ဖီးမြို့သည် ဖွံ့ဖြိုးတိုးတက်လာသည်။ သို့တိုင်အောင် လူနေအိမ်ခြေ ကြပ်တည်း များပြားပြီးလျှင် ကျဉ်းမြောင်း ညစ်ပတ်သော မြို့တမြို့ အဖြစ် နှစ်ပေါင်းများစွာ ရှိနေခဲ့သေးသည်။ သံမဏိ လုပ်ငန်း တိုးတက်လာပြီးသည့် နောက်တွင် ၁၉၀၀ ပြည့်နှစ် နောက်ပိုင်းမှ စ၍ ရှက်ဖီးမြို့၏ နယ်နိမိတ်ကို တိုးချဲ့လာရသည်။ မြို့၏ အခြေအနေကိုလည်း တိုးတက် ကောင်းမွန်အောင် ပြုပြင်ကြလေသည်။ မီးရထားလမ်း အဆက်အသွယ်များလည်း အများအပြား ရှိ၍ ရေလမ်းအားဖြင့် ဟမ်းဗားမြစ်အထိ ပေါက်ရောက်နိုင်လေသည်။

ရှက်ဖီးမြို့တွင် ရှေးဟောင်း အဆောက်အအုံကြီးများရှိခဲ့သည်။ သို့သော် ဒုတိယ ကမ္ဘာစစ်အတွင်းက စိန့်ပီတာနှင့် စိန့်ပေါ် ကက်သီဒရယ် ဘုရားရှိခိုးကျောင်းကြီးများသည် ဂျာမန်တို့၏ဗုံးဒဏ်ကြောင့် ပျက်စီးခဲ့ရသည်။ ရှက်ဖီး တက္ကသိုလ်ကြီးကို ၁၉၀၈ ခုနှစ်မှ စတင် တည်ထောင် ခဲ့သည်။ ယင်းတို့အပြင် စက်မှုလက်မှု ကျောင်းများ၊ အခမဲ့ ပိဋကတ်တိုက်များ၊ဥယျာဉ်ကြီးများလည်း ရှက်ဖီးမြို့တွင်ရှိလေသည်။

**ရှောက်ပင်မျိုး။** ။လိမ်မော်၊ ကမွလာ၊ သံပရာ၊ သံပရို၊ ရှောက်ချို၊ ရှောက်ပန်း၊ ကျဲကောပင်တို့ ပါဝင်သော အပင်မျိုးစုကို ရှောက်ပင်မျိုးဟု ခေါ်၍ ရူတာစီအီးမျိုးရင်းဝင်



ဆေးဖက်ဝင်သည့် ရှောက်သီး

များ ဖြစ်ကြသည်။ ထိုမျိုးစုတွင် အထက်ဖော်ပြပါ ရှောက်ပင်နှင့်ဆင်တူသော အပင်များသာမက အခြားမျိုးစိတ်များလည်း ရှိသေးရာ စုစုပေါင်း မျိုးစိတ် ၃၀ ခန့် ပါဝင်သည်။ ရှောက်ပင်မျိုးတို့သည် အပူပိုင်းနှင့် အပူလျော့ပိုင်း ဒေသများ၌ စိုက်ပျိုး ဖြစ်ထွန်း၍ ဆီးနှင်းနှင့် အလွန် အေးမြသော ဆောင်းရာသီဒဏ်ကို မခံနိုင်ကြချေ။ ယင်းတို့ မူလ ပေါက်ရောက်ရာ ဒေသသည် အိန္ဒိယနှင့် အရှေ့တောင် အာရှ နိုင်ငံများ ဖြစ်ကြသည်။ ယင်းတို့အား ဘီစီ (ခရစ်တော် မပေါ်မီ) ၁၀၀၀ ခန့်က တရုပ်လူမျိုးတို့က စတင် စိုက်ပျိုးခဲ့ကြသည်ဟုလည်း ဆိုကြသည်။

ရှောက်ပင်မျိုးတို့သည် မူလ ပေါက်ရောက်ရာ ဒေသများမှ ဥရောပတိုက်သို့ ခရစ်တော်ပေါ် စ ကာလခန့်တွင် ပျံ့နှံ့လာခဲ့သည်။ ပယ်လက်စတိုင်နိုင်ငံတွင် အေဒီ တစ်ရာစုနှစ်ခန့်ကပင် ရှောက်ပင်မျိုးတို့ကိုတွေ့ကြရသည်။လေးရာစုနှစ် အလယ်ခန့်တွင် ဂရိနှင့်ဣတလီ နိုင်ငံတို့သို့ ပျံ့နှံ့သွားပြီးလျှင် တစတစဖြင့် အခြား ဥရောပနိုင်ငံများသို့လည်း ရောက်ရှိ သွားသည်။ ငှက်ပျောပင်နှင့် အခြား သစ်သီး သစ်ဖု၊ ဟင်းသီး ဟင်းရွက်များနည်းတူ ရှောက်ပင် မျိုးတို့သည်လည်း စပိန်လူမျိုး ရေသစ် မြေသစ်ရှာသူများ၊ ကိုလိုနီ စတင်ထူထောင်သူများနှင့်အတူ အမေရိကတိုက်သို့ ရောက်လာခဲ့ကြသည်။ အမေရိကတိုက်၌ ပူနွေးသော ရာသီဥတု ရှိကြသည့် ဖလော်ရီဒါ၊ တက်ဆက်၊ ကာလီဖိုးနီးယားပြည်နယ် စသည်တို့တွင် စိုက်ပျိုး ဖြစ်ထွန်းသည်။ အာဟာရတန်ဖိုး အလွန်များသော အသီးများ ဖြစ်ကြသဖြင့် လွန်ခဲ့သော နှစ်ပေါင်း လေးဆယ်ခန့်က စတင်၍ ရှောက်မျိုးဝင်အသီးများကို စားသုံးမှု အလွန်များ

ပြား လာခဲ့ရာ ယခုအခါ အမေရိကန် ပြည်ထောင်စုတွင် အခြား သစ်သီးပင်များထက် ရှောက်ပင်မျိုးတို့ကို အကြီး အကျယ် ပိုမိုစိုက်ပျိုးလုပ်ကိုင်လျက် ရှိလေသည်။

ရှောက်မျိုးဝင် အပင်များတွင် သစ်ပင်ငယ်များလည်း ပါဝင်၍ ခြုံပင်များလည်း ရှိသည်။ အချို့ အပင်မျိုးတို့သည် အရွက်အခက်များ ထူထပ် သိပ်သည်း၍ အပင် အနေအထား ရှုချင်စဖွယ် ဖြစ်သည်။ အချို့ အပင်မျိုးကား အကိုင်း အ ခက်များ ကစဉ့်ကလျား ရှိတတ်သည်။ အရွက်တို့သည် အမြဲတမ်း စိမ်းလန်းကြ၍ အလျားရှည်ပြီးလျှင် အဖျားချွန် သည်။ တောက်ပသော အစိမ်းရောင်ရှိသည်။ ရှောက်သခွားပင်၊ သံပရာပင် စသော အချို့ရှောက်ပင်မျိုး၏ အရွက်တို့ သည် အနံ့မွှေးသည်။ လှပသော အပွင့်ကလေးများသည် အဖြူရောင် ဖြစ်၍ အခိုင်လိုက်ပွင့်ကြပြီးလျှင် သင်းပျံ့သော ယနံ့ ရှိကြသည်။ မှည့်သော အသီးများသည် အဝါရောင် မှ လိမ်မော်ရင့်ရောင်အထိ အရောင်အမျိုးမျိုးဖြစ်ကြသည်။ အသီးခွံသည် ခပ်ပွပွ အပေါက်ငယ်များ ရှိပြီးလျှင် အချို့ အခွံကပ်သည်။ အချို့သည် အခွံခွာ၍ လွယ်ကူသည်။ အ တွင်းသားသည် များသောအားဖြင့် ချဉ်သောအရသာရှိ၍ ပျော့ဖတ်ဖတ် ဖြစ်ပြီးလျှင် အသားထဲ၌ အစေ့များ မြုပ်နေ သည်။ ရုက္ခဗေဒ သဘောအားဖြင့် ကြည့်လျှင် ရှောက်မျိုး ဝင် အသီးတို့သည် ဗဲရီသီးများဟု ဆိုနိုင်သည်။ ရှောက် သခွားသည် ရှောက်မျိုးဝင် အသီးများအနက် အကြီးဆုံး ဖြစ်၍ သံပရာသီးသည် အချဉ်ဆုံး ဖြစ်လေသည်။

ရှောက်မျိုးဝင် အသီးတို့သည် အာဟာရဓာတ် များပြား သော အစာမျိုးဖြစ်၍ ဗီတာမင်များနှင့် ဓာတ်ဆား ကြွယ်ဝ ကြသည်။ အထူးသဖြင့် ဗီတာမင်စီ အများဆုံး ပါဝင်လေ သည်။ ထိုကြောင့်ပင် ရှောက်မျိုးဝင် အသီးများကို အပူပိုင်း နှင့် အပူလျော့ပိုင်း ဒေသထွက် အသီးအနှံများ အနက် အရေးပါဆုံးအဖြစ် ထားရှိကြလေသည်။

ယင်းသို့ဖြင့် ရှောက်မျိုးဝင် အပင်များကို အကြီးအကျယ် စိုက်ပျိုး လုပ်ကိုင်ခဲ့ကြရာ ကမ္ဘာပေါ်၌ လိမ်မော်သီး အပါ အဝင် ရှောက်မျိုးဝင် အသီးများ အများဆုံး ထွက်ရှိသော နိုင်ငံသည် အမေရိကန် ပြည်ထောင်စု ဖြစ်သည်။ အသီးများ ရင့်ချိန်တွင် ဆွတ်ခူး၍ အသီးလုံး အတိုင်း တင်ပို့ရောင်းချ ခြင်း၊ အရည်ညှစ်၍ စည်သွတ်ရောင်းချခြင်းတို့သည် အလွန် တရာကြီးကျယ်သော လုပ်ငန်းကြီးများ ဖြစ်ကြသည်။

မြန်မာနိုင်ငံသည် ရှောက်ပင်မျိုးတို့ ဖြစ်ထွန်းရာ ဒေသ ဖြစ်သည်။ သို့သော် နိုင်ငံခြားသို့ တင်ပို့ ရလောက်အောင် အကြီးအကျယ် စိုက်ပျိုး လုပ်ကိုင်ခြင်း မရှိချေ။ နိုင်ငံတွင်း သုံးအတွက် လိမ်မော်သီး (လိမ်မော် — ရှု။) ကို ရှမ်းပြည်၌ အကြီးအကျယ် စိုက်ပျိုးလုပ်ကိုင်ကြသည်။ ကျွဲကောခြံများ (ကျွဲကောပင် — ရှု။) ကို မော်လမြိုင်ခရိုင်ဖက်၌ တွေ့ကြရ သည်။ သံပရာ (သံပရာ — ရှု။) ကိုလည်း နိုင်ငံတွင်းသုံး အတွက် အတော်အသင့် စိုက်ပျိုး လုပ်ကိုင်ကြရာ မြစ်ငယ်၊ ရွှေကျင်၊ မုတ္တမနှင့် တောင်ငူခရိုင်အတွင်းမှ အချို့ ဒေသ များတွင် သံပရာခြံများ ရှိလေသည်။ ရှောက်ချိုပင်များကို စစ်ကိုင်း၊ တောင်ငူ၊ ကျိုက္ခမီ၊ စစ်တွေ၊ မှော်ဘီ ခရိုင်များ နှင့် ရှမ်းပြည်၌ အတော်အသင့် စိုက်ပျိုးလုပ်ကိုင်ကြသည်။ ရှောက်သခွား၊ ရှောက်ပုတ် (ရှောက်နု)၊ သံပရို တို့ကိုကား အများအပြား စိုက်ပျိုးလုပ်ကိုင်ကြခြင်း မရှိချေ။

**ရှင်ကလေး၊ ဦး၊ အမှုတော်ရေး** (မြန်မာ ၁၁၈၆ – ၁၂၄၉)။ ။ကုန်းဘောင်ခေတ် ဒုတိယပိုင်းတွင် ပေါ် ပေါက်ခဲ့သော ပညာရှိ စာဆိုတော် ဦးရှင်ကလေးသည် သက္ကရာဇ် ၁၁၈၆ ခုနှစ်တွင် ယခုကျောက်ဆည်ခရိုင်၊ တန် တားဦးမြို့နယ်၊ လက်ဆောင်ယူ ကျေးရွာကြီး၌ ဦးကျားနှင့် ဒေါ်မိန်းကလေးတို့မှ ထွန်းကားသော တဦးတည်းသားဖြစ် သည်။ မိဘများသည် တောင်သူလယ်လုပ်များ ဖြစ်ကြ သော်လည်း အဆွေအမျိုးတို့မှာ များသောအားဖြင့် ဘုရင့် အမှုထမ်း၊ အရာထမ်းများ ဖြစ်ကြသည်။

ခုနစ်နှစ်သား အရွယ်တွင် လက်ဆောင်ယူ အရှေ့ရွာ ကျောင်း ဆရာတော်၏အထံ၌ စတင် ပညာသင်ကြားရ၍ ကိုးနှစ်သားအရွယ်တွင် ရှင်သာမဏေတကာ သဒ္ဒါ သင်္ဂြိုဟ် တို့ကို ဆက်လက်သင်ကြားလေသည်။

သား၏ဉာဏ်စွမ်း ဉာဏ်စကို သိမြင်ရသော မိဘနှစ်ပါး က ဆရာတော်ထံမှ ခွင့်ပန်၍ အမရပူရရှိ ဆွေမျိုးရင်းချာ ဖြစ်သော တောင်လေးလုံး ဆရာတော်ထံ ရှင်သာမဏေ အား အပ်နှံကြသည်။ တောင်လေးလုံး ဆရာတော်သည် ရှင်သာမဏေ၏ ဉာဏ်ထက်မြက်ပုံကို သိသည့်ပြင် သာသ နာ့ဝန်ထမ်း ရဟန်းအဖြစ် အရိုးထုတ်လိုစိတ် မရှိသည်ကို လည်း သိသဖြင့် ရှေးဦးစွာ လောကုတ္တရာရေးရာ စာပေ ကျမ်းဂန်တို့ကို ဆည်းပူးစေပြီးနောက်တွင် လောကီရေးဖြစ် သော ဗေဒင်ပညာ၊ ဓမ္မသတ်ပညာ စသည်တို့ကို ကြပ်မတ် သင်ကြားပေးသည်။

တဆဲ့ရှစ်နှစ်သားအရွယ်တွင် သာသနာ့ဘောင်မှထွက်၍ ဇာတိရပ်ရွာသို့ပြန်ပြီးလျှင် မိဘများနှင့်အတူ နေထိုင်သည်။ နှစ်ဦးနှစ်ဖက် လူကြီးမိဘများ၏ သဘောတူညီချက်အရ လက်ဆောင်ယူရွာ သူကြီး၏နှမ မမယ်နှင့် လက်ဆက်သည်။ မိဘရိုးရာ တောင်သူအလုပ်ကို ဝါသနာ မပါသဖြင့် မောင် ရှင်ကလေးသည် အမရပူရမြို့သို့သွားရောက်၍ ပုဂံမင်းထံအမှု ထမ်းလျက်ရှိသော ဦးကြီးတော်သူ သေးသောက်နှင့်အတူ နေထိုင်ပြီးလျှင် ထီးရေးနန်းရာအသုံးအနှုန်းများကို လေ့လာ မှတ်သားနေခဲ့သည်။ မကြာမီ ဦးကြီး၏ ဆောင်ရွက်ပေး ချက်အရ မြဲတိုက်တော်၌ စာရေးအလုပ်ကို ရရှိလေသည်။

မင်းတုန်းမင်းတရား နန်းတက်တော်မူပြီး နောက်တွင် မင်းတရားကြီးသည် ဦးရှင်ကလေး၏ အရည် အသွေးကို နှစ်သက်တော်မူသဖြင့် စာရေးတော်ကြီးအဖြစ် တိုးမြှင့် ခန့်ပေးသည်။ မင်းတုန်းမင်းတရားသည် ရတနာပုံ နေပြည်တော်သို့ ရွှေပြောင်း စံနေတော်မူ၍ မကြာမီပင် ဦးရှင်ကလေးကို နေမျိုးမင်းထင်ကျော်ခေါင်ဟူသော ဘွဲ့ဖြင့် အမှာတော်ရေး ရာထူးသို့ တိုးမြှင့် မြှောက်စားတော်မူသည်။ သားတော် သီပေါမင်းလက်ထက်တွင်လည်း ခမည်းတော် လက်ထက်ကအတိုင်း ဆက်လက် ချီးမြှင့်လေသည်။

ဦးရှင်ကလေးသည် သီပေါမင်းလက်ထက် သက္ကရာဇ် ၁၂၄၂ ခုနှစ်တွင် နိုင်ငံ၏တာဝန်ကို ထမ်းဆောင်ကြရမည့် လူငယ်လူရွယ်တို့အား ပညာရေး၊ စီးပွားရေး၊ လူမှုရေးတို့၌ သိသင့်သိထိုက်၍ လိုက်နာထိုက်သည်များကို ညွှန်ပြဆုံးမပေသော "လောကနီတိ" ပျို့ကို ပြုစုခဲ့သည်။ စင်စစ် လောကနီတိပျို့သည် ပင်းယပြည့်ရှင်၊ ဆင်ဖြူငါးစီးရှင် ကျော်စွာဘုရင်၏ ပညာရှိ အမတ်ကြီး စတုရင်္ဂဗလ (စတုရင်္ဂဗလ အမတ် — ရှု။)ပြုစုစီရင်ခဲ့သော "လောကနီတိကျမ်း" ကြီးကိုမှီး၍ ပျို့လင်္ကာဖြင့် စီရင်ပြုစုခဲ့ခြင်းဖြစ်သည်။ ရှေးမြန်မာတို့ လိုက်နာကျင့်သုံးအပ်သော လူ့ကျင့်ဝတ်များကို အမတ်ကြီးသည် ရှေးကျမ်းအစောင်စောင်တို့မှ ထုတ်နုတ်၍ ပါဠိဘာသာဖြင့် ရေးသားပြုစုခဲ့သည်။ ယင်းသို့ ပါဠိဘာသာဖြင့် ရှိနေ၍ နောက်ခေတ်များတွင် လူ့ကျင့်ဝတ်များအတွက် အဖိုးတန်သော ကျမ်းကြီးကို လူတိုင်း မလေ့လာနိုင်။ အလွယ်တကူမဆောင်နိုင်အောင် ရှိခဲ့သည်။ထိုအချက်ကို မြော်တွေးမိဟန်တူသော ဦးရှင်ကလေးသည် ထိုကျမ်းကြီးကို အများရှင်လူတို့ အသုံးများလေအောင် နှစ်သက်ဖွယ်ကောင်းသော ပျို့လင်္ကာ ၄၉ ပုဒ်ဖြင့် ပြုပြင်စီရင်ခဲ့လေသည်။

ဦးရှင်ကလေးသည် စတုရင်္ဂဗလ၏ လောကနီတိကျမ်းကို မှီး၍ "လောကနီတိပျို့"ကို ပြုစုကြောင်းကိုလည်း "နေမျိုးမင်းထင်ကျော်ခေါင်၊ ဘွဲ့တန်ဆောင်နှင့်၊ ဂုဏ်ရောင်ဝှန်းစေ၊ လွတ်ကွန်းနေလျက်၊ သပြေဆံကျင်၊ ဥကင်ဖွင့်ကာ၊ ဒူးနေရာက၊ ရွှေဇာဘဲရုံ၊ တင့်စံရွှေဖောင်း၊ ကိုးပွင့်ဆောင်းလျက်၊ ရောင်ဖောင်းချက်ချက်၊ ရွှေကွမ်းခွက်နှင့်၊ ဆောင်ရွက်စုံလင်၊ မင်းပွဲဝင်သည်၊ ဦးရှင်ကလေး၊ မှာတော်ရေးဟု၊ နီးဝေးကျေညာ၊ အကြင်ငါသည်၊ 'ဝိဇယာပုရ'၊ ပြည်ပင်းယ၌၊ နာမတွင်မူ၊ 'စတုရင်္ဂဗလ'၊ တတ်လှကျမ်းဂန်၊ အမတ်မွန်လျှင်၊ မှတ်ရန်ပြည့်လျှမ်း၊ ထိုထိုကျမ်းမှ၊ မှီငြမ်းရရ၊ ထုတ်ဖော်ပြသား၊ 'လောကနီတိ'၊ အမည်ရှိသည့်၊ ပါဠိဘာသာ၊ ဤသည့်စာကို၊ ပညာသုတ၊ ရှာကုန်ကြသည့်၊ များစွာဟူဟူ၊ ရှင်နှင့်လူတို့၊ လွယ်ကူဆောင်ရန်၊ လင်္ကာဖန်၍....."စသဖြင့် ဖော်ပြထားရာ မိမိရရှိသော အဆောင်အရွက်တို့ကိုပါ ထည့်သွင်းပြဆိုထားလေသည်။

'လောကနီတိ'ပျို့မှ ဆုံးမချက်၊ ညွှန်ကြားပြသချက်များသည် ယနေ့တိုင်အောင် ခေတ်မီလျက် ရှိနေသေး၍ ထိုပျို့ကို ကျောင်းသုံးအဖြစ် ပြဋ္ဌာန်း၍ရှင်း၊ ထိုပျို့မှ ကောက်နုတ်ချက်များကို မြန်မာစာပေတို့၌ ဖော်ပြ၍ရှင်း အသုံးပြုလျက်ရှိကြသည်။

အမှာတော်ရေးမင်းသည် သက္ကရာဇ် ၁၂၄၅ ခုနှစ်အတွင်း 'ရာဇဝံသကုံရ' မည်သော ရာဇဝင်ညွှန်ကို ရေးသားပြုစုခဲ့၍ 'သုတမဥ္ဇူဆုံးမစာ' ကို ၁၂၄၆ ခုနှစ်အတွင်း၌ စီရင်ရေးသားခဲ့သည်။ ဦးရှင်ကလေး ရေးသားပြုစုခဲ့သော အခြားစာပေကျမ်းဂန်တို့မှာ အဒ္ဓစန္ဒသတ်ပုံ၊ အဓိရောဂစာ ပုံပြင်တို့ ဖြစ်ကြလေသည်။

တတိယ အင်္ဂလိပ်-မြန်မာစစ်ပွဲအပြီး၊ သီပေါမင်းတရား ပါတော်မူ၍ ထီးသုန်းစည်ပျောက် ဖြစ်ရသော ခေတ်တွင် ဦးရှင်ကလေးသည် မိမိ၏ ဇာတိရပ်ရွာသို့ ပြန်ပြီးလျှင် အေးအေးငြိမ်ငြိမ် နေထိုင်ခဲ့သည်။ ဦးရှင်ကလေးနှင့် ဒေါ်မယ်တို့တွင် မောင်မောင်ခေါ် သားတယောက်နှင့် မမကြီးခေါ် သမီးတယောက်သာ ရှိခဲ့သည်။ သားဖြစ်သူသည် အိမ်ထောင်မပြုဘဲ လှေထောင်အလုပ်ကို လုပ်ကိုင်ရင်း တန်တားဦးမြို့တွင် ကွယ်လွန်သည်။ ထိုအခါ ဦးရှင်ကလေးသည် သားဖြစ်သူ၏ လုပ်ငန်းကို ဆက်လက်လုပ်ကိုင်ရန် တန်တားဦးမြို့ တရုပ်တန်းရပ်ကွက်သို့ ပြောင်းရွှေ့ နေထိုင်ခဲ့ရာ ၁၂၆၉ ခုနှစ်တွင် တန်တားဦးမြို့၌ပင် ကွယ်လွန်ခဲ့လေသည်။

# မြန်မာနိုင်ငံ၏ တပါးတည်းသော ပြည်ကြီးရှင် ဘုရင်မ

**ခမည်းတော်၊ မောင်တော်၊ သားတော်၊ တူတော်နှင့် သမက်တော်တို့သည် မင်းချည်းနှင်နှင် ဖြစ်ကြ၍ ကိုယ်တိုင်လည်း ဘုရင်မ မဖြစ်မီက ဘုရင်လေးပါး၏ မိဖုရားအဆက်ဆက် တင်မြှောက်ခြင်း ခံခဲ့ရသည့် ဘုရင်မကြီး ဖြစ်သည်။**

**ရှင်စောပု**(မြန်မာ ၇၅၅–၈၃၄)။ ။ပြည်ထောင်စု မြန်မာနိုင်ငံ သမိုင်းတလျှောက်တွင် ရှင်စောပုဟူ၍ မွန်ဘုရင်မ တပါး ထူးခြားစွာ ပေါ်ထွန်းခဲ့ပေသည်။

မွန်ကျောက်စာများတွင် ဖြိတြိဘုဝနာဒိတျ ပြဝရ ဓမ္မဇေတြလောကျနာထပြဝရး မဟာဓမ္မရာဇာဓိရာဇာ ဒေဝီဘွဲ့ခံ ဝိဟာရဒေဝီဟူ၍ရှင်း၊ ဗညာထာဝ်ဟူ၍ရှင်း ပါရှိသည်။

မွန်ရာဇဝင်တွင် ဝိဟာရဒေဝီ၊ ဝိသုဒ္ဓရာဇာ၊ ဣတ္ထိရာဇာ၊ ဗညာထဝ်(မင်းအို)နှင့် သေဝ်စပေါဒ် (ရှင်စောပု) ဟူ၍ နာမည် အမျိုးမျိုးဖြင့် ဖော်ပြ ပါရှိလေသည်။

ရှင်စောပုသည် မွန်ရာဇဝင်တွင် အလွန်ထင်ရှားသည့် ရာ

ဇာဓိရာဇ် ဘုရင်နှင့် မိဖုရား သုဒ္ဓမာယာတို့မှ ဖွားမြင်သော သမီးတော် ဖြစ်သည်။ ရှင်စောပု၏ မွေးနေ့ သက္ကရာဇ်သည် ၇၅၅ ခုနှစ် တပေါင်း လဆန်း ၁၂ ရက် ဗုဒ္ဓဟူးနေ့ ဖြစ်လေသည်။ နေ့နံအရ ဝိဇာဒေဝီဟု စတင်ခေါ်တွင်ခဲ့ဟန် တူလေသည်။ ယင်းနှင့် အတူ တမိတွင် ဖွားမြင်သူကား မောင်တော် ဗညားရံ(ဗညာရံ) ဖြစ်လေသည်။

သက္ကရာဇ် ၇၇၅ ခုနှစ်တွင် ခမည်းတော် ရာဇာဓိရာဇ်ရှိစဉ် ကပင် အသက် ၂၀ အရွယ် ရှိပြီဖြစ်သော ရှင်စောပုအား တူတော် သမိန်စည်သူနှင့် စုံဖက်စေခဲ့၏။ ရှင်စောပုတွင် သမီး နှစ်ယောက်နှင့် သားတယောက်ထွန်းကား ခဲ့လေသည်။ သမီးနှစ်ယောက်ကို မိပကာထော် (မိပ္ပကထ်) နှင့် မိပကာသင်(မိပ္ပကသင်)၊သားကို ဗညားဗရူး(ဗညာဗရော့်) ဟူ၍ အမည်ပေးလေ၏။

သက္ကရာဇ် ၇၈၀ ပြည့်နှစ်တွင် သားတော် ဗညားဗရူးကို ဖွားမြင်ပြီးနောက် မြောက်သားတော် သမိန်စည်သူ ကံကုန်လေသည်။ ထိုနောက်တွင် ရှင်စောပုသည် မောင်တော် ဗညားကျန်းနှင့် အတူ ဒဂုန်တွင် စံနေရသည်။ သက္ကရာဇ် ၇၈၃ ခုနှစ်တွင် ခမည်းတော် ရာဇာဓိရာဇ် နတ်ရွာစံ၍ သားတော်ကြီး ဗညားဓမ္မရာဇာ နန်းတက်လေသည်။ ထိုမင်း၏ လက်ထက်တွင် ရှင်စောပု အင်းဝသို့ ပါတော်မူ၍ ဆင်ဖြူရှင် သီဟသူမှအစ မိုးညှင်းမင်းတရားအထိ မြန်မာမင်း လေးဆက်တို့၏မိဖုရားအဖြစ် အင်းဝတွင် ခုနစ်နှစ်ကြာမျှ စံနေခဲ့ရလေသည်။

အင်းဝသို့ ရှင်စောပု ပါတော်မူပုံကို မွန်ရာဇဝင်များတွင် တမျိုးဖြစ်ပြီးလျှင် မြန်မာရာဇဝင်များ၌ တဖုံဟူ၍ နှစ်မျိုး နှစ်ဖုံ ဖော်ပြထားလေသည်။ မြန်မာရာဇဝင်များ ဖြစ်သော ဦးကုလား၊ မှန်နန်း နှင့် သုသောဓိတ မဟာရာဇဝင်ကြီးများအရ သိရသည်မှာ ဟံသာဝတီတွင် ဗညားဓမ္မရာဇာ နန်းတက်လျှင် ညီတော်သံလျှင်စား ဗညားရံ (ဗညာရံ) နှင့် ညီတော်အထွေး ဒဂုန်စား ဗညားကျန်းတို့ ပုန်ကန်ကြလေ၏။ ဟံသာဝတီတွင် အချင်းချင်း မညီမညွတ် ဖြစ်နေကြောင်းကို အင်းဝဘုရင် ဆင်ဖြူရှင် သီဟသူ ကြားရလျှင် အခွင့်ကောင်းအခါကောင်းကို ယူပြီးသော် ဟံသာဝတီသို့ စုန်ဆင်း၍ တိုက်ခိုက်လေ၏။ မြန်မာတို့ကတိုက်လာလျှင် ညီနောင်တို့ ပြန်၍ညီညွတ်ကြသည်။ ဗညား ဓမ္မရာဇာသည် ဗညားရံကို ဒဂုန်စားအဖြစ် ပြောင်းပေး၍ ဗညားကျန်းကို မုတ္တမစားအဖြစ် စေလွှတ်သည်။ မြန်မာတပ်တို့သည် ပုသိမ်နှင့် ဒလတို့ကို အောင်မြင်ပြီးနောက် ဒဂုန်ကို ဆက်လက်တိုက်ခိုက်သော်လည်း ချက်ချင်း မဝင်နိုင်သဖြင့် ကြည်းကြောင်း၊ ရေကြောင်းဖြင့် ဝိုင်းရံထား၏။ ယင်းသို့ ဝိုင်းရံထားရာ၌ တလခန့် ကြာလတ်သော် ဒဂုန်စား ဗညားရံ မခံနိုင်တော့သဖြင့် စစ်ပြေငြိမ်းရန် ကမ်းလှမ်းပြီးလျှင် နှမတော် ရှင်စောပုကို ဆက်သလိုက်လေသည်။ ဗညားရံသည် ပြာသာဒ်သုံးဆောင် ဆောက်ပြီးလျှင် နှမတော်ကို သိရိတြိဘဝနာဒိတျာပဝရ အတုလ အဂ္ဂမဟာဓမ္မ ရာဇာဓိရာဇ မဟာဒေဝီဟူသော အမည်၊ မိဖုရားကြီးတို့၏ အဆောင်အယောင်နှင့်တကွ ကိုယ်လုပ်အမျိုးသမီး သုံးကျိပ် အထိန်းအချီ ခန်ရန်း၍ ရွှေဝေါနှင့် မှန်မြန်မာအမတ် ဝိုင်းရံပြီးလျှင် သီဟသူထံသို့ ပို့လေသည်။ သီဟသူလည်း မိမိဖောင်တော်ထက်မှ လက်လှမ်းဆီးကြိုကာ အင်းဝသို့ဆောင်သွားသည်။ ရှင်စောပုသည် အပြင်အလျှာ အရောင် အဆင်း ကောင်းမြတ်လှသောကြောင့် သီဟသူမင်းကြီး အလွန် လေးမြတ်တော်မူလေသည်။

သို့ရာတွင် မွန်ရာဇဝင် ပေမူ၊ ပတ်လတ်ပုံနှိပ်မူနှင့် ပီဇျူရှမစ်တို့ ပြန်ဆိုသည့် ဟံသာဝတီမင်းဆက် ရာဇဝင်မူများအရ သိရပြန်သည်မှာ ရှင်စောပုသည် ဆံတော်ရှင် ဒဂုန်ဘုရားသို့ မကြာခဏ ကြွရောက်ဖူးမျှော်လေ့ ရှိလေသည်။ ထိုသို့ အစောင့် အရှောက် နည်းပါးစွာဖြင့် ရှင်စောပုသည် ဟံသာဝတီနှင့် ဒဂုန်သို့ ဘုရားဖူးရန် သွားလာနေကြောင်းကို အင်းဝဘုရင် ကြားသိရလျှင် မိမိအား ပမာမခန့်၍သာ ထိုသို့ အစောင့်အရှောက် နည်းပါးစွာဖြင့် သွားလာနေခြင်း ဖြစ်သည်ဟု ယူဆပြီး ရှင်စောပုအား ဖမ်းယူရန် မင်းနန္ဒသူအား စစ်တပ်အင်အား လုံလောက်စွာဖြင့် ဒဂုန်အနီး တောစခန်းတနေရာသို့ စေလွှတ်လိုက်လေသည်။ ရှင်စောပုလည်း ဟံသာဝတီမှ ဒဂုန်သို့ ဆံတော်ရှင်ဘုရား ဖူးမျှော်ရန် ဥပုသ်နေ့တနေ့တွင် ယခင်နည်းအတိုင်း ဆင်စီး၍ အစောင့်အရှောက် နည်းပါးစွာဖြင့် ထွက်ခွာလာရာ ဒဂုန်အနီး တောစခန်းသို့ ဆိုက်ရောက်လာသောအခါ အဆင်သင့် စောင့်နေသည့် မင်းနန္ဒသူသည် စစ်တပ်ဖြင့် ဝိုင်းရံပြီးလျှင် ရှင်စောပုအား ဆင်ထက်မှ မဆင်းစေဘဲ အသာတကြည် အင်းဝသို့ ခေါ်ဆောင်သွားသည်ဟု ဖြစ်လေသည်။

မည်သို့ ဆိုစေ ရှင်စောပုသည် အင်းဝသို့ ပါတော်မူခဲ့ရပြီးလျှင် အင်းဝဘုရင်၏ မိဖုရားကြီးအဖြစ် နေခဲ့ရသည်ကိုကား မွန် မြန်မာ ရာဇဝင်များအားလုံးက ဖော်ပြကြပေသည်။ ရှင်စောပုသည် အင်းဝတွင် မိဖုရားကြီးတပါးအဖြစ် စံနေရလင့်ကစား မပျော်ပိုက်ပေ။ အင်းဝတွင် သီဟသူနှင့်သုံးနှစ်၊ မင်းလှငယ်နှင့် သုံးလ၊ ကလေးတောင်ညိုမင်းနှင့် ခုနစ်လ၊ မိုးညှင်းမင်းတရားနှင့် သုံးနှစ် စုစုပေါင်း ခုနစ်နှစ် ကြာခဲ့လေသည်။ထိုမျှသောကာလပတ်လုံး မိဖုရားကြီး၏ စည်းစိမ်ချမ်းသာကို တပ်မက်မောခြင်းမရှိဘဲ မိမိ၏နေရင်း ဟံသာဝတီသို့ သာပြန်လိုလှ၍ ဒဂုန်ဆံတော်ရှင်၏ ခြေတော်ရင်းတွင် ဥပုသ်သီတင်း ဆောက်တည်ကာ ဒါန၊ သီလ၊ ဘာဝနာ အလုပ်တို့သာ ဆောင်ရွက် နေလိုစိတ် ပြင်းပြ နေခဲ့လေသည်။ ဟံသာဝတီတွင် ရှင်စောပု ရှိစဉ်က သားအမှတ် ထားခဲ့၍ ရဟန်း

ပြုပေးခဲ့သော ပိဋကစရ မည်သော ရဟန်းတပါးသည် မယ်တော်ကြီးအလား ကျေးဇူးကြီးမားလှသော ရှင်စောပု ဟံသာဝတီသို့ ပြန်လည် ရောက်ရှိရေးကို တွေးတော ကြံစည် အားထုတ်ခဲ့လေသည်။ ပိဋကစရသည် ရှင်သာမဏေ ဘဝက ပင် ပုဂံသို့ သွားရောက်ပြီးလျှင် ပိဋကတ်သုံးပုံကို ငါးနှစ်မျှ သင်ကြားတတ်မြောက်ခဲ့၍ ဟံသာဝတီသို့ ပြန်ရောက်သော အခါ မွန် မြန်မာ နှစ်ဘာသာဖြင့် တရားဓမ္မ ဟောကြားရာ တွင် အလွန်ကျော်ကြားလေသည်။ ပိဋကစရသည် ရှင်စောပု အား ကူညီနိုင်ရန် ဓမ္မဉာဏဘွဲ့အမည်ရှိ အခြား မွန်ရဟန်း တပါးနှင့် တိုင်ပင် နှီးနှောပြီးလျှင် အင်းဝသို့ ကြွလာခဲ့ကြ လေသည်။ အင်းဝသို့ ရောက်လျှင် ထိုရဟန်းတို့ တရားဟော အလွန်ကောင်းသည်ဟု ကျော်ကြားလေသည်။

ထိုအချိန် ကာလသည် မိုးညှင်း မင်းတရား လက်ထက် သက္ကရာဇ် ၇၉၁ ခုနှစ်ဖြစ်ပေသည်။ ပိဋကစရတို့ ရောက်လတ် လျှင် ရှင်စောပုသည် ထိုရဟန်းတို့နှင့် လျှို့ဝှက်စွာ အဆက် အသွယ် ပြုလျက် ဟံသာဝတီသို့ ထွက်ပြေးရန် စီစဉ်သည်။ ထိုနောက် မိဖုရားကြီးသည် ကြိုတင် စီစဉ်ထားသည့်အတိုင်း ချိပ်ရည်ဖြင့် ဖော်စပ်ထားသော ဆေးကို သောက်လေလျှင် ဝမ်းက အနီအဝါ သွေးဝမ်းများ ကျလတ်သည်။ အထိန်း တော်များလည်း စိုးရိမ်စွာဖြင့် မင်းကြီးအား သံတော်ဦးတင် ၏။ ရောဂါ ကူးစက်မည်စိုး၍ ရှင်စောပုအခန်းသို့ နန်းတွင်း သူများ မဝင်လိုကြဘဲ ရှောင်ရှားနေကြသည်။ ရှင်စောပု လည်း မိမိ ဝေဒနာကြီးစွာခံစားနေရသဖြင့် ကမကနိမိ ပိဋက စရနှင့် ဓမ္မဉာဏတို့၏ တရားတော်တို့ကို နာကြားလိုသည် ဟု လျှောက်သည်။ မင်းကြီးလည်း ယုံကြည်၍ ရဟန်း နှစ် ပါးအား အချိန်မရွေး ဝင်ထွက်ခွင့် ပေးသည်။ အချိန်း အ ချက် ပြုထားသည့်နေ့တွင် ပိဋကစရနှင့် ဓမ္မဉာဏတို့ ရဟန်း နှစ်ပါးလည်း သိက္ခာချ၍ သာမဏေအဖြစ်ဖြင့် နေကြသည်။ ထိုညဉ့် သန်ကောင်ယံ အချိန်တွင် အဝတ်အစား သေတ္တာ ကြီးတလုံး အတွင်းသို့ ရှင်စောပုအား ဝင်စေ၍ အဝတ် အထည်များဖြင့် ဖုံးကွယ်ကာ ရဟန်းနှစ်ပါးတို့က သေတ္တာ ကို တဖက်စီ ဆွဲလျက် အခန်းတွင်းမှ ထွက်သည်။ နန်းတော် တံခါးစောင့်များ မေးလျှင် ရှင်စောပု လှူလိုက်သောပစ္စည်း များဟု ဆိုသဖြင့် မည်သို့မျှ ရှာဖွေခြင်း မပြုဘဲ လွှတ်လိုက် ၏။ ထိုနောက် မြို့အနောက် လုံးတော်ပေါက်မှ ထွက်ကာ ကြိုတင် စီစဉ်ထားသည့်အတိုင်း ရဟန်းနှစ်ပါးနှင့် တကာ နှစ် ယောက်တို့သည် ရှင်စောပုအား လှေပေါ်တင်ပြီးသော် ဟံ သာဝတီသို့ စုန်ပြေးလေသည်။

မိုးညှင်းမင်းတရားသည် အမတ်ကြီးအား လှော်ကား ငါး စင်းနှင့် လက်ပြည့် လှော်၍ လိုက်စေသော်လည်း မတွေ့ရ ချေ။ ရှင်စောပုတို့လှေစုသည် နေ့တွင်တောတွင်း၌ပုန်း၍ ညဉ့် အခါတွင်သာ စုန်ဆင်းကြသည်။ မိုးညှင်းမင်းတရားလည်း ရှင်စောပုသည် အင်းဝ၌ မပျော်ပိုက်သဖြင့် ပြေးလေသည်ကို ဆင်ခြင်မိ၍ ရှိစေတော့ဟု ဆိုကာ ဟံသာဝတီ အရောက် လိုက်လံ တိုက်ခိုက်ခြင်း မပြုတော့ပေ။

ထိုအချိန်တွင် ဟံသာဝတီပြည်၌ ဗညားရံ ထီးနန်းစိုးစံ နေသည်။ ဗညားရံသည် နှမတော် ပြန်ရောက်လာလျှင် ဝမ်း မြောက် ဝမ်းသာရှိ၍ နန်းတွင်း၌ အိမ်ဆောက် နေစေသည်။ ရှင်စောပုသည် ဟံသာဝတီပြည်သို့ပြန်ရောက်ပြီးနောက်တွင် ပိဋကစရနှင့် ဓမ္မဉာဏတို့အား ရဟန်းသိက္ခာ အသစ်ပြန်တင် ပေးခြင်း၊ ရဟန်းနှစ်ပါး သီတင်းသုံးရန် ကျောင်းတဆောင် ဆောက်ပေးခြင်း၊ ရဟန်းသံဃာတော် အများအပြားအား ဆွမ်းနှင့် တကွ လှူဖွယ်ဝတ္ထု အများအပြားကို ဆက်ကပ် လှူဒါန်းခြင်းစသော ကုသိုလ်ကောင်းမှု အများအပြားကို ပြုလုပ်လေသည်။

သက္ကရာဇ် ၈၀၈ ခုနှစ်တွင် ဗညားရံ လွန်လေရာ ရှင်စောပု ၏သားတော်ဗညားဗရူးနန်းတက်သည်။ ဗညားဗရူးလုပ်ကြံ ခံရသောကြောင့် လွန်ပြန်သော် ရှင်စောပု၏မောင်တော် ဖြစ် သော ဗညားကျန်းသည် ထီးနန်းရိုက်ရာကို ဆက်ခံသည်။ ဗညားကျန်းလည်း နန်းသက် မကြာရှည်ချေ။ ဗညားကျန်း လွန်လျှင် ဗညားရံ၏သားတော် လိတ်မွတ်ထော် (မမောဟ် တ-ရှင်စောပု၏ တူတော်) နန်းတက်၍ ခြောက်လမျှသာ နန်းစံရလေသည်။

မင်းမော်ဓောဟုလည်းခေါ်တွင်သော လိတ်မွတ်ထော်၏ ထီးနန်းရိုက်ရာကို အရီးတော် ရှင်စောပုက ၈၁၄ ခုနှစ်တွင် ဆက်ခံ၍ ဟံသာဝတီ ပြည်ကြီးအား အုပ်ချုပ် မင်းလုပ်ရ သည်။ နန်းတက်သည့်အခါတွင် သက်တော် ၆၀ နီးပါးခန့်ရှိ ပြီဖြစ်ရာ ရှင်စောပုသည် ဗညားထော (ဗညာထာဝ်)၊ သို့မ ဟုတ် မင်းအို ဟူသော အမည်ကို ခံယူလေသည်။ ဘုရင်မ ကြီးအား ပြည်သူ ပြည်သားတို့က ကြည်ဖြူနှစ်လိုကြသည် တကြောင်း၊ ထို့ပြင် အထက်တွင် မြန်မာတို့ အချင်းချင်း တိုက်ခိုက်နေကြ၍ တကြောင်း ဘုရင်မကြီး လက်ထက်တွင် ဟံသာဝတီသည် စစ်မက်ဘေးမှ ကင်းလွတ်နေ၍ အေးချမ်း သာယာနေလေသည်။

ဘုရင်မကြီးသည် ဇရာလည်း ထောင်းလာပြီဖြစ်၍ တိုင်း ပြည် အုပ်ချုပ်ရန် စိတ်မထက်သန်ချေ။ ထို့ပြင် ပင်ကိုယ်က ပင် တရားဓမ္မ အလှူဒါနတို့၌သာ မွေ့လျော်ခဲ့သူ ဖြစ်သည်။ ထို့ကြောင့် ဟံသာဝတီ ထီးနန်းအား သင့်တော်သူ တဦးကို လွှဲအပ်လိုသည်။ လွှဲအပ်ခံနိုင်မည့်သူကို ဆင်ခြင်ရွေးချယ် သောအခါ ပိဋကစရ ရဟန်းသည် ဉာဏ်ပညာ အလိမ္မာနှင့် ပြည့်စုံသည်။ ထို့ကြောင့်သာလျှင် အခြား သူတပါးတို့ မပြုဝံ့သော အမှုကို ပြုကာ မိမိအား အင်းဝမှ ဟံသာဝတီ အရောက် ဆောင်ကျဉ်းနိုင်ခဲ့ခြင်း ဖြစ်သည်။ ထို့ပြင် ပိဋက စရ၏ ကျေးဇူးသည် မိမိအပေါ်၌ ကြီးမားခဲ့ခြင်း တို့ကို



ရှင်စောပု ဘုရင်မ၏ ရွှေဖြင့်အတိပြီးသော ခေါင်းဆောင်းတော်

ထောက်ထား၍ ပိဋကမရေအား ထီးနန်းလွှဲအပ်ရန် မှူးမတ်တို့နှင့် တိုင်ပင်သည်။ မှူးမတ်တို့က သဘောမကျိုက်ညီ ရှိကြလျှင် လူအများ ကျော်နင်းသည့် တန်တားသစ်သားတိုင်ကို ထုထားသည့် ဗုဒ္ဓရုပ်ပွားတော်အား ရုပ်ပွားတော် ဖြစ်လာသည့်အခါ ယုတ်ညံ့သည့်အသားဖြင့် ထုထားသည့် အပြစ်ကို ပမာမထားကြဘဲ ရှိခိုးပူဇော်သည့် ပုံပမာကို ဆောင်၍ ထိုနည်းတူစွာ ဆင်းရဲသား မုဆိုးမသား ဖြစ်သော်လည်း ဘုန်းပညာ လက္ခဏာနှင့် ပြည့်စုံသူ ပိဋကမရေအား မိမိက ဘုရင်အဖြစ် ချီးမြှင့်ခြင်းကို မှူးမတ်တို့ကြည်ဖြူလေအောင် ဘုရင်မကြီး ဆောင်ရွက်သည်ဟု ဆိုလေသည်။

ဘုရင်မကြီးသည် ပိဋကမရေ ဘိက္ခုအား လူထွက်စေပြီးလျှင် သမီးတော် မိပကာထော် (မိပ္ပကထဝ်) နှင့် စုံဖက်ပေး၍ အိမ်ရှေ့အရာနှင်းသည်။ ၈၂၁ ခုနှစ်တွင်မူ သားမက်တော်အား ဟံသာဝတီထီးနန်းကို လွှဲအပ်လေသည်။ သားမက်တော်ကား ဓမ္မစေတီမင်းဟူ၍၎င်း၊ရာမာဓိပတိမင်း ဟူ၍၎င်း ထင်ရှားလေသည်။ (ဓမ္မစေတီမင်း — ရှု။)

မင်းအိုဘွဲ့ခံ ဘုရင်မကြီးသည် ကုသိုလ်ဒါန ပြုရေး၌ စိတ်ဆန္ဒပြင်းပြခဲ့သည့်အတိုင်း တိုင်းပြည်အုပ်ချုပ် မင်းလုပ် နေစဉ်တွင်လည်း ကုသိုလ်ဒါနများပြုခဲ့သည်။ ထိုကုသိုလ်တော်များအနက် ကျိုက်မရော ဆုတောင်းပြည့် ဘုရားကြီး၌ အလှူဒါန ပြုခဲ့ကြောင်းကို ထိုဘုရားကြီး၌ မွန်ဘာသာဖြင့် ကျောက်စာနှစ်ချပ်တွင်ကမ္ပည်းထိုးစေခဲ့သည်။ ထိုကျောက်စာလာ အရေးပါသော အချက်များကား ဆင်ဖြူရှင်ဗညားဦး၏မြေးတော် သူရှင်ဗညာထာဝ်သည် သက္ကရာဇ် ၈၁၇ ခုနှစ်တွင် ကျိုက်မရောဘုရား၌ ကုသိုလ် ကောင်းမှုများ ပြုကြောင်း၊ မိမိ၏အလှူဒါန၌ ဝိုင်းဝန်းကူပံ့သူများအား ကြီးပွားချမ်းသာကြစေရန် လေးနက်စွာမေတ္တာပို့၍ ဆုတောင်းထားပြီးလျှင် မိမိ၏ ကုသိုလ် ကောင်းမှုတို့ကို ဖျက်ဆီးသူများအား ကျိန်ထားသည်ကို တွေ့ရလေသည်။

ကျိုက်မရော ဘုရားတွင်သာမက အနီးအနားရှိ ကော့ဘိန်း ကျောက်တောင်ဂူ၊ ဓမ္မသတ်ဂူ၊ ခရုဂူ၊ ကော့ဂွန်းဂူနှင့် ဖားကပ်ဂူ အစရှိသည့် ဂူ ဘုရားများတွင် ခရစ် ၁၅ ရာစုနှစ်အတွင်း ထုလုပ်ထားသော ရှေးဟောင်း ပန်းပုလက်ရာများ ပါရှိသည်ကိုထောက်ရှု၍ ကျိုက်မရောအနီးတဝိုက်ရှိ အထက်

ပါ ဘုရားများသို့လည်း ဘုရင်မ ရှင်စောပု ရောက်ရှိပြီးလျှင် ကောင်းမှုကုသိုလ်များပြုခဲ့သေးသည်ဟု ယူဆနိုင်လေသည်။

ရှင်စောပုသည် သားမက်တော်အား ထီးနန်း လွှဲအပ်ပြီး နောက်တွင် ကောင်းမှုကုသိုလ် ပြုရေးကိုသာ လုံးလုံး လျား လျား ဆောင်ရွက်ခဲ့ဟန် တူပေသည်။ ပဲခူး (ဗဂိုး) ဘုရား ခုနစ်ဆူ မှန်ကျောက်စာအရ ရှေးဟံသာဝတီပြည့်ရှင် မဟာ တိဿမင်းကြီး၏ မိဖုရား သုဘဒ္ဒါဒေဝီ (ဘဒြဒေဝီ) တည် ထားခဲ့သော ဘုရားခုနစ်ဆူတို့ ပျက်စီး ယိုယွင်းနေသည်ကို ဒါန သီလ သမာဓိ ပညာနှင့်ပြည့်စုံသော ရှင်စောပုမင်းသမီး သည် မင်းကျင့်တရား ၁၀ ပါးကို စောင့်ထိန်းသော သား မက်တော် ရာမာဓိပတိမင်းနှင့်အတူတကွ ထိုပျက်စီးယိုယွင်း သော ဘုရား ခုနစ်ဆူကို ခိုင်ခံ့စွာ ပြန်လည်မွမ်းမံသည်။ သက္ကရာဇ် ၈၃၂ ခုနှစ် တပို့တွဲလဆန်း ၁ ရက်နေ့တွင် ဓာတ် တော်ဟောင်းသစ်များနှင့် တကွ ရတနာခုနစ်ပါးတို့ကို ဌာပ နာသည်။ ပြုသော ကုသိုလ်အဖို့ကို သတ္တဝါအပေါင်းအား အမျှပေးဝေ၍ ထိုကုသိုလ် ကောင်းမှုကြောင့် သံသရာမှ လွတ်မြောက်ပြီးလျှင် ထိုကောင်းမှုသည် သဗ္ဗညုတဉာဏ် အတွက် အထောက်အပံ့ ဖြစ်ပါစေဟု ဆုတောင်းထားလေ သည်။ ရှင်စောပု၏ ဘွဲ့တော်ကို ယင်းကျောက်စာတွင် "ဂြိ တြိဘုဝနာဒိတျ ပြဝရဓမ္မဇေတြလောကျနာထပြဝရ မဟာ ဓမ္မ ရာဇာဓိရာဇ ဒေဝီ" ဟု ကမ္ပည်း ထိုးထားလေရာ အခြား ကျောက်စာများတွင် ပါရှိသည့် ဘွဲ့ထက် ပြဝရပို၍ပါသည်။

ထို့ပြင် ပဲခူး (ဗဂိုး) ခရိုင် ဘုရားကြီးရွာရှိ ဘုရားကြီးကို ရှင်စောပုနှင့် သားမက်တော်တို့ ပြုပြင် မွမ်းမံခဲ့ကြောင်းကို ရှင်စောပု လွန်ပြီးသည့်နောက် သက္ကရာဇ် ၈၄၈ ခုနှစ် တော် သလင်းလဆုတ် ၃ ရက် တနင်္ဂနွေနေ့၌ရေးထိုးခဲ့သော ဘုရား ကြီး ကျောက်စာအရ သိရှိရသည်။ ရှင်စောပုနှင့် စပ်လျဉ်း သော ကျောက်စာများအနက် ဘုရားကြီးကျောက်စာသည် အစုံလင်ဆုံးနှင့် အရှည်လျားဆုံးဖြစ်သည်။ ကျောက်စာကို စီကုံးရေးသားသူအမည်နှင့် ကျောက်စာထုသူ ကျောက်ဆစ် သမား၏ အမည်ကိုပါ ဖော်ပြထားသည်။ ကျောက်စာပါ အခြား အကြောင်းအရာများမှာ ဂေါတမ မြတ်စွာဘုရား လက်ထက်တွင် ဂဝံပတိထေရ်သည် ရှေးဘဝက ညီတော် ဖြစ်ခဲ့သော သထုံဘုရင် သီရိမာသောက (သီဟရာဇာ) မင်းထံ ကြွရောက်ကြောင်း၊ သီရိမာသောကမင်း၏လျှောက် တောင်းပန်ချက်အရ ဂဝံပတိထေရ်က မြတ်စွာဘုရားအား သထုံပြည်သို့ ပင့်ဆောင်၍ မြတ်စွာဘုရား ကြွလာသည်။ သထုံပြည်ရှိ ရသေ့ ခြောက်ပါးတို့အား ဆံတော်ဓာတ်တဆူ စီ ပေးသနားခဲ့၍ သီရိမာသောကမင်းကိုမူ ဆံတော်မပေး၊ နောက် ၃၇ နှစ်ကြာ၍ ဘုရားရှင်ပရိနိဗ္ဗာန်ပြုသည့် အခါ၌ သာ သွားတော်ဓာတ်တဆူကို ဂဝံပတိထေရ်က သီရိမာ သောကမင်းထံ ဆောင်ကျဉ်းပေးလိမ့်မည်။ ထိုသွားတော် ဓာတ်တဆူမှ ၃၃ ဆူ ပွားမည်ဖြစ်ကြောင်း ဗျာဒိတ်တော် ပေးခဲ့လေသည်။

သုံးဆဲ့ခုနစ်နှစ်ကြာ၍ မြတ်စွာဘုရား ပရိနိဗ္ဗာန် ပြုလျှင် သွားတော်ဓာတ်ကို သီရိမာ သောကမင်း ရရှိသည်။ ဓာတ် တော် ၃၃ ဆူပွား၍ စေတီ ၃၃ ဆူတည်ပြီးလျှင် ဌာပနာ သည်။ ထိုမင်း နတ်ရွာစံ၍ ကာလရှည်ကြာသော် စေတီများ ပျက်စီး ယိုယွင်းသည်။ ထိုစေတီများကို ရာဇာဓိရာဇ်မင်း လက်ထက်ကလည်း ပြုပြင် ခဲ့သည်။ ယခု ရှင်စောပု လက် ထက်တွင် ရှင်စောပုနှင့်သားမက်တော်တို့က ပြန်လည် တည် ထားကြောင်းကို စာကြောင်း ရေ ၆၇ ကြောင်းဖြင့် ရေးထိုး ထားလေသည်။

ထို့ပြင် သထုံခရိုင် တောင်စွန်း ကေလာသ တောင်ပေါ်၌ သက္ကရာဇ် ၈၄၈ ခုနှစ် တပို့တွဲ လဆန်း ၁ ရက် ဗုဒ္ဓဟူးနေ့၌ ရေးထိုးသောမှန်ကျောက်စာအရ ကျောက်စာ၌ ငွေတောင် ဟု ခေါ်သော ကေလာသတောင်ရှိ စေတီတော်ကို ရှင်စော ပုနှင့် သားမက်တော်တို့ ပြုပြင်မွမ်းမံကြောင်း၊ ထိုငွေတောင် ရှိ စေတီသည် သီရိမာသောကမင်း ရရှိသည့် သွားတော် ဓာတ်အစစ် ကိန်းဝပ်ရာစေတီ ဖြစ်ကြောင်း၊ ထိုစေတီတော် ကို ဟံသာဝတီမင်း အဆက်ဆက်တို့ ပြုပြင်မွမ်းမံခဲ့သည့်နည်း တူ မိမိနှင့် သားမက်တော်တို့က ပြုပြင်မွမ်းမံကြောင်း၊ စေတီ အနီးတွင် ရှစ်မြှောင့်ပုံသဏ္ဌာန် သိမ်တော်ကြီး တဆောင်ကို ၎င်း၊ ကေလာသ ဘုရား စေတီအတွက် ဝတ္တကံ လယ်ယာ မြေတို့ကို၎င်း သားနှင့် အမိ မင်းနှစ်ပါးက လှူဒါန်းကြောင်း များ ပါရှိလေသည်။

အထက် ဖော်ပြပါ ကျောက်စာများအရ ရာမည ဒေသရှိ ပဲခူး (ဗဂိုး) ခရိုင်နှင့် သထုံခရိုင်အတွင်း၌ ဘုရင်မကြီး ရှင် စောပုနှင့် သားမက်တော်တို့သည် ရှေးဟောင်း စေတီတော် များစွာတို့ကို ပြန်လည် တည်ထား မွမ်းမံ ခဲ့ကြောင်း သိရှိရ လေသည်။

ဘုရင်မကြီး အများဆုံး ပြုပြင် မွမ်းမံ၍ ကုသိုလ် ကောင်း မှု အများဆုံး ပြုခဲ့သည်ဟု ယူဆရသော စေတီတော်မှာ ဒဂုန် (ရန်ကုန်) မြို့ရှိ ဒဂုန်ဆံတော်ရှင် ရွှေတိဂုံ စေတီတော် ကြီးပေတည်း။ ဘုရင်မကြီးသည် ရွှေတိဂုံဆံတော်ရှင် စေတီ တော်ကြီးအား အလွန်တရာ ကြည်ညိုလှ၍ ထိုစေတီတော် ကြီးတွင် သဒ္ဓါတရား ထက်သန်လှစွာဖြင့် ကုသိုလ်ကောင်း မှုများ ပြုသည်။ သားမက်တော်အား ထီးနန်း လွှဲအပ်ပြီး သည့်နောက်တွင် ဒဂုန်မြို့သို့ ရွှေပြောင်း စံမြန်းသည်။ ရွှေ တိဂုံ ဆံတော်ရှင်မြတ်၏ အနောက်တောင်ဖက်၌ မြို့နန်း တည်၍ ဆောက်လုပ်ထားသော စံအိမ်တော်၌ အသက်ထက် ဆုံး နေထိုင်ပြီးလျှင် ဥပုသ်သီလ စောင့်ထိန်းကာ တရား ဘာဝနာ စီးဖြန်းလေ့ ရှိသည်။ ရွှေတောင်ကြီးပမာ ရွှေရောင် တဝင်းဝင်းနှင့် တင့်တယ် သပ္ပါယ်စွာရှိနေသော ဆံတော်ရှင်

စေတီကြီးကို ဇရာရောဂါ ဖိစီး၍ ဇီဝိန္ဒြေ ချုပ်လုဆဲခါနီး အထိ သမာဓိတည်စွာဖြင့် အာရုံပြုကာ လက်အုပ် ချီ၍ ကြည်ညိုမြတ်နိုး ရှိခိုးလျက်ပင် ကံတော်ကုန်သည်ဟု ဆိုကြ လေသည်။

ရွှေတိဂုံ ဘုရားကြီး၏ အရှေ့ဖက် စောင်းတန်း အလယ် ပစ္စယ်တွင် သက္ကရာဇ် ၁၂၄၁ ခုနှစ် (ခရစ်နှစ် ၁၈၈၀) တွင် ကျောက်စာဌာနမှ တူးဖော်တွေ့ရှိသော ပါဠိဘာသာ၊ မွန် ဘာသာ၊ မြန်မာဘာသာတို့ဖြင့် ရေးထိုးထားသည့် ကျောက် စာတိုင် သုံးတိုင်ရှိသည်။ ထိုကျောက်စာများတွင် ဘုရင်မ ကြီး ရှင်စောပုနှင့် သားမက်တော်တို့သည် ဒဂုန်ဆံတော်ရှင် စေတီအား မည်ကဲ့သို့ ဉာဏ်တော် မြင့်တင်၍ မည်ကဲ့သို့ ပြု ပြင် မွမ်းမံခဲ့ပုံ များကို အကျယ်တဝင့် ဖော်ပြထားသည်။ မွန်တိုင်းဌာန ရာမညာ၏ မင်းအဆက်ဆက်တို့သည် စေတီ တော်ကြီးကို အစဉ်အဆက် ပြုပြင်မွမ်းမံခဲ့ကြသည်။ ထို နောက် ရှင်စောပုနှင့် သားမက်တော်တို့သည် သားမက် တော် မင်းပြုသော ကာလအတွင်း သားနှင့်အမိတို့ စစ်သည် ဗိုလ်ပါအပေါင်း ခြံရံလျက် ဘုရားခြေတော်ရင်း၌ ကြွရောက် စံမြန်းပြီးလျှင် ကြီးစွာသော အလှူဒါနပြုကြသည်။ စေတီ တော်ပတ်လည်ရှိ ချောက်ကမ်းပါးနှင့် ချိုင့်ဝှမ်းများကို ဂဝံ ကျောက်တုံးကြီးများဖြင့် ဖို့စေသည်။ မြင့်သော ကုန်းမြေ ကို ညီညာစေရန် တူးညှိစေသည်။ အပြင်ဖက်တို့တွင် ဂဝံ ကျောက်တုံးများဖြင့် စီစေသည်။ စေတီကို ခံသော ပစ္စယ် ပေါ်တွင် ကျောက်ထီးများပြုလုပ်၍ ရွှေချသည်။ ပန်းတင်ခုံ ပစ္စယ်ကို ခါးဖွဲ့၍ ကျောက်ဖြင့် ပြီးသော ဆီမီးအိမ်တို့ဖြင့် ပတ်လည်စီထားသည် စသည်ဖြင့် ရွှေတိဂုံ ဆံတော်ရှင်အား အထူးတလည် မွမ်းမံပုံများကို ဖော်ပြထားသည်။

ဘုရင်မကြီးသည် ဒဂုန်ဆံတော်ရှင်မြတ်ကို အလွန်တရာ ကြည်ညိုတော်မူသဖြင့် မိမိ၏ ကိုယ်အလေးချိန် ဖြစ်သော ရွှေ ၂၅ ပိဿာကို မျက်ပါးခတ်ပြီးလျှင် စေတီတော်ကြီးတွင် ရွှေသင်္ကန်းကပ်လှူတော်မူသည်။ မှူးသူ မှူးသားတို့ကလည်း ရွှေ ပိဿာချိန် ၅၀ မျှကိုကူ၍ ပူဇော်ကြသည်။ ဘုရင်မကြီး သည် ကြေးချိန် ၁၇၀၀ ပိဿာရှိ ခေါင်းလောင်းကြီး တ လုံးကိုလည်း သွန်းလုပ်လှူဒါန်းသည်။ စေတီတော်ကြီး အ တွက် နယ်မြေလေးရပ် လှူတော်မူရာ ထိုနယ်မြေ လေးရပ် မှာ ဤသို့ ဖြစ်သည်။

စေတီတော်မှ အရှေ့လားသော် ကျိုက်ကနက် ဘုရား အထိ၊

အနောက်လားသော် ကျိုက်မြောင်းဘုရားအထိ၊

မြောက်လားသော် ကျိုက်မိုးရပ်ဘုရားအထိ၊

တောင်လားသော် ကျိုက်နတ်ဘုရား (အချို့က ကျိုက် သုတ်ဟုလည်း ဆိုသည်။) အထိ ဟူ၍ သတ်မှတ်၍ ဘုရား ကြီး၏ ဝတ္တကမြေအဖြစ် လှူတော်မူသည်။ ထို့ပြင် ဘုရား ကြီးရင်ပြင်တော်အပြည့် ကျောက်ပြားခင်းသည်။ ရင်ပြင် တော်အဆုံး ပတ်လည်တွင် မဟာရံတန်တိုင်းခုနစ်ထပ်ပြုလုပ် ၍ တန်တိုင်းများ အကြားတွင် အုန်းပင်၊ ထန်းပင်၊ ပေပင်၊ သရက်၊ ပိန္နဲ၊ ကံ့ကော်စသည့် အပင်အမျိုးမျိုးကို စိုက်စေ သည်။ တန်တိုင်းအောက်ဆင့် စေတီပတ်ဝန်းကျင်တွင် စရပ် ကြီးများကို ဆောက်လုပ်စေလေသည်။

ရွှေတိဂုံ စေတီတော်မြတ်တွင် ဘုရင်မကြီး လှူဒါန်း ခဲ့ သော ကောင်းမှု အလှူဒါနများနှင့် စပ်လျဉ်း၍ စေတီတော် ကြီး၏ သမိုင်းနှင့် မွန်သမိုင်းတို့၌ ဖော်ပြသည်မှာ ရှင်စောပု သည် စေတီတော်ကြီးတွင် ထီးဖြူလေးစင်း၊ ရွှေသပိတ်လေး လုံး၊ ရွှေပန်းကန်လေးလုံး (ပန်းကန်တလုံးလျှင် ဆန်တတင်း ချက်ဝင်သည်။) ငွေပန်းကန်ရှစ်လုံး၊ရွှေဇွန်းလေးစင်း၊ငွေဇွန်း ရှစ်စင်း၊ (ဇွန်းတစင်းလျှင် ဆန်တစလယ်ချက် ဝင်သည်။) ဆွမ်းသင်ပုတ်တော် ၄၄ ခွက်၊ ရေအိုးကြီးလေးလုံး၊ ထွေးအင် လေးလုံး၊ကုလားစည် လေးလုံးနှင့်စောင်းတန်းမုခ် လေးဖက် လေးဆောင်တို့ကို လှူဒါန်းခဲ့သည်။ ထို့ပြင် စေတီတော်ကြီး ၏ ဝေယျာဝစ္စ ဆောင်ရွက်ရန် တံခါးစောင့်၊ တံမြက်လှဲ၊ ပန်းတင်သမား၊ ဆီမီးခွက်ထွန်းသမား စသည်တို့ကိုလည်း လှူထား၍ စေတီတော်ကြီးအား မွမ်းမံပြုပြင်ရန် ပန်းထိမ်ဖို လေးဖိုနှင့် ပတ်ဝိုင်းလေးဝိုင်းကိုလည်း ထားရှိသည်။ ဘုရင်မ ကြီးသည် စေတီတော်ကြီးအတွက် ထိုမျှ ပြည့်စုံလုံလောက် စွာ လှူဒါန်းထားပြီးလျှင် နေ့စဉ် နေ့တိုင်းလည်း ဥပုသ်သီ တင်း ဆောက်တည်သည်။ အနောက်ဖက် စောင်းတန်းမှ ကုန်းတော်ပေါ် သို့တက်၍ ဆံတော်ရှင် စေတီကြီးကို ကြည် လင်သဒ္ဓါ ကြီးမားစွာဖြင့် ဖူးမျှော်ကြည်ညိုလေ့ ရှိပေသည်။

ဘုရင်မကြီး ရှင်စောပုသည် သက္ကရာဇ် ၈၃၄ ခုနှစ် သက် တော် ၇၈ နှစ်တွင် ရန်ကုန်၌ စံနေစဉ် ကံကုန်သည်။ ပြည် ထောင်စု မြန်မာရာဇဝင်တလျှောက်တွင် တပါးတည်းသော ပြည်ကြီးရှင် ဘုရင်မကြီး ပေတည်း။ ခမည်းတော်၊ မောင် တော်၊ သားတော်၊ တူတော်နှင့် သားမက်တော်တို့သည် မင်းချည်းနှင့်နှင့် ဖြစ်ကြ၍ ကိုယ်တိုင်လည်း ဘုရင်မမဖြစ်မီက မြန်မာဘုရင်လေးပါး၏ မိဖုရားအဆက်ဆက် တင်မြှောက် ခြင်းခံခဲ့ရသော ထူးခြားသည့် မဟာသေ့ မဟာဆိ ဘုရင် တပါး ဖြစ်ပေသည်။

ဘုရင်မကြီး ရန်ကုန်တွင် စံမြန်းစဉ်က ဘုရင်မကြီး၏ စံ အိမ်တော်သည် ရွှေတိဂုံ အနောက်တောင်ဖက်ရှိ စစ်တပ်နေ ရာဖြစ်မည်ဟု ခန့်မှန်းရကြောင်း ရွှေတိဂုံသမိုင်းတစောင်တွင် ဖော်ပြသည်။ ဘုရင်မကြီး နတ်ပြည် စံလွန်သောအခါတွင် အလောင်းတော်ကို ဟံသာဝတီသို့ ပြန်မယူဘဲ ဘုရင်မကြီး ပျော်မွေ့သည့် ဒဂုန် (ရန်ကုန်) တွင် သင်္ဂြိုဟ်ခဲ့သည်။ ရန်ကုန် မြို့မြေနိုကုန်း ပြည်သူ့ရဲတပ်စခန်းနှင့် စမ်းချောင်းအကြား တွင် ရှင်စောပုကုန်းဟု ယနေ့တိုင် ခေါ်ဝေါ်နေကြသော

အရပ်ရှိရာ ထိုအရပ်သည် ရှင်စောပု၏ သင်္ချိုင်းတော်ရှိရာ အရပ်ဟု ယူဆကြသည်။ ဘုရင်မကြီး အသုံးပြုခဲ့သည် ဟု ဆိုသော ရွှေခေါင်းဆောင်းတခုကို လန်ဒန်မြို့ ဝိတိုရိယနှင့် အယ်လဗတ်ပြတိုက်ကြီးတွင် ယနေ့တိုင်ပြသထားလေသည်။

**နိုင်ပန်းလှ**

**ရှင်မုတ္ထီးဘုရား။** ။ရှင်မုတ္ထီး ဘုရားသည် ထားဝယ်မြို့မှ တောင်ဖက် မြိတ်မြို့သွား မော်တော်ကားလမ်းမတွင် ရှိသော ရှင်မုတ္ထီးရွာတွင် တည်ရှိသည်။ ရှင်မုတ္ထီးရွာသည် ထားဝယ်မြို့နယ်တွင်ပါဝင်၍ ထားဝယ်မြို့မှ ခြောက်မိုင်ခန့်ကွာဝေး၏။

ရှင်မုတ္ထီးဘုရား သမိုင်းကား ဤသို့ ဖြစ်သည်။

အေဒီ ၁၄၃၈ ခုနှစ် သက္ကရာဇ် ၈၀၀ ပြည့်နှစ်တခိုတွင် သီဟိုဠ်ကျွန်း၌ အုပ်စိုးလျက် ရှိသော ဆဋ္ဌသီရိပရက္ကမဗာဟု မင်းသည် သာသနာတော်ကို ကြည်ညိုသည့်အတိုင်း ပင်လယ်ရပ်ခြား ဒေသများ၌ သာသနာ ထွန်းကားစေလိုသဖြင့် ဗောဓိညောင်သားဖြင့် ဘုရားရှင်ကိုယ်စားရုပ်ပွားတော်လေးဆူကို ထုလုပ်ကာ ဖောင်လေးစင်းတွင် အသီးအသီး တင်ဆောင်၍ ပင်လယ်သို့မျှောလေသည်။ ဆင်းတုတော် အသီးအသီး၏ အောက်၌ ကျောက်ပြားဝိုင်း (အလယ်တွင် အပေါက်နှင့် လှည်းဘီးဝိုင်းပုံသဏ္ဌာန် ဖြစ်၏။) ကို ပလ္လင်အဖြစ် ခံလျက် ဗောဓိပင်တပင်စီကိုလည်း စိုက်လျက် ထည့်လိုက်လေသည်။

ထိုဆင်းတုတော်လေးဆူအနက် တဆူသည် ပုသိမ်မြို့သို့ ၎င်း (ယခု ရွှေမုဋ္ဌောဘုရားခေါ် သည်ဟု ဆို၏။)၊ တဆူသည် ကျိုက်ထိုမြို့သို့၎င်း (ယခု ကျိုက်ပေါလောဘုရားဟု ခေါ်၏။)၊ တဆူသည် ကျိုက္ခမီမြို့သို့၎င်း (ယခု ကျိုက္ခမီရေလယ်ဘုရားဟု ခေါ်၏။)၊ ကျန်တဆူသည် ထားဝယ်မြို့ ဒေသသို့ ၎င်း ရောက်ရှိလာလေသည်။



ဆင်းတုတော်နှင့် အတူပါလာသည့် ကျောက်ပြားဝိုင်းကြီး

ထားဝယ်မြို့ဖက်သို့ ရောက်ရှိလာသော ဆင်းတုတော်တင်ဖောင်သည် ပဌမ မြိတ်မြို့သို့ ရောက်ရှိပြီးမှ တဖန်မျောထွက်လာလျက် မြောက်ဖက်ဆန်၍ ထားဝယ်မြစ်အတွင်းဝင်လာကာ မြစ်လယ်သောင်ခုံတွင် ဆိုက်နားလေသည်။ ထိုအခါက ဝေဒီမြို့ (ယခု အခါ ထားဝယ်မြစ် အနောက်ဖက်ရှိ ဝေဒီရွာ) တွင် မင်းလုပ် အုပ်စိုးနေသော မင်းစောသီလ သတင်းကြားသဖြင့် ဘုရားဖောင်အား လာရောက် ပင့်ဆောင်လေရာ မရရှိချေ။ ထိုသောင်ခုံမှ တဖန် အရှေ့ဖက်ရှိ ထားဝယ် မြစ်ခွဲဖြစ်သော စော်ချောင်းသို့ ဘုရားဖောင်ဝင်သွားလျက် သေတရွာကမ်းတွင် ဆိုက်နားလေသည်။ ထိုနေရာတွင်လည်း ဘုရားဆင်းတုတော်အား မည်သူမျှ ပင့်တင်၍ မရလေ။ သေတရွာနေ သီလရှင် မယ်အေသီ (လူအမည် မန်းမွီး) သည်သာလျှင် ညဥ့်တွင် နတ် သိကြားတို့ အိပ်မက် ပေးချက်အရ ပင့်ဆောင်မှ ကြွလိုက်ပေသည်။ ဘုရားရုပ်ပွားတော်အား ပင့်တင်သည့်အချိန်မှာ သက္ကရာဇ်



ထားဝယ်မြို့နယ် ရှင်မုတ္ထီးရွာရှိ ရှင်မုတ္ထီးဆင်းတုတော်

၈၀၀ ပြည့်နှစ် တန်ဆောင်မုန်း လပြည့်ကျော် ၃ ရက် တနင်္ဂနွေနေ့ ဖြစ်လေသည်။

ဘုရား ရုပ်ပွားတော်အား ပင့်တင်ပြီးပြီဟူသော သတင်းကိုကြားလျှင် ဝေဒီမင်းစောသီလ ကြွရောက်လာကာ ဘုရားရုပ်ပွား ဆင်းတုတော်အား သိမ် တန်ဆောင်းများ ဆောက်လုပ် လှူဒါန်းလေသည်။ ဗောဓိညောင်ပင်ကို ဘုရားသိမ်



ထားဝယ်မြို့နယ် ရှင်မုတ္ထီးဘုရား သိမ်
အနောက်ဖက်မှ စေတီတော်

အနီးတွင် စိုက်ပျိုးလျက် ကျောက်ပြားဝိုင်း လှည်းဘီးကို လည်း ညောင်ပင်အောက်တွင် အများ ကိုးကွယ်နိုင်ရန် ထား ရှိပေသည်။ ထိုကျောက်ပြားဝိုင်းလှည်းဘီးကြီးသည် အချင်း တတောင့်တထွာ၊ ထု လေးလက်မမျှ၊ အပေါက် အချင်း သုံးလက်မမျှ ရှိသည်။

ယခုအခါ ထိုရုပ်ပွားဆင်းတုတော်သည် ရှင်မုတ္ထီး ဘုရား ဟု ဘွဲ့မည်သညာဖြင့် တန်ခိုးထင်ပေါ် ကျော်စောပေသည်။ ရှင်မုတ္ထီးဘုရားဟု ဘွဲ့မည် ထင်ရှားရခြင်းမှာလည်း အင်းဝ ပဌမ မင်းခေါင်ကြီးသည် မင်းအဖြစ် မရောက်သေးမီ ဆင်းရဲ သော ဘဝနှင့် လှည့်လည်သွားလာနေယင်း ထားဝယ်ဒေသ သို့ ရောက်ရှိခဲ့စဉ် ဆံပင်လှသော ဆံရှည်သူမတဦးနှင့် အ ကြောင်းပါခဲ့သည်။ ထိုဆံရှည်သူမတွင် သားယောကျ်ား တဦး ဖွားမြင်၍ အရွယ်ရောက်လျှင် ခမည်းတော်စံရာ အင်း ဝမြို့သို့ လိုက်သွားသည်။ ဘုရင်မင်းခေါင်လည်း မိမိ၏ သား တော်မှန်းသိ၍ သားတော်အား မင်းတရားဘွဲ့နှင့် အဆောင် အယောင်များ ပေးကာ ဇာတိဌာနေ ပြန်စေလျက် တတိုင်း တနန်း အုပ်စိုးစေသည်။ မင်းတရားသည် ထားဝယ် ဒေသ ရောက်လျှင် သက္ကရာဇ် ၇၇၉ ခုနှစ်၌ မုတ္တသုခမြို့ဟု မြို့နန်းသစ် တည်ထောင်စိုးစံခဲ့ဘူးသည့် နေရာကို အကြောင်းပြု၍ ရှင် မုတ္ထီးဘုရား ခေါ်တွင်ခြင်းဖြစ်သည်ဟု ဆိုလေသည်။ ယခု ဖူးမြင်ရသော ရှင်မုတ္ထီးဘုရားမှာ ဥဏ်ဏာတော် တတောင့် တထွာရှိသည်။ သို့သော်လည်း ထိုဆင်းတုတော် အောက်ရှိ ပလ္လင်အတွင်း၌ ထားဝယ်ဒေသသို့ ကြွရောက်လာသော ဆင်းတုတော် အစစ်ကို ဌာပနာထားသည်ဟုလည်း ဆိုကြ လေသည်။

**ရှင်မင်း၊ မိဖုရားကြီး** (မြန်မာ ၁၁၄၃ လွန်)။ ။ကုန်း ဘောင်ခေတ်တွင် အမျိုးသမီး နန်းတွင်းစာဆိုတော် အ မြောက်အမြား ပေါ်ထွန်း ခဲ့ရာ ယင်းတို့အနက် မိဖုရားကြီး ရှင်မင်းသည် အဦးအဖျား ဖြစ်လေသည်။ ကုန်းဘောင် ခေတ် ပဌမပိုင်းတွင် ပေါ်ထွက်ခဲ့သူ ဖြစ်၍ မိဖုရား မမြက လေး၊ လှိုင်ထိပ်ခေါင်တင် မင်းသမီးတို့ထက် ပို၍ အလျင် ကျသည်။ ရှင်မင်းသည် အမျိုးသမီး နန်းတွင်းစာဆို ဖြစ် သည်သာမက စဉ့်ကူးမင်း၏ မိဖုရားခေါင်ကြီးလည်း ဖြစ်လေ သည်။ (စဉ့်ကူးမင်း — ရှု။)

မိဖုရားကြီး ရှင်မင်းသည် အင်းဝဆင်ဖြူရှင် မင်းတရား ကြီး လက်ထက်တွင် နန်းတွင်းစာဆိုဖြစ်သော မြင်းစု ဝန်ကြီး သမီး စန္ဒာဒေဝီဘွဲ့ခံ ရှင်ဖွားနှင့် ကျီအတွင်းဝန် နန္ဒကျော်ထင် ဘွဲ့ခံ မောင်ထွန်းတို့၏ သမီးဖြစ်သည်။ စဉ့်ကူးမင်းသား နန်း တက်သော သက္ကရာဇ် ၁၁၃၈ ခုနှစ်၌ ရှင်မင်းအား "မဟာ ရတနာ စန္ဒာဒေဝီ" ဘွဲ့ဖြင့် မိဖုရားခေါင်ကြီး မြှောက်တော် မူသည်။

ရှင်မင်းသည် အဖြည့်ခံ ရတု၊ လေးဆစ်ကဗျာနှင့် တေး ထပ်များကို အများအပြားရေးသားသည်။ ရတုတွင် မိဖုရား ကြီး ရှင်မင်းသည် နဝဒေးကြီး၏ အာဘော်ကိုလည်း မတုပ၊ နတ်သျှင်နောင်၊ ရှင်သံခိုတို့၏ အာဘော်ကိုလည်း မလိုက်ဘဲ တသီးတခြား ပင်ကိုယ်နည်းဖြင့် ဖွဲ့နွဲ့သည်။ သို့သော် ဆိုလို ရင်းကို တိုက်ရိုက်မဆိုဘဲ အသွယ်အဝိုက် များနေ၍ ဖွဲ့နွဲ့ပုံ သည် ပြေပြစ်သင့်သလောက် မပြေပြစ်ပေ။ မိုးဖွဲ့ ရတုများ တွင်မူ ရှင်မင်း၏အဖွဲ့သည် အတော်ပင် ကောင်းပေသည်။ မိန်းမသားလည်းဖြစ်၊ နန်းတွင်းသူလည်းဖြစ်ရကား ရှင်မင်း ၏ အဖွဲ့အနွဲ့များသည် လွန်စွာ ယဉ်ကျေးသိမ်မွေ့၍ သုတိ သာပေသည်။ အထူးသဖြင့် အလွမ်းကို ပိုင်နိုင်စွာဖွဲ့ဆိုနိုင် သည်။ အသုံးအနှုန်းများသည်လည်း သိမ်မွေ့နူးညံ့သည်။ မိုးအဖွဲ့အနွဲ့တွင် ရှင်သံခိုနှင့် နတ်ရှင်နောင်တို့၏ ဖွဲ့နွဲ့ပုံကို အတုယူဟန် ရှိသော်လည်း ယင်းစာဆိုတော်များ၏ အသုံး အနှုန်းကဲ့သို့ စကားလုံးနည်းနည်းနှင့် အဓိပ္ပါယ် ကျယ်ဝန်း နက်နဲခြင်း၊ ကျစ်လျစ် သိပ်သည်းခြင်း မရှိချေ။

မိဖုရားကြီး ရှင်မင်းသည် တေးထပ်နှင့် လေးဆစ် ကဗျာ များကိုလည်း ရေးသားခဲ့သေးသည်။ ရှင်မင်းသည် အခြား

ကဗျာများထက် တေးထပ်အရေးအစပ်တွင် ပို၍ ထက်သန်ပုံ ရကာ အဖွဲ့အနွဲ့ ပို၍ ကောင်းသည်ကို တွေ့ရသည်။

"ဆံခွေကို ဖြန့်ကျင်းလို့၊ ပြတင်းက မယ်မျှော်၊ ရွှေလမင်း
စန္ဒော်ငယ်၊ ထွက်ပေါ် လာ မူနိုး။ စောင့်စားလို့ တာရှည်
သည်၊ နေခြည်မှာ ပန်းကဲ့သို့ညှိုး။ ချနေကျ မှန်စာကို၊
အခါခါ မယ်ထိုး၊ စနဲပုံ ရွှေကြက်ရိုးရယ်က၊ အကျိုးငယ်
မထင်။ ရွှေတိုင်ထူ နတ်ကိန်းက၊ တိမ်းယိမ်းလို့ မမှန်လေ
ကျင်။ ဘယ်ကျွန်းသူ့သခင်ရယ်၊ ထိပ်တင်ကို ချော့ပါလိမ့်၊
မေ့လျော့နေသည့်နှယ်၊ ရှိပြန်ရတယ်။ပူလွန်းလို့ ပြန့်ကျယ်
တယ်၊ ဘုန်းကြွယ်ကြွယ် ဘုရာ့ကြောင့်လေး"

အထက်ပါ တေးထပ်သည် မိဖုရားကြီး၏ အကောင်းဆုံး အမျှော်စိုက်တေးထပ် ဖြစ်သည်။ စဥ့်ကူးမင်းသည် အခြား မိဖုရားများ၊ ကိုယ်လုပ်တော်များနှင့်သာ ပျော်မွေ့နေကာ မိမိထံတော်သို့ ကြွမြန်းတော် မမူလာသဖြင့် မိမိမှာ အပူမီး ငြိတွယ်ပုံကို တေးထပ်စာကိုယ်က ထင်ရှားစွာ ပြဆိုထားလေသည်။

မိဖုရားကြီး ရှင်မင်း၏ လေးဆစ်သဖြန်များသည် အဖွဲ့အနွဲ့ အဆင့်အတန်း မမြင့်လှသော်လည်း ရှေးကျသော လေးဆစ်များဖြစ်သဖြင့် မှတ်တမ်းတင်ထားခြင်း ခံထိုက်ပေသည်။ မိဖုရားကြီး ရှင်မင်းသည် ၁၁၄၃ ခုနှစ် ဘိုးတော်ဘုရား (ဗဒုံမင်း) ထီးနန်းကို လုပ်ကြံ၍ အောင်မြင်ရာတွင် စဥ့်ကူးမင်းနှင့် အတူ ဖျောက်ဖျက်ခြင်း ခံရလေသည်။ မင်းရွှေနှစ်အံမည်ရှိ သမီးတော်တပါး ထွန်းကား၍ ခမည်းတော် မယ်တော်တို့နှင့် အတူ ဆုံးခဲ့ရှာသည်။ မိဖုရားကြီး ရှင်မင်း၏ ကုသိုလ်တော်မှာ စစ်ကိုင်းမြို့ရှိ ရတနာစံလွတ်ကျောင်းတော်ကြီး ဖြစ်၍ မင်းဘူး ဆရာတော်အား ဆောက်လုပ် လှူဒါန်းခဲ့လေသည်။

**ရှင်သာမဏေ။** ။ပဗ္ဗဇ္ဇမင်္ဂလာ — ရှု။

# မြောက်ဦးမြို့မှ ရှေးဘုရားကြီး

**မုခ်သုံးဖက်ပိတ်၍ တောင်ခြေဖက် မုခ်တခုသာ ဖွင့်ကာ ဝက်ပါသဖွယ် တည်ထားသဖြင့် ဘုရားပုထိုး အဖြစ်ထက် ရန်သူဘေးမှ ခိုအောင်းရန် ခံတပ်အဖြစ် တည်သည်ဟု ယူဆရသော စေတီကြီးဖြစ်သည်။ ထိုဘုရားကြီးတွင် ဟိန္ဒူဗိသုကာနှင့် အနုပညာ လက်ရာများကို တွေ့နိုင်သည်။**

**ရှစ်သောင်းဘုရား။** ။ရခိုင်ပြည်၏မြို့တော်ဟောင်း တမြို့ ဖြစ်သော မြို့ဟောင်းခေါ် မြောက်ဦးမြို့၏ မြောက်ဖက် တမိုင်ခန့်အကွာ အရှေ့ရိုးမတောင်ကြီး၏အနောက်ဖက် တောင်စောင်းရှိ ဘိုးခေါင်တောင်တွင် ရှစ်သောင်းဘုရား တည်ရှိသည်။ (မြောက်ဦးမြို့ — ရှု။) ယင်း စေတီတော်ကြီးကို ရန်အောင်ဇေယျ သိမ်တော်ကြီးဟုလည်း သမုတ်သေးသည်။

ထိုစေတီတော်ကြီး၏ ဂူတွင်းဂူပဝယ် တည်ထားလျက် ရှိသည့် ရှစ်သောင်းသော ရုပ်တုတော်တို့ကို အစွဲပြု၍ ရှစ်သောင်းဘုရားဟု ခေါ်ကြခြင်းဖြစ်သည်။ ရန်အောင်ဇေယျ သိမ်တော်ကြီးဟု တွင်ခြင်းမှာ ရခိုင်ဘုရင်က ကုလားပြည်ကို အောင်တော်မူသည့် အထိမ်းအမှတ်နှင့် တည်တော်မူခြင်းကြောင့်ဟု ဆိုကြသည်။

ရှစ်သောင်းဘုရားကို မြောက်ဦး မင်းဆက် ၁၂ ဆက် မြောက် မင်းပင်ကြီးခေါ် မင်းပါကြီး (မြန်မာ ၇၉၃–၉၁၅) ဘုရင်သည် သက္ကရာဇ် ၇၉၇ ခုနှစ် ကဆုန်လဆန်း ၅ ရက်နေ့တွင် ပန်းရန်ကျော်များကို ဆင့်ခေါ်တော်မူ၍ ထိုနှစ် တန်ဆောင်မုန်း လပြည့် စနေနေ့တွင် စတင် တည်တော်မူသည်။ ဦးစွာပဌမ ဘိုးခေါင်တောင်တော်ကြီးကို မြေတလင်း ညီစွာ ညှိတော်မူ၍ ရှစ်သောင်းသော ဓာတ်တော်မွေတော်နှင့် ထကွ ဥာဏ်တော်နှစ်တောင်နှင့် တမိုက်စီရှိသော ရွှေဆင်းတု ၁၀၀ ဆူ၊ ငွေဆင်းတု ၁၀၀ ဆူ၊ ရတနာကိုးပါးဖြင့် သွန်းအပ်သော ဆင်းတုတော် ၁၀၀ ဆူတို့ကို တခန်းကျစီ ကိန်းဝပ်စေတော်မူပြီးမှ ရှစ်သောင်းလေးထောင်သော ရတနာ မျိုးတို့ဖြင့် သွန်းအပ်သော ရုပ်ပွားငယ်တို့ကိုလည်း ထည့်တော်မူသည်။ ထိုနောက် ဌာပနာခန်းကို ကျောက်ပြားတို့ဖြင့် ပိတ်ပြီးသော် အခန်းပြင်၌ ကောင်းမှုတော်စေတီကြီးအား ၁၀၁ ပါးသော လူမျိုးတို့ ပူဇော်ဟန် ရုပ်လုံးပြု၍ ရံလျက် ထားသည်။ ထိုမျှမက မြောက်ဦးမြို့တော်ကြီးဝယ် အစဉ်အဆက် စိုးစံခဲ့သော ဘေးလောင်းတော် ဘိုးလောင်းတော် မင်းများ မှအစ ဘုရားဒါယကာ မင်းပင်အထိ မင်း ၁၂ ဆက်တို့၏ ပုံတော်ကို ရွှေသား ပကတိ ထုလုပ်ပြီးလျှင် မူးမတ်စုံလင်စွာ ခြံရံလျက် စေတီတော်ကြီးအား ပူဇော်ဟန်ထည့်၍ အပြင် ဌာပနာခန်း တထပ်ကို ကျောက်ပြားပိတ်ကာ မြေဖို့သည်။ အပေါ်ယံ မြေကို အထူးထူးသော ရတနာတို့ဖြင့် ဖြန့်၍ ညီညွတ်အောင် ပြုပြီးနောက် အချိန်ကောင်း အခါတော်ကျသည်နှင့် တပြိုင်နက် မြစိမ်းကျောက်ညိုတို့ဖြင့် ဖိနပ်တော်ခင်းသည်။

ထိုနောက် နှောင်ပွင့်တော် မူလတ္တံ့သော ရှင်တော်ဘုရားတို့အား ရည်စူး၍ ကျောက်ညိုဖြင့် ထုသော ဘုရားဆူရေနှစ်သောင်း၊ ရတနာ ခုနစ်ပါးဖြင့် ထုလုပ်သော ဆင်းတုတော် ခြောက်သောင်း ပေါင်း ရှစ်သောင်းသော ဆင်းတုတော်တို့ကို မုခ်ဝ မုခ်ပျံတို့၌ တည်ထားလေသည်။ စေတီတော်မြတ်ကြီးကိုလည်း ငါးထပ်သော မုခ်ပတ်တို့ဖြင့် ပတ်လည်ဝိုင်းပြီးလျှင် ကျောက်ညို ဘုရားကိုယ်တော်မြတ်တို့ကို စီတန်း တည်



စစ်တွေခရိုင် မြို့ဟောင်းမြို့ရှိ ရှစ်သောင်းဘုရား

တော်မူသည်။ ထိုနောက်မှ တဖန် စေတီတော်မြတ်ကြီး၏ ရှေ့တော်တွင် ကျောက်အုတ်တန်တိုင်းတို့ဖြင့် ပတ်လည် ရံ အပ်သော မဟာရံအတွင်းဝယ် ကြီးစွာသော သိမ်တော်မြတ်ကြီး၊ စေတီတော်ငယ်တို့ရှိသည်။ စေတီတော်ကြီး အတွင်း ဒုတိယ အထပ်တော်၌ မဏ္ဍိုင် ငါးခုတို့ကို ဗဟိုပြု၍ ရှင်တော်ဘုရား နှစ်ဦးအခါက ကျင်လည်ခဲ့ရသောဘဝတို့ကို ရုပ်လုံးထုထားသည်။ ဟင်္သာကိုးကြိမ် ဖြစ်သည်ကို ပြသည့်အနေနှင့် ဟင်္သာ ကိုးကောင်ကို ထုလုပ်ထား၍ ကြိုးကြာဘဝ ၁၆ ကြိမ်ဖြစ်သည်ကို ပြသည့်အနေနှင့် ကြိုးကြာရုပ် ၁၆ ကောင် ထုလုပ်ထားလေသည်။ ယင်း ဖြစ်တော်ပေါင်းအရုပ်များကို ဒုတိယအထပ် လက်ျာဖက် အောက်ဆုံးတန်းမှ စ၍ တွေ့နိုင်သည်။ ထိုရုပ်တုများ နောက် နာဃတံ၊ ဗိဿနိုး စသော ဟိန္ဒူနတ်ရုပ်တို့ကိုရင်း၊ နိပါတ်တော်လာ ဇာတ်ရုပ်တို့ကိုရင်း အထောင် အသောင်းမက ထုလုပ် ထားလေသည်။ ငါးထပ်သော လိုဏ်ဂူအတွင်း၌လည်း နောင်ပွင့်လတ္တံ့သော ဘုရားရှင်တို့အား ရည်မှန်း၍ ရုပ်တုတော်ပေါင်း ရှစ်သောင်းတို့ကို ထုလုပ်ပြီးလျှင် ဝင်္ကပါသဏ္ဌာန်ကဲ့သို့ ခရုပတ် စီတန်းလျက် နေရာမဆန့်အောင် တည်ထားသည်။

ရှစ်သောင်း ဘုရားသည် အနောက်၊ တောင်၊ မြောက်၊ သုံးဖက်လုံးတွင် မဟာရံ တန်တိုင်းများ ပိတ်လျက် ရှိ၍ အရှေ့ဖက်ရှိ တောင်ခြေရင်းမှသာ ဘုရားသို့ ဝင်ရန် မုခ်ပေါက်ရှိသည်။ ထိုအရှေ့ဖက် ဝင်ပေါက်သို့လည်း ဘုရား၏ တောင်ဖက် ပေ ၂၀၀၀ ခန့်အကွာ တောင်ခြေရင်းရှိ မုခ်ဦးမှ ဝင်၍ တောင်ခြေရင်း တလျှောက် ဖောက်လုပ်ထားသော စောင်းတန်းအတိုင်းသွားမှ ရောက်သည်။

ပုံတွင် ( a ) အမှတ် ပြထားသော ရှစ်ပေကျယ်သည့် မုခ်ဦးမှ ၃၅ ပေခန့်တက်သော် မြေပြင်မှ ၁၆ ပေမြင့်သော ပဌမ ပစ္စယံသို့ ရောက်သည်။ ပဌမ ပစ္စယံ အရောက် ထိပ်ဝတွင် လက်ဝဲဖက်၌ အလျား နှစ်ပေခွဲ၊ အနံနှစ်ပေခွဲ၊ အမြင့်ခုနစ်ပေကျော်ရှိ ကျောက်စာတိုင်တတိုင်ရှိသည်။ ကျောက်စာတိုင်၏ မျက်နှာသုံးဖက်၌ နာဂရီဘာသာဖြင့် ကမ္ပည်းရေးထိုးထားသည်ကို တွေ့ရ၍ ကျန်တဖက်ရှိ စာတို့မှာမူ ပျက်နေလေသည်။ ကျောက်စာတိုင်နှင့်ယှဉ်လျက် ပစ္စယံ၏ လက်ျာဖက်ဝတွင် အမြင့် ကိုးပေ နီးပါးရှိ၍ ထိပ်တွင် တမော့ရုပ်ကြွထွင်းထားသော ရှစ်မြောင့်ကျောက်တိုင် တတိုင်ရှိသည်။ လက်ဝဲဖက်ကျောက်စာတိုင်၏ လက်ဝဲဖက်အနီး၌မူ ကြာပန်း




ရှစ်သောင်းဘုရား စံနစ်ပုံ

ပုံ ဓမ္မစကြာပုံ ရုပ်ကြွထွင်းထားသော ၁၂ ပေကျယ်သော ကျောက်ပြားတပြား လဲကျ နေသည်ကို တွေ့ရ၏။ ပဥ္စမ ပစ္စယံ တခုလုံးသည် ယခင်က ကျောက်တုံးတို့ဖြင့် တည်ဆောက်ထားသော စေတီပေါင်းများစွာ တည်ရှိခဲ့ဟန်တူသည်။ ယခုမူ ပုံ၌ (e) အမှတ်အသား ပြထားသော စေတီဝိုင်း တဆူနှင့် ( f ) အမှတ်အသား ပြထားသော ရှစ်မြှောင့်ပုံစေတီတဆူမှအပ ပစ္စယံ တခုလုံး အုတ်ကျိုး အုတ်ပဲ့တို့ဖြင့် လွှမ်းလျက် ရှိသည်။

ပဥ္စမ ပစ္စယံမှတဆင့် တက်သော် ပေ ၃၀ အမြင့်တွင် တောင်မှမြောက် ပေ ၆၀၊ အရှေ့မှအနောက် ပေ ၂၀ မှ ၃၀ အထိ ကျယ်သော ပစ္စယံ တထပ်သို့ ရောက်သည်။ (ပုံတွင် g အမှတ်) ယင်းပစ္စယံ အရှေ့ဖက်သည် တောင်စောင်းဖြစ်၍ အနောက်၊ တောင်၊ မြောက်တို့တွင် ၁၂ ပေခန့်မြင့်သော မဟာရံ တန်တိုင်းဖြင့် ကာထားသည်။ ယင်းပစ္စယံ၌ အထူးအထွေ တည်ဆောက်ထားခြင်း ရှိဟန်မတူချေ။

ဒုတိယပစ္စယံမှ တောင်စောင်း တလျှောက် မြောက်ဖက်သွားမူ မုခ်ပေါက်တခုတွေ့ရပေမည်။ ယင်း မုခ်ပေါက်အတိုင်းတက်မူ မြေပြင်မှ ပေ ၆၀ မြင့်သော ဘုရားကြီးတည်ရာ ပစ္စယံသို့ ရောက်သည်။ ထိုပစ္စယံသည် တောင်မှ မြောက် ပေ ၁၄၀ ရှည်၍ အရှေ့အနောက် ၂၂၅ ပေရှည်သော မဟာရံ တန်တိုင်းကြီး သုံးဖက်ဖြင့် ကာရံထားသည်။ တောင်နှင့် မြောက် တန်တိုင်းကြီးတွင် (ပုံ၌ h နှင့် i အမှတ်ပြထားသော နေရာ) အခန်းပေ ၂၀ ကျယ်၍ ဥာဏ်တော်ခုနစ်ပေမြင့်သော စေတီငယ်များ တခုနှင့်တခု အကာအဝေးညီစွာ တည်ထားသည်။ စေတီငယ်များကြားတွင် သုံးပေခွဲကျော်မြင့်၍ သုံးပေနီးပါး ကျယ်သော ကျောက်ပြားများ စိုက်ထားလေသည်။ ကျောက်ပြား နှစ်ဖက်မျက်နှာတွင် တမော့ရုပ်ကြွများ ထွင်းထားလေသည်။ ဘုရားကြီးဖက် လှည့်နေသော မျက်နှာတွင် မြတ်စွာဘုရားသခင်၏ ပုံတော် အမျိုးမျိုးကို ထွင်းထုထား၍ အပြင်ဖက်မျက်နှာတွင် နဂါး၊ ဂဠုန်၊ ကုမ္ဘဏ်၊ ရက္ခိုက်၊ ဘီလူး၊ မြွေစသော ပုံများ ထွင်းထုထားလေသည်။ စေတီတည်ရာ ထိုပဥ္စမပစ္စယံဝယ် ဘေးလောင်းတော် ဘိုးလောင်းတော်တို့၏ အရိုးစုကို သင့်တင့် လျောက်ပတ်စွာ ဂူတော်သွင်း၍ တည်ထားခဲ့သည်ဟုဆိုသည်။ ထိုသို့ တည်ထားခဲ့သော သင်္ချိုင်းရာတို့တွင် မင်းပင်ကြီး လွန်ပြီးနောက် တည်ထားသော မင်းပင်ကြီး အရိုးအိုး သင်္ချိုင်းတော်တခုသာ တွေ့မြင်ရတော့သည်။

ကျောက်ဆစ်လက်ရာ ပြောင်မြောက်လှသော ကျောက်ရုပ်လုံး နှစ်ခု





အမတ်ကြီး ဝိမလ ပုံတူ ကျောက်ရုပ်လုံး

ဘုရားကြီးတည်ရာ ပဥ္စမ ပစ္စယံကို တောင်စောင်း အတိုင်း လျှောက်သွားမူ ဘုရားကြီး၏ ဂန္ဓကုဋိတိုက်သို့ ဝင်ရာ တခုတည်းသောမုခ်ဝကို လက်ဝဲဖက်၌ တွေ့ရပေမည်။ ယင်းမုခ်ဝအတိုင်း တည့်တည့် ဝင်သွားပါက အရှေ့ နှင့် အနောက် ပေ ၄၀၊ တောင် နှင့် မြောက် ပေ ၇၀ ကျယ်သော ရင်ပြင် (ပုံ၌ m အမှတ်အသားပြ)ကို တွေ့ရပေမည်။ ထိုရင်ပြင်ကို အရှေ့၊ တောင်၊ မြောက်တို့မှ ခြောက်ပေထူ၍ ၁၄ ပေမြင့်သော တန်တိုင်းများဖြင့် ကာရံထားသည်။ ထိုရင်ပြင်မှ လက်ဝဲဖက် စကြံန်လမ်းအတိုင်း ဝင်သော် ဘုရားကြီး၏ ပတ်လည် နံရံများ၌ ဂူများ ရှိသည်။ အရှေ့ဖက်နံရံ၌ တဖက်

နှစ်ဂူစီ (ပုံ၌ ၀ အမှတ်အသားပြ) ရှိ၍ တောင်၊ မြောက်၊ အနောက် နံရံတို့၌ ဂူ ရှစ်ခုစီ ရှိသည်။ ယင်းဂူများ အတွင်းတွင် ဘုရားရုပ်ပွားနှစ်ဆူသည့် ကျောချင်းကပ်၍ သီတင်းသုံးနေရာ စကြန်ဖက်မှ တဆူကို ဖူးရ၍ ဘုရားကြီး၏ ပဌမ ပစ္စယံဖက်မှ တဖက်အဆူကို ဖူးတွေ့နိုင်သည်။

ဗဟို ဂန္ဓကုဋိတိုက်တွင်း၌မူ ဥဘဏ်တော် ရှစ်ပေခန့် မြင့်သော ဗုဒ္ဓရုပ်ပွားတဆူ ရှိသည်။ ဂန္ဓကုဋိတိုက်သည် ပေ ၃၀ မြင့်၍ အမိုး ထောင့် လေးထောင့်တွင် စေတီ လေးဆူ ရှိသည်။ အလယ်ကောင်တွင် ခေါင်းလောင်းပုံ ထီး စသည်တို့ပါသော ဥဘဏ်တော် ပေ ၆၀ မြင့်သည့် စေတီတော်ကြီး ထီးထီး တည်လျက်ရှိသည်။

ဤသို့ ခမ်းနားဆန်းပြားလှစွာ တည်ထားသော စေတီတော်ကြီး၏ အနောက်တောင်ထောင့်တွင် မင်းပင်ကြီး၏ ဥပုသ်တော်ဆောင်ကို တဆက်တည်း လုပ်ခဲ့သည်ဟု ဆိုသည်။ စေတီတော်၏ မြောက်ထောင့်၌မူ မယ်တော်ကို အကြောင်းပြု၍ တည်ထားအပ်သော မယ်တော်သိမ် ခေါ် ဂူတော်ကြီး တဆူလည်း ရှိသည်။

စေတီတော်ကြီး၏ လက်ရာမှာ ဟိန္ဒူဗိသုကာနှင့် အနုပညာ လက်ရာများ ဖြစ်သည်။ ရှေးဟောင်း သုတေသနပညာရပ်တွင် ကျွမ်းကျင်သော နိုင်ငံခြားသား ပုဂ္ဂိုလ်ကြီးများ၏ ယူဆချက်အရမူ စေတီတော်ကြီးကို ဘုရားပုထိုးအဖြစ်ထက် ရခိုင်ဘုရင်များ ရန်သူဘေးမှ ခိုအောင်းရန် ခံတပ်အဖြစ် တည်ထားဟန်တူသည်ဟုဆိုသည်။ စေတီတော်ကြီးအား သုံးဖက်မှ ပိတ်၍ အရှေ့ဖက် တောင်ခြေဖက်မှသာ မုခ်ပေါက်တခုတည်းဖွင့်ကာ ဝက်ပါသဖွယ် တည်ဆောက်ထားခြင်းသည်ပင် ထိုပုဂ္ဂိုလ်တို့၏ အဆိုကို ထောက်ခံလျက်ရှိလေသည်။

စေတီတော်ကြီးသည် ၁၇၈၄ ခုနှစ်တွင် မြန်မာတို့၏ ဗုန်းဆံ တကြိမ် မှန်၍ ၁၈၂၅ ခုနှစ်တွင် အင်္ဂလိပ် ဗုန်းဆံ တကြိမ် မှန်ခဲ့သဖြင့် အတော်ပင် ပျက်စီးယိုယွင်းလျက် ရှိသည်။ အထူးသဖြင့် စေတီတော်၏ အနောက်ဖက်ခြမ်းသည် ပျက်စီးယိုယွင်းခဲ့ရာ စေတီတော်အား မြေပြင်မှ ကြည့်မူ အုတ်ပုံကျောက်ပုံကြီးနှင့်မခြား တွေ့မြင်ရလေသည်။

ရှစ်သောင်း ဘုရား၏ မြောက်ဖက် အထွက်မုခ်မှ အရှေ့မြောက်ဖက် ၈၆ ပေအကွာတွင် အံတော်ဘုရား တည်ရှိ၍ အနောက်မြောက်ဖက် ပေ ၃၀၀ အကွာတွင် ဒုက္ခံသိမ်ဘုရား တည်ရှိသည်။

ရှဉ့်။ ။သစ်ပင်ကြို သစ်ပင်ကြား၌ အမြီးဖွားကလေးများကို လှုပ်ရှားလျက် ခုန်လွှားပြေးသွား ကစား နေကြသော ရှဉ့်များကို မြင်ကြရလျှင် လူကြီးလူငယ် မရွေး ယင်းတို့အား ချစ်ခင်မိကြသည်။ ရှဉ့်တို့သည် အလွန်မျက်စိရှင် နား



ရှဉ့်ငယ်များကို ဤသို့ ဂရုတစိုက် အိမ်တွင် မွေးထားလေ့ရှိကြသည်။

ပါးပြီးလျှင် အလွန်လည်း ပေါ့ပါး ဖြတ်လတ် လျင်မြန်ကြသည်။ အမျိုးအစားစား၊အရွယ်အစားစားရှိကြရာ ကြောင်လောက် အရွယ်မှ ကြွက်စုတ်အရွယ်အထိပင် ရှိတတ် ကြသည်။ နူးညံ့ထွေးနွေးသော အမွေးရှိသည့် အမျိုးအစားရှိသည့်နည်းတူ ဖြူဆူးကဲ့သို့ ကြမ်းတမ်းချွန်မြသော အမွေးရှိသည့် အမျိုးအစားမျိုးလည်း ရှိသေးသည်။ ရှဉ့်များ၏ အမြီးသည် အမွေးဖွာ၍ ရှည်လျားပြီးလျှင် မျက်စိများသည် သေးငယ် တောက်ပကြသည်။ ယဉ်ပါးလွယ်၍ ချစ်စဖွယ်ကောင်းသော သတ္တဝါကလေးများပေတည်း။

ရှဉ့်များကို ဩစတြေးလီးယားတိုက်နှင့် မက်ဒါဂက်စကာကျွန်း (အာဖရိကတိုက်) မှ လွဲလျှင် တကမ္ဘာလုံး နေရာအနှံ့အပြား၌ တွေ့ကြရသည်။ ယင်းတို့သည် ကြွက်ကဲ့သို့ ကိုက်ဖြတ်တတ်သော ခြေလေးချောင်း သတ္တဝါကလေးများဖြစ်ကြသည်။ ယေဘုယျအားဖြင့် မြေပြင်နေ ရှဉ့်နှင့် သစ်ပင်နေ ရှဉ့် ဟူ၍ နှစ်မျိုးနှစ်စား ခွဲခြားနိုင်သည်။ သို့သော် ထိုနှစ်မျိုးလုံးသည် တိရစ္ဆာနဗေဒအလိုအားဖြင့် မျိုးရင်း ဆိုယူရီဒီးနှင့် မျိုးခွဲ ဆိယူရီနီးချင်း အတူတူပင် ဖြစ်သည်။ ရှူးပျံ (ရှူးပျံ — ရှူ။) သည် ရှဉ့်မျိုး တမျိုးပင် ဖြစ်၍ မျိုးရင်းချင်း တူသော်လည်း မျိုးခွဲချင်း မတူပေ။ ရှဉ့်မျိုးတွင် မျိုးစိတ်ကွဲများလည်း အများအပြား ရှိပေသေးသည်။

အာဖရိကတိုက်မှ ရှဉ့်တို့တွင် ဖြူဆူးကဲ့သို့ ကြမ်းတမ်း ချွန်ထက်သော အမွေးများသည် အမွေးနုများနှင့် ရောယှက်ပေါက်ကြသည်။ သစ်ပင်နေ ရှဉ့်တို့သည် ဆိုယူရိုနီး မျိုးခွဲတွင် ပါဝင်၍ ဆိုယူရပ်မျိုးစိတ်ဝင်များ ဖြစ်ကြသည်။ ထို အမျိုးအစား ရှဉ့်တို့တွင် အနီရောင် ရှဉ့်၊ မွဲပြာရောင် ရှဉ့်၊ မြေခွေး ရှဉ့်နှင့် နားရွက်မွေးပွ ရှဉ့်မျိုးတို့လည်း ပါဝင်လေသည်။

သစ်ပင်နေ ရှဉ့်ကလေးများသည် သစ်ခေါင်းပေါက်များထဲတွင် သစ်ရွက်သစ်ခက်များကို ခင်း၍ အသိုက်လုပ်ပြီးလျှင် ဆောင်းခိုကြသည်။ နွေအခါတွင်မူ ကျီးများ ငှက်များကဲ့သို့ သစ်ပင်ထိပ်ဖျားများ၌ အသိုက်လုပ်၍ နေကြသည်။ ထို အသိုက်ထဲတွင် ရှဉ့်ကလေး လေးကောင်မှ ခြောက်ကောင်အထိပေါက်ကြသည်။သစ်ပင်နေ ရှဉ့်မျိုးတို့သည် များသောအားဖြင့် ခွံမာသီး၊ ဝက်သစ်ချသီးနှင့် ထင်းရှူးသီးများကို စားသောက်လေ့ ရှိကြသည်။ ရှဉ့်နီများသည် ငှက်ဥများ၊ ငှက်ပေါက်စများကိုလည်း စားသောက်တတ်သည်။ ထိုရှဉ့်နီများမှ လွဲ၍ အခြား ရှဉ့်မျိုးတို့သည် အခြားသူများအား အန္တရာယ် မပြုတတ်ကြပေ။ ရှဉ့်များသည် ဆောင်းရာသီအတွက် အစားအစာကို သိုမှီးထားလေ့ ရှိကြလေသည်။

မြောက် အမေရိကတိုက်၌ တွေ့ရသော ရှဉ့်မျိုးတို့တွင် ရှဉ့်နီမျိုးတို့လည်း ပါဝင်သည်။ ယင်းတို့တွင် တောက်ပြောင်သော အုန်းခွံရောင် အမွေးများ ရှိ၍ ကိုယ်ခန္ဓာသည် ခုနစ်လက်မ ရှစ်လက်မခန့် အထိ ရှည်လျားသည်။ အမွေးဖွားသော အမြီးပွသည် ခြောက်လက်မခန့် ရှည်လျားသည်။ အာရှတိုက်နှင့် ဥရောပတိုက်မှ ရှဉ့်နီမျိုးတို့သည် ထိုရှဉ့်မျိုးတို့နှင့် ဆင်ဆင်တူသော်လည်း အမေရိကန် ရှဉ့်များက နားရွက်တွင် ပို၍အမွေးဖွားလေသည်။

မြောက်အမေရိကတိုက် ကနေဒါနိုင်ငံ အရှေ့ပိုင်းမှ အမေရိကန်နိုင်ငံ ကာလီဖိုးနီးယား ပြည်နယ်အထိ ဒေသများတွင် မွဲပြာရောင် ရှဉ့်များကို တွေ့ရသည်။ ထိုရှဉ့်မျိုးသည် ရှဉ့်နီများထက် ပို၍ ကြီးပြီးလျှင် ပို၍ ရှည်ကာ ငွေပြာရောင် အမွေးများ ရှိသည်။ မြောက်အမေရိကတိုက် သစ်ပင်နေ ရှဉ့်မျိုးအနက် မြေခွေးရှဉ့်မျိုးသည် အကြီးဆုံး ဖြစ်သည်။ ယင်းရှဉ့်မျိုး၌ မျိုးစိတ်ကွဲများရှိသေး၍ အမွေးရောင်သည် မွဲပြာရောင်နှင့် အနီရောင်မှ အနက်ရောင်အထိ ရှိသည်။ ယင်းတို့၏ ကိုယ်သည် တပေနီးပါးရှိ၍ အမြီးသည်လည်း ထိုမျှလောက်ပင် ရှိသည်။ ထိုရှဉ့်မျိုးကို အမေရိကန် ပြည်ထောင်စု အရှေ့ပိုင်းနှင့် အရှေ့ တောင်ပိုင်းတို့၌ တွေ့ရသည်။

အမေရိကန် ရှဉ့်များအနက် နားရွက်မွေးဖွား ရှဉ့်မျိုးသည် အလှဆုံးဖြစ်၍ အရှားပါးဆုံးလည်း ဖြစ်သည်။ ယင်းတို့ကို အနောက်ဖက်ပိုင်း၌ များသောအားဖြင့် တွေ့ရ၍ ကုန်းမြင့်ဒေသထင်းရှူးတောများအကြား၌ ထင်းရှူးသီးများကို စားသောက် နေထိုင်လေ့ ရှိကြသည်။

ရှဉ့်အများဆုံးတွေ့ရသော ဒေသသည် အာရှတိုက်တောင်ပိုင်း ဖြစ်သည်။ ထိုဒေသများတွင် ရှဉ့်များကို အမျိုးအစား အစုံစုံနှင့် အရေအတွက်အားဖြင့်လည်း အများအပြား တွေ့ရသည်။ မျိုးစိတ်ကွဲများလည်း များပြားလှသည်။ အိန္ဒိယနိုင်ငံ မာလာဗာ ကမ်းရိုးတန်းဒေသမှ ရှဉ့်များသည် ကြီးမား၍ နှစ်ပေခန့်မျှပင် ရှည်လျားကြသည်။ မလ္လာယုကျွန်းဆွယ်မှ ပရီဗို့ရှဉ့်တမျိုးသည် အဖြူ၊ အနက်၊ နီညို၊ ဝါညိုရောင်တို့ဖြင့် အကွက် အဆင် ဖော်ထားသကဲ့သို့သော အမွေးမျိုး ရှိ၍ လှပသည်။ အိန္ဒိယမှ ထန်းရှဉ့်ကလေးတမျိုးမှာ ခြောက်လက်မခန့်သာ ရှည်လျားလေသည်။

အာရှတိုက်ရှိ ရှဉ့်တမျိုးမှာ မိတ်လိုက်ချိန်တွင် ငှက်များကဲ့သို့ အရောင် ပြောင်းလေသည်။

# ကမ္ဘာနှင့်ချီ၍ ဂုဏ်ပြုခံရသော အင်္ဂလိပ်စာဆိုတော်ကြီး

**အင်္ဂလိပ် အမျိုးသားများသာမက တကမ္ဘာလုံးကပါ ဂုဏ်ယူ ခြီးကျူးရသော အင်္ဂလိပ်စာဆိုကြီး ရှိတ်စပီးယားသည် ပြဇာတ် အရေးအသား၌သာ ကျော်ကြားသည်မဟုတ်၊ ကဗျာ လင်္ကာ အရေးအသားဖက်၌လည်း အတော်ဆုံး စာဆိုကြီး ဖြစ်သည်။ သို့ရာတွင် သူ၏ ဘဝဖြစ်စဉ် အချက်အလက် အတိအကျကို အနည်းငယ်သာ သိရှိကြ၍ သူ့စာပေများမှ သူ့အကြောင်းကို အကဲခတ်ယူကြရသည်။**

**ရှိတ်စပီးယား, ဝီလျံ** (ခရစ် ၁၅၆၄ – ၁၆၁၆)။ ။ဂရိနိုင်ငံသည် စာဆိုတော်ကြီးဟိုးမားအတွက်ဂုဏ်တက်ရသည်။ ဣတလီ နိုင်ငံသည် စာဆိုတော်ကြီး ဒန်တီအတွက် ဂုဏ်ယူရသည်။ စာဆိုတော်ကြီး ဂါတာသည် ဂျာမနီနိုင်ငံ၏ ကျက်သရေဆောင် ဖြစ်သည်။ သို့သော် အင်္ဂလိပ် စာဆိုတော်ကြီး ဝီလျံ ရှိတ်စပီးယားကိုမူ အင်္ဂလိပ် တမျိုးသားလုံးသာမက တကမ္ဘာလုံးက ခြီးကျူးဂုဏ်ပြုကြရသည်။ စာပေ လောကတွင် ရှိတ်စပီးယားကဲ့သို့ ကမ္ဘာနှင့်ချီ၍ ခြီးကျူး လေးစားဂုဏ်ပြုမှုကို ခံယူရသူ မရှိခဲ့သေးပေ။ ရှိတ်စပီးယား၏ အမည်ကဲ့သို့ တကမ္ဘာလုံး၌ သတင်းပျံ့မွှေးခြင်း မရှိခဲ့သေးပေ။ ရှိတ်စပီးယားသည် လောကသဘာဝ၊ လူ့စိတ် လူ့သဘာဝကို အလွန်ဖောက်ထွင်း သိမြင်နိုင်စွမ်းသည်။ ဖောက်ထွင်း သိမြင်နိုင်စွမ်း သမျှကိုလည်း ပြောင်မြောက်သော အရေးအသားဖြင့် စာပေ အမွေအနှစ်တို့ကို ထားရစ်ခဲ့ပေရာ ရှိတ်စပီးယား၏ စာပေတို့ကား ကမ္ဘာ၌ အစွန့်ရှည်စွာ တည်တံ့နိုင်မည့် စာပေများပေတည်း။




ကမ္ဘာတွင် အကျော်ကြားဆုံး ပြဇာတ်ရေးဆရာကြီး ရှိတ်စပီးယား

ရှိတ်စပီးယားသည် ပြဇာတ် အရေးအသား၌ အကျော်ကြားဆုံး ဖြစ်သကဲ့သို့ ကဗျာ လင်္ကာဖက်၌လည်း အတော်ဆုံးသော စာဆိုကြီး ဖြစ်သည်။ ပြဇာတ်ရေးသားရာ၌ ဖြစ်စေ၊ ကဗျာ လင်္ကာ ရေးသားရာ၌ ဖြစ်စေ အလင်္ကာတို့ကိုရင်း၊ သုတိ သာယာမှုကိုရင်း ဖန်တီးနိုင်သူဖြစ်သည်။ ရှိတ်စပီးယား၏ စာပေတို့ကို ခေတ်အဆက်ဆက်၌ သင်ကြား မှိုချရသော စာသင်ဆရာတို့သည်ရင်း၊ သုတေသီ ပုဂ္ဂိုလ်နှင့် ဝေဖန်ရေး ဆရာတို့သည်ရင်း ရှိတ်စပီးယား၏ ထိုးထွင်း သိမြင်တတ်သော ဉာဏ်၊ သို့မဟုတ် စိတ်ကူးဉာဏ်ဖြင့် ဖန်တီးဖွဲ့ဆိုခဲ့သော လောက အမူအရာ၊ လူ့အမူအရာတို့မှ သဘောအတိမ်အနက်အလေးအပေါ့တို့ကိုမိမိဉာဏ်ခံကြီးသလောက်၊ မိမိတို့၌ အတွေ့အကြုံ အကြားအမြင် ရှိသလောက် ခံစားနိုင်မှု ရှိခဲ့ကြလေသည်။ လောက သဘာဝ လူ့သဘာဝတို့ကို ထိုးထွင်း သိမြင်တတ်သောဉာဏ်ခံ ရှိရာတွင် ကျွန်ုပ်တို့၏ မြန်မာ စာဆိုတော်ကြီး ဦးပုညသည် ရှိတ်စပီးယားနှင့် တူသည်ဟုလည်း ဆိုကြလေသည်။ ရှိတ်စပီးယား၏ စာပေ အနုပညာပါရမီ ထူးချွန်မှုသည် အံ့ခြီးဖွယ်ရာဖြစ်ပေသည်။ ကမ္ဘာပေါ်တွင် အခြား မည်သည့် ပြဇာတ်၊ မည်သည့် ကဗျာမှ ရှိတ်စပီးယား၏ ပြဇာတ်၊ ရှိတ်စပီးယား၏ ကဗျာများလောက် ဖတ်ဖူးသူများ၍ အကြိမ်များစွာ ပုံနှိပ် ထုတ်ဝေခဲ့ရခြင်း မရှိခဲ့ချေ။ ထို့ပြင် ရှိတ်စပီးယား၏ ပြဇာတ်နှင့် ကဗျာများကို ဘာသာမျိုးစုံသို့ ပြန်ဆိုထားလေရာ ခရစ်ယန် သမ္မာကျမ်းစာမှ လွဲလျှင် အခြား မည်သည့်စာအုပ်မျှ သူ၏ ပြဇာတ်နှင့်ကဗျာများလောက် ဘာသာမျိုးစုံသို့ ပြန်ဆိုထားခြင်း မခံခဲ့ရချေ။

ထိုမျှလောက် ကမ္ဘာနှင့် ချီ၍ လူကြိုက်များရသည့် အကြောင်းရင်းမှာ ရှိတ်စပီးယားသည် ဇာတ်ကောင် အမျိုးမျိုးကို သရုပ်ပါလှစွာ ဖော်ထုတ်စွမ်းနိုင်ခြင်းကြောင့် ဖြစ်ပေ၏။ ရှိတ်စပီးယား၏ ဇာတ်ကောင်များတွင် ရှင်ဘုရင်မှ ခါးပိုက်နှိုက်အထိ လူတန်းစား အမျိုးမျိုး ပါဝင်လေရာ ဆိုင်ရာ အဆင့်အတန်းနှင့် လျော်ညီ၍ သရုပ် ပါလှအောင် ဇာတ်ကောင်များကို ဖန်တီး ရေးသားနိုင်ခဲ့လေသည်။ လူ့သဘောကို အလွန်သိနားလည်သူ ဖြစ်သဖြင့် တစုံတခုသော အခြေအနေသို့ ရောက်ရှိလာသော လူတန်းစား တမျိုးမျိုးမှ လူတဦးတယောက်၌ ဖြစ်ပေါ်မည့် စိတ်ဓာတ်၊ ပြောဆိုမည့် စကား၊ ပြုလုပ်မည့် အပြုအမူများကို သဘာဝကျကျ ဖော်ပြနိုင်ခဲ့၏။ ထို့ကြောင့် သူ၏ ပြဇာတ်များကို ဖတ်သူအများမှာ သူတို့ပတ်ဝန်းကျင်ရှိ တကယ့်လူများထက်ပင် သူ၏ ဇာတ်ကောင်များကအသက်ပါသည်ဟုထင်မှတ်မှားခဲ့ရလေသည်။

ရှိတ်စပီးယား၏ အခြား ထူးခြားချက်တခုမှာ အဖက်ဖက်၌ ပညာဗဟုသုတ စုံလှခြင်း ဖြစ်သည်။ ယင်းသို့ ပြည့်စုံရာ၌လည်း အတော်အတန် တီးခေါက်မိရုံသာ ပြည့်စုံသည်မဟုတ်ပေ။ ဆိုင်ရာ ဆိုင်ရာ၌ အလွန် ကျွမ်းကျင်စွာ လုပ်ကိုင်ဘူးသူ တဦးကဲ့သို့ သိစွမ်းသော ဉာဏ်ပညာ ပါရမီရှင်တဦး ဖြစ်၏။ ပမာအားဖြင့် ဆိုရလျှင် ဥပဒေပညာရပ် ဆိုင်ရာ ဗဟုသုတနှင့် စပ်လျဉ်း၍ ရှိတ်စပီးယားသည် ရှေ့နေတဦး ဖြစ်ဘူးရမည်ဟု ရှေ့နေ ရှေ့ရပ်တို့က ပြောဆိုကြပြီးလျှင်၊ ရေကြောင်း ပညာ ဗဟုသုတနှင့် စပ်လျဉ်းလာပြန်လျှင်လည်း သင်္ဘောသားများက ရှိတ်စပီးယားသည် ရေကြောင်းဖက်၌ အမှုထမ်းဘူးသူ ဖြစ်ရမည်ဟု ပြောဆိုကြလေသည်။ ထိုနည်းတူစွာ တူရိယာ ဂီတ၊ နိုင်ငံရေး၊ စိတ်ပညာ၊ အမဲလိုက်ခြင်း၊ နိုင်ငံသမိုင်း၊ အနုပညာ၊ တိရစ္ဆာန် မွေးမြူရေး စသည်တို့၌လည်း ထိုကဲ့သို့ထင်မှတ်ပြောဆိုရလောက်အောင်ပင် တတ်သိနားလည်သူ စွယ်စုံ ပါရမီရှင်တဦးဖြစ်လေသည်။ စင်စစ်အားဖြင့် ရှိတ်စပီးယားသည် သဘင်အလုပ်ကိုသာ ကိုယ်တိုင် လုပ်ကိုင်၍ ကိုယ်တွေ့ဗဟုသုတ ရရှိထားသူ ဖြစ်သည်။ သို့သော် သက်ဆိုင်ရာတို့၏ ပြောပြချက်များကို သေချာစွာ မှတ်သားထား၍ ထိုသို့ မှတ်သား နားလည်ထားသမျှကို နေရာတကျ အသုံးပြုတတ်သည့် ထူးခြားသောဉာဏ်ကြောင့်သာ ထိုသို့ ပြောဆိုခြင်း ခံခဲ့ရဟန် တူပေသည်။

ရှိတ်စပီးယား၏ အထူးခြားဆုံး အချက်မှာ မနိုင်းရှည့်နိုင်လောက်အောင် အင်္ဂလိပ် စကားလုံးတို့ကို နိုင်နိုင် နင်းနင်း

အသုံးပြုနိုင်ခြင်း ဖြစ်ပေသည်။ ဘုရင်ပြောသည့် စကားလည်း ဘုရင့်စကား အလျောက်၊ သူခိုးပြောသည့် စကားလည်း သူခိုးပြောသည့်စကားအလျောက် တန်ရာ တန်ရာဖြင့် ဒေါင့်စေ့အောင် ရေးသားနိုင်စွမ်း ရှိလေသည်။ ရှိတ်စပီးယားသည် စကားလုံး အသစ်အဆန်းများကို ထွင်ခဲ့သူလည်း ဖြစ်သည်။ ရှိတ်စပီးယား သုံးသွားသည့် စကားလုံးများကို ယခုတိုင် အင်္ဂလိပ်စကားနှင့် စာပေများတွင် ထည့်သွင်း သုံးစွဲနေရ၏။ ရှိတ်စပီးယားသာ ယင်းသို့ စကားလုံးများကို ထွင်၍ မသုံးခဲ့ပါက အင်္ဂလိပ် စကားနှင့် စာပေသည် ယခုလောက် စကားလုံး လှလှကလေးများနှင့် ကြွယ်ဝချင်မှ ကြွယ်ဝမည်ဟု ဆိုကြလေသည်။

ယင်းသို့သော ပါရမီရှင် တဦး ဖြစ်သူ ရှိတ်စပီးယား၏ အကျိုး အကြောင်း အတ္ထုပ္ပတ္တိကို စေ့စေ့ စုံလင်စွာ သိရှိလိုကြသော်လည်း မသိနိုင်ကြရပေ။ ရှိတ်စပီးယား၏ ခေတ်ဖြစ်သော ပဌမ အဲယ်လစ်ဇဗက် ဘုရင်မ လက်ထက်တော်က ထိုကဲ့သို့သော စာဆိုတော်များ၊ စာပေပညာရှိများ၏ အတ္ထုပ္ပတ္တိများကို စုဆောင်းရေးသားလေ့ မရှိကြဘဲ ဘုရင်များ၏ အတ္ထုပ္ပတ္တိများကိုသာ အရေးတယူ ရေးသား မှတ်တမ်း တင်လေ့ ရှိကြသည်။ ထို့ကြောင့် ရှိတ်စပီးယား၏ အတ္ထုပ္ပတ္တိအစုံအလင်ကို သေချာစွာ မသိကြရချေ။ သို့သော် ထိုပါရမီရှင်ကြီး၏ အကျိုး အကြောင်းကို အပင်ပန်းခံကာ သေချာစွာ စုဆောင်းလေ့လာကြသူများကြောင့် အချက် အလက် အတော်အတန်မျှကိုကား သိရှိရပေသည်။

ကမ္ဘာကျော်မည့် ဝီလျံ ရှိတ်စပီးယားအား စထရက်ဖို့-အွန်-ဧဗွန်းအမည်ရှိ၍ အရှေ့အဝယ် စည်ကားပြီးလျှင် လန်ဒန်မြို့မှ အနောက်မြောက်ဖက် မိုင် ၈၀ ခန့် ကွာသော မြို့ကလေးတမြို့၌ ၁၅၆၄ ခုနှစ် ဧပြီလကုန်ခါနီးတွင် မွေးဖွားလေသည်။ ဖခင်ဖြစ်သူမှာ အတော်အတန် ကြွယ်ဝချမ်းသာသော ကုန်သည်တဦး ဖြစ်၍ မြို့တော်ဝန်ပင် ဖြစ်ခဲ့ဘူး၏။ ရှိတ်စပီးယားသည် ငယ်စဉ်က ထိုမြို့ရှိ အခလွတ် သဒ္ဒါကျောင်းတွင် ဂရိနှင့် လက်တင်ဘာသာတို့ကို သင်ယူ တတ်မြောက်ခဲ့ဟန် တူလေသည်။

ရှိတ်စပီးယား အသက် ဆဲ့သုံးလေးနှစ် အရွယ်လောက်တွင် ဖခင်ဖြစ်သူသည် စီးပွားပျက်ပြားသွားဟန် ရှိသည်။ ထို့ကြောင့် ရှိတ်စပီးယားကို ကျောင်းမှ ထုတ်ရကာ ကုန်သည်ကြီး တဦးထံ၌ အကူအညီ အဖြစ် လုပ်ကိုင်စေရဟန် တူသော အချက်အလက်များ တွေ့ရသော်လည်း တိကျ သေချာစွာကား မသိရပေ။ သို့သော် ၁၅၈၂ ခုနှစ် နိုဝင်ဘာလ ၂၇ ရက်နေ့တွင် ရှိတ်စပီးယားသည် အန်းဟာသာဝေအမည်ရှိသူ အမျိုးသမီးတဦးနှင့် လက်ထပ်ကြောင်း သိရ၏။ ထိုစဉ်က ရှိတ်စပီးယားသည် ၁၈ နှစ် မျှသာရှိသေး၍ အန်းမှာ သူ့ထက်ရှစ်နှစ်မျှ ကြီးလေသည်။ ထို့နောက် သမီးကလေးသုံးယောက် ရပြီးသည့်နောက်တွင် ရှိတ်စပီးယားသည် လန်ဒန်မြို့သို့ ရောက်လာလေသည်။ မည်သည့်နှစ်က မည်သို့သော အကြောင်းကြောင့် သူ၏နေရပ်မှ ထွက်ခွာလာကြောင်းကို မည်သူမျှ အသေအချာ မပြောနိုင်ပေ။ အချို့ကမူ သူ၏ အိမ်ထောင်ရေး မသာယာမှုကြောင့်ဟု ဆိုကြ၏။ အချို့ကမူ ပါလီမန်အမတ်လည်း ဖြစ်၍ တရားသူကြီးတဦးလည်း ဖြစ်သူ ဆာ တောမတ် လူစီ၏ သီးသန့်တောအုပ်တွင်းမှ သမင်များကိုခိုး၍ ပစ်သတ်သည့်အတွက် အမှုဖြစ်သောကြောင့် အရှက်ရကာ လန်ဒန်သို့ထွက်လာခြင်းဖြစ်သည်ဟုဆိုကြလေသည်။

မည်သို့သော အကြောင်းကြောင့် နေရပ်ကို စွန့်ခွာလာရသည် ဖြစ်စေ လန်ဒန်မြို့သို့ ရောက်သောအခါ ဇာတ်ရုံတရုံတွင် ဝင်ရောက် အလုပ်လုပ်ရကြောင်းကား သေချာ ပေ၏။ သို့သော် မည်သည့်အတွက်ကြောင့် သဘင်လုပ်ငန်းဖက်တွင် ဝင်ရောက်လုပ်ကိုင်သည်ကိုလည်း မသိရပေ။ ဦးစွာ၌ သဘင်လုပ်ငန်းတွင် အတော်ပင် နိမ့်ကျသော အလုပ်များကို ဝင်ရောက်လုပ်ကိုင်ရပြီးနောက် တဖြည်းဖြည်းပြဇာတ်များတွင် မထင်ရှားသော အခန်းများမှ ပါဝင်ခဲ့ရလေသည်။ ၁၅၉၂ ခုနှစ်တွင်ကား ရှိတ်စပီးယားသည် လူသိများသော ပြဇာတ်သမားနှင့် ပြဇာတ် စာရေးဆရာတဦး ဖြစ်လာလေသည်။

၁၅၉၂ ခုနှစ်မှ ၁၅၉၄ ခုနှစ်အထိ နှစ်များအတွင်း၌ လန်ဒန်မြို့တွင် ပလိပ်ကပ်ရောဂါ ဖြစ်ပွား၍ မြို့ရွာ အခြေ အနေ မငြိမ်သက်မှုကြောင့် ဇာတ်ရုံများ ပိတ်ထားခဲ့ရလေသည်။ ထိုအခါတွင် ရှိတ်စပီးယားသည် ဝတ္ထုကြောင်း ပါသည့် ကဗျာရှည်ကြီးများကို ရေးသား၍ ထုတ်ဝေခဲ့၏။ ပဌမဆုံး ထုတ်ဝေသော ကဗျာကြီးများသည် "ဗီးနပ်နှင့် အဒိုနစ်" ကဗျာနှင့် "လူကရီး" ကဗျာကြီးများဖြစ်ရာ အလွန်လူကြိုက်များခဲ့သည်။ ထိုကဗျာများကို အားလ ဆောက်သမ်ပတန်အား ရည်ညွှန်း၍ ရေးထားရာ ထိုသူမှာ ရှိတ်စပီးယားအား ချီးမြှောက် စောင့်ရှောက်ကူညီသူဟု ပြောစမှတ် ပြုကြလေသည်။

ရှိတ်စပီးယားသည် မိမိအတွက် ပြဇာတ်တွင် ပါဝင် ကပြသည်ထက် ပြဇာတ်များ ရေးသားသည်က ပိုမို သင့်လျော်ကြောင်း သိလာသည်မှ စ၍ ပြဇာတ်များကို ရေးသားခဲ့သည် ဟုဆိုကြသည်။ သူသည် ပြဇာတ်များကို ကြိုးစားရေးသားခဲ့ရာ လူကြိုက် အလွန်များလာ၍ ထင်ရှားသည်ထက် ထင်ရှားကျော်ကြားလာသည်။ ရှိတ်စပီးယားသည် တနှစ်လျှင် ပြဇာတ်နှစ်ပုဒ်ကျ နှစ်ပေါင်း ၂၀ ကျော်မျှ ရေးသားခဲ့၏။ ထို့ပြင် ကဗျာတိုပေါင်း ၁၅၀ ကျော်ခန့်ကိုလည်း ရေးသားခဲ့ရာ အလွန် အဆင့်အတန်း မြင့်သော ကဗျာများ အဖြစ် ယခုထက်တိုင် ထင်ရှားနေပေသေးသည်။

၁၅၉၄ ခုနှစ် မတိုင်မီက ရှိတ်စပီးယားပါဝင်ခဲ့သော ဇာတ်အဖွဲ့သည် မည်သည့်အဖွဲ့ ဖြစ်သည်ကို မသိရသော်လည်း



စထရက်ဖို့-အွန်-ဧွန်းမြို့ရှိ ရှိတ်စပီးယား မွေးဖွား နေထိုင်ခဲ့ရာ အိမ်ဂေဟာ

၁၅၉၄ ခုနှစ်မှစ၍ ပါဝင်ခဲ့သော အဖွဲ့မှာ ပဌမတွင် လော့ချိန်ဗာလိန်အဖွဲ့ဟုခေါ် ဆို၍ ထိုအဖွဲ့တွင် ကွယ်လွန်သည့်တိုင်အောင်ပင် ပါဝင်ခဲ့လေသည်။ ၁၆၀၃ ခုနှစ်၌ ဂျိမ်းဘုရင် နန်းတက်ပြီးနောက် ဘုရင်ကိုယ်တိုင် ထိုအဖွဲ့၏နာယက ဖြစ်လာ၍ ထိုအဖွဲ့၏အမည်ကို ဘုရင့်အဖွဲ့ဟု အမည်ပြောင်းခဲ့လေသည်။ ရှိတ်စပီးယားသည် မိမိအဖွဲ့အတွက် ပြဇာတ်များကို ရေးသား၍ တခါတရံ ထိုပြဇာတ်တွင် ကိုယ်တိုင်ပါဝင် ကပြသည်။ ရှိတ်စပီးယားတို့၏ ပြဇာတ်အဖွဲ့သည် လန်ဒန်မြို့တွင် နာမည်အကြီးဆုံးဖြစ်၍ ဝင်ငွေလည်း အရဆုံးဖြစ်၏။ ထိုပြင် သူ၏ ပြဇာတ်များကို ပုံနှိပ်ရောင်းချရန်နှင့် ရုံတင်ပြရန် အတွက်လည်း ရောင်းစားခဲ့သည်။ ထိုကြောင့် ရှိတ်စပီးယားသည် ငွေဝင်လမ်းဖြောင့်ခဲ့၍ ငွေကြေး အတော်ပင် စုဆောင်းမိကာ မိမိ၏ ဖွားရာဇာတိမြို့တွင် အကောင်းဆုံး အိမ်နှင့် မြေကွက်များ ဝယ်ယူထား၍ လန်ဒန်မြို့တွင်လည်း အိမ်တလုံး ဝယ်ထားခဲ့သည်။ မိမိတို့အဖွဲ့ ကပြသောဂလုပ်ဇာတ်ရုံတွင်လည်း အစုများ ပါဝင်ထားခဲ့သည်။ ထိုကြောင့် ရှိတ်စပီယားသည် စီးပွား အတော်ဖြစ်ထွန်းကာ သူ၏ ငွေရေးကြေးရေး အခြေအနေမှာလည်း အတော်ပင် ခိုင်လုံခဲ့ကြောင်း သိရလေသည်။

၁၆၀၈ ခုနှစ်လောက်မှ စ၍ ရှိတ်စပီးယားသည် ပြဇာတ်များကို ယခင်ကလောက် မရေးတော့သည့်ပြင် ပြဇာတ်များတွင်လည်း ရံဖန်ရံခါသာ ဝင်ရောက် ကပြခဲ့လေသည်။ ၁၆၁၂ ခုနှစ်တွင်မူ လန်ဒန်မြို့သို့ မကြာခဏ သွားရောက်ကြောင်း သိရသော်လည်း စထရက်ဖို့မြို့တွင်သာ အနေများကြောင်း အထောက်အထားများ တွေ့ရလေသည်။ ၁၆၁၆ ခုနှစ် မတ်လ လောက်တွင် မကျန်းမမာဖြစ်လာရာ ရှိတ်စပီးယားသည် စထရက်ဖို့မြို့၌သာ နေထိုင်လေသည်။ ယင်းသို့ မကျန်းမမာဖြစ်ခဲ့ရာမှ နာလန်မထူတော့ဘဲ အသက် ၅၂ နှစ်အရွယ် ၁၆၁၆ ခုနှစ် ဧပြီလ ၂၃ ရက်နေ့တွင် အနိစ္စရောက်သွားရှာ၏။ ထိုမြို့၏ မျက်နှာဖုံး ပုဂ္ဂိုလ်ကြီး အဖြစ်ဖြင့် ရှိတ်စပီးယားအား စထရက်ဖို့မြို့၏ ဟိုလီထရင်နိတီ ဘုရားရှိခိုးကျောင်းဝင်းကြီး အတွင်း၌ မြှုပ်နှံ ထားလေသည်။ ထိုကျောင်းကြီးကား ရှိတ်စပီးယား ငယ်စဉ်က ရေဖျန်းမင်္ဂလာခံယူခဲ့ရာ ကျောင်းကြီးလည်း ဖြစ်ပေသည်။

ရှိတ်စပီးယား၏ပြဇာတ်များကို သုံးပိုင်း ခွဲခြားနိုင်သည်။ ယင်းတို့မှာ အသော ပြဇာတ်၊ အလွမ်း ပြဇာတ်၊ သမိုင်း ပြဇာတ်ဟူ၍ ဖြစ်သည်။ ရှိတ်စပီးယား ပေါ်ထွက်သည့် ခရစ် ၁၆ ရာစုနှစ်၊ ပဌမ အယ်လစ်ဇဗက် ဘုရင်မကြီး လက်ထက်တွင် ပြဇာတ်ရေး ဆရာများသည် ဇာတ်လမ်းအသစ် မထွင်ဘဲ ပေါ်ပြီး ရှိပြီး ဝတ္ထုများ၏ ဇာတ်ကြောင်း ဇာတ်ကွက်

များကို အတုယူ၍သော်၎င်း၊ ကူးယူ၍သော်၎င်း၊ ပြန်လည်ပြုပြင်၍ သော်၎င်း စီစဉ် ရေးသားလေ့ ရှိကြသည်။ ရှိတ်စပီးယားသည်လည်း ကိုယ်တိုင် ဇာတ်ကွက်ဇာတ်လမ်း အသစ်ထွင်၍ မရေးသား မဖန်တီးခဲ့ပေ။မိမိ ဖတ်ဖူးသော ဝတ္ထုများမှ ဖြစ်စေ၊ မိမိနိုင်ငံ၏ သမိုင်းမှဖြစ်စေ၊ ဂရိနှင့် ရောမနိုင်ငံများ၏ သမိုင်းမှဖြစ်စေ၊ စပိန်ပုံပြင်၊ ပြင်သစ်ပုံပြင်တို့မှ ဖြစ်စေ၊ ရှေးရှေးကဗျာများမှ ဖြစ်စေ ဇာတ်လမ်း ဇာတ်ကွက်တို့ကို ကောက်နုတ် ယူငင်ကာ စီစဉ် ရေးသားခဲ့သည်။ ဖြုတ်တန် ဖြုတ်၊ ဖြည့်တန်ဖြည့်၊ ဆက်တန် ဆက်ပြီးလျှင် ပြုပြင် မွမ်းမံရေးသားခဲ့ခြင်းဖြစ်သည်။ များသောအားဖြင့် အရိုးကိုသာ ယူ၍ အဆာအသားတို့ဖြင့် ဖြည့်စွက် တန်ဆာဆင်ပေးခြင်း ဖြစ်ရာ အပြုအပြင် တန်ဆာဆင် ကောင်းလှသဖြင့် ထိုပြဇာတ်များသည် ရှိတ်စပီးယား၏ကိုယ်ပိုင်တီထွင်ချက်များဟု ထင်မှတ်ရသည်။ သူကလောင်ဖျား၌ ထိုဇာတ်လမ်းတို့သည် တမျိုးတဖုံ ဆန်းသစ်ကာ လူ့သဘာဝ အဖွဲ့ကောင်းများ ဖြစ်လာကြလေသည်။ လောက သဘာဝအဖွဲ့၊ လူ့သဘာဝ အဖွဲ့တို့ကို အသင့်ယုတ္တိ အမျိုးမျိုး ဖန်တီး တင်ပြတတ်လေသည်။ ကျွန်ုပ်တို့၏စာဆိုတော်ကြီး စလေဦးပုညသည်လည်း ရှိတ်စပီးယားကဲ့သို့ပင် မိမိ၏ စာပါ ဇာတ်လမ်း ဇာတ်ကွက်တို့ကို အသစ် ဖန်တီးသူမဟုတ်ဘဲ လောကသဘာဝ အဖွဲ့ကိုသော်၎င်း၊ လူ့သဘာဝအဖွဲ့ကို သော်၎င်း ဖန်တီးဖွဲ့ဆို၍ အသင့်ယုတ္တိအမျိုးမျိုးဖြင့် တင်ပြသူ ဖြစ်လေသည်။

ပြဇာတ်များ ရေးသားစက အလွမ်းရော အသောပါ ပြဇာတ်မျိုးစုံကို ရေးသားခဲ့၏။ သို့သော် "ရိုမီယိုနှင့် ဂျူးလီယက်"ကို ၁၅၉၂ ခုနှစ်တွင် ရေးသားခဲ့ရာမှ ရှိတ်စပီးယား၏ အစွမ်းအစမှာ တဖြည်းဖြည်း ထင်ပေါ် လာလေသည်။ ပြဇာတ်ရေးဆရာ ဘဝ၏ အလယ်ပိုင်းလောက်တွင် ရှိတ်စပီးယားသည် သမိုင်း ပြဇာတ်များနှင့် အသောပြဇာတ်များကိုသာ ရေးသားခဲ့လေသည်။ ထိုအချိန်က တိုင်းသူ ပြည်သားတို့မှာ ဇာတိမာန်များ တက်ကြွနေကာ မိမိတို့ တိုင်းပြည်နှင့် မိမိတို့ လူမျိုး၏ တန်ခိုးကြီးမြင့်ပုံ နိုင်ငံသမိုင်း ဆိုင်ရာ ဇာတ်လမ်းများကိုသာ ကြည့်လိုကြသဖြင့် "ဒုတိယ ရစ်ချတ်"၊ "စတုတ္ထ ဟင်နရီ"၊ "ပဥ္စမ ဟင်နရီ"၊ "စတုတ္ထ အက်ဒွပ်" စသည့် အင်္ဂလန်ပြည့်ရှင် ဘုရင်များအကြောင်း ပြဇာတ်များကို ရှိတ်စပီးယားသည် ရေးသားပြသစေခဲ့၏။ သို့ရာတွင် အသော ပြဇာတ်များကိုကား သမိုင်း ပြဇာတ်များထက် ပိုမိုများပြားစွာ ရေးခဲ့၏။ ၁၆၀၀ ပြည့်နှစ် လောက်မှ စ၍ ရှိတ်စပီးယားသည် ဇရာပိုင်းသို့ ယိမ်းယိုင်လာပြီ ဖြစ်သဖြင့်



ရှိတ်စပီးယား အိမ်တွင်းရှိ စာကြည့်ခန်း

အတွေ့အကြုံ ဗဟုသုတလည်း များလာသောကြောင့် ထိုအခါက ရေးခဲ့သော ပြဇာတ်များသည် လူ့ဘဝ၏ ပြဿနာများကို လေးနက်စွာ ဆင်ခြင်သုံးသပ်ပြီး ရေးသားသော ပြဇာတ်များ ဖြစ်ပေသည်။ ထိုအခါက ရေးသားသော ပြဇာတ်များသည် အလွမ်းပြဇာတ်များ ဖြစ်သည့်ပြင် အလွန်တရာ အဓိပ္ပါယ် လေးနက်၍ နက်နဲလှပေ၏။ ပမာဆိုလျှင် "ဟင်းမလက်"၊ "မက္ကဗက်" စသည့် ပြဇာတ်များသည် ထိုအချိန် ကာလက ရေးသားခဲ့သော ပြဇာတ်များ ဖြစ်၍ နှစ်ခေါက်သုံးခေါက် ဖတ်ရုံနှင့် အဓိပ္ပါယ် မပေါက်နိုင်အောင် ခက်ခဲ နက်နဲလေသည်။ "အော့သယ်လို"၊ "လီယာဘုရင်" စသည့်ပြဇာတ်များကိုလည်း ထိုအချိန်က ရေးသားခဲ့သည်။ ၁၆၀၉ ခုနှစ် အလွန်လောက်တွင် ရေးသားသည့် ပြဇာတ်များတွင်ကား နက်နဲသော သဘောတရားများ ပါဝင်သော်လည်း အဆုံးသတ်တွင် အလွမ်းနှင့်ဇာတ်မသိမ်းဘဲ ရေးသားထားလေသည်။

ရှိတ်စပီးယားကား မည်သည့် ပြဇာတ်မျိုးကိုပင် ရေးရေး နိုင်နင်းစွာ ရေးသား နိုင်သည်။ သူ၏ သမိုင်းပြဇာတ်မျိုးကို အခြားမည်သူမျှ သူ၏ အဆင့်အတန်းမျိုး မှီအောင် လိုက်၍ မရေးနိုင်သကဲ့သို့ အလွမ်းအသော ပြဇာတ်များတွင်လည်း သူ၏ အရေးအသားမျိုးကို လိုက်နိုင်သူ မပေါ်ပေါက်ခဲ့သေးချေ။ ပြဇာတ်ဖက်တွင်ရှင်း၊ ကဗျာဖက်တွင်ရှင်း သူလိုလူကား တဦးတည်းသာ ရှိခဲ့ပေသည်။ သူ၏စကားလုံး အသုံးအနှုန်း လေးနက် ကောင်းမွန်လှခြင်းကြောင့် လွမ်းစရာ အခန်း၌လည်း လွန်စွာ စိတ်ထိခိုက်ကြရပြီးလျှင် ကြောက်စရာ အခန်း၌လည်း လွန်စွာ စိတ်တုန်လှုပ် ချောက်ခြားခြင်း ဖြစ်ကြရလေသည်။ ထိုမျှလောက် သူတပါး၏ စိတ်ကို ထိအောင် မိအောင် ဆွဲဆောင်နိုင်စွမ်း ရှိသူသည် ရှိတ်စပီးယားမှ လွဲ၍ မပေါ်ပေါက်ခဲ့သေးချေ။ ထိုပြင် သူ၏ အရေးအသားများမှာ သူ့ခေတ်၌သာ ထင်ရှားသည် မဟုတ်ဘဲ ယခုထက်တိုင် တူနိုင်းမမှီသော စာပေများအဖြစ် တည်တံ့နေပေသေး၏။ ထို့ကြောင့် ရှိတ်စပီးယား၏ မိတ်ဆွေရင်းတဦး ဖြစ်သူ ဗင်ဂျွန်ဆန်က ရှိတ်စပီးယားအား တခေတ်ထဲတွင်မဟုတ်ဘဲ ထာဝရ ကျော်ကြားနေမည့်သူ ဟု ထုတ်ဖော် ပြောဆို ချီးကျူးခဲ့လေသည်။

ထိုပြင် ရှိတ်စပီးယားသည် အင်္ဂလန် ပြည်တွင်သာ ထင်ရှားကျော်ကြား၍ အင်္ဂလိပ်တို့၏ ကြည်ညိုလေးစားမှုကိုသာ ခံယူ ရရှိသည် မဟုတ်ချေ။ သူ၏ ဂုဏ်သတင်းမှာ တကမ္ဘာလုံးလိုလိုတွင်ပင် ပျံ့နှံ့နေပြီးလျှင် အင်္ဂလိပ်စာ တတ်ကျွမ်းသော အခြား လူမျိုးပေါင်းစုံတို့ကလည်း ဝိုင်းဝန်း ကြည်ညိုလေးစားခြင်း ခံရလေသည်။ ထိုပုဂ္ဂိုလ်ကြီး၏ မွေးနေ့တွင် ကမ္ဘာပေါ်ရှိ အင်္ဂလိပ်ဘာသာ စကားသုံးသော နိုင်ငံတိုင်း၌ ရှိတ်စပီးယားနေ့ ဟူ၍ သတ်မှတ်ပြီးလျှင် ထိုပုဂ္ဂိုလ်ကြီး၏

ပြဇာတ်များကို အထူးတလည် ကပြခြင်း၊ သူ၏ ကဗျာ စာပေများကို လူပုံအလယ်တွင်ဖတ်ရွတ်ခြင်း စသည်ဖြင့် အရေးတယူ ကြီးကျယ်ခမ်းနားစွာ ကျင်းပကြလေသည်။ ယင်းသို့ ဥဒါန်းမကျေနိုင်စရာ ထင်ရှားလှသော စာပေပုဂ္ဂိုလ်ကြီး မွေးဖွားရာ နေအိမ်၊ သင်္ချိုင်း စသည့် သူနှင့် သက်ဆိုင်သမျှ နေရာဒေသ အသုံးအဆောင်များကို ဗြိတိသျှအစိုးရက ခြေရာလက်ရာ မပျက်အောင် ထိန်းသိမ်း စောင့်ရှောက်ထားလေရာ နှစ်စဉ် နှစ်တိုင်းပင် ထိုနေရာဒေသများသို့ သွားရောက်ကြည့်ရှုကြသူများမှာ ထောင်သောင်းမက များပြားလှ၏။ စာဆိုတော်ကြီး ရှိတ်စပီးယားကား ဤမျှလောက် လူအပေါင်း၏ လေးစားချီးကျူးခြင်းကိုခံယူထိုက်လှအောင် ထူးချွန်၍ ပါရမီဉာဏ် ရင့်သန်လှသူ တဦးလည်း ဖြစ်ပါပေသတည်း။

**ရှန်ဟိုင်းမြို့။** ။ရှန်ဟိုင်းမြို့သည် တရုပ်နိုင်ငံ၏ အကြီးဆုံး သင်္ဘောဆိပ်မြို့ကြီး ဖြစ်သည့် အပြင် ကုန်သွယ် စီးပွားရေး အချက်အခြာ မြို့ကြီးလည်း ဖြစ်သည်။ ကမ္ဘာပေါ်ရှိ အထင်ရှား အကြီးကျယ်ဆုံးသော မြို့ကြီး ၁၆ မြို့တွင် တတိယ အဖြစ် ပါဝင်လေသည်။ သင်္ဘောဆိပ်ကောင်း မြို့ကြီး ဖြစ်သော်လည်း ပင်လယ်ဝတွင် မရှိဘဲ ယန်စီမြစ်တွင်းသို့ စီးဝင်သော ဟွန်ပူမြစ် အနောက်ဖက်ကမ်း ပေါ်တွင် တည်ရှိလျက် ယန်စီမြစ်ဝမှ ၁၄ မိုင်ခန့် ကွာဝေးလေသည်။ ထိုသို့ပင်လယ်နှင့် ဝေးသောကြောင့်ပင် တရုပ်ဘာသာဖြင့် ရှန်ဟိုင်းမြို့ ဟုခေါ်တွင် ခဲ့လေသည်။ ပင်လယ်ကူး သင်္ဘောကြီးများ ဆိုက်ကပ်နိုင်စေရန် အမြဲလိုပင် နုံးများကို ဆယ်၍ သင်္ဘောဆိပ်ကို ပြုပြင်နေရလေသည်။

ရှန်ဟိုင်းမြို့သည် ခရစ်နှစ် ၁၈၄၂ ခုနှစ် မတိုင်မီက ဟွန်ပူမြစ်ကမ်း၏ နုံးတင်မြေနုပေါ်တွင် တည်ရှိသော တံငါရွာကလေးမျှသာ ဖြစ်၏။ သို့ရာတွင် ၁၈၄၂ ခုနှစ်တွင် တရုပ်နိုင်ငံတွင်းသို့ နိုင်ငံခြားသားများ ဝင်ထွက် ကူးသန်းနိုင်ရေး စာချုပ်ကို အင်္ဂလိပ်နှင့် တရုပ်တို့ နန်ကင်းမြို့၌ ချုပ်ဆိုလိုက်သော အခါမှ စ၍ တဖြည်းဖြည်း တိုးတက်လာခဲ့ရာ ကမ္ဘာကျော် သင်္ဘောဆိပ် မြို့ကြီးတမြို့ ဖြစ်လာလေသည်။ တရုပ်နိုင်ငံ လူဦးရေ ထက်ဝက်ခန့် နေထိုင်ရာ ယန်စီမြစ်ဝှမ်းဒေသ ဖြစ်သော တရုပ်နိုင်ငံ အလယ်ပိုင်းတခုလုံးသည် ယင်း၏ ကျောထောက်နောက်ခံ နယ်ကြီး ဖြစ်နေသည့် အလျောက် ရှန်ဟိုင်းမြို့သည် တရုပ်နိုင်ငံ၏ ထက်ဝက်ခန့်မျှသော နိုင်ငံခြား ကူးသန်းရောင်းဝယ်ရေးကို အုပ်စီးကြိုးကိုင်နိုင်သည့် အချက်အခြာမြို့ကြီး အဖြစ်သို့ ရောက်လာလေသည်။

ရှန်ဟိုင်းမြို့သည် သုံးပွင့်ဆိုင် မြို့ကြီး အဖြစ်ဖြင့် ကြီးပွားတိုးတက်ခဲ့လေသည်။ သုံးပွင့်ဆိုင် မြို့ကြီးတွင် အပါအဝင်တို့မှာ နိုင်ငံပေါင်းစုံရပ်ကွက်၊ "ပြင်သစ်မြို့" ခေါ် ပြင်သစ်ရပ်



ရှန်ဟိုင်းမြို့ကို ပင်လယ်ဖက်မှ ဤသို့ သာယာဖွယ်ရာ ရှုမြင်ရသည်။

ကွက်နှင့် တရုပ်ရပ်ကွက်တို့ပင် ဖြစ်ကြ၏။ နိုင်ငံပေါင်းစုံ ရပ်ကွက်သည် ဟွန်ပူမြစ်ကမ်းတလျှောက်တွင် တည်ရှိ၍ ခေတ်မီသော အဆောက်အအုံများဖြင့် ခမ်းနား စည်ကားလှသည်။ အထပ် ၂၀ ကျော်ရှိသော မိုးထိတိုက်ပေါင်း များစွာ ရှိသဖြင့် ကမ္ဘာ့အရှေ့ဖက်တလွှားတွင် အထူးပင် သာယာ တင့်တယ်လေသည်။ ပြင်သစ်ရပ်ကွက်သည် မြစ်ကမ်းနှင့် အတန်ငယ် လှမ်း၍ နောက်ဖက်ကျကျ၌ တည်ရှိပြီးလျှင် ထိုရပ်ကွက်တွင် ရှိသော အဆောက်အအုံတို့သည် အနည်းငယ် သေးငယ်ကြ၏။ သို့သော် သပ်ယပ်ကောင်းမွန်သော လူနေအိမ်များပေါများသည်။ မဟာရှန်ဟဲ မျူနီစီပယ် ပိုင်နက်သည် ထိုနိုင်ငံပေါင်းစုံရပ်ကွက်နှင့် ပြင်သစ် ရပ်ကွက်တို့ကို ပတ်ရံနေသည်သာမက ဆင်ခြေဖုံး မြို့ကလေးများလည်း ပါဝင်နေလေသည်။ ဆင်ခြေဖုံးမြို့ကလေးများကား မြို့ရိုးကာ ရှန်ဟိုင်းမြို့ဟောင်း၊ မြစ်တဖက်ကမ်းရှိ ပူတွန်းမြို့၊ မြို့တောင်ဖက်ရှိ နန်တောင်မြို့နှင့် မြောက်ဖက်ရှိ ချာပေးမြို့၊ ဟောင်ကျူးမြို့၊ ယန်စီပူးမြို့တို့ ဖြစ်ကြ၏။

ရှန်ဟိုင်းမြို့သည် တရုပ်နိုင်ငံနှင့် နိုင်ငံခြား ကူးသန်းရေးတွင် အချက်အခြာ ဖြစ်သည့်အတိုင်း နှစ်စဉ်ပင် လူဦးရေ တိုးလျက် ရှိလေသည်။ ထိုအတွက် မြို့ကို တဖြည်းဖြည်း တိုးချဲ့ ဆောက်လုပ်ခဲ့ရာ ယခုအခါ ရှန်ဟိုင်းမြို့၏အကျယ်အဝန်းသည် စတုရန်းမိုင်ပေါင်း ၂၂၄၀ ခန့်ပင် ရှိနေပေပြီ။ လူဦးရေ ခန့်မှန်းခြေအားဖြင့် ၁၀ သန်းခန့် (၁၉၆၄ ခုနှစ်) ရှိ၍ တရုပ်ပြည်သူ့သမတနိုင်ငံတွင် လူဦးရေအများဆုံး ဖြစ်လေသည်။

ရှန်ဟိုင်းမြို့သည် နိုင်ငံပေါင်းစုံနှင့် ဆက်သွယ်နေသော သင်္ဘောဆိပ်မြို့ကြီး ဖြစ်သည့်အလျောက် နိုင်ငံခြားမှ ခြည်ထည်၊ စက်ကရိယာ၊ ရေနံဆီ၊ မော်တော်ဆီ စသော ရေနံထွက်ပစ္စည်းများကိုတင်ဆောင်လာသည့် သင်္ဘောများနှင့် တရုပ်နိုင်ငံမှ လက်ဖက်ခြောက်၊ ဝါဂွမ်း၊ ဆန်၊ သားရေ၊ ပိုးရိုင်း၊ ကြက်ဥ၊ ငှက်ဥစသော ကုန်များကို တင်ဆောင်ကာ အခြားတိုင်းပြည်တို့သို့ထွက်မည့် သင်္ဘောများ ဝင်ထွက် ဆိုက်ကပ်ကြ၍ အထူးပင် စည်ကားလှ၏။ ပြည်တွင်း ကုန်သွယ်ရေး၌လည်း ကြီးကျယ်သည်ဖြစ်ရာ ကူးသန်းသွားလာရာ လမ်းကြောင်းကြီးများမှာ ယန်စီ မြစ်ကြောင်းနှင့် ဆူချောင်းချောင်းမှ တဆင့် ဂရင်း တူးမြောင်းလမ်းတို့ဖြစ်၏။ ထိုပြင် ပီကင်း၊ နန်ကင်း၊ ဟန်ချောင် စသော မြို့ကြီးများနှင့်လည်း မီးရထားလမ်းများဖြင့် ဆက်သွယ်လျက် ရှိသည်။

ရှန်ဟိုင်းမြို့ ပတ်ဝန်းကျင်တွင် စက်မှုလက်မှုလုပ်ငန်းများ အထူး တိုးတက်လျက် ရှိရာ သကြား လုပ်ငန်း၊ စက္ကူ လုပ်ငန်း၊ ဗိလတ်မြေလုပ်ငန်း၊ သားရေလုပ်ငန်း၊ ခြည်ထည် ပိုးထည် ဇာထည်လုပ်ငန်းများသည် ထင်ရှားသော လုပ်ငန်း

များဖြစ်ကြသည်။စစ်မဖြစ်မီက ရှန်ဟိုင်းမြို့တွင်စက်ရုံပေါင်း ၅,၀၀၀ ကျော်မျှနှင့် အလုပ်ရုံပေါင်း ၁၆,၀၀၀ ကျော်မျှ ရှိခဲ့၏။ တရုပ်နိုင်ငံရှိ ခြည်စက်အားလုံး၏ ထက်ဝက်ခန့်သည် ရှန်ဟိုင်းမြို့၌ တည်ရှိလေသည်။

၁၈၆၀ ပြည့်နှစ် တိုင်ပင်သူပုန် အရေးအခင်း အတွင်း၌ သူပုန်တို့သည် ရှန်ဟိုင်းမြို့ကို ဝိုင်းဝန်း တိုက်ခိုက်ကြသည်။ ထိုနောက် ၁၉၀၀ ပြည့်တွင် ဗောက်ဆာ အရေးတော်ပုံကြောင့် ရှန်ဟိုင်းမြို့သည် တိုက်ခိုက်ခြင်း ခံခဲ့ရပြန်သည်။ ဂျပန်တို့သည် ၁၉၃၂ ခုနှစ်တွင် ဂျပန်ဆန့်ကျင်ရေး အဓိက ရှဏ်းများကို အကြောင်းပြု၍ ရှန်ဟိုင်းမြို့၏ မြောက်ဖက်ဆင်ခြေဖုံးရပ်ကွက်တို့ကို တိုက်ခိုက်ဖျက်ဆီးခဲ့ကြသည်။

၁၉၃၇ ခုနှစ်တွင် ဂျပန်တို့သည် တရုပ်နိုင်ငံကို ဝင်ရောက်တိုက်ခိုက်သောအခါ ရှန်ဟိုင်းမြို့ကို လေးလနီးပါးမျှ အပြင်းအထန် ဝန်းရံ တိုက်ခိုက်ပြီးမှ သိမ်းပိုက်နိုင်ခဲ့ကြလေသည်။ ဂျပန်တို့ သိမ်းပိုက်ပြီးနောက် မဟာမိတ်တို့သည် အကြိမ်ကြိမ် လေကြောင်းမှတိုက်ခိုက်ရာ မြို့ကြီးမှာ အတော်အတန် ပျက်စီးခဲ့၏။ ပိုးထည်ရက်လုပ်သော စက်ရုံပေါင်း ၄၀၀ ကျော် ရှိသည့်အနက် ၃၀၀ ခန့်မျှ ပျက်စီးသွားခဲ့လေသည်။ သို့သော် ကမ်းနားတာရိုးလမ်းမကြီးနှင့် ခေတ်မီ အဆောက်အအုံများဖြင့် ခမ်းနားလှသော မြို့လယ်ရပ်ကွက်တို့ကား အထိအခိုက် အပျက်အစီး မရှိကြချေ။

ဒုတိယ ကမ္ဘာစစ်ကြီးအပြီး ၁၉၄၅ ခုနှစ်တွင် ရှန်ဟိုင်းမြို့ကို ဂျပန်တို့ လက်လွှတ်လိုက်ရ၏။ အင်္ဂလိပ်နှင့် အမေရိကန်တို့သည် ၁၉၄၃ ခုနှစ်တွင်၎င်း၊ ပြင်သစ်တို့သည် ၁၉၄၆ ခုနှစ်တွင်၎င်း ယင်းတို့၏ အခွင့်အရေးတို့ကို စွန့်လွှတ်လိုက်ကြ၍ တရုပ်ပြည်သူ့အစိုးရ လက်အောက်တွင်မူ နိုင်ငံခြားသားများသည် ရှန်ဟိုင်းမြို့တွင် အထူး အခွင့်အရေးများကို မရရှိကြတော့ချေ။

**ရှမ်ပလိန်,ဆယ်မျူယယ် ဒ (ခရစ် ၁၅၆၇ – ၁၆၃၅)**

။ ။ဆယ်မျူယယ် ဒ ရှမ်ပလိန်သည် မြေသစ်ရေသစ် စွန့်စား ရှာဖွေသော ပြင်သစ်အမျိုးသားတဦး ဖြစ်လေသည်။ မြောက်အမေရိကတိုက်၊ ကနေဒါ နိုင်ငံတွင် ပြင်သစ်တို့ ကြီးစိုးနိုင်ရန် ရှမ်ပလိန်သည် အထူး ဆောင်ရွက်ခဲ့သဖြင့် ပြင်သစ် နိုင်ငံသစ် (ကနေဒါ) ၏ ဖခင် ဟုလည်း ခေါ်ဆိုထိုက်ပေသည်။ (ကနေဒါ နိုင်ငံသမိုင်းနှင့် အုပ်ချုပ်ရေး — လည်းရှု။)

ရှမ်ပလိန်သည် ပြင်သစ်နိုင်ငံ ဗစ္စကေး ပင်လယ်အော် ကမ်းခြေရှိ ဗရူးအတ်ဇမြို့တွင် မွေးဖွားခဲ့သည်။ သူ၏ ဖခင်နှင့် ဦးလေးတို့သည် သင်္ဘော မာလိန်များ ဖြစ်ကြ၍ ရှမ်ပလိန်အား ရေကြောင်းအတတ်များကို သင်ကြား ပေးကြသည်။ ဦးစွာ၌ ရှမ်ပလိန်သည် ပြင်သစ်မြင်းတပ်တွင် အမှုထမ်းခဲ့သေးသည်။ သို့သော် ၁၅၉၉ ခုနှစ်တွင် အနောက်အိန္ဒိယ ကျွန်းစု၊ မက္ကဆီကိုနှင့် ပနားမားတို့သို့ သွားသော ရေတပ် သင်္ဘောတစင်းကို ဦးစီးခွင့်ရရှိ၍ ရေကြောင်းခရီးထွက်ခဲ့သည်။ ထိုခရီးသည် နှစ်နှစ်ခန့် ကြာမြင့်ခဲ့ရာ ရှမ်ပလိန်သည် မိမိ လှည့်လည်သွားလာခဲ့၍ စူးစမ်းတွေ့ရှိချက်များကို မြေပုံများဖြင့် မှတ်တမ်းတင်ထားသည်။ ပနားမားကျွန်းဆက်ကို ဖြတ်၍ တူးမြောင်း ဖောက်ရန် ပဌမဆုံး အကြံပေးသူသည် ရှမ်ပလိန် ဖြစ်လေသည်။

ထိုနောက် လေးနှစ်ခန့်အကြာ ၁၆၀၃ ခုနှစ်တွင်ရှမ်ပလိန်သည် ကနေဒါပြည်ဖက်သို့ ခရီး ထွက်ခဲ့ပြန်၍ စိန်လောရင့်မြစ်ရိုးတလျှောက် လှည့်လည် စူးစမ်းမှုများ ပြုခဲ့သည်။ ထိုစဉ်က စိန်လူဝီရေတံခွန်အထိ ရောက်ခဲ့သည်။ ထိုအခါကပင် ရှမ်ပလိန်သည် အယ်လဂွန်ကွင်း အင်ဒီးယန်း လူရိုင်းများနှင့် ရင်းနှီးခင်မင်ခဲ့လေသည်။

ပြင်သစ်ပြည့်ရှင် စတုတ္ထဟင်နရီဘုရင်၏ ခွင့်ပြုချက် အရ ၁၆၀၄ ခုနှစ်တွင် ရှမ်ပလိန်သည် ဆီးယား ဒ မွန့် အမည်ရှိ ပုဂ္ဂိုလ်တဦးနှင့်အတူ သားမွေးလုပ်ငန်း တည်ထောင်ရန် နေရာကောင်း ရှာဖွေရေး အတွက် နယူးအင်္ဂလန်ကမ်းရိုး တလျှောက် စုန်ဆင်း သွားလာခဲ့သည်။ ထိုစဉ်က ကော့ဒအငူအထိ ရောက်ခဲ့၍ ယခု နိုဗာစကိုးရှားပြည်နယ်ရှိ အန္နာပိုလစ်ရွိုင်ယယ် ဟု ခေါ်တွင်နေသော မြို့နေရာတွင် ပို့ရွိုင်ယယ် အမည်ဖြင့် လူနေစခန်းတခုကို ထူထောင်ခဲ့သေးသည်။

ထိုနောက် လေးနှစ် ကြာ၍ ၁၆၀၈ ခုနှစ်တွင် ရှမ်ပလိန်သည် ကနေဒါသို့ သွားရောက်ပြန်ကာ ကွီဗက်ကို သားမွေးလုပ်ငန်းအတွက် အချက်အချာမြို့ အဖြစ် တည်ထောင်ပြီးလျှင် မြေသစ် ရေသစ် စူးစမ်းရှာဖွေရေး၏ အခြေခံ စခန်းမြို့အဖြစ်လည်း ထားရှိလေသည်။ (ကွီဗက်ပြည်နယ် — လည်းရှု။) ၁၆၀၉ ခုနှစ်တွင် ရင်းနှီးခင်မင်နေသော အယ်လဂွန်ကွင်း အင်ဒီးယန်း လူမျိုးများနှင့်အတူ အီရိုကွိုင် အင်ဒီးယန်း လူမျိုးများကို တိုက်ခိုက်ရန် လိုက်ပါသွားသည်။ ယင်းသို့ လိုက်ပါသွားစဉ် နောင်အခါ သူ့ကိုအစွဲပြု၍ မှည့်ခေါ်ခဲ့သော ရှမ်ပလိန် ရေအိုင်ကြီးကို တွေ့ရှိခဲ့လေသည်။

ရှမ်ပလိန်သည် ထိုစဉ်က အသစ်အဆန်းဖြစ်နေသေးသော သေနတ်လက်နက်ကို အသုံးပြုကာ အယ်လဂွန်ကွင်းတို့ဖက်မှ ကူညီတိုက်ခိုက်ပေးလေရာ အီရိုကွိုင်တို့သည် ထိုသေနတ်ကို ကြောက်လန့်ပြီးလျှင် အရှုံးပေးကြရလေသည်။ ထိုကြောင့် ရှမ်ပလိန်အား အယ်လဂွန်ကွင်းတို့က ပို၍ အားထား ချစ်ကြည်ကြသလောက် အီရိုကွိုင်တို့က ရှမ်ပလိန်ကိုသာ မက ပြင်သစ်တမျိုးသားလုံးကို မုန်းတီးသွားကြသည်။ အီရိုကွိုင်တို့သည် ယင်းသည်ကို အကြောင်းပြု၍ နောင်အခါတွင် ဒတ်ချ်တို့အားရင်း၊ အင်္ဂလိပ်တို့အားရင်း အကူအညီ ပေးခဲ့ကြခြင်း ဖြစ်လေသည်။



ပြင်သစ်လူမျိုး ရေမြေသစ် စွန့်စားရှာဖွေသူ ရှမ်ပလိန်

၁၆၁၀ ပြည့်နှစ်မှ ၁၆၂၉ ခုနှစ်များအတွင်း ရှမ်ပလိန်သည် ပြင်သစ်နိုင်ငံသို့ နှစ်စဉ် ပြန်၍ ကနေဒါပြည်၏ တိုးတက်မှုအခြေအနေကို အစီရင်ခံကာ ချမ်းသာ ကြွယ်ဝသော သူကောင်းမျိုးတို့၏ အကူအညီကို ရနိုင်ရန် ကြိုးပမ်းခဲ့လေသည်။ ကွိဗက်မြို့ရှိ သားမွေးလုပ်ငန်း အရောင်းအဝယ်ကောင်းအောင် တဖက်မှ ဆောင်ရွက်ယင်း တဖက်မှလည်း မြေသစ် ရေသစ် စူးစမ်းမှုများကိုလည်း ပြုလုပ်ခဲ့သည်။ ၁၆၁၁ ခုနှစ်တွင် ယခု မွန်ထရီးအောဟု ခေါ်တွင်သော မြို့ကို တည်ထောင်၍ ကုန်သွယ်မှု ဌာနတခု ဖြစ်စေကာ မောင့်ရွိုင်ယယ်ဟု ထိုစဉ်က ခေါ်တွင် စေခဲ့သည်။ နောက် တနှစ်တွင် ပြင်သစ်အစိုးရက ရှမ်ပလိန်အား ပြင်သစ် နိုင်ငံသစ် (ကနေဒါ) ၏ ဒုတိယဘုရင်ခံ အဖြစ် ခန့်ထား၍ ကွိဗက်မြို့တွင် ရုံးထိုင်စေသည်။ ၁၆၂၉ ခုနှစ်တွင် ထိုစဉ်က ကောင်းစွာ တောင့်တင်းလုံခြုံခြင်း မရှိသေးသော ကွိဗက်မြို့ကို အင်္ဂလိပ်ရေတပ်က တိုက်ခိုက် သိမ်းပိုက်လိုက်၍ ရှမ်ပလိန်အား အင်္ဂလန်သို့ အကျဉ်းသားအဖြစ် ခေါ်ဆောင်သွားကြသည်။ လေးနှစ်ကြာ၍ ကနေဒါကို ပြင်သစ်တို့အား ပြန်လည် ပေးအပ်သော အခါ ရှမ်ပလိန်ကိုပင် ယခင်က ရာထူးအတိုင်း ပြန်လည် ခန့်အပ်သည်။ ရှမ်ပလိန်သည် အများ၏ချစ်ကြည်ရှိသေမှုကို ခံယူကာ ဒုတိယဘုရင်ခံအဖြစ် ဆက်လက်ဆောင်ရွက်ခဲ့စဉ် ၁၆၃၅ ခုနှစ် နာတာလူးပွဲတော်နေ့တွင် ကွိဗက်မြို့၌ ကွယ်လွန်လေသည်။

**ရှုံမွှားဆိတ်။** ။ခွာရှိသော ခြေလေးချောင်း တိရစ္ဆာန်များအနက် ရှုံမွှား ဆိတ်သည်လည်း တမျိုး အပါအဝင် ဖြစ်သည်။ ဗိုဗီဒီး မျိုးရင်းတွင် ပါဝင်၍ တိရစ္ဆာန ဗေဒ အမည်အားဖြင့် ရူးပီကေးပရ ထရေးဂတ် ဟု ခေါ်သည်။ ထိုတိရစ္ဆာန်တို့ကို တခါတရံ ဆိတ် ဟု ခေါ်၍ တခါတရံ ဒရယ်ဟု ခေါ်ကြသည်။ တောင်ထူထပ်သော ဒေသ၌ ကျက်စားလေ့ ရှိသဖြင့် တောင်ဆိတ်တမျိုးဟုလည်း ခေါ်ကြသေးသည်။ စင်စစ် ယင်းတို့သည် ဆိတ်နှင့် တူသော ဒရယ်ငယ်မျိုး ဖြစ်လေသည်။

ရှုံမွှားတို့သည် ယခင်က ဥရောပတိုက် မြေပြန့် ဒေသများ၌ ကျက်စားခဲ့ကြသေးသည်။ သို့သော် နောင်အခါ တောင်ထူထပ်သော ဒေသများသို့ နေရာ ပြောင်းသွားကြသည်။ ယင်းတို့ကို ဥရောပတိုက်နှင့် အာရှတိုက် အနောက်ပိုင်း တောင်တန်း ဒေသများ၌ တွေ့ကြရသည်။ တခါက ဆွစ်ဇာလန် နိုင်ငံ အဲလပတောင်များ၌ အများအပြား တွေ့ကြရသည်။ သို့ရာတွင် ယခုမူ အတွေ့ရ နည်းပါးသွားလေပြီ။ ယင်းတို့သည် ဆောင်းရာသီ ကျရောက်လာလျှင် တောင်ခြေသို့ ဆင်း၍ အုပ်ဖွဲ့ကာ သစ်တောများအတွင်း လှည့်လည်နေထိုင် ကြပြီးလျှင် အပင်ငယ်များကို စားသောက်လေ့ ရှိသည်။ ရာသီဥတု ပူနွေးလာလျှင်မူ အုပ်စုခွဲ၍ တောင်ပေါ်သို့ ပြန်တက်ကြသည်။ တခါတရံ ရေခဲဖုံးနေသည့် အမြင့်ဆုံး တောင်ထိပ်အထိ တက်ရောက် နေထိုင်ကြလေသည်။

ရှုံမွှားတို့သည် ဆိတ်နှင့် အရွယ်တူလောက် ရှိတတ်သည်။ အရပ်အမောင်းအားဖြင့် ပခုံးအထိ လက်မသုံးဆယ်ခန့် မြင့်သည်။ အမွေးရောင်သည် နီညိုရောင်ဖြစ်၍ အမြီးနှင့်ဦးချိုတို့ နက်သည်။ ဆောင်းအခါတွင် အမွေးရောင်သည် အညိုရင့်ရောင်သို့ ပြောင်း၍ နွေအခါတွင် အရောင်မွဲမွဲ ဖြစ်လာသည်။ ဦးခေါင်းတွင် အမွေးရောင်သည် ဝါဖျော့ဖျော့ဖြစ်၍ မျက်စိတဝိုက်၊ ပါးစပ်မှ နားရွက်အထိ အနက်ကွက် ပါရှိသည်။

ဦးချိုထောင်၍ နောက်သို့ ကော့ကွေးသည့် ရှုံမွှားဆိတ်



ခြောက်လက်မ၊ သို့မဟုတ် ခုနစ်လက်မခန့် ရှည်၍ ချောမွတ်လုံးဝန်းသော ဦးချိုနှစ်ချောင်း ရှိသည်။ ထိုဦးချိုတို့သည် အရင်းပိုင်းတွင် ဖြောင့်၍ အဖျားသို့ရောက်လျှင် ရုတ်တရက် နောက်ပြန် ကော့သွားသည်။

ယင်းတို့၏ ခွာများသည် သေးငယ်၍ ခပ်ခွက်ခွက် ဖြစ်နေသဖြင့် ကျဉ်းမြောင်း မတ်စောက်သော ကျောက်ဆောင်ကျောက်ကမူ တခုမှတခုသို့ရင်း၊ အစွန်းတခုမှ တခုသို့ ရင်းလျှင်မြန်ပေါ့ပါးစွာ ခုန်လွှား သွားနိုင်ကြသော အလွန် ခြေမြဲသည့် တိရစ္ဆာန်မျိုး ဖြစ်သည်။

ရှုမ္ဘားတို့သည် အလွန် အကင်းပါး၍ အလွန် လူကြောက်ကြသည်။ မျက်စိ အလွန်ရှင်၍ အနံ့ခံ အလွန် ကောင်းကြသည်။ အုပ်နှင့်နေသောအခါမျိုးတွင် တအုပ်တွင် အကောင်နှစ်ဆယ် သုံးဆယ်ခန့် ပါရှိတတ်၍ အစာစားနေကြစဉ် တကောင်က အစောင့် အဖြစ်ဖြင့် နေလေ့ရှိသည်။ အစောင့်သည် ရန်သူလာကြောင်း သိလျှင် ခွာကို ဆောင့်၍ လေချွန်သကဲ့သို့ အသံပြုကာ အချက်ပေးလိုက်သော အခါ ရှုမ္ဘားတအုပ်လုံးသည် လျင်မြန် ပေါ့ပါးလှသော အဟုန်ဖြင့် လူမလိုက်နိုင်သော နေရာများသို့ ခုန်လွှား ကွယ်ပျောက် သွားတတ်ကြလေသည်။ ယင်းသို့ အတိမ်းအရှောင် ကောင်း၍ လျှင်မြန်ပေါ့ပါးစွာ ပြေးလွှား ကွယ်ပျောက်နိုင်ကြ၍ရင်း၊ တောတောင်များ အကြား ခက်ခက်ခဲခဲ နေရာများ၌ နေထိုင်ကျက်စားလေ့ ရှိကြ၍ရင်း ရှုမ္ဘားတို့ကို အမဲလိုက်ရသော အလုပ်သည် အန္တရာယ်များ၍ ခက်ခဲပေသည်။ တခါက ယင်းတို့အား အမဲလိုက်သည့်အလုပ် ခေတ်စားခဲ့ဘူးသော်လည်း ယခုအခါ ရှုမ္ဘားများ ရှားပါးလာပြီ ဖြစ်သဖြင့် ယင်းတို့ကို မပစ်ခတ်ရန် ဥပဒေဖြင့် တားမြစ်ကာကွယ် ပေးထားရလေသည်။

ရှုမ္ဘားတို့၏ အသားသည် အလွန်စားကောင်းသည်ဟု ဆိုကြသည်။ သို့သော် ယင်းတို့၏ ပျော့ပျောင်း နူးညံ့သော သားရေသည် ပို၍အဖိုးတန်သည်။ ရှုမ္ဘားသားရေကို ယခင်က ယင်းတို့၏ သားရေဖြင့် ပြုလုပ် ရောင်းချကြသည်။ နောင်အခါတွင်မူ ဆိတ်သားရေ အနုစားကို ရှုမ္ဘားသားရေ အဖြစ် ပြုလုပ်ရောင်းချကြသည်။ သို့သော် ရှုမ္ဘားသားရေ အစစ်၏ နူးညံ့ ပျော့ပျောင်းမှုကိုကား မမှီချေ။

ရှမ်းစော်ဘွား။ ။ရှမ်းပြည်နယ် — ရှု။

ရှမ်းဆီးသီး။ ။စထရော်ဗယ်ရီ — ရှု။

ရှမ်းတရုပ်။ ။မိုင်းသာလူမျိုး — ရှု။

# မောတ္တိဋ္ဌာနေ ကမ္ဘောဇမြေ

**မြိတိသျှ အစိုးရလက်ထက်က ပဒေသရာဇ် ရှမ်းပြည်နယ်စုဟု ခေါ်တွင်ခဲ့သော နယ်များနှင့် ဝနယ်များကို ပူးပေါင်း၍ ရှမ်းပြည်နယ်ဟု လွတ်လပ်ရေး ခေတ်တွင် ခေါ်ဝေါ် သမုတ်ထား၏။ ပြည်ထောင်စု မြန်မာနိုင်ငံ၏ လေးပုံ တပုံခန့်ရှိ၍ အကြီးဆုံးပြည်နယ်လည်း ဖြစ်၏။ ရှမ်းပြည်နယ်သည် ရေတံခွန်စိမ့်စမ်း တောစခန်းတောင်စခန်းတို့ဖြင့် သာတောင့်သာယာ ရှိပေသည်။**

**ရှမ်းပြည်နယ်။** ။ရှမ်းပြည်နယ် ဟူသည်မှာ ဗြိတိသျှ အစိုးရ လက်ထက်က ပဒေသရာဇ် ရှမ်းပြည်နယ်စုဟု ခေါ်တွင်ခဲ့သော နယ်များအား လွတ်လပ်သော ပြည်ထောင်စု မြန်မာနိုင်ငံ ဟူ၍ ပေါက်ဖွားလာသော အခါ ပြည်ထောင်စု အခြေခံ ဥပဒေအပိုဒ် ၅ အရ အဆိုပါ နယ်များတွင် ဝနယ်များကို ပူးပေါင်း၍ ရှမ်းပြည်နယ်ဟု သတ်မှတ် ပိုင်းခြားခဲ့သောနယ်များကို ခေါ်ဝေါ် သမုတ်ခြင်း ဖြစ်ပေသည်။

ထိုပြည်နယ်သည် ပြည်ထောင်စုမြန်မာနိုင်ငံ၏ လေးပုံတပုံခန့်ရှိပြီးလျှင် အကြီးဆုံးပြည်နယ်ဖြစ်သည်။ ပြည်မ၏အရှေ့ဖက်၌ရှိသော ထိုပြည်နယ်သည်အကြမ်းဖျင်းအားဖြင့်ပဉ္စဂံပုံ ရှိလေရာ အနောက်ဖက်ရှိ ပြည်မ၏ လွင်ပြင်ဒေသများကို ပဉ္စဂံ၏ အခြေပြုထားကာ အရှေ့ဖက်ရှိ မဲခေါင်မြစ် (လောနိုင်ငံ) ပေါ်တွင် ပဉ္စဂံ၏ ထိပ်ဖျား ကျရောက်နေလေသည်။

ရှမ်းပြည်နယ်သည် မြောက်ဖက်တွင် ကချင်ပြည်နယ်၊ အရှေ့မြောက်ဖက်တွင် ယူနန်ပြည်နယ်(တရုပ်ပြည်သူ့သမတနိုင်ငံ)၊ အရှေ့ဖက်တွင် ယူနန်ပြည်နယ်နှင့် လော (လာအို) နိုင်ငံ၊ အရှေ့တောင်ဖက်တွင် ယိုးဒယားနိုင်ငံ၊ တောင်ဖက်တွင် ကယားပြည်နယ်၊ အနောက်ဖက်တွင် မန္တလေးတိုင်း၊ အနောက်မြောက်ဖက်တွင် စစ်ကိုင်းတိုင်းတို့ဖြင့် ဝန်းရံလျက် ရှိသည်။ ထိုပြည်နယ်သည် မြောက်လတ္တီတွဒ် ၁၉ ဒီဂရီ ၂၀ မိနစ်နှင့် ၂၄ ဒီဂရီ ၉ မိနစ်၊ အရှေ့လောင်ဂျီတွဒ် ၉၆ ဒီဂရီ ၁၃ မိနစ်နှင့် ၁၀၁ ဒီဂရီ ၉ မိနစ်တို့၏ အကြား၌ တည်ရှိလေသည်။

### မြေမျက်နှာသွင်ပြင်

ရှမ်းပြည်နယ်သည် ရေတံခွန်စိမ့်စမ်း၊တောစခန်း၊တောင်စခန်းတို့ဖြင့် သာတောင့် သာယာ ရှိပေသည်။ ဧရာဝတီမြစ်ရိုး တခိုဆီမှ အရှေ့ဖက်သို့ လှမ်းမျှော် ကြည့်လိုက်လျှင် ရှမ်းရိုးမတောင် ဟု အများခေါ်ဆိုကြသော တောင်စဉ်တောင်တန်းများကို တောင်ခိုး တောင်ငွေ့ တဝေဝေဖြင့် တွေ့မြင် ကြရပေလိမ့်မည်။ ရှမ်းရိုးမတောင်ဟု ခေါ်ဆိုနေကြသော်လည်း စင်စစ် ရှမ်းပြည်နယ် တခုလုံးသည် ကုန်းပြင်မြင့် ဖြစ်လေသည်။

ရှမ်းကုန်းပြင်မြင့်သည် ပျမ်းမျှခြင်းအားဖြင့် ပင်လယ်ရေပြင်မှ ပေ ၃,၀၀၀-၄,၀၀၀ ကျော်အထိ မြင့်ပြီးလျှင် နေရာဒေသများစွာတို့၌ မြေမျက်နှာပြင်သည် လှိုင်းအိ ထိုးနေဘိသကဲ့သို့ နိမ့်တုံမြင့်တုံ ဖြစ်နေလေသည်။ အရှေ့ဖက်ပိုင်းကုန်းမြေမြင့်သည် အနောက်ဖက်ပိုင်းထက် ပို၍ မြင့်သည်။ အမြင့်ဆုံးအပိုင်းသည် လားရှိုး၏ အနောက်တောင်ဖက်ပိုင်း ဖြစ်သည်။ ကုန်းမြေမြင့် မျက်နှာပြင်သည် သိန္နီနယ်၏ အလယ်ပိုင်းခန့်မှ စ၍ မန္တလေးခရိုင် အထက်နားရှိ တောင်ကုန်းဒေသသို့တိုင်အောင် ကျယ်ပြန့် သွားသော်လည်း မိုးနဲနယ်နှင့် မောက်မယ် နယ်စပ်သို့ အရောက်တွင်မူ ကျဉ်းမြောင်းသွားလေသည်။

တောင်ရိုး တောင်တန်းတို့သည် ရှမ်းပြည် မြောက်ပိုင်းအချို့ နေရာများတွင် အရှေ့နှင့်အနောက် တန်းလျက်ရှိသည်မှ လွဲ၍ ပြည်နယ်တခုလုံး၌ များသောအားဖြင့် တောင်နှင့်မြောက် တန်းလျက်ရှိကြလေသည်။ တောင်ထိပ်များသည် ပေ ၆,၀၀၀ မှ ၈,၀၀၀ ကျော်အထိ မြင့်ကြ၍ အမြင့်ဆုံးတောင်ထွတ်သည် တောင်သိန္နီနယ် အတွင်းရှိ ပေပေါင်း ၈,၇၇၇ မြင့်သော လွယ်လိန်းတောင်ထွတ်ဖြစ်သည်။ အခြားမြင့်မားသောတောင်ထွတ်များမှာ မြောက်သိန္နီနယ်အတွင်းရှိ လျန်ရှန်၊ ကျိုင်းတုံနယ်အရှေ့ပိုင်းရှိ လွယ်ပန်နောင်၊ မိုင်းကိုင်နယ်အတွင်းရှိ လွယ်စန်နှင့်လွယ်လမ် စသည်တို့ ဖြစ်ကြ၍ ပေ ၈,၀၀၀ ကျော် မြင့်ကြပေသည်။ ပင်းတရ နယ်အတွင်းမှ မဲနယ်တောင်တန်းရှိ အရှေ့မြင် အနောက်မြင် တောင်ထွတ်သည် ၇,၆၇၈ ပေမြင့်သည်။ ထို့ပြင် နမ့်တမ်ဖတ်ချောင်းဝှမ်းနှင့် နမ့်ပွန် ချောင်းဝှမ်းကို ခြားလျက်ရှိသော လွယ်မောနှင့် လွယ်မောင် ဟု ခေါ်သည့် ပေ ၇,၀၀၀ မှ ၈,၀၀၀ ကျော်ရှိသော တောင်မြင့်ကြီးများလည်း ရှိပေသေးသည်။ ကလော်မြို့ အနီးရှိ ဆင်တောင်နှင့် မြင်းမထိတောင်တို့သည် ပေ ၅,၀၀၀ ကျော် မြင့်ကြလေသည်။

ရှမ်းပြည်နယ်၏ မြစ်ချောင်းတို့သည် တောင်ကုန်းတောင်တန်းများကို ဖြတ်ကျော်စီးဆင်းရသဖြင့် မြစ်ကမ်းပါးတို့သည် များသောအားဖြင့် ကျဉ်းမြောင်း မတ်စောက်ကြသည်။ မြစ်ချောင်းတို့ အကြား၌ တောင်နှာမောင်းတို့သည် မြစ်ချောင်းများ ဆုံးသည့်တိုင်အောင် တည်ရှိကြလေသည်။

ရှမ်းပြည်နယ်တွင် သံလွင်မြစ်သည် အကြီးဆုံး ဖြစ်သည်။ (သံလွင်မြစ် — ရှု။) ထိုမြစ်ကို ရှမ်းဘာသာဖြင့် နမ့်ခုန်းမြစ်ဟုခေါ်သည်။ ယင်းသည် ရှမ်းပြည်နယ်တခုလုံးကို မြောက်မှ တောင်သို့ ဖြတ်သန်းစီးဆင်းရာ အကြမ်းဖျဉ်းအားဖြင့် ပြည်နယ်ကို အရှေ့နှင့်အနောက် ပိုင်းခြားထားသကဲ့သို့ ရှိသည်။ မြစ်ရိုးတလျှောက် ဧရာဝတီမြစ်ကဲ့သို့ မြေပြင်ပြန့်ဖြူးခြင်းမရှိဘဲ နက်ရှိုင်းမတ်စောက်သော ကမ်းပါးစောက်ကြီးများကို ဖြစ်ပေါ်စေလျက် အရှိန်ပြင်းစွာဖြင့် စီးဆင်းလေသည်။

သံလွင်မြစ် အထက်ပိုင်း ဖြတ်သန်း စီးဆင်းရာ ရှမ်းပြည်မြောက်ပိုင်းသည် တောင်ထူထပ်၍ ပေ ၆,၀၀၀ ကျော် ၇,၀၀၀ နီးပါး မြင့်သော တောင်တန်း ကြီးများ ရှိသည်။ ထိုတောင်တန်းကြီးများသည် တန်တိုင်းကြီးများ သဖွယ် ကာဆီးလျက် ရှိခြင်းကြောင့် ရှေးအခါက မြန်မာ နိုင်ငံတွင်းသို့ တရုပ်နိုင်ငံဖက်မှ ဝင်ရောက်ရန်မလွယ်ကူခဲ့ခြင်း ဖြစ်ပေသည်။ တောင်ရိုးတောင်တန်းများသည် တခုနှင့် တခု နီးကပ်စွာ ထပ်ဆင့်နေလေရာ မြေပြန့်မြေကျယ်များစွာ မရှိချေ။ ထို့ကြောင့် ထိုအပိုင်းတွင် လူနေအိမ်ခြေလည်း နည်းပါးလေသည်။

အလယ်ပိုင်းနှင့် အောက်ပိုင်းတလျှောက် သံလွင်မြစ်ဖြတ်သန်း စီးဆင်း လာသောအခါ အနောက်ဖက်တွင် တောင်တန်းများသည် နီးကပ်စွာ ထပ်ဆင့်ခြင်း မရှိဘဲ နီးတလှည့် ဝေးတခါ ရှိနေကြလေရာ တောင်တန်း တခုနှင့်တခု အကြားတွင် မြေပြန့် မြေကျယ်များကို တွေ့ရသည်။ ထိုမြေပြန့်မြေကျယ်များတွင် မြို့ရွာများကို တည်ထားကြလေသည်။

ရှမ်းပြည်နယ် အတွင်း သံလွင်မြစ်ထဲသို့ စီးဝင်သော မြစ်လက်တက်များမှာ လက်ဝဲဖက်ကမ်းမှ စီးဝင်သော နမ့်တင် (နမ့်တိန်း)၊ နမ့်မ၊ နမ့်ခ၊ နမ့်ဆင် စသည်တို့ရှင်း၊ လက်ျာဖက်ကမ်းမှစီးဝင်သော နမ့်နင်း၊ နမ့်ပန်နှင့် နမ့်တန်စသည်တို့ရှင်း ဖြစ်ကြလေသည်။

ရှမ်းပြည်နယ်၏ အခြား မြစ်ကြီးတမြစ်သည် မဲခေါင်မြစ်ဖြစ်ပေသည်။ သို့သော် ရှမ်းပြည် နယ်နိမိတ်နှင့် လော (လာအို) နိုင်ငံ နယ်နိမိတ်ကို ပိုင်းခြား သတ်မှတ်ပေးသည့် မိုင်ပေါင်း ၁၂၀ ခန့်မျှသာ ထိုမြစ်ကြီးသည် ရှမ်းပြည်နယ်နှင့် သက်ဆိုင်လေသည်။ (မဲခေါင်မြစ် — လည်းရှု။)

နမ့်တူ၊ မြစ်ငယ်၊ ဒုဋ္ဌဝတီဟူသော သုံးမည်ရ နမ့်တူမြစ်သည် ရှမ်းပြည်နယ်၏ ထင်ရှားသော မြစ်တသွယ်ဖြစ်သည်။ ပြည်နယ်အတွင်းတစိတ်တဒေသမျှသာဖြတ်သန်းသွားသော်လည်း မဖော်ပြဘဲ မနေအပ်သော မြစ်တသွယ်မှာ နမ့်မဝ်းဟုလည်း ခေါ်သော ရွှေလီမြစ်ပေတည်း။ ထိုမြစ်၏မြစ်ဖျားလက်ျာဖက်ကမ်းရှိ မိုင်းမောဒေသမှ စ၍ ရှမ်းပြည်ထောင်အများ ပေါ်ပေါက် ပြန့်ပွားခဲ့သည်ဟု ဆိုကြလေသည်။

ဖော်ပြခဲ့သော မြစ်များအပြင် ရှမ်းပြည်နယ် အလယ်ပိုင်းမြေလပ်ဒေသ၌မြစ်ဖျားခံပြီးလျှင် ရပ်စောက်နယ်၊ ဘော်နယ်တို့ကို ဖြတ်ကျော်ကာ ပြည်မရှိ ကျောက်ဆည်ခရိုင်မှ တဆင့် ဧရာဝတီမြစ် အတွင်းသို့ စီးဝင်သော ဇော်ဂျီမြစ်၊ ဟိုပုန်းနယ်တွင် မြစ်ဖျားခံသော နမ့်တမ်ဖတ်ချောင်း၊ မြေလပ်ဒေသတဝိုက် စီးဆင်းကာ အင်းလေးထဲသို့ အနောက်ဖက်မှ စီးဝင်၍ တောင်ဖက်မှ တဖန် ပြန်ထွက်ပြီးလျှင် ကယားပြည်နယ်အတွင်းသို့ စီးဝင်သော နမ့်ဘီလူးချောင်း၊ လဲချားနယ် တောင်ကုန်းများ၌ မြစ်ဖျားခံပြီးလျှင် တောင်ဖက်

ကယားပြည်နယ် အတွင်းသို့ စီးဝင်ပြီးနောက် သံလွင်မြစ် အတွင်းသို့ စီးဝင်သော နမ့်ပွန်ချောင်း စသည်တို့လည်း ရှိပေသေးသည်။

အထက်တွင်ဆိုခဲ့သည့်အတိုင်း မြစ်ရိုး ချောင်းရိုး မြေပြန့် လွင်ပြင်များတွင် မြို့ရွာများကို များသောအားဖြင့် ရှမ်းလူမျိုးတို့က တည်ထောင်ထားကြရာ မြောက်ပိုင်း နမ္မတူမြစ်ရိုး မြေပြန့်တွင် သိန္နီနယ်၊ သီပေါနယ်တို့ကို တွေ့ရသည်။ ရပ်စောက်၊ ရေဦး၊ ရွှာင်၊ ပင်းတရ၊ ပွေးလှနယ်တို့သည် ဇော်ဂျီ မြစ်ရိုး မြေပြန့်တလျောက် တည်ထားသော မြို့ရွာများဖြစ်ကြသည်။ နမ့်ပွန်ချောင်းရိုး မြေပြန့်တွင် မိုင်းပွန်နယ်ကိုင်း၊ နမ့်တမ်ဖတ်ချောင်းရိုး မြေပြန့်တွင် ဟိုပုန်း၊ဘန်းယဉ်၊ဆီဆိုင် (သထုံ) နယ်တို့ကိုငုံး တွေ့ကြရလေသည်။

မြစ်ချောင်းများသည် တောင်စဉ် တောင်တန်းများကို ဖြတ်ကျော်စီးဆင်းကြသဖြင့် ရှမ်းပြည်နယ်တွင် ရေတံခွန် စိမ့်စမ်းများ အနှံ့အပြား ရှိသည်။ သီပေါနှင့် လားရှိုး အကြားရှိ မန်ဆမ် ရေတံခွန်ကြီးသည် အမြင့်ပေ ၁,၅၀၀ ကျော် ၂,၀၀၀ ခန့်မှ တောင်ခါးပန်းအဆင့်ဆင့်ကို စီးဆင်းလာခဲ့ရာ ကြည့်၍ မငြီးဖွယ်ရာ ဖြစ်ပေသည်။ ထိုရေတံခွန်ကြီးမှ ရေအားကို အသုံးပြု၍ နမ္မတူမြို့ရှိ ဘားမားကော်ပိုရေးရှင်းလီမိတက်၏ သတ္တုတွင်းလုပ်ငန်းများကို ဆောင်ရွက်လျက်ရှိသည်။

အခြား ရေတံခွန်များလည်း အများ အပြားရှိရာ ယင်းတို့မှ ရေအားကိုလည်း အသုံးချနိုင်ရန် ပြည်ထောင်စု အစိုးရက လေ့လာ စမ်းသပ်စေခဲ့သည်။ ရှမ်းပြည်တောင်ပိုင်းတွင် စက်မှု လုပ်ငန်း ဓာတ်အားပေးရေး အတွက် အလားအလာရှိသော ရေတံခွန်တို့မှာ မိုင်းပွန်မြို့အနီးရှိ ရေတံခွန် သုံးခု၊ ရပ်စောက်မြို့မှ ၁၀ မိုင်ခန့်ကွာ အင်းတော်သွားလမ်းရှိ ဇော်ဂျီရေတံခွန် (မိုးဟင်းရေတံခွန်)၊ ညောင်ရွှေမြို့ အနီးရှိ ရေတံခွန်ငယ် နှစ်ခုနှင့် လဲချားနယ်မှ နမ့်တွပ်ရေတံခွန်တို့ ဖြစ်ကြသည်။ ကျိုင်းတောင်း စီရင်စုအတွင်းရှိ နမ့်တိန်း ရေတံခွန်မှ ရေအားကို ယူ၍ မြန်မာနိုင်ငံ၌ အကြီးဆုံးသော ရေအား လျှပ်စစ်ရုံကြီးတခု တည်ဆောက်နိုင်မည်ဟုလည်း ခန့်မှန်း ထားကြလေသည်။

မြစ်ချောင်း ရေတံခွန်များအပြင် အင်းအိုင်များလည်း ရှိသေးရာ ယင်းတို့အနက် ညောင်ရွှေနယ်ရှိ အင်းလေးသည် အကြီးဆုံး အကျော်ကြားဆုံး ဖြစ်သည်။ (အင်းလေး — ရှု။) ထို့ပြင် ဆိုင်ရာ မြို့နယ်လူထုအတွက် ဆဲနှစ်ရာသီ မပြတ် သုံးစွဲရန် ရေရနိုင်သော ရေထွက်ခေါ် စမ်းရေပေါက်များလည်း ရှိသေးသည်။ ဟိုပုန်းရေထွက်၊ ဘော်ဆိုင်းရေထွက်၊ ရပ်စောက် ရေထွက်(ဗထူးစမ်း)၊ကရင်မရေထွက် (တောင်ကြီး)တို့သည် လူသိများသောစမ်းရေပေါက်များပေတည်း။ ရှမ်းပြည်နယ်၏ အောက်ခံ ကျောက်မြေသည် များသောအားဖြင့် ထုံးကျောက်များ ဖြစ်လေရာ ရွာချသော မိုးရေသည် မြေကြီးထဲသို့ စိမ့်ဝင်သွားသည်။ ထိုစိမ့်ဝင်သွားသော ရေများသည် အချို့နေရာများတွင် စမ်းရေပေါက်များ ဖြစ်ကာ မြေပြင်သို့ ပြန်ထွက်လာကြရာ ယင်းတို့ကို ရေထွက်များဟု ခေါ်ဝေါ်ကြသည်။ မြစ်ချောင်းနှင့်လည်း မနီး၊ ရေထွက်များလည်းမရှိသော ဒေသများလည်း ရှိသေးရာ ထိုဒေသများတွင် ရေရှားပါးသဖြင့် မြေတွင်း သယံဇာတပစ္စည်းများဖြင့် ပေါများသည့်တိုင်အောင် စက်မှု လုပ်ငန်းများ မဆောင်ရွက်နိုင်ခြင်း၊ စိုက်ပျိုးရေး ခက်ခဲခြင်းများ ရှိလေသည်။

ရေထွက်၊ သို့မဟုတ် စမ်းရေပေါက်များအပြင် ရေပူစမ်းများလည်း ပေါများသည်။ ရှမ်းပြည်နယ်၏ မြေမျက်နှာပြင်တွင် မြေလွှာကျံခြင်း၊ သို့မဟုတ် မြေကြောအက်လွဲခြင်းများ ရှိပေရာ ထိုနေရာများတွင် ရေပူစမ်းများ ဖြစ်ပေါ်သည်။ သီပေါ၊ လားရှိုး၊ သိန္နီ၊လင်းခေး၊ ကျိုင်းတုံ၊ အင်းလေးဒေသရှိ ခေါင်တိုင်ရွာ စသည်တို့တွင် ထိုကဲ့သို့သော ရေပူစမ်းများ ရှိလေသည်။

### အောက်ခံမြေနှင့် ကျောက်အမျိုးမျိုး

ရှမ်းပြည်နယ်၏ ဘူမိဗေဒကို သေချာစွာစေ့စပ်လေ့လာ၍ သုတေသန မပြုရသေးချေ။ အောက်ခံ ကျောက်မြေနှင့် စပ်လျဉ်း၍ ပြည်နယ်တခုလုံးကို ချုံ၍ဆိုရလျှင် ရှမ်းကုန်းပြင်မြင့်သည် များသောအားဖြင့် ထုံးကျောက်မြေ အောက်ခံ ဖြစ်သည်။ သို့သော် အာစီယန်ခေတ် (ရှေးအကျဆုံးခေတ်) ကျောက်များ၊ပဌမ ကပ်ကျောက်များ၊ဒုတိယ ကပ်ကျောက်များနှင့် တတိယကပ်ကျောက်များ စသော ခေတ်အမျိုးမျိုးမှ ကျောက်များကိုလည်း ကြိုကြား ကြိုကြား တွေ့ရပေသည်။

ဘူမိဗေဒ ထုံးကျောက် ခေတ်ကာလက ရှမ်းပြည်နယ်သည် မြန်မာပြည်မနည်းတူ ပင်လယ်ရေတိမ် အောက်တွင် ကျရောက် နေခဲ့ရာ မြစ်များမှ သဲများ၊ ပင်လယ်ပိုးကောင်သေများ၊ ရေညှိရေမှော်ပုပ်များ စသည်တို့သည် တဖြည်းဖြည်း စုပုံလာပြီးလျှင် ပင်လယ်အောက် မြေသားသည် တဖြည်းဖြည်း ပို၍တက်လာသည်။ ထို့ကြောင့် ထိုခေတ်က ကျောက်ဖြစ် ရုပ်ကြွင်းများကို ထုံးကျောက်မြေများ အကြား၌ ညှပ်လျက် တွေ့ကြရသည်။ ထုံးကျောက်ခေတ်ကုန်ဆုံးလုနီးကာလ၊ သို့မဟုတ် တတိယ ကပ်အစလောက်တွင် မြန်မာနိုင်ငံ၌ အပေါ်ယံမြေလွှာ ပုံပြောင်းစေသော မြေလှုပ်ရှားမှုကြီး ပေါ်ပေါက်ခဲ့ရာ ရှမ်းကုန်းပြင်မြင့်နှင့် ဆက်လျက် တောင်ဖက်သို့ မြန်မာနိုင်ငံ အောက်ပိုင်းအထိ တောင်ရိုး တောင်တန်းများပေါ်လာခဲ့သည်။ထိုလှုပ်ရှားမှုကြောင့် မြေကြောများ ပြတ်၍ အချို့ နေရာများတွင် အက်ကြောင်းကြီးများဖြစ်ပေါ်ကာ မြေလွှာကျံခြင်း၊ သို့မဟုတ် အံလွဲများ ဖြစ်



ရှမ်းပြည်နယ်သည် ရေတံခွန်စိမ့်စမ်း၊ တောစခန်း၊ တောင်စခန်းတို့ဖြင့် သာတောင့် သာယာရှိ၍ ဥတုသပ္ပါယ အေးချမ်းမျှတသည်။

ပေါ်ခဲ့သည်။ ရှမ်းပြည်မြောက်ပိုင်း၌ သီပေါနယ်ဂုတ်ထိပ်ချိုင့်ဝှမ်းမှသည် သံလွင်မြစ်ကမ်းပေါ်ရှိ ကွမ်းလုံကူးတို့ဆိပ် တိုင်အောင် အရှေ့နှင့် အနောက် ရှည်လျားသော မြေလွှာကျွံ ချိုင့်ဝှမ်းကြီး တခုကို တွေ့ရ၍ ရှမ်းပြည်နယ်၏ မြေမျက်နှာပြင်တွင် ထူးခြားပေါ်လွင်သော ဘူမိဗေဒလက္ခဏာ တရပ်ဖြစ်ပေသည်။ ညောင်ရွှေနှင့် ရွှေညောင် မြောက်ဖက်မှ အင်းလေး တောင်ဖက်အထိလည်း ကြီးမား၍ တောင်နှင့် မြောက် ရှည်လျားသော မြေလွှာကျွံ ချိုင့်ဝှမ်းကြီး တခုရှိလေသည်။

အထက်တွင် ဆိုခဲ့သည့်အတိုင်း ခေတ်အမျိုးမျိုးမှ သက်ရှင့်ကျောက်များကို ရှမ်းပြည်နယ် အနှံ့အပြား၌ တွေ့ကြရသည်။ ရှမ်းပြည်မြောက်ပိုင်းတွင် မိုးကုတ်နယ် ပတ္တမြား မြေ၏ လိပ်သည်းကျောက်မြေနှင့်ဆက်စပ်လျက် ဝေဘူကျောက်မြေမျိုးကို တွေ့ကြရသည်။ ထိုမှ တောင်ဖက်သို့ ရွှေလာခဲ့သော် ကမ်ဗရီယမ်ခေတ် ကျောက်မျိုး ဖြစ်သော သလင်းကျောက်၊ သင်ပုန်းကျောက် စသည်တို့ကို တွေ့ရသည်။ သီပေါမြို့၏ အရှေ့ဖက်မှ ကျောက်မြေများသည် ထုံးကျောက်များတွင် သဲကျောက်နီများ ညှပ်လျက် ပါသောမြေမျိုး ဖြစ်လေသည်။

လားရှိုးမှ မြောက်ဖက်ငါးမိုင်ကွာသော နမ့်ယော်မြစ်ဝှမ်းတွင်၎င်း၊ တောင်ဖက်နမ့်မမြစ်ဝှမ်းတွင်၎င်း ကျောက်မီးသွေးကြောများ ပါရှိသော တတိယကျောက်ခေတ်မှ မြေစေးနှင့် သဲကျောက်များကို တွေ့ရလေသည်။

ရှမ်းပြည်တောင်ပိုင်းတွင် ဆိုင်ယင်နိုက်နှင့် နှမ်းပတ်ကျောက်မျိုးတို့ ပါဝင်သော လိပ်သည်းကျောက်မြေမျိုးသည် ရှမ်းကုန်းပြင်မြင့်၏ အနောက်ဖက် နှုတ်ခမ်းသား အစွန်းများအဖြစ်ဖြင့် ပေါ်နေကြသည်။ သီပေါနှင့် လားရှိုးအကြား၌ တွေ့ရသော ဒုတိယ ကျောက်ခေတ်၏ ခရမ်းပြာသဲကျောက်တို့သည် ထုံးကျောက်များ အကြား၌ ညှပ်လျက်ရှိသည်။ ထုံးကျောက် တောင်တန်းများအကြား၌ ခေတ်မကြာသေးသော စရစ်ဖြုန်း သဲကျောက်နှင့် နုံးမြေများသည် အလျားလိုက် အမြောင်းလိုက် ဖြစ်ပေါ် နေကြသည်။

ယင်းတို့မှ လွဲလျှင် ရှမ်းပြည်တောင်ပိုင်း၌လည်း များသော အားဖြင့် ထုံးကျောက်မြေများသာလျှင် ဖြစ်သည်။ရှမ်းကုန်း ပြင်မြင့် တလျှောက်လုံး၌ မြေကျွံချိုင့်ဝှမ်းကြီးများ၊ မြစ်ဝှမ်းချောင်းဝှမ်းများ၌ တတိယကပ်ကျောက်များ ချထား စုပုံ၍ ယင်းတို့အတွင်း၌ ကျောက်မီးသွေးနမ့်များလည်း ရှိရာ ထိုချိုင့်ဝှမ်း မြစ်ဝှမ်း ချောင်းဝှမ်းတို့၌ နုံးမြေများဖြင့် ဖုံးအုပ်လျက် ရှိလေသည်။

## ရာသီဥတု

ရှမ်းပြည်နယ်သည် ကုန်းပြင်မြင့်ဖြစ်၍ ယေဘုယျအားဖြင့် ဥတုသပ္ပါယအေးချမ်းမျှတသည်။ နေရာဒေသ များစွာတို့တွင် အင်္ဂလန်ပြည်ကဲ့သို့ ဥရောပတိုက် ရေမြေ အနေအထား ရာသီဥတုမျိုးဆန်ဆန် ရှိလေသည်။ သို့သော် ယခုအခါ တောရိပ်တောင်ရိပ် နည်းပါးလာ၍ အပူရှိန် အနည်းငယ်တက်လာသည်။ ကုန်းမြေအနိမ့်အမြင့် ပထဝီ သဘာဝကိုလိုက်၍ တနေရာနှင့် တနေရာ ရာသီဥတု ကွဲပြားခြားနားချက်များလည်း ရှိသည်။ ကလော၊ တောင်ကြီး၊ လွိုင်လင်ကဲ့သို့သော တောင်စခန်းမြို့များတွင် ရာသီဥတု အေးမြ၍ ထင်းရှူးပင်တို့ဖြင့် ဝေဆာနေသော်လည်း ယင်းတို့နှင့် နီးကပ်ပါလျက် မြေနိမ့်ပိုင်းတွင် ရှိကြသော ညောင်ရွှေ၊ မိုးနဲ၊ လင်းခေး၊ မောက်မယ်စသော ဒေသများတွင် ရာသီဥတု ပူအိုက်ကာ မန်ကျည်းပင်၊ အုန်းပင်၊ သရက်ပင်တို့ ဖြစ်ထွန်းသည်ကို တွေ့ရသည်။

ရှမ်းပြည်မြောက်ပိုင်းတွင် သီပေါနယ် ချိုင့်ဝှမ်းသည် အပူချိန်အများဆုံးတက်သော ဒေသဖြစ်သည်။ ဧပြီလအတွင်း နေ့အခါ ဖာရင်ဟိုက် ၉၆ ဒီဂရီထက်ပင် ကျော်လွန်သော်လည်း ညဥ့်ဖက်တွင် ၆၅ ဒီဂရီအထိ ကျဆင်းသွားတတ်ပြန်သည်။ ဆောင်းရာသီတွင် နေထွက်ပြီး၍ နာရီအနည်းငယ်ကြာသည် တိုင်အောင် မြူများ ဆိုင်းနေတတ်သည်။ လားရှိုးမြို့တွင် (၁၇၉၆ ခုနှစ်မှ ၁၉၄၀ ပြည့်နှစ်များအတွင်း တိုင်းထွာချက်အရ) အပူဆုံးအချိန် ဧပြီလ၌ မဇ္ဈိမ အပူချိန် ၉၁ ဒီဂရီရှိ၍ ဇန္နဝါရီလအအေးဆုံးအချိန်တွင် မဇ္ဈိမ အပူချိန် ၅၉.၉ ဒီဂရီ ရှိလေသည်။ ရှမ်းပြည်တောင်ပိုင်း၊ တောင်ကြီးမြို့တွင်(၁၉၅၀ ပြည့်နှစ်မှ ၁၉၆၀ ပြည့်နှစ်များအတွင်း တိုင်းထွာချက်အရ) ဧပြီလတွင် မဇ္ဈိမ အပူချိန် ၇၄.၅ ဒီဂရီရှိ၍ ဇန္နဝါရီလတွင် မဇ္ဈိမ အပူချိန် ၅၈.၂ ဒီဂရီ ရှိလေသည်။ ကျိုင်းတုံမြို့တွင် (၁၉၅၃ ခုနှစ်မှ ၁၉၆၀ ပြည့်နှစ်များအတွင်း တိုင်းထွာချက်အရ) ဧပြီလတွင် မဇ္ဈိမ အပူချိန် ၉၂.၅ ဒီဂရီရှိ၍ ဇန္နဝါရီလ အအေးဆုံး အချိန်တွင် မဇ္ဈိမအပူချိန် ၆၂.၆ ဒီဂရီရှိကြောင်း တွေ့ရလေသည်။ တောင်ပေါ် ဒေသများ၌ကား အအေးဓာတ် ပိုမို လွန်ကဲလေသည်။

ရှမ်းပြည်နယ်တွင် မိုးသည်းထန်သည်ဟု မဆိုနိုင်သော်လည်း မိုးသည် တစိမ့်စိမ့် ဖွဲ၍ ရွာနေတတ်လေသည်။ ပျမ်းမျှ မိုးရေချိန်သည် တောင်ကြီးမြို့၌ (၁၉၅၀-၆၀ ပြည့်နှစ်များအတွင်း) ၅၇.၀၅ လက်မ၊ ကျိုင်းတုံ၌ (၁၉၅၀-၆၀ ပြည့်နှစ်များ အတွင်း) ၄၆.၀၅ လက်မ၊ လားရှိုးမြို့၌ (၁၇၉၆-၁၉၄၀ ပြည့်နှစ် အတွင်း) ၆၁.၈၆ ဖြစ်ရာ ပြည်နယ်တခုလုံးချုံ၍ ဆိုရလျှင် ပျမ်းမျှမိုးရေချိန်သည် လက်မ ၇၀ မှ ၉၀ အတွင်းသာရှိသည်။ ယင်းသို့မိုးရေချိန်သည် မများလှသော်လည်း တောရိပ်တောင်ရိပ်ရှိသဖြင့် မိုးရာသီအခါတွင် စိုစွတ် ထိုင်းမှိုင်းပြီးလျှင် အေးစိမ့်နေတတ်လေသည်။

## အကျယ်အဝန်းနှင့် လူဦးရေ

တောတောင် လျှိုမြောင် စိမ့်စမ်းတို့ဖြင့် သာမောဖွယ်ကောင်းလှသော ရှမ်းပြည်နယ်သည် ပြည်ထောင်စု မြန်မာနိုင်ငံ၏ အကြီးဆုံးနှင့် အကျယ်ဝန်းဆုံး ပြည်နယ်ဟု ဆိုခဲ့ပေသည်။ ထိုပြည်နယ်၏ အကျယ်အဝန်းသည် ၆၁,၁၂၃ စတုရန်းမိုင်ဖြစ်၍ ၁၉၆၇ ခုနှစ် နောက်ဆုံးစာရင်းအရ လူဦးရေသည် ၂,၄၉၇,၀၀၀ ယောက်မျှသာဖြစ်ရာ စတုရန်း တမိုင်လျှင် ပျမ်းမျှခြင်း လူ ၄၇ ယောက်နှုန်းမျှသာ နေထိုင်လျက်ရှိကြောင်း တွေ့ရှိရသဖြင့် လူနေအိမ်ခြေ ကျဲလှပေသည်။

ပြည်နယ်၏ အကျယ်အဝန်းနှင့် နှိုင်းစာလျှင် လူဦးရေနည်းပါးလှသော်လည်း ရှမ်းပြည်နယ်တွင် တိုင်းရင်းသားတောင်ပေါ်သား လူမျိုးစု အစုံလင်ဆုံး တွေ့ရပေသည်။ လူမျိုးပေါင်းစုံ ရောနှောနေထိုင်ရာ လူမျိုးစုံ ဟင်းလေးအိုးဒေသဟု ခေါ်ဆိုရပေမည်။ တွေ့ရှိရသော လူမျိုးစုများကို မူလ ဆင်းသက် ဆက်နွယ်လာသော လူမျိုးကြီးများနှင့် ယင်းတို့မှ ခွဲထွက်လာသော လူမျိုး အုပ်စုအလိုက် ဖော်ပြရမည် ဆိုသော် —

၁။ တိဗက်- မြန်မာအနွယ်၊ မြန်မာ အုပ်စုဝင်များ ဖြစ်ကြသော (၁) မနူ၊ (၂) အင်းသား၊ (၃) တောင်ရိုး၊ (၄) အဒီး၊ (၅)လရှီ၊ (၆)မရူ၊ (၇)မိုင်းသာလူမျိုးစုတို့သည်၎င်း၊

၂။ တိဗက်—မြန်မာအနွယ်၊ လိုလိုအုပ်စုဝင်များ ဖြစ်ကြသော (၁) လီဆူး၊ (၂) လားဟူ၊ (၃) အ်ကော် (ကော်)၊ (၄) နုံ (ဒရူး) လူမျိုးစုတို့သည်၎င်း၊

၃။ တိဗက်—မြန်မာအနွယ်၊ ကချင်အုပ်စုဝင် ကချင်၊ သို့မဟုတ် ဂျိန်ဖော့ လူမျိုးစုတို့သည်၎င်း၊

၄။ ထိုင်း—တရုပ်အနွယ်၊တိုင်းအုပ်စုဝင်များဖြစ်ကြသော (၁) ရှမ်း၊ (၂) ရှမ်းတရုပ်၊ (၃) ဒရယ်၊ (၄) ဂုံ၊သို့မဟုတ် ခွန်၊ (၅) လူး(လူ) (၆) လဝ်၊ သို့မဟုတ် ယွန်း၊ (၇) တိုင်းလင် လူမျိုးစုတို့သည်၎င်း၊

၅။ ထိုင်း—တရုပ် အနွယ်၊ ကရင်အုပ်စုဝင်များ ဖြစ်ကြသော ပအိုး (တောင်သူ) လူမျိုးစုသည်၎င်း၊

၆။ ထိုင်း–တရုပ်အနွယ်၊ တရုပ်အုပ်စုဝင် ဖြစ်သော ကိုးကန့် လူမျိုးနှင့် ယူနန်လူမျိုးစုတို့သည်၎င်း၊

၇။ မွန်–ခမာအနွယ်၊ပလောင်–ဝအုပ်စုဝင်များ ဖြစ်ကြသော (၁) လွှယ်လ၊ ဝ (၂) ခနော့၊ (၃) ခမွတ်၊ (၄) တိုင်းလွို၊ (၅) ယင်းနက်၊ ယင်းကျား၊ ယင်းဆက်ဟူသော ယင်းသုံးမျိုး၊ (၆) ပလောင်၊ ပလေးလူမျိုးစုတို့သည်၎င်း ရှမ်းပြည်နယ်တွင် နေထိုင်လျက် ရှိကြပေသည်။

ရှမ်းပြည်တောင်ပိုင်းနှင့် မြောက်ပိုင်းတွင် နေထိုင်ကြသော လူမျိုးစုတို့၏ အုပ်စုအလိုက် လူဦးရေနှင့် နေထိုင်ရာဒေသတို့မှာ ၁၉၃၁ ခုနှစ် သန်းကောင်စာရင်းအရ အောက်ပါအတိုင်း ဖြစ်သည်။

| | မြောက်ပိုင်း | တောင်ပိုင်း | နှစ်ရပ်ပေါင်း |
|---|---|---|---|
| မြန်မာအစု | ၄၇,၄၇၄ | ၁၄၃,၉၂၆ | ၁၉၁,၄၀၀ |
| လိုလိုအစု | ၉,၅၄၅ | ၇၄,၇၈၁ | ၈၄,၃၂၆ |
| ကချင်အစု | ၆၃,၆၈၅ | ၆၆၇ | ၆၄,၃၅၂ |
| ထိုင်းအစု | ၂၈၉,၁၃၂ | ၄၀၈,၇၀၆ | ၆၉၇,၈၃၈ |
| ပလောင်ဝအစု | ၁၂၂,၉၃၁ | ၄၇,၈၀၆ | ၁၇၀,၇၃၇ |
| ကရင်အစု | ၅၄၄ | ၁၇၇,၉၃၅ | ၁၇၈,၄၇၉ |
| တရုပ် | ၆၀,၂၈၃ | ၃,၉၈၅ | ၆၄,၂၆၈ |
| အိန္ဒိယ | ၂၁,၂၂၁ | ၁၁,၆၃၈ | ၃၂,၈၅၉ |
| စုစုပေါင်း | ၆၁၆,၄၅၈ | ၈၇၀,၂၃၀ | ၁,၄၈၆,၆၈၈ |

အထက်ဖော်ပြရာတို့အပြင် အရေအတွက်အားဖြင့် မများပြားလှသော လူမျိုးစုငယ်များလည်း ရှိသေးသည်။ အချို့မှာ မျိုးပျောက်လုမတတ်ပင် ရှိနေသည်။ ရှမ်းလူမျိုးများကို မြစ်ဝှမ်း မြေနိမ့်ဒေသများ၌ အများဆုံး တွေ့ကြရ၍ အင်းလေးဒေသမှ အင်းသား လူမျိုးများကလွဲလျှင် အခြား တိုင်းရင်းသား လူမျိုးစုတို့သည် များသောအားဖြင့် တောင်ပေါ်သားများ ဖြစ်ကြသည်။ မြန်မာလူမျိုးများနှင့် နိုင်ငံခြားသား တရုပ်၊ အိန္ဒိယစသော လူမျိုးတို့ကို မြို့များ၌သာ အနှံ့အပြား တွေ့ရလေသည်။

## စိုက်ပျိုးရေးနှင့် အခြားလုပ်ငန်းများ

ရှမ်းပြည် နယ်သူနယ်သားတို့၏ အဓိက လုပ်ငန်းသည် စိုက်ပျိုးရေး ဖြစ်သည်။ ခန့်မှန်းခြေအားဖြင့် ရှမ်းပြည်နယ်တွင် စိုက်ပျိုး လုပ်ကိုင်နိုင်သည့် မြေဧရိယာ ငါးဒသမ ခုနစ် (၅.၇) သန်းခန့် ရှိသည့်အနက် ဧက နှစ်သန်းခန့်သာ စိုက်ပျိုးလုပ်ကိုင်ကြ၍ ကျန်ဧက သုံးသန်းခွဲကျော်သည် ကောလျက်ရှိသည်။ လူဦးရေ ကျဲသော ဒေသများဖြစ်သောကြောင့် တကြောင်း၊ လက်ရှိ စိုက်ပျိုးရေးစံနစ်များကြောင့် တကြောင်း စိုက်ပျိုးရေးကို ကျယ်ကျယ်ပြန့်ပြန့် မဆောင်ရွက်နိုင်သဖြင့် ရှမ်းပြည်နယ် ဦးစီးအဖွဲ့သည် စက်ယန္တရားဖြင့် စိုက်ပျိုးရေးကို တိုးချဲ့ဆောင်ရွက်ရန် စီမံကြိုးပမ်းလျက် ရှိလေသည်။

ဆန်စပါး စိုက်ပျိုးရေးတွင် ဒုတိယကမ္ဘာစစ်မတိုင်မီ ကာလက ရှမ်းပြည်နယ်မှပင် ပြည်မသို့ ဆန်တင်ပို့နိုင်လောက်အောင် ဆန်စပါး ပိုပိုလျှံလျှံထွက်ခဲ့သော်လည်း ယခုအခါ ပြည်မမှပင် ရှမ်းပြည်သို့ ဆန်တင်သွင်းခဲ့ရလေသည်။ ယခင်က အင်းလေးဒေသသည် ဆန်စပါး အထွက်များခဲ့သော်လည်း ယခုအခါ လယ်များ အပျက်အစီးများသဖြင့် စပါးထွက် ယုတ်လျော့ခဲ့လေသည်။

ရှမ်းပြည်နယ်တွင် စပါးကို နည်းသုံးမျိုးဖြင့် စိုက်ပျိုးကြသည်။ ရှမ်းလူမျိုးတို့သည် မြေနိမ့်ဒေသများ၌ စပါးစိုက်ပျိုးကြရာ၊ ကန်သင်းဖို့၍ လယ်ကွက်အတွင်း ရေသွင်း စိုက်ပျိုးကြသည်။ သိန္နီ၊ လဲချား၊ မောက်မယ်နှင့် ကျိုင်းတုံနယ်များ၏ မြစ်ဝှမ်းချောင်းဝှမ်း မြေနိမ့်ဒေသများ၌ ထိုနည်းဖြင့် စိုက်ပျိုးကြသည်။ ထိုဒေသများမှ စပါးအထွက်များ၍ လူနေအိမ်ခြေလည်း များပြားလေသည်။

ဒုတိယနည်းသည် တောင်ယာစပါး စိုက်ပျိုးနည်း ဖြစ်၍ ထိုနည်းကို ပအို့ (တောင်သူ) လူမျိုးများနှင့် အခြား ယင်းနက်၊ လွှယ်လ၊ ပလောင်၊ ပလေး၊ ပဒေါင်၊ တောင်ရိုး၊ ဓနု၊ ခနော့၊ လီဆူးစသော တောင်ပေါ်သားတို့ လုပ်ကိုင်ကြသည်။ စိုက်ပျိုးမည့် တောင်ကုန်း ဆင်ခြေလျှောရှိ သစ်တော ဝါးတောများကို ခုတ်ထွင် မီးရှို့၍ စိုက်ပျိုး လုပ်ကိုင်ခြင်း ဖြစ်ရာ ပဌမသုံးနှစ်ခန့်တွင် စပါးအထွက်ကောင်းသော်လည်း နောင်အခါ မြေဩဇာ ခန်းခြောက်လာသဖြင့် နေရာပြောင်း၍ စိုက်ပျိုး လုပ်ကိုင်ကြပြန်သည်။ စိုက်ပျိုးလုပ်ကိုင်ခြင်း မရှိ၍ ကောနေသော မြေကောများတွင် ထိုကဲ့သို့ စွန့်ပစ်ခဲ့သော တောင်ယာများလည်း ပါဝင်လေသည်။

တတိယနည်းသည် လှေကားထစ် စိုက်ပျိုးနည်း ဖြစ်၍ တောင်ပေါ်သားတို့ အသုံးပြုသည့် နည်းတနည်းလည်း ဖြစ်သည်။ ထိုစိုက်ပျိုးနည်းအတွက် တောင်ပေါ်မှ စီးကျလာသော ချောင်းရေကို အမှီပြုရသည်။ လယ်ကွက်နှင့် စိုက်ခင်းများကို တောင်စောင်းဆင်ခြေလျှော၌ လှေကားထစ်သဖွယ် အဆင့်ဆင့် ပြုလုပ်ထားပြီးလျှင် တောင်ပေါ် ချောင်းမှ ရေကို အဆင့်ဆင့် ရေသွယ်ယူကြရသည်။ ထိုစိုက်ပျိုးနည်းဖြင့် အချို့သော အရပ်ဒေသများတွင် သီးထပ်ပင် စိုက်ပျိုးနိုင်လေသည်။ အာလူး၊ ပဲ စသည်တို့ကို စိုက်ပျိုးရာ၌လည်း တောင်ယာ စံနစ်၊ လှေကားထစ် စံနစ်မျိုးတို့ဖြင့် စိုက်ပျိုးကြလေသည်။

ရှမ်းပြည်နယ်၏ ကြီးကျယ်သော စိုက်ပျိုးရေးထွက်ကုန် တရပ်မှာ လက်ဖက်ဖြစ်၍ ရှမ်းပြည်မြောက်ပိုင်း တောင်ပိုင်နယ်မှ အများဆုံး ထွက်သည်။ ရှမ်းပြည်တောင်ပိုင်း မိုင်း၊

ကိုင်နယ်၊ မိုင်းရှူး၊ မိုင်းနောင်၊ ကျေးသီးမန်စံ၊ ပင်လောင်းနှင့် ဘော်ဆိုင်းနယ်တို့မှလည်း ထွက်သည်။ စင်စစ် လက်ဖက်ပင်သည် ရှမ်းပြည်နယ်၌ ဖြစ်ထွန်းလွယ်သော အပင်မျိုးဖြစ်သည်။ တောင်ပိုင်နယ်တွင် လက်ဖက်လုပ်ငန်း လုပ်ကိုင်သူများသည် များသောအားဖြင့် ပလောင် လူမျိုးများ ဖြစ်သည်။ ၁၉၅၉-၆၀ ပြည့်နှစ်အတွင်း လက်ဖက်အစိုအခြောက် အချိုအခါးမှ ရရှိသော ခန့်မှန်းခြေဝင်ငွေသည် သိန်း ၂၀၀ နီးပါး ဖြစ်လေသည်။

ရှမ်းပြည်တောင်ပိုင်း၏ အဓိက လုပ်ငန်း တရပ်သည် သနပ်ဖက် လုပ်ငန်းဖြစ်သည်။ ပင်လုံ အနောက်ဖက် တောင်တန်း၊ မိုင်းကိုင်၊ လဲချား၊ ရွာငံ၊ ရေဦး၊ ပင်လောင်းနယ်များနှင့် မဲနယ်တောင်တန်းတို့တွင် သနပ်ဖက်ခြံများရှိသည်။ ၁၉၅၉-၆၀ ပြည့်နှစ်အတွင်း သနပ်ဖက် လုပ်ငန်းမှ ရရှိသော ဝင်ငွေ ခန့်မှန်းခြေသည် သိန်း ၁၄၀ ခန့် ဖြစ်လေသည်။

ရှမ်းပြည်နယ်၏ ကျော်ကြားသော စိုက်ပျိုးရေး လုပ်ငန်းတရပ်မှာ အာလူး စိုက်ပျိုးရေးဖြစ်သည်။ အထူးသဖြင့် မြေလပ်ပိုင်းဖြစ်သော ပင်းတရ၊ ပွေးလှ၊ အောင်ပန်း၊ သီကျစ် စသည့် ဒေသများတွင် အာလူးစိုက်ပျိုးရေးသည် အဓိက လုပ်ငန်းတရပ်ပေတည်း။ ပြည်ထောင်စု မြန်မာနိုင်ငံ တဝှန်းလုံးမှထွက်သော အာလူး ၇၅ ရာခိုင်နှုန်းသည် ရှမ်းပြည်နယ်မှ ထွက်၍ ၁၉၅၉-၆၀ ပြည့်နှစ်အတွင်း အာလူး တန်ချိန် ၁၄,၈၂၈ ထွက်ရှိရာ သင့်ငွေတန်ဖိုးသည် သိန်း ၃၀ နီးပါး ဖြစ်လေသည်။

မြေပဲစိုက်ပျိုးရေးမှ သိန်းပေါင်း ၅၀ ကျော် ဝင်ငွေရှိ၍ ပြည်နယ် ဦးစီးအဖွဲ့သည် မြေပဲ တိုးချဲ့စိုက်ပျိုးရေးကို ဆောင်ရွက်လျက်ရှိသည်။ ထိုပြင် ကြက်သွန်ဖြူမှ ဝင်ငွေ ၃၇ သိန်းကျော်ရှိ၍ ဂျုံ၊ကာဖီစေ့၊ဗာဂျီးနီးယားဆေးတို့မှလည်း သိန်းနှင့်ချီ၍ ဝင်ငွေရရှိလေသည်။

ရှမ်းပြည်မြောက်ပိုင်း သီပေါနယ်နှင့် တောင်ပိုင်းမှ ရပ်စောက်နှင့် မိုင်းကိုင်နယ်တို့မှ လိမ်မော်သီး အကြီးအကျယ် ထွက်သည်။ရပ်စောက်နယ်ထွက်လိမ်မော်ကို ပြည်မ၌အောင်ပန်း လိမ်မော်ဟု ခေါ်ကြသည်။ ဒုတိယ ကမ္ဘာစစ် မတိုင်မီက သီပေါသည် ရပ်စောက်ထက် လိမ်မော်ထွက် ပိုသည်။ ယခု ရှမ်းပြည်နယ်မှ ထွက်သော လိမ်မော်သည် တန်ချိန် ၉,၀၀၀ ကျော်လေသည်။

ဒုတိယ ကမ္ဘာစစ်ကြီးအပြီးတွင် သစ်သော့ခြံများကို တောင်ကြီး၊ အောင်ပန်း၊ ရပ်စောက်စသော နယ်များတွင် စိုက်ပျိုး လုပ်ကိုင်လျက် ရှိရာ ယခုအခါ ပြည်မသို့ အများအပြား တင်ပို့လျက် ရှိနေပြီ။

သံလွင်မြစ်၏ အရှေ့ဖက်နယ်ခြား ဒေသတလျှောက် ဘိန်းပင်များကို အကြီးအကျယ် စိုက်ပျိုး လုပ်ကိုင်ခဲ့ကြသော်လည်း ဘိန်းသည် တိုင်းရင်းသားများ၏ စာရိတ္တနှင့် ကျန်းမာသန်စွမ်းရေးကို အကြီးအကျယ် ထိခိုက်စေသဖြင့် ဘိန်းပင် စိုက်ပျိုးမှု ပပျောက်စေရန် သက်ဆိုင်ရာ အာဏာပိုင်များက ကြိုးပမ်းလျက် ရှိလေသည်။

အင်းလေးရှိ ကျွန်းမျောများတွင် ဟင်းသီးဟင်းရွက် စိုက်ပျိုးရေး လုပ်ငန်းများ အောင်မြင် ဖြစ်ထွန်းသည်။ ကျွန်းမျောများ ပေါ်တွင် စိုက်ပျိုးရေးသည် သက်သာ လွယ်ကူသည် မဟုတ်ပေ။ အင်းသားတို့၏ ခြိုးကျုံးဖွယ် ကောင်းသော ဇွဲသတ္တိနှင့် လုံ့လ ဝိရိယတို့ကြောင့် ဖြစ်ထွန်းခြင်းပင်တည်း။ (အင်းလေး — ရှု။)

စိုက်ပျိုးရေး လုပ်ငန်းများအပြင် အခြား စီးပွားရေး လုပ်ငန်းများလည်း ရှမ်းပြည်နယ်တွင် ဆောင်ရွက်လျက် ရှိကြသေးသည်။ အင်းလေး ဒေသမှ ပိုးထည်လုပ်ငန်းသည် ကြီးကျယ် ကျော်ကြားလှပေသည်။ ပိုးထည် အများဆုံး လုပ်ကိုင်သော ရွာမှာ အင်းပေါ်ခုံဖြစ်၍ နန်းပန်၊ သာလေးရွာများသည် ဒုတိယ အများဆုံး လုပ်ကိုင်သည်။ ရွာမရွာတွင် အင်းလေးလွယ်အိတ်များ ပြုလုပ်သည်။ဟဲလုံး၊ ရွာကန့်လန့်၊ ပြားပင်၊ ကျွန်းကြီးရွာများတွင် ဖျင်ဖြူ၊ ဖျင်နီများ ရက်လုပ်ကြသည်။ ညောင်ရွှေမြို့ပေါ်တွင်လည်း ပိုးထည်များကို ရက်လုပ်ကြလေသည်။

အထည် ရက်လုပ်သော လုပ်ငန်းများအပြင် လဲချားနယ်မှ ယွန်းထည်လုပ်ငန်း၊ မိုင်းကိုင်နယ်မှ ရှမ်းစက္ကူ (မိုင်းကိုင် စက္ကူ) လုပ်ငန်းနှင့် အိုးခွက်လုပ်ငန်း၊ မိုင်းနောင်နယ်ထွက် ဝါးရက်ပစ္စည်း လုပ်ငန်းတို့လည်း ရှိပေသေးသည်။ ငွေထည်ပစ္စည်းများကိုလည်း ရှမ်းပြည်နယ် အနှံ့အပြား၌ လုပ်ကိုင်ကြသည်။ ဖော်ပြပါ လုပ်ငန်းများကို ရှေးသမရိုးကျအတိုင်းပင် လုပ်ကိုင်နေကြ၍ အချို့သည် တွင်ကျယ်သင့်သလောက် မတွင်ကျယ်နိုင်ချေ။

## တွင်းထွက် ပစ္စည်းများ

ဘူမိဗေဒအရဆိုလျှင် ရှမ်းပြည်နယ်သည် များသောအားဖြင့် သက်ရင့်ကျောက်မြေဖြစ်သည်။ ထိုကြောင့် ရေနံမှတပါး သတ္တုမျိုးစုံကို တွေ့ရသည်။ သို့သော် ရှမ်းပြည်မြောက်ပိုင်း နမ္မတူနှင့် ဘော်တွင်းရှိ ဘားမား ကော်ပိုရေးရှင်း လိမိတက်၏ သတ္တုတွင်း လုပ်ငန်းသာလျှင် ကြီးကြီးကျယ်ကျယ် ဆောင်ရွက်နေသော လုပ်ငန်းကြီး ဖြစ်သည်။ အခြား သတ္တုလုပ်ငန်းများကို တိုင်းရင်းသားများက တတ်အား သမျှ ငွေအင်အား လူအင်အားတို့ဖြင့်သာ ဆောင်ရွက်နေကြခြင်း ဖြစ်၍ ကြီးကြီးကျယ်ကျယ် မရှိလှချေ။

၁၉၆၀ ပြည့်နှစ်အတွင်း ရှမ်းပြည်နယ်ထွက် သတ္တုများမှာ ခဲတန်ချိန် ၃၁၆၀၀ (တန်ဖိုးငွေကျပ် ၁,၆၅,၂၉,၀၀၀)၊ သွပ်တန်ချိန် ၁၇၇၄၃ (တန်ဖိုးငွေကျပ် ၁၁,၁၅,၀၀၀)၊ကြေးနီတန်ချိန် ၃၅၀ ခန့် (တန်ဖိုးငွေကျပ် ၃,၆၆,၀၀၀)၊ ခနောက်



ရှမ်းပြည်နယ် အင်းလေးဒေသသည် စိတ်ဝင်စားဖွယ်ကောင်းသည်။ အင်းလေးရှိ ကျွန်းမျောများတွင် ဟင်းသီးဟင်းရွက် စိုက်ပျိုးရေး လုပ်ငန်းများ အောင်မြင်ဖြစ်ထွန်းလျက်ရှိသည်။ ကျွန်းမျောများပေါ်တွင် စိုက်ပျိုးရေးသည် သက်သာလွယ်ကူသည်မဟုတ်ပေ။ အင်းသားတို့၏ ခြီးကျူးဖွယ်ကောင်းသော ဇွဲသတ္တိနှင့် လုံ့လဝီရိယတို့ကြောင့် ဖြစ်ထွန်းခြင်းပင် ဖြစ်သည်။

စိမ်း တန်ချိန် ၂၀၉ တန် (တန်ဖိုးငွေ ၈၀,၀၀၀)၊ သံရိုင်း တန်ချိန် ၁၅၆၇၀ (တန်ဖိုးငွေကျပ် ၈,၆၂,၀၀၀)၊ ငွေသတ္တု ၂၀,၄၁,၃၉၅ အောင်စ (တန်ဖိုးငွေကျပ် ၈၂,၈၉,၀၀၀) တို့အပြင် အခြားထွက်ရှိသော သတ္တုများမှာ တန်ချိန် ၄၁၀ ခန့် ဖြစ်လေသည်။

နမ္မတူ သတ္တုတွင်း၊ သို့မဟုတ် ဘော်တွင်းသည် ခဲ၊ သွပ်၊ ဘော်အများဆုံးထွက်သော ကမ္ဘာကျော် သတ္တုတွင်းပေတည်း။ နမ္မတူ သတ္တုတွင်းမှလွဲလျှင် ဘော်ဆိုင်း သတ္တုတွင်းသည် အကျိုးအခံစားရဆုံးဟု ဆိုကြသည်။ ဘော်ဆိုင်းသတ္တုကြောကြီးသည် မိုင် ၄၀ ခန့်ရှည်လျား၍ဟဲဟိုးတောင်ဖက် မနယ်တောင်မှ ရပ်စောက်နယ်အထိ ရောက်သည်ဟု သိရသည်။ ထိုသတ္တုကြော၏ အနောက်စူးစူး ကလောနှင့် မိတ္ထီလာခရိုင်အစပ်ရှိ မင်းပလောင် တောင်တန်း၌လည်း ခဲအမြောက်အမြား ရနိုင်သည်ဟု ဆိုကြသည်။ ဒုတိယ ကမ္ဘာစစ်မတိုင်မီက ပင်းတရနယ် မြောက်ပိုင်းနှင့် မြင်ကြာဒိုးနယ်ရှိ တောင်မင်းကြီး၌လည်း ခဲများ တူးဖော်ရရှိလေသည်။

သွပ်ထွက်စံချိန်တွင် ဘော်တွင်းကို ချီးနိုင်မည့် သွပ်သတ္တုတွင်းသည် မိုင်းပွန်မြို့၏ တောင်ဖက် မိုင် ၃၀ ခန့်တွင် ရှိသော လုံချိန် သတ္တုတွင်း ဖြစ်သည်။ နမ့်တင်းရေတံခွန်နှင့်လည်း မဝေးလှသော်လည်း လမ်းပန်းဆက်သွယ်ရေး အခက်အခဲကြောင့် ကြီးကြီးကျယ်ကျယ် လုပ်ကိုင်နိုင်ရန်မဖြစ်သေးပေ။

ခနောက်စိမ်း သတ္တုများကို ရှမ်းပြည်နယ် နေရာ အနှံ့အပြား၌ တွေ့ရှိရသည်။ သို့သော် ဈေးကောင်းမရ၍ လုပ်ကိုင်သူ နည်းသည်။

ရွှေအနည်းငယ် ရောနှောပါသော ကြေးနီ တူးဖော်ခြင်းကို ဟဲဟိုးနယ်အတွင်း၌ လုပ်ကိုင်ကြသည်။ သို့သော် ရေ

အခက်အခဲရှိ၍ ကြီးကြီးကျယ်ကျယ် မလုပ်နိုင်ကြချေ။ စံကားနှင့် လင်းခေး စီရင်စုတို့၌လည်း ကြေးနီများ တွေ့ရှိရသည်ဟု သိရလေသည်။

ဝင်ငွေ ဖြောင့်သော သတ္တုတမျိုးသည် မန်းဂနီးဖြစ်၍ ဟိုပုန်းနယ်၌ တူးဖော်လုပ်ကိုင်ကြသည်။ ဘော်တွင်းနှင့် ဘော်ဆိုင်းနယ်များအပြင် ဝနယ် အချို့ဒေသများ၌လည်း ငွေသတ္တုကို တူးဖော်ရရှိလေသည်။

ကျောက်မီးသွေးကို လားရှိုး၊ သီပေါ၊ တောင်ကြီးနယ်များ အနီး၌ တွေ့ရသော်လည်း အမျိုးအစား မကောင်းချေ။ သာစည် ကလော မီးရထားလမ်းအနီး မင်းပလောင် တောင်တန်းမှ တွေ့ရှိရသော ကျောက်မီးသွေးသည် အမျိုးအစား မည့်လှသော်လည်း အကြောင်းအမျိုးမျိုးကြောင့် တူးဖော်လုပ်ကိုင်နိုင်ခြင်း မရှိသေးပေ။

ရှေးက မောက်မယ်နယ်မှ အလွန်ကောင်းသော သံများ တူးဖော် ရရှိ၍ မောက်မယ်နယ်ထွက် ဓားများသည် ကျော်ကြားလှသည်။ ကျိုင်းတုံနယ်နှင့် ကျိုင်းခမ်းစီရင်စုတို့မှရင်း၊ ဝနယ်များမှရင်း သံထွက်သည်ဟု ဆိုကြလေသည်။

မကြာသေးမီက (၁၉၆၃ ခုနှစ်) တောင်ကြီးမြို့ အနီး ပင်းပက်တွင် သံတန်ချိန် ၆၃ သန်းခန့် ထွက်နိုင်မည့် သံတွင်း တတွင်းကို တွေ့ရှိခဲ့ကြသည်။ သယ်ယူပို့ဆောင်ရေးလည်း မခက်ခဲသဖြင့် အလားအလာရှိသော သံရိုင်းတွင်းပေတည်း။

ရှမ်းပြည်နယ်အတွင်း၌ မလေ့လာ မတူးဖော်ရသေးသော သတ္တုရိုင်း အမျိုးမျိုးကို နေရာအနှံ့အပြား၌ တွေ့ရှိနိုင်သည်။

### သစ်တော ဝါးတောများ

ရာသီဥတု အေးချမ်း စိုစွတ်ပြီးလျှင် မြစ်ချောင်း၊ စိမ့်စမ်းများပြားသဖြင့် ရှမ်းပြည်နယ်တွင် ရှေးအခါက သစ်တော ဝါးတောကြီးများ ညို့မှိုင်း ထူထပ်ခဲ့လေသည်။ နောင်အခါ တောင်ယာခုတ်ထွင် လုပ်ကိုင်ကြသည့် စံနစ်ကြောင့်ရင်း၊ မြို့ရွာအိမ်ခြေ တိုးချဲ့လာကြသဖြင့်ရင်း၊ ဒုတိယ ကမ္ဘာစစ်ကာလအတွင်း သစ်တောများကို စည်းမဲ့ ကမ်းမဲ့ ခုတ်ထွင်ကြခြင်းကြောင့်ရင်း သစ်တော ဝါးတောများ ယခုအခါ နည်းပါးနေချေပြီ။

မြေနိမ့်ပိုင်းတွင် ကျွန်း၊ အင်၊ ပျဉ်းမစသော အပူပိုင်း သစ်တောများ၊ ပေ ၄,၀၀၀ မှ ၆,၀၀၀ ကျော်သော အမြင့်ပိုင်းတွင် ဝါးတောများ၊ထင်းရှူးတောများပေါက်ရောက်သည်။ ပင်ရင်း ပေါက်သော အပင်များကို ခုတ်ထွင် ရှင်းလင်းခဲ့သော နေရာများ၌ မြက်ခင်းပြင်များကို တွေ့ရလေသည်။

ရှမ်းပြည်နယ် အတွင်း သစ်တောခရိုင်များကို မိုးမိတ် သစ်တောခရိုင်၊ ရှမ်းပြည်မြောက်ပိုင်း သစ်တောခရိုင်၊ ရှမ်းပြည်တောင်ပိုင်း သစ်တောခရိုင်ဟူ၍ သုံးပိုင်း ခွဲခြားထားသည်။ ကြိုးဝိုင်း သစ်တောများ၏ အကျယ်အဝန်းသည် စုစုပေါင်း ၃,၁၃၇ စတုရန်းမိုင်ရှိလေရာ မိုးမိတ်နယ်၌ ၁,၁၁၄ စတုရန်းမိုင်၊ ရှမ်းပြည်မြောက်ပိုင်း၌ ၄၇၁ စတုရန်းမိုင်၊ တောင်ပိုင်း၌ ၁,၅၆၃ စတုရန်းမိုင် ဖြစ်သည်။ ကြိုးဝိုင်း ပြင်ပ သစ်တောများ၏ အကျယ်အဝန်းသည် စုစုပေါင်း ၁၅,၉၆၈ စတုရန်းမိုင်ရှိလေရာ မိုးမိတ်နယ်၌ ၁,၅၆၁ စတုရန်းမိုင်၊ ရှမ်းပြည်မြောက်ပိုင်း၌ ၄,၃၉၆ စတုရန်းမိုင်၊ တောင်ပိုင်း၌ ၁၀,၀၁၁ စတုရန်းမိုင် ဖြစ်လေသည်။ သစ်တောဌာန အုပ်ချုပ်ခြင်းမှ လွတ်ကင်းသော သစ်တောများသည်မူ စုစုပေါင်း ၄၁,၆၇၉ စတုရန်းမိုင် ကျယ်ဝန်းလေသည်။

ရှမ်းပြည်နယ်၌ အဖိုးတန်ကျွန်းသစ်၊အင်ကြင်းစသည့် သစ်တောများ မများလှချေ။ ထင်းရှူးပင်နှင့် အခြား သစ်ရိုင်းများက ပို၍များပြားသည်။ ရှမ်းလူမျိုးများသည် ထင်းရှူးသားကို အသုံးများကြသည်။ ကြီးကျယ်သော ကျွန်းတောကြီးများရှိသည့်ဒေသများမှာ မိုးမိတ်၊ မောက်မယ်၊ မိုင်းပန်၊ မိုးနဲ၊ ကျိုင်းတောင်း၊ ကျိုင်းခမ်း နယ်များ ဖြစ်ကြသည်။ မိုးနဲနှင့် ကျိုင်းတောင်းအကြားရှိ ကျွန်းတောကြီးသည် အပင်များ နုသေးသော်လည်း မိုင်ပေါင်း ၂၀ ကျော်ခန့် ရှည်လျားသဖြင့် အနာဂတ်ကာလအတွက် အဖိုးတန် သစ်တောကြီးပေတည်း။ မိုင်းကိုင်နယ်ရှိ တုံလော ဒေသတွင်လည်း ကျွန်းနှင့် အခြား သစ်ရိုင်းတောများကို တွေ့ရလေသည်။

ကျွန်းစသော သစ်များကို ခုတ်ယူပြီးနောက် သံလွင်မြစ်နှင့် ယင်း၏ လက်တက်များ ဖြစ်ကြသည့် သစ်မျှောချောင်းများအားဖြင့် မော်လမြိုင် ဆိပ်ကမ်းအရောက် မျှောချရသည်။ သာမိုင်းခမ်းနယ်မှရင်း၊မြန်မာပြည်မရှိ ကြိုးဝိုင်းများနှင့် ဆက်စပ်လျက်ရှိသော ကလောအနောက်ဖက်ရှိ မကွေးကြိုးဝိုင်းမှရင်း ခုတ်ယူသော သစ်များကိုမူ မီးရထားဖြင့် ပြည်မသို့ တင်ပို့ရလေသည်။

ရှမ်းပြည်နယ်အတွင်း သစ်တောများမှ သစ်စေး၊ ရှားစေး၊ ချိပ်၊ အင်တွဲစသည့် သစ်တောထွက် ပစ္စည်းများလည်း ရရှိသည်။ ထင်းရှူးသားမှ စက္ကူ ထုတ်လုပ်၍ ဖြစ်မဖြစ်ကို စမ်းသပ် ကြည့်ခဲ့ရာ ကုန်ထုတ် စက္ကူညိုများ ထုတ်လုပ်နိုင်ကြောင်း တွေ့ရှိရသည်။ ထို့ပြင် ထင်းရှူးဆီကို စံနစ်တကျ ထုတ်ယူရန်လည်း စမ်းသပ် လေ့လာလျက် ရှိသည်။ စမ်းသပ်မှုများ အောင်မြင်ပါက သစ်တောထွက် ပစ္စည်းအမျိုးအမည် တိုးလာဖွယ်ရှိသည်။ ရှမ်းပြည်နယ် သစ်တော ဌာန၏ ဝင်ငွေသည် ၁၉၅၉-၆၀ ပြည့်နှစ်အတွက် စုစုပေါင်း ကျပ် ၃,၂၉၃,၅၉၃ ဖြစ်ရာ တနှစ်ထက် တနှစ် တိုးလာနိုင်မည်ဟု မျှော်လင့်ချက် ရှိပေသည်။

### လမ်းပန်း ဆက်သွယ်ရေး

ရှမ်းပြည်နယ်တွင် မြစ်ချောင်းများ ပေါများသော်လည်း ရေစီးမြန်ခြင်း၊ ရေတံခွန်များ ရှိခြင်းတို့ကြောင့် ရေလမ်း

ခရီးကို အသုံးနည်းသည်။ အင်းလေးတွင်မူ လှေများ၊ စက်တပ်လှေများဖြင့် တနေရာမှ တနေရာ၊ တရွာမှ တရွာသို့ သွားလာကူးသန်းကြသည်။ အင်းလေးမှ အင်းသားတို့ ခြေဖြင့် လှေ လှော်နည်းသည် ကမ္ဘာကျော် ခလှေဆန်းတရပ်ဖြစ်ပေသည်။ (အင်းလေး — လည်းရှု။)

ရှမ်းပြည်နယ်တွင် တောင်ကတုံးများ၊ ကုန်းမြင့်လွင်ပြင်များ တောင်ကြား လွင်ပြင်များသည် မြေမျက်နှာပြင်ကို နိမ့်တုံ မြင့်တုံဖြစ်စေလျက် ကျယ်လွင့်များပြားစွာ ရှိသဖြင့် မီးရထားလမ်းနှင့် မော်တော်ကားလမ်းများကို ဖောက်လုပ်ပြီးလျှင် ကုန်းလမ်းခရီးကို အသုံးများကြလေသည်။ ပြည်မနှင့်ရင်း၊ အခြား ပြည်နယ်များနှင့်ရင်း လေကြောင်းမှ လွဲလျှင် ကုန်းလမ်းခရီးဖြင့်သာ ဆက်သွယ်ကြရလေသည်။

မီးရထားလမ်းရှည်ကြီးများသည် ရှမ်းပြည် မြောက်ပိုင်းတွင် တလမ်း၊ တောင်ပိုင်းတွင် တလမ်း အသီးအသီးရှိသည်။ မြောက်ပိုင်းလမ်းဖြစ်သော မန္တလေး-လားရှိုး (၁၇၁ မိုင်) လမ်းသည်ရင်း၊ တောင်ပိုင်းလမ်းဖြစ်သော သာစည် — ရွှေညောင် (၉ဂ မိုင်) မီးရထားလမ်းသည်ရင်း များသောအားဖြင့် မော်တော်ကားလမ်းနှင့် ယှဉ်ပြိုင်လျက်ရှိသည်။ မန္တလေး - လားရှိုးမီးရထားလမ်းကို ၁၉၀၃ ခုနှစ်တွင် စတင် ဖွင့်လှစ်ခဲ့သည်။ သာစည်-ရွှေညောင် မီးရထားလမ်းကိုမူ တဆင့်ပြီးတဆင့် ဖောက်လုပ်ခဲ့ရာ သာစည် - ကလောလမ်းကို ၁၉၁၅ ခုနှစ်တွင်ရင်း၊ ကလော-ဟဲဟိုးလမ်းကို ၁၉၂၁ ခုနှစ်တွင်ရင်း၊ ဟဲဟိုး-ရွှေညောင်လမ်းကို ၁၉၂ဂ ခုနှစ်တွင်ရင်း အသီးအသီး ဖွင့်လှစ်ခဲ့သည်။ မန္တလေး-လားရှိုးလမ်းသည် နမ့်ယော်တွင် နမ္မတူနှင့် ဘော်တွင်း‌တို့ လမ်းခွဲရှိသည်။ ထိုလမ်းခွဲကို ဘားမားကော်ပိုရေးရှင်း လီမိတက်က ဖောက်လုပ်ထားသဖြင့် ကုမ္ပဏီပိုင်ဖြစ်ပြီးလျှင် လမ်းကျဉ်းလေသည်။

ရှမ်းပြည်နယ်၏ မီးရထားလမ်းများကို တောအထပ်ထပ်၊ တောင်အလျှိုလျှိုကို ကျော်လွှား၍ရင်း၊ ဥမင်လိုဏ်ခေါင်းများကို ဖောက်ထွင်း၍ရင်း၊ တောင်ခါးပန်းများကို ရစ်ပတ်၍ရင်း၊ လျှိုမြောင်များကို ဖြတ်သန်း၍ရင်း ခဲရာခဲဆစ် ဖောက်လုပ်ထားသဖြင့် အချို့နေရာများတွင် သည်းထိတ်ရင်ဖိုဖွယ်ရာ သွားလာကြရသည်။ သို့သော် ဘေးတဖက်တချက်မှ တောစခန်း၊ တောင်စခန်း ရှုခင်း ရှုကွက်များကလည်း သာယာ ရှုမောဖွယ်ရာဖြစ်၍ နှစ်သိမ့်ကြည်နူးမှုကိုလည်း ခံစားကြရပေသည်။ မန္တလေး - လားရှိုးရထားလမ်းရှိ ဂုတ်ထိပ် တန်တားသည် လှပထင်ရှားသော ကမ္ဘာကျော် တန်တားပေတည်း။ (ဂုတ်ထိပ် — လည်းရှု။)

မီးရထားလမ်းအားဖြင့် မြောက်ပိုင်းနှင့် တောင်ပိုင်းကို ဆက်သွယ် မထားပေ။ မော်တော်ကားလမ်းအားဖြင့်မူ အဆက်အသွယ်ရှိပေသည်။ မော်တော်ကားလမ်း အများအပြား ရှိရာ အချို့နေရာများတွင် ထိုလမ်းတို့သည် မီးရထားလမ်းနည်းတူ တောင်ခါးပန်းများကို ရစ်ပတ်ကွေ့ဝိုက်လျက် ဖောက်လုပ်ထားလေသည်။

ရှမ်းပြည်မြောက်ပိုင်းတွင် မန္တလေးမှသည် မြန်မာ-တရုပ်နယ်ခြား မြို့ကလေးဖြစ်သော ကြူကုတ်အရောက် တောက်လျှောက်သွားနိုင်သော မော်တော်ကားလမ်း ရှိသည်။ ထိုလမ်းသည် ကျောက်မဲ၊ သီပေါ၊ လားရှိုး၊ သိန္နီ၊ ကွတ်ခိုင်၊ မိုင်းယုတို့ကို ဖြတ်သန်းသွား၍ မန္တလေးမှ မိုင်းယုအထိ ၂၇၇ မိုင် ရှိလေသည်။ မိုင်းယုမှ အနောက်တောင်ဖက်ရှိ မူစယ်သို့ရင်း၊ မူစယ်မှတဖန် အနောက်တောင်ယွန်းယွန်းရှိ နမ်းခမ်းမြို့သို့ရင်း လမ်းခွဲရှိသည်။နမ်းခမ်းမြို့မှတဆင့် ကချင်ပြည်နယ်ရှိ ဗန်းမော်၊ မြစ်ကြီးနား၊ ပူတာအိုအထိ သွားနိုင်လေသည်။

မန္တလေးမှ တရုပ် နယ်စပ် အရောက် ထိုမော်တော်ကားလမ်းတလျှောက်တွင် လမ်းခွဲများရှိသေးရာ ကျောက်မဲမှ မိုးကုတ်၊ မိုးမိတ်တို့သို့ရင်း၊ ထိုမှတဆင့် ဗန်းမော်၊ မြစ်ကြီးနားတို့သို့ရင်း၊ မိုးကုတ်မှတဆင့် သပိတ်ကျင်းသို့ရင်း သွားရောက်နိုင်သည်။ သီပေါမှ တောင်ပိုင်နယ်ရှိ နမ့်ဆန်သို့ရင်း၊ နမ္မတူနှင့် ဘော်တွင်းသို့ရင်း၊ လားရှိုးမှ နမ္မတူနှင့် ဘော်တွင်းသို့ရင်း လမ်းခွဲများ ရှိပေသေးသည်။

ရှမ်းပြည်တောင်ပိုင်းတွင် သာစည်မှ ယိုးဒယားနယ်စပ်ရှိ တာချီလိပ်သို့အရောက် ၄ဂ၅ မိုင်ခန့်ရှည်လျားသော မော်တော်ကားလမ်းရှည်ကြီးဖြင့် တောက်လျှောက် သွားနိုင်သည်။ ဖြတ်သန်း သွားသော မြို့များမှာ ကလော၊ တောင်ကြီး၊ ဟိုပုန်း၊လွိုင်လင်၊ကွမ်ဟိန်း၊တာကော်၊ကျိုင်းတုံစသည်တို့ ဖြစ်သည်။ တာကော်တွင် သံလွင်မြစ်ကို ဖြတ်ကူးသော ပေ ၇ဂ၀ ရှိ တာကော် ယာယီတန်တားကို ၁၉၆ဂ ခုနှစ် ဇူလိုင်လ ၆ ရက်နေ့တွင် ဖွင့်လှစ်ခဲ့၏။

ထိုမော်တော်ကားလမ်း ရှည်ကြီးမှလည်း လမ်းခွဲများရှိလေရာ ကလောမှ ခြောက်မိုင်ဝေးသော အောင်ပန်းတွင် ပင်းတရ (၂၄ မိုင်) သို့ လမ်းခွဲရှိသေးသည်။ ပင်းတရမှ တဖန် ၃၂ မိုင် ဝေးကွာသော ရပ်စောက်သို့ ဆက်လက် သွားလာနိုင်၍ ရပ်စောက်တွင် ဗထူးတပ်မြို့ရှိလေသည်။

ဟဲဟိုးမြို့မှလည်း သတ္တုတွင်းများရှိသော ဘော်ဆိုင်းသို့ လမ်းခွဲရှိ၍ ၁၉ မိုင်မျှ ရှည်လျားသည်။ တောင်ကြီး မရောက်မီ ရွှေညောင်တွင် ညောင်ရွှေမြို့ (၇ မိုင်) သို့လည်း လမ်းခွဲရှိလေသည်။

ရှမ်းပြည်မြောက်ပိုင်းနှင့် တောင်ပိုင်းကို ဆက်သွယ်ထားသော မော်တော်ကား လမ်းများမှာ လွိုင်လင် - သီပေါ-လားရှိုး ၁ဂ၅ မိုင် တလမ်းနှင့် လွိုင်လင် - ကျေးသီးမန်စံ-လားရှိုး ၂၀၂ မိုင်တလမ်း တို့ဖြစ်သည်။ ထိုလမ်းရှည်ကြီးများမှ လမ်းခွဲတိုများလည်း ရှိသေးသည်။

လွိုင်လင် အနီးရှိ နမ့်ဆန်မှ မိုးနဲ၊ လင်းခေး၊ မိုင်းပန်တို့သို့ ရောက်ရှိနိုင်သော လမ်းခွဲတခု ရှိသေးသည်။



အင်းလေးဒေသ အေးချမ်းသာယာသော ရွှခင်းတရပ်ဖြစ်၍ ရှမ်းပြည်နယ်၏ သာတောင့်သာယာရှိသည့်သရုပ်ကို ဆောင်လျက်ရှိသည်။

ရှမ်းပြည်နယ်နှင့် ကယားပြည်နယ်ကို ဆက်သွယ်နိုင်သော မော်တော်ကားလမ်း နှစ်လမ်းမှာ (၁) ဟိုပုန်းမှ ကယားမြို့တော် လွိုင်ကော်သို့အရောက် ၇၅ မိုင် ရှည်လျားသောလမ်း၊ (၂) အောင်ပန်းမှ လွိုင်ကော်သို့အရောက် ၁၀၅ မိုင်ရှည်လျားသောလမ်းတို့ဖြစ်၍ အောင်ပန်း လွိုင်ကော်လမ်းသည် ပို၍ ကောင်းလေသည်။

ဒုတိယကမ္ဘာစစ်မီး မြန်မာပြည်သို့ မကူးမီ တရုပ်-မြန်မာ လမ်းမကြီးသည် တရုပ်နိုင်ငံအား 'နောက်ဖေးပေါက်' မှ လက်နက်ခဲယမ်းမီးကျောက်များ တင်ပို့ရေးအတွက် အသက်သွေးကြောကြီး ဖြစ်ခဲ့သည်။ ထိုလမ်းမကြီးသည် မြန်မာဖက်မှ လားရှိုးနှင့် တရုပ်ဖက်မှ ယူနန်ပြည်နယ်ရှိ ကူမင်းမြို့တို့ကို ဆက်သွယ်ထား၍ မိုင်ပေါင်း ၆၉၀ ရှည်လျားသည်။ မြန်မာပြည်ဖက်မှ ကြူကုတ်သည် နယ်ခြားစခန်း ဖြစ်၍ တရုပ်တို့ဖက်မှ နယ်ခြားစခန်းသည် ဝမ်တိန် ဖြစ်လေသည်။

ထိုတရုပ်-မြန်မာလမ်းမကြီးကို ချန်ကေရှိတ် အစိုးရသည် ခေတ်မှီစက်ကရိယာပစ္စည်း မသုံးဘဲ ရာထောင်မကသော တရုပ်-မြန်မာ အလုပ်သမားတို့၏ အသက်ကို စတေးကာ တောင်အထပ်ထပ်၊ လျှိုမြောင်အသွယ်သွယ်ကို ကျော်ဖြတ်ဝိုက်ပတ်လျက် ခဲယဉ်းပင်ပန်းလှစွာ ဆောက်လုပ်ခဲ့သည်။ ၁၉၃၇ ခုနှစ်တွင် စတင်ဆောက်လုပ်ရာ ၁၆ လအတွင်း ပြီးစီး၍ ကမ္ဘာ့သမိုင်းတွင် မှတ်တမ်းတင်ရသော လမ်းမကြီး ဖြစ်ပေသည်။ လက်နက်ပစ္စည်းများကို ရန်ကုန်မှ လားရှိုးအထိ မီးရထားဖြင့် တင်ပို့၍ လားရှိုးမှတဆင့် ကူမင်းသို့ အရောက် လော်ရီများဖြင့် သယ်ယူရလေရာ တရုပ်-မြန်မာ လမ်းမကြီး၏ ကြမ်းတမ်း ခက်ခဲမှုကြောင့် မော်တော်ကားများ အလွန်အပျက်အစီး များခဲ့သဖြင့် ထိုလမ်းမကြီးသည် 'မော်တော်ကား သင်္ချိုင်း' ဟုပင် အမည်တွင်ခဲ့လေသည်။

စစ်မီးသည် မြန်မာပြည်သို့ ကူးစက်လာ၍ ၁၉၄၂ ခုနှစ်တွင် ဂျပန်တပ်များက လားရှိုးကို သိမ်းပိုက်လိုက်သောအခါ ထိုလမ်းမကြီးကို အသုံးမပြုနိုင်တော့သဖြင့် အာသံပြည်နယ်ရှိ လီဒိုမြို့မှ ကချင်ပြည်နယ် မြစ်ကြီးနား၊ ဗန်းမော်တို့သို့ ပေါက်ရောက်သော စတီးဝဲ၊ သို့မဟုတ် လီဒိုလမ်းမကြီးကို

ဖောက်လုပ် အသုံးပြုခဲ့ရလေသည်။ (လီဒိုလမ်းမကြီး — လည်းရှု။)

ရှမ်းပြည်နယ်သည် အရှေ့ဖက်တွင် တရုပ်၊ လော၊ ယိုးဒယားနိုင်ငံတို့နှင့် နယ်နိမိတ်ချင်း ဆက်စပ်လျက်ရှိရာ ထိုနိုင်ငံများသို့ ပေါက်ရောက်သည့် တောင်ကြားလမ်းပေါက်များ ရှိသည်။ သို့သော် အသွားအလာ လွယ်ကူသော လမ်းပေါက်များ မဟုတ်ချေ။ မြောက်ပိုင်း၌ ရွှေလီမြစ်ကြောင်းကို လိုက်၍ တရုပ်နယ်နိမိတ်တွင်းသို့ ရောက်နိုင်သော တောင်ကြားလမ်းရှိ၍ ရွှေလီလမ်းဟု ခေါ်သည်။ သံလွင်မြစ် တဖက်ကမ်း ကွမ်းလုံ ကူးတို့ဆိပ်မြို့ကလေးမှလည်း တရုပ်နယ်နိမိတ်အတွင်း ရောက်နိုင်ရာ ကွမ်းလုံမှ သံလွင်မြစ်ကို ဖြတ်ကျော် ဆောက်လုပ်ထား၍ ၇၉၈ ပေ ရှည်သော ကွမ်းလုံ ကြိုးတန်တားကို ၁၉၆၅ ခုနှစ် ဒီဇင်ဘာလ ၂၂ ရက်နေ့တွင် ဖွင့်လှစ်ခဲ့၏။

တောင်ပိုင်းတွင် တာချီလိပ်မှ မဲခေါင်မြစ်တဖက်ကမ်း ကူးလျှင် ယိုးဒယား နယ်နိမိတ်အတွင်းသို့ ရောက်နိုင်သည်။ ထို့ပြင် ကျိုင်းတုံနယ်အတွင်းမှ တရုပ်၊ ယိုးဒယား၊ လောနိုင်ငံ နယ်နိမိတ်များ အတွင်းသို့ ကုန်းလမ်းခရီးဖြင့် ပေါက်ရောက်နိုင်သော လမ်းပေါက်များ ရှိသော်လည်း ခဲခဲယဉ်းယဉ်းသွားရောက်ရ၍ အသုံးပြုခြင်း နည်းပါးလှလေသည်။

ရှမ်းပြည်နယ်သည် ပြည်မနှင့် လေကြောင်းခရီး အဆက်အသွယ်လည်း ရှိသည်။ ရှမ်းပြည် မြောက်ပိုင်း၌ လားရှိုး၊ မိုးမိတ်၊ နမ့်ဆန်မြို့များတွင်၎င်း၊ တောင်ပိုင်းတွင် ဟဲဟိုး၊ ကျိုင်းတုံ၊ မိုင်းဆတ်၊ တာချီလိပ်မြို့တို့တွင်၎င်း လေဆိပ်များ ရှိသည်။

### စေတီပုထိုးများ

ရှမ်းပြည်နယ်တွင် ဗုဒ္ဓအယူဝါဒကို ကြည်ညိုလေးစားကြသည့် အလျောက် စေတီပုထိုး၊ ကျောင်းကန်ဘုရားများလည်း ပေါများလှသည်။ ရွှေရောင်တဝင်းဝင်း၊ ထုံးဖြူတဖွေးဖွေးနှင့် စေတီပုထိုးများ၊ တိုင်တရာကျော်ရှိသော ဘုန်းကြီးကျောင်းများကို နေရာအနှံ့အပြား၌ ကြည်ညိုဖွယ်ရာ တွေ့ရသည်။များသောအားဖြင့် ရှမ်းပြည်နယ်ရှိ တန်ခိုးကြီး စေတီပုထိုး အများအပြားကို မူလ အိန္ဒိယနိုင်ငံ မဂဓတိုင်းရှင် သီရိဓမ္မာသောကမင်း၏ ကုသိုလ်တော် စေတီပေါင်း ၈၄,၀၀၀ တွင် ပါဝင်ခဲ့သည့် စေတီများဟူ၍၎င်း၊ အလောင်းစည်သူမင်း တိုင်းခမ်းလှည့်စဉ်ကတည်ထားသော စေတီပုထိုးများဟူ၍၎င်း ယုံကြည်ကြသည်။ စေတီပုထိုးများကို ရှမ်းပြည်နယ်၌ မွေ့တော်ဟု များသောအားဖြင့် ခေါ်ဝေါ်ကြလေသည်။

ရှမ်းပြည်မြောက်ပိုင်းတွင် ကျော်ကြားသော စေတီသည် ဘော်ကြိုရွာကြီးအနီးရှိ ဘော်ကြိုစေတီဖြစ်သည်။ (ဘော်ကြိုဘုရား — ရှု။) တောင်ပိုင် နယ်၏ အမြင့်ဆုံးတောင်ထိပ်ပေါ်တွင် တည်ထားသော လွယ်ဆိုင်စေတီကို ပလောင်တို့အထူး ကြည်ညိုကြသည်။ ထိုစေတီအနီးတွင် တောင်ပိုင်နယ်အတွင်း ပဌမဆုံး ပေါက်ခဲ့သည်ဟု ပလောင်တို့ ယူဆခဲ့ကြသော လက်ဖက်ပင်ကြီး ရှိလေသည်။

မြေလပ်ပိုင်းတွင် ပင်းတရမြို့၏ရွှေဥမင်ဘုရားသည် ကျော်ကြားလှပေသည်။ (ပင်းတရ — ရှု။) ရှမ်းပြည် တောင်ပိုင်း ညောင်ရွှေ နယ်ရှိ စေတီပုထိုးများ အနက် ဖောင်တော်ဦး ဘုရား ငါးဆူသည် ရှမ်းပြည်နယ် တခုလုံးတွင် သာမက မြန်မာပြည်မ ဖက်၌ပါ ကျော်ကြားလှသော တန်ခိုးကြီး ဘုရားများ ဖြစ်ပေသည်။ (အင်းလေး — ရှု။)

အချို့နယ်ရှင် စော်ဘွားများသည် မန္တလေးမြို့ရှိ မဟာမြတ်မုနိပုံတော်ပွားများကို သွန်းလုပ်စေ၍ ပူဇော်ကြသည်။ ညောင်ရွှေမြို့ရှိ စော်ဘွားကြီး ဆာစဝ်မောင်၏ ကုသိုလ်တော်ဖြစ်သော ရတနာမာန်အောင် စေတီသည် ရှမ်းပြည်နယ်တွင် ကြီးကျယ် ခမ်းနားသော ဘုရားတဆူဖြစ်၍ ဂန္ဓကုဋိတိုက်အတွင်း၌ ဥာဏ်တော်ကြီးမားသော ကြေးသွန်းရုပ်ပွားတော်ကြီး ကိန်းဝပ် စံပယ်လျက် ရှိလေသည်။

၁၉၂၄ ခုနှစ် ရှမ်းပြည် လောင်းကစား ဥပဒေအရ စော်ဘွားများသည် ဘုရားပွဲများ ကျင်းပသည့်အခါ လောင်းကစားဝိုင်းများ ထည့်သွင်းခွင့် ပြုသည်။ တကြိမ်လျှင် ခြောက်ရက် ကျင်းပခွင့်ရသည်။ ထည့်သွင်းခွင့် ပြုသည့် အကြောင်းပြချက်မှာ ရှမ်းပြည်တွင် ပျော်ပွဲ ရှင်ပွဲများ အလွန်နည်းသဖြင့် လူထုပျော်ရွှင်ခွင့် ရစေရန် ဖန်တီးရသည်ဟု ဆိုသည်။ စင်စစ်သော် စော်ဘွားများသည် ထိုကစားဝိုင်းများမှ ကစားဝိုင်းခွန်များ အမြောက်အမြား ရရှိသောကြောင့် ဖြစ်လေသည်။ ယင်းသို့ ဘုရားပွဲများ၌ ကစားဝိုင်းများ ထည့်သွင်းခြင်းသည် လူထု၏ စာရိတ္တရေး၊ စီးပွားရေးကို အလွန်တရာ ထိခိုက်စေခဲ့သဖြင့် ၁၉၆၂ ခုနှစ် မတ်လတွင် တော်လှန်ရေးအစိုးရ တက်လာသောအခါ ဘုရားပွဲများ၌ လောင်းကစားခွင့်ကို ပိတ်ပင်ခဲ့လေသည်။

ရှမ်းပြည်နယ်၏ မြို့ကြီးများတွင် နေ့စဉ် ဈေးမစည်ဘဲ ငါးရက်တဈေးများ ကျင်းပလေ့ရှိသည်။ ဈေးသည်များသည် တဈေးမှတဈေးသို့ ဘတ်စကားများဖြင့် လှည့်လည်ရောင်းချကြသည်။ ဈေးရက်များမှာ စော်ဘွားနယ်များတွင် အောက်ပါမြို့များ၌ တပြိုင်နက်ဈေး ဖြစ်လေသည်။ ရှမ်းအခေါ်ဖြင့် ကတ်ဝိန်းဟူ၏။

(၁) ရပ်စောက်၊ (၂) ပင်းတရ၊ (၃) ညောင်ရွှေ၊ (၄) ဟိုပုန်း၊ (၅) မိုးနဲ၊ (၆) လဲချား၊ (၇) မိုင်းကိုင်၊ (၈) မိုင်းယွန်း၊ (၉) ဆီဆိုင် (သထုံ) တို့ ဖြစ်ကြသည်။

ထိုဈေးများပြီးသည့်အခါ (၁) ဟဲဟိုး၊ (၂) တောင်ကြီး၊ (၃) နန်းပန်၊ (၄) နောင်မွန်၊ (၅) လွိုင်လင်၊ (၆) အောင်ပန်း၊ (၇) ဘန်းယဉ်၊ (၈) ကလောမြို့တို့တွင် ဈေးဖြစ်ပြန်လေသည်။



ရှမ်းပြည်နယ်တွင် ငါးရက်တဈေး ကျင်းပလေ့ရှိ၍ ရပ်ရွာကိစ္စ၊ သာရေးနာရေးကိစ္စများ တွေ့ဆုံ တိုင်ပင်လေ့ရှိကြသည်။

အကြီးဆုံး ဈေးများမှာ ပင်းတရနှင့် နန်းပန်တို့ ဖြစ်သည်။ ဈေးနေ့များတွင် ယောကျ်ား မိန်းမ ကလေး လူကြီး မကျန် ဈေးသို့ သွားလေ့ရှိကြသည်။ ယင်းတို့သည် ဈေးနေ့တွင် အခြား ကိစ္စများကို မဆောင်ရွက်လိုကြချေ။ ရပ်ရွာကိစ္စ သာရေးနာရေး ကိစ္စများ တွေ့ဆုံတိုင်ပင်သည့် နေရာတခုဟု မှတ်ယူနိုင်သည်။

### သမိုင်းအကျဉ်း

ရှမ်းပြည်နယ်၏ အစောပိုင်း သမိုင်းသည် မြန်မာနိုင်ငံ အစောပိုင်း သမိုင်းကဲ့သို့ ပုံပြင် ဒဏ္ဍာရီ ဆန်ကာ နတ်၊ နဂါး၊ ကျားများပါ ပါဝင် ရောနှောနေသည်။ ယင်းသို့ ဒဏ္ဍာရီဆန်သော အချက်အလက်များကို ချန်လှပ်၍ မြန်မာရာဇဝင်သမိုင်းများ အုန်းပေါင်သီပေါ ရာဇဝင်များအရ ဖော်ပြရလျှင် ရှမ်းပြည်ထောင်ကို စတင် တည်ထောင်ခဲ့သူမှာ ဘိန္နကရာဇ်မင်းဟု ဆိုလေသည်။ ထို့ကြောင့် "ရှမ်းမင်းအစ၊ ဘိန္နက"ဟုပင် ရေးသားခဲ့ကြလေသည်။

ထိုရာဇဝင်အရ တကောင်းမင်း အဘိရာဇာ၏ အဆက်အနွယ်ဖြစ်သော ဘိန္နကရာဇာမင်းလက်ထက်တွင် တကောင်းပြည်အား တရုပ်တရက်တို့ ဝင်ရောက်တိုက်ခိုက်လာသဖြင့် ထိုမင်းသည် တကောင်း နန်းကို စွန့်ခွာလာပြီးလျှင် ရေဝတီမြစ် အနောက်ဖက် မလယ်အရပ်၌ စံနေစဉ် ထိုမင်းနတ်ရွာစံ၍ ပါလာသော ဗိုလ်ချေပင်း သုံးသင်းကွဲလေသည်။ တသင်းကို ခေါင်းဆောင်သော ထိုမင်း၏ ညီတော် ဘိန္နကရာဇ်သည် ရွှေလီမြစ် အထက်ပိုင်းသို့ ဆန်တက်သွားပြီးလျှင် ထိုမြစ်၏ လက်ျာဖက်ကမ်းတွင် မိုင်းမောဟု ခေါ်တွင်သော ဒေသ၌ အခြေချကာ ရှမ်းတဆဲ့ကိုး ခရိုင်ကို စတင်တည်ထောင်ခဲ့သည်ဟုဆိုလေသည်။ ထို့ကြောင့် "ရှမ်းပြည်ထောင်အစ၊ မိုင်းမောက" ဟုလည်း ဆိုရိုးပြုခဲ့ကြလေသည်။

သမိုင်းသုတေသီများ အထောက်အထား အခိုင်အလုံတွေ့ရသော ပဓာန အချက်အလက်များနှင့် ညီညွတ်သည့် အဆိုများအရမူ ရှမ်းလူမျိုးတို့သည် နန်ချောင် (နန်းကျောက်) ပြည်ကြီး မတည်ထောင်မီ ခရစ်နှစ် တစ်ရာစု အစပိုင်းလောက်မှ စတင်၍ တရုပ်နိုင်ငံတောင်ပိုင်း ဒေသများမှ တောင်ဖက်၊ အနောက်တောင်ဖက်၊ အရှေ့တောင်ဖက် ဒေသများသို့ တရွေ့ရွေ့ ရွှေ့ပြောင်းလာခဲ့ရာ နန်ချောင်ပြည်ကြီး စည်ပင်ဖွံ့ဖြိုးနေသည့် ခုနစ်ရာစုလောက်တွင် မိုင်းမောဒေသမှ စတင်၍ ရှမ်းပြည်ထောင်များကို တစတစတိုးချဲ့တည်ထောင်ခဲ့သည်ဟု ဆိုလေသည်။ (ရှမ်းလူမျိုး — လည်းရှု။)

ပုဂံပြည့်ရှင် အနော်ရထာမင်း လက်ထက်မတိုင်မီအထိ မိုင်းမောသည် နန်ချောင်အား ပဏ္ဏာဆက်သနေခဲ့ရသည်။ အနော်ရထာမင်းသည် နန်ချောင်၏မြို့တော် ယခု ယူနန်ပြည်နယ်ရှိ တာလီဖူ့သို့အရောက် ရှမက်စစ်သည် အလုံးအရင်းနှင့် ချီတက်လာသောအခါ နန်ချောင်ပြည့်ရှင်သည် မြန်မာမင်းအား ခံ့ညားခဲ့ရသည်။ ထို့ကြောင့် အဖြန်ခရီးတွင် မိုင်းမောပြည့်ရှင်သည်လည်း အနော်ရထာမင်းအား

သမီးတော် စောမွန်လှကို ဆက်သပြီးလျှင် ခံ့ညား ဝပ်စင်းခဲ့လေသည်။

အနော်ရထာမင်း၏ လက်ထက်မှစ၍ စည်ပင် တိုးတက်လာသော ပုဂံပြည်သည် ခရစ်နှစ် ၁၃ ရာစု အလယ်ပိုင်းတွင် တိုင်းပြည်အား အုပ်ချုပ်မင်းလုပ်ကြသော ကျစွာမင်း၊ ဥဇနာမင်း၊ နရသီဟပတေ့မင်းတို့၏လက်ထက်၌ ထိုမင်းတို့ အရည်အချင်းညံ့သဖြင့် ပုဂံပြည်ကြီး ယိမ်းယိုင်လာလေသည်။ ထိုအခါမောရှမ်းမင်းတို့သည် မြန်မာမင်းတို့အား မခံ့မညားတော့ချေ။ မြန်မာမင်းက မြို့စား ရွာစား ခန့်ထားသော စစ်ကိုင်း၊ ပင်းယ၊ မြင်စိုင်းစား ရှမ်းညီနောင် သုံးဦးတို့သည် ပုဂံပြည်၏ နိုင်ငံရေး အင်အားကို သိမ်းပိုက်လိုက်ကြသည်။ ယင်းတို့နှင့် ယင်းတို့၏ အဆက်အနွယ်များသည် မြန်မာနိုင်ငံ အလယ်ပိုင်း၌ လွှမ်းမိုး ကြီးစိုးနေခဲ့ကြ လေသည်။ (ရှမ်းလူမျိုး — လည်းရှု။)

တောင်ပိုင်း ရှမ်းပြည်နယ်ဟု ယခုခေါ်ဆိုကြသော ရှမ်းနယ်များသို့ ရှမ်းလူမျိုးများ မပျံ့နှံ့လာမီက ထိုဒေသများ၏ မူလတိုင်းရင်းသားများသည် ကရင်အနွယ်များဟု ယူဆကြရ၍ ဝ၊ ပလောင်၊ ယင်းသုံးမျိုး (ယင်းနက်၊ ယင်းဆက်၊ ယင်းကျား)၊ တောင်သူနှင့် ပဒေါင် လူမျိုးစုများလည်း ရှိနေသည်။ ထိုနယ်များ၏ အစောပိုင်း သမိုင်းတွင် ပုဂံပြည့်ရှင် အလောင်းစည်သူမင်း ဖောင်စကြာဖြင့် တိုင်းခမ်းလှည့်လည်စဉ်က အကြောင်းများလည်း ပါရှိ၍ မြန်မာနိုင်ငံ အစောပိုင်း သမိုင်းနှင့် ဒွေးရောယှက်တင် ရှိနေခဲ့လေသည်။ အသေအချာ လေ့လာစိစစ်သည့်အခါ အထက်မြန်မာနိုင်ငံ၌ မောရှမ်းဆက်များ ဖြစ်ကြသော မိုးကောင်း၊ မိုးညှင်း၊ ကလေးစားတို့ လွှမ်းမိုးနေစဉ် သမယမှ စတင်၍ မြောက်ပိုင်းနယ်များမှ စော်ဘွား အဆက်အနွယ်များကို ပင့်ခေါ်ပြီးလျှင် တောင်ပိုင်းနယ်များ၌ စိုးမိုးစေခဲ့သည်ဟု ယူဆရလေသည်။

မြေလပ်နယ်များရှိ လူမျိုးများ ဖြစ်ကြသော အင်းသား၊ ဓနု၊ တောင်သူ၊ တောင်ရိုးတို့သည် ထိုဒေသ၏ မူလတိုင်းရင်းသားများ မဟုတ်ချေ။ ယင်းတို့သည် မြန်မာအစုဝင် လူမျိုးများ ဖြစ်ကြပြီးလျှင် အခြား ဒေသများမှ အကြောင်းကြောင်းတို့ကြောင့် ထိုဒေသများသို့ ရောက်ရှိ လာကြသူများဖြစ်ကြသည်။ သို့သော်မြေလပ်နယ်များသည် ပထဝီဝင်အရ ရှမ်းနယ်များနှင့် ပို၍နီးစပ်သဖြင့် မြန်မာတို့သည် ယင်းနယ်များအား ရှမ်းနယ်များကဲ့သို့ ယူဆဆက်ဆံခဲ့လေသည်။ မြေလပ်နယ်များမှ မြန်မာမင်းများကို ငွေပဏ္ဏာ ဆက်သွင်းရသဖြင့် ထိုနယ်ရှင်များအား ငွေခွန်မှူးများဟု ခေါ်ဆိုကြလေသည်။

စစ်ကိုင်း၊ ပင်းယတို့၌ မင်းပြုစိုးမိုးနေခဲ့ကြသော ရှမ်းညီနောင် သုံးဦးတို့၏ အဆက်အနွယ်များသည် နောင်အခါ အချင်းချင်း မညီညွတ်သဖြင့် ပင်းယမင်းသည် စစ်ကိုင်းကို တိုက်ရန် မြန်မာနိုင်ငံ၏ အရှေ့မြောက်ဖျားတွင် အင်အားကြီးမားလျက်ရှိသော မောရှမ်းတို့ကို ဖိတ်ခေါ်သည်။ မောရှမ်းတို့သည် စစ်ကိုင်းကိုသာမက ပင်းယကိုပါ တိုက်သဖြင့် နှစ်မြို့လုံး ပျက်ရလေသည်။ ၁၃၆၄ ခုနှစ်တွင် စစ်ကိုင်းနှင့် ပင်းယပျက်ပြီးနောက်၌ စစ်ကိုင်းမင်း အသင်္ခယာ စောယွန်း၏ မြေးတော် သတိုးမင်းဖျားသည် စစ်ကိုင်းနှင့် ပင်းယကို သိမ်းယူ၍ အင်းဝကို တည်ကာ မင်းပြုသည်။ ထိုမင်းလက်ထက်နှင့် ထိုမင်းအား ဆက်ခံသော မင်းကြီးစွာစော်ကဲ၏ လက်ထက်တွင် မောရှမ်းတို့ နောက်ထပ် တိုက်ခိုက်လာခြင်းကို ဟန့်တားနိုင်ခဲ့သော်လည်း နောက်ဆက်ခံသော မင်းများ လက်ထက်တွင်မူ ရှမ်းမင်းတို့သည် အင်းဝကို ရံဖန်ရံခါ တိုက်လာသည်။ တရုပ်နိုင်ငံကိုလည်း သွားရောက် ထိပါးသည်။ အချင်းချင်းလည်း တိုက်ခိုက်ကြလေသည်။

တောင်ငူခေတ်တွင် မြန်မာတို့ပြန်၍ အင်အားတောင့်လာသည်။ ထိုအချိန်၌ အင်းဝတွင် ရှမ်းမင်းခုံမှိုင်းငယ် (ခွန်မိုင်းငယ်) စိုးစံနေသည်။ မြန်မာတို့သည် ရှမ်းတို့၏ စိုးမိုးမှုကို တွန်းလှန်ရန် ကြိုးပမ်းလာသည်။ မြန်မာ သက္ကရာဇ် ၉၀၆ ခုနှစ် (ခရစ် ၁၅၄၄ ခုနှစ်) တွင် တောင်ငူဘုရင် တပင်ရွှေထီးနှင့် ယောက်ဖတော် ဘုရင့်နောင်တို့ ခေါင်းဆောင်သော မွန်–မြန်မာများနှင့် သီပေါစော်ဘွား၊ အင်းဝခုံမှိုင်းငယ်၊ ဗန်းမော်စော်ဘွား၊ မိုးညှင်းစော်ဘွား၊ မိုးနဲစော်ဘွားဟူသော ခုနစ်ပြည်ထောင် စော်ဘွားတို့၏ တပ်များသည် ပြည်မြို့တွင် တိုက်ပွဲ ဖြစ်ပွားရာ စော်ဘွားတို့ အရေးနိမ့်ကြလေသည်။

တပင်ရွှေထီး လွန်သောအခါ ဘုရင့်နောင်သည် ဟံသာဝတီ ထီးနန်းကို ဆက်ခံ၍ အင်းဝကို တိုက်ခိုက်အောင်နိုင်ပြီးသည့်နောက်တွင် မြန်မာ သက္ကရာဇ် ၉၁၉ ခုနှစ် (ခရစ် ၁၅၅၇–၅၈)မှ စတင်ပြီးလျှင် မြောက်ပိုင်း ရှမ်းပြည်ထောင်တို့ကို သိမ်းသွင်းခဲ့ရာ မိုးညှင်း၊ မိုးကောင်း၊ကသာ၊ ဗန်းမော်၊ ကလေး၊မိုးမိတ်၊ သီပေါ၊ သုံးဆယ်စသော စော်ဘွားတို့သည် မြန်မာမင်း၏ သစ္စာကို ခံယူကြရသည်။ ထိုနယ်တို့နှင့်အင်းဝကို တရုပ်အစိုးရက မိမိတို့လက်အောက်ခံနယ်များကဲ့သို့ ယူဆ ဆက်ဆံခဲ့သဖြင့် ထိုကဲ့သို့ ဘုရင့်နောင်က တိုက်ခိုက် သိမ်းသွင်းသောအခါ တရုပ်အစိုးရနှင့် အရေးပေါ်ခဲ့လေသည်။ ထို့ကြောင့် ဘုရင့်နောင်၏ တပ်များသည် ယူနန်နယ်တောင်ပိုင်းသို့ တိုင်အောင် ချဉ်နင်း တိုက်ခိုက်ခဲ့ရာ အောင်မြင်ခဲ့လေသည်။

နောက်တနှစ်တွင် ဘုရင့်နောင်၏ တပ်တို့သည် သံလွင်မြစ် အနောက်ဖက်ရှိ မိုးနဲ၊ ညောင်ရွှေ၊ ရပ်စောက်စသော စော်ဘွားနယ်များနှင့် ရွာင်၊ စကား၊ လဲချား၊ သာမိုင်းခမ်းစသော မြို့စားနယ်များကို သိမ်းသွင်းသည်။ နောက်နှစ်တွင်

ဇင်းမယ်၊ လပန်း၊ ဗြဲ၊ ကျိုင်းရဲနယ်တို့ကို တိုက်ခိုက် သိမ်းပိုက်သည်။ယင်းသို့ဖြင့် ခရစ်နှစ် ၁၅၅၆မှ သည် ၁၅၅၈ ခုနှစ်များအတွင်း ဘုရင့်နောင်သည် မြန်မာနိုင်ငံ မြောက်ပိုင်း သံလွင်မြစ် အနောက်ဖက် ဖြစ်သော ရှမ်းပြည် မြောက်ပိုင်းနှင့် တောင်ပိုင်းနယ်များ၊ ယိုးဒယားနိုင်ငံ မြောက်ပိုင်းနယ်များကို မြန်မာနိုင်ငံတော်အတွင်းသို့ ပေါင်းစည်း နိုင်ခဲ့လေသည်။

ဟံသာဝတီ ဆင်ဖြူများရှင် မင်းတရားကြီး၏ လက်နက်နိုင်ငံတော်တွင် ပါဝင်သော ရှမ်းပြည်ထောင်များမှာ အောက်ပါအတိုင်း ဖြစ်လေသည်။

ယခုအခါ တရုပ်နယ်စပ်ဖက်သို့ ကျရောက်၍ ရှမ်းတရုပ်နယ်များဖြစ်သော ကိုင်းမား၊ စန္ဒား၊ မိုးဝန်း၊ မိုးနား၊ ဟိုသာ၊ လာသာ၊ မိုင်းမော၊ စည်ခွင်ဟူသော မြောက် ရှမ်းရှစ်ပြည်ထောင်၊ ထိုနယ်များတွင် ဘုရင့်နောင်၏ မြန်မာရဲမက်များ တည်ထားခဲ့သော စေတီပုထိုးများ အထင်အရှားရှိခဲ့သည်ဟု ရာဇဝင်များ၌ ဖော်ပြသည်။

မိုးညှင်း၊ မိုးကောင်း၊ မိုးမိတ်၊ မိုးနဲ၊ သိန္နီ၊ သီပေါ၊ ညောင်ရွှေ၊ မိုးဗြဲ၊ ကလေး (သောင်သွပ်) နယ်တို့ကို ရှမ်းကိုးစော်ဘွားနယ်များဟု သီးခြားထားပြီးလျှင် ထိုနယ်ရှင် စော်ဘွားများကို စော်ဘွားကြီးများ၏ အစီးအနင်း အဆောင်အရွက်ပေးသည်။ နောင် မြန်မာမင်း အဆက်ဆက်တို့ကလည်း ထိုးရှိနန်းရှိ လက်နက်နိုင်ငံများအဖြစ် အသိအမှတ် ပြုလေသည်။

ယင်းတို့အပြင် မှန်နန်းရာဇဝင်၌ ဟံသာဝတီ ဆင်ဖြူများရှင်မင်း၏ လက်နက်နိုင်ငံတွင် ပါဝင်သော ပြည်များအဖြစ် အောက်ပါ ရှမ်းနယ်နှင့် ရှမ်းအနွယ် နယ်များကိုလည်း ဖော်ပြသည်။

(၁) ဗန်းမော်၊ (၂) မိုင်းလျှော်း၊ (၃) မိုင်းကိုင်၊ (၄) မိုင်းပတ်၊ (၅) ရပ်စောက်၊ (၆) နောင်မွန်၊ (၇) ကျိုင်းတုံ၊ (၈) ကျိုင်းရုံး၊ (၉) ကျိုင်းသေဉ်၊ (၁၀) မိုင်းလုံခပင်း၊ (၁၁) ဇင်းမယ်၊ (၁၂) လင်းဇင်း၊ (၁၃) မိုင်းစံ၊ (၁၄)အကျော်၊ သို့မဟုတ် ကျော်ပုဂံ၊ (၁၅) လဝိုက်၊ (၁၆) မျက်နှာမည်း၊ (၁၇) သောက္ကတဲ၊ (၁၈) ပိဿလောက်တို့အပြင် ကလေးနှင့် ကသည်းဟုန်း ရှမ်းစော်ဘွားတို့၏ မဏိပူရ ကသည်းပြည်လည်း ပါဝင်လေသည်။

ဘုရင့်နောင်၏သားတော် နန္ဒဘုရင်လက်ထက်တွင် လက်နက် နိုင်ငံတော် ပြိုအက်၍ လာရာ ရှမ်းပြည်နယ်တို့လည်း သီးခြား ခွဲထွက်ကြသည်။ သို့သော် ဘုရင့်နောင်၏ သားတော်တပါး ဖြစ်သော ညောင်ရမ်းမင်းလက်ထက်တွင် ရှမ်းပြည်မြောက်ပိုင်းနှင့်အလယ်ပိုင်း နယ်များကို ပြန်လည် သိမ်းသွင်းခဲ့လေသည်။ ညောင်ရမ်းမင်း၏ သားတော် အနောက်ဖက်လွန်မင်းနှင့် ထိုမင်း၏ညီတော် သာလွန်မင်းတို့၏ လက်ထက် လွန်ပြီးနောက်တွင် မြန်မာမင်းတို့ အရည်အချင်း ပျော့ညံ့လာသဖြင့် နိုင်ငံတော် ယိမ်းယိုင်လာသည်။ အင်းဝမြို့တွင် မင်းပြုသော ဟံသာဝတီရောက်မင်း ဟုလည်း ခေါ်သည့် မဟာဓမ္မရာဇာမင်း လက်ထက်တွင် မွန်တို့ အင်အားတောင့်လာ၍ အင်းဝကို တိုက်လာသဖြင့် အင်းဝပျက်သည်။ ထိုအခါ ရှမ်းပြည်နယ်များသည် အင်းဝ၏ သြဇာကို မခံတော့ပေ။ ဇင်းမယ်နယ်သည်လည်း သီးခြားခွဲထွက်လေသည်။ ယိုးဒယားနှင့် မဏိပူရတို့လည်း မြန်မာနိုင်ငံတွင်းသို့ ပင် ဝင်ရောက်တိုက်ခိုက် လုယက်ခြင်း ပြုလေသည်။ ယင်းသို့သော အပြိုပြိုအကွဲကွဲ ဖြစ်နေသည့် မြန်မာနိုင်ငံတော်ကို အလောင်းမင်းတရားကြီး အမည်ခံ ဦးအောင်ဇေယျသည် ပြန်လည် စုစည်းခဲ့ရာ ရှမ်းပြည်နယ်များကို ပြန်လည်တိုက်ခိုက် သိမ်းသွင်းခဲ့လေသည်။ ယင်းသည်မှစ၍ ကုန်းဘောင်ခေတ်အတွင်းတွင် ရှမ်းပြည်နယ်များ၏ လှုပ်ရှားမှုသည် နည်းပါး သွားလေသည်။

ကုန်းဘောင်ခေတ်အတွင်း မြန်မာသက္ကရာဇ် ၁၁၂၇ ခုနှစ်က အင်းဝ ဆင်ဖြူရှင် ထိုးမှတ်သော ရွှေဘို ဘုံစံတုလွတ်ကျောင်း ကျောက်စာတွင် လက်နက်နိုင်ငံတော်ကို တိုင်း ၁၆ တိုင်းခွဲ၍ ပြထားရာ၌ ရှမ်းနယ်နှင့် ရှမ်းအနွယ် နယ်များကို ဤသို့ ပိုင်းခြားဖော်ပြထားလေသည်။

၁။ တနသာရီ၊ ပိဿလောက်၊ ကမန်ပိုက်၊ သောက္ကတဲစသော ၇၉ မြို့တို့ဖြင့်တန်ဆာဆင်အပ်သော ဂျွမ်း ယိုးဒယားတို့ နေရာ ဒွာရဝတီဟူသော အရဇ္ဇပုရတိုင်း၊ (ယိုးဒယား)

၂။ ဗြဲ၊ အနန်း၊ ပရော၊ကျိုင်းသေည်၊ လပုန်းစသော ၅၇ မြို့တို့ဖြင့် တန်ဆာဆင်အပ်သော ယွန်းလူမျိုးတို့နေရာ ဇင်းမယ်ဟူသော ဟရိဘုဥ္စတိုင်း၊ (ဇင်းမယ်)

၃။ မိုင်းမည်း၊ မိုင်းသတ်၊ မိုင်းချိုင်၊ မိုင်းပိုင်စသော ၃၇ မြို့တို့ဖြင့် တန်ဆာဆင်အပ်သော ဂုံလူမျိုးတို့နေရာ ကျိုင်းတုံဟူသော ခေမာဝရတိုင်း၊

၄။ မိုင်းစဲ့(မိုင်းစံ)၊ကျိုင်းဟွန်၊ မိုင်းယတ်စသော ၁၂ မြို့တို့ဖြင့် တန်ဆာဆင်အပ်သော လူးလူမျိုးတို့နေရာ ကျိုင်းရုံးဟူသော မဟာနဂရတိုင်း၊

၅။ မိုင်းလုံး၊ မိုင်းကွန်၊ လောသွတ်၊ တိုက်ခံ၊ တေသန်၊ တေသိန်၊ မိုင်းဆံကြီး၊ မိုင်းဆံငယ်စသော ၁၀၀ သော မြို့တို့ဖြင့် တန်ဆာဆင်အပ်သော လင်းဇင်း လူမျိုးတို့နေရာ စန္ဒပူရီဟူသော လဝရဋ္ဌတိုင်း၊ (လောနိုင်ငံ)

၆။ မိုးနဲ၊ ညောင်ရွှေ၊ ရပ်စောက်၊ မိုးဗြဲ၊ သိန္နီ၊ ကိုင်းမား၊ သီပေါ၊ မိုးမိတ်၊ မိုင်းလုံး၊ သုံးဆယ်ဟူသော မြို့ကြီး အပေါင်းတို့ဖြင့် တန်ဆာဆင်အပ်သော စော်ဘွားအပေါင်းတို့နေရာဖြစ်သည့် ကမ္ဗောဇတိုင်း၊

၇။ မိုးတာ၊ မိုးစစ်၊ မိုးညှင်း၊ မိုးကောင်း၊ ခန္တီ၊ တက်ခေါင်၊ မိုင်းလုံဟူသော မြို့ကြီးအပေါင်းတို့ဖြင့် တန်ဆာဆင်အပ်သည့် ၃၀ သော ရှမ်းစော်ဘွားတို့နေရာဖြစ်သော အာဠဝီတိုင်း၊

၈။ မိုင်းမော၊ စည်ခွင်၊ ဟိုသာ၊ လာသာ၊ မိုးနား၊ စန္ဒား၊ မိုးဝန်းစသော မြို့ကြီးကိုးမြို့ဖြင့် တန်ဆာဆင်အပ်သော ရှမ်းတရုပ်လူမျိုးတို့နေရာ၊ မောကိုးခွင်ဟူသော မောရိယတိုင်း၊

၉။ ကကို၊ ဝိုင်း၊ ဆေးသစ်၊ ကောင်းစင်၊ ငရင်း၊ ငရှန်း၊ ယင်းကပ်ဟူသော မြို့ကြီးအပေါင်းတို့ဖြင့် တန်ဆာဆင်အပ်သော ဗန်းမော် ရှမ်းစော်ဘွားတို့ နေရာဖြစ်သော စိန့်တိုင်း၊

၁၀။ မိုးကုတ်၊ ကျတ်ပြင်၊ ရေလျှံစသော မြို့လတ်ရွာငယ်အပေါင်းတို့ဖြင့် တန်ဆာဆင်အပ်သော စိုသူကြီးတို့နေရာဖြစ်သော မဟိ သကတိုင်း၊

၁၁။ မွေးရည်၊ မည်ကယ်၊ စေင်ကျယ်စသော မြို့တို့ဖြင့် တန်ဆာဆင်အပ်သော ကသည်း ကုလား ဟုန်းစော်ဘွားတို့ နေရာ ဖြစ်သော မဏိပူရတိုင်း၊

၁၂။ ကလေး၊ သောင်သွပ်၊ ထီးလင်း၊ ယော၊ ဆော၊ စကု၊ စလင်း၊မဖဲ၊မင်းတုန်းစသော ၂၇ မြို့တို့ဖြင့် တန်ဆာဆင်အပ်သော သုနာပရန္တတိုင်း ဟူ၍ ဖြစ်ပေသည်။

မင်းတုန်းမင်းတရား နတ်ရွာစံပြီးနောက်တွင် ယခုတရုပ်နိုင်ငံအတွင်းရှိ ချေလီခေါ် ကျိုင်းရုံးကြီးနယ်၏ စော်ဘွားခန့်အပ်သည့် အရေးနှင့်စပ်လျဉ်း၍ ကျိုင်းတုံစော်ဘွားသည် စိတ်ဝမ်း ကွဲပြားကာ မြန်မာဘုရင် သီပေါမင်းအား ထောင်ထား ခြားနားသည်။ ထိုအရေးတွင် မိုးနဲ၊ မိုင်းနောင်နှင့် ရပ်စောက်စော်ဘွားတို့သည် ကျိုင်းတုံစော်ဘွားနှင့် တစိတ်တဝမ်းတည်းပူး၍ ပါဝင်ကူညီကြသည်။ ထိုစော်ဘွားစုတို့သည် မင်းတုန်းမင်း၏ တူတော်တပါး ဖြစ်သော လင်းပင်မင်းသားအား နန်းတင်ရန် ရည်မှန်းခဲ့ကြသည်။ နောင်အခါ မြေလပ်နယ်အချို့ကလည်း ပူးပေါင်း ပါဝင်သည်။ လင်းပင်အဖွဲ့သည် မိမိတို့နှင့် စိတ်ဝမ်း မညီသော ညောင်ရွှေ ကျေးသီး မန်စံ၊ မိုင်းလွန်းနှင့် လဲချားနယ်များကို တိုက်ကြသည်။ မြန်မာထပ်များကလည်း ထောင်ထား ခြားနားမှုကို လိုက်လံနှိပ်ကွပ်သော်လည်း များစွာ အရေးမလုခဲ့ပေ။ ထိုအချိန်တွင် အထက်မြန်မာနိုင်ငံကို ဗြိတိသျှ အစိုးရက သိမ်းပိုက်လိုက်လေသည်။

နောင်အခါ လင်းပင်အဖွဲ့သည်လည်း အားနည်းလာ၍ လင်းပင်မင်းသား ကိုယ်တိုင် အညံ့ခံရသည်။ ခရစ် ၁၈၈၇ ခုနှစ်တွင် သံလွင်မြစ် အနောက်ဖက်ရှိ စော်ဘွားနယ်များသည် အင်္ဂလိပ်လက်အောက်သို့ ဝင်ရောက်ကြရသည်။ သံလွင်မြစ် အရှေ့ဖက်ရှိ နယ်တနယ်ဖြစ်သော ကျိုင်းတုံသည် ၁၈၉၀ ပြည့်နှစ်တွင်မှ လက်နက်ချလေသည်။

မောက်မယ်၊ မိုင်းပန်နှင့် ကရင်နီနယ်များနှင့် စပ်လျဉ်း၍ ယိုးဒယား အစိုးရနှင့် ပြဿနာများ ပေါ်သည်။ ၁၈၈၉-၉၀ ပြည့်နှစ်တွင် အင်္ဂလိပ်နှင့် ယိုးဒယား နှစ်ဦးနှစ်ဖက် အဖွဲ့ဝင်များ ပါဝင်သော ကော်မီရှင်တခုကို ဖွဲ့စည်း၍ ထိုနယ်များ နယ်နိမိတ်ကို ပိုင်းခြား သတ်မှတ်ကာ ယိုးဒယားမပိုင်တော့သော အပိုင်းမှ ယိုးဒယားတပ်များကို ရုတ်သိမ်းစေသည်။ ၁၈၉၄-၅ ခုနှစ်တွင်လည်း ပြင်သစ်ပိုင် အင်ဒိုချိုင်းနား ပြည်နှင့် နယ်နိမိတ်ပိုင်းခြား သတ်မှတ်ကာ ကျိုင်းချိုင်းနယ်အားမဲခေါင်မြစ်ကို နယ်ခြား အဖြစ် ထားပြီးလျှင် မဲခေါင်မြစ် အနောက်ဖက်ကမ်းအပိုင်းကို ကျိုင်းတုံနယ်အတွင်းသို့ သွတ်သွင်း၍ အရှေ့ဖက်ကမ်းအပိုင်းကို အင်ဒိုချိုင်းနားအတွင်းသို့ သွတ်သွင်းသည်။ ကျိုင်းတုံနယ်နှင့် တရုပ်နိုင်ငံ နယ်နိမိတ်များကို ၁၈၉၉-၉၀ ခုနှစ်တွင် အင်္ဂလိပ်-တရုပ် နယ်နိမိတ်သတ်မှတ်ရေး ကော်မီရှင်က ပိုင်းခြား သတ်မှတ်ခဲ့လေသည်။

### အုပ်ချုပ်ရေး

ရှမ်းပြည်နယ်များသည် မြန်မာမင်းတို့၏ သစ္စာတော်ခံနယ်များ ဖြစ်ခဲ့သော်လည်း အစောပိုင်းတွင် စံနစ်တကျ အုပ်ချုပ်ခြင်းကိုမူ မခံခဲ့ရပေ။ သို့သော် ရှမ်းနယ်များက မြန်မာမင်းတို့အား အခွန်ပဏ္ဏာများကိုမူ ဆက်သခဲ့ရရာ ဆက်သမြဲအခွန်ပဏ္ဏာများမှာ ရွှေ၊ ငွေ၊ အသန့်သစ်စေး၊ မြင်း၊ သိုး၊ ကတိုး၊ အောင်း၊ ဖဲ၊ ဇာပယင်း၊မော်ယော၊ကတ္တီပါ၊မှိုင်းလုံး၊ ခဲမ၊ ဖယောင်း၊ ဆင်စွယ်၊ ကြေး၊ သံ၊ ကျောက်မျိုး၊ ထည်မျိုး၊ အုပ်မျိုးတို့ အပြင်၊ သစ်သီး၊ ပန်းကုံ့ကော်၊ သင်ဖြူးပန်းမျိုးတို့ကိုလည်း အချို့နယ်များက ဆက်သကြရလေသည်။

သာလွန်မင်းတရား လက်ထက် ခရစ်နှစ် ၁၆၃၇ ခုတွင် နိုင်ငံတော်၏ လူဦးရေ၊ အိမ်ခြေ၊ မြေအကျယ်အဝန်း၊ ထွက်သည့်သီးနှံ၊ ပေးဆောင်ရသည့် အခွန်အတုတ်တို့ကို စစ်ဆေးမှတ်တမ်းတင်ရာ ရှမ်းနယ်များကလည်း စစ်တမ်းများ ပေးရသည်။ ကုန်းဘောင်မင်းဆက် မင်းများတွင် အလောင်းမင်းတရား လက်ထက်မှတပါး အခြားမင်းများ လက်ထက်တွင်လည်း စစ်တမ်းများကို အရေးယူ ဆောင်ရွက်ကြလေသည်။

အမရပူရ ပဉ္စမ မြို့တည်နန်းတည် မင်းတရားကြီး (ဘိုးတော်ဘုရား) လက်ထက်တွင် ရှမ်းနယ်များကို အုပ်ချုပ်ပုံမှာ ရှမ်းနယ်ကြီးများတွင် စော်ဘွားထားသည်။ နယ်လတ်များတွင် မြို့စား၊ နယ်ငယ်များတွင် ငွေခွန်မှူးများ ထားသည်။ မြန်မာ နယ်ကြီးများကိုအုပ်ချုပ်ရသော ဘုရင်ခံများနှင့် စော်ဘွား အလားတူသည်။ ရှမ်းမြို့စားနှင့် မြန်မာမြို့စား အလားတူလေသည်။

သီပေါမင်းလက်ထက်တွင် ရှမ်းနယ်များအတွက် တပ်ရုံးသုံးရုံးထား၍ ခွဲခြား သတ်မှတ် အုပ်ချုပ်ရာ ထိုတပ်ရုံးများမှာ သိန္နီတပ်ရုံး၊ မိုးနဲတပ်ရုံး၊ မိုးဗြဲတပ်ရုံးဟူ၍ဖြစ်သည်။ ထိုတပ်ရုံးသုံးရုံးပိုင် နယ်များတွင် စော်ဘွား၊မြို့စား၊ မြို့ဝန်၊ မြို့အုပ်တို့အပေါ် မြန်မာအရာရှိကြီး သုံးဦးထား၍ အုပ်ချုပ်စေသည်။ ထိုအရာရှိကြီးများသည် စစ်ဗိုလ်များဖြစ်စေ၊ ဝန်ကြီး၊ ဝန်မှူး၊ ဝန်ထောက်ဖြစ်စေ၊ ယင်းတို့နှင့် အဆင့်အတန်း

တူ အရာရှိများဖြစ်စေ ခန့်ထား၍ ခန့်ထားခံရသူသည် ဆိုင်ရာ တပ်ရုံးသို့ သွားရောက် နေထိုင်ရသည်။ မြန်မာ လက်အောက်ခံ ရှမ်းနယ်များ အတော်ကလေး ကျယ်သေးစဉ်က ကျိုင်းရုံး၊ ကျိုင်းတုံ၊ ကျိုင်းသေည်ကြီး၊ မိုင်းလျှော်ကြီး များတွင် တပ်ရုံး၊ တပ်ဦးချုပ် သီးခြားထား၍ အုပ်ချုပ်ခဲ့သော်လည်း သီပေါမင်း လက်ထက်တွင် မဲခေါင်မြစ် အရှေ့ဖက်ကို လက်လွှတ်ရုံမက သံလွင်မြစ် အနောက်ဖက် ရှမ်းနယ်များကိုပင် မပိုင်တပိုင် ဖြစ်လာသည်။ ထို့ကြောင့် ထိုနယ်များတွင် တပ်ရုံးများ မထားတော့ချေ။ မန္တလေးမြို့တည် မင်းတုန်းမင်းတရား လက်ထက်တိုင်အောင် ကျိုင်းရုံး၊ ကျိုင်းတုံ၊ ကျိုင်းချိုင်းနယ်တို့က သုံးနှစ်တကြိမ်၊ နှစ်နှစ်တကြိမ်၊ တနှစ်တကြိမ် အခွန်ပဏ္ဏာများ ဆသက်မြဲ ဆက်သခဲ့သော်လည်း သီပေါမင်း လက်ထက်တွင်မူ ဆက်သမြဲ မဆက်သတော့ချေ။

အထက်တွင် ဖော်ပြခဲ့သော တပ်ရုံးသုံးရုံးသည် မြန်မာမင်း သြဇာခံ ရှမ်းနယ်အားလုံးကို အုပ်ချုပ်ရသည် မဟုတ်ပေ။ တောင်ပိုင်၊ မိုးမိတ်၊ ဝန်းသို၊ သောင်သွပ်၊ ကလေးမြို့များတွင် စော်ဘွားထားသော်လည်း ဦးတိုက်ထမ်း မှတ်သား၍ သီးခြား ဆင့်ဆိုအုပ်ချုပ်သည်။ စော်ဘွား မထားတော့သော မိုးညှင်း၊ မိုးကောင်း၊ ဗန်းမော် စသောမြို့များကို မြန်မာမြို့ရွာများတွင် အပါအဝင် ပြု၍ အဝေးမြို့ဝန်များ ခန့်ထား အုပ်ချုပ်လေသည်။

တပ်ရုံးများတွင် သွားရောက် နေထိုင် အုပ်ချုပ်ရသော မြန်မာ အရာရှိကြီးများကို စစ်ကဲတော်ကြီးဟု ခေါ်သည်။ ထိုစစ်ကဲတော်ကြီးများကို ဗိုလ်မှူးတဦးက တဖန် အုပ်ချုပ်ရသည်။ ထိုဗိုလ်မှူးများ အုပ်ချုပ်ရာတွင် မင်းညီမင်းသား ဝန်ထောက်များကို ခန့်ထားလေ့ရှိသဖြင့် ဗိုလ်မှူး မင်းသားဟု ခေါ်သည်။ ထိုဗိုလ်မှူးမင်းသားသည် အချက်အချာကျသော မိုးနဲမြို့တွင် ရုံးစိုက်လေသည်။ ဗိုလ်မှူးမင်းသားလက်အောက်တွင် တပ်သား ၁၀၀၀ ခန့်ပါသော တပ်ရှိ၍ ထိုတပ်ကို စစ်ကဲတော်ကြီး၊ နားခံကြီး၊ ဗိုလ်ခေးရဲ စသော အရာရှိများက ဆင့်ကဲ ဆင့်ကဲ အုပ်ချုပ်ရလေသည်။ စော်ဘွားများလည်း ခေးပိုင်သည်ဖြစ်၍ အမိန့်တော်မခံဘဲ လူသတ်နိုင်သည်။ သို့သော် ဗိုလ်မှူးမင်းသားသည် စော်ဘွားများ အထက်က ဖြစ်လေသည်။

စော်ဘွား ဟူသည်မှာ ရှမ်းဘာသာဖြင့် 'စဝ်'နှင့် 'ဖ'ဟူသော စကားနှစ်လုံး ပေါင်းစပ်ထားခြင်းမှ ဆင်းသက်လာသည်။ 'စဝ်'သည် "ပိုင်ဆိုင်သူ"ဟု အဓိပ္ပာယ်ရသည်။ 'စဝ်' နှင့် 'ဖ' ကို ပေါင်းစပ်သောအခါ "မိုးကောင်းကင်တမျှ မြင့်မြတ်သော ပိုင်ဆိုင်ခြင်း (ပိုင်ရှင်)"ဟူ၍ အဓိပ္ပာယ်ဆောင်ပေသည်။ တနည်းအားဖြင့် ဆိုရသော် "ကောင်းကင်တမျှ ပိုင်ဆိုင်သူ (အရှင်)"ဟူ၍ ဖြစ်ပေသည်။

မြန်မာမင်းများက စော်ဘွားများအား ပဒေသရာဇ်မင်းငယ်များ အနေနှင့် ခွင့်ပြုခဲ့သဖြင့် စော်ဘွားတို့သည် ပဒေသရာဇ်မင်းငယ်များ၏ အဆောင်အယောင် အစီးအနင်းများကို အသုံးပြုနိုင်ကြပြီးလျှင် ပဒေသရာဇ်မင်းငယ်များကဲ့သို့ ပြုမူနေထိုင်ခဲ့ကြသည်။ စော်ဘွားတို့သည် မိမိတို့၏ ရိုက်ရာကို ဆက်ခံရန် သားတော်၊ ညီတော်၊ တူတော်များ အနက်မှ သင့်လျော်ရာ တဦးဦးကို ထီးရုံနန်းရုံအဖြစ် ရွေးချယ်ထား၍ ယင်းကို ကျမိုင်းဟု ခေါ်သည်။ ဗြိတိသျှ အစိုးရလက်ထက်တွင်မူ ကျမိုင်းအဖြစ် ရွေးချယ်ထားသူကို ဝန်ရှင်တော်မင်းကြီးနှင့် ဘုရင်ခံတို့ သဘောတူညီချက် ရပြီးမှသာလျှင် ခန့်ထားနိုင်လေသည်။

မြန်မာနိုင်ငံအား ဗြိတိသျှတို့ သိမ်းပိုက်ပြီးနောက် ၁၈၈၆ ခုနှစ်၊ မေလ ၄ ရက်နေ့တွင် ရှမ်းနယ်များအား အိန္ဒိယပြည်နယ်အဖြစ် သိမ်းပိုက်ကြောင်း ဗြိတိသျှအစိုးရ ကြေညာသည်။ ၁၈၈၇ ခုနှစ်တွင် ရှမ်းနယ်များအား အောက်ပါအတိုင်း ပိုင်းခြား အုပ်ချုပ်သည်။

၁။ ရှမ်းပြည် မြောက်ပိုင်း (ရှမ်းပြည် ဥတ္တရတိုင်း ဝန်ရှင်တော်မင်းကြီး လက်အောက်ခံ)

၂။ ရှမ်းပြည် တောင်ပိုင်း (ဒက္ခိဏတိုင်း ဌာနချုပ်ဝန်နှင့် နိုင်ငံရေးအရာရှိ လက်အောက်ခံ)

၃။ မြေလပ်ပိုင်း (ဒက္ခိဏတိုင်း ဌာနချုပ်ဝန်နှင့် နိုင်ငံရေးအရာရှိ လက်အောက်ခံ) ဟူ၍ ဖြစ်လေသည်။

၁၉၂၂ ခုနှစ် အောက်တိုဘာလ ၁ ရက်နေ့တွင် ရှမ်းနယ်များကို ပဒေသရာဇ် ရှမ်းပြည်နယ်စုဟု ခေါ်တွင်စေရန် ဘုရင်ခံချုပ်က ထုတ်ပြန် ကြေညာသည်။ မြောက်ပိုင်း၊ တောင်ပိုင်းနှင့် မြေလပ် ပဒေသရာဇ် ရှမ်းနယ်များဟူ၍ အောက်ပါအတိုင်း ခွဲခြားပြီးလျှင် နယ်၏ အကျယ်အဝန်းကို လိုက်၍ စော်ဘွား မြို့စား၊ နယ်စားများအား အသီးအသီး အုပ်ချုပ်စေသည်။

မြောက်ပိုင်း၌ စော်ဘွား အုပ်ချုပ်သော နယ်များမှာ–

(၁) သီပေါနယ်
(၂) တောင်ပိုင်နယ်
(၃) မြောက်သိန္နီနယ်
(၄) တောင်သိန္နီနယ်
(၅) မိုးမိတ်နယ်
(၆) မိုင်းလွှန်းနယ်

တို့ ဖြစ်ကြလေသည်။

တောင်ပိုင်း၌ စော်ဘွား နယ်များမှာ

(၁) ကျိုင်းတုံနယ်
(၂) မိုးနဲနယ်
(၃) ညောင်ရွှေနယ်
(၄) မိုးဗြဲနယ်
(၅) ရပ်စောက်နယ်
(၆) လဲချားနယ်
(၇) မောက်မယ်နယ်
(၈) မိုင်းပန်နယ်
(၉) မိုင်းပွန်နယ်
(၁၀) စံကားနယ်
(၁၁) မိုင်းကိုင်နယ်

တို့ဖြစ်ကြသည်။



ပြည်ထောင်စုမြန်မာနိုင်ငံတွင် ခေတ်အမှီဆုံး ဆေးရုံတခုဖြစ်သည့် တောင်ကြီးမြို့ရှိ စဝ်စံထွန်း ဆေးရုံကြီး

စော်ဘွားနယ်များမှာ နှစ်စားရှိသည်။ စော်ဘွားကြီးနှင့် စော်ဘွားဟု ခွဲခြားထားပြီးလျှင် မောက်မယ်နယ်၊ မိုင်းပန်နယ်၊ မိုင်းပွန်နယ်၊ စံကားနယ်နှင့် မိုင်းကိုင်နယ်များသည် ဟော်နန်းမပိုင် ရာဇပလ္လင်နှင့် စော်ဘွားရာထူးရရှိကြသည်။

အောက်ပါ မြို့စားနယ်များသည် တောင်ပိုင်း၌ ပါဝင်ကြလေသည်။

(၁) နန်းခုတ်နောင်မွန်နယ် (၇) ဘန်းယဉ်နယ်
(၂) မိုင်းနောင်နယ် (၈) ဟိုပုန်းနယ်
(၃) ဘော်နယ် (၉) စကွယ်နယ်
(၄) ကျေးသီးမန်စံနယ် (၁၀) သာမိုင်းခမ်းနယ်
(၅) ပင်လောင်း(လွယ်လုံနယ်) (၁၁) မိုင်းရှူးနယ်
(၆) သထုံ (ဆီဆိုင်နယ်) (၁၂) ပွေးလှနယ်

မြေလပ်ပိုင်းတွင်ရှိကြသော ရွာင်၊ ပင်းတရ၊ ပင်မှို၊ ကျူးနယ်တို့သည် ငွေခွန်မှူးများ အုပ်ချုပ်သော နယ်များ ဖြစ်ကြလေသည်။

ရှမ်းပြည်မြောက်ပိုင်းမှ ကိုးကန့်နယ်သည် မြို့စားနယ် ဖြစ်သည်။ ယခင်က သိန္နီစော်ဘွား လက်အောက်ခံ နယ်တနယ်ဖြစ်ခဲ့သော်လည်း ဒုတိယကမ္ဘာစစ် မတိုင်မီကာလတွင် အကြောင်းကြောင်းတို့ကြောင့် ဗြိတိသျှ အစိုးရက မြောက်သိန္နီစော်ဘွားအား ထိုနယ်ကို အုပ်ချုပ်ခွင့် မပြုတော့ပေ။ ဒုတိယ ကမ္ဘာစစ်ပြီးကာလတွင်မူ သီးခြား မြို့စားနယ်တနယ်အဖြစ် ထားရှိခဲ့သည်။နယ်သူနယ်သားများသည် များသောအားဖြင့် တရုပ်လူမျိုးများသာလျှင် ဖြစ်ကြ၍ မြို့စားသည် ရှမ်းတရုပ်အနွယ် ဖြစ်လေသည်။

နယ်များ၏ အကျယ်အဝန်းသည် အမျိုးမျိုးအစားစားဖြစ်ရာ ကျိုင်းတုံနယ်သည် အကြီးဆုံးဖြစ်၍ စတုရန်းမိုင် ၁၂,၀၀၀ ကျော်ကျယ်ဝန်းသော်လည်း အငယ်ဆုံးဖြစ်သော ကျူးနယ်သည် ၂၄ စတုရန်းမိုင်မျှသာ ရှိလေသည်။

ဗြိတိသျှ အစိုးရတို့၏ မြောက်ပိုင်းဌာနချုပ် ရုံးစိုက်မြို့ဖြစ်သော လားရှိုး၊ တောင်ပိုင်း ဌာနချုပ်ရုံးစိုက်မြို့ ဖြစ်သော တောင်ကြီး၊ နွေရာသီစခန်းမြို့များဖြစ်သော တောင်ပိုင်းမှ ကလောနှင့် လွိုင်လင်မြို့များသည် ပဒေသရာဇ် ရှမ်းနယ်များအတွင်း တည်ရှိသော်လည်း ဗြိတိသျှ အစိုးရ အရာရှိကြီးငယ်များ နေထိုင်ရာမြို့များဖြစ်သဖြင့် စော်ဘွား၊ မြို့စားတို့ အုပ်ချုပ်ပိုင်ခွင့် မရှိချေ။ ပြည်မရှိ မြို့ကြီးများကဲ့သို့ မြို့၏ စည်ပင်သာယာရေးကို မြို့ပြကော်မီတီများက အုပ်ချုပ်

သည်။ ထိုမြို့များ၏ မျူနီစီပယ် ဧရိယာအတွင်း၌ ပြည်မ၏ ရာဇဝတ်ကျင့်ထုံး ဥပဒေများ၊ တရားမ ဥပဒေများဖြင့် ဆိုင်ရာအရာရှိတို့က အုပ်ချုပ်သကဲ့သို့ ကျန်ပဒေသရာဇ်နယ်များတွင် နယ်ရှင် စော်ဘွားနှင့် မြို့စားတို့က ဆိုင်ရာနယ်များ၌ ပြည်မ၏ ရာဇဝတ်ကျင့်ထုံးဥပဒေများ၊ တရားမဥပဒေများအပြင် ရှမ်းပြည်ဓလေ့ ဥပဒေများဖြင့် အသီးအသီး စိုးမိုးခဲ့ကြသည်။

မြို့စားနှင့်ငွေခွန်မှူးများသည် တရားမနှင့်ရာဇဝတ် တရားစီရင်ရေး အခွင့်အာဏာတွင် ဒုတိယတန်း တရားသူကြီး အဆင့်အတန်းမျှသာရှိသည်။အချို့စော်ဘွားနယ်ကြီးများတွင် ဆိုင်ရာနယ်ရှင်ကို ကူညီရန် အမတ်ချုပ်ကြီး (ရာဇဝတ်မှု-တရားမအပါအဝင်)၊ တရားရေးရာဌာနအမတ်၊ အခွန်တော်ဌာနအမတ်၊ နယ်ဝန်၊ ငွေတိုက်ဝန် စသည်ဖြင့် လစာရိက္ခာစား အရာရှိများ ခန့်ထားသည်။ ထိုပြင် ရိုးရာအစဉ်အဆက်အားဖြင့် ခန့်ထားရသည့် ဟိန်၊ ထမုံ၊ ကျယ် စသော သူကြီးအဆင့်အတန်းမျိုးရှိသည့် ကျေးလက်ပိုင်းမှ အုပ်ချုပ်သူအကြီးအကဲများလည်း ရှိပေသေးသည်။

၁၉၂၂ ခုနှစ်တွင် ပဒေသရာဇ် ရှမ်းပြည်နယ်စုကို ဖွဲ့စည်းပြီးနောက် ပဒေသရာဇ်ကောင်စီ အဖွဲ့ကို တည်ထောင်သည်။ ကောင်စီအဖွဲ့၏ ဥက္ကဋ္ဌသည် တောင်ပိုင်း ရှမ်းပြည်နယ်၏ ဌာနချုပ်ဝန်ဖြစ်သော ဝန်ရှင်တော် မင်းကြီးဖြစ်၍ ဒုတိယဥက္ကဋ္ဌသည် မြောက်ပိုင်းဌာနချုပ်ဝန် ဖြစ်သည်။ ယင်းတို့သည် ဗြိတိသျှ အစိုးရကို ကိုယ်စားပြုသော အကြီးမြင့်ဆုံး ဗြိတိသျှ အရာရှိကြီးများ ဖြစ်သည်။ စော်ဘွား၊ မြို့စား၊ ငွေခွန်မှူးများသည် ထိုအဖွဲ့၌ အဖွဲ့ဝင်များ အဖြစ် ပါဝင်ကြလေသည်။

မြန်မာပြည်အား ဒိုင်အာခီ အုပ်ချုပ်ရေးစနစ်ဖြင့် ပြောင်းလဲအုပ်ချုပ်သောအခါ ဗြိတိသျှ အစိုးရသည် ပဒေသရာဇ် ရှမ်းနယ်များအား မတိုးတက်သေးသော နယ်များ အဖြစ် ဆက်လက် ထားရှိကာ မြန်မာပြည်တွင်းသို့ မသွတ်သွင်းခဲ့ပေ။ သို့သော် ရှမ်းနယ်များ အုပ်ချုပ်ရေးအတွက် ပြည်မ၌ ၉၁ ဌာန အုပ်ချုပ်ရေး ရရှိလာသည်အထိ ပြည်မ၏ ငွေကြေး အထောက်အပံ့ကို အမှီပြုခဲ့ရလေသည်။

ဒုတိယ ကမ္ဘာစစ်ကြီး အပြီးတွင် မြန်မာနိုင်ငံ လွတ်လပ်ရေးအတွက် ကြိုးပမ်းကြသောအခါ ရှမ်းအမျိုးသားတို့သည်လည်း မြန်မာပြည်ဘွားအခြားတိုင်းရင်းသားများ နည်းတူ သွေးစည်း ညီညွတ်စွာဖြင့် ပူးပေါင်းဆောင်ရွက်ခဲ့ကြသည်။ လွတ်လပ်ရေး ရအံ့ဆဲဆဲတွင် မသမာသူတို့၏ လက်ချက်ဖြင့် ဗိုလ်ချုပ်အောင်ဆန်း အမှူးပြုသော အမျိုးသား ခေါင်းဆောင်ကြီးများ ကျဆုံးရာ၌ ရှမ်းအမျိုးသား မိုင်းပွန် စော်ဘွားကြီးလည်း ပါဝင်ခဲ့လေသည်။

၁၉၄၇ ခုနှစ် ဖေဖွာရီလ ၇ ရက်နေ့၌ ပဒေသရာဇ်ကောင်စီကို ဖျက်သိမ်း၍ လူထုကိုယ်စားလှယ်များ ပါဝင်သော ရှမ်းပြည်နယ်ကောင်စီ အဖြစ်သို့ ကူးပြောင်းသော အချိန်ကာလ သတ်မှတ်နိုင်ခဲ့သော နေ့ထူးနေ့မြတ်ကြီးကို ရှမ်းအမျိုးသားနေ့ဟု ခေါ်တွင်ခဲ့သည်။

လွတ်လပ်သော ပြည်ထောင်စု မြန်မာနိုင်ငံတော် ပေါ်ပေါက်ရန် စတင်ပန္နက်ချသော နေရာသည် ရှမ်းပြည်တောင်ပိုင်း၊ လဲချားနယ်ရှိ ပင်လုံမြို့ကလေး ဖြစ်ပေသည်။ ပြည်မ ခေါင်းဆောင်များနှင့် တောင်တန်းဒေသ ခေါင်းဆောင်များသည် တိုင်းရင်းသား သွေးစည်း ညီညွတ်ရေးအတွက် ညီလာခံ ကျင်းပပြီးလျှင် လွတ်လပ်သော ပြည်ထောင်စု မြန်မာနိုင်ငံကြီး ထူထောင်ရန်သဘောတူကြောင်း ၁၉၄၇ ခုနှစ် ဖေဖွာရီလ ၁၂ ရက်နေ့၌ လက်မှတ်ရေးထိုးခဲ့ကြရာ ပြည်ထောင်စုစိတ်ဓာတ်ပေါ်ပေါက်ခဲ့သည့် ထိုနေ့ထူးနေ့မြတ်ကို ပြည်ထောင်စုနေ့အဖြစ် သတ်မှတ်ခဲ့လေသည်။ (ပြည်ထောင်စုနေ့ — ရှု။)

၁၉၄၈ ခုနှစ် ဇန္နဝါရီလ ၄ ရက်နေ့တွင် မြန်မာနိုင်ငံသည် လွတ်လပ်သော အချုပ်အခြာ အာဏာပိုင် သမတနိုင်ငံ ဖြစ်လာသောအခါ ညောင်ရွှေ စော်ဘွားကြီး စဝ် ရွှေသိုက်အား ပြည်ထောင်စုမြန်မာနိုင်ငံ၏ အထွတ်အထိပ် ပဌမဆုံး သမတအဖြစ် တင်မြှောက်ခဲ့ကြလေသည်။

မြန်မာနိုင်ငံ လွတ်လပ်ပြီးသည့် နောက်တွင် အုပ်ချုပ်ပုံစနစ် ပြောင်းလဲခဲ့ရာ ရှမ်းနယ်များအုပ်ချုပ်ရေးလည်း တပုံစံပြောင်းခဲ့သည်။ ပဒေသရာဇ် ရှမ်းပြည်နယ်ဟု မခေါ်တွင်တော့ဘဲ ရှမ်းနယ်များတွင် ဝနယ်များကိုပါ ပူးပေါင်း ထည့်သွင်းကာ ရှမ်းပြည်နယ်ဟု ခေါ်တွင်စေပြီးလျှင် ပြည်ထောင်စု၏ ပြည်နယ်တခု အဖြစ်ဖြင့် အခြေခံ ဥပဒေ အပိုဒ် ၅ အရ သတ်မှတ်ပေးလိုက်လေသည်။

ပြည်ထောင်စု၏ ပြည်နယ်တခု ဖြစ်လာပြီးသည့်နောက်တွင် ရှမ်းပြည်နယ် အုပ်ချုပ်ရေးအတွက် ရှမ်းပြည်နယ်ကောင်စီဟူ၍ ဖွဲ့စည်းကာ အုပ်ချုပ်ရေး အသွင်ပြောင်းလိုက်သည်။ ထိုကောင်စီသည် ပြည်နယ်၏ ပါလီမန်ကလေးဖြစ်သည်။ ယင်းတွင် ရှမ်းပြည်နယ်ကို ကိုယ်စားပြုသော လူမျိုးစု လွှတ်တော်အမတ် ၂၅ ဦးနှင့် ရှမ်းပြည်နယ်၏ လူဦးရေအလိုက် ပြည်သူ့လွှတ်တော်သို့ ရွေးကောက်တင်မြှောက်ခံရသော အမတ် ၂၅ ဦး ပါဝင်သည်။ ကောင်စီ၏ ဥက္ကဋ္ဌ၊ သို့မဟုတ် ရှမ်းပြည်နယ်၏ ဥက္ကဋ္ဌကို ပြည်ထောင်စုဝန်ကြီးချုပ်က ပြည်နယ်ကောင်စီနှင့် တိုင်ပင်၍ ခန့်အပ်သည်။ ပြည်နယ်ဥက္ကဋ္ဌသည် ပြည်ထောင်စု အစိုးရ အဖွဲ့တွင် ရှမ်းပြည်နယ်ဆိုင်ရာ ဝန်ကြီး ဖြစ်လေသည်။ ပြည်နယ်ကောင်စီသည် ပြည်နယ်ဆိုင်ရာ ဥပဒေများကို ပြုစု၍ ပြည်နယ်ဆိုင်ရာ အုပ်ချုပ်ရေး၊ လုံခြုံရေး၊ ပညာရေး၊ ကျန်းမာရေး၊ တရားစီရင်ရေး၊ ဒေသန္တရ အုပ်ချုပ်ရေး စသည်တို့ကို ဆောင်ရွက်ရသည်။

နိုင်ငံခြားနှင့် ဆက်သွယ်ရေး၊ လမ်းပန်း ဆက်သွယ်ရေး စသည်တို့ကိုမူ ပြည်ထောင်စုအစိုးရက ဆောင်ရွက်လေသည်။

ပြည်ထောင်စု အခြေခံ ဥပဒေရေးဆွဲစဉ်က ရှမ်းစော်ဘွားများ၏ ပဒေသရာဇ် အာဏာ အခွင့်အရေးနှင့် အုပ်ချုပ်ရေး နယ်အပိုင်းအခြားတို့ကို ဖြိတိသျှ လက်ထက်က အတိုင်း ထားရှိခဲ့သည်။ လူမျိုးစုလွှတ်တော်သို့ တင်မြှောက်သော ရှမ်းပြည် အမတ်များကို စော်ဘွားအချင်းချင်း ရွေးကောက်တင်မြှောက်ခွင့် ပြုခဲ့လေသည်။ ထို့ကြောင့် ရှမ်းပြည်နယ် အုပ်ချုပ်ရေးသည် နယ်ရှင်စော်ဘွားများသာလျှင် လွှမ်းမိုးကြီးစိုးရာ ဖြစ်ခဲ့သည်။ လွတ်လပ်ရေး မရမီကလေးတွင် စော်ဘွားကြီးများက ခေါင်းဆောင်၍ စော်ဘွား အသင်းဟူ၍ တည်ထောင်ပြီးလျှင် မြို့စားများ၊ ငွေခွန်မှူးများကိုပါ စော်ဘွားအဆင့်အတန်းသို့ သိမ်းသွင်းခြင်း အလို့ငှာ နယ်ရှင် အားလုံး 'စဝ်ဖလို' ဟု ခေါ်တွင်စေရန် သတ်မှတ်ခဲ့လေသည်။

ပြည်ထောင်စု မြန်မာနိုင်ငံအတွင်း ပြည်မ၌ ဒီမိုကရေစီနည်းအရ အုပ်ချုပ်လျက် ရှိနေစဉ် ရှမ်းပြည်နယ်တွင် ပဒေသရာဇ်စံနစ် တည်တံ့နေသေးခြင်းသည် ခေတ်နှင့် မလျော်ညီခဲ့ပေ။ ထို့ကြောင့် ရှမ်းပြည်နယ်၌ ဒီမိုကရေစီ စံနစ်ကို သွတ်သွင်းရန် ပြည်ထောင်စု အစိုးရနှင့် ပြည်နယ်အစိုးရတို့ ဆွေးနွေး လာခဲ့ရာ ၁၉၅၂ ခုနှစ်တွင် နယ်ရှင် စော်ဘွားများက အုပ်ချုပ်ရေး အာဏာကို စွန့်လွှတ်ရန် သဘောတူညီခဲ့ကြသော်လည်း အကြောင်းကြောင်းတို့ကြောင့် အာဏာစွန့်လွှတ်ရေးသည် အကောင်အထည် မပေါ်ခဲ့ပေ။

၁၉၅၉ ခုနှစ်တွင် ဗိုလ်ချုပ်ကြီးနေဝင်း၏ အိမ်စောင့် အစိုးရလက်ထက်၌ နယ်ရှင်စော်ဘွားများသည် အုပ်ချုပ်ရေး အာဏာစွန့်လွှတ်ကြောင်းကို ထိုနှစ် ဧပြီလ ၂၄ ရက်နေ့တွင် လက်မှတ်ရေးထိုး၍ ၂၇ ရက်နေ့တွင် ရှမ်းပြည်နယ် ကောင်စီက အတည်ပြုလိုက်ခြင်းကြောင့် ပြည်နယ်တွင် ရာစုနှစ်ပေါင်းများစွာ အမြစ်တွယ်ခဲ့သော ပဒေသရာဇ်စံနစ်ကို ဖြုတ်တောက်၍ ပြည်သူ့ အုပ်ချုပ်ရေး ပန္နက်ကို စိုက်ထူလိုက်ကြလေသည်။

ယင်းသို့ စော်ဘွားများ အာဏာစွန့်လွှတ်ပြီးနောက်တွင် အောက်ပါအတိုင်း ခရိုင်၊ ခရိုင်ခွဲ၊ မြို့နယ်များ ဟူ၍ ပိုင်းခြားပြီးလျှင် ပြည်မကဲ့သို့ အုပ်ချုပ်ရေး စံနစ်များ ထွင်လိုက်လေသည်။

ရှမ်းပြည်မြောက်ပိုင်းတိုင်းတွင်အောက်ပါတို့ ပါဝင်သည်။

| | |
|---|---|
| ၁။ လားရှိုးခရိုင် (ရုံးစိုက်-လားရှိုးမြို့) | (၁) မြောက်သိန္နီနယ် |
| | (၂) တောင်သိန္နီနယ် |
| | (၃) သီပေါနယ် |
| ၂။ ကျောက်မဲခရိုင် (ရုံးစိုက်-ကျောက်မဲမြို့) | (၁) သီပေါနယ် |
| | (၂) တောင်ပိုင်နယ် |
| | (၃) မိုးမိတ်နယ် |
| ၃။ ရှမ်းပြည်အရှေ့မြောက် အထူးခရိုင် | (၁) ကိုးကန့်နယ် |
| | (၂) မိုင်းလွန်းနယ် |
| | (၃) ဝနယ်များ |

လားရှိုးခရိုင်နှင့် ကျောက်မဲခရိုင်တို့ကို ပေါင်းစပ်၍ ရှမ်းပြည်မြောက်ပိုင်းတိုင်းဟူ၍ သတ်မှတ်ကာ အထူး တိုင်းမင်းကြီးတဦးက ဆိုင်ရာခရိုင်ဝန်၊ နယ်ပိုင်၊ မြို့ပိုင်စသော အုပ်ချုပ်ရေးအရာရှိများဖြင့် ကြပ်မတ် အုပ်ချုပ်သည်။ လားရှိုးမြို့သည် အထူးတိုင်းမင်းကြီး၏ ရုံးစိုက်မြို့ဖြစ်လေသည်။

ရှမ်းပြည်တောင်ပိုင်း၏ ခရိုင်နှင့် နယ်များမှာ အောက်ပါအတိုင်း ဖြစ်လေသည်။

| | |
|---|---|
| ၁။ တောင်ကြီးခရိုင် (ရုံးစိုက်-တောင်ကြီးမြို့) | (၁) ညောင်ရွှေနယ် |
| | (၂) ရပ်စောက်နယ် |
| | (၃) မိုင်းပွန်နယ် |
| | (၄) စံကားနယ် |
| | (၅) နန်းခုတ်နယ် |
| | (၆) နောင်မွန်နယ် |
| | (၇) လွယ်လုံနယ် |
| | (၈) သထုံနယ်(ဆီဆိုင်) |
| | (၉) ဘန်းယဉ်နယ် |
| | (၁၀) စကွယ်နယ် |
| | (၁၁) ဟိုပုန်းနယ် |
| | (၁၂) သာမိုင်းခမ်းနယ် |
| | (၁၃) ပွေးလှနယ် |
| | (၁၄) ဘော်နယ် |
| | (၁၅) ရွာင်နယ် |
| | (၁၆) ပင်းတရနယ် |
| | (၁၇) ပင်မှိနယ် |
| | (၁၈) ကျုံးနယ် |
| ၂။ လွိုင်လင်ခရိုင် (ရုံးစိုက်-လွိုင်လင်မြို့) | (၁) မိုးနဲနယ် |
| | (၂) မိုင်းပန်နယ် |
| | (၃) မောက်မယ်နယ် |
| | (၄) မိုင်းကိုင်နယ် |
| | (၅) မိုင်းနောင်နယ် |
| | (၆) မိုင်းရှုနယ် |
| | (၇) ကျေးသီးမန်စံနယ် |
| | (၈) လဲချားနယ် |
| | (၉) ရေဦးနယ် |
| ၃။ ရှမ်းပြည်အရှေ့ပိုင်းခရိုင် | (၁) ကျိုင်းတုံနယ် |

ဟူ၍ဖြစ်သည်။ တောင်ကြီး ခရိုင်နှင့် လွိုင်လင် ခရိုင်တို့ကို ပေါင်းစပ်၍ ရှမ်းပြည်တောင်ပိုင်းတိုင်းဟု သတ်မှတ်ကာ



**ရှမ်းပြည်နယ် မန္တလေး-လားရှိုး ရထားလမ်းရှိ ဂုတ်ထိပ်တန်တားသည် လှပထင်ရှားသော ကမ္ဘာကျော် တန်တားကြီးဖြစ်သည်။**

တိုင်းမင်းကြီး တဦးက ဆိုင်ရာ လက်အောက်ခံ အရာရှိများနှင့် ကြပ်မတ် အုပ်ချုပ်သည်။ တိုင်းမင်းကြီး၏ ရုံးစိုက်မြို့သည် တောင်ကြီးမြို့ဖြစ်၍ တောင်ကြီးမြို့သည် ရှမ်းပြည်နယ်တခုလုံး၏ မြို့တော်လည်း ဖြစ်လေသည်။

လမ်းပန်း ဆက်သွယ်ရေး အခက်အခဲကြောင့် လူမှုရေးတွင် အနိမ့်ကျဆုံး အခြေအနေသို့ ရောက်ရှိနေသည့် ရှမ်းပြည်မြောက်ပိုင်းမှ ဝနယ်များ၊ ကိုးကန့်နယ်၊ မိုင်းလွန်းနယ်၊ ပန်းဆန်းဒိုင်မြို့စား နယ်တို့ကို နယ်သူနယ်သားများ၏ တိုးတက်ဖွံ့ဖြိုးရေးနှင့် လုံခြုံရေးအတွက် ပြည်ထောင်စု အစိုးရက တိုက်ရိုက် အုပ်ချုပ်သော နယ်ခြားဒေသ အုပ်ချုပ်ရေးသို့ ၁၉၆၀ ပြည့်နှစ် ဇန္နဝါရီလ ၂ ရက်နေ့တွင် ထည့်သွင်းသည်။ ထိုနည်းတူစွာ ၁၉၆၃ ခုနှစ် ဇန္နဝါရီလ ၁ ရက်နေ့ (တော်လှန်ရေးကောင်စီ အစိုးရလက်ထက်)တွင် ရှမ်းပြည် အရှေ့ပိုင်းခရိုင် ကျိုင်းတုံနယ်ကိုလည်း နယ်ခြားဒေသ အုပ်ချုပ်ရေးသို့ လွှဲအပ်ပြီးလျှင် ကျိုင်းတုံခရိုင်၊ မိုင်းတုံခရိုင်နှင့် တာချီလိပ်ခရိုင်ဟူ၍ ပိုင်းခြားလိုက်လေသည်။

၁၉၆၀ ခုနှစ် နောက်ပိုင်းမှစ၍ ရှမ်းစော်ဘွား အများစုနှင့် ကယား ခေါင်းဆောင် များသည် ပြည်မကိုလည်း ပြည်နယ်တခုအဖြစ် ထားရှိပြီးလျှင် ပြည်ထောင်စု၏ ပြည်နယ်အားလုံးအား တန်းတူ အုပ်ချုပ်ရေးပေးရန် ဟူသော 'ဖက်ဒရေးရှင်း'မှုကို တောင်းဆိုလာကြသည်။ ထိုမှုကို ပြည်ထောင်စု အစိုးရက လက်မခံပါက ရှမ်းပြည်နယ်သည် ပြည်ထောင်စုအတွင်းမှ ခွဲထွက်ရန် ခြိမ်းခြောက် အရေးဆိုလာကြပြီးလျှင် ရှမ်းပြည်နယ်အတွင်း ထကြွပုန်ကန်မှု၊ ဆူပူလှုပ်ရှားမှု များကိုလည်း လှုံ့ဆော် အားပေးလာကြသည်။

ထိုသို့ ပြည်ထောင်စုကြီး ယိမ်းယိုင် ပြိုကွဲမည့် အခြေအနေဆိုးကို ထိန်းသိမ်းရန် ဗိုလ်ချုပ်ကြီးနေဝင်း ခေါင်းဆောင်သော တော်လှန်ရေး ကောင်စီသည် ၁၉၆၂ ခုနှစ် မတ်လ ၂ ရက်နေ့တွင် ပြည်ထောင်စု အုပ်ချုပ်ရေး အာဏာကို သိမ်းယူလိုက်သည်။ တော်လှန်ရေး ကောင်စီ အစိုးရသည် သမတကြီးနှင့်တကွ ဝန်ကြီးချုပ် အမှူးပြုသော ပြည်ထောင်စု အစိုးရအဖွဲ့ဝင် ဝန်ကြီးအများစုအား ထိန်းသိမ်းလိုက်သည့်နည်းတူ 'ဖက်ဒရေးရှင်းမှု'ကို ထောက်ခံသော ရှမ်းစော်ဘွား ၃၀ ကျော်တို့ကိုလည်း ထိန်းသိမ်းလိုက်သည်။ ရှမ်းပြည်နယ်ကောင်စီကို မတ်လ ၃ ရက်နေ့တွင် ဖျက်သိမ်းပြီးလျှင် ဦးစီးအဖွဲ့ဝင် ငါးဦး ပါဝင်သော ရှမ်းပြည်နယ် ဦးစီးအဖွဲ့ကို ဖွဲ့စည်းလိုက်သည်။ ထို ဦးစီးအဖွဲ့သည် ရှမ်းပြည်နယ်ကောင်စီ နည်းတူ ရှမ်းပြည်နယ်၏ အုပ်ချုပ်ရေး အဝဝကို ဆောင်ရွက်ရ၍

ထိုအဖွဲ့၏ ဥက္ကဋ္ဌအား ယခင်က ပြည်နယ် ဥက္ကဋ္ဌ၏ အခွင့်အာဏာများကို အပ်နှင်းလိုက်လေသည်။

တော်လှန်ရေး ကောင်စီ အစိုးရသည် ပဒေသရာဇ် ရှမ်းပြည်နယ်အဖြစ်မှ ပြည်သူ့ရှမ်းပြည်နယ် ဖြစ်လာရေး အတွက် ရှမ်းပြည်နယ် ကျေးလက်များအထိ ပြည်မနည်းတူ တရားဥပဒေ စိုးမိုးနိုင်ရန် တရားရုံးများ၊ တရားသူကြီးများ ခန့်ထားရေး၊ အုပ်ချုပ်ရေးနယ်မြေပိုင်းခြားမှု ပြန်လည် စီစစ်ရေးတို့ကို ဆောင်ရွက်လျက် ရှိသည်။ ယခင်က နယ်ပိုင်နယ်၊ မြို့ပိုင်နယ်ဟူ၍ ပိုင်းခြား သတ်မှတ်ခဲ့သော အချို့နယ်များသည် ကျေးရွာသာသာမျှ ရှိသဖြင့် စော်ဘွားတို့ အလိုကျ မလိုအပ်ဘဲ ပိုင်းခြားခဲ့ခြင်း ဖြစ်ပေရာ အုပ်ချုပ်ရေး လွယ်ကူစေရန်နှင့် အုပ်ချုပ်ရေး စရိတ်ကျဉ်းစေရန် အချို့နယ်များကို ပူးပေါင်းခြင်း၊ ပြန်လည် ပိုင်းခြားခြင်းပြုရန် ပြန်လည် စီစစ်ဆောင်ရွက်နေဆဲ ဖြစ်လေသည်။

## မြန်မာ-တရုပ် နယ်နိမိတ်အပြောင်းအလဲ

ရှမ်းပြည်နယ်သည် အရှေ့ဖက်တွင် တရုပ်ပြည်သူ့သမတနိုင်ငံနှင့် နယ်နိမိတ်ချင်း အများဆုံး ဆက်စပ်လျက် ရှိရာ ၁၉၆၀-၆၁ ခုနှစ်အတွင်း မြန်မာ-တရုပ် နယ်နိမိတ်ကို သမိုင်းဝင်မှတ်တမ်းတင်လောက်အောင် နှစ်ပြည်ထောင် အစိုးရတို့ သဘောတူ ပိုင်းခြား သတ်မှတ်လိုက်ပြီးနောက်တွင် ရှမ်းပြည်နယ်၏ နယ်နိမိတ်၌ အပြောင်းအလဲ အနည်းငယ် ရှိခဲ့လေသည်။ (မြန်မာ-တရုပ် နယ်နိမိတ်သတ်မှတ်ရေး — ရှု။)

မြန်မာ - တရုပ်နယ်နိမိတ် သဘောတူ စာချုပ်များအရ ခိုင်လုံသော သက်သေ အထောက်အထားများ ရှိသဖြင့် ကချင်ပြည်နယ်မှ ဖီမော်၊ ဂေါ်လန်၊ ကန်ဖန် ဒေသများကို တရုပ်အစိုးရ ပိုင်ကြောင်း မြန်မာအစိုးရက အသိအမှတ် ပြုရသည်။ မိုင်းမောကြီး တြိဂံ ဒေသအတွက်မူ ထိုဒေသအား တရုပ်တို့က ပြန်၍ သိမ်းလိုက်ပါက ထိုနယ်ကို ဖြတ်သန်းသွားသော ရှမ်းပြည်နယ်နှင့် ကချင်ပြည်နယ် ကူးလူးဆက်ဆံမှု လမ်းမကြီးကို အကြောင်းပြု၍ ထိုပြည်နယ်များအား ထိခိုက်ဖွယ်ရာ ရှိသဖြင့် ထိုတြိဂံဒေသကို တရုပ် အစိုးရက မြန်မာ အစိုးရသို့ အပြီးအပိုင် လွှဲပြောင်းပေးသည်။ သို့သော် ထိုဒေသနှင့် လဲလှယ်သောအားဖြင့် ရှမ်းပြည်နယ်တွင် ပါဝင်သော ဝနယ်အတွင်းရှိ ပန်ဟုံးနှင့် ပန်လောင်း ဒေသတို့အား မြန်မာ အစိုးရက တရုပ်အစိုးရသို့ လွှဲအပ်ရလေသည်။

နှစ်ပြည်ထောင် အစိုးရတို့ အပြန်အလှန် အလဲအလှယ် ပြုကြသော နယ်မြေများကို ပိုင်းခြား သတ်မှတ်လိုက်ရာ မြန်မာအစိုးရက ရရှိလိုက်သော မိုင်းမောတြိဂံဒေသ၏ အကျယ်အဝန်းသည် ၈၅ စတုရန်းမိုင်၊ ထိုဒေသနှင့် အလဲအလှယ် ပြုကာ တရုပ်အစိုးရသို့ လွှဲအပ်လိုက်ရသော ပန်ဟုံး၊ ပန်လောင်း ဒေသများ၏ အကျယ်အဝန်းသည် ၇၃ စတုရန်းမိုင် စသဖြင့် အသီးအသီး ဖြစ်ကြလေသည်။

ပန်ဟုံးနှင့် ပန်လောင်းဒေသတို့ကို အလဲအလှယ် ပြုလိုက်ရသဖြင့် ထိုနေရာတွင် ရှမ်းပြည်နယ် နယ်နိမိတ်မျဉ်းကြောင်းသည် အတန်ငယ် ပြောင်းလဲခဲ့သည်။ မိမိတို့၏ နယ်မြေကို တလက်မမျှ အလျှော့မခံလိုသော်လည်း ရှမ်းအမျိုးသားတို့သည် နှစ်ပြည်ထောင် ချစ်ကြည်မှုကို ရှေ့ရှုကာ လွှဲအပ်ရန် သဘောတူညီခဲ့ကြသည်။ မိုင်းမော တြိဂံဒေသသည် ကချင် ပြည်နယ်နှင့် ရှမ်းပြည်နယ် နှစ်ခုလုံး၌ ပါဝင်နေရာ ဆိုင်ရာ အစိတ်အပိုင်းကို ဆိုင်ရာ ပြည်နယ်က အုပ်ချုပ်လျက် ရှိပေသည်။

တရုပ်အစိုးရသို့ လွှဲအပ်၍ အလဲအလှယ်ပြုကြသော ဒေသများမှ တိုင်းရင်းသား လူမျိုးတို့က ထိုဒေသများကို စွန့်ခွာကာ ပြည်ထောင်စုမြန်မာနိုင်ငံအတွင်း၌သာ နေလိုကြသဖြင့် ကချင်ပြည်နယ်မှ ဖီမော်၊ ဂေါ်လန်၊ ကန်ဖန်ဒေသရှိ လူမျိုးစုများ နည်းတူ ပန်ဟုံးနှင့် ပန်လောင်းဒေသများမှ လူမျိုးစုများကိုလည်း ယင်းတို့၏ ဆန္ဒအတိုင်း ပြည်ထောင်စု အစိုးရသည် နယ်စပ် အနီး၌ ကျေးရွာ အိုးအိမ်များကို သိုက်မြိုက်စွာ ထူထောင်ပေးရပြီးလျှင် ယင်းတို့၏ အသက်မွေးမှု ဖူလုံရေးအတွက်လည်း စီစဉ် ဆောင်ရွက်ပေးရလေသည်။

## ပညာရေး

ရှေးအခါက ရှမ်းပြည်နယ်၏ ပညာရေးစံနစ်သည် စော်ဘွားများ၏ လက်ထဲတွင်သာ ရှိခဲ့သည်။ နယ်များတွင် စော်ဘွားများ သဘောအရ နယ်မှ ရရှိသော အခွန်တော်ငွေထဲမှ အကုန်အကျခံ၍ ဖွင့်လှစ်ထားသော မူလတန်း မြန်မာ စာသင်ကျောင်းများသာ ရှိသည်။ ဘုန်းကြီးကျောင်းများကိုလည်း စော်ဘွားများက စာသင်ကျောင်း အဖြစ် အသိအမှတ်ပြုသည်။

ဗြိတိသျှခေတ် တခေတ်လုံးတွင် ရှမ်းပြည်မြောက်ပိုင်းနှင့် တောင်ပိုင်း နှစ်ရပ်လုံး၌ အစိုးရ အသိအမှတ်ပြုသော အထက်တန်းကျောင်းဟူ၍ တောင်ကြီး၌ ဖွင့်လှစ်ထားသော ရှမ်းစော်ဘွားသားများ ကျောင်းနှင့် အမေရိကန် သာသနာပြုကျောင်းဟူ၍ နှစ်ကျောင်းသာရှိသည်။ အင်္ဂလိပ် စာသင်ကျောင်းနှင့် အင်္ဂလိပ် - မြန်မာ စာသင်ကျောင်းများ နည်းပါး၍ တောင်ကြီးမှလွဲလျှင် ကလော၊ လွိုင်လင်၊ လားရှိုး၊ နမ္မတူ၊ သီပေါနှင့် မိုးနဲတို့တွင်သာ အလယ်တန်းကျောင်းများရှိသည်။ ၁၉၂၃-၂၄ ခုနှစ်အထိ ဖော်ပြခဲ့သောကျောင်းများမှလွဲလျှင် ရှမ်းပြည်နယ်တခုလုံး၌ မြန်မာအလယ်တန်း ၁၉ ကျောင်းနှင့် မူလတန်းကျောင်း ၁၀၀ ကျောင်းရှိသည်။ အထူးကျောင်းများမှာ တောင်ကြီးမြို့ရှိ တိရစ္ဆာန်အတတ်သင်ကျောင်း၊ လားရှိုး၊ ညောင်ရွှေမြို့တို့တွင် ဖွင့်လှစ်ထား

သော အောက်တန်းဆရာဖြစ်သင်ကျောင်း နှစ်ကျောင်း ဖြစ်လေသည်။ ဒုတိယ ကမ္ဘာစစ် မတိုင်မီကာလတွင် ကျောင်းပေါင်း ၁၉၀ ကျော်အထိ တိုးတက်လာ၍ ကျောင်းသားဦးရေ တသောင်းနီးပါးအထိ ရှိလာသော်လည်း ပြည်နယ် တခုလုံး၏ လူဦးရေနှင့်နှိုင်းစာသော် စာတတ်သူများ ရာခိုင်နှုန်း အလွန်နိမ့်ကျနေခဲ့လေသည်။

ပြည်ထောင်စုခေတ်တွင် ပညာရေး စံနစ်သစ်အရ ရှမ်းပြည်နယ်တွင် တနှစ်ထက်တနှစ် ကျောင်းများကို တိုးတက်ဖွင့်လှစ် ပေးခဲ့သည်။ စော်ဘွားမြို့တိုင်း၌ အထက်တန်းကျောင်းတကျောင်း ရှိစေရန်နှင့် လူဦးရေ ၁၀၀၀ လျှင် စာသင်ကျောင်းတကျောင်းရှိစေရန် ရည်မှန်းခဲ့ကြသော်လည်း ပြည်နယ်၏ ငွေအင်အား နည်းပါးသေးသဖြင့် ခပ်ဆိုင်းဆိုင်း ဆောင်ရွက်ခဲ့ကြရသည်။ ၁၉၆၀-၆၁ ခုနှစ် နောက်ဆုံးစာရင်းအရ ရှမ်းပြည်နယ်၌ ဖွင့်လှစ်ပြီးသော ကျောင်းများနှင့် ကျောင်းသားဦးရေ စာရင်းမှာ —

| | ကျောင်းဦးရေ | ကျောင်းသားဦးရေ |
|---|---|---|
| ၁။ အထက်တန်းကျောင်း | ၃၇ | ၂၃၇၄၅ |
| ၂။ အလယ်တန်းကျောင်း | ၅၃ | ၁၅၇၉၇ |
| ၃။ မူလတန်းကျောင်း | ၅၂၅ | ၄၁၇၅၄ |
| | ၆၁၅ | ၇၁၅၉၆ |

တောင်ကြီးမြို့တွင် ဥပစာကောလိပ် တခုကို ဖွင့်လှစ်ပေးခဲ့၍ စော်ဘွားသားများ အထက်တန်းကျောင်းကိုလည်း စစ်ပြီးခေတ်တွင် စော်ဘွားအမျိုးအနွယ်များအတွက်သာ ကန့်သတ်ထားရှိခြင်းမှ ပြည်သူ့ကျောင်း တကျောင်း အဖြစ်သို့ ပြောင်းလဲစေခဲ့လေသည်။

# တိုင်းလူမျိုး

**မိမိတို့ ကိုယ်ကို တိုင်းဟု ခေါ်သော ရှမ်းလူမျိုးတို့သည် မြန်မာနိုင်ငံရှိ အခြားတိုင်းရင်းသား အများစုတို့ကဲ့သို့ပင် မွန်ဂိုလွိုက် လူမျိုး အနွယ်တွင် ပါဝင်သည်။ ကိုယ်လုံး ကိုယ်ပေါက်နှင့် ကိုယ်အင်္ဂါ အစိတ်အပိုင်းတို့တွင် ရှမ်းနှင့် မြန်မာတို့သည် အနည်းငယ်သာ ကွာခြား၏။ ရှမ်း (တိုင်း) တို့သည် မြောက်ဖက်တွင် တရုပ်နိုင်ငံ ယန်ဆီကျန်မြစ်ဝှမ်း၏ အထက်ပိုင်းဒေသမှ တောင်ဖက်တွင် မလ္လာယု ကျွန်းဆွယ်အထိ၊ အနောက်ဖက်တွင် အိန္ဒိယနိုင်ငံ၏ အာသံနယ်မှ အရှေ့ဖက်တွင် တရုပ်နိုင်ငံ၏ ကွမ်တုန် ကွမ်ဆီနယ်များနှင့် တရုပ်ပင်လယ်တွင်း အရှိဟိုင်နန်ကျွန်းအထိ ဖြစ်သော ဒေသတဝန်းတွင် တသီးတခြား သော်၎င်း၊ အခြားလူမျိုးများနှင့် ရောနှော၍ သော်၎င်း နေထိုင်လျက် ရှိကြ၏။**

**ရှမ်းလူမျိုး။** ။ ၁။ **အမည်**။ ရှမ်းဟူသောအမည်မှာ အခြား လူမျိုးတို့က ရှမ်းလူမျိုးတို့ကို ခေါ်သော ဝေါဟာရဖြစ်၏။ ရှေးမြန်မာကျောက်စာတို့တွင် သျှမ်၊ သို့မဟုတ် သျံဟု ရေးကြသည်။ ဤဝေါဟာရမှာ အာသံ (အရှမ်း)၊ အဟုမ်၊ ဆိုင်းယမ်း၊ စီအန်၊ သို့မဟုတ် စီအန်လိုဟူသော ဝေါဟာရများနှင့် ထပ်တူဖြစ်သည်။ ရှမ်းတို့ကမူ မိမိတို့ ကိုယ်ကို တိုင်း—တဲး ဟုခေါ်ကြသည်။ ယိုးဒယားနိုင်ငံတွင် ထိုင်း—တဲးဟု ခေါ်ကြ၏။ရှေးအကျဆုံးသိရသော အမည်မှာ လဝ (လော)၊ သို့မဟုတ် အိုက်လဝ (ကဲလဝ်း) ဖြစ်ဟန်တူ၏။ ထိုင်းစကားဟောင်းတွင် လဝ်မှာလည်ပတ်သည်ဟုအဓိပ္ပာယ်ရသည်။ ယခု လဝ (လော) နိုင်ငံ၊ ယိုးဒယားနိုင်ငံ မြောက်ပိုင်း၊ မြန်မာနိုင်ငံ ကျိုင်းတုံနယ်တောင်ပိုင်းနှင့် မြောက်ဗီယက်နမ် နိုင်ငံ၏ အနောက်ပိုင်းတို့တွင် လဝ်ဟု တွင်သော ထိုင်းရှမ်း အမျိုးသား အများ နေထိုင်လျက် ရှိကြသည်။ ပဌမရာစုနှစ် တရုပ်မှတ်တမ်းတွင် အိုက်လဝ်ဟူသော အမည်ကို အစောဆုံး တွေ့ရသည်။

## ၂။ လူမျိုး အနွယ်နှင့် ကြန်အင်လက္ခဏာ

လူမျိုးအနွယ်အားဖြင့် ရှမ်း (တိုင်း) တို့မှာ မြန်မာနိုင်ငံရှိ အခြား တိုင်းရင်းသား အများစုတို့ကဲ့သို့ပင် မွန်ဂိုလွိုက် လူမျိုးအနွယ်တွင် ပါဝင်ကြသည်။ ပူပြင်းသော မြေပြန့်မှာထက် အေးမြသော ကုန်းမြင့်ပေါ်တွင် ကြာမြင့်စွာ နေထိုင်လာခဲ့ဘူးသူများ ဖြစ်ကြသည့် အလျောက် အသားလပ်၍ ဖြူကြသည်။ အရုပ်အမောင်း မမြင့်လှ၊ သွယ်ဖြောင့်၍ မည်းနက်သော ဆံပင်၊ ခပ်ဝိုင်းဝိုင်းရှိသော ဦးခေါင်း၊ တို၍ ကျယ်သော နှာခေါင်း၊ပြားသောမျက်နှာ၊ တခါတရံ ဘေးအထက်သို့ စောင်းတက်နေသော မျက်စိအိမ်၊ ဖြူသော အသားရောင်အပြင် ဝါ၍ တခါတရံညိုသော အသွေးအရောင်တို့မှာ ရှမ်း (တိုင်း)တို့၏ ကြန်အင်လက္ခဏာများ ဖြစ်သည်။ လူမျိုး လေ့လာရေး ပါရဂူတဦးဖြစ်သော ဒေါက်တာ ဗီ၊ အက်(စ)ဂူဟားက "တရုပ်တို့သည် ကချင်၊ တောင်ပိုင်း ချင်းတို့နှင့် နီးစပ်စွာ ဆက်သွယ်နေသော်လည်း ရှမ်းစစ်များ၊ သို့မဟုတ် မြန်မာနိုင်ငံရှိ အခြားလူမျိုးစုများနှင့် နီးစပ်သည့် အချက်တစုံတရာမျှ ရှိဟန်မတူပေ" ဟု မှတ်ချက်ချထား၏။ ကိုယ်လုံးကိုယ်ပေါက်နှင့် ကိုယ်အင်္ဂါ အစိတ်အပိုင်းတို့တွင် ရှမ်းနှင့် မြန်မာတို့သည် အနည်းငယ်မျှသာ ကွာခြားကြ၏။

## ၃။ ဘာသာစကားအနွယ်

လူမျိုး၏ ကြန်အင်လက္ခဏာအရဆိုလျှင် ရှမ်း (တိုင်း) တို့ကို မြန်မာနိုင်ငံရှိ အခြားတိုင်းရင်းသား အများစုနှင့် ခွဲ

ခြား၍ မဖြစ်နိုင်ပေ။ ပြောဆိုသော ဘာသာစကားအရသာ ခွဲခြားနိုင်၏။ တိဗက်-တရုပ်အနွယ်ကြီးဟု ဘာသာဗေဒ သုတေသီတို့ အသိအမှတ်ပြုထားသော အာရှတိုက် အရှေ့ပိုင်းနှင့် အရှေ့တောင်ပိုင်းတို့တွင် အများစု ပြောဆိုနေသည့် ဘာသာစကား အနွယ်ကြီးတွင် ရှမ်း (တိုင်း) စကား၊ မြန်မာစကားနှင့် မြန်မာနိုင်ငံတိုင်းရင်းဘာသာစကား အများစု အားလုံးပင် ပါဝင်နေသော်လည်း ရှမ်း (တိုင်း) စကားများနှင့် အခြားဘာသာစကားတို့မှာ ဆွေဆက်မျိုးဆက်နီးသည်ဟု မဆိုနိုင်ပေ။ ဆွေမျိုးမတော်စပ်သည်ကား မဟုတ်ပေ။

ဤအနွယ်ကြီးတွင် ပါဝင်နေသော အစုတို့တွင် ရှမ်း (တိုင်း)နှင့် မြန်မာတို့မှာ ထင်ရှားသော အစုများ ဖြစ်ကြသည်။ အခြား အစုတို့မှာ တိဗက်အစု၊ တရုပ်အစု၊ မျောင် (မိဝ့်)၊ သက်၊ ကရင်၊ ချင်း၊ ကချင်၊ လိုလိုအစု စသည်တို့ ဖြစ်၏။ မြန်မာသည် ဘာသာစကားတွင် တရုပ်နှင့် အခြေခံမကွာလှသော်လည်း တိဗက်နှင့် ပို၍ နီးစပ်သည်။ ဤကဲ့သို့ နီးစပ်သော အစုများကို စု၍ တိဗက် တရုပ် အနွယ်ကြီးကို တိဗက်မြန်မာအနွယ် တိုင်းတရုပ် အနွယ်ဟု ခွဲခြားထားခြင်း ဖြစ်၏။

တိဗက်-မြန်မာအနွယ်ဝင် ဘာသာစကားတို့ထက် တိုင်းတရုပ်အနွယ်ဝင် ဘာသာစကားတို့တွင် အသံ အလေး၊ အပေါ့၊ အနိမ့်၊ အမြင့်၊ ပို၍များသည်။ ပြောဆိုရာဒေသသည် မည်မျှပင် ကွာဝေးစေကာမူ ရှမ်း (တိုင်း) တို့ပြောဆိုသော ဘာသာစကားတို့မှာ ကွဲပြားလှခြင်း မရှိ။ သံနေသံထား အနိမ့် အမြင့်၊ မတူခြင်းမျိုးမျှသာ ရှိသည်။ ဘာသာစကား ကွဲပြားခြင်း မရှိ၊ သံခွဲဘာသာ စကားများ ဖြစ်ကြသည်။

တွေ့ကြုံဖြစ်ပျက်ခဲ့ပြီးသော နိုင်ငံသမိုင်း၏ ဖြစ်စဉ်တို့သည် ရှမ်း (တိုင်း) လူမျိုးများနှင့် မြန်မာလူမျိုးတို့ကို မြောက်မြားလှသော ဆက်သွယ်မှုများဖြင့် နှောင်ဖွဲ့ပေးခဲ့၏။ ဤလူမျိုးနှစ်မျိုးသည် ရှေးယခင် တရုပ်ပြည်၏ အနောက်ပိုင်းတွင် အိမ်နီးချင်းများအဖြစ် နေခဲ့ကြ၏။ ထိုအချိန်မှ စ၍ မြန်မာနိုင်ငံတွင်းသို့ရောက်လာသည်တိုင်အောင် ဒူးတူပေါင်ဖက်ရင်း၊ တမျိုးကတမျိုး တပြန်တလှည့်စီကို ကြီးစိုး၍ရင်း နေလာခဲ့ကြသည်မှာ နှစ်ပေါင်း ၂,၀၀၀ ကျော်မျှ ကြာခဲ့ပြီဖြစ်၏။ ယခုအခါ ရှမ်း(တိုင်း)စကားတွင် မြန်မာဝေါဟာရအများ ပါဝင်နေသကဲ့သို့ မြန်မာစကားတွင်လည်း ရှမ်း (တိုင်း) ဝေါဟာရများ ပါဝင်နေသည်။ မြန်မာစကားတွင် အိုက်၊ အိုင် အသံထွက်သောစကားတို့သည် မူလက ရှမ်း (တိုင်း)တို့ထံမှ ရခဲ့သော စကားများဟု ယူဆရပေသည်။ နန်ချောင်ပြည်တွင် နေခဲ့ရစဉ်က ရှေးမြန်မာတို့သည် ရှမ်း (တိုင်း) တို့ထံမှ ယဉ်ကျေးမှုနှင့် စပ်လျဉ်းသည့် အလေ့အထ၊ နည်းစံနစ်နှင့် အတတ်ပညာတို့ကို သင်ယူ တတ်သိခဲ့ကြဟန်တူ၏။နောက်ပိုင်းတွင် မြန်မာတို့ထံမှ ရှမ်း(တိုင်း)


ခေတ်သစ်ရှမ်းအမျိုးသားဝတ်စုံ ဆင်ယင်ထားသည့် မိသားစု

တို့က တလှည့် သင်ယူတတ်သိကြပြန်သည်။ အထူးသဖြင့် မြန်မာနိုင်ငံ ယဉ်ကျေးမှု၏ အခြေခံဖြစ်၍ မြန်မာရော ရှမ်းပါ ကိုးကွယ်ယုံကြည်လျက်ရှိသော ဗုဒ္ဓအယူဝါဒကို ရှမ်း (တိုင်း) တို့သည် မြန်မာတို့ထံမှရင်း၊ ယိုးဒယားဖက်မှရင်း၊ အိန္ဒိယ အရှေ့မြောက်ပိုင်းမှရင်း တဆင့်ရယူခဲ့ကြလေသည်။

### ၄။ နေထိုင်ရာဒေသ

ရှမ်း(တိုင်း)စကားပြောသူတို့သည် အာရှတိုက်အရှေ့ဖက်ဖြစ်သော တရုပ်နိုင်ငံတောင်ပိုင်းနှင့်အာရှတိုက်အရှေ့တောင်ပိုင်း နိုင်ငံတို့တွင် အနှံ့အပြား နေထိုင်လျက် ရှိကြသည်။ မြောက်ဖက်တွင် တရုပ်နိုင်ငံ ယန်ဆီကျန်မြစ်ဝှမ်း၏ အထက်ပိုင်း ဒေသမှ တောင်ဖက်တွင် မလ္လာယုကျွန်းဆွယ် အထိ၊ အနောက်ဖက်တွင် အိန္ဒိယနိုင်ငံ၏ အာသံနယ်မှ အရှေ့ဖက်တွင် တရုပ်နိုင်ငံ၏ ကွမ်တုန်၊ ကွမ်ဆီနယ်များနှင့် တရုပ်ပင်လယ်အတွင်းရှိ ဟိုင်နန်ကျွန်း အထိ ဖြစ်သော ဒေသတဝန်းတွင် ရှမ်း (တိုင်း) တို့သည် တသီးတခြားသော်ရင်း၊ အခြားလူမျိုးများနှင့် ရောနှော၍သော်ရင်း နေထိုင်လျက်ရှိကြ၏။

### ၅။ ဦးရေ

ရှမ်း (တိုင်း) စကားပြောသူ ဦးရေသည် မြန်မာနိုင်ငံအတွင်း၌ တသန်းငါးသိန်းကျော်ခန့် ရှိသည်။ မြန်မာနိုင်ငံ

အပတွင် ပိုမိုများပြား၏။ ယိုးဒယားနိုင်ငံတွင်ကား အများဆုံးလည်း ဖြစ်သည်။ တစုတရုံးတည်းလည်း နေထိုင်ကြသည်။ ထိုနိုင်ငံနှင့် လောနိုင်ငံမှတပါး အခြားဒေသများဖြစ်သော တရုပ်ပြည် တောင်ပိုင်း၊ ဗီယက်နမ်နိုင်ငံ၊ မြန်မာနိုင်ငံနှင့် အာသံနယ်တို့တွင် ရှမ်းအမျိုးသား လူဦးရေ မည်မျှပင်များစေကာမူ သက်ဆိုင်ရာ ဒေသတွင် လူနည်းစုများသာ ဖြစ်ကြသည်။ ရှမ်း (တိုင်း) ဘာသာစကားပြောသူ အားလုံး၏ အရေအတွက်ကို သိရှိရန် ခက်ခဲသည်။ ခန့်မှန်းရန်ပင် မလွယ်ကူလှပေ။ ဒုတိယ ကမ္ဘာစစ်၏ နောက်ပိုင်းတွင် ယိုးဒယားနိုင်ငံ၏ လူဦးရေသည် ၂၀–၂၂ သန်း ရှိသည်ဟု အစိုးရက ထုတ်ပြန်သည်။ ယင်းလူဦးရေမှ တရုပ်အမျိုးသား၊ မလေးအမျိုးသားနှင့် တောင်ပေါ်သား အခြားလူမျိုးများကို ချန်လှပ်သော် ရှမ်း (တိုင်း)တို့၏ ဦးရေမှာ ၁၇–၁၈ သန်းထက် ပိုဖွယ်ရာ မရှိပေ။ မလ္လာယုနိုင်ငံတွင် ၁၉၄၇ ခုနှစ်က ရှမ်း(တိုင်း) ၂၀,၂၀၃ ဦးရှိသည်ကို တွေ့ရ၏ ။ဗီယက်နမ်မြောက်ပိုင်း တုန်ကင်ဒေသတွင် ငါးသိန်းခန့်၊ လောနိုင်ငံတွင် တသန်း ငါးသိန်းခန့် ရှိမည်ဟုလည်း ခန့်မှန်းရပေသည်။ ဒေါက်တာ ဒဗလျူ စီဒေါ့က အာသံနယ်တွင် အဟုမ်နှစ်သိန်းငါးသောင်းခန့် ရှိမည်ဟု ခန့်မှန်းခဲ့သည်။ ယခုအခါတွင် အဟုမ်တို့၏ အရေအတွက်မှာ မဆိုသလောက်သာ ရှိ၏။ ၁၉၃၁ ခုနှစ် သန်ကောင်စာရင်း အရ အာသံနယ်တွင် ခန္တီး ၃,၈၅၈ ဦးနှင့် ရှမ်း ၁,၈၅၅ ဦး ရှိကြောင်း သိရ၏။ ဒေါက်တာဒေါ့က တရုပ်နိုင်ငံ ယူနန်နယ်တွင် နှစ်သန်းကျော်၊ ကွေချိုနယ်တွင် နှစ်သန်းခန့်၊ ကွမ်ဆီနယ်တွင် နှစ်သန်းခန့်၊ ကွမ်တုန်နယ်တွင် ငါးသိန်းခန့်၊ ဟိုင်နန်ကျွန်းတွင် နှစ်သိန်းငါးသောင်းခန့် အသီးအသီးရှိမည်ဟု ခန့်မှန်းခဲ့ရာ စုစုပေါင်း ရှမ်း (တိုင်း) စကားပြောသူ ၂၇ သန်းခန့် ရှိမည်ဟု ခန့်မှန်းပါက အကယ်ရှိသည့် ဦးရေထက်ပင် ပိုဖွယ်ရာရှိသည်။

၆။ ရှေးသမိုင်း

(က) အိုက်လဝ်။ ။ရှမ်း (တိုင်း) တို့၏ မူလနေရာကို အတိအကျ မသိရသေးပေ။ သူတို့၏ ရှေးအကျဆုံးသော ဖြစ်စဉ်ကိုလည်း ရှာဖွေ ဖော်ထုတ်နိုင်ခြင်း မရှိသေးပေ။ အေဒီ ပဌမ ရာစုနှစ်များအတွင်းက ယူနန်နယ် အနောက်ပိုင်းတွင် အိုက်လဝ် ရှမ်းများရှိကြောင်း တရုပ် မှတ်တန်းအရ သိရ၏။

(ခ) နန်ချောင်။ ။အေဒီ ၆၅၀ လောက်မှ စ၍ ယူနန်နယ် အနောက်ပိုင်းတွင် နန်ချောင် (နန်ကျောဝ်၊ နန်းကျောက်)ဟု ခေါ်သော ပြည်ထောင်စုတခု ပေါ်ပေါက်လာခဲ့သည်။ ဤနန်ချောင်ဆက်က မိမိတို့သည် အိုက်လဝ်တို့မှ ဆင်းသက်သည်ဟု ဆိုသည်။ နန်ချောင် ပြည်ထောင်စုသည် ရှမ်းများ၊ လိုလိုများ၊ မြန်မာများနှင့် အခြားလူမျိုးစု အချို့တို့ ပါဝင်စုစည်းထားသော ပြည်ထောင်စု ဖြစ်ကြောင်း သိရ၏။ နယ်ပေါင်း ခြောက်နယ် ပါဝင်၏။ မြို့တော်သည် ယခု တာလီဖူမြို့အနီးတွင်ရှိခဲ့၏ ။ပဌမသော် ယူနန်နယ် အနောက်ပိုင်း၊ ထိုနောက် ယူနန်နယ်တနယ်လုံးကို သိမ်းပိုက်အုပ်ချုပ်ခဲ့၏ ။မြန်မာပြည် မြောက်ဖက်အစွန်ပိုင်းအာသံနယ်စပ်အထိ ဒေသသည်လည်း နန်ချောင်၏ လက်အောက်ခံဖြစ်ခဲ့သည်။ အေဒီ ၇၅၀ လောက်မှ ၈၇၅ အထိဖြစ်သော ကာလအတွင်း တရုပ်၊ တိဗက်၊ နန်ချောင်တည်းဟူသော သုံးပွင့်ဆိုင် နိုင်ငံတို့သည် မကြာခဏ စစ်ပြိုင်တိုက်ခိုက်ခဲ့ကြသည်။ တရုပ်သည် နန်ချောင်နှင့်ပေါင်း၍ တိဗက်ကိုရင်း၊ တိဗက်သည် နန်ချောင်နှင့် ပေါင်း၍ တရုပ်ကိုရင်း အပြန်အလှန်တိုက်ခဲ့ကြလေသည်။ နန်ချောင်တို့သည် မြောက်ဖက် စုချွန်နယ်တွင်းသို့ ဝင်ရောက်တိုက်ခိုက်၍ ချိန်တူမြို့ကိုပင် သိမ်းပိုက်နိုင်ခဲ့၏။ အရှေ့တောင်ဖက် တုန်ကင်နယ်ကိုလည်း တိုက်ခိုက်ကြသေးသည်။ အေဒီကိုးရာစုနှစ်များအတွင်းက မြန်မာနိုင်ငံတွင်းရှိ ပျူနှင့် ရှေးဦးပိုင်းနိုင်ငံငယ်များ ပျက်သုဉ်းခဲ့ရခြင်းမှာလည်း နန်ချောင်၏ တိုက်ခိုက်မှုတို့ကြောင့်ပင် ဖြစ်၏။ ဤကာလအတွင်းလောက်ကပင် နန်ချောင်အုပ်စုတွင် ပါဝင်ခဲ့သော မြန်မာတို့သည် မြန်မာနိုင်ငံတွင်းသို့ ရွှေ့ပြောင်း ဝင်ရောက်ခဲ့၍ မြန်မာနိုင်ငံအလယ်ပိုင်းကို သိမ်းပိုက်အုပ်စိုးလာခဲ့လေသည်။ (မြန်မာလူမျိုး — လည်းရှု။) နန်ချောင်၏ သဘောတူညီချက်အရ ရွှေ့ပြောင်းခဲ့ခြင်း ဖြစ်ဟန်တူသည်။

(ဂ) ဂန္ဓာလရာဇ်။ ။နန်ချောင်-တရုပ်စစ်ဦထန်မင်းဆက်တရုပ်တို့သည် အေဒီ ၈၇၅ တွင် နောက်ဆုံး အနိုင်ရခဲ့၏။ သို့ရာတွင် နောင်အနှစ် ၃၀ အကြာ၌ ထန်မင်းဆက် ပျက်ပြားခဲ့ပြီးနောက် နန်ချောင်လွတ်လပ်ခဲ့သည်။ အေဒီ ၁၂၅၃ အထိပင် ဖြစ်၏။ သို့ရာတွင် တရုပ်ပြည်ဖက်၌ကား ယင်းတို့၏ လှုပ်ရှားမှုမရှိတော့ပေ။ ယင်းသည့်နောက်ပိုင်းတွင် နန်ချောင်အမည် ပျောက်၍ တာလီးနိုင်ငံဟု တွင်လာသည်။ တာလီးနိုင်ငံမှာ မြန်မာတို့က ဂန္ဓာလရာဇ်ပြည်ဟု ခေါ်ဝေါ်သော နိုင်ငံပင် ဖြစ်တန်ရာ၏။

(ဃ) နန်ချောင် ယဉ်ကျေးမှု။ ။နန်ချောင်ပြည်ထောင်စု၏ ယဉ်ကျေးမှုတွင် တရုပ်ယဉ်ကျေးမှုက များစွာ လွှမ်းမိုးခဲ့သည်။ ပျူတို့ထံမှရင်း၊ တရုပ်ပြည်ဖက်မှရင်း ဗုဒ္ဓအယူဝါဒကို ရရှိသဖြင့် နန်ချောင် ယဉ်ကျေးမှုတွင် အယူဝါဒ၏ ယဉ်ကျေးမှုလည်း တစိတ်တဒေသပါဝင်နေပေသည်။

(င) ရှမ်းတို့ အလုံးအရင်းနှင့် ရွှေ့ပြောင်းရခြင်း။ ။တရုပ်ပြည် ဆွန်မင်းဆက်ကို အပြီးအပိုင် အောင်နိုင်ရေးအတွက် မွန်ဂိုတို့သည် ၁၂၅၃ ခုနှစ်တွင် တရုပ်ပြည်ကို တောင်ဖက် ယူနန်နယ်မှနေ၍ တိုက်ခဲ့ကြသည်။ ဤစစ်ကြီးတွင်ကူဗလိုင်ခန်နှင့် စစ်သူကြီး ဥရိယန်ကထိုင်တို့သည် ဆွန်တို့ကို



ရှမ်းအမျိုးသားနှင့် အမျိုးသမီး

မတိုက်နိုင်သေးမီ ယူနန်ကို ပဌမသိမ်းပိုက်သည်။ ဥရိယန်ကထိုင်သည် ယူနန်နယ်ရှိ ရှမ်း (တိုင်း)နှင့် အခြား လူမျိုးစုများကို လေးနှစ်တိုင်တိုင် တိုက်ခိုက်နှိမ်နင်းခဲ့ရသည်။ ရှေးယခင် နန်ချောင်တို့ တန်ခိုးကြီး၍ ကျယ်ပြန့်စွာ စစ်ဆင်နွှဲခဲ့ကြစဉ်ကတည်းကပင် ရှမ်း (တိုင်း)တို့သည် တောင်ဖက်အနောက်တောင်ဖက်နှင့် အရှေ့တောင်ဖက် ဒေသများသို့ အနည်းနှင့်အများ ဆိုသလို ရွှေ့ပြောင်း ရောက်ရှိခဲ့ကြပြီဖြစ်ဟန်တူ၏။ ယခု မွန်ဂိုတို့၏ တိုက်ခိုက်ခြင်းကို ခံရသောအခါတွင် ရှမ်း (တိုင်း) တို့သည် အစုအပြုံလိုက် တစည်းတလုံးတည်း ယခုနေထိုင်ရာ ဒေသအသီးအသီးဆီသို့ ရွှေ့ပြောင်းနေထိုင်လာခဲ့ပေသည်။

## ၇။ တရုပ်နိုင်ငံရှိ ရှမ်း (တိုင်း) များ

(က) ဒေသ။ ။ယူနန်နယ်မှ တောင်ဖက်နှင့်အနောက်တောင်ဖက်တို့သို့ ရွှေ့ပြောင်းလာခဲ့သော ရှမ်း (တိုင်း)တို့သည် မိမိတို့၏လွတ်မြောက်ရေးနှင့် ဘဝအခြေအနေကို ဖန်တည်း ရယူနိုင်ခဲ့ကြသော်လည်း တရုပ်နိုင်ငံတွင်း၌ ကျန်ရစ်ခဲ့သော ရှမ်း(တိုင်း)တို့မှာ မွန်ဂိုမင်းဆက် (ယွန်မင်းဆက်) လက်ထက်မှစ၍ တရုပ်တို့၏ လက်အောက်ခံအဖြစ်၊ သို့မဟုတ် တရုပ်နိုင်ငံသားအဖြစ် နေခဲ့ကြရ၏။ ဥရိယန်ကထိုင်၏ စစ်ဆင်မှုများကြောင့် ယူနန်နယ်မှ ရှမ်း (တိုင်း) တို့သည် တရုပ်နိုင်ငံ အရှေ့ပိုင်း၊ ကွမ်ဆီ၊ ကွမ်တုန်နယ်များနှင့် ဟိုင်နန်ကျွန်းအထိ ပျံ့နှံ့သွားခဲ့ကြသည်။

(ခ) အမည်ခေါ်ပုံ။ ။ရှမ်း(တိုင်း)တို့ကို တရုပ်တို့က ယေဘုယျအားဖြင့်ပိုင်ယီဟုခေါ်သည်။ခေတ်ကာလပြောင်းလဲလာသည့်အလိုက် ဤအမည်ကို ဖော်ပြသော တရုပ်စာလုံး၏ ပုံသဏ္ဍာန်နှင့် အဓိပ္ပာယ်တို့လည်း ပြောင်းလဲလာသည်။ ရှေးအကျဆုံးအမည်၏ အဓိပ္ပာယ်မှာ 'ဝတ်ဖြူ'၊ သို့မဟုတ် 'လူရိုင်း-၁၀၀' ဖြစ်သည်။ ရှေးကတရုပ်တို့အဖို့ မိမိတို့လူမျိုးမှလွဲ၍ အခြားလူမျိုးတို့မှာ အားလုံး လူရိုင်းများချည်းဖြစ်၏။ သို့ရာတွင် လူရိုင်းတို့အနက် ပိုင်ယီတို့မှာ အယဉ်ကျေးဆုံး ဖြစ်ကြသည်ဟု တရုပ်တို့က ဝန်ခံထားပေသည်။

(ဂ) ရှမ်းတို့၏ တော်လှန်ရေး။ ။၁၃၈၁ ခုနှစ်တွင် တရုပ်နိုင်ငံ၌ မွန်ဂိုမင်းဆက် ပျက်သုန်း၍ မင်မင်းဆက် ကြီးစိုးလာခဲ့၏။ မင်တို့သည် မွန်ဂိုတို့ကို အောင်နိုင်ပြီးနောက် ရှမ်း (တိုင်း) တို့ကို နှိမ်နင်းရန် နှစ်ရှည်လများ စစ်ဆင်ခဲ့ကြရသည်။ နန်ချောင်ရှိ မိမိတို့၏ဒေသကို လက်လွတ်ခဲ့ရသော ရှမ်းတို့သည် မြန်မာနယ်စပ် ရွှေလီမြစ်ဝှမ်းရှိ မိုင်းမောမြို့ကို မြို့တော်ပြုကာ လွတ်လပ်သော နိုင်ငံ ပြန်လည်ထူထောင်နိုင်ရေးအတွက် မင်တို့ကို တော်လှန်ပုန်ကန်ခဲ့ကြ၏။ အကြီးအကျယ် စစ်ဆင်နွှဲခဲ့ကြ၏။ ဤဖြစ်ရပ်တို့သည် မြန်မာနိုင်ငံရှိ ရှမ်းတို့၏ အရေးနှင့် ပိုမိုဆက်စပ်နေသဖြင့် မြန်မာနိုင်ငံ ရှမ်းတို့၏ အကြောင်းကို ရေးသောအခါတွင် ယင်းအကြောင်းကို ဆက်လက်၍ ဖော်ပြပါမည်။

(ဃ) စော်ဘွားနယ်များ။ ။အရေးနိမ့်ခဲ့ရသော တရုပ်နိုင်ငံတွင်းရှိ ရှမ်းတို့သည် ပေ ၄,၀၀၀ အောက်အမြင့်ရှိသည့် စိုစွတ်သော တောများရှိရာ ဒေသများသို့ ရွှေ့ပြောင်းနေထိုင်ခဲ့ကြသည်။ တရုပ်တို့ကမူ ငှက်ဖျားကို ကြောက်သဖြင့် ဤဒေသမျိုးသို့ မလာဝံ့ကြပေ။ ရှမ်းတို့သည် ယူနန်နယ်တောင်ပိုင်းတွင် တရုပ်မဟုတ်သော လူမျိုးတို့အနက် လူဦးရေအများဆုံး ဖြစ်၏။ မိမိတို့၏ ဘာသာစကားနှင့် ဗုဒ္ဓ အယူဝါဒဆိုင်ရာ ယဉ်ကျေးမှုကို ထိန်းသိမ်းခဲ့ကြ၏။ သို့ရာတွင် မြန်မာနိုင်ငံဖက်ရှိ ရှမ်းတို့ကဲ့သို့ တသီးတခြား တိုးတက်ခြင်း မရှိခဲ့ပေ။ အချို့ဒေသတို့တွင် ရှမ်းတို့သည် တရုပ်လက်အောက်ခံ စော်ဘွားနယ်များကို တည်ထောင်ခဲ့ကြ၏။

ထိန်ယွေးနယ်၊ ထိန်ယွေး-ဗန်းမော်လမ်း တလျှောက်၌ရှိသော နန်ထျင်၊ ကန်ယိုင်၊ စန္ဒားစော်ဘွားနယ်များ၊ တပိန်မြစ်နှင့် ရွှေလီမြစ် စပ်ကြားဒေသတွင်ရှိသော လုချမ် (လင်ချမ်) မိုင်းမောစော်ဘွားနယ်များ၊ ရွှေလီမြစ်နှင့် သံလွင်မြစ်စပ်ကြားဒေသရှိ လုကျန်၊ မန်းရှိ၊ ချေဖန်၊ မိုင်းပန်စော်ဘွားနယ်များ၊ နမ့်တင်မြစ်တောင်ဖက်ရှိ မိုင်းတင်နှင့် ကိုင်မ စော်ဘွားနယ်များ၊ တောင်ဖက် အစွန် မဲခေါင်မြစ်ကမ်းရှိ ချေလီခေါ် ကျိုင်းရုံးကြီး (ဆစ်ဆောင်ပန္နား-ဝါ-လူးတဆဲ့နှစ် ပန္နား) စော်ဘွားနယ်များ၊ ဤစော်ဘွားနယ်တို့မှာ တရုပ်နိုင်ငံတွင် ထင်ရှားသော စော်ဘွားနယ်များဖြစ်ခဲ့ကြ၏။

(င) တရုပ်နိုင်ငံရှိ ရှမ်းလူမျိုးစုများ။ ။တရုပ်နိုင်ငံတွင်းရှိ ရှမ်း (တိုင်း) တို့ကို ကိုယ်ပိုင်စာရှိသော ဗုဒ္ဓဝါဒီ ရှမ်းများနှင့် ကိုယ်ပိုင်စာလည်းမရှိ၊ ဗုဒ္ဓဝါဒီလည်း မဟုတ်သော ရှမ်းများဟု အကြမ်းအားဖြင့် နှစ်မျိုးခွဲခြားနိုင်၏။ ပဌမအမျိုးတွင် ယူနန်နယ်ရှိ တိုင်းနုအာနှင့် တိုင်းလူများ၊ တိုင်းတရုပ်များ၊ ယူနန်နယ် တောင်ပိုင်း ဝေယွန်အရပ်ရှိ ရှမ်းများပါဝင်သည်။ ဒုတိယ အမျိုးတွင် ယူနန်နယ်ရှိ တိုင်းနမ့် (ရေရှမ်း)၊ တိုင်းလိုင် (အစင်းကြောင်း အဝတ်ဝတ်သူ 'ရှမ်းကျား')၊ တိုင်းလုန် (ရှမ်းကြီး)၊ တိုင်းချေ (တရုပ်တိုင်း) စသည်တို့ရှင်း၊ ကွေချိုနယ်တွင် ရှိကြသော ဒိုအိရှမ်း၊ သို့မဟုတ် ယိုအိရှမ်း (တရုပ်တို့က ချင်ချိုအ ဟု ခေါ်သည်) စသည်တို့ရှင်း၊ ကွမ်ဆီနယ်ရှိ ထို၊ နုင်၊ ဒိုအိ၊ ချောင် စသည်တို့ရှင်း (တုန်ကင်နယ်ထိ ပျံ့သည်။)၊ ကွမ်တုန်နယ်ရှိ ထိုတို့သည်ရှင်း၊ ဟိုင်နန်ကျွန်းရှိ ဩင်ဗေတို့သည်ရှင်း ပါဝင်ကြသည်။ တရုပ်နိုင်ငံရှိ ဗုဒ္ဓဝါဒီ မဟုတ်သော ရှမ်းတို့မှာ တရုပ်စာပေနှင့် တရုပ် ဝတ်စားဆင်ယင်မှုကို အသုံးပြုလာခဲ့ကြပြီဖြစ်၏။ အသက်အရွယ်ကြီးသူများလောက်သာ ရှမ်းစကားကို ပြော

နိုင်ကြသည်။ ရှာအချို့တို့၏ အမည်များမှာ ရှမ်းအမည်နှင့် ပင် ရှိသေးသည်။ တရုပ်နိုင်ငံတောင်ပိုင်းတွင် ထင်ရှားသော အခြား ရှမ်းများမှာ ကျိုင်းရုံးကြီးနယ်ရှိ လု(လူး)၊ သို့မဟုတ် ရှိပိုင်ယီ (ရေရှမ်း) များနှင့် မိုင်းလင်းရှိ တိုင်းလေမ် (တိုင်း လင်း) တို့ ဖြစ်ကြ၏။

## ၈။ တုန်ကင်ဒေသရှိ ရှမ်းများ

မြောက်ဗီယက်နမ်နိုင်ငံ တုန်ကင်ဒေသတွင်းသို့ ယူနန်နယ် ၏ အရှေ့နှင့်အရှေ့တောင်ဖက်မှရှင်း၊ ကွမ်ဆီနယ်မှရှင်း မြစ်ကြီး မြစ်ငယ် အသွယ်သွယ်စီးဝင်လျက်ရှိရာ ယူနန်နယ်၊ ကွမ်ဆီနယ်တို့မှ ရှမ်းအမျိုးသားတို့သည် မြစ်နီ၊ မြစ်နက်၊ မြစ်ကြည်၊ စောင်ချယ်စသော ယင်းသည့် မြစ်များ တလျှောက်မှ တုန်ကင်ဒေသသို့ ရွှေပြောင်း နေထိုင်လာခဲ့ကြသည်။ ယင်းသို့ ဝင်ရောက်ခဲ့ကြသော ရှမ်းတို့မှာ အရှေ့ဖက်နှင့် မြောက်ဖက်ကွမ်တုန်ဒေသဆီမှ ထိုရှမ်းများ၊ ယူနန်အရှေ့ပိုင်းမှ ရှုကျင်ရှမ်းများနှင့် အခြားရှမ်းများ ဖြစ်ကြ၏။

ရှုကျင်တို့သည် တုန်ကင်ဒေသတောင်များပေါ်တွင် နေကြ၏။ သူတို့ကို နန်၊သို့မဟုတ် ဂီအိုင်ဟု ခေါ်ကြသည်။ မြစ်ကြည်မြစ်မှ အနောက်ဖက်စောင်ချယ်နှင့် မြစ်နီမြစ်တို့ကို ဖြတ်၍ ဖောင်ထိုအထိဖြစ်သော ဒေသတလျှောက်တွင် တိုင်း မည်း (တိုင်းလမ်)တို့သည် ကုန်းမြင့်ပိုင်း၌ နေကြ၏။ ဖောင်ထိုနှင့် လိုင်ချောတဝိုက်တွင် မြစ်နီမြစ်နက်များအတိုင်း ဆင်းလာသော တိုင်းဖြူ(တိုင်းခေါင်)များ နေကြ၏။

ဤရှမ်းတို့ကို အရောင်အသွေးဖြင့် ခေါ်ဝေါ်ရာ၌ အသားရောင်ကိုစွဲ၍ ခေါ်ခြင်း မဟုတ်မူဘဲ ဝတ်ဆင်သော အင်္ကျီ၏ အရောင်ကိုစွဲ၍ ခေါ်ခြင်းဖြစ်သည်။ သူတို့သည် အသားလတ်၏။ အရပ်အမောင်းကောင်း၏။အထက်သို့ စွေစောင်းသော မျက်လုံးများ မရှိကြပေ။ တုန်ကင်နယ် အထက်ပိုင်းနေ တောင်ပေါ်သားတို့အနက် လေးပုံ သုံးပုံသည် ရှမ်းများ ဖြစ်ကြသည်။ ယင်းတို့သည် တရုပ်နိုင်ငံနှင့် မြန်မာနိုင်ငံများကဲ့သို့ မြေဩဇာကောင်းသော တောင်ခြေ မြေပြန့် ရပ်ဝန်းများတွင် စပါးစိုက်ပျိုးကြ၏။

## ၉။ လော(လဝ်)နိုင်ငံရှိ လဝ်ရှမ်းများ

လောနိုင်ငံ၏ အဓိကလူမျိုးစုကြီးများမှာ လဝ်းစဝ်နှင့် လဝ်းဝိုင်ခေါ်သော ရှမ်းများ ဖြစ်ကြသည်။ အခြား ရှမ်းလူမျိုးများမှာ ပုတိုင်းနက်၊ ပုတိုင်းနီ၊ လု၊ တိုင်းနုအာတို့ ဖြစ်သည်။ လုနှင့် တိုင်းနုအာတို့ကို မြောက်ပိုင်းတွင် တွေ့ရ၍ ကျန် ရှမ်းအမျိုးစုများကို မဲခေါင်မြစ်တလျှောက် တောင်ဖက် ကမ္ဘောဒီးယားနိုင်ငံအထိ တွေ့ရသည်။ လဝ်းရှမ်းတို့သည် ဗုဒ္ဓဝါဒီများ ဖြစ်ကြ၏။ အထက်တန်းကျသော ယဉ်ကျေးမှုနှင့် ဓလေ့ထုံးစံများ ရှိကြသည်။ တောင်ဖက်မဲခေါင်မြစ်ဝှမ်းတလျှောက်တွင် နေကြသော ရှမ်းတို့မှာမူ ဗုဒ္ဓဝါဒနှင့်မိရိုးဖလာ ယုံကြည်ချက်များကို ရောနှော ကိုးကွယ်ကြသူများ ဖြစ်၏။ အသားအတန်ညိုသည်။အရပ်အမောင်း မမြင့်လှပေ။ အထက်သို့ စွေစောင်းသော မျက်လုံးမျိုးလည်း မရှိကြပေ။ တောတောင်ရေမြေ ထူထပ်၍ ဆက်သွယ်မှု ခက်ခဲသောကြောင့် လောနိုင်ငံရှိ ရှမ်းတို့မှာ အစုစုကွဲပြားလျက် ရှိကြသည်။ လူမျိုးစုချင်း တူညီချက်များ နည်းပါးသော်လည်း ဘာသာစကားတွင်ကား တူညီကြသည်။ အရေးအကြီးဆုံးသော လူမျိုးစုမှာ ဆိုခဲ့ပြီးသည့်အတိုင်း လဝ်လူမျိုးစုပင် ဖြစ်ပေသည်။ လော(လဝ်) နိုင်ငံသည် ယခုအခါတွင် ကိုယ်ပိုင်စာပေနှင့် ယဉ်ကျေးမှုများရှိသော အချုပ်အခြာအာဏာပိုင် လွတ်လပ်သည့် နိုင်ငံတခု ဖြစ်ပေသည်။

## ၁၀။ ယိုးဒယားနိုင်ငံရှိ ရှမ်း (တိုင်း) များ

(က) ယွန်းရှမ်းများ။ ။လဝ်ရှမ်းတို့သည် ယိုးဒယားနိုင်ငံ မြောက်ပိုင်းနှင့် အရှေ့မြောက်ပိုင်းတို့သို့လည်း ရောက်ရှိ ပြန့်နှံ့နေထိုင်ကြသည်။ ယိုးဒယားနိုင်ငံ မြောက်ပိုင်း၌ ယင်းတို့ကို ထိုင်းယွန်း (ရှမ်း)ဟု ခေါ်ကြသည်။ လူဦးရေ နှစ်သန်းကျော်ရှိ၍ ဇင်းမယ်၊ လန်ဖုန်း၊ လမ်ပန်း၊ နန်းနှင့် ဖရဲ ခရိုင်များတွင် တွေ့ရသည်။ ယင်းတို့အပြင် မဲ့ဟောင်စောင်း ခရိုင်ရှိ ၅၀,၀၀၀ ခန့်ရှိသော ရှမ်းများ (ထိုင်းယိုင်)၊ လန်ဖုန်းနှင့် အခြားခရိုင်တို့တွင်တွေ့ရသော လု ၃၀,၀၀၀ ခန့်တို့လည်း ရှိသေး၏။ ရှေးက ဤယွန်းရှမ်းတို့ကို လဝ်းပုံလမ် (ဝမ်းပိုက်မည်းလဝ်များ—ဝမ်းပိုက်တွင် ဆေးမှင်ထိုးထား၍ ဖြစ်၏။)၊ အရှေ့ဖက် မဲခေါင်မြစ်ဝှမ်းနှင့် ယိုးဒယားနိုင်ငံ အရှေ့မြောက်ဖက်ရှိ ရှမ်းများကို လဝ်းပုံခေါင် (ဝမ်းပိုက်ဖြူလဝ်များ) ဟု ခေါ်ကြသည်။ အခြားတနည်းအားဖြင့် လောနိုင်ငံနှင့် ယိုးဒယား အရှေ့ဖက်ရှိ ရှမ်းများကို ထိုင်းနွဲ (ရှမ်းကလေး)၊ အနောက်ဖက်ပိုင်းရှိ ရှမ်းများကို ထိုင်းလုန် (ရှမ်းကြီး) (ယိုးဒယားအခေါ် ထိုင်းယိုင်)ဟု ခွဲခြား သိကြ၏။ ယွန်းရှမ်းတို့၏ ဒေသမှာ မဲနမ်မြစ်၏ မြောက်ဖျား လက်တက်များ ဖြစ်သည့် ပင်၊ ဝန်၊ ယောမ်၊ နမ့်တည်းဟူသော မြစ်တို့၏ မြစ်ဝှမ်းဒေသများ ဖြစ်သည်ဟု အကြမ်းအားဖြင့် ဆိုနိုင်ပေသည်။ မြန်မာနိုင်ငံတွင် ပြုလုပ်သုံးစွဲခဲ့သော ယွန်းထည်မှာ ယွန်းရှမ်းတို့ကို အကြောင်းပြု၍ ခေါ်ဝေါ်သော အမည်ဖြစ်လေသည်။

ယွန်းရှမ်းတို့သည် တောင်ဖက်ရှိ ယိုးဒယားရှမ်းတို့ထက် အရပ် အနည်းငယ်ပိုရှည်၍ ရုပ်ရည် ပိုမိုသန့်ပြန့်လှပကြ၏။ ပြောဆိုသော ရှမ်းစကားမှာလည်း တောင်ဖက်ပိုင်းတွင် ပြောဆိုသော 'ထီးသုံးနန်းသုံး ယိုးဒယားစကား'၊ အနောက်ပိုင်းနှင့် အရှေ့မြောက်ပိုင်းတွင် ပြောဆိုသော ယိုးဒယားစကားတို့နှင့် အတန်ကွာသည်။ ခမာနှင့် သက္ကတဝေါဟာရ

လည်း ပို၍ နည်းသည်။ အသုံးပြုခဲ့သော အက္ခရာမှာ မြန်မာ-မွန်အက္ခရာ ဖြစ်သည်။ ယခုအခါတွင်ကား ယိုးဒယား (သောက္ကတဲ) အက္ခရာကို ပြောင်းလဲ အသုံးပြုနေသည်။

ဤဒေသသည် မြန်မာနိုင်ငံတွင်း အနှစ် ၂၀၀ ခန့်ပါဝင်ခဲ့သဖြင့် မြန်မာဝေါဟာရ၊ မြန်မာ့ယဉ်ကျေးမှု၊ ဓလေ့ထုံးစံ၊ မြန်မာ ဗိသုကာနှင့် အနုပညာ လက်မှုအနုပညာတို့ကိုလည်း ရရှိထားကြသည်ကို ယနေ့တိုင် တွေ့နိုင်သေးသည်။ ဤယွန်း ရှမ်းတို့၏ ဒေသကို ယောနကရဋ္ဌ၊ သို့မဟုတ် လန်နာ၊ ကျိုင်းမ် (ဇင်းမယ်) ပြည်ကြီးဟု မြန်မာရာဇဝင်ကျမ်းတို့က ဖော်ပြကြသည်။ အမျိုးရောစပ်ခြင်း များစွာမရှိသေးဘဲ မြန်မာနိုင်ငံ ရှမ်းပြည်တောင်ပိုင်းရှိ ရှမ်းတို့နှင့် များစွာတူသည့် ရှမ်းများ ဖြစ်ကြသည်။

(ခ) ခိုရတ်ရှမ်းများ။ ။ယိုးဒယားနိုင်ငံ အရှေ့မြောက်ပိုင်း ခိုရတ်(ကောရတ်)ကုန်းမြင့်ပေါ်တွင် နေထိုင်သော ရှမ်းတို့ကို ယိုးဒယားတို့က "ထိုင်းခိုရတ်"ဟုခေါ်ကြသည်။ကမ္ဘောဒီးယားပိုင်ခဲ့သော ခိုရတ်နယ်ကို ၁၄ ရာစု နှစ်ဦးပိုင်းလောက်က ယိုးဒယားဘုရင် ရာမာဓိပတိ သိမ်းပိုက်ပြီးနောက် ကမ္ဘောဒီးယားနှင့်ထိုင်းတို့ အမျိုးရောရက်ရာမှဆင်းသက်လာသူများ ဖြစ်ကြသည်။ အဆင်းကြန်အင်တွင် ရှမ်း (တိုင်း) တို့နှင့် တူသည်ထက် ခမာ (ကမ္ဘောဒီးယားလူမျိုး)တို့နှင့် ပို၍ တူသည်။ ချိုယဖုမ်နယ်၏ ဥဒုန်တိုက်နယ် အနောက်ပိုင်းနှင့် တောင်ပိုင်း၊ ခိုရတ်နယ်၏ အနောက်ပိုင်းနှင့် တောင်ပိုင်း၊ ရှိုင်အစ်တိုက်နယ်တို့တွင် လဝ်ဝိုင်များကိုရင်း၊ ဥဒုန်တိုက်နယ်တခုလုံးတွင် လဝ်ခေါင်များကိုရင်း တွေ့ရ၏။ ပါက်အီစန်ခေါ်သော ဤအရှေ့မြောက်ပိုင်းဒေသတွင် ရှမ်း (တိုင်း) ဦးရေ ငါးသန်းခန့်ရှိသည်။ယင်းအရေအတွက်တွင် ဖုထိုင်နှစ်သိန်းကျော် ပါဝင်၏။ နခုန်ဖနွမ်၊စကွန်နခုန်ကာလစင်၊ ဥဒုန်နှင့် စီစကစ်နယ်များတွင် ဖုထိုင်တို့ကို ရွာသီးခြားနှင့် တွေ့ရလေသည်။

(ဂ) ယိုးဒယား ရှမ်းများ။ ။ပါက်အီစန်ရှိ ရှမ်းအမျိုးသား ဦးရေမှာ မဲနန်မြစ်ဝှမ်းတောင်ပိုင်းရှိ ယိုးဒယား အမျိုးသားတို့၏ ဦးရေနီးပါးရှိ၏။ မြောက်ဖက် ဥတ္တရဒစ်မှ တောင်ဖက်ဖတ်ဘူရီထိတွေ့ရသည်။ လူဦးရေမှာ လေးသန်းခွဲခန့်ဟု ခန့်မှန်းကြ၏။ ဤယိုးဒယားတို့ကို ယိုးဒယားနိုင်ငံ၏ အချက်အချာ လူမျိုးဟု ယူဆကြ၏။ သူတို့၏ ဒေသမှာ ယိုးဒယားနိုင်ငံ အလယ်ပိုင်း မင်းစံနေပြည်တော်များ ရှိခဲ့ရာ ဒေသဖြစ်သည်။ သူတို့ပြောဆိုသော စကားမှာ စံထားသော ယိုးဒယားစကားဖြစ်၏။ 'ထီးသုံးနန်းသုံး' စကားဟုလည်း ခေါ်ကြသည်။ ဤယိုးဒယားရှမ်းတို့မှာလည်း ခမာတို့နှင့် သွေးစပ်ရာမှ ဆင်းသက်လာသူများ ဖြစ်ကြသည်။ သို့ဖြစ်၍ ယင်းတို့ကို တိုင်ခုမ်ဟုလည်း ခေါ်ကြသည်။ ယခုအခါတွင် ခေတ်ဆန်၍ အနောက်တိုင်းသားများကဲ့သို့ ဝတ်ဆင်ကြ၏။

(ဃ) ယိုးဒယားနိုင်ငံ တောင်ပိုင်း ရှမ်းများ ။ ။ယိုးဒယားနိုင်ငံ တောင်ဖက်ပိုင်းနှင့် တောင်ဖက် မလ္လာယုကျွန်းဆွယ်တလျှောက်တွင် နေထိုင်လျက် ရှိကြသော ရှမ်း(ထိုင်း)တို့မှာလည်း မွန်ခမာများ၊ မလေးများ၊ နီဂရစ်တိုများနှင့် သွေးစပ်လာခဲ့ကြသူများ ဖြစ်ကြသည်။ လူဦးရေ တသန်းခွဲခန့်ရှိ၏။ ချမ်ဖုန်၊ နခုန်စီထမရတ်၊ ပုကက်ဒေသများတွင် နေကြသည်။ ယင်းတို့ကို တောင်ပိုင်းထိုင်း၊ သို့မဟုတ် ပါက်ထိုင်းဟု ခေါ်ကြသည်။ အသားညို၍ မြောက်ပိုင်းရှိ ထိုင်းတို့နှင့် သွင်ပြင်မတူကြပေ။ ပြောဆိုသော စကားမှာ ယိုးဒယား (ထိုင်း)ပင် ဖြစ်သော်လည်း အသံမတူ ကွဲပြားသည်။ ယိုးဒယားပိုင် တောင်ဖက်အစွန်ဆုံးရှိ အနောက်ပိုင်း မလ္လာယုနယ်တွင် နေကြသော သူတို့မှာ မလေးနှင့် ပိုမိုတူကြသည်။ ယင်းတို့ကို စမ်စမ်ဟု ခေါ်ကြသည်။

(င) ယိုးဒယားနိုင်ငံ ရှမ်းတို့၏ ရှေးဦးပိုင်းဖြစ်စဉ်။ ။ ၁၂၅၃ ခုနှစ်တွင် နန်ချောင် ဒေသကို တာတာတို့တိုက်ခိုက်ပြီးမှ အစုအရုံးလိုက် စံနစ်တကျ ရွှေ့ပြောင်း နေထိုင်လာခဲ့ကြသည် မှန်သော်လည်း ရှမ်း အမျိုးသားတို့သည် ယင်းကာလမတိုင်မီကပင် ယိုးဒယားနိုင်ငံဖက်ဆီသို့ ရွှေ့ပြောင်း နေခဲ့ကြပြီးဖြစ်သည်။ နန်ချောင်ကို တာတာတို့ စတင်တိုက်ခိုက်ပြီးနောက် ကိုးနှစ်အကြာ ၁၂၆၂ ခုနှစ်တွင် ဗုဒ္ဓဝါဒီတဦးဖြစ်သော ရှမ်းအကြီးအကဲ မန်းရိုင်း (မင်းရဲ)သည် ယိုးဒယားနိုင်ငံ မြောက်ဖက် အစွန်းတွင်ရှိသော ကျိန်းရိုင်း (ကျိုင်းရဲ) မြို့ကို တည်ထောင်ခဲ့သည်။

(စ) တိုင်းတို့၏ ရှေးယခင် ဖြစ်စဉ်။ ။တိဗက်-မြန်မာစကားနှင့် ရှမ်း (တိုင်း) စကားတို့ကို ပြောဆိုသူများ မရောက်မီက အာရှတိုက် အရှေ့တောင်ပိုင်းတွင် အာနန်ရှိ ချမ်းများ၊ ကမ္ဘောဒီးယားရှိ ခမာများ၊ ယိုးဒယားနိုင်ငံ တောင်ပိုင်းနှင့် မြန်မာနိုင်ငံ တောင်ပိုင်းရှိ မွန်များသည် အိန္ဒိယယဉ်ကျေးမှုကို အခြေပြုသည့် အထက်တန်းကျသော ယဉ်ကျေးမှုဖြင့် ကြီးစိုးခဲ့ကြသော လူမျိုးများ ဖြစ်သည်။ ဘာသာဗေဒအားဖြင့် ယင်းလူမျိုးတို့သည် ကျယ်ပြန့်လှသည့် ဩစတြစ်အနွယ်ကြီးတွင် ပါဝင်ကြသည်။

ယိုးဒယားပင်လယ်ကွေ့၏ ထိပ်ပိုင်းရှိ ဒွာရဝတီမွန်နိုင်ငံသည် အေဒီခုနစ်ရာစုနှစ် ပဌမပိုင်းတွင် တန်ခိုးကြီးခဲ့၏။ အချက်အချာ ဒေသတို့မှာ နခုန်ပထောမ်နှင့် လောဗ္ဗုရီမြို့များဖြစ်သည်။ လောဗ္ဗုရီမှ စာမဒေဝီမည်သော ဘုရင်မသည် ယိုးဒယားနိုင်ငံမြောက်ပိုင်း ယခု လန်ဖုန်းဒေသတွင် ဟရိပုဉ္စတိုင်းကိုတည်ထောင်ခဲ့၏။ တောင်ဖက် နခုန်စီထမရတ် (နဂရသီရိဓမ္မရာဇ)မြို့ကို ဗဟိုပြု၍ ဗုဒ္ဓဝါဒီနိုင်ငံတခုလည်း ပေါ်ပေါက်ခဲ့၏။ အရှေ့ဖက် ကမ္ဘောဒီးယားပြည်တွင်ကား အင်းကောဝတ်ကို ဗဟိုပြု၍ သိဝနတ်ကိုကိုးကွယ်သော ခမာနိုင်ငံသည် တန်ခိုးကြီးလျက်ရှိခဲ့၏။ ဆဲ့တစ်ရာစုနှစ်များ

၏ အစပိုင်းတွင် အဆိုပါ ဗုဒ္ဓဝါဒီ မွန်သုံးနိုင်ငံတို့သည် အချင်းချင်း စစ်မက်ဖြစ်ပွား၍ တိုက်ခိုက်ကြသည်။ အရှေ့ဖက်ရှိ ခမာနိုင်ငံနှင့်လည်း စစ်ဆင်နွှဲခဲ့ကြသည်။ ဤစစ်မက်ရေးရာတို့တွင် အင်အားကြီးလှသော ခမာနိုင်ငံသည် လောဗ္ဗူရီနိုင်ငံကို သိမ်းပိုက်နိုင်ခဲ့၏။ ဟရိပုဥ္စကိုကား မသိမ်းပိုက်နိုင်ခဲ့ပေ။ ဟံသာဝတီ မွန်ပြည်ကိုလည်း တိုက်ခိုက်ကြသေး၏။ သို့သော် မအောင်မြင်ခဲ့ပေ။ သို့ဖြစ်ရကား ရှမ်း(တိုင်း) တို့မရောက်လာမီ ယခု ယိုးဒယားပြည်သည် မွန်နှင့် လဝတို့၏ ပြည်ဖြစ်ခဲ့သည်။ ၁၃ ရာစုနှစ် နောက်ပိုင်းတွင် ရှမ်း (တိုင်း) တို့ အလုံးအရင်းနှင့် ဝင်ရောက်လာသောအခါ ယင်းတို့ကို ဟရိပုဥ္စမွန်ပြည်က ဟန့်တား ခုခံ တိုက်ခိုက်ခဲ့သည်။

မန်းရိုင်း(မင်းရဲ)သည် ၁၂၈၀–၉၂ ခုနှစ်တွင် ဟရိပုဥ္စပြည်ကိုအောင်နိုင်၍၊ ၁၂၉၆ ခုနှစ်တွင် ဇင်းမယ်ကို ဗဟိုပြုကာ ယောနကရဋ္ဌပြည်ကို တည်ထောင်သည်။ ဤဇင်းမယ်ပြည်သည် လန်နာတိုင်းဟုလည်း တွင်၏။ခေတ်ပြိုင်တရုပ်မှတ်တမ်းတို့တွင် ပပိုင်ဆိဖူဟု ခေါ်သည်။

ယိုးဒယားနိုင်ငံ အလယ်ပိုင်း မယ်နန်မြစ်ဝှမ်းတွင် အခြားရှမ်း(တိုင်း)တို့သည် ကမ္ဘောဒီးယား ခမာတို့ကို တော်လှန်၍ ၁၂၅၆ ခု နှစ်တွင် သောက္ကတဲမြို့ကို တည်ထောင်ခဲ့ကြသည်။ ဤပြည်ကို ခေတ်ပြိုင်တရုပ်မှတ်တမ်းတို့တွင် စီယန်၊ သို့မဟုတ် စီယန်လိုဟု ခေါ်သည်။ ဒုတိယ သောက္ကတဲမင်း ဖြစ်သော ရမ်ခါမိန် (ရာမဂါမဟိ)သည် ၁၂၈၃ ခုနှစ်တွင် ယိုးဒယားစာကို တီထွင်ခဲ့သည်။ ၁၂၉၂ ခုနှစ်တွင် ရေးထိုးသော ပဌမဆုံး ယိုးဒယား ကျောက်စာတွင် သောက္ကတဲ ဘုရင်သည် အနောက်ဖက်တွင် ဟံသာဝတီ၊ အရှေ့ဖက်တွင် လောဝ (လဝ) ပြည်၏ လွမ်ပရဗန်မြို့အထိ အာဏာစက်ပြန့်သည်ဟု ဖော်ပြထား၏။

ရှမ်းနှင့်ကမ္ဘောဒီးယား-ခမာတို့၏ အာဏာလုပွဲသည် ယိုးဒယားပြည် တောင်ပိုင်းတွင် ဆက်လက် ဖြစ်ပွားခဲ့ရာ ၁၃၅၀ ပြည့်နှစ်တွင် ရှမ်းတို့သည် လောဗ္ဗူရီမြို့ကို သိမ်းပိုက်နိုင်ခဲ့သည်။ ကျိန်းရိုင်း (ကျိုင်းရဲ)မှ ရွှေ့ပြောင်း နေထိုင်လာသော ရှမ်း (တိုင်း) တို့သည် သောက္ကတဲကို အောင်နိုင်ပြီးနောက် ၁၃၅၁ ခုနှစ်တွင် အယုဒ္ဓယမြို့ကို တည်ထောင်ခဲ့၍ ယိုးဒယားပြည်တောင်ပိုင်း တခုလုံးကို သိမ်းသွင်း အုပ်ချုပ်နိုင်ခဲ့သည်။ ထိုနောက် နှစ်တရာအတွင်း ရှမ်း (တိုင်း)တို့သည် အင်းကောမြို့ အပါအဝင် ကမ္ဘောဒီးယား တပြည်လုံးလောက်ကို အောင်နိုင်သိမ်းပိုက်ခဲ့၍ ခမာတို့၏ ယဉ်ကျေးမှု၊ အုပ်ချုပ်ရေးနှင့် ဓလေ့ထုံးစံတို့ကိုလည်း ရရှိခဲ့ကြသည်။ ထိုနောက်ပိုင်းတွင် တောင်ဖက် မလ္လာယု ကျွန်းဆွယ်ဖက်သို့ ဆက်လက် ပြန့်နှံ့ခဲ့ကြလေသည်။

ဆဲ့ခြောက် ရာစုနှစ်များအတွင်း မြန်မာနိုင်ငံ ဟံသာဝတီဆင်ဖြူများရှင် ဘုရင့်နောင် လက်ထက်တွင် တကြိမ်၊ ၁၈ ရာစုနှစ်များ အတွင်း မြန်မာနိုင်ငံ ကုန်းဘောင်မင်းဆက် ဆင်ဖြူရှင် လက်ထက်တွင်တကြိမ်၊ မြန်မာတို့၏ တိုက်ခိုက်သိမ်းပိုက်ခြင်းကို ခံရသည်မှတပါး အာရှတိုက် အရှေ့တောင်ပိုင်းတွင် ယိုးဒယားနိုင်ငံ တနိုင်ငံတည်းသာ နိုင်ငံရေးတွင် ဥရောပနိုင်ငံတို့၏ နယ်ချဲ့ဘေးဒဏ်မှလွတ်ကင်းခဲ့၍ ယနေ့တိုင်လွတ်လပ်သောနိုင်ငံတခုအဖြစ်ဖြင့် တည်လျက် ရှိပေသည်။

**၁၁။ မြန်မာနိုင်ငံရှိ ရှမ်းများ**

၁၉၃၁ ခုနှစ် သန်ကောင်စာရင်းအရ မြန်မာနိုင်ငံတွင် ရှမ်းဘာသာစကားကို ပြောဆိုသူ ဦးရေ ၁,၀၃၇,၃၅၆ ဦးရှိကြောင်း သိရသည်။ သို့ရာတွင် ၁၉၃၁ ခုနှစ် နောက်ပိုင်းတွင် တိကျသော အရေအတွက်ကို မရရှိနိုင်သေးသဖြင့် ဤ ၁၉၃၁ ခုနှစ် သန်ကောင်စာရင်းကိုသာ အခြေပြုဖော်ပြနိုင်ပေမည်။ မြန်မာနိုင်ငံတွင် အခြား တိုင်းရင်းသားတို့၏ ဖြစ်စဉ်နှင့် နှိုင်းယှဉ်၍ ရှမ်းအမျိုးသားတို့၏ ဖြစ်စဉ်ကို သိရှိနိုင်ရန် ရှမ်းလူမျိုးစုများ၊ ယင်းတို့၏ ဦးရေနှင့် နေထိုင်ရာဒေသတို့အပြင် ရှမ်းစကားပြောသူများသည် မြန်မာနိုင်ငံတွင်း အခြားဘာသာစကားပြောသူ တိုင်းရင်းသားများနှင့်မည်မျှ နီးစပ်စွာ ဆက်သွယ်နေထိုင်လျက် ရှိသည်ကို သိရှိနိုင်ရန် လိုပေသည်။

မြန်မာနိုင်ငံတွင်းရှိ ရှမ်းတို့၏ အမျိုးစုများ၊ ဦးရေနှင့် နေထိုင်ရာဒေသတို့ကို အောက်ပါ ဇယားအရ သိနိုင်ပေသည်။

(က) ရှမ်းအမျိုးအမည်

| အမျိုးအမည် | အရေအတွက် | နေထိုင်ရာဒေသ |
|---|---|---|
| (၁) ရှမ်း | ၉၁၄,၃၇၉ | ရှမ်းပြည်တောင်ပိုင်း၊ ရှမ်းပြည်မြောက်ပိုင်း၊ အထက်ချင်းတွင်းခရိုင် (မော်လိုက်ခရိုင်)၊ မြစ်ကြီးနားခရိုင်၊ ကသာခရိုင်၊ ဗန်းမော်ခရိုင် တောင်ငူခရိုင်၊ ကျိုက္ကမီခရိုင် (မော်လမြိုင်ခရိုင်)၊ ကယားပြည်နယ် စသည်များ။ |
| (၂) ခွန်(ခင်) (ဂုံ) | ၃၁,၂၃၄ | ကျိုင်းတုံနယ်၊ |
| (၃) လု(လူး) | ၁၀,၀၁၁ | ကျိုင်းတုံနယ်၊ |
| (၄) ရှမ်းတရုပ် | ၁၈,၂၇၀ | ရှမ်းပြည်မြောက်ပိုင်း၊ ရှမ်းပြည်တောင်ပိုင်း၊ မြစ်ကြီးနားခရိုင်၊ ဗန်းမော်ခရိုင်၊ ကသာခရိုင်၊ |

| | | |
|---|---|---|
| (၅) ယိုးဒယား | ၈,၆၄၈ | ကျိုက္ကမီခရိုင် (မော်လမြိုင်ခရိုင်)၊ မြိတ်ခရိုင်၊ |
| (၆) ရှမ်းဗမာ | ၇,၇၃၈ | မြစ်ကြီးနားခရိုင်၊ |
| (၇) လော(လဝ်) | ၇,၁၆၃ | ရှမ်းပြည်တောင်ပိုင်း၊ ကရင်ပြည်နယ် (ကော်သူးလေ ပြည်နယ်)၊ ကျိုက္ကမီခရိုင် (မော်လမြိုင်ခရိုင်)၊ |
| (၈) တိုင်းလင် | ၂,၆၄၈ | ကျိုင်းတုံနယ်၊ |
| (၉) ခန္တီး | ၁,၁၀၃ | မြစ်ကြီးနားခရိုင်၊ |
| (၁၀) ဒရယ်(သူရဲ) | ၆၉၈ | ရှမ်းပြည်တောင်ပိုင်း၊ |

(ခ) ပြန့်နှံ့နေပုံ။ ။အထက်ပါ ဇယားအရ ရှမ်းတို့၏ အရေအတွက်မှာ ရှမ်းအစုဝင်စကားများ ပြောသူ အားလုံး တို့၏ ဆယ်ပုံ ကိုးပုံခန့်ရှိသည်။ ယင်းတို့အနက် အများစုသည် ရှမ်းပြည်၊ မြန်မာနိုင်ငံ မြောက်ပိုင်းနှင့် အနေ‌ာက်မြောက်ပိုင်းဒေသတို့၌ နေထိုင်၍ အနည်းစုမှာ မြန်မာနိုင်ငံအတွင်းပိုင်းသို့ ရောက်အောင် ပြန့်နှံ့နေသည်ကို တွေ့ရသည်။ အသံကွဲ ရှမ်းစကားများကို ပြောသော ခွန် (ခင်) (ဂုံ)၊ လု၊ လော (လဝ်)၊ တိုင်းလင်၊ ရှမ်းတရုပ်နှင့် ဒရယ် (သူရဲ) တို့ကို ရှမ်းပြည်တောင်ပိုင်း၌ရင်း၊ ရှမ်းဗမာ၊ ခန္တီးရှမ်းနှင့် ရှမ်းတရုပ်တို့ကို ယခု ကချင်ပြည်နယ်၊ ကသာခရိုင်နှင့် မော်လိုက်ခရိုင် (အထက်ချင်းတွင်းခရိုင်) များ ဖြစ်သည့် မြန်မာနိုင်ငံ၏ မြောက်ဖက် အစွန်နှင့် အနေ‌ာက်ဖက် အစွန် ဝေးလံသော ဒေသများတွင်ရင်း၊ ယိုးဒယားများကို ယိုးဒယားနိုင်ငံနှင့် စပ်နေသော မြိတ်ခရိုင်၊ ကျိုက္ကမီခရိုင် (မော်လမြိုင်ခရိုင်) တို့၌ရင်း ပြန့်နှံ့လျက် ရှိသည်ကို တွေ့ရပေမည်။

| ဒေသ | လူဦးရေ | ရှမ်းဦးရေ | ရာနှုန်း | အခြားတိုင်းရင်းသားများ | ရာနှုန်း |
|---|---|---|---|---|---|
| (၁) ရှမ်းပြည် တောင်ပိုင်း | ၈၇၀,၂၃၀ | ၄၀၈,၇၅၆ | ၄၇ | ကရင် | ၂၀.၃ |
| | | | | မြန်မာအစု | ၁၆.၅ |
| | | | | လိုလိုအစု | ၈.၆ |
| | | | | ပလောင်-ဝ အစု | ၅.၅ |
| | | | | အိန္ဒိယ | ၁ |
| (၂) ရှမ်းပြည် မြောက်ပိုင်း | ၆၁၆,၄၅၈ | ၂၈၉,၁၃၂ | ၄၆.၉ | ပလောင်အစု | ၂၀ |
| | | | | ကချင် | ၁၀ |
| | | | | တရုပ် | ၁၀ |
| | | | | မြန်မာအစု | ၇.၇ |
| | | | | အိန္ဒိယ | ၃.၄ |
| | | | | လိုလိုအစု | ၁.၅ |
| (၃) အထက်ချင်းတွင်းခရိုင် (မော်လိုက်ခရိုင်) | ၂၀၄,၉၈၂ | ၈၆,၆၇၂ | ၄၂.၃ | မြန်မာ | ၄၈ |
| | | | | ချင်းအစု | ၃.၂ |
| | | | | အိန္ဒိယ | ၂.၆ |
| | | | | နာဂ | ၂ |
| (၄) မြစ်ကြီးနားခရိုင် | ၁၇၁,၅၂၃ | ၆၂,၁၂၆ | ၃၆.၂ | ကချင် | ၂၃.၃ |
| | | | | ရှေးဦး မြန်မာအစု | ၁၄ |
| | | | | အိန္ဒိယ | ၉.၇ |
| | | | | မြန်မာ | ၈ |
| | | | | လိုလို | ၃.၅ |
| | | | | တရုပ် | ၂.၃ |
| | | | | သက် | ၁.၉ |
| (၅) ဗန်းမော် ခရိုင် | ၁၂၁,၁၉၃ | ၃၄,၅၅၀ | ၂၈.၅ | ကချင် | ၃၈.၆ |
| | | | | မြန်မာ | ၂၆.၅ |
| | | | | အိန္ဒိယ | ၂.၇ |
| | | | | တရုပ် | ၂ |
| | | | | လီဆူ | ၁ |

| | | | | | |
|---|---|---|---|---|---|
| (၆) ကသာခရိုင် | ၂၅၄,၁၇၀ | ၄၈,၀၄၇ | ၁၈.၉ | မြန်မာ | ၆၅ |
| | | | | သက်အစု | ၉.၁ |
| | | | | အိန္ဒိယ | ၂.၇ |
| | | | | ပလောင် | ၁.၉ |
| | | | | တရုပ် | ၁.၁ |
| (၇) ကရင်နီနယ် | ၅၈,၇၆၁ | ၁၁,၃၈၃ | ၁၉.၄ | ကရင် | ၇၃.၃ |
| (ကယားပြည်နယ်) | | | | မြန်မာ | ၃.၈ |
| (၈) သံလွင်ခရိုင် | ၅၃,၁၈၆ | ၄,၁၀၀ | ၇.၇ | ကရင် | ၈၆ |
| (ကော်သူးလေပြည်နယ်) | | | | မြန်မာ | ၄.၁ |
| (၉) မြိတ်ခရိုင် | ၁၆၁,၉၈၇ | ၁၂,၄၂၀ | ၇.၇ | မြိတ် | ၆၂.၃ |
| | | | | ကရင် | ၁၃.၄ |
| | | | | အိန္ဒိယ | ၅.၈ |
| (၁၀) တောင်ငူခရိုင် | ၄၂၈,၆၇၀ | ၁၆,၂၃၁ | ၃.၃ | မွန် | ၄၅.၆ |
| | | | | ကရင် | ၂၀.၅ |
| (၁၁) ကျိုက္ခမိ ခရိုင် | ၅၁၆,၂၃၃ | ၁၆,၈၁၈ | ၃.၃ | မွန် | ၄၅.၆ |
| (မော်လမြိုင်ခရိုင်) | | | | ကရင် | ၂၀.၆ |

(ဂ)အခြား တိုင်းရင်းသားများနှင့် ဦးရေချင်း နှိုင်းယှဉ်ချက်။ ။ရှမ်းအမျိုးသားတို့နှင့် အခြား အမျိုးသားတို့ မည်သို့ နီးစပ်စွာ ဆက်သွယ်နေထိုင်လျက်ရှိသည်ကို အထက်ပါဇယားတွင် တွေ့ရပေမည်။

အထက်ပါ ဇယားအရ ရှမ်းတို့သည် မိမိတို့ရှိရာ နေရာတိုင်း၌ အခြားလူမျိုးစုများနှင့် ရောနှောနေသည်။ တသန်းကျော်သော ရှမ်းအမျိုးသားတို့အနက် ခုနစ်သိန်းခန့်သာ ရှမ်းပြည်တွင်ရှိ၍ သုံးသိန်းနှစ်သောင်းကျော်မှာ ရှမ်းပြည်၏ အပ၌ ရှိနေရာ ရှမ်းအမျိုးသားတို့၏ သုံးပုံ တပုံမှာ မြန်မာနိုင်ငံ အခြားဒေသများ၌ အခြားတိုင်းရင်းသားတို့ နည်းတူ ရောက်ရှိနေကြောင်း သိရပေသည်။

(ဃ)ရှမ်း။ ။မြန်မာ နိုင်ငံတွင် ရှမ်း (တိုင်း) အနွယ်ခွဲဝင် ဘာသာစကားများကို ပြောဆိုသူတို့အနက် ဦးရေ အများဆုံးဖြစ်သော ရှမ်းတို့၏ အမည်သည် ရှေးကျသည်။ ယိုးဒယားပြည်ကို မတည်ထောင်မီကတည်းကရှိသော အမည်ဖြစ်သည်။ ရှေးဟောင်း မြန်မာ ကျောက်စာတို့တွင် အေဒီ ၁၁၂၀ ပြည့်နှစ်လောက်မှ စ၍ သျံ၊ သျမ်ဟု တွေ့ရသည်။ ချမ် ကျောက်စာတို့တွင်မူ ရှမ်းအမည်ကို အေဒီ ၁၀၅၀ ပြည့်နှစ် မတိုင်မီက တွေ့ရသည်။ မြန်မာနိုင်ငံရှိ ရှမ်းအားလုံးလိုပင် ဗုဒ္ဓဝါဒီများ ဖြစ်ကြသည်။ ၉၉.၃၅ ရာခိုင်နှုန်းရှိကြောင်း ၁၉၃၁ ခုနှစ် သန်ကောင်စာရင်းမှ သိရသည်။

(င)ခန္တီး။ ။ခန္တီးမှာ "ခါမ်တီ" ရွှေမြေဟု အဓိပ္ပာယ်ရ၏။ ရှမ်း ဘာသာနှင့် ခံတီဟု ရေးသည်။ အလျှုရှင်၊ သက်သေ၊ ဘုရားကျွန်များအဖြစ် ရှေးမြန်မာ ကျောက်စာတို့တွင် တွေ့ရသည်။ စကုအနီးရှိ နေရာတခုအမည် အဖြစ်နှင့်လည်း တွေ့ရ၏။ ယင်းနေရာမှာ ခန္တီးရှမ်းတို့ စတည်းချနေထိုင်ရာဒေသဖြစ်ပေမည်။ ယခုအခါတွင် မြစ်ကြီးနားခရိုင် ပူတာအိုနယ်ရှိ ခန္တီးလုံ(ခန္တီးကြီး)၊ချင်းတွင်းမြစ်ဖျားဒေသရှိ ဇင်္ဂလိန် ခန္တီးနယ်တို့၏ အမည်များနှင့် ထိုဒေသရှိ ရှမ်းတို့၏ အမည်အဖြစ် ခန္တီးကို သုံးလျက်ရှိ၏။

ခန္တီးရှမ်း အများစုသည်လည်း ဗုဒ္ဓဝါဒီများ ဖြစ်ကြ၏။ ခန္တီးတို့၏ နယ်မှာ ရှေးက ဟူးကောင်းမြေပြန့်မှ ချင်းတွင်းမြစ်ဝှမ်း တလျှောက် တောင်ဖက် သောင်သွပ်၊ ကလေးမြို့များအထိ ပြန့်နှံ့ခဲ့သော ရှမ်းဒေသမှ မြောက်ပိုင်းတွင် ကွက်၍ ကျန်ခဲ့သော နယ်များဖြစ်ပေသည်။

(စ) ဂုံနှင့် လု (လူး)။ ။ခွန် (ခင်)ရှမ်းတို့ကို မြန်မာတို့က ဂုံဟု ခေါ်ကြသည်။ တောင်ဖက် ဇင်းမယ်နယ်မှ ရွှေ့ပြောင်းလာကြ၍ မွန်-ခမာအနွယ်ဝင် လဝတို့ နေထိုင်ရာ ကျိုင်းတုံနယ်တွင် နေထိုင်လာကြသူများ ဖြစ်သည်။ လု (လူး) တို့မှာ အရှေ့မြောက် ကျိုင်းရုံးကြီးဖက်မှ ကျိုင်းတုံနယ်တွင်းသို့ ရွှေ့ပြောင်းလာကြသူများ ဖြစ်သည်။ တောင်ဖက်၊ အရှေ့ဖက်နှင့် အရှေ့တောင်ဖက် ဒေသများဖြစ်သော ယိုးဒယားပြည် မြောက်ပိုင်း၊ လော (လဝ်) ပြည်၊ ကျိုင်းရုံးကြီး ဒေသရှိ လု(လူး) တို့နှင့် ဆက်စပ်နေပေသည်။ ဂုံ နှင့် လု အများစုတို့မှာလည်း ဗုဒ္ဓဝါဒီများဖြစ်ကြ၏။ဂုံတို့၌ ကိုယ်ပိုင်စာပေ ရှိကြသည်။

(ဆ) ရှမ်းတရုပ်၊ ရှမ်းဗမာ။ ။ရှမ်းတရုပ်တို့သည် မြစ်ကြီးနားခရိုင်မှ ဗန်းမော်ခရိုင်၊ကသာခရိုင်၊ရှမ်းပြည် မြောက်ပိုင်းနှင့် တောင်ပိုင်း ဒေသအထိ ပြန့်နှံ့နေသူများ ဖြစ်ကြ၏။ ယင်းတို့ကို တိုင်းချယ်ဟု ခေါ်ကြသည်။

ရှမ်းဗမာ ဟူသော အမည်သည် မရှင်းလင်းလှပေ။ ယင်းတို့သည် ရှမ်းများသာ ဖြစ်သည်။ သို့ရာတွင် အတော်ပင် မြန်မာဆံသူများ ဖြစ်ကြ၏။ ယင်း ရှမ်းတရုပ်၊ ရှမ်းဗမာတို့ကို တိုင်းမန့်ဟုလည်း ခေါ်ကြသည်။

(ဇ) ဒရယ်(သူရဲ) နှင့် တိုင်းလင်။ ။ဒရယ်(သူရဲ)လူမျိုးတို့ကို ရှမ်းပြည်တောင်ပိုင်း၏ အနောက်ဖက်ပိုင်းတွင် တွေ့ရ၏။ ဘာသာစကားသည် မြန်မာစကားနှင့် ရောနှောလျက်ရှိပေပြီ။ တိုင်းလင်တို့သည် ကျိုင်းတုံမြောက်ဖက် မိုင်းလင်းမှ ရွှေ့ပြောင်းလာသူများ ဖြစ်၏။ ယင်းတို့သည်လည်း ရှမ်းပြည်တောင်ပိုင်း၏ အနောက်ဖက်ပိုင်း ဒေသတွင် နေထိုင်ကြ၏။ ဒရယ် (သူရဲ) နှင့် တိုင်းလင်တို့သည် အားလုံး ဗုဒ္ဓဝါဒီများ ဖြစ်ကြသည်။

## ၁၂။ မြန်မာနိုင်ငံ ရှမ်းတို့၏ ရှေးဦးသမိုင်း

ကိုးရာစုနှစ်များအတွင်းလောက်က နန်ချောင် ဒေသမှ မြန်မာအများစုသည် မြန်မာနိုင်ငံတွင်းသို့ ရွှေ့ပြောင်းလာခဲ့ပြီးနောက် နန်ချောင်တွင် တိုးတက် ကြီးစိုးခဲ့သူတို့တွင် ရှမ်း(တိုင်း)များ ပါဝင်ကြသည်ဟု ယူဆရပေမည်။ ၁၃ ရာစုနှစ်များ အလယ်လောက်တွင် မွန်ဂိုတို့၏ တိုက်ခိုက်မှုကြောင့် ရှမ်း (တိုင်း) တို့ အလုံးအရင်းနှင့် ရွှေ့ပြောင်းခဲ့ရသည်။ ရွှေ့ပြောင်းရာ လမ်းခရီးတွင် အသစ်တည်ထောင်သော ရှမ်းနယ်များကို မွန်ဂိုတို့သည် လွှမ်းမိုးချုပ်ချယ် လာကြပြန်သည်။ ဤမွန်ဂိုတို့၏ လွှမ်းမိုးမှုကို ရှမ်း (တိုင်း) တို့သည် ပြန်လှန် တော်လှန်ခဲ့ကြ၏။

ဆဲ့လေး ရာစုနှစ်များ အကုန်နှင့် ၁၅ ရာစုနှစ်များ အစတွင် မောရှမ်းတို့၏ တော်လှန်မှုအကြောင်းကို တရုပ်နိုင်ငံရှိ ရှမ်းများအကြောင်းတွင် ဆိုခဲ့ပြီး ဖြစ်သည်။

မွန်ဂိုတို့၏ အရှိန်အဝါ အင်အားစုနှင့် နီးကပ် နေသော ရှမ်း (တိုင်း) တို့သည် တရုပ်နိုင်ငံတွင် မင်းဆက် အပြောင်းအလဲ အချိန်ရောက်မှ တရုပ်တို့ကို တော်လှန်နိုင်ကြသော်လည်း ဝေးလံသော ယိုးဒယားပြည် မြောက်ပိုင်းရှိ ပပိုင်ဆီဖူယွန်းရှမ်းများနှင့် မြန်မာနိုင်ငံ ကျောက်ဆည်ခရိုင်မှ ရှမ်းတို့မူ ထိုထက်စော၍ ၁၃ ရာစုနှစ် အကုန်လောက်ကတည်းက မွန်ဂိုတို့ကို တော်လှန်ခဲ့ကြ၏။ ထိုသို့ တော်လှန်ခဲ့ရာတွင် ပပိုင်ဆီဖူက ရှမ်းတို့နှင့် ကျောက်ဆည်က ရှမ်းတို့သည် အလျဉ်း သင့်သလို ပူးပေါင်း ဆောင်ရွက်ခဲ့ကြသည်။

မွန်ဂို (ယွန်း) သမိုင်း မှတ်တမ်းအရ မွန်ဂိုတို့သည် ပပိုင်ဆီဖူကို ၁၂၉၂ ခုနှစ်တွင်တိုက်ခိုက်ကြောင်း၊ ၁၂၉၆ ခုနှစ်တွင် ကျိုင်းရုံးကြီးနယ် ဖြစ်သော ချေလီနယ်ကို တည်ထောင်ကြောင်း၊ ပပိုင်ဆီဖူသည် ထိုချေလီနယ်ကို ၁၂၉၇ ခုနှစ်တွင် တိုက်ခိုက်ကြောင်း သိရပေသည်။ ပပိုင်ဆီဖူဘုရင် မင်းရဲ (မန်းရိုင်း)၊ဖယောင်ဘုရင် ပုရဆာဒနနှင့် သောက္ကတဲဘုရင် ရမ်ခါမိန် (ရာမဂါမဟိ) တို့သည် ၁၂၈၇ ခုနှစ်တွင် စုဝေးတိုင်ပင်၍ မဟာမိတ်ပြုလုပ်ခဲ့ကြောင်းကို ဇင်းမယ် ရာဇဝင်တွင် တွေ့ရသည်။ မွန်ဂိုတို့၏ ဘေးရန်ကို ကာကွယ်နိုင်ရန် မဟာမိတ် ပြုကြခြင်း ဖြစ်သည်ဟု ဆိုရပေမည်။ မင်းရဲသည် ခုခံ တိုက်ခိုက်နေသော ဟရိပုဥ္စပြည်ကို ရှေးဦးစွာ ဖယ်ရှားခဲ့ပြီးနောက် ချေလီကို ၁၂၉၇ ခုနှစ်တွင် တိုက်ခိုက်၍ မွန်ဂိုတို့ကို တော်လှန်ခြင်းဖြစ်၏။ ဤတော်လှန်မှုကို မွန်ဂိုတို့နှိမ်နင်းသော်လည်း မအောင်မြင်ခဲ့ပေ။

အလားတူပင် မြန်မာနိုင်ငံ၌လည်း ရှမ်းတို့သည် တဖက်တွင် ယိမ်းယိုင် နေပြီ ဖြစ်သော ပုဂံကို မိမိတို့၏ သြဇာခံ ဖြစ်အောင် ပြုလုပ်၍ အခြား တဖက်တွင်ကား မွန်ဂို တို့ကို ပရိယာယ်ကြွယ်စွာဖြင့် တော်လှန် ပုန်ကန်ခဲ့ကြသည်။ စားရေရိက္ခာကြွယ်ဝလှသော မြစ်သာဆဲ့တစ်ခရိုင်တွင်ရောက်နေပြီဖြစ်သည့် ရှမ်းတို့သည် မွန်ဂိုနှင့်ပုဂံတို့ စစ်ဆင်နေကြစဉ်တွင် (၁၂၈၄-၈၉) မြစ်သာဆဲ့တစ်ခရိုင်၏ဒေသအချို့ကို သိမ်းပိုက်ခဲ့ကြသည်။ တရုပ်ပြေးမင်း နတ်ရွာစံပြီးနောက် သားတော် ကျော်စွာမင်းသည် ၁၂၈၉ ခုနှစ်တွင် ပုဂံထီးနန်းကိုသိမ်းမြန်းအုပ်စိုးသည်။ စားရေ ရိက္ခာ ပေါများ၍ ပုဂံ၏ စီးပွားရေး ကျောထောက်နောက်ခံနယ်ဖြစ်သော မြစ်သာ ဆဲ့တစ်ခရိုင်ကို ရှမ်းတို့ ကြီးစိုးနေပြီဖြစ်ရကား ပုဂံမှာ အင်အားမတောင့်တင်းလှတော့ပေ။ ရှမ်းတို့ကို ဦးဆောင်နေသူတို့မှာ အသခံယာ၊ရာဇသင်္ကြံနှင့် သီဟသူ ညီနောင်သုံးဦးတို့ဖြစ်ကြသည်။ ယင်း ညီနောင်သုံးဦးသည် အစတွင် သံပျင်ကြီးများအဖြစ် ပုဂံ၏ ကျေးဇူးသစ္စာကို ခံယူဟန်ဆောင်ကြ၏။ မွန်ဂိုတို့ကို ကြောက်ရွံ့ရသဖြင့်လည်း ပုန်ကန်သူများအဖြစ် မခံယူလိုပေ။ သို့ရာတွင် သီဟသူသည် ၁၂၉၅ ခုနှစ်တွင် ဆင်ဖြူရှင်ဘွဲ့ခံယူပြီးနောက် ၁၂၉၆ ခုနှစ်တွင် ဧကရာဇ်အဖြစ် ကျေညာသည်။ကျော်စွာမင်းသည် မွန်ဂိုတို့နှင့် အဆက်အသွယ် ရှိနေရကား ရာဇသင်္ကြံနှင့် သီဟသူတို့သည် တကောင်းတွင် ရှိနေသော မွန်ဂိုတို့ကို တိုက်ကြသည်။ ထို့နောက် ပုဂံကို တိုက်၍ ၁၂၉၈ ခုနှစ်တွင် ကျော်စွာမင်းကို နန်းချကြသည်။ မင်းနှင့်တကွ သားတော်များကို မြင်စိုင်းတွင် ချုပ်နှောင်ထား၏။ ဤအတွင်း ကျောက်ဆည်ခရိုင်၏ အနောက်ဖက်ပိုင်းတွင် သီရိရာဇာ အမည်ဖြင့် မြန်မာဘုရင်တပါး ပေါ်ပေါက်၍ ရှမ်းတို့ကို တိုက်ခိုက်သည်။ရှမ်းတို့သည် ပပိုင်ဆီဖူ(ဇင်းမယ်)မှ စစ်ကူတောင်းကာ မြစ်သာ ဆဲ့တစ်ခရိုင်လုံးကို သိမ်းပိုက်ကြသည်။ ၁၂၉၉ ခုနှစ်တွင် ရှမ်းတို့သည် စောနစ်မင်းကို ပုဂံ၌ နန်းတင်၍ ရုပ်သေးရုပ် အဖြစ် ထားကာ မွန်ဂိုတို့ကို တဖက်တွင် လှည့်ဖြား၍ ပိယိစွာ လိမ်ညာ ထားကြသည်။ နောက်ဆုံးတွင် ရှမ်းတို့သည် ကျော်စွာမင်းကိုသတ်၍ မွန်ဂိုတို့ကို တော်လှန်ကာ မြန်မာနိုင်ငံကိုပါ ကြီးစိုးရန် ဆောင်ရွက်နေကြကြောင်းကို မွန်ဂိုတို့သိရှိ၍ ၁၃၀၁ ခုနှစ်တွင် ရှမ်း

ညီနောင်တို့၏ မြို့တော်ဖြစ်သော မြင်စိုင်းမြို့ကို မွန်ဂိုတပ်များ ချီတက်တိုက်ခိုက်ကြသည်။ မိမိတို့ထံ ထွက်ပြေးလာသော(နန်းကျမင်း ကျော်စွာ၏သား)ရဟန်းတော် ကုမာရကဿပကိုလည်း နန်းတင်ရန် တပါတည်း ခေါ်လာကြ၏။ မြင်စိုင်းကိုရှိ၍ တိုက်ရာ အောင်လုနီးတွင် ရှမ်းညီနောင်တို့၏ ပရိယာယ်ကြောင့် အရုံကို ဖြုတ်ပြီးလျှင် မွန်ဂိုတပ်များ ဆုတ်ခွာသွားကြလေသည်။ တက်တော်မူ မင်းကြီးအမည် ခံယူသော ကုမာရကဿပ သည်လည်း မွန်ဂိုတပ်များနှင့်ပင် ပြန်၍ လိုက်ပါ သွားခဲ့ရလေသည်။

ထိုနောက်သော် ရှမ်းတို့သည် မြန်မာ နိုင်ငံ အလယ်ပိုင်းတွင် လွတ်လပ်စွာ ကြီးစိုး အုပ်ချုပ်နိုင်ခဲ့လေသည်။ မွန်ဂိုတို့နှင့် သင့်မြတ်မှု ရရှိရန် လက်ဆောင်ပဏ္ဏာများကို ဆက်လက်ပေးပို့ခဲ့၏။ မွန်ဂိုတို့ကလည်း ရှမ်းညီနောင်တို့အား အသိအမှတ် ပြုခဲ့၏။ သံတမန်များကိုပင် စေလွှတ်ခဲ့လေသည်။ ဤကဲ့သို့ အခြေအနေ ကောင်းမွန်လာသောအခါ ညီအငယ်ဆုံးဖြစ်သော သီဟသူသည် အေဒီ ၁၃၁၂ ခုနှစ်တွင် မြစ်ငယ်နှင့် ပန်းလောင်မြစ်တို့ ဆုံရာအရပ် အောက်ဖက်အနီး၌ ပင်းယမြို့ကို တည်ထောင်၍ ပင်းယနန်းဆက်ကို စတင် ခဲ့လေသည်။ တစီးရှင်ဘွဲ့ခံ သီဟသူမင်း၏ သားတော်တပါးသည် စစ်ကိုင်းမြို့ကို ၁၃၁၅ ခုနှစ်တွင် စတင် တည်ထောင်၍ ပင်းယ၏ လက်အောက်ခံအဖြစ် ဧရာဝတီမြစ် အနောက်ပိုင်း မြစ်နှစ်သွယ်စပ်ကြား ဒေသကို အုပ်ချုပ်ခဲ့ကြောင်း၊ ၁၃၂၂ ခုနှစ်တွင် ပင်းယကို တော်လှန်၍ စစ်ကိုင်းမင်းဆက်ကို တည်ထောင်ကြောင်း မြန်မာ ရာဇဝင်ကျမ်းများက ဆိုကြသည်။ ပုဂံတွင်မူ ပုဂံမင်းဆက်ပင် ဆက်လက် အုပ်စိုးနေသော်လည်း အမည်ခံမျှသာ ဖြစ်သည်။ မြန်မာနိုင်ငံ အလယ်ပိုင်းတွင် အမှန်စင်စစ် ကြီးစိုး အုပ်ချုပ်သူများမှာ ရှမ်းများသာ ဖြစ်၏။

ဤ ရှမ်းတို့သည် မြန်မာစာပေနှင့် ယဉ်ကျေးမှုတို့ကို ရရှိထားပြီ ဖြစ်သော ဗုဒ္ဓဝါဒီများ ဖြစ်ကြသည်။ ရွှေလီမြစ်ဝှမ်း မိုင်းမောတွင် တိုင်းပြည် တည်ထောင်ကြသော မောရှမ်းတို့မှာ ဗုဒ္ဓဝါဒီများ မဟုတ်ကြ။ စာပေလည်းမရှိကြ။ တိုက်ရေးခိုက်ရေးတွင် အားသန်၍ တရုပ်တို့ကို တော်လှန် နေခဲ့သော ရှမ်းများဖြစ်၏။ ယင်းတို့ကို 'ရှမ်းကြီး' ဟု ခေါ်ကြသည်။

မွန်ဂိုမင်းဆက် အင်အား ယုတ်လျော့လာသော ၁၄ ရာစုနှစ်အလယ်လောက်တွင် မောရှမ်းတို့ တန်ခိုး ကြီးလာကြ၏။ တရုပ်မှတ်တမ်းတို့တွင် သူတို့၏နယ်ကို လုချွမ် (နောက်ပိုင်းတွင် လုင်ချွမ်) ဟုခေါ်သည်။ မွန်ဂိုတို့ တိမ်းပါး၍ မင်မင်းဆက် စတင်သည့် ကြားကာလအတွင်း မောရှမ်းတို့သည် ယူနန်နယ် အနောက်တောင်ပိုင်းကို ကြီးစိုး၍ နန်ချောင်နန်းဆက်ကို ပြန်လည် ထူထောင်ရန် ကြိုးစားခဲ့ကြ၏။

၁၃၆၄ ခုနှစ်တွင် မြန်မာ နိုင်ငံတွင်းရှိ ရှမ်းပြည်ငယ်များဖြစ်သော စစ်ကိုင်းနှင့် ပင်းယတို့ အချင်းများသည်ကို အခွင့်အရေးယူ၍ မောရှမ်းတို့သည် နှစ်မြို့လုံးကိုတိုက်ခိုက်ဖျက်ဆီးလုယူခဲ့၏။ ပင်းယမင်း နရသူကိုလည်း မောသို့ ခေါ်ဆောင်သွားခဲ့ကြသည်။ သို့ရာတွင် အင်းဝကို သတိုးမင်းဖျား တည်ထောင်ပြီးနောက် သတိုးမင်းဖျားနှင့် ယင်းကို ဆက်ခံသော မင်းကြီးစွာစော်ကဲတို့၏ လက်ထက်တို့တွင်ကား မောတို့၏ အန္တရာယ်ကို ဟန့်တား နိုင်ခဲ့ကြလေသည်။

မွန်ဂိုမင်းဆက်ပျက်သုဉ်းပြီးနောက် မောတို့သည် မြို့တော်ကို ရွှေလီမြစ် တဖက်ကမ်း နမ်းခမ်းမြို့အနီး (မြန်မာ နိုင်ငံအတွင်း) ရှိ စယ်လန့်သို့ ရွှေခဲ့ကြသည်။ မင်မင်းဆက်သည် ၁၃၈၂–၈ ခုနှစ်တွင် တာလီးမြို့နှင့် နယ်စပ်များကို သိမ်းပိုက်အုပ်ချုပ်ခဲ့၏။ မောတို့သည် အင်းဝပြည်ကို မကြာခဏ ဝင်ရောက် တိုက်ခိုက်သဖြင့် မင်ဧကရာဇ်သည် ၁၃၉၆ ခုနှစ်တွင် မောပြည် (လုချွမ်) နှင့် အင်းဝသို့ သံတမန်များ စေလွှတ်ခဲ့သည်။ မင်တို့သည် ယူနန်နယ် အနောက်ပိုင်းကိုရင်း၊ ယခု မြန်မာနိုင်ငံ အရှေ့မြောက်နှင့် မြောက်ဖက်ရှိ ရှမ်းနယ်များနှင့် အင်းဝတို့ကိုရင်း မိမိတို့၏ လက်အောက်ခံ နယ်များဟု သတ်မှတ် ယူဆခဲ့ကြပေသည်။

အရေးကြီးသော ရှမ်းနယ်တို့မှာ –

(၁) မိုးညှင်း (မိုင်းယန်း)။ ။မွန်ဂိုတို့ လက်ထက် ၁၂၇၉ ခုနှစ်မှ စ၍ ရှိနေကြောင်း သိရသည်။ မင်ခေတ်တွင် ၁၄၀၃ ခုနှစ်၌ ရှေးဦးစွာ ဖော်ပြ ထား၏။ ဧရာဝတီနှင့် ချင်းတွင်း မြစ်နှစ်သွယ်ကြားတွင် ကျယ်ဝန်းလှသော နယ်ကြီး ဖြစ်ခဲ့သည်။

(၂) ကလေး။ ။ချင်းတွင်းနှင့် မြစ်သာတို့ ဆုံရာတွင် တည်ရှိ၏။ ၁၄၁၆ ခုနှစ်တွင် မိုးညှင်းနှင့် စစ်ဖြစ်ကြရာ မင်းကြီးစွာစော်ကဲက နှစ်နယ်လုံးကို သိမ်းပိုက်ခဲ့သည်။

(၃) သိန္နီနယ်။ ။မွန်ဂိုတို့ လက်ထက်ကပင် ရှိနေကြောင်းသိရသည်။ ပဌမ၌ ယင်းတွင် မိုးမိတ်နယ်အပါအဝင်ဖြစ်၍ အင်အား ကြီးမားသည်။ မုပန်ဟု တွင်သည်။ ၁၄၅၀ ပြည့်နှစ်တွင် မောနယ် (လုချွမ်နယ်) တွင် အပါအဝင်ဖြစ်သော စယ်လန့်ကိုပါ သိမ်းပိုက်ခဲ့၏။ မိုးမိတ်နယ်ရှိ ပတ္တမြားတွင်းများ အကြောင်းကို တရုပ်မှတ်တမ်းတွင် ၁၄၇၄ ခုနှစ်၌ ရှေးဦးစွာ ဖော်ပြခဲ့၏။ အဖိုးတန်သော ကျောက်မျက်ရတနာတို့ ထွက်သောကြောင့် မိုးမိတ်သည် တဖြည်းဖြည်း အင်အားကြီးမားလာကာ သိန္နီလက်အောက်မှထွက်၍ သီးခြားနယ်တခုအဖြစ် တည်ထောင်လာခဲ့သည်။

(၄) လုချွမ်နယ်(မောနယ်)။ ။ရှမ်းတို့သည် မင်တို့ကို တော်လှန်ပုန်ကန်ကာ ယူနန်နယ်အတွင်းအထိ ချင်းနင်းတိုက်ခိုက်သဖြင့် မင် စစ်သူကြီး ဝန်ချီသည် မောနယ်ကို သုံးကြိမ်တိုင်တိုင် (၁၄၄၀–၁၄၅၀) ချီတက် တိုက်ခိုက်ခဲ့သည်။ မင်တရုပ်နှင့် မောရှမ်းတို့၏အရေးသည် ၁၄၃၈ ခုနှစ်မှ ၁၄၆၅

ခုနှစ် အထိ ကြာခဲ့သည်။ ဤစစ်တို့ကြောင့် လူချမ်းနယ် ပျက်စီးခဲ့ရ မောရှမ်းတို့သည် ၁၃၄၀ ပြည့်နှစ်က မိမိတို့ သိမ်းပိုက်ခဲ့သော မိုးညှင်းဖက်သို့ကူးကာခုခံကြပြန်သည်။ ၁၄၄၉–၅၀ နှစ်တွင် ဖြစ်ပွားသော နောက်ဆုံးစစ်တွင် ဝန်ချီ၏ တပ်များသည် ဧရာဝတီမြစ်ကို ဖြတ်ကျော်၍ မိုးညှင်း၊ မိုးကောင်းနယ်တွင်းအထိ လိုက်လံ တိုက်ခိုက်သည်။ အဆုံးအဖြတ်ပေးနိုင်သည့် အောင်ပွဲကို မရသဖြင့် ဧရာဝတီမြစ်ကို မည်သူမျှ မဖြတ်ကူးကြစတမ်းဟု စာချုပ် ချုပ်ဆို၍ ဝန်ချီတပ်များပြန်ခဲ့ရသည်။ ဝန်ချီ၏ စစ်များသည် ရှမ်းတို့အား ဧရာဝတီမြစ် အနောက်ဖက်သို့ အလုံးအရင်းနှင့် ရွှေပြောင်းစေခဲ့ပေသည်။ တရုပ်ပြည်ဖက်မှ စစ်သူကြီးဝန်ချီ တိုက်ထုတ်ခဲ့သော ရှမ်းတို့၏အန္တရာယ်သည်မြန်မာနိုင်ငံဖက်သို့ရောက်လာခဲ့၏။

၁၅၂၆–၂၇ ခုနှစ်တွင် ဗုဒ္ဓဝါဒီ မဟုတ်ကြသော မိုးညှင်းစလုံ (စဝ်လုံ) နှင့် သား သိုဟန်ဘွား (ဆောဟန်ဖ) တို့သည် သိန္နီ၊ မိုးမိတ်တို့နှင့် အတွင်းကြိတ်ကြံကာ အင်းဝကိုတိုက်ခိုက်ကြသည်။ ထိုတိုက်ပွဲတွင် အင်းဝရွှေနန်းကြော့ရှင် နတ်ရွာစံခဲ့ရသည်။ အင်းဝတွင်လည်း သိုဟန်ဘွားက စိုးမိုးအုပ်ချုပ်၍ မင်းလုပ်သည်။ ရှမ်းတို့၏ အန္တရာယ် ကျရောက်သဖြင့် အင်းဝမြို့ ပျက်ကာ အင်းဝတဝိုက်မှ မြန်မာများ တောင်ဖက်တောင်ငူသို့ ထွက်ပြေးတိမ်းရှောင်ခဲ့ရပေသည်။ သိုဟန်ဘွား လုပ်ကြံ ခံရပြီးနောက် ယခု သီပေါအနီးရှိ အုန်းပေါင်ခုံမှိုင်းငယ် (ခွန်မိုင်းငယ်) သည် အင်းဝ နန်းကို တက်၍ စိုးစံသည်။ မြန်မာနိုင်ငံ အလယ်ပိုင်းတွင် မြန်မာ့ အစဉ်အလာအရ ရှမ်းမင်းများ ဆက်လက် အုပ်စိုးခဲ့သည်မှာ နှစ် ၅၀ ခန့် ကြာခဲ့သည်။ တောင်ငူ ဘုရင့်နောင်နှင့် သားတော် နန္ဒဘုရင်တို့သည် ရှမ်းတို့ကိုပါ သိမ်းသွင်းအုပ်စိုးနိုင်သည်သာမက တရုပ်ပြည်တွင်းသို့ပင် ချင်းနင်း ဝင်ရောက်တိုက်ခိုက်ခဲ့ကြ၏။ ဤအချိန်မှ စ၍ ရှမ်းတို့သည် မြန်မာနိုင်ငံတွင်း၌ များသောအားဖြင့် ငြိမ်းချမ်းစွာ နေထိုင်လာခဲ့ကာ မြန်မာနိုင်ငံသမိုင်းကို မြန်မာတို့နှင့်အတူ ပူးတွဲ ဖန်တီးခဲ့ကြလေသည်။

ထင်ရှားသော အခြား ရှမ်းနယ်တို့မှာ ချေလီ (ကျိုင်းရုံးကြီးနှင့် ကျိုင်းတုံဒေသ)၊ မန်မော် (မြို့သစ်–ဗန်းမော်အနီး)၊ တောင်ဖက်တွင် ပပိုင် (ဇင်းမယ်)၊ လဝ်ချူ အ (လောပြည်လွမ်ပရဗန်)၊ စီအန်လို (ယိုးဒယားသောက္ကတဲ)၊ ရှမ်းပြည်တောင်ပိုင်းရှိ ကျိုင်းတုံ (မန်းရိုင်း၏ မြေး နမ်တွန်အေဒီ ၁၃၂၂ ခုနှစ်က တည်ထောင်သည် ဟု အဆိုရှိ၏။) နှင့် မိုးနဲ (မန်းရိုင်း၏ မြေးပင် ၁၃၁၉ ခုနှစ်က တည်ထောင်သည် ဆို၏။) တို့ ဖြစ်ကြသည်။

အနောက်ဖက်ချင်းတွင်းမြစ်ကို ဖြတ်ကျော်၍ ရွှေပြောင်းနေထိုင်ခဲ့ကြသော ရှမ်းတို့သည် အိန္ဒိယနိုင်ငံ အာသံနယ်၏ မြေပြန့်တို့တွင် အခြေစိုက် နေထိုင်လာကြ၍ မြန်မာနိုင်ငံနှင့် ယိုးဒယားနိုင်ငံ မြောက်ပိုင်းတို့မှာ ကဲ့သို့ပင် တိုင်းပြည်တည်ထောင်ခဲ့ကြ၏။ အဟုမ် (ဟုန်း) ပြည်ဟုခေါ် သည်။ ဗုရန်ဂျီခေါ်သော အာသံ ရာဇဝင်ကျမ်းများက အဟုမ်တို့သည် အာသံပြည်တွင်းသို့ အေဒီ ၁၂၂၈ ခုနှစ်က ရောက်ရှိ လာခဲ့သည်ဟု ဆိုသည်။

ဝန်ချီ၏ တိုက်ပွဲများသည် အဟုမ်နှင့် ကလေးပြည်တို့တွင် ရှမ်းလူဦးရေ တိုးတက်စေခဲ့မည်ကား အမှန်ပင်ဖြစ်ပေသည်။ အာသံမြေပြန့်တွင် အဟုမ်ရှမ်းတို့သည် ချူတိယများကိုရင်း၊ ၁၅၄၀ တွင် ကချာရီများကိုရင်း အောင်နိုင်ခဲ့၏။ ၁၅၆၂ ခုနှစ်တွင် အဟုမ်တို့ကို ကွချ်ဘုရင် လာရောက်တိုက်ခိုက်သော်လည်း မအောင်မြင်ခဲ့ပေ။ အဟုမ်တို့သာလျှင် အင်အား တိုးတက်လာခဲ့၏။ ၁၅၀၆ ခုနှစ်၊ ၁၆၂၇ ခုနှစ်နှင့် ၁၆၆၃ ခုနှစ်တို့တွင် နောက်မှ ရောက်လာသော မွတ်စလင်တပ်များ အဟုမ်တို့ကို လာရောက် တိုက်ခိုက်ကြသေးသည်။ သို့သော် မအောင်မြင်ခဲ့ပေ။ အဟုမ်ဘုရင်တို့သည် ဟိန္ဒူဝါဒကို လက်ခံကြသဖြင့် ဟိန္ဒူမဟုတ်သော အဟုမ်နှင့် ဟိန္ဒူအဟုမ်တို့ စိတ်ဝမ်းကွဲကြကာ တိုင်းပြည်ယိမ်းယိုင်၍ အုပ်ချုပ်မှု ပျက်ပြားလာခဲ့ရကား ၁၈၁၆ ခုနှစ်တွင် မြန်မာတို့ကို ဖိတ်ခေါ် ခဲ့ကြသည်။ ပဌမ အင်္ဂလိပ်–မြန်မာ စစ်ပွဲတွင် မြန်မာတို့ အဟုမ်မှဆုတ်ဖယ်ပေးရ၍ အင်္ဂလိပ်တို့အုပ်စိုးခဲ့သည်။

အဟုမ်ရှမ်းတို့သည် ဟိန္ဒူဝါဒ၏ အရှိန်အဝါအောက်တွင် မိမိတို့ပိုင် ရှမ်းယဉ်ကျေးမှု အချက် အလက်များကို မေ့ပျောက်ခဲ့ကြပေပြီ။ အဟုမ် ရှမ်းစကားပင်လျှင် ပျောက်ကွယ်ခဲ့ရရှာလေပြီ။ သို့ရာတွင် အဟုမ်စာပေ (ဗုရန်ဂျီ) ကြောင့် အာသံနယ်၏ ယဉ်ကျေးမှုသမိုင်းမှာ များစွာ ဂုဏ်ရောင် ထွန်းပြောင်ခဲ့ရပေ၏။

## ရှမ်း (တိုင်း) တို့၏ ယဉ်ကျေးမှုနှင့် စာပေ

**တရုပ်နိုင်ငံရှိ ရှမ်းများ**

တရုပ် နိုင်ငံတွင်း၌ ရှိနေကြသော ရှမ်း (တိုင်း) တို့သည် သာမန်အားဖြင့် တရုပ်စာပေနှင့် တရုပ်ယဉ်ကျေးမှုတို့ကိုရရှိပြီးလျှင် မြန်မာနိုင်ငံ၊ ယိုးဒယား နိုင်ငံတို့နှင့် နီးစပ်သော ဒေသများရှိ တရုပ်တိုင်းရင်းသား ရှမ်းတို့မှာကား ဗုဒ္ဓဝါဒကိုသိရှိယုံကြည်ကြ၍ မြန်မာ၊ သို့မဟုတ် ယိုးဒယား အက္ခရာကို အခြေပြုသည့်စာပေ ရှိကြလေသည်။

**လဝ်ရှမ်းများ**

လောနိုင်ငံရှိ လဝ်တို့မှာကား လွမ်ပရဗန်ဖြစ်သော လန်ချန် (လင်းဇင်း)ကို တည်ထောင်သော ဖငုမ်ဘုရင် လက်ထက် အေဒီ ၁၃၅၃ ခုနှစ်ကပင် ခမာယဉ်ကျေးမှုနှင့် ထေရဝါဒကို ရခဲ့ကြပြီဖြစ်သည်။ မွန်-မြန်မာ အက္ခရာကို အခြေပြုသည့် စာပေလည်း ရှိသည်။

**ယိုးဒယားနိုင်ငံရှိ ရှမ်းများ**

ယခု ယိုးဒယား နိုင်ငံရှိ ရှမ်းတို့မှာ ရမ်ခါမိန် (ရာမဂါမဟ်) မင်း လက်ထက် ၁၂၈၃ ခုနှစ်မှစ၍ အက္ခရာနှင့်

စာပေကို ရရှိခဲ့ကြ၍ ခမာယဉ်ကျေးမှုနှင့် သီဟိုဠ်ဗုဒ္ဓဘာသာ ယဉ်ကျေးမှု၊ မွန်ယဉ်ကျေးမှု၊ မြန်မာ ယဉ်ကျေးမှု တို့ကို အနည်းနှင့်အများ တွေ့ကြုံ ရရှိခဲ့သူများ ဖြစ်ကြသည်။ မြန်မာနိုင်ငံမှာ ကဲ့သို့ပင် အများစုမှာ ဗုဒ္ဓဝါဒီများဖြစ်ကြ၍ သမိုင်းတလျှောက်တွင် သာသနာရေးဆိုင်ရာ ကျောက်စာများကို ရေးထိုးခဲ့ကြသည်။ အရှေ့ အာရှ သမိုင်းပါရဂူဖြစ်သော ပါမောက္ခ ဂျော့၊ ဆီဒေးသည် ယိုးဒယား နိုင်ငံတွင် ကျောက်စာပေါင်း ၂၁၀ ကို သိရှိစာရင်းပြုလုပ်ခဲ့၏။ မြန်မာနိုင်ငံ သမိုင်းကော်မရှင်နှင့် ယိုးဒယားအစိုးရ၏ ယဉ်ကျေးမှုဌာန (ဆစ်(လ) ပါကွန်) တို့သည် ပူးပေါင်း ရှာဖွေခဲ့ရာ ယိုးဒယားနိုင်ငံ မြောက်ပိုင်းတခွင်တွင် ကျောက်စာသစ်များကို ထပ်မံ တွေ့ရှိခဲ့၏။ သိရသမျှသော ယိုးဒယားနိုင်ငံရှိ ကျောက်စာတို့မှာ မြန်မာနိုင်ငံတွင် သိရှိ ထားသော ကျောက်စာတို့၏ ဆယ်ပုံ တပုံမျှသာ ရှိပေသည်။ မြန်မာနိုင်ငံ ကျိုင်းတုံနယ်တွင်လည်း တိုင်းကျောက်စာ ၁၅ ခုခန့် ရှိသည်ဟု သိရသည်။

**မြန်မာနိုင်ငံရှိ ရှမ်းများ**

မြန်မာနိုင်ငံရှိ ရှမ်း (တိုင်း) အားလုံးတို့သည် ဗုဒ္ဓဝါဒီများ ဖြစ်ကြသည်။ ရှမ်းပြည်နယ် သံလွင်မြစ် အရှေ့ဖက် ဒေသရှိ ရှမ်းတို့၏ အက္ခရာများမှာ မွန်–မြန်မာ အက္ခရာများပင် ဖြစ်သည်။ စ၊ န၊ ဟ တို့သာ အနည်းငယ်ကွဲပြား၏။ အဆိုပါ မွန်–မြန်မာ အက္ခရာနှင့် ရေးသားသော ရှမ်းစာတို့သည် သံနေ သံထား တိကျစွာ ဖော်ပြနိုင်ခြင်း မရှိပေ။

ခန္တီးရှမ်းတို့သည်လည်း ဗုဒ္ဓဝါဒီများပင် ဖြစ်၍ စာပေရှိကြသည်။ သူတို့၏ စာပေတွင်လည်း မြန်မာ အက္ခရာကိုပင် အသုံးပြုသည်။ သို့သော် အက္ခရာပုံသဏ္ဌာန်များမှာ ပို၍ ရှေးကျဟန် တူ၏။ မြန်မာတို့နှင့် အဆက် ပြတ်ခဲ့ရကား မူလပုံမျိုးသာ ကျန်ခဲ့သဖြင့် ခေတ် မြန်မာအက္ခရာပုံသဏ္ဌာန်နှင့် ကွဲပြားသွားပေသည်။

အကွဲပြားဆုံးမှာ အဟုမ်ရှမ်းတို့၏ အက္ခရာပင် ဖြစ်၏။ အက္ခရာပင် ရှိလင့်ကစား အဟုမ်ရှမ်းတို့သည် ဗုဒ္ဓဝါဒီများ မဟုတ်ကြပေ။ယင်းတို့သည် ၁၈ ရာစုနှစ်များလောက်ကစ၍ ဟိန္ဒူဝါဒကို လက်ခံ ယုံကြည်ခဲ့ကြ၏။ သူတို့၏ စာပေမှာလည်း ဟိန္ဒူဝါဒရေးရာ စာပေများ ဖြစ်သည်။ အဟုမ်တို့၏ နိုင်ငံသမိုင်းကို ရေးသားထားသော ဗုရန်ဂျီကျမ်းတို့သည် အာသံနယ် ယဉ်ကျေးမှုအတွက် ဂုဏ်ယူဖွယ်ရာ ဖြစ်ပေသည်။ ဤရှမ်းတို့သည် အိန္ဒိယယဉ်ကျေးမှုကိုရရှိ၍ အိန္ဒိယသားများ ဖြစ်နေတော့သည်။ သို့ရာတွင် ဆဒိယ၊ လက်ခင်ပုနှင့် စီဗက်(စ) ဂါရ်တို့အနီးတွင် ဗုဒ္ဓဝါဒီများ ဖြစ်သော ခန္တီးနှင့် ရှမ်းများ ရှိကြသေးသည်။ လူဦးရေကား မများလှပေ။

အာရှတိုက် အရှေ့ပိုင်းနှင့် အရှေ့တောင်ပိုင်း ဒေသတို့တွင် သမိုင်းတလျှောက် နေခဲ့ကြရာ၌ ရှမ်း (တိုင်း) တို့သည် ဆိုင်ရာ ဒေသအသီးအသီးတွင် ယဉ်ကျေးမှု အဆင့်အတန်း အမျိုးမျိုးနှင့် နေလာခဲ့သော လူမျိုးဖြစ်သည်။ အများစုသည် တောင်ယာယဉ်ကျေးမှုအဆင့်မှ လယ်ယာယဉ်ကျေးမှု အဆင့်သို့ ကူးပြောင်းခဲ့ကြပြီး ဖြစ်သည်။ ကုန်းမြင့်ဒေသ၌ နေထိုင်ကြသော ရှမ်းတို့သည် တောင်ခြေ မြေပြန့်ချိုင့်ဝှမ်းတွင် စပါးစိုက်ပျိုး၍ အသက်မွေးကြသည်။ မြေပြန့်ချိုင့်ဝှမ်းရှိ ဈေးများတွင် ကူးသန်းရောင်းဝယ် ဖောက်ကားကြသည်။ အချို့မှာ လက်မှု ပညာဖြင့် အသက်မွေး ဝမ်းကျောင်းကြသည်။ ဗုဒ္ဓဝါဒီ တို့သည် အယူ ဝါဒရေးတွင် ကိုင်းရှိုင်း၍ ငြိမ်းချမ်းသာယာစွာ နေထိုင်ကြသည်။ ယိုးဒယား နိုင်ငံရှိ ရှမ်းတို့သည် ယဉ်ကျေးမှုနှင့် စာပေတို့တွင် ခေတ်မီ တိုးတက်အောင် ပြုပြင် ပြောင်းလဲနိုင်ခဲ့ကြသည်။ ယင်းတို့သည် ရှမ်း (တိုင်း) တို့ အနက် လူဦးရေ အများဆုံးလည်း ဖြစ်သည်။ တစုတရုံးတည်းလည်း ရှိကြသည်။ ခေတ်သစ်တွင် ကိုယ့်မင်း ကိုယ့်ချင်းနှင့် ဆက်လက် နေထိုင်ကြ၍ လွတ်လပ်သော လူမျိုးတမျိုး၊ နိုင်ငံ တနိုင်ငံ အဖြစ်ဖြင့် အာရှတိုက် အရှေ့တောင်ပိုင်းတွင် ထင်ရှားလျက် ရှိပေသည်။ **ဦးဘရှင်**

**ရှမ်းအမျိုးသားနေ့။** ။ရှမ်းပြည်နယ် —— ရှု။

**ရွှေ။** ။ရွှေသည် အလွန် လေးလံ၍ အဖိုးတန်သော သတ္တုဖြစ်စင် ဖြစ်သည်။ ရွှေ၌ တောက်ပသော အဝါရောင်ရှိ၍ အရောင် မမှိန်နိုင်သော ဂုဏ်ရှိသည်။ သဘာဝတွင် သယံဇာတ အဖြစ် ရှားရှားပါးပါး တွေ့ရ၍ လူတို့ ပဌမဆုံး အသုံးပြုခဲ့သော သတ္တုတခု ဖြစ်၏။ ရှေး အီဂျစ်လူမျိုး၊ အဆီရီယန်လူမျိုး၊ အီထရပ်စကန်လူမျိုးတို့ လက်ထက်မှစ၍ ရွှေကို သိရှိခဲ့ပြီး အမြတ်တနိုး သုံးစွဲခဲ့ကြသည်။ လွန်ခဲ့သည့် နှစ်ပေါင်း ၅,၀၀၀ ကျော်ခန့်က ရွှေဖြင့် ပြုလုပ်ထားသော လူအသုံးအဆောင်ပန်းကန်ခွက်ယောက်များကို မက်ဆိုပိုတေးမီးယားပြည် အာမြို့တော်မှ တူးဖော် တွေ့ရှိခဲ့ကြလေသည်။ လွန်ခဲ့သော နှစ်ပေါင်း ၃,၀၀၀ ကျော်ခန့်က ဂရိလူမျိုးများ ဝတ်ဆင် သုံးစွဲခဲ့သော ရွှေနားဆွဲ၊ ရွှေလက်ကောက်၊ ရွှေလည်ဆွဲ၊ ရွှေလက်စွပ် စသည်တို့ကို ယခုအခါ နယူးယော့မြို့ရှိ မက်ထရိုပိုလီတန် ပြတိုက်ကြီးတွင် တွေ့ရှိနိုင်သည်။ ထိုခေတ်က အလွန်လှပဆန်းကြယ်စွာ ပြုလုပ်ခဲ့ကြသည့် အလှပြ ရွှေထည် အမျိုးမျိုးကို ယခုတိုင်အောင်ပင် ပြုလုပ်စ အခြေနှင့် မခြား သေသပ် ကောင်းမွန်စွာ တွေ့ရှိကြရ၏။ ဤကဲ့သို့ ကာလကြာညောင်းစွာ ပုံမပျက် အဆန်းမပျက်ဘဲ တည်တံ့နေနိုင်ခြင်းမှာ ရွှေ၌ အရောင်မမှိန်နိုင်သည့် ဂုဏ်အပြင် ချေးမတက်တတ်သည့် ဂုဏ် ရှိခြင်းကြောင့် ဖြစ်လေသည်။ အလယ်ခေတ်မှ အင်္ဂါရတ်ဆရာများသည် သတ္တု အညံ့စားများမှ ရွှေ ဖြစ်အောင် အမျိုးမျိုး ကြိုးစားခဲ့ခြင်းကို ထောက်၍

ရွှေကို လူတို့ မည်မျှ လိုလား တန်ဖိုးထားလာခဲ့ကြပုံကို သိသာ နိုင်ပေသည်။

ရွှေကို ကျောက်တုံးများအတွင်း ရွှေကြောဒ္ဒရင်း၊ ပင်လယ်ရေ၌ရင်း၊ ပင်လယ် ရေအောက် နုံးတင်မြေ၌ရင်း၊ မြေကြီးထဲ၌ရင်း တွေ့နိုင်သည်။ ရွှေသည် သဘာဝတွင် အနှံ့အပြား ပျံ့ကြဲလျက် ရှိ၏။ သို့သော် အလွန်နည်းသဖြင့် စီးပွားဖြစ်ဖော်ယူရန် မဖြစ်နိုင်ချေ။ သဘာဝတွင် ရွှေကို သန့်သန့် တွေ့ရတတ်သော်လည်း များသောအားဖြင့် ငွေကြေးစသောသတ္တုများ အနည်းအကျဉ်း ရောနှောပါဝင်နေတတ်ပေသည်။ ပင်လယ်ရေတွင်လည်း ပင်လယ်ရေ တတန်လျှင် ရွှေ အများဆုံး တဂရိန်အထိ ပါဝင်သည်ကို တွေ့ရ၏။ ဤအချိုးအတိုင်းဆိုသော် ကမ္ဘာ့ ပင်လယ်သမုဒ္ဒရာ အစုစုတွင် ရွှေတန်ချိန်ပေါင်း များစွာ ပါဝင်နိုင်ပေသည်။ သို့သော် ရရှိမည့် ရွှေမှာ ကုန်ကျစရိတ်ကိုပင် ကာမိမည် မဟုတ်သဖြင့် ပင်လယ်ရေမှ ရွှေထုတ်ယူမည့်အလုပ်ကို မည်သူမျှ မကြိုးစားကြချေ။

ရွှေရိုင်း ဟုခေါ်ဆိုရလောက်အောင် ရွှေကြွယ်ဝသည့် သတ္တုရိုင်းကို တွေ့ရခဲသည်။ ရွှေကို သတ္တုရိုင်းများမှ မဟုတ်ဘဲ ကျောက်များမှ ဖော်ယူရရှိကြသည်။ ကျောက်များတွင် ရွှေကြောများ ပါရှိတတ်ရာ ထိုကျောက်ကို တူးဖော်ပြီးနောက် နည်းအမျိုးမျိုးဖြင့် ရွှေကို ထုတ်ယူကြရ၏။

ရွှေကြောရှိသော ကျောက်များကို ရေ တိုက်စားသည့်အတွက် ရွှေမှုန်နှင့် ရွှေစ ရွှေနများသည် သဲများ၊ ကျောက်စရစ်များနှင့်အတူ မြစ်ချောင်းထဲသို့ စီးပါသွားသောအခါ ထိုရွှေမျိုးကို ကျင်ယူသည့်နည်းဖြင့် ထုတ်ယူရရှိလေသည်။

နုံးတင်ရွှေ ကျင်ယူသည့်နည်းကို လူတို့သည် အလွန် ရှေးကျသော ကာလကပင် စတင် အသုံးပြုလာခဲ့ကြသည်။ ဤနည်းဖြင့် ရွှေမှုန်များကိုသာ ရတတ်၏။ သို့သော် တခါတရံ ကံကောင်းသူများအဖို့ ရွှေမန်ကျည်းတောင့်ဟု ခေါ်သော ရွှေတုံး ရွှေစကလေးများလည်း ရတတ်ပေသည်။ ကမ္ဘာပေါ်တွင် သဘာဝအလျောက် တွေ့ခဲ့ရသမျှ ရွှေတုံးများအနက် အကြီးဆုံးကား "ဝဲလကမ်း စထရိန်ဂျာ" ခေါ် "ဧည့်သည်တော်" ဟုတွင်သော ရွှေတုံးကြီးပင်ဖြစ်၏။ ထိုရွှေတုံးသည် ၂,၅၂၀ အောင်စ လေး၍ ယင်းကို ၁၈၆၉ ခုနှစ်က ဩစတြေးလီးယားနိုင်ငံ ဝိတိုရိယ မြို့အနီး လှည်းလမ်းကြောင်းမှ ရရှိလေသည်။

ရှေးအခါက ရွှေ အလွန်ထွက်သည်ဟုကျော်ကြားခဲ့သော အရပ်ဒေသများမှာ အီဂျစ်နှင့် အာရှမိုင်းနား နိုင်ငံတို့ ဖြစ်သည်။ ရောမလူမျိုးတို့သည် ယခုတိုင်အောင် ရွှေထွက်လျက်ရှိသေးသည့် ရူမေးနီးယားနိုင်ငံ ထရန်ဆီလဗေးနီးယားနယ်မှ ရွှေကို တူးဖော်ယူခဲ့ကြသည်။ သို့သော် အမေရိကတိုက်ကို တွေ့ရှိပြီးနောက်တွင်မူ ရွှေကို အဓိကအားဖြင့် အမေရိကတိုက်မှရရှိခဲ့ကြသည်။ ၁၈၅၀ ပြည့်နှစ်မှ ၁၈၆၀ ပြည့်နှစ် အကြားတွင် ကာလီဖိုးနီးယားပြည်နယ်နှင့် ဩစတြေးလီးယားနိုင်ငံတို့သည် ရွှေထွက်ရာ၌ အလွန် နာမည်ကျော်ကြားခဲ့ကြသည်။ ၁၉ ရာစုနှစ် ကုန်ဆုံးသောအခါ ကလွန်ဒိုက် (ကနေဒါနိုင်ငံ) နှင့် အလာစကာ (အမေရိကန်နိုင်ငံ) တို့တွင် နုံးတင် ရွှေများကို တွေ့ခဲ့ကြသည်။ ယခုအခါ ကမ္ဘာပေါ်တွင် ရွှေအများဆုံး ထွက်ရာ ဒေသမှာ တောင်အာဖရိကနိုင်ငံရှိ ထရန်စဗားနယ်ပင် ဖြစ်သည်။ အိန္ဒိယနိုင်ငံရှိ မိုက်ဆိုနယ်သည်လည်း အလွန်ကြွယ်ဝသော ရွှေတွင်းများကြောင့် နာမည်ကျော်ကြား၏။ ရုရှ နိုင်ငံတွင်လည်း ရွှေတူးဖော်သည့် လုပ်ငန်း တနေ့တခြား တိုးတက်လာခဲ့ရာ ယခုအခါ ကမ္ဘာပေါ်တွင် တောင်အာဖရိကနိုင်ငံမှ လွဲလျှင် ရုရှားနိုင်ငံသည် ရွှေအထွက်ဆုံးဒေသဖြစ်သည်ဟုပင် အချို့က ယူဆကြလေသည်။ မြန်မာနိုင်ငံတွင်မူ မြစ်ကြီးနား၊ မော်လိုက်၊ ရွှေဘို၊ ရှမ်းပြည်နယ်၊ ကယားပြည်နယ်၊ ကသာ၊ ကျောက်ဆည်၊ ရွှေကျင်၊ ထားဝယ်၊ ပြည် စသော ဒေသများအနီးတဝိုက်တွင် ရွှေထွက်သည်။ အထက်မြန်မာနိုင်ငံတွင် ပို၍ရွှေထွက်သည်။ သို့ရာတွင် မြန်မာနိုင်ငံတွင် ရွှေထုတ်လုပ်ရေး လုပ်ငန်းကို ထိထိရောက်ရောက် မလုပ်ကြချေ။ များသောအားဖြင့် မြစ်များ ချောင်းများထဲမှ အလွယ်တကူသာ ကျင်ယူကြသည်။ ထို့ကြောင့် မြန်မာနိုင်ငံမှ တနှစ်လျှင် အလွန်ဆုံး ရွှေလေးပိဿာခန့်သာ ထွက်လေသည်။

တူးဖော် ကျင်ထုတ်ပြီးသောရွှေတွင် ရွှေအစစ် ၉၀ ရာခိုင်နှုန်းမျှသာ ပါဝင်၍ ကျန်သတ္တု ၁၀ ရာခိုင်နှုန်းခန့် ပါသဖြင့် အသုံးမပြုမီ သန့်ပစ်ရသည်။ အခြားသတ္တုရောသော ရွှေသည် ကြွပ်ဆတ်ဆတ် နေသည်။ ရွှေကို အဆင့်ဆင့် သန့်သွားရာ ရွှေ ၁၂ မျိုးရှိသည်။ ရာဇောဝါဒကျမ်း၌ "အောက်ဆုံးအခံ၊ နီဖလံကို၊ မီးလှန်၍ ကျိုလျှင်၊ နာရဏီတွင် ငြိမ်း၏" စသည်ဖြင့် ဖော်ပြထားရာ ရွှေကို အဆင့်ဆင့်သန့်လိုက်သောအခါ နီဖလံ၊ နာရဏီ၊ နာရဝေါ၊ နာလိကာ၊ နာလ မုတ္တာ၊ အဥ္ဇန၊ အဥ္ဇနီ၊ အဇတဝနီ၊ ဇာတရူပ၊ ဥရနိတာ၊ သိင်္ဂနိက္ခ၊ ဇမ္ဗူရာဇ် စသည်ဖြင့် ရွှေအဆင့်ဆင့် ဖြစ်လာလေသည်။ နီဖလံရွှေ ကျပ် ၈၀ သားကို အဆင့်ဆင့်လျှော့မှု သုံးကျပ်၊သုံးမူး၊ တပဲ၊ လေးရွေး၊ နှစ်ဆံ၊ နှစ်နှမ်း၊ သုံးသန်းခေါင်း၊ နှစ်ကညစ် တင်သည့်အခါ ဇမ္ဗူရာဇ်ရွှေဖြစ်လာသည်။

ရွှေရရှိအောင် လုပ်ကိုင်သော နည်းများတွင် အဓိက အရေးကြီးသော နည်းနှစ်နည်းမှာ (၁) ကျင်ယူနည်းနှင့် (၂) မြေအောက်တူးဖော်နည်းတို့ ဖြစ်လေသည်။ ပဌမနည်းတွင် ရွှေရှာသော သူသည် ရွှေ ရှိမည်ဟု ထင်ရသော သဲများကို ဒယ်တွင်ထည့်၍ ကျင်ပေးခြင်းဖြစ်သည်။ ထိုအခါ ဒယ်တွင် ရွှေနှင့် အခြား လေးလံသော သတ္တုများသာ ကျန်ရစ်ပြီး သဲနှင့် အခြားအညစ်အကြေးများက ရေဖြင့် မျောပါသွား

ကြသည်။ သို့သော် လက်ဖြင့် ကျင်သည့်နည်းမှာ ပင်ပန်းသလောက် အရာမရောက်သည့် အတွက် ဤနည်းဖြင့် အနည်းအကျဉ်းသာ ပြုလုပ်ကြသည်။ အကြီးအကျယ် လုပ်ကိုင်သောအခါ ရေတံလျှောက်သဖွယ် ပြုလုပ်ထားသော ခွက်များတွင် ရေဖြင့် မျှောတိုက် ယူလေ့ရှိကြသည်။ ရေအားဖြင့် လုပ်ကိုင်သော နေရာများတွင် အလွန် ပြင်းထန်အားကောင်းသော ရေပိုက်လုံးကြီးများနှင့် သဲမြေကို ဖြိုချပေးသည့်နည်းကို သုံးကြသည်။ အချို့ မြစ်ချောင်းနှင့် ရေတိမ်သော ပင်လယ်ကမ်းခြေဒေသများတွင် သောင်ခုတ်သင်္ဘောများဖြင့် ရေအောက်ရှိ နုံးမြေကို ဆယ်တင်သည့် အခါမျိုးလည်း ရှိပေသည်။

မြေအောက်တူးဖော်နည်းမှာ အကြမ်းအားဖြင့် သတ္တုနှင့် ကျောက်မီးသွေးများ တူးသကဲ့သို့ပင် ဖြစ်သည်။ ဤနည်းတွင် မြေအောက်ရှိ ရွှေကြောပါသော ကျောက်များကို ပဌမ ရှာဖွေပြီးနောက် ထိုကျောက်များကို ဖောက်ခွဲ တူးဆွယူပြီးလျှင် နည်းတမျိုးမျိုးဖြင့် ရွှေကို ထုတ်ယူရလေသည်။

သဘာဝ မြေမှ ပဌမ တူးဖော်ရရှိသော ရွှေတွင် ငွေ၊ ကြေးနှင့် အခြား သတ္တုအညစ်အကြေးများ ၁၀ ရာခိုင်နှုန်းခန့်ပါဝင်သဖြင့် ကြပ်ဆတ်၏။ ရွှေကောင်း ရွှေသန့်ကို လိုလျှင် ပါဝင်လျက်ရှိသော အညစ်အကြေးများကို လျှပ်စစ်ဓာတ်ကူးနည်းဖြင့် ဖြစ်စေ၊ ဓာတုဗေဒနည်းဖြင့် ဖြစ်စေ ချွတ်ပစ်ရလေသည်။ ရွှေစစ်စစ်မှာ ပျော့လွန်းသည့်အတွက် သာမန်ကိစ္စများတွင် အသုံးပြုနိုင်အောင် ငွေ ကြေး တခုခုနှင့် ဖြစ်စေ၊ နှစ်ခုစလုံးနှင့် ဖြစ်စေ အနည်းငယ် ရောစပ်ပေးလေ့ရှိသည်။ ဤသို့ ရောစပ်ထားသော ရွှေစပ်မှာ ငွေများလျှင် ရွှေစစ်စစ်ထက် အရောင် ပိုဖျော့တတ်၍ ကြေးများလျှင် ဗိုရွှဲ နီတတ်သည်။ ရွှေပါသော သတ္တုစပ်တခုတွင် ရွှေ မည်မျှပါဝင်သည်ကို ကာရက်အားဖြင့် တိုင်းတာ မှတ်သားလေ့ရှိကြသည်။ ရွှေစစ်စစ်တွင် ၂၄ ကာရက် ရှိသည် ဟူ၍ စံပြုသတ်မှတ်ထားသည်။ ထိုကြောင့် ၁၈ ကာရက် ရှိသည့် ရွှေတွင် ရွှေစစ်စစ် ၁၈ ဆနှင့် အခြားသတ္တု ခြောက်ဆ ပါသည် ဟူ၍ရင်း၊ ၁၂ ကာရက် ရှိသည့် ရွှေတွင် ရွှေစစ်စစ် ထက်ဝက်သာ ပါသည်ဟူ၍ရင်း သိအပ်လေသည်။ ရွှေသည် ရေထက် ၁၉.၃ ဆ ပိုလေးသဖြင့် အလွန် လေးလံသော သတ္တု ဖြစ်သည်။ အပူနှင့် လျှပ်စစ်ဓာတ် အလိုက် အလွန်ကောင်း၍ စင်တီဂရိတ် ဒီဂရီ ၁,၀၆၃ တွင် အရည်ပျော်သည်။ ရွှေသည် အပျော့ဆုံးသတ္တု တခု ဖြစ်၍ ရွှေစပ်ပါက ရှိသမျှ သတ္တုအားလုံးအနက် နန်းဆွဲ အခံနိုင်ဆုံးနှင့် အပြားစတ် အခံနိုင်ဆုံး ဖြစ်၏။ ရွှေကို တလက်မ၏ အပုံပေါင်း ၅၀,၀၀၀ တွင် တပုံမျှသာထူသည်အထိ အပြား ခတ်နိုင်၍ တဂရမ် အလေးချိန်ရှိသော ရွှေကို နှစ်မိုင် ရှည်သည်အထိ နန်းဆွဲ၍ ရဘူးသည်ဟု သိရလေသည်။

ရွှေသည် ရာသီဥတုများစွာနှင့် ဓာတ်ပစ္စည်းတို့၏ ဒဏ်ကို ခံနိုင်ရည် ရှိသည်။ လေနှင့် ရေတွင် မည်မျှကြာအောင် ပစ်ထားသော်လည်း မည်သို့မျှ ထိခိုက် ပျက်စီးခြင်း မရှိနိုင်ပေ။ နိုက်ထရစ် အက်ဆစ်၊ ဟိုက်ဒရို ကလော်ရစ် အက်ဆစ်၊ ဆာလဖျူရစ် အက်ဆစ်များတွင်လည်း မပျော်ဝင်နိုင်ချေ။ သို့သော် အချို့ ပူနွေးသော အက်ဆစ်များတွင်မူ ပျော်ဝင်နိုင်၍ ကလိုရင်း၊ ဗရိုမင်း၊ အိုင်အိုဒင်းတို့နှင့် တွေ့လျှင်လည်း အစား ခံရတတ်ပေသည်။ သို့ရာတွင် ရွှေ၌ တန်ဖိုးကြီးမြင့်ရခြင်းမှာ အခြားသတ္တုများနှင့် စာလျှင် အသုံးဝင်လှ၍ မဟုတ်ချေ။ အမှန်စင်စစ် သံ၊ ခဲနှင့် ကြေးတို့က ရွှေထက်ပင် ပိုမို၍ အသုံးဝင်ကြသေး၏။ အထူးသဖြင့် ခဲခဲယဉ်းယဉ်း ရှာဖွေထုတ်ယူရသည် အတွက်သာ ဤမျှ ရှားပါးရခြင်း ဖြစ်လေသည်။

ရွှေသည် တန်ဖိုးပြောင်းလဲမှု နည်းသဖြင့် ကုန်ပစ္စည်း၊ လုပ်အား၊ ငွေအသပြာ အစရှိသည်တို့၏ တန်ဖိုးကို ရွှေဖြင့် ပြလေ့ ရှိသည်။ ယင်းသို့ ရွှေဖြင့် စံချိန်ပြု၍ တန်ဖိုးကို ရွှေဖြင့် ပြလေ့ ရှိခြင်းကို ရွှေစံချိန်ဟုခေါ် သည်။ (ရွှေစံချိန် — ရှု။) ရွှေသည် ကမ္ဘာ့ ကူးသန်းရောင်းဝယ်ရေးတွင် မရှိ မဖြစ်သော ပစ္စည်းအဖြစ် တည်ရှိသဖြင့် နိုင်ငံတိုင်းက ရွှေကို အလွယ်တကူ အသုံးပြုနိုင်ရန် ထားရှိကြသည်။ ရှေးခေတ်က အထူးသဖြင့် ဥရောပနိုင်ငံများတွင် ရွှေကို ဒင်္ဂါးသွန်းလုပ်ကာ ငွေအသပြာ အဖြစ် အသုံးပြုခဲ့ကြသည်။ ပါးရှားပြည့်ရှင် ဒရီးယပ်သည် ကိုယ်တော်တိုင် ဦးစီး၍ ရွှေဒင်္ဂါး သွန်းလုပ်ခဲ့ကြောင်းဖြင့် ဆိုသည်။ ၁၉၃၄ ခုနှစ်မှ စ၍ ရွှေဒေါ်လာကို သွန်းလုပ်ခြင်း မပြုတော့ချေ။ ငွေဖြင့်သာ သွန်းလုပ် သုံးစွဲကြတော့သည်။

ရွှေကို အသုံးအဆောင် အဝတ်အဆင်အဖြစ်သာ မဟုတ်၊ မြန်မာလူမျိုးတို့သည် အမြတ်တနိုးကိုးကွယ်ဆည်းကပ်သော ဗုဒ္ဓ ရုပ်ပွားတော်များ၊ စေတီ ပုထိုးများတွင် ရွှေသင်္ကန်း ကပ်လှူပူဇော်ကြသည်။ ရွှေစစ်ကို အလွန် ပါးလျားသော အလွှာကလေးများအဖြစ် ပြုလုပ်ထားသော ရွှေမျက်ပါးကို သစ်စေးဖြင့် ကပ်၍ ဖြစ်စေ၊ ရွှေကို အပြားကြီးခတ်ထားသော ရွှေပြားကို ဝက်အူစုတ်၍ဖြစ်စေ ဘုရားများကို ပူဇော်လေ့ရှိကြသည်။ (ရွှေမျက်ပါး — လည်းရှု။)

ရွှေသည် အဆိပ်အတောက် ကင်းသည်။ ဆေးဖက်ဝင်ပစ္စည်းလည်း ဖြစ်သည်။ ဒွါဒသိန်ကျမ်းတွင် 'ရွှေသံပြာ ရောက်၊ အာယုပေါက်လိမ့်'ဟု အဆိုရှိရာ ရွှေပြာကို မှီဝဲသုံးဆောင်ရသူသည် အာယုကပ် ကျော်သည့်တိုင်အောင် အသက်ရှည်သည်ဟု ဆိုသည်။ ဗုဒ္ဓရှင်တော် ဟောကြားတော်မူသည့်နေတ္တိပါဠိတော်၌ ရသာယနဆေးမျိုးဖြင့် အာယုကပ်ကို ကျော်လွန်၍ အသက်ရှည်သည် ဟု ပါရှိရာ ဆရာတော်ကြီးများက ရသာယနဆေး ဆိုသည်မှာ ရွှေပြာဖြစ်သည် ဟု

ဆိုသည်။ ရွှေက နန်းတွင်းသူများသည် သနပ်ခါး လိမ်းသည့်အခါ ရွှေမှုန့်နှင့်ရောရ၍ လိမ်းလေ့ ရှိကြသည်။

ရွှေကို ကမ္ဘာပေါ် ရှိ လူအပေါင်းတို့ အမြတ်တနိုးထားကြရ ရှားရှားပါးပါး ရှာဖွေတွေ့ရှိရသော ထိုရွှေကို အစားထိုးရန် နည်းလမ်းကို ရှေးနှစ်ပေါင်းများစွာကပင် ရှာဖွေ ခဲ့ကြသည်။ ထိုကြောင့် သတ္တုအညံ့စားမှ ရွှေဖြစ် ထိုးသည့် အဂ္ဂိရတ်ပညာကို လူတို့ လိုက်စားခဲ့ကြလေသည်။

**ရွှေကျင်ဂိုဏ်း။** ။ဗုဒ္ဓသာသနာဝင်၊ မြန်မာနိုင်ငံ — ရှု။

**ရွှေကျင်ဆရာတော်**(မြန်မာ ၁၁၈၄–၁၂၅၅)။ ။ရွှေကျင်ဆရာတော်သည် ရွှေဘိုမြို့ တောင်ဖက် ခရီးခြောက်တိုင်ကွာ လှတောကြီး ငါးရွာအဝင် ရွှေကျင်ရွာ၌ သက္ကရာဇ် ၁၁၈၄ ခုနှစ် ဝါဆိုလပြည့်ကျော် ၁၂ ရက်နေ့ ညဥ့် သုံးချက်တီးကျော် ၁၃ ရက် အင်္ဂါနေ့ အဝင်တွင် ဖွားမြင်တော်မူသည်။ မိဖများမှာ ဦးမောင် ဒေါ်မယ်မိတို့ဖြစ်သည်။ ဆရာတော်၏ငယ်မည်မှာ မောင်သန့် ဖြစ်သည်။ ခုနစ်နှစ်သား အရွယ် ရောက်သောအခါ ထိုရွာ မဟာဗောဓိကျောင်း ဆရာတော် ဦးဝရဗုဒ္ဓိထံ၌ မိဖများက အပ်နှံသဖြင့် သူငယ်များ ဆိုင်ရာ စာများကို သင်ကြားခဲ့ရသည်။အသက် ဆဲ့လေးနှစ် အရွယ်တွင် ရှင်သာမဏေအဖြစ်သို့ ရောက်သည်။ အသက် ဆဲ့ငါးနှစ် အရွယ်တွင် ရွှေဘိုမြို့ ဝက်ပါကျောင်း ဆရာတော်ထံ၌ စာပေ သင်ကြားတော်မူ၍ ထိုမှတဖန် ဆဲ့ရှစ်နှစ်အရွယ်တွင် အကျင့်သိက္ခာအရာ၌ လွန်စွာ ကျော်စောတော် မူလှသည့် သီးလုံးဆရာတော် အရှင်စန္ဒိမာလင်္ကာရ ထံသို့ ရောက်ရှိကာ စာပေ ပရိယတ္တိနှင့်တကွ ပဋိပတ္တိနည်းနာများကိုပါ နည်းခံ သင်ကြားတော်မူသည်။

အသက် နှစ်ဆယ်ပြည့်သောအခါ ဇာတိရပ်ရွာ ငယ်ဆရာရင်း ဦးဝရဗုဒ္ဓိထံ၌ ရဟန်းအဖြစ်သို့ ရောက်တော်မူသည်။ ဘွဲ့တော်မှာ ဦးဇာဂရ ဖြစ်သည်။ ရဟန်းအဖြစ်သို့ ရောက်တော်မူပြီးနောက် အမရပူရ ရာဇဌာနီ မင်းနေပြည်မှ စ၍ အမြို့မြို့ အရွာရွာ၌ ဆရာပေါင်း နှစ်ဆယ်ကျော်ထံ နည်းခံ သင်ကြား၍ ပိဋကတ်ကျမ်းဂန်တို့၌ နိုင်နင်း ကျွမ်းကျင်တော်မူသဖြင့် ခုနစ်ဝါ ရှစ်ဝါရသောအခါ မန်ကျည်းစဥ်ရွာ၊ ခေါတောရွာ၊ ရှိမ်းမကားရွာတို့၌ သီတင်းသုံးကာ စာချပုဂ္ဂိုလ် အဖြစ်ဖြင့် စာပေပို့ချတော်မူသည်။ရွှေကျင်ဆရာတော်ကား ပါဠိပိဋကတ် ကျမ်းဂန်များသာ မဟုတ်၊ ဗင်္ဂါလီ နာဂရိ သက္ကဋ စာပေကျမ်းဂန်များကိုပါ တတ်မြောက် တော်မူသည်။ စာပေပို့ချ၍ ခြောက်နှစ်မျှအကြာ သိက္ခာတော် ဆဲ့လေးဝါ အရတွင် မင်းတုန်း မင်းတရားကြီး၏ တောင်းပန် လျှောက်ထားချက် အရ ရွှေဘိုမြို့ မြောက်ဖက် မြင်းနယ် တပြင်၌ သာသနာတော် သန့်ရှင်းစည်ပင်အောင် ရွက်ဆောင်တော်မူသည်။

မင်းတုန်း မင်းတရားကြီးသည် မင်းအဖြစ်သို့ မရောက်မီ သက္ကရာဇ် ၁၂၁၄ ခုနှစ် ပြာသိုလတွင် ရွှေဘိုမြို့သို့ရောက်ရှိစဉ် ရွှေကျင် ဆရာတော်ကို အခိုက်အတံ့ တွေ့ဆုံ ဖူးမြင်ရကာမျှဖြင့် ဆရာတော်၏ အနေအထိုင် အကျင့်သိက္ခာနှင့် သဒ္ဓါ ပညာ စွမ်းပကားကို ထင်ရှားစွာ သိလိုက်သဖြင့် နှစ်ခြိုက်အားရ မြတ်နိုးကြည်ညိုတော် မူလှသဖြင့် မင်းအဖြစ်သို့ ရောက်လျှင် သာသနာတော် သန့်ရှင်းစည်ပင်ရေးကို အားပေး ရွက်ဆောင်တော်မူပါရန် တောင်းပန် လျှောက်ထားခဲ့ဖူးလေသည်။ ယင်းစကား အတိုင်းပင် ရွှေဘိုမြို့ မြောက်ဖက် မြင်းနယ်တပြင်၌ သာသနာတော် သန့်ရှင်းစည်ပင်အောင် ရွက်ဆောင်တော်မူရန် တောင်းပန် လျှောက်ထားခြင်း ဖြစ်သည်။

ရွှေကျင်ဆရာတော်သည် ဝါတော် ၁၉ ဝါအရ သက္ကရာဇ် ၁၂၂၂ ခုနှစ်တွင် မင်းတုန်းမင်းတရားကြီး၏ ပင့်လျှောက်ချက်အရ ရတနာပုံ မန္တလေးနေပြည်တော်သို့ ကြွရောက်တော်မူလေသည်။ မင်းတုန်းမင်းကြီးသည် ရွှေကျင်ဆရာတော် ကြွရောက်လာသောအခါ ဝမ်းမြောက်ခြင်း ပြင်းစွာဖြင့် နိုင်ငံတော် အတွင်းရှိ ထောင်ပေါင်း များစွာသော ရဟန်းသံဃာတို့ အလယ်တွင် အထူးသဖြင့် ရွှေကျင်ဆရာတော်ဘုရားကို မြတ်နိုးတော် မူသည်။ အလေးအမြတ် ပြုတော် မူသည်။ မန္တလေးမြို့ မြောက်မျက်နှာ မန္တလေးတောင်ခြေ၌ ကျောင်းတိုက်ကြီး ငါးတိုက် ဆောက်ပြီးလျှင် ရွှေကျင် ဆရာတော်ကို အထူး ကိုးကွယ်တော်မူသည်။ ကျောင်းတိုက်ကြီး ငါးတိုက်ကား မဟာဝမ္မိကာရာမတိုက်၊ ထရိကာတိုက်၊ ရမည်းသင်းတိုက်၊ မင်းခင်းတိုက်၊ မြတောင်တိုက်တို့ ဖြစ်သည်။ ယင်းတို့ကို ရွှေကျင်ငါးတိုက် ဟုလည်း ခေါ်သည်။

ရွှေကျင် ဆရာတော်သည် ဘွဲ့အမည်အားဖြင့် မကျော်စောပဲ ဇာတိရပ်ရွာ အမည်အားဖြင့် ရွှေကျင်ဆရာတော် ဟူ၍သာ ကျော်စော ထင်ရှားတော်မူသည်။ အနေအထိုင် အကျင့် သိက္ခာ အရာ၌ လွန်စွာ ထူးခြားလှသဖြင့် ရွှေကျင်ဆရာတော်၏ ဂိုဏ်းသတင်းမှာ မြို့တွင်း မြို့ပြင် ပတ်ဝန်းကျင် အရပ်တို့၌ အထူးသဖြင့် ကျော်ကြားလျက်ရှိသည် ဖြစ်သောကြောင့် သီတင်းသုံးရာ ကျောင်းတိုက် အမည်သည်ပင်လျှင် ရွှေကျင်တိုက် ဟူ၍ တွင်လေသည်။

ရွှေကျင် ဆရာတော် ဘုရား၏ သီလ သမာဓိ ပညာ သဒ္ဓါတရားထက်သန်မှု၌ အကြွင်းမဲ့ကြည်ညိုရင်းရှိသော မင်းတုန်းမင်းတရားကြီးသည် ရွှေကျင်ကျောင်းတိုက်ရှိ သံဃာတော်များအား အရှုဏ်ဆွမ်း နေ့ဆွမ်းနှင့်တကွ ပစ္စည်း လေးပါးတို့ကို ပြည့်စုံလုံလောက်စွာ ထောက်ပံ့ လှူဒါန်းတော်မူသည်။

အခါ တပါးတွင် သုဓမ္မာဝင် ဆရာတော်များ အမိန့်ဖြင့် ရွှေကျင်ဆရာတော်ကို သုဓမ္မာသို့ ကြွရန် ဆင့်ဆိုရာ ရွှေကျင်

ဆရာတော်က မကြွဘဲ နေလေသည်။ ထိုနောက် အကြိမ်ကြိမ် ဆင့်ဆိုသော်လည်း မကြွဘဲနေသဖြင့် သုဓမ္မာ ဆရာတော်များက အတင်းဆွဲခေါ်ရန် စီမံကြလေသည်။ ထိုအကြောင်းကို မင်းတုန်းမင်းကြီး ကြားသိ၍ တားဆီးလျှောက်ထားသဖြင့် ပျက်သွားလေသည်။ ထိုအရေးအခင်းဖြစ်ပြီးနောက် ရွှေကျင် ဆရာတော်အား ဂဏဝိမုတ် (ဂိုဏ်းမှ အလွတ် ပုဂ္ဂိုလ်) အမိန့်တော် ထုတ်လေသည်။ ထိုအခါမှစ၍ ရွှေကျင် ဆရာတော်နှင့်တကွ သဘောတူ သံဃာတစုမှာ သုဓမ္မာသဘင်မှ အသီးအခြား ဖြစ်လေသည်။ ထိုသံဃာတစု၌လည်း ရွှေကျင် ဆရာတော်က ပြဋ္ဌာန်းသောကြောင့် ယင်းသံဃာတစုကို ရွှေကျင်ဂိုဏ်း ဟုခေါ်ဝေါ်ကြလေသည်။

ရွှေကျင် ဆရာတော်သည် ဝါတော် နှစ်ဆဲ့ခြောက်ဝါ အရ သက္ကရာဇ် ၁၂၃၀ ပြည့်နှစ်တွင် သာသနာ့ဒါယကာ မင်းတုန်းမင်းတရားကြီး၏ လျှောက်ထား တောင်းပန်ချက်အရ အလုံမြို့၊ ဒီပဲရင်းမြို့၊ ဗန်ဂျီမြို့၊ တလုပ်မြို့၊ ရွှေဘိုမြို့၊ ကလေး၊ ရာဇဂြိုဟ် စသော မြို့နယ်များ၌ ဂိုဏ်းချုပ် ဂိုဏ်းအုပ် ဂိုဏ်းထောက်များ ထား၍ သာသနာ ပြုတော်မူရလေသည်။

ရွှေကျင် ဆရာတော် ဘုရား၏ သီလ သမာဓိ ပညာ အကျင့်သိက္ခာ ဂုဏ်တို့ကြောင့် တပည့် ရဟန်းသံဃာများ တိုးပွား များပြားလာသည်နှင့်အမျှ ကြည်ညိုသော ဒါယကာများလည်း တိုးတက် များပြားလာသည်ဖြစ်ရာ ၁၂၃၃ ခုနှစ် တပေါင်းလဆန်း ၁၀ ရက်နေ့တွင် ဝိသုဒ္ဓါရာမကျောင်းတိုက်ကြီးကို အလှူခံတော်မူရလေသည်။ ရွှေကျင် ဆရာတော်သည် ဓမ္မိကာရာမ ရွှေကျင်ငါးတိုက်နှင့် တကွ ဝိသုဒ္ဓါရာမ စသည့် တဆဲ့နှစ်ရပ်သော ကျောင်းတိုက်ကြီးတို့၌ တပည့်စာချပုဂ္ဂိုလ် အများကို လွှဲထားဆောက်နှင်းလျက် သာသနာတော် သန့်ရှင်းစည်ပင်အောင် ရွက်ဆောင်တော်မူသည်။ ထိုအခါ မင်းတုန်းမင်းတရားကြီးက “ဇာဂရာဘိဓဇ သဒ္ဓမ္မဝံသ အတုလဓိပတိ မဟာဓမ္မရာဇာဓိ ရာဇဂုရု”တံဆိပ်တော် လှူဒါန်း ဆက်ကပ်တော်မူသည်ကိုခံတော်မမူဘဲ ပယ်ရှောင်လွှဲ၍ ရောင့်ရဲတော်မူသည်။

ရွှေကျင် ဆရာတော်ဘုရားကြီးသည် နှစ်ပေါင်း များစွာ သာသနာတော် သန့်ရှင်းစည်ပင်မှုကို ဂရုကတ ဥဿာဟ မယုတ် အားထုတ် ရွက်ဆောင်တော်မူပြီးလျှင် ပင်ကိုအားဖြင့် နိက္ခမဓာတ်ခံ စိတ်သန်တော်မူရင်း ရှိသည်နှင့် သက်တော် ၅၃ နှစ် သိက္ခာတော် ၃၃ ဝါ ရှိသောအခါ ၁၂၃၇ ခုနှစ်တွင် ရတနာပုံ မန္တလေးမြို့ ဓမ္မိကာရာမ ရွှေကျင်တိုက်မှ ဖဲခွာ၍ ကိန္နရာတောင်၊ ရေတံခွန်တောင်၊ စစ္စကိုင်တောရ၊ ကုက္ကိုချောင်တောရ တို့၌ ထိုက်သည်အားလျော်စွာ ဝိပဿနာတရားကို ပွားများတော်မူလျက် သီတင်းသုံးတော်မူသည်။

ရွှေကျင်ဆရာတော်ဘုရားကြီးသည် သက္ကရာဇ် ၁၂၃၈ ခုနှစ်တွင် မြတ်စွာဘုရား၏ စွယ်တော်မြတ်ကို ဖူးမျှော်ရန် သီဟိုဠ်သို့ ကြွရာ မလွန်မြို့ မင်းလှရွာသို့ ရောက်လျှင် ထိုရွာနေ ရှင်လူရဟန်းတို့က အခါအခွင့် မသင့်လျော် သေးပါကြောင်း လျှောက်ထား တောင်းပန်ကြသဖြင့် မင်းလှရွာ နွားလှန်တောင် တောရကျောင်းတွင် ဝါဆို သီတင်းသုံးပြီးလျှင် ၁၂၃၉ ခုနှစ် တပေါင်းလသို့ ရောက်သောအခါ သာသနာ့ ဒါယကာ ပဉ္စမသင်္ဂါယနာတင် ဘုရင်မင်းမြတ်ကို ခတ္တိယောဝါဒ ကျမ်းစာဖြင့် ဩဝါဒ ပေးခဲ့၍ သီဟိုဠ်ကျွန်းသို့ ကြွတော်မူသည်။

ဆရာတော် ဘုရားကြီးသည် မြတ်စွာဘုရား၏ စွယ်တော်မြတ်ကို ပူဇော်ခြင်း၊ သီဟိုဠ်ကျွန်းသူ ကျွန်းသား၊ လူရှင် အများတို့ကို တရားဓမ္မ ဩဝါဒပေးခြင်း၊ ယင်း ဩဝါဒစကားများ ရှည်မြင့်စွာ တည်စေခြင်းငှာ လင်္ကာ သာသနဝိသုဒ္ဓိကထာကျမ်းကို ပါဠိ ဘာသာဖြင့် ရေးသား ပေးထားခဲ့ခြင်း၊ သီဟိုဠ်ရဟန်းတို့ကို ရဟန်းထပ်ခံပေးခြင်း စသည်ဖြင့် သာသနာရေး ကိစ္စများကို ဆောင်ရွက်တော်မူပြီးလျှင် သက္ကရာဇ် ၁၂၄၀ ပြည့်နှစ်အတွင်း သီတင်းဝါလ ကျွတ်သောအခါ မြန်မာနိုင်ငံသို့ ပြန်လည်ကြွရောက်၍ မင်းလှရွာ၌ပင် ဝါကပ်သီတင်းသုံးတော်မူသည်။

ရွှေကျင်ဆရာတော်ဘုရားကြီးသည် မင်းလှရွာ၌ သီတင်းသုံးနေတော်မူစဉ် သက္ကရာဇ် ၁၂၄၃ ခုနှစ်တွင် ရတနာပုံ မန္တလေး နေပြည်တော် ဒုတိယနန်းစံ သားတော် သီပေါမင်းက ပင့်လျှောက်သဖြင့် မန္တလေးနေပြည်တော်သို့ ကြွရောက်တော်မူပြီးလျှင် သက္ကရာဇ် ၁၂၄၄ ခုနှစ် တပေါင်းလတွင် သီပေါမင်းက “ဇာဂရာဘိဓဇ သာသနပါလ ဓမ္မသေနာပတိ မဟာဓမ္မရာဇာဓိ ရာဇဂုရု” တံဆိပ်တော် လှူဒါန်း ဆက်ကပ်၍ သာသနာပြု အပ်နှင်းတော်မူသဖြင့် သာသနာပြု လုပ်ငန်းများကို ဆက်လက် ဆောင်ရွက်တော်မူလေသည်။ ရွှေကျင် ဆရာတော်ဘုရားကြီးသည် သီလ သမာဓိ ပညာဂုဏ်နှင့် ပြည့်စုံတော်မူသည့် အပြင် အထူးသဖြင့် သဒ္ဓါ ဝီရိယ ဓာတ်ခံ ထက်သန်ကြီးမားတော်မူသောကြောင့် သာသနာတော်သန့်ရှင်းစည်ပင်အောင် ရွက်ဆောင်တော်မူရာ၌ အထူးအောင်မြင်တော်မူလေသည်။ ဆရာတော်ဘုရားကြီး၏ သဒ္ဓါ ဝီရိယ ဓာတ်ခံ ထက်သန်ကြီးမားတော် မူသောကြောင့်ပင် မြန်မာပြည် သာသနာ၌ ရွှေကျင်ဂိုဏ်းဟု သံဃာ့ဂိုဏ်းကြီး တဂိုဏ်း သီးခြားဖြစ်ပေါ်လာခြင်း ဖြစ်ပေသည်။ ယခုအခါ၌ (၁၃၂၄ ခု) မြန်မာနိုင်ငံတွင် ရွှေကျင်ဂိုဏ်းဝင် ကျောင်းပေါင်း ၁၃၅၇ ကျောင်းရှိ၍ ဂိုဏ်းဝင်သံဃာပေါင်းတသောင်းကျော်မျှ ရှိနေလေသည်။ ယင်းသို့ သာသနာပြု လုပ်ငန်းများကို ဆောင်ရွက်တော်မူပြီးလျှင် သက်တော် ၆၄ နှစ် ဝါတော် ၄၄ ဝါ ရသောအခါ နေပြည်တော် ဓမ္မိကာရာမ ရွှေကျင်တိုက်မှဖဲခွာ၍ ရောဝတီမြစ် အနောက်ဖက် မင်းကွန်းငွေတောင်တောရသို့ ကြွရောက် ဝါကပ်တော်မူသည်။

ရွှေကျင် ဆရာတော်ဘုရားကြီးသည် မြန်မာနိုင်ငံ သာသနာတော်၌ ရွှေကျင်ဂိုဏ်း ဟူသော အမည်ဖြင့် သံဃာဂိုဏ်းကြီးတခု ပေါ်ပေါက်လာရသည် တိုင်အောင် သာသနာတော် သန့်ရှင်းစည်ပင်ရေးကို အားသွန်ခွန်စိုက် ကြိုးပမ်းရွက်ဆောင်တော်မူရင်းကပင် နောင်လာ နောက်သား တပည့်တပန်းများအတွက် ကျမ်းပေါင်းများစွာကိုလည်း ပြုစုတော်မူခဲ့လေသည်။

ရွှေကျင် ဆရာတော်ဘုရားကြီး ပြုစုတော်မူခဲ့သည့် ကျမ်းများမှာ အောက်ပါအတိုင်း ဖြစ်သည်။

၁။ ကုသိုလ်တပဲ ငရဲ တပိသာ ဒီပနီစာတမ်း၊
၂။ ကေဝဋ္ဋောဝါဒ၊
၃။ ခတ္တိယောဝါဒ၊
၄။ ဂဏဘေဒ ဒီပနီ၊
၅။ ဂမ္ဘီရာဂမ္ဘီရ မဟာနိဗ္ဗုတ ဒီပနီကျမ်း၊
၆။ ဒသဓမ္မာလင်္ကာရ အဋ္ဌကထာ၊
၇။ ဒါရုက္ခန္ဓသုတ် နိဿယ၊
၈။ ဓမ္မောသဓဒီပနီ၊
၉။ နေတ္တိလိနတ္ထသင်္ဂဟ၊
၁၀။ နေတ္တိဟာရတ္ထ ဝိဘာဝနီ၊
၁၁။ နိဿယင်္ဂ ဝိနိစ္ဆယ၊
၁၂။ ပဋိစ္စသမုပ္ပါဒ ဒီပနီ၊
၁၃။ ဗောဇ္ဈင်္ဂ ဒီပနီ၊
၁၄။ မဟာသိဿကောဝါဒ၊
၁၅။ ယွာဋ္ဌိကာ၊
၁၆။ ရူပဘေဒ ဝိဘာဝနီ၊
၁၇။ လင်္ကာ သာသနဝိသုဒ္ဓိကထာ၊
၁၈။ ဝိစိတြဝန္ဒနာ ဘုရားရှိခိုး၊
၁၉။ ဝိနယဂရု ဒီပနီ၊
၂၀။ ဝိနယမဓု၊
၂၁။ ဝဋ္ဋနာ ဒီပနီ၊
၂၂။ သမာသ်ဂဏ္ဌိ၊
၂၃။ သိမာ သင်္ကရဝိနိစ္ဆယ၊
၂၄။ သီလ ဝိသောဓနီ၊
၂၅။ သာသန ဝိသောဓနီ၊
၂၆။ သီဟဠောဝါဒ၊
၂၇။ သန္ဒေသ ကထာ၊
၂၈။ ဥပဒေသ ကထာ၊
၂၉။ ဩဝါဒ လင်္ကာရ ဓမ္မကထာ၊
၃၀။ အင်္ဂုဒ္ဒိက ကမ္မဋ္ဌာန်း

ရွှေကျင် ဆရာတော် ဘုရားကြီးသည် တပည့်ရဟန်းတို့အား စာပေပို့ချခြင်း၊ မိမိ ဩဝါဒခံ ဂိုဏ်းသံဃာအားလုံးကို စည်းကမ်း သေဝပ်အောင် အုပ်ချုပ်ထိန်းသိမ်း ကွပ်ကဲ ဆုံးမဩဝါဒပေးခြင်း၊ တောရဆောက်တည်ခြင်း စသည်ဖြင့် မြန်မာပြည် သာသနာတွင် စံပြပုဂ္ဂိုလ်ကြီး တဆူ အဖြစ်ဖြင့် နှစ်ပေါင်းများစွာ သာသနာတော် သန့်ရှင်းစည်ပင်ရေးကို ဆောင်ရွက်တော်မူပြီးလျှင် သက်တော် ၇၂ နှစ်၊ ဝါတော် ၅၂ ဝါ၊ သက္ကရာဇ် ၁၂၅၅ ခုနှစ် တပေါင်း လပြည့်ကျော် ၇ ရက်နေ့တွင် မင်းကွန်း ငွေတောင်တောရ၌ ပျံလွန်တော်မူလေသည်။

(ဤ ရွှေကျင်ဆရာတော် အတ္ထုပ္ပတ္တိအကျဉ်းကို ရေးသားရာ၌ အောက်ပါစာအုပ်များကို ကြည့်ရှု လေ့လာ တိုက်ဆိုင် ရေးသားပါသည်။

၁။ ၁၂၅၃ ခုနှစ် ရွှေကျင်ဆရာတော်ကြီး ရှိစဉ် မောင်းထောင်ဆရာတော် ရေးသည့် ရွှေကျင်ဆရာတော် ဘုရားကြီး၏ ထေရုပ္ပတ္တိစာတမ်း။ ၂။ ဝိသုဒ္ဓါရုံဦးကောသလ္လရေးသည့် ဝိသုဒ္ဓါရုံ ထေရုပ္ပတ္တိကထာ။ ၃။ အရှင် သီရိဓမ္မနှင့် လယ်တီပဏ္ဍိတတို့ ရေးသည့် မဟာဝိသုဒ္ဓါရာမိက ထေရုပ္ပတ္တိ ဒီပနီ။ ၄။ ဝိသုဒ္ဓါရုံဆရာတော်ရေးသည့် ပရမတ္ထသရူပဘေဒနီ နိဂုံး။ ၅။ သုသောဓိတ မဟာ ရာဇဝင် ဆဋ္ဌမတွဲ။ ၆။ ဦးအာလောက ရေးသည့် သာသနာဝင်ကျမ်း။ ၇။ အရှင်ပဏ္ဍိတ ရေးသည့် ရွှေဟင်္သာတောရ သမိုင်း။ ၈။ ဦးဘသန်းရေးသည့် ရွှေကျင်သာသနာ နှစ်တရာ။) ဦးထွန်းမြင့်

**ရွှေကျင်မြို့။** ။ရွှေကျင်မြို့သည် ရွှေကျင်ခရိုင်ခွဲနှင့် ရွှေကျင်မြို့နယ်တို့၏ ရုံးစိုက်မြို့ ဖြစ်သည်။ ရွှေကျင်ခရိုင်ခွဲသည် ရှေးအခါက သီးခြား ခရိုင်တခု ဖြစ်ခဲ့သော်လည်း ခရစ် ၁၈၉၅ ခုနှစ်မှစ၍ အသွားအလာ ပိုမိုလွယ်ကူသော သထုံမြို့သို့ ခရိုင်ဝန်ရုံးပြောင်းရွှေ့သွားကာ ရွှေကျင်ခရိုင်ခွဲကိုလည်း တောင်ငူခရိုင်အတွင်း ထည့်သွင်း အုပ်ချုပ်ခဲ့သည်။ ယခုအခါ ပဲခူးခရိုင်တွင် ပါဝင်သည်။ ရွှေကျင်ခရိုင်ခွဲသည် ပဲခူးခရိုင်အတွင်းရှိ မြောက်ဖက် အကျဆုံး ခရိုင်ခွဲဖြစ်၍ ရွှေကျင်မြို့နယ် တခုသာ ပါဝင်သည်။

ရွှေကျင်မြို့နယ်သည် စတုရန်းမိုင် ၉၅၃ မိုင် ကျယ်ဝန်း၍ ၁၉၃၁ ခုနှစ် သန်ကောင်စာရင်းအရ လူဦးရေ ၄၂,၇၃၈ ယောက် ရှိပြီးလျှင် ၁၉၅၆ ခုနှစ် ခန့်မှန်းခြေအရ ၅၅,၂၃၆ ယောက်ရှိသည်။ မြို့နယ်အတွင်းတွင် ရွှေကျင်မြို့နှင့် တကွ ကျေးရွာအုပ်စုပေါင်း ၆၉ ခု ပါဝင်သည်။ ရွှေကျင်မြို့နယ်သည် အနောက်ဖက်တွင် စစ်တောင်းမြစ်က ပဲခူးခရိုင်ခွဲနှင့် ခြားလျက် ရှိ၍ အရှေ့ဖက်တွင် ကော်သူးလေပြည်နယ်နှင့် စပ်လျက် ရှိသည်။

မဒေါက်မြို့ အောက်ဖက်နားတွင် စစ်တောင်းမြစ်မှ အရှေ့ဖက်သို့ ခွဲထွက်သွားသော ရွှေကျင်ချောင်း၏ မြောက်ဖက်ကမ်းပေါ်တွင် ရွှေကျင်မြို့ တည်ရှိသည်။ မြန်မာသက္ကရာဇ် ၁၂၀၀ ပြည့်နှစ် မတိုင်မီက စစ်တောင်းမြစ်သည် ရွှေကျင်မြို့

အနောက်ဖက်မှ ကပ်၍ စီးသွားသော်လည်း ထိုနောက်တွင် အင်းပလွဲရွာနှင့် သောင်ကြီးရွာအကြား မြစ်ကွေ့ကြီးနှစ်ကွေ့ ဖြစ်နေရာမှ အထက်မြစ်ကွေ့ကြီးကို မဒေါက်မြို့အနီး ဖြတ်၍ ကျိုးကျစီးဆင်းရာ ရွှေကျင်မြို့သည် ယခုအခါ စစ်တောင်းမြစ်မှတမိုင်ကျော် ကွာဝေးလျက် ရှိသည်။ ရန်ကုန် မန္တလေး မီးရထားလမ်းပေါ်ရှိ ညောင်လေးပင်မြို့ အရှေ့ဖက် ၁၂½ မိုင်ဝေး၍ ညောင်လေးပင် မဒေါက် ရထားလမ်းခွဲ လမ်းဆုံးမြို့ ဖြစ်သော မဒေါက်မြို့မှ ၁½ မိုင် ဝေးသည်။ ညောင်လေးပင်မြို့မှ ၎င်း၊ ပဲနွယ်ကုန်းမြို့မှ ကျောက်ကြီး ဘောဂထ စသော မြို့များကို ဖြတ်၍၎င်း မော်တော်ကားလမ်းများ ဖောက်လုပ်ထားသည်။ ပဲနွယ်ကုန်းမြို့မှ ကားလမ်းဖြင့် ၅၃ မိုင်သွားရ၍ ကျောက်ကြီးမြို့မှ တောင်ဖက်သို့ ၃၆ မိုင် သွားရသည်။ ရွှေကျင်မြို့၏ လူဦးရေသည် ၁၉၆၃ ခုနှစ် ခန့်မှန်းခြေအရ ၇,၇၀၂ ဖြစ်သည်။

ရွှေကျင်မြို့သည် မြန်မာသက္ကရာဇ် ၁၁၁၀ ကျော်မှ ပေါ်ပေါက်လာသောမြို့ဖြစ်သည် ဟုဆိုသည်။ ၁၁၁၃ ခုနှစ်တွင် အင်းဝဘုရင် မဟာ ဓမ္မရာဇာဓိပတိကို မွန်တို့ ဟံသာဝတီသို့ ဆောင်ယူသွားရာ ပဲခူးမြို့၌ ခေတ္တစံနေတော်မူသည်။ တနေ့သော် နဂရံ ရာမှတ်၊ နဂရံ တံတွန်၊ နဂရံ နလွတ်၊ နဂရံ ဝါခရီ အမည်ရှိသော မွန်ညီနောင် လေးဦးသည် ဟံသာဝတီရောက် မင်းထံ ရွှေမှုံများ လာရောက်ဆက်သလေသည်။ ယင်းရွှေမှုံများကို စားသုံးရန်ခူးလာသော ဆိတ်ဖူးပင်တွင်တွေ့ရှိသဖြင့် ယင်းဆိတ်ဖူးပင်နုတ်ခူးရာမြေကို ကျင်ခွက်ဖြင့်ကျင်ယူရာမှ ရခဲ့ခြင်းဖြစ်သည်။ မင်းတရားကြီးလည်း အားရဝမ်းသာ ရှိလှသဖြင့် ထိုညီနောင်လေးဦးအား မိမိတို့ပျော်ပိုက်ရာ ဒေသများတွင် ကျေးရွာပြုစုနေထိုင်ရန် မြေတိုင် သူကြီးများ ခန့်အပ်သောအမိန့်စာ ပေးအပ်လိုက်လေသည်။ညီနောင် လေးဦးလည်း ပဲခူးမြို့မှပြန်လာကြပြီးနောက် အသီးအသီး မြို့ရွာတည်ထောင်နေထိုင်ကြသည်။ ယင်းသို့ တည်ထောင်ကြရာတွင် နဂရံ ရာမှတ်သည် ရွှေကျင်ချောင်း၏တောင်ဖက်၌ အိမ်ခြေ ၄၀ ခန့်ဖြင့် စိန်တောင်ရွာကို တည်နေသည်။ ထိုစိန်တောင်ရွာနှင့်တဖက်ကမ်း ချောင်း၏မြောက်ဖက်တွင်တည်ရှိသော အရပ်သည် တောများ ထူထပ်ပေါများပြီးလျှင် လူနေအိမ်ခြေ ငါးအိမ် ခြောက်အိမ်သာ ရှိ၏။ ထိုနေရာသို့ ဆတ်များ လာရောက်အော်သည်ကိုအကြောင်းပြု၍ ဆတ်တစ်ရွာဟုခေါ်သည်။ ထိုဆတ်တစ်ရွာပင်လျှင် ရွှေကျင်မြို့၏ ပဌမကနဦး လူနေအိမ်ခြေနှင့် ပေါ်ပေါက်လာသော အစဒေသဖြစ်သည်။

မြေတိုင်သူကြီး ခန့်အပ်ခံရသူများကို ခွာဟု မွန်ဘာသာဖြင့်ခေါ်၍ ထိုခွာများအပေါ်တွင် ခွာမှူးခေါ် လူတယောက်ခန့်ထား၍အခွန်များကောက်ယူဆက်သစေသည်။ ခွာမှူးက တအိမ်လျှင်ရွှေမှုံချိန် ကိုးပဲခြောက်ရွေးကျစီ နှစ်စဉ်ကောက်၍ ဆက်သွင်းရသည်။ ထိုအခါ ထိုဒေသရှိလူတို့သည် အခွန်တော်အတွက် ရွှေမှုံများ ရရှိအောင် အနီးအနား ချောင်းမြောင်းတို့သို့ထွက်၍ ကျင်ခွက်ဖြင့်ကျင်၍ ရွှေမှုံ အခွန်တော်ဆက်သွင်းရသည်။ ယင်းသို့ ရွှေကို ကျင်ယူရာ ဒေသ ဖြစ်သဖြင့် ရွှေကျင်ဟု အမည်ဖြစ်လာကြောင်းဖြင့်ဆိုကြသည်။ ယခုတိုင်လည်း ရွှေကျင်မြို့ ရှိုးအနီးရှိ လှည်းလမ်းများ၊ တပ်ကုန်းအနီး ချိုင့်များ၊ ဘုရားကြီးလမ်းများ ပေါ်တွင် မြေကို ယူ၍ ကျင်ခွက်ဖြင့် ကျင်မူ ရွှေမှုံများပါရှိသည်ကို တွေ့ရသည်။

ဘိုးတော်ဘုရား လက်ထက် သက္ကရာဇ် ၁၁၆၀ ပြည့်နှစ်တွင် ရွှေကျင်အနီးရှိ ဒေသတဝိုက်ကို ရွှေကျင်မြို့ ဟူသော အမည်ဖြင့် သမုတ်၍ မြို့၏အလားများ သတ်မှတ်လေသည်။ ထိုစဉ်က သတ်မှတ်သော မြို့၏အလားမှာ အရှေ့လားသော် သံလွင်မြစ်အထိ တဖက်မြေနှင့်အစပ်၊ အရှေ့တောင်လားသော် ဒုံဝိုင်းချောင်း ရှမ်းရွာ၊ အခြားတဖက် ရွှန်းသလင်းမြေ၊ စစ်တောင်းမြေနှင့် အစပ်၊ တောင်အလား ကြုံပကူးချောင်းအခြားတဖက် စစ်တောင်းမြေနှင့် အစပ်၊ အနောက်တောင်အလား ဘုရားသုံးဆူ ရေကန်သုံးကန် အခြားတဖက် စစ်တောင်း မြေ၊ ကောလိယမြေနှင့် အစပ်၊ အနောက် အလား ထန်းသုံးပင်၊ ဘုရားသုံးဆူ အတ္တရန်ချောင်း၊ ပြွန်တန်ဆာ အင်း၊ အခြားထဖက် ကောလိယမြေနှင့် အစပ်၊ အနောက်မြောက် အလား ကြုံတဝေါချောင်း၊ ညောင်ပင်သာ သန်လျက်ကိုင်ကျိုး သဲဖြူချောင်း မင်းလမ်းအထိ၊ တဖက် ကောလိယမြေ ကျောက်မှော်မြေနှင့် အစပ်၊ အရှေ့မြောက် အလား ကျောက်ချပ် တောင်ပိန္နဲပင် မယ်ခေါ်ချောင်း၊ အခြားတဖက် ကျောက်မှော်မြေနှင့်အစပ်၊ဤသို့အားဖြင့်နယ်လေးရပ် နယ်ရှစ်ရပ် သတ်မှတ်လေသည်။ ဤသို့ နယ်မြေအလား သတ်မှတ်ပြီးနောက် မွန်မလေ့အတိုင်း နတ်ကွန်းဆောက်လုပ်ပြီးလျှင် ရွှေကျင်မြို့တွင် စောင့်ရှောက်ရန် ရွှေကျင်မြို့မနတ် မိန်းမရုပ် ပြုလုပ် ကိုးကွယ်ကြလေသည်။ ထိုနတ်မိန်းမ၏အမည်ကို နယ်ပူစောမဟူ၍ သမုတ်လေသည်။ ယခုအခါ မြို့စောင့်နတ် မိန်းမရုပ်ကို အရှေ့ဖက်ဘုရားကြီးစေတီအနီးတွင် ထား၍ နတ်ဘီလူး မမကြီးဟု ခေါ်ကြလေသည်။

ရွှေကျင်မြို့ကို ယင်းသို့ အလားများ သတ်မှတ်ပြီးနောက် ၁၁ဂ၁ ခုနှစ်မှ စ၍ မြို့ဝန်များနှင့်အုပ်ချုပ်စေခဲ့သည်။ ၁၁ဂ၇ ခုနှစ်တွင် အင်္ဂလိပ် စစ်သားများ ရွှေကျင်မြို့ကို သိမ်းပိုက်ရာ မြို့သူ မြို့သားများ ထွက်ပြေးကြသဖြင့် မြို့ပေါ်၌ အိမ်ခြေ ၁၀၀ မျှလောက်သာ ကျန်တော့သည်။ ထိုနောက် စစ်တပ်များ ထွက်သွားသောအခါ မြန်မာတို့က မြို့ဝန်ခန့်၍ ရွှေကျင်မြို့ကို ပြန်လည်ပြုစုတည်ထောင်ရာ အိမ်ခြေ ၃၀၀ ခန့်မျှ ဖြစ်လာပြန်သည်။ တဖန် အင်္ဂလိပ်-မြန်မာ ဒုတိယ စစ်ပွဲအပြီး

၁၂၁၄ ခုနှစ် တပေါင်းလဆုတ် ၄ ရက်နေ့တွင် ရွှေကျင်မြို့ အင်္ဂလိပ်များ လက်တွင်းသို့ ကျဆင်းသည်။

ရွှေကျင်မြို့သည် ရထားလမ်း မဖောက်လုပ်မီနှင့် စစ်တောင်းမြစ်ကြောင်း မပြောင်းမီ အခါက ကုန်ကူးသန်းရောင်းဝယ်မှုတွင် အလွန်စည်ကားသောမြို့ဖြစ်ခဲ့သော်လည်း ယခုအခါ၌မူ မီးရထားလမ်း ဘူတာလည်း မဟုတ်၊ သင်္ဘောဆိပ်မြို့လည်း မဟုတ်သဖြင့် တစတစ စည်ကားခြင်း လျော့ပါးလာလေသည်။ မိုးတွင်းအခါ၌ မဒေါက်ဘူတာမှ ရွှေကျင်မြို့သို့ ကူးတို့လှေများဖြင့် သွားနိုင်၍ နွေရာသီတွင် မဒေါက်တဖက်ကမ်းမှ မော်တော်ကား၊ လှည်း စသည်ဖြင့် သွားရသည်။

ရွှေကျင်မြို့ရှိ တန်ခိုးကြီး ဘုရားများမှာ မြို့မြောက်ဖက်တောင်နှာမောင်းတွင် ၁၁၇၁ ခုနှစ်က သရီရ ဓာတ်တော်များ ဌာပနာ၍ တည်ထားသော ရွှေတောင်ဦးစေတီ၊ မြို့အရှေ့ဖက်တွင် ရွှေကျင်မြို့ဟူ၍ စတင် မပေါ်ပေါက်မီကပင် တည်ရှိနှင့်သော သီရိဓမ္မာသောက မင်းကြီး သရီရဓာတ်တော်ဌာပနာ၍တည်သည်ဟု အများအယူရှိသည့် မွေတော်မှန်ဇရစ်ခေါ် ဘုရားကြီး စေတီတော်၊ မြို့လယ် မန်ကျည်းတန်းရှိ ဝက်တက်စေတီတို့ ဖြစ်သည်။ ရွှေကျင်မြို့ အရှေ့ပိုင်းတောင်နှာမောင်း၊ ရွှေကျင်ချောင်း၏ မြောက်ဖက်ကမ်းနှင့် မနီးမဝေးတို့၌လည်း ရှေးစေတီဟောင်းများ ရှိသည်။

ရွှေကျင်နယ်သည် တောင်ခြေနှင့် နီးကပ်သောနယ် ဖြစ်၍ ဆန်စပါးအနည်းငယ်သာ စိုက်၏။ စစ်တောင်းမြစ်ကမ်းပါးနှင့် ရွှေကျင်ချောင်း ကမ်းပါးတလျှောက်တွင် ဆေးများစိုက်သည်။ ရွှေကျင် ဆေးသည် နာမည်ကျော်ဆေး ဖြစ်သည်။ ရွှေကျင်နယ် တောင်ပေါ်ဒေသမှ သစ်သီးဝလံများလည်းရသည်။ ရွှေကျင် တညင်းသည် နာမည်ကျော်တညင်း ဖြစ်သည်။ ရွှေကျင်ချောင်းနှင့် တောင်ပေါ် ဒေသအချို့တွင် ရွှေများ ကျင်၍လည်း အသက်မွေးကြသည်။ ရွှေကျင်မြို့နယ်အနီးတဝိုက်၌ ကော်ပတ်ခြံ ကေပေါင်း များစွာ ရှိသည်။ ပတ်ဝန်းကျင် တောတောင် စိမ့်စမ်း ရှုခင်းလှ၍ သာယာသည်။

**ရွှေကြူး၊ ဦး** (မြန်မာ ၁၂၄၅–၁၂၈၇)။ ။ဦးရွှေကြူးသည် မြန်မာသက္ကရာဇ် ၁၂၄၅ ခုနှစ်တွင် မော်လမြိုင်မြို့၌ ဖွားမြင်သည်။ အဖ ဦးခင်၊ အမိ ဒေါ်ဂွမ်း ဖြစ်၏။ ဦးရွှေကြူးတွင် မွေးချင်း ရှစ်ဦး ရှိလေသည်။ ဦးရွှေကြူးသည် အင်္ဂလိပ်စာတတ်၊ ခေတ်ပညာတတ် ပုဂ္ဂိုလ် တယောက်လည်းဖြစ်၏။ ရန်ကုန်ကောလိပ်တွင် ဝိဇ္ဇာတန်းအထိတက်ရောက် သင်ကြားခဲ့ဘူးသည်။ မျိုးချစ်စိတ် ထက်သန်သူလည်း ဖြစ်၍ သတင်းစာ မဂ္ဂဇင်းမှ အစ စာပေအရေးအသားတွင် အထူးဝါသနာထုံသူ တယောက်လည်း ဖြစ်လေ



မြန်မာ့ဘာလင်း သတင်းစာကို ဦးစွာ ထုတ်ဝေသူ ဦးရွှေကြူး

သည်။ 'ဒေါင်းတံဆိပ် မြန်မာဖတ်စာသစ်ကို' တွေ့ဖူး၊ ဖတ်ဖူး၊ လေ့ကျင့်ဖူးသူတိုင်း ဦးရွှေကြူးနှင့် ဆရာလင်း တို့၏ ကျေးဇူးကို မည်သည့်အခါမျှ မေ့ပျောက်နိုင်လိမ့်မည်မဟုတ်ပေ။ ထိုဒေါင်းတံဆိပ် မြန်မာဖတ်စာသစ်ကို စတင် ထုတ်ဝေရန် တီထွင်ကြံစည်ခဲ့သူမှာ ဦးရွှေကြူးဖြစ်၍ အရေးအသား အားလုံးအတွက် တာဝန်ခံရသူမှာ အဂ္ဂမဟာပဏ္ဍိတ ဆရာကြီး ဦးလင်း ဖြစ်လေသည်။

ဦးရွှေကြူးသည် ပဌမကမ္ဘာစစ်ကြီး မဖြစ်မီက ရန်ကုန်မြို့တွင် လာရောက်ဖွင့်လှစ်နေကြသော ဂျာမန်စီးပွားရေးလုပ်ငန်းများနှင့် အဆက်အသွယ်ပြုကာ လုပ်ကိုင်ခဲ့ရာ စီးပွားရေး လုပ်ငန်းများဖက်တွင် အတော် အတွေ့အကြုံဗဟုသုတများခဲ့၏။ ၁၂၇၁ ခုနှစ်၌ ရန်ကုန်မြို့ ဘားလမ်းအမှတ် ၅၁ တွင် ရွှေကြူးကုမ္ပဏီဟူ၍ ဖွင့်လှစ်ပြီးနောက် မြေညြဇာ လုပ်ငန်း၊ ထီးလုပ်ငန်း၊ စက်ရက်ကန်းလုပ်ငန်း၊ အင်္ဂလိပ်စာကို စာပေးစာယူဖြင့် သင်ကြားခြင်း တို့ကို လုပ်ကိုင်သည်။ ၁၂၇၃ ခုနှစ်တွင် ဦးရွှေကြူး၊ ဆရာမြို့၊ ဦးရွှေလှေးတို့ တွေ့ဆုံဆွေးနွေး၍ ပိဋကတ်သုံးပုံ မြန်မာပြန်မှုကို သဘောတူညီပြီးနောက် ပိဋကတ်သုံးပုံ ထုတ်ဝေရေး ကုမ္ပဏီ တည်ထောင်ခဲ့ရာ ရွှေကြူး ကုမ္ပဏီက ကိုယ်စားလှယ် အဖြစ် လုပ်ကိုင်ဆောင်ရွက်ခဲ့သည်။

ထို့ပြင် ဦးရွှေကြူးသည် ရွှေကြူးပုံနှိပ်တိုက် ဟူသော အမည်ဖြင့် ပုံနှိပ်တိုက်တတိုက် ထူထောင်လျက် ခရစ် ၁၉၁၂ ခုနှစ် ဇွန်လတွင် မြန်မာ့အလင်း မဂ္ဂဇင်းကို စတင်ထုတ်ဝေခဲ့သည်။ စင်စစ် မြန်မာ့အလင်းမဂ္ဂဇင်း အလျင်က ထုတ်ဝေခဲ့ကြသော မဂ္ဂဇင်းများ ရှိခဲ့သော်လည်း ထိုမဂ္ဂဇင်းများသည် လူထုအား ခေတ်သစ်ဥာဏ်များကို များစွာ သွတ်သွင်း ပေးနိုင်သော မဂ္ဂဇင်းများ မဟုတ်ဘဲ ရှေးဟောင်းကျမ်းဂန်များမှ လာသော ဆုံးမစာများနှင့် ဘာသာရေးများသာ ထည့်သွင်း ထုတ်ဝေသော မဂ္ဂဇင်းများ ဖြစ်လေရာ ဦးရွှေကြူး စီမံထုတ်ဝေလိုက်သော မြန်မာ့အလင်း မဂ္ဂဇင်းမှာမူ ခေတ်သစ်ဥာဏ်သစ်များ သွတ်သွင်းပေးသော နည်းများ ပါရှိသော မဂ္ဂဇင်းဖြစ်သဖြင့် တစတစ လူကြိုက် များလာ၏။ ထိုအတွင်း ၁၉၁၄ ခုနှစ် ဩဂုတ်လတွင် ပဌမကမ္ဘာစစ်ကြီး ဖြစ်ပွားလေရာ အခွင့်အရေးကို ကောင်းစွာ ယူတတ်သော ဦးရွှေကြူးသည် မြန်မာ့အလင်း မဂ္ဂဇင်း အပြင် မြန်မာ့အလင်း စစ်ကြေးနန်းသတင်းဟူသော အမည်ဖြင့် ရက်ခြားသတင်းလွှာတစောင်ကို ထိုနှစ်နိုဝင်ဘာလတွင် ထုတ်ဝေခဲ့လေသည်။ မြန်မာ့အလင်း စစ်ကြေးနန်းသတင်းကို တပြည်လုံးကပင် အလုအယက် ဝယ်ယူဖတ်ရှုကြသော ဟူ၏။ ၁၉၁၅ ခုနှစ် မတ်လ ၁၅ ရက်နေ့မှ အစပြု၍ 'မြန်မာ့အလင်းသတင်းစာ' ဟု အမည်ပြောင်း၍ ထုတ်ဝေခဲ့သည်။

မြန်မာ့အလင်းရက်ခြားသတင်းစာကိုထုတ်ဝေပြီးနောက် တနှစ်တွင် 'မတ်လ ၁၅ ရက်နေ့ကို သတိပြုပါ' ဟူသော ကြော်ငြာအတွက် မြန်မာပြည် အစိုးရတို့က အာမခံငွေ ၅,၀၀၀ တောင်းဆိုခြင်း ခံရသည်။ ကြော်ငြာရှင်မှာ စာရေးဆရာ ပီမိုးနင်း ဖြစ်၍ ကြော်ငြာရှင် ကိုယ်တိုင်က မိမိ၏ စာအုပ်တအုပ်ကို ထုတ်ဝေမည့်အကြောင်း ကြော်ငြာခြင်း ဖြစ်ပါသည်ဟု ရှင်းလင်းပြခဲ့သော်လည်း အချည်းနှီး ဖြစ်သည်။ ထို့ကြောင့် အာမခံငွေမပေးဘဲ သတင်းစာကို ရပ်စဲထားလိုက်ပြီးနောက် ၁၉၁၆ ခုနှစ်ခန့်တွင် ဦးရွှေကြူးသည် ကျောက်ပုံနှိပ်ပညာသင်ရန်ဂျပန်နိုင်ငံသို့သွားရောက်သည်။

လမ်းခရီးတွင် ဆိုင်ဂွန်မြို့၌ စံနေတော်မူသော မြင်ကွန်းမင်းသားကြီးထံသို့ ဝင်ရောက်၍ မြန်မာနိုင်ငံကို မြန်မာမင်းဆက်များ၏ လက်သို့ ပြန်အပ်နှံရေး ကိစ္စအတွက် တိုင်ပင်ကာ ဂျပန်နိုင်ငံသို့ ခရီးဆက်လက် ထွက်ခွာသွားသည်။ ဦးရွှေကြူး၏ရည်ရွယ်ချက်မှာ ထိုစဉ်က အင်္ဂလိပ်၊ပြင်သစ်တို့က တဖက်၊ဂျာမနီ၊ ဩစတြီးယားတို့ကတဖက် စစ်ဖြစ်နေရာ မြန်မာများသည် ဗြိတိသျှတို့ဖက်မှ ငွေအား လူအားနှင့် ကူညီယိုင်းပင်းလိုက်လျှင် မြန်မာပြည်ကို ကျေးဇူးတင်သောသဘောနှင့် မြန်မာမင်းများလက်သို့ ပြန်ပေးကောင်း၏ ဟူသဘောပိုက်ကာ မြင်ကွန်းမင်းသားကြီးထံမှကိုယ်စားလှယ်လွှဲ စာချွန်တော်ကို ယူဆောင်လျက် ဂျပန်နိုင်ငံရှိ ဗြိတိသျှသံအမတ်ကြီး လော့ကမ်နင်ဟံနှင့် စကားဆိုခဲ့သည်။ သို့သော် မြန်မာပြည် အစိုးရတို့သည် ဦးရွှေကြူး၏ ကိစ္စကို အဓိပ္ပါယ်တမျိုး ကောက်ယူကာ ဦးရွှေကြူးအား ဂျပန်နိုင်ငံမှ ပြန်ပို့ရန် အမိန့်ထုတ်ခဲ့၏။ ဦးရွှေကြူးသည် ဂျပန်နိုင်ငံမှပြန်လာ၍ စကာပူအရောက်တွင် မြန်မာပြည်သို့ ပြန်မလာရန် ပြည်နှင်ဒဏ်ပေးခြင်း ခံရလေသည်။

စကာပူတွင်ရှိနေစဉ် 'စတြိတ်တိုင်း' သတင်းစာတွင် သတင်းဆောင်းပါးများ ရေးသားခဲ့ရာ ထိုသတင်းစာ၏ အယ်ဒီတာဖြစ်သူ အေ၊ ဒဗျူ စတီးက အင်္ဂလိပ်စာအရေးအသားကောင်းသည်ဟု ချီးကျူးခြင်း ခံရသည်။

ဦးရွှေကြူးသည် ခရစ် ၁၉၂၁ ခုနှစ်တွင်မှ မြန်မာပြည်တွင်းသို့ ပြန်လည် ဝင်ရောက်ခွင့် ရခဲ့လေသည်။ သို့ရာတွင် ဦးရွှေကြူး၏မျိုးချစ်စိတ်မှာ မည်သို့ပင်ဖိနှိပ်ကွပ်ညှပ်ခြင်းခံခဲ့ရငြားသော်လည်း လျော့သည်ပေါ့သည်ဟူ၍မရှိ၊ တိုးလျက်တက်လျက်သာ ရှိခဲ့ရာမှ မြန်မာပြည်သို့ ပြန်လည်ရောက်ရှိလာသည်နှင့် တပြိုင်နက် 'လစ်ဗာတီ' (လွတ်လပ်ရေး) ခေါ် သတင်းစာတစောင်ကို ကြိုးပမ်းထုတ်ဝေခဲ့၏။ သို့သော် အကြောင်း မညီညွတ်လှသဖြင့် တာရှည်မခံဘဲ ရပ်စဲ သွားရလေသည်။ ထို့နောက် ခရစ် ၁၉၂၄ ခုနှစ်၌ ရန်ကုန် မျူနီစီပယ်အဖွဲ့တွင် လက်ထောက်အတွင်းရေးမှူးအဖြစ် ဝင်ရောက်လုပ်ကိုင်သည်။ ထိုသို့လုပ်ကိုင်ခဲ့စဉ် ရံဖန်ရံခါ အတွင်းရေးမှူးအဖြစ်လည်း ခေတ္တတက်ရောက်လုပ်ကိုင်ခဲ့ဘူးလေသည်။

ဦးရွှေကြူးသည် ခရစ် ၁၉၃၆ (မြန်မာ ၁၂၉၇) ခုနှစ်တွင် တံတေးသို့ အလည်အပတ်သွားရောက်စဉ် ခလုတ်တိုက်မိ၍ ခြေဖျားတွင်ရသော ဒဏ်ရာကြောင့် အနာဝင်ပြီးလျှင် အနိစ္စရောက်သွားလေသည်။

ဦးရွှေကြူးသည် မျိုးချစ်စိတ် ထက်သန်၍ စာပေ မြတ်နိုးသူ ဖြစ်ရာ 'မြန်မာ့အလင်း မဂ္ဂဇင်း'၊ 'မြန်မာ့အလင်း သတင်းစာ'နှင့် 'ဒေါင်းတံဆိပ် မြန်မာ ဖတ်စာသစ်' များကို စတင်ထုတ်ဝေခဲ့ရုံမျှ မက 'ခြင်္သေ့တံဆိပ် မြန်မာဖတ်စာ' (ဆရာလင်းနှင့်ပင် တွဲဖက် ထုတ်ဝေသည်။) 'ရွှေကြူး အသံထွက် အင်္ဂလိပ်–မြန်မာ အဘိဓာန်' စသည်တို့ကိုလည်း ရေးသားထုတ်ဝေခဲ့လေသည်။

**ရွှေခြည်ထိုးလုပ်ငန်း။** ။အသုံးအဆောင်၊အဝတ်အထည်တို့ကို ရွှေခြည်ငွေခြည်၊ ရွှေကြယ် ငွေကြယ်တို့ဖြင့် ပုံဖော်၍ထိုးသည့် လုပ်ငန်းကို ရွှေခြည်ထိုးလုပ်ငန်း ဟုခေါ် သည်။

ရွှေခြည်ထိုးပညာသည် အလောင်းဘုရား လက်ထက်ကစ၍ ထွန်းကားခဲ့သည် ဟုဆိုကြသည်။ ထိုခေတ်က ရွှေခြည်ထိုးထည်များသည် ယခုခေတ် အထည်များကဲ့သို့ လက်ရာနုသည် မဟုတ်ချေ။ ရွှေဒင်္ဂါးအပြားလိုက်ကို အထည်ကြမ်းကြမ်းပေါ်၌ ကပ်၍ ထိုးခြင်း ဖြစ်သောကြောင့် လက်ရာ

ကြမ်းသည်။ အလောင်းဘုရား သားတော် ဆင်ဖြူရှင် မင်းလက်ထက်တွင် ယိုးဒယားကို နိုင်သောအခါ ယိုးဒယားအနုပညာသည်များကိုခေါ်ခဲ့ရမှ အစ မြန်မာနိုင်ငံတွင် ရွှေခြည်ထိုးပညာသည် တိုးတက်လာခဲ့သည်။ အခက် အလက် အရွက်နှင့်ပန်းနွယ်ပန်းခက်ပုံများ စတင်ထိုးတတ်လာကြသည်။ အရုပ်များ ဖော်လာတတ်ကြသည်။ မင်းတုန်းဘုရင်လက်ထက် ရောက်သောအခါ အနောက်နိုင်ငံမှ ရက်လုပ်သောကတ္တီပါထည်နှင့် နန်းတွင်းရက် ပိတ်ချောထည်များ အပေါ်တွင် ရွှေခြည် ငွေခြည်တို့ဖြင့် ပန်းပုံ အရုပ်ပုံများ ထိုး၍ အသုံးပြုလာခဲ့ကြသည်။ ယခုခေတ်၌မူ ပိုးထည်ပေါ်၌ အထိုးများသည်။

မြန်မာဘုရင် လက်ထက် ရွှေခြည်ထိုး ပညာသည်များသည် ရှင်ဘုရင် မိဖုရားတို့ ဆင်မြန်းသော မင်းမြောက်တန်ဆာမှအစ အိမ်ရှေ့မင်း၊ ဝန်ကြီး၊ ဝန်ထောက်၊ မှူးတော်၊ မတ်တော်၊ စစ်သူကြီးနှင့် ရာထူးရာခံ ရှိသူ အားလုံးတို့၏ အဝတ်တန်ဆာ မင်းခမ်းတော်များကို ရွှေတိုက်ဝန်၏ အမိန့်အတိုင်း ရွှေတိုက်စာတမ်းနှင့် ကိုက်ညီစွာ ရာထူးအလိုက် လုပ်ဆောင်ကြရသည်။ နောက်မှတဖန် ဘုရင်မင်းမြတ်သည် သာသနာတော်သို့ ဝင်ရောက်မည့် ရှင်သာမဏေလောင်းတို့အား ၎င်း၊ နားထွင်းမင်္ဂလာပြုမည့် သူတို့အား ၎င်း မင်းဝတ်တန်ဆာနှင့် ဆင်တူရိုးမှား ဝတ်ဆင်နိုင်ခွင့်ပြုသဖြင့် ဝတ်ဆင်ကြရသည်။

မန္တလေးမြို့ရှိ ရွှေခြည်ထိုးရပ်ကွက်သည် ရှေးမြန်မာဘုရင်များ လက်ထက်အခါက ရွှေခြည်ထိုး အမှုထမ်းများ နေထိုင်ရာ အရပ် ဖြစ်သည်။ မြန်မာဘုရင်များ လက်ထက်က ဘုရင့်ရွှေခြည်ထိုး ပညာသည်များသည် ရွှေတိုက်ဝန်၏ ဝန်စုအမှုထမ်းများ ဖြစ်ကြသည်။ မင်းတုန်းမင်းနှင့် သီပေါမင်းလက်ထက်တော်၌ ရွှေခြည်ထိုးအမှုထမ်း လူ ၂၀ ခန့်ရှိ၍ တဦးလျှင် ရိက္ခာတော် စပါးတင်း ၃၃၀ အသနားတော် မြတ် ခံရကြောင်းဖြင့် ဆိုကြသည်။ အခြား ရာထူးရာခံ ပုဂ္ဂိုလ်များ၌လည်း ရွှေခြည်ထိုးပညာသည် သီးသန့်ထား၍ မိမိတို့၏ အဝတ်အထည်ကို ရွှေခြည်ဖြင့် ထိုးလုပ်စေသည်။

မြန်မာဘုရင် လက်ထက် ရွှေခြည်ထိုး ပညာသည်များသည် ဘုရင့်မင်းမြောက်တန်ဆာ၊ မိဖုရားကြီး၏ မဟာလ္လတာတန်ဆာ၊ အဆောင်ရ မိဖုရားများ၏ ဃနမဋ္ဌကနှင့် မလ္လိကာတန်ဆာ၊ ဝန်ကြီးမှူးကြီးများ၏ သိုရင်းဝတ်လုံနှင့် ဖောင်းခေါင်းဆောင်းများအပြင် ကန့်လန့်ကာ လိုက်ကာ စသောအသုံးအဆောင်များကိုပါ ပြုလုပ်ရသည်။ ရာထူးရာခံ မရှိသူများအတွက်မူ ရွှေခြည်ငွေခြည်၊ ရွှေကြယ်ငွေကြယ်တို့အစား လဲချေးကြယ်စေ့များကို ရိုးရိုးခြည်ဖြင့် ထိုး၍ ပြုလုပ်ပေးရသည်။ ယခုခေတ်၌မူ ဇာတ်အငြိမ့်ပွဲများ၌ မင်းသား မင်းသမီးများ ပုဆိုး၊ ထဘီ၊ မကိုဋ်၊ ခြေနင်း စသည်တို့နှင့် ရှင်ပြုနားသပွဲများတွင် ရှင်လောင်းနှင့် နားထွင်းမည့် အမျိုးသမီးတို့ဝတ်ဆင်ရန် ပုဆိုး၊ထဘီ၊ခေါင်းဆောင်းစသည်းပုံ စသည်တို့လောက်ကိုသာ ရွှေခြည်ထိုး ချုပ်လုပ်ကိုင်ကြရသဖြင့် ယင်းလုပ်ငန်းလုပ်ကိုင်သူ အလွန်နည်းပါးလေသည်။

**ရွှေဂူမြို့။** ။ရွှေဂူမြို့သည် ကချင်ပြည်နယ် ဗန်းမော်ခရိုင် ရွှေဂူမြို့နယ်၏ ရုံးစိုက်မြို့ ဖြစ်သည်။

ရွှေဂူမြို့နယ်သည် မြောက်ဖက်တွင် မြစ်ကြီးနား ခရိုင်နှင့်ကောက်ကွေ့ချောင်းပြင်ခြားလျက် တောင်ဖက်တွင် မိုးမိတ်နယ်နှင့် စပ်နေသည်။ အရှေ့ဖက်တွင် ဆင်ကန်ချောင်း အထိဖြစ်၍ အနောက်ဖက်တွင် ကသာခရိုင်နှင့် စပ်နေသည်။

ရွှေဂူမြို့သည် ဧရာဝတီ မြစ်၏ ဒုတိယမြစ်ကျဉ်း အောက်မိုင်အနည်းငယ်အကွာ လက်ဝဲဖက်ကမ်းပေါ်တွင် တည်ရှိသည်။ ဧရာဝတီမြစ်ကြောင်းဖြင့် ဗန်းမော်မြို့ အနောက်ဖက် ၃၈ မိုင် ဝေး၍ မြစ်ကြီးနားမြို့ တောင်ဖက် ၁၂၉ မိုင် ဝေးသည်။ ဗန်းမော်နှင့် ရွှေဂူမြို့သည် ကားလမ်းအဆက်အသွယ်ရှိသော်လည်း ရာသီဥတု ကောင်းမွန်သည့် အခါမှ သွားလာအသုံးပြုနိုင်သည်။ သို့ရာတွင် ရေလမ်းဖြင့်မူ အချိန်မရွေးသွားလာနိုင်သည်။

ရွှေဂူမြို့နယ် ဝန်းကျင်တွင် သစ်တောများ ပေါသဖြင့် သစ်လုပ်ငန်းကို အကြီးအကျယ် လုပ်ကိုင်သည်။ ထို့ကြောင့် ရွှေဂူမြို့သည် သစ်တော၌ာန သဘော်ဆိပ်မြို့ ဖြစ်လျက် ရှိသည်။ ရွှေဂူမြို့ထွက် ထင်ရှားသော ကုန်ပစ္စည်းမှာ မြေအိုးဖြစ်သည်။ ရွှေဂူအိုးသည် လှပစွာ ဆေးခြယ်ထားသဖြင့် အလွန်လူကြိုက်များသည်။

မြို့၏မြောက်ဖက် ဧရာဝတီမြစ်လယ် သောင်ကျွန်းပေါ်၌တည်ရှိသော ကျွန်းတော်ကြီးဘုရား ခေါ် ရွှေပေါ်ကျွန်းဘုရားသည် ရွှေဂူမြို့၏ ထင်ရှားသော တန်ခိုးကြီးဘုရား ဖြစ်သည်။ သောင်ကျွန်းတကျွန်းလုံးပေါ် ဘုရားပေါင်း များစွာ တည်ထားခြင်း ဖြစ်သည်။ ဧရာဝတီ မြစ်ရေချိန် တက်သောအခါ၌ပင် ဘုရားရင်ပြင်ပေါ် သို့ ရေမလွှမ်းဟုလည်းဆိုသည်။

**ရှောင်ါး။** ။ရှောင်ါး ဟူသည်မှာ အသွေးအရောင် လှပသည့် ယဉ်ပြီးဖြစ်သော အိမ်မွေးငါးငယ်ကလေးများ ဖြစ်သည်။ ငါးမွေးကန်ထဲ၌ ရွှေရောင်တလက်လက်နှင့် လူးလာ ပျော်ပါး ကူးခတ်သွားလာနေသော ရှောင်ါးကလေးတို့သည် ကရပ်စီးယပ် ဩရတပ် ခေါ် ငသိုင်း တမျိုးမှ ပေါက်ပွားလာကြောင်းကိုမူ လူတိုင်း မသိကြချေ။

ရှောင်ါးသည် အာရှတိုက် အရှေ့ပိုင်းမှ စ၍ မျိုးပြန့်ပွားလာသည်ဟု ဆိုသည်။ လွန်ခဲ့သည့် နှစ်ထောင်ပေါင်း များစွာကပင် တရုပ်နိုင်ငံ၌ ရှောင်ါး မွေးမြူမျိုးစပ်မှု ပြုခဲ့ကြလေသည်။ သို့ရာတွင် ယခု ကျွန်ုပ်တို့ တွေ့မြင်နေကြရသော ရှောင်ါးကို ဂျပန်နိုင်ငံမှ များသောအားဖြင့် မောက်၍ ရောင်းကြသည်။



ရွှေငါးများကို သဘာဝကျစွာ နေနိုင်အောင် ဤသို့ ရေကန်ကို ပြုပြင် ထားရသည်။

အချို့ ရွှေငါးသည် အလွန်လှပ၍ အချို့သည် အကြည့်ရဆန်းသည်။ အချို့ရွှေငါးသည် နှစ်လက်မမှ သုံးလက်မခန့်သာ ရှိ၍ အချို့မူ တပေအထိပင် ရှည်ကြသည်။ အချို့တွင် အလွန်ပါးသော အကြေးခွံ ပါသော်လည်း အကြေးမပါသကဲ့သို့ပင် မှတ်ထင်ရသည်။

ရွှေငါးအရိုင်း၏ အဆင်းသည် ညိုပုပ်၏။ သို့ရာတွင် အချို့ ရွှေငါးအရိုင်း၏ အရောင်သည် တောက်ပြောင်သော လိမ်မော်ရောင်၌ အမဲစက် အညိုစက်များပါသည်။ ရွှေငါး အရိုင်းကောင်များကို လူတို့ ကြိုက်သလို မျိုးစပ် မွေးမြူခဲ့သဖြင့် ယခုခေတ်တွင် တွေ့မြင်ရသကဲ့သို့ အရောင်အမျိုးမျိုး အရွယ်အမျိုးမျိုး ပြောင်းလဲ ရရှိခဲ့ခြင်း ဖြစ်ရာ ငွေကွက် ကလေးများဖြင့် တကိုယ်လုံး ဆွတ်ဆွတ်ဖြူသော ငါးကလေးမျိုးများပင် မျိုးပွား လာခဲ့လေသည်။ ရွှေငါး အမျိုးပေါင်း ၂၀ ခန့် ရှိလေသည်။ အဝေးကြည့် မှန်ပြောင်းကဲ့သို့ ပြူးထွက် နေသော မျက်လုံး ရှိ၍ ကျောဆူးတောင် မရှိသော ရွှေငါးမျိုးလည်း ရှိသေးသည်။ ယင်း၏ အမြီးတောင်သည် အခြား ငါးများကဲ့သို့ နှစ်ခွ မဟုတ်ဘဲ သုံးခွဖြစ်နေ၏။ ရွှေငါးတိုင်းသည် ရွှေရောင်ချည်း ရှိသည်မဟုတ်ချေ။ အနီ၊ လိမ်မော်၊ ကြေးညို၊ အညို၊ မီးခိုး၊ အနက်၊ အဖြူရောင်တို့ပင် ရှိကြသည်။ မွေးစရွှေငါးသည် အရောင် မတောက်လှသော်လည်း ကြီးလာသည်နှင့်အမျှ ချစ်စဖွယ် လှပ တင့်တယ်သော အရောင်များ ဖြစ်ပေါ်လာသည်။

ရွှေငါးများသည် ပိုးမွှားနှင့် အပင်ကလေးများကို စားသောက်ကြသဖြင့် သူတို့အား မွေးမြူသော ကန်တွင် ရေညှိပင်များ ထားပေးရသည်။ ရေကိုလည်း သန့်ရှင်းအောင် လဲလှယ်ပေးရသည်။ နွေးလွန်းသော ရေ၊ အေးလွန်းသော ရေများ၌ မနေနိုင်ကြချေ။ ရွှေငါးတို့အတွက် အစာ ပြုပြင်စီမံရောင်းချကြသဖြင့် ရွှေငါးကို အလှ မွေးမြူသူတို့သည် ယင်းအစာဗူးကို ဝယ်၍ ရက်ခြား အစာကျွေးရသည်။ ရွှေငါးကို မွေးမြူသည့်အခါ အဝကျဉ်းသော ဖန်ဗူးထက် အဝကျယ်သော မှန်သေတ္တာနှင့် ထည့်မှ ပိုကောင်းသည်။

ရွှေငါးပြပွဲကို ဂျပန်နိုင်ငံ တိုကျိုမြို့၌ နှစ်စဉ် ကျင်းပကြ၍ တကိုယ်လုံး နီလွင်သော ငါးများကို ပဌမတန်း ထားကြသည်။ ကိုယ်လုံး ဝိုင်းဝိုင်း၊ ဦးခေါင်း ပြားပြားပေါ်တွင် အချွန်အထစ်များ ထွက်လျက် ကျောဆူးတောင် မရှိသော ရွှေငါးမျိုးကို လူများ အလွန်နှစ်သက်ကြ၍ တစုံလျှင် ငွေ ၃၀၀ မှ ၄၀၀ အထိပင် ပေးဝယ်လေ့ ရှိကြသည်။

အလှမွေးမြူသည့် ရေကန် ရေအိုင်များမှ လွတ်ထွက်လာ

မြစ်ချောင်းများသို့ ရောက်ရှိ ပေါက်ပွားကြသော ရွှေငါးများကို မပြုပြင်ဘဲ အရိုင်း လွှတ်ထားသောအခါ နဂို ညိုပုပ်ရောင် ပြန်ဖြစ်၍ ခြောက်လက်မမှ ၁၂ လက်မအထိပင် ကြီးလာတတ်သည်။ အချို့ဒေသတို့၌ ရွှေငါး အများအပြား ပေါက်ပွားနေကြသောကြောင့် ဟင်းလျာအဖြစ်ပင် ဖမ်း၍ ရောင်းချကြလေသည်။

**ရွှေစာရံဘုရား။** ။မြန်မာနိုင်ငံ၌ ရွှေစာရံ ဟူသော ဘွဲ့တော်ဖြင့် ထင်ရှားသော စေတီ နှစ်ဆူရှိလေသည်။ တဆူမှာ တနင်္သာရီတိုင်း သထုံမြို့ပေါ်တွင် တည်ရှိ၍ တဆူမှာ မန္တလေးခရိုင်အတွင်း မြစ်ငယ်မြစ်ပေါ်တွင် တည်ရှိသည်။

သထုံမြို့တွင် တည်ရှိသော ရွှေစာရံ စေတီတော်သည် စိန်ဖူးတော်မှ ဖိနပ်တော် အထိ ဉာဏ်တော် ပေ ၃၆၀ ရှိ၍ အရံစေတီပေါင်း ၃၇ ဆူ၊ မုခ်နှင့် ရုပ်ပွားတော်ပေါင်း အစုစု ၄၅ ဆူ ရှိလေသည်။

သထုံ ရွှေစာရံစေတီတော်မြတ်ကို မြတ်စွာဘုရားသခင် သက်တော်ထင်ရှားရှိစဉ် သထုံပြည်ကြီးသို့ ဒေသစာရီ ကြွချီခိုက်၌ပင် တည်ထားခဲ့သည်ဟု ဆိုသည်။ စေတီတော် မူလဒါယကာမှာ သထုံပြည်ကြီးအရှင် ကုလဝိသရာဇာသက္က မင်းတရားကြီးနှင့် တောင်ညာစံ ဒေဝီ မဟေသီ မိဖုရားခေါင်ကြီးတို့မှ မဟာသက္ကရာဇ် ၂ ခုနှစ်တွင် မြင်သော သူရိယစန္ဒာ မင်းကြီးဖြစ်သည်။ သူရိယစန္ဒာ မင်းကြီးသည် မဇ္ဈိမ ဒေသ၌ ဘုရားသခင် ပွင့်တော်မူကြောင်း ကြားသိသော အခါ ဖူးမြင်လိုသောဆန္ဒ အားကြီးတော် မူရကား မြတ်စွာဘုရားအား ပင့်လျှောက်ရန် တချက်လွှတ် အမိန့်တော် ချမှတ်လေသည်။ သထုံပြည်၌ သာသနာ သုံးရပ် ကြာမြင့်စွာတည်မည့် အဖြစ်ကို ကောင်းစွာသိမြင်တော်မူသော ဘုရားသခင်သည် ပင့်ဖိတ်သည်ကို လက်ခံတော်မူ၍ မဟာသက္ကရာဇ် ၁၀၅ ခုနှစ် သီတင်းကျွတ် လပြည့်ကျော် ၁ ရက်နေ့တွင် ရာဇဂြိုဟ်ပြည်မှ ကြွသွားတော်မူရာ နတ်တော်လဆန်း ၁ ရက် စနေနေ့တွင် သထုံပြည်သို့ ရောက်လေသည်။ သူရိယ စန္ဒာ မင်းတရားကြီးနှင့် မိဖုရားကြီးတို့သည် ဘုရားသခင်အား ဖူးမြင်ရသောအခါ ကြည်ညိုစိတ် လွန်ကဲလှသဖြင့် မိမိတို့၏ မကိုဋ်နှင့်ဥက္ကင်္ဒတော် အသီးအသီးကို ချွတ်၍ ပူဇော်တော် မူလေသည်။ ဘုရားသခင်လည်း မင်းမိဖုရား ပရိသတ်တို့အား တရားရေအေး အမြိုက်ဆေးကို တိုက်ကျွေးတော်မူရာ မင်းတရားကြီးသည် ဘုရားသခင်အား ကြည်ညို၍ မဝလှသဖြင့် သထုံပြည်၌ ၁၀ ဝါမျှ သီတင်းသုံးတော်မူပါရန် လျှောက်ထား လေသည်။ ဘုရားသခင်လည်း သထုံပြည်၌ ၁၀ ဝါနေရန် ငြင်းတော်မူ၍ ခြောက်လနှင့် ၁၃ ရက် သီတင်းသုံးမည်ဖြစ်ကြောင်း မိန့်တော်မူသည်။ မင်းကြီးသည် ဘုရားသခင် သီတင်းသုံးတော်မူရန် ဇေတဝန်ကျောင်းကြီး ဆောက်လုပ် လှူဒါန်းလိုသော်လည်း ဘုရားသခင်က ခွင့်ပြုတော်မမူသောကြောင့် ရွှေနန်းတော်၏ အရှေ့တောင် မနီးမဝေးမြင့် အဆင့်ဆင့်ဖြင့် လျှောက်ပတ်သည့် နေရာဖြစ်သော မောရပဗ္ဗတ ကုန်း၌ ဝေဠုဝန်ဝါးကျောင်းကို ဆောက်လုပ် လှူဒါန်းတော်မူသည်။

ဘုရားသခင် သထုံပြည်၌ ခြောက်လကျော် သီတင်းသုံးပြီးနောက် ပြန်ကြွတော်မူသောအခါ မင်းနှင့်တကွ တိုင်းသူပြည်သားတို့ လျှောက်ထား တောင်းပန်ချက်အရ ကိုးကွယ်ရစ်ကြရန် ကိုယ်တော်စား သွားတော်ဓာတ်ရတနာကို ထားတော်မူခဲ့လေသည်။ ထိုသွားတော်ဓာတ်ကိုလည်း ဘုရားသခင် မိန့်မှာတော် မူသည့်အတိုင်း ကကုသန် ဘုရားသခင်၏ ဆံတော်ရှစ်ဆူ၊ ကောဏာဂုံဘုရားသခင်၏ တောင်ဝှေးတော်ရတနာ၊ ကဿပဘုရားသခင်၏ မြသပိတ် ရတနာတော်တို့ကို ထားရာ သုနာပရန္တဥန္နတကုန်းပြင်၌ မဟာသက္ကရာဇ် ၁၀၅ ခု တပေါင်းလဆန်း ၁၅ ရက်နေ့ နံနက်တွင် ခမ်းနားစွာ ဌာပနာ၍ စေတီတော်မြတ် တည်လေသည်။ စေတီတော်မြတ်၏ ပူဖွယ်ကိစ္စ အဝဝ ပြီးစီးသောအခါ ဘုရားသခင်က တည်ထားရင်း ဒါယကာတို့၏ တောင့်တမှု အာသာမှ ကြာမြင့်စွာ မပျက်မစီးဘဲ အမြဲ တည်နေတော်မူစေသတည်းဟု စိရဋ္ဌာတု ပတ္ထနာပြုသောကြောင့် စိရဋ္ဌာတု စေတီတော်ဟူ၍ သမုတ်ရန် ဗျာဒိတ်စကား မိန့်ကြားတော်မူလေသည်။ ထိုကြောင့် စိရဋ္ဌာတု စေတီ ဟူသော ဘွဲ့တော်မှ စိရံစေတီ၊ ထိုမှ စာရံစေတီဟုခေါ်ကြသည်။ စည်းခုံစေတီ၊ မောဓောစေတီတော်တို့ကို ရွှေစည်းခုံစေတီ၊ ရွှေမောဓောစေတီ စသည်ဖြင့် ခေါ်ဝေါ်သကဲ့သို့ စာရံစေတီ ကိုလည်း ရွှေစာရံစေတီ ဟု သမုတ်ကြကြောင်းဖြင့် အဆိုရှိသည်။

ရွှေစာရံ စေတီကြီး၏ အရှေ့ဖက်တွင် ဓာတ်တော် များကို ဆေးကြောရာ၌ သုံးသည့် မြူတာအိုး ရတနာ ၄၇ လုံးကို အောက်အခင်း မြအခံပြု၍ ဌာပနာကာ တည်ထားအပ်သော မြသိန်းတန်ဘုရား တည်ရှိသည်။ သိကြားမင်း၏ ညွှန်ကြားချက်အတိုင်းဌာပနာသောကြောင့် ယခုအခါ သိကြားဘုရား ဟုလည်း ခေါ်ကြသည်။

မြသိန်းတန် စေတီတော် အနီး၌ပင် ဓာတ်တော်ဆေးသည့်အခါက အောက်ကခံအပ်သည့် ရွှေပြားကို ဌာပနာ၍ တည်ထားသော ရွှေပြားခံ စေတီလည်း ရှိသည်။ ယင်းစေတီကို ယခုအခါ ရွှေဆေးခံ စေတီ ဟုရင်း၊ ကမ်းယံ လူမျိုးများ ဘုရားတည်ရာ၌ ဝင်ရောက် ဆောင်ရွက်ပေးသည်ကို အစွဲပြု၍ ကရင်ဘုရား ဟုရင်း ခေါ်ဝေါ်ကြသည်။

ရွှေစာရံစေတီ ဘုရားပွဲတော်ကို နှစ်စဉ် တပေါင်းလဆန်း ၈ ရက်နေ့မှ တပေါင်းလပြည့်နေ့အထိ ကြီးကျယ် စည်ကားစွာ ကျင်းပလေ့ ရှိသည်။

မန္တလေးခရိုင်အတွင်း မြစ်ငယ်မြစ်ကမ်းပေါ်တွင် ရှိသော ရွှေစာရံဘုရားသည် အညာဘုရားများတွင် ကျော်လေးဆူ

အဝင်ဖြစ်သည်။ သက္ကရာဇ် ၄၀၀ ခန့်က တည်ထားခဲ့သော စေတီ ဖြစ်လေသည်။

မန္တလေး—မေမြို့သွား ကားလမ်းအတိုင်း သွားဘူးသူတိုင်းသည် မြန်မာနိုင်ငံ သမိုင်း၌ ထင်ရှားသော ရွှေစာရံ ဘုရားကို မနီးမဝေးမှ လှမ်း၍ဖူးမြော်ကြရသည်။ ရွှေစာရံဘုရားသည် မန္တလေးမြို့ အရှေ့တောင်ဖက် ၁၃ မိုင်ကျော် ဝေးသော ရွှေစာရံရွာအနီးတွင် တည်ရှိသည်။ မန္တလေး-မေမြို့လမ်းအတိုင်း ၁၃ မိုင်ခန့် သွားပြီးနောက် လက်ျာဖက် မြေနီလမ်းအတိုင်း သုံးမိုင်ခန့် သွားမှု မြစ်ငယ်မြစ်၏ မြောက်ဖက် ကမ်းဘေး၌ ရွှေစာရံဘုရားကို ဖူးတွေ့ရပေမည်။ ဘုရားဒါယကာမှာ ပုဂံပြည် အနော်ရထာမင်းစော၏မိဖုရား ရှမ်းမင်းသမီး စောမွန်လှ ဖြစ်သည်။

သမိုင်းအဆိုအရ အနော်ရထာမင်းစောသည် တရုပ်ပြည်၌ ဘုရားသခင် စွယ်တော်ပင့်သွားရာ စွယ်တော် မရဘဲ သိကြားအပ်သော မြဆင်းတုကိုသာ ရခဲ့လေသည်။ တရုပ်ပြည်မှ အပြန် ရှမ်းပြည်သို့ အရောက်တွင် မော ကိုးပြည်ထောင်ကို အစိုးရသော စော်ဘွားက အလွန် အဆင်းလှသော သမီးတော်စောမွန်လှကို ဆက်လိုက်လေသည်။ မင်းကြီးလည်း စောမွန်လှအား အခြား ကိုယ်လုပ်မောင်းမတို့ထက် သာလွန်၍ အရေးတယူ မြတ်နိုးတော် မူသည်။ အခါတပါး၌ စောမွန်လှ နား၌ ပန်ထားသော ပတ္တမြားနားတောင်းတွင် မွေတော်မြတ်ကိန်းဝပ်တော်မူ၍ အရောင်အဝါ တောက်ထွန်းသည်ကို မိဖုရား မောင်းမတို့ မြင်လျှင် စောမွန်လှ အပေါ်၌ မလိုစိတ်ရှိရင်းစွဲကြောင့် စောမွန်လှသည် ဇော်ဂနီစုန်း ဖြစ်ကြောင်း လျှောက်လေသည်။ မင်းကြီးလည်း ပြောတိုင်း ယုံမှတ်တော်မူ၍ စောမွန်လှအား နေရင်း ရှမ်းပြည်သို့ ပြန်စေရာ စောမွန်လှလည်း မင်းကြီးမှ စ၍ ပြည်စောင့်နတ်၊ နန်းစောင့်နတ်တို့အား ရှိခိုးကာ အခြွေအရံ များနှင့်တကွ ပြန်လေသည်။ ညောင်ဦးရွာ၊ ညဉ့်ရွာ၊ ပလင်း၊ လက်ထုတ်၊ ကောင်းစည် ရွာ၊ တုရွှင်းတောင်၊ ဂဝံပတော့ မြို့သစ် စခန်းမ၊ ကျွန်ဘားရွာတို့ကို လွန်မြောက်၍ ယခု ရွှေစာရံဘုရားတည်ရာ အနီးရှိ နားတောင်းကျချောင်း နားသို့ရောက်သော် နားတောင်းကျွတ်လေသည်နှင့်ရေတွင် နားတောင်း အရောင် ထင်သောကြောင့် ငုပ်၍ ရှာဖွေသော်လည်း မတွေ့ဘဲ၊ ကောင်းကင်၌ စာသူငယ်အပေါင်းသာသောသည့်ဝန်းရံ၍ နားတောင်းနှင့်တကွ မွေတော်သည် ပြာဋိဟာပြလျက် နေလေသည်။ ဤအခြင်းအရာကို မြင်သော် စောမွန်လှလည်း ရှိခိုးပူဇော်ကာ အဓိဋ္ဌာန် ပြုလိုက်မှ နားတောင်းမွေတော်မြတ် သက်လာ၍ စောမွန်လှ၏ လက်ဝဲနားဝယ် ဝတ်မြဲအတိုင်း တည်လေသည်။ ထိုမွေတော်ဓာတ်ကို ဌာပနာ၍ စေတီတည်လိုစိတ် ပေါ်လာသောအခါ သိကြားမင်းသည် သာသနာ ငါးထောင်တိုင်အောင် လူအပေါင်းတို့ ကိုးကွယ်ရာဖြစ်မည်ကို မြင်သဖြင့် အုတ်စု အုတ်ပုံ ညွှန်ပြလေရာ ထိုနေရာ၌ မွေတော်မြတ် ဌာပနာ၍ အရှေ့ဖက်သို့ လိုဏ်ဝ ထားကာ ဥာဏ်တော် ငါးတောင် ပမာဏရှိသော ဘုရားလိုဏ်ဂူ တည်လေသည်။ ကောင်းကင်၌ မွေတော်ကို စာများရံလျက် တည်သည်ကို စွဲ၍ ရွှေစာရံဘုရား တွင်သည်။ ဘုရားတည်ရာ အရပ်၌ ဘုရား အလောင်းတော်သည် မြွေငန်း ခုနစ်ကြိမ်ဖြစ်၍ နေခဲ့ဘူးကြောင်းဖြင့်လည်း ဆိုကြသည်။

စောမွန်လှသည် ထိုအရပ်တွင် ဘုရားတည်ကြောင်း အနော်ရထာမင်းစော ကြားသိတော်မူသော အခါ အရှေ့မောရှမ်းတို့ ရွာသို့ မျက်နှာလိုဏ်ဝထားမှု စောမွန်လှကို သတ်ခဲ့ရန်၊ပုဂံပြည်ဖက်သို့ လိုဏ်ဝရှေးရှုရှိမှု ချမ်းသာစေရန် အမိန့်တော်နှင့် မင်းစေတမန်တို့ကို လွှတ်လိုက်၏။ မင်းစေတမန်တို့ ညရီတရော ရောက်သောအခါ အမှာတော် ရှိသည့်အတိုင်း မင်းသမီးအား လျှောက်ထားလေသည်။ မင်းသမီးလည်း မင်းစေတို့အား ဆုလာဘ် တံဆိုးပဏ္ဏာပေး၍ နံနက်မိုးသောက်မှ ထပ်မံကြည့်ပါရန် ပြောကြားလေသည်။ စောမွန်လှသည် တညဉ့်လုံးလုံး သိကြား၊ စတုလောကပါလ၊ သမ္မာဒေဝ နတ်တို့အား ရှိခိုးဓိဋ္ဌာန် ပြု၍ ဆင်မြန်းတော်မူသော ရွှေဖျဉ်မြစီတံပက်နှင့် ဘုရားကို ဆွဲငင်လှည့်လည်လျှင် အရှေ့သို့ မျက်နှာမူ၍ တည်သော ရွှေစာရံဘုရားသည် အနောက်သို့ လိုဏ်ဝလှည့်သွားလေသည်။ မိုးသောက်၍ မင်းစေတို့ ထိုအခြင်းအရာကို မြင်သောအခါ ပုဂံပြည့်ရှင်အား လျှောက်ထားရန် ချက်ခြင်းပင် ပြန်ကြလေသည်။ ဘုရားသည် ပုဂံပြည်ဖက်သို့ လှည့်နေကြောင်း အနော်ရထာ မင်းစော ကြားသိလျှင် အားရတော်မူသဖြင့် သက္ကရာဇ် ၄၁၆ ခုတန်ဆောင်မုန်း လဆန်း ၁၀ ရက်နေ့တွင် ရွှေစာရံ ဘုရားဝန်းကျင် မြေတာ ၁,၀၀၀ ကျော် လှူတော်မူသည်။

မြေးတော် အလောင်းစည်သူ မင်းကြီး လက်ထက် သက္ကရာဇ် ၄၇၅ ခုတွင် သင်ပုတ်ဝတ် ဖြစ်စိမ့်သောငှာ အရှေ့အလားသမ္ဘာရချောင်း၊တောင်အလား မြစ်ငယ်မြစ်၊အနောက်အလား ပန်းချောင်းတဖက် ယင်းမာပင်၊ မြောက်အလားနကဲ့ချောင်း၊နကဲ့တောင်တို့ကို နယ်သတ်မှတ်သည်။အတွင်းမြေကို ရွာနှင့်တကွ လှူတော်မူသည်။ ဝတ်သိမ်း ဝတ်ချက်တံမြက်သုတ်သင်စိမ့်သောငှာ ကျွန်သီးတော်လည်း အိမ်ခြေ ၅၀ လှူတော်မူသည်။ ထိုနောက် မိုးညှင်းမင်း လက်ထက် ရွှေစာရံဘုရားကို ထပ်မံပြင်ဆင်ရာ ဥာဏ်တော် သံတောင် ၃၀ ခန့် မြင့်လာသည်။ ထိုနောက် မဟာမင်္ဂလာ ရွှေဘုံငါးထပ်ကျောင်းတော် ဒါယကာ (စဥ့်ကူးမင်း) လက်ထက် မယ်တော်မိဖုရားခေါင်ကြီးက ထပ်မံ ပြင်ဆင်၍ ရွှေထီးတင်တော်မူသည်။ စေတီတဆူလုံးကိုလည်း ရွှေအပြည့် ချတော်မူသည်။



သထုံမြို့ ပတ်ဝန်းကျင်နှင့်တကွ ရွှေစာရံ ဘုရားကို ဤသို့ ဖူးမြင်ရသည်။

အဆိပ်ထန်သော မြွေပွေး မြွေဟောက်တို့သည် ဘုရားတန်တိုင်းသို့ဝင်လျှင် အာစေးထည့်ထားသကဲ့သို့ မကိုက်နိုင်ဖြစ်ကြောင်း၊ မြွေကိုက်ခံရသူကို ရွှေစာရံဘုရား တန်တိုင်းတွင်းသို့ သွင်းလျှင် အဆိပ်ပြေ၍ ချမ်းသာရကြောင်းဖြင့် ပြောဆိုကြသည်။

ရွှေစာရံဘုရားပွဲတော်ကို နှစ်စဉ် တပေါင်းလပြည့်ကျော် ၃ ရက်နေ့မှ ၇ ရက်နေ့အထိ ငါးရက် ကျင်းပရာ အနားဝန်းကျင် မြို့ရွာနယ်ပယ်တို့မှ လာရောက်ကြသဖြင့် အထူးပင် စည်ကားသည်။ ပွဲတော်အခါ၌ လူများသာ မက ငထွေ၊ ငရွှေးအစရှိသောငါးကြီးများပါ စေတီတော်ကိုလာရောက် ဖူးမြော်ကြသည် ဟုအဆိုရှိသည်။ ငါးကြီးများသည် မြစ်ငယ်မြစ်ကို ဆန်တက်လာကာ ဘုရားတည်ရာကမ်း၌ပေါ်နေတတ်သဖြင့် ဘုရားပွဲလာတို့ အစာကျွေးခြင်း၊ ခေါင်းကို ရွှေချခြင်းများ ပြုလုပ်ကြလေသည်။

**ရွှေစက်တော်။** ။စက်တော်ရာ — ရှု။

**ရွှေစည်းခုံ ဘုရား။** ။ "ထီး မဆိုင်း၊ တန်တိုင်းမှာ ရိပ်တည်။ မလွှင့် ရွှေလှော်ပ၊ ဗိုလ်သောင်းထောင် ဝင်မကျပ်သည့်ပြင်၊ ဆွမ်းကပ်သူ လက်မဦးနိုင်ဘုမထူးမြည်ကြာဟီး၊ တီးတော့ ရွှေစည်။ မြင့်ဝှမ်းယောင် ထင်စနိုးရသည့်၊ မိုးကပ်ပြု ရေအရည်၊ အနည်မျှ မကြွင်း။ ချယားပင် ဒွါဒသင် ခါမလင့်ပြီဘု၊ ဖူးပွင့်ကြူထုံတဲ့၊ ဇေယျခံ အံ့ဖွယ်ကိုးကို တိုးခဝပ်စင်း" ဟု ကင်းဝန်မင်းကြီးက စပ်ဆိုပူဇော်ခဲ့ရသော အံ့ကိုးပါးနှင့် ပြည့်စုံတော်မူသည့် ရွှေစည်းခုံဘုရားသည် ပုဂံမြို့ဟောင်း၏ အရှေ့မြောက်ဖက် လေးမိုင်ခန့် ဝေးသော ညောင်ဦးမြို့တွင် တည်ရှိသည်။ ညောင်ဦးမြို့ ဈေး၏ အနောက်ဖက် မိုင်ဝက်ခန့် အကွာ သဲစည်းခုံပေါ်တွင် တည်ထားသဖြင့် ရွှေစည်းခုံဘုရား ဟုတွင်ခဲ့သည်။

ရွှေစည်းခုံဘုရား၏ ထင်ရှားသော အံ့ကိုးပါးကား —

(၁) ထီးတော်သည် ကြီးသော်လည်း သံကြိုးမဆိုင်းရခြင်း၊

(၂) တန်တိုင်းပြင်သို့ အရိပ်မထွက်ခြင်း၊



အနော်ရထာမင်းစောနှင့် ကျန်စစ်သားမင်းကြီးတို့ တည်ထားကိုးကွယ်ခဲ့သည့် ရွှေစည်းခုံဘုရား

(၃) အထက် ကြာလန်ကပစ်ချသော ရွှေလှောင်စက္ကူ သည် တန်တိုင်းပြင်သို့ လွင့်မသွားခြင်း၊
(၄) ပရိသတ် မည်မျှပင် ဝင်သော်လည်း တန်တိုင်း အတွင်း၌ လူနေမကျပ်ခြင်း၊
(၅) တန်ဆောင်မုန်းလပြည့်နေ့ ပွဲတော်အခါတွင် ပဌမ သပိတ်တော်၌ဆွမ်းဦးအောင်မတင်မလှူနိုင်ခြင်း၊
(၆) တဖက်မှ တီးသော စည်သံကို တဖက်မှ မကြားရ ခြင်း၊
(၇) အဝေးက ကြည့်လျှင် ကုန်း၊ အရံတွင်းသို့ ရောက် လျှင် ကျင်းကဲ့သို့ ထင်မှတ်ရခြင်း။
(၈) မိုးကြီးသည်းထန်စွာရွာသော်လည်း စေတီရင်ပြင် ၌ ရေမတင်ခြင်း၊
(၉) စေတီတော် အရှေ့တောင်ထောင့်ရှိ ချယားပင် သည် ၁၂ ရာသီပတ်လုံးပွင့်ခြင်းတို့ ဖြစ်သည်။

ရွှေစည်းခုံဘုရားကို သက္ကရာဇ် ၃၉၃ ခုနှစ်တွင် ပုဂံပြည့်ရှင် အနော်ရထာမင်းစောသည် စွယ်တော်ပွားတဆူ၊ မြဆင်းတု တဆူ၊ နဖူးသင်းကျစ် တဆူတို့ကို ဌာပနာ၍ တည်ထားခဲ့ သည်။ သမိုင်းအဆိုအရ အနော်ရထာမင်းစောသည် ပုဂံ ဆိပ်ကမ်းသို့ သီဟိုဠ်မှ ပင့်ခဲ့သော စွယ်တော်ပွား ရောက် သောအခါ လည်ပင်းတိုင်အောင် ရေသို့ဆင်း၍ ကြိုတော်မူ ပြီးနောက် နန်းတော်ဦး၌ထား၍ကိုးကွယ်လေသည်။ ထိုအ ခါ ရှင်အရဟံက လူ နတ် ဗြဟ္မာ သတ္တဝါတို့အကျိုးငှာ သာ သနာ အဓွန့်ရှည်သမျှ ဖူးမြော်ပူဇော်နိုင်ရန် ဘုရားတည်၍ ဌာပနာ သင့်သည်ဟု အကြံပေးသဖြင့် စွယ်တော်မြတ်ကို ဆင်ဖြူရတနာထက်တင်ကာ စွယ်တော်ကိန်းဝပ်လိုရာ အရပ် ၌ ဆင်ဖြူရတနာ ဝပ်စေသတည်း ဟု အဓိဋ္ဌာန်ပြု၍ လွှတ် တော်မူသည်။ ဆင်ဖြူရတနာသည် ပုဂံမြို့မှ ဥဘာဘ ၅၀ အ ကွာ အရှေ့မြောက်အရပ် သဲစည်းခုံတွင် ဝပ်လေသော် မင်း ကြီးသည် များစွာ စိတ်မသက်မသာ ဖြစ်လေသည်။ ယင်း အဖြစ်ကို သိကြားမင်း သိသော် စိတ်မဆင်းရဲရန် အိပ်မက် ပေး၍ ထိုမြေကို ကျောက်မြေအတိ ဖြစ်စေ၍ သံပြားနှင့် ကွပ်ပေးသည်ဟု သမိုင်းစာအုပ်များ၌ အဆို ရှိသည်။

ဆင်တော်ဝပ်ရာ သဲစည်းခုံတွင်ပင် စွယ်တော်မြတ်ကို ဌာ ပနာ၍ စေတီတည်သည်။ စေတီတော် ပစ္စယာ သုံးဆင့် ပြီး

သည့်နှစ်တွင်ပင် စွယ်တော်ကို စွယ်တော်လေးဆူ ထပ်မံပွား၍ တန့်ကြည့်တောင် စေတီ၊ လောကနန္ဒာစေတီ၊ တုံ့ဝပ်တောင် စေတီ၊ ပြက်တောင် စေတီတို့ တည်ပြီး ဌာပနာသည်။ထိုနှစ်တွင်ပင် တရုပ်ပြည်မှ သိကြားပေးသောမြဆင်းတု တဆူ၊ သရေခေတ္တရာပြည်ရှိ ဒွတ္တပေါင်မင်းကြီး တည်ထားသော စေတီတော်မှ ဘုရားသခင် နဖူးသင်းကျစ်တော်ဓာတ် တဆူ တို့ကို ရွှေစည်းခုံစေတီ၌ ဌာပနာသည်။ ထိုနောက် မင်းကြီး၏ ကိုယ်စား ရတနာပန်းတောင်းကိုဖက်နေဟန် ရွှေစင်ကိုသွန်းလုပ်၍ ဌာပနာ တော်မူသည်။ သက္ကရာဇ် ၄၂၁ ခုနှစ်တွင် ရွှေစည်းခုံ အတွင်းထပ်စေတီ ပြီး၍ ရွှေထီးအထွတ်တင်ကာ သာဓုခေါ်ပွဲကို ခမ်းနားကြီးကျယ်စွာ ခင်းကျင်းတော်မူသည်။ အပြင်ထပ်စေတီကို ဖိနပ်ခြေသံတောင် ၃၂၀ ရှိအောင် တည်တော်မူမည်ဟု အကြံတော် ရှိသော်လည်း ၄၄၆ ခုနှစ်တွင် နတ်ရွာစံသဖြင့် အကြံတော်မအောင်မြင်ချေ။

ခမည်းတော် တည်၍ မပြီးမပြတ်ရှိသော ရွှေစည်းခုံစေတီတော်ကို ကျန်စစ်သားမင်းကြီးသည် သက္ကရာဇ် ၄၅၁ ခုနှစ် တန်ဆောင်မုန်း လဆန်း ၁၃ ရက်နေ့တွင် စတင်၍ ဆက်တည်တော်မူသည်။ ခမည်းတော် ရည်ရွယ်တော်မူရင်း ဖိနပ်ခြေ သံတောင် ၃၂၀ သည် ကြီးကျယ်လွန်းသဖြင့် ရှင်အရဟံနှင့် ညှိနှိုင်းတိုင်ပင်ကာ ဖိနပ်ခြေ သံတောင် ၃၀၀၊ အမြင့် သံတောင် ၇၀ ရှိသော စေတီကို အတွင်းထပ် စေတီအား ငုံ၍ တည်သည်။ တုံ့ဝပ်တောင်၌ ရှိသော ကျောက်များကို အလျား သုံးထွာ၊ အနံ တထွာ ရွှေခြမ်းစေ၍ လူအများ လက်ဆင့်ကမ်း၍ ဘုရားတည်ရာသို့ပို့ရသည်ဟုဆိုသည်။ သက္ကရာဇ် ၄၅၂ ခုနှစ် ကဆုန်လပြည့်နေ့တွင် ရွှေစည်းခုံစေတီကြီး အပြီးတိုင် တည်ပြီး၍ ရွှေထီးအထွတ် တင်ပြီးသည်။

အချို့ကလည်း ရွှေစည်းခုံ စေတီကို အနော်ရထာ တည်သည်မှာ ပစ္စယာသုံးဆင့် အရောက်တွင် နတ်ရွာစံရာ အပြီးမသတ်၍ ကျန်စစ်သားမင်းကြီး ဆက်တည်သည်ဟု ဆိုကြ၍ အချို့ကမူ အနော်ရထာလက်ထက် စေတီတည်ပြီးသည်ကို ကျန်စစ်သား မင်းကြီးက အပြင်မှ စေတီတထပ်ငုံတည်ခြင်း ဖြစ်သည် ဟုဆိုသည်။ ယခုတွေ့မြင်ရသော စေတီသဏ္ဌာန် အချိုးအစားကား ကျန်စစ်သား တည်ခဲ့သည့် အချိုးအစား အတိုင်း ဖြစ်လေသည်။

စေတီတော် ဖိနပ်ခြေ သံတောင် ၃၀၀၊ အမြင့် သံတောင် ၇၀၊ ချယားသီး ပဒ္မလေဟာ အစောက်ကိုး၊ အိုး ၁၂ လုံး၊ ခြသေ့ရုပ် ၂၁၊ မကာန်းရုပ် ၁၆၊ ပင်လယ်ဖားရုပ် ၁၆၊ မုန့်လေးခု၊ လှေကား ၁၂၊ ပဒ္မထီးတော်အဝ ကိုးတောင်၊ ဘုံကိုးဆင့် ရောင်လျှံတော် တတောင် တမိုက် လက်လေးသစ်တို့ ဖြစ်သည်။

ရွှေစည်းခုံစေတီသည် အဆောက်အအုံ အစိတ်အပိုင်း စုံလင်မှု အနေဖြင့် စံနမူနာအဖြစ် တည်ရှိသည်။ ပစ္စယာသုံးဆင့်တွင် ထောင့်စေတီများ စိုက်ထားခြင်း၊ နတ်မုခ်၊ နတ်လှေကားများ တပ်ဆင်ထားခြင်းတို့မှာ ပုဂံခေတ်ဦးတွင် ဆန်းသစ်သော ဗိသုကာလက်ရာများ ဖြစ်သည်နှင့် အမျှ နှောင်းခေတ်များတွင်လည်း ဆက်လက်၍ ဤနည်းနှင်နှင် တင့်တယ်စွာ တည်ဆောက်သည့်အလေ့ ဖြစ်လာကြသည်။ ရွှေစည်းခုံ စေတီတော်ကို အောက်ပိုင်းမှ အထက်ပိုင်းသို့ အဆင့်ဆင့် ဖူးမြော်လျှင် တတိယပစ္စယာအထက်၌ ရှစ်ထောင့်ကြာဝန်း၊ ကြေးဝိုင်း၊ ကြာမှောက် ကြာလန်နှင့် ခါးပတ် တို့ကို တွေ့မြင်နိုင်သည်။ ယင်းအထက်ရှိ ခေါင်းလောင်းပုံသည် နခမ်းထူ၊ ခေါင်းလောင်းနား၊ ရင်ဖွဲ့ခါးပတ် တို့ဖြင့် အပြည့်အစုံ ပါသည်။ ထိုအထက်တွင် သပိတ်မှောက်နှင့် ဖောင်းရစ်များရှိသည်။ ရွှေစည်းခုံ ဖောင်းရစ်များသည် ယခုကာလ စေတီ အများအပြား၌ကဲ့သို့ တခုနှင့်တခုဆက်မနေပဲ ဖောင်းများအကြားတွင် ပတ်ကြီး ပတ်သေး၊ မိုးလျော ဟူသော အရစ်များကို ပြေပြစ်စွာ ထည့်သွင်းထားလေသည်။ ဖောင်းရစ်များအထက်တွင်မှ ကြာစိတ်၊ ကြာမှောက်၊ ရွှဲ၊ ကြာပျံ၊ နောက်ထပ် ကြာစိတ်တရစ် တို့ကို ပြုလုပ်ထားသည်။ ယင်းအထက်တွင် ပဒ္မလေဟာ ချယားသီးနှင့် ထီး တို့ရှိသည်။ စေတီ၏လေးဖက်တွင် ကြေးဂူတိုက်ဟု ခေါ် တွင်သော အုတ်ဂန္ဓကုဋိ လေးဆောင် ရှိ၏။ ထိုဂန္ဓကုဋိတိုက်များအတွင်း၌ အလွန်လက်ရာပြောင်မြောက်သော မတ်ရပ်တော် ကြေးရုပ်ပွား တဆူစီ ရှိ၏။ အရှေ့ဖက်တန်ဆောင်းဘေးတွင် ကျောက်တိုင်နှစ်တိုင်ပေါ် ၌ ကျန်စစ်သားမင်းကြီး၏ မွန်စာဖြင့် ရေးထိုးထားသော ဘုရားသမိုင်း ရှိလေသည်။

**ရွှေစံချိန်စံနစ်။** ။ရွှေစံချိန်စံနစ် ဆိုသည်မှာ ရွှေအလေးချိန်နှင့် အမျိုးအစားကို မူတည်သော ငွေကြေးအခြေခံ စံနှုန်းကို ဖော်ပြသည့် ငွေကြေးစံနစ်တမျိုး ဖြစ်သည်။ ထိုရွှေစံချိန် စံနစ်အရဆိုမူ ရွှေကို လွတ်လပ်စွာ ဒင်္ဂါးသွန်းလုပ်နိုင်၍ ရွှေဒင်္ဂါးများကို တရားဝင်ငွေ အဖြစ် သုံးစွဲနိုင်ခွင့်နှင့် လွတ်လပ်စွာ ဖြန့်ဖြူးနိုင်ခွင့် ရှိသည့်အပြင်၊ အခြား ငွေကြေးအမျိုးအစားများ၏ တန်ဖိုးကိုလည်း ရွှေဒင်္ဂါးများ၏ တန်ဖိုးနှင့် ညှိနှိုင်း၍ ထိန်းသိမ်း ထားရှိနိုင်သည်။

အဆိုပါ ရွှေစံချိန်စံနစ်ကို ငွေကြေးလဲလှယ်ရေး နှုန်းထားများ ခိုင်မြဲတည့်အောင် တီထွင်ထားသည့် နည်းတမျိုး ဟူ၍ ကောင်းစွာ မှတ်ယူနိုင်လေသည်။ အကြောင်း အမျိုးမျိုးကြောင့် ငွေကြေးလဲလှယ်ရေး နှုန်းထားများ အတက်အကျ ဖြစ်တတ်၍ ထိုသို့ နှုန်းထားများ အတက်အကျ ရှိပြီးလျှင် တည်ငြိမ်မှု မရှိခြင်းကြောင့်လည်း သာမန် အချိန် အခါများ၌ပင်လျှင် အပြည်ပြည်ဆိုင်ရာ ကူးသန်းရောင်းဝယ်ရေးနှင့် ဘဏ္ဍာရေး ကိစ္စများကို များစွာ ထိခိုက်တတ်လေ

သည်။ ယင်းနှုန်းထားများ အကောင်းအဆိုးကို ချိန်ထိုးခြင်းဖြင့် ရွှေစံချိန်စံနစ်ကို ယခုခေတ်တွင် တခါတရံ ကာကွယ်သမှု ပြုကြပေသည်။ ထိုစံနစ်ကို မည်သည့်ရည်ရွယ်ချက်ဖြင့်မျှ တီထွင်ခဲ့ခြင်း မဟုတ်ပေ။ မူလကနဦးက ငွေကြေးများကို သတ္တုအမျိုးမျိုးဖြင့် ပြုလုပ်ပြီးနောက် ရွှေသည် ထူးခြားသောသတ္တု ဖြစ်သည့်အလျောက် အချိန်ကာလအားလျော်စွာ ငွေကြေးဆိုင်ရာသတ္တု ဖြစ်လာရပေသည်။

ခေတ်ငွေစက္ကူများမှာ ရွှေဒင်္ဂါးလက်ထက်မှ တစတစ တိုးတက် ပေါ်ပေါက်လာခြင်း ဖြစ်သည်။ ပဌမအဆင့် တိုးတက်လာပုံမှာ ငွေစက္ကူအချို့ကို ရွှေဖြင့် အထောက်အခံပြု၍ရင်း၊ ရွှေဖြင့် လဲလှယ်ခွင့် ပေး၍ရင်း ရွှေဒင်္ဂါးများနည်းတူ ထုတ်ဝေဖြန့်ဖြူးခဲ့ခြင်းပင် ဖြစ်သည်။ ဘဏ်ငွေစက္ကူများမှာ ဘဏ်များက ပေးဆပ်ရန်တာဝန်ရှိသော ကြွေးမြီသဖွယ်ဖြစ်ခြင်းကြောင့် အစကပင် ရွှေဖြင့် လဲလှယ်နိုင်ခဲ့ခြင်း ဖြစ်လေသည်။ အကယ်၍ ဘဏ်ငွေစက္ကူများကို ရွှေဖြင့် လွတ်လွတ်လပ်လပ် လဲယူနိုင်ခွင့် မရှိပါက ဖြန့်ဖြူးသုံးစွဲနိုင်သည့် ငွေကြေးဟူ၍ လူအများက ယုံကြည်စိတ်ချမည် မဟုတ်သည်နှင့်အမျှ အသိအမှတ်ပြုကြမည်လည်း မဟုတ်ချေ။

အလားတူစွာ ဘဏ်အပ်နှံငွေများ ထားရှိကြခြင်းနှင့် ဘဏ်ချက်လက်မှတ်များ ထုတ်ပေးခြင်းများ တစတစ ပြုလုပ်လာခဲ့ရာမှ ငွေကြေးစံနစ်မှာ တထစ် တိုးတက်လာခဲ့လေသည်။ ထိုဘဏ်ချက်လက်မှတ်များကိုပင်လျှင် ယုံကြည်မှုရစေရန် ရွှေဖြင့် လဲလှယ်ယူခွင့် ပေးခဲ့ခြင်း ဖြစ်သည်။ ဦးစွာ၌ ဘဏ်ငွေစက္ကူများနှင့် ဘဏ်တွင် အပ်နှံထားသည့် ငွေများမှာ ရွှေဒင်္ဂါးများ အများပါဝင်သော ငွေကြေးအားလုံး၏ တစိတ်တဒေသမျှသာ ဖြစ်သည်။ ထိုနောက် ဘဏ်ငွေစက္ကူများနှင့် အပ်ငွေများ တဖြည်းဖြည်း များပြားလာပြီးလျှင် ငွေကြေးအားလုံး၏ ကြီးမားသော အစိတ်အပိုင်းကြီး ဖြစ်လာခဲ့သည့် နောက်ပိုင်း၌ပင် ယင်းတို့ကို နှစ်ပေါင်း အတန်ကြာ ရွှေနှင့်လဲလှယ်ခွင့် ရရှိနိုင်ခဲ့ပေသည်။ ရွှေနှင့် ငွေစက္ကူကို ပြိုင်တူ ဖြန့်ဖြူးနေသမျှ ရွှေနှင့် ငွေစက္ကူကို တန်ဖိုး တတမျိုးစီ ထားကာ ဖြန့်ဖြူးနေရန်လည်း မဖြစ်နိုင်ခြင်းကြောင့် တမျိုးနှင့်တမျိုး လွတ်လပ်စွာ လဲလှယ်နိုင်ခွင့် ရှိအပ်ပေသည်။ ပဌမ ကမ္ဘာစစ်ကြီးအတွင်းတွင် ရွှေဒင်္ဂါးများ လုံးဝ သုံးစွဲခြင်း မရှိလှတော့သည်မှ စ၍ ဘဏ်ငွေစက္ကူများကို ရွှေနှင့် ရွှေးယူခွင့် ရရှိစေရန်လည်း မလိုတော့ပေ။ ယခုခေတ်အခါတွင် တွဲဖက်၍ ဖြန့်ဖြူးလျက် ရှိသော ကြေးနီ၊ ငွေနှင့် အခြား သတ္တုဒင်္ဂါးများမှအပ ကမ္ဘာပေါ်တွင် သုံးစွဲနေကြသော ငွေကြေးများမှာ စက္ကူငွေချည်းပင် ဖြစ်ကြပေသည်။ ထိုစက္ကူဖြင့် လုပ်သော ငွေကို ပုံသေအချိုးကျ သတ်မှတ်ထားသော နှုန်းအတိုင်း တရားဥပဒေအရ ပြဋ္ဌာန်း၍ ရွှေဖြင့် အချုတ်အချယ် မရှိ အပြန်အလှန် လဲလှယ်ခွင့် ရှိပါက ရွှေစံချိန်စံနစ်တွင်ပင် တည်ရှိနေခြင်း ဖြစ်သည်။ ထိုငွေစက္ကူကို ပုံသေနှုန်း သတ်မှတ်ထားရှိ၍ ရွှေဖြင့် လဲလှယ်နိုင်သည့်နည်းမှာ ငွေကြေးစံနစ်၏ တီထွင် ဖန်တီးမှုတရပ် မဟုတ်ဘဲ ရာစုနှစ်ပေါင်း အတန်ကြာကာလက စ၍ တဖြည်းဖြည်း အကြောင်းအားလျော်စွာ ပေါ်ပေါက်လာခြင်းပင် ဖြစ်သည်။

အဆိုပါ ရွှေစံချိန် စံနစ် ပေါ်ပေါက်လာရာတွင် အဆင့်ဆင့်အားဖြင့် ခြားနားသိရှိရန် အလို့ငှာ အမည်ဝေါဟာရ တမျိုးစီ ပေးထားပေသည်။ ရွှေဒင်္ဂါးချည်းသာလျှင် ဖြန့်ဖြူးသုံးစွဲရသော ငွေကြေးစံနစ်မျိုးကိုပင် ဖြစ်စေ၊ သို့တည်းမဟုတ် ရွှေဒင်္ဂါးများကို ငွေစက္ကူများနှင့်အတူ တွဲဖက်၍ ဖြန့်ဖြူးသုံးစွဲရသည့် ငွေကြေးစံနစ်မျိုးကိုပင် ဖြစ်စေ ရွှေစံချိန်ပြည့်စံနစ် ဟုခေါ်ဝေါ်ကြသည်။ ရွှေဒင်္ဂါးများကို မဖြန့်ဖြူးဘဲ ထားရှိစေကာမူ ဗဟိုဘဏ်က ဥပဒေအရ တာဝန်ယူလျက် ပုံသေနှုန်း သတ်မှတ်ပြီးနောက် ရွှေကို အကန့်အသတ်မရှိ ငွေကြေးဖြင့် အရောင်းအဝယ် ပြုလုပ်လျှင် "ရွှေသတ္တုစံချိန်စံနစ်" ဟုခေါ်တွင်သည်။ အကြောင်းမှာ ငွေကြေးကို ရွှေဒင်္ဂါးနှင့် လဲနိုင်ခွင့် မရှိဘဲ ရွှေတုံးနှင့်သာ လဲယူနိုင်သည့်အတွက်ကြောင့်ပင် ဖြစ်ပေသည်။ အခြားနည်းစံနစ် တမျိုးမှာ ဗဟိုဘဏ်တိုက်က ဥပဒေအရ တာဝန်ယူ၍ ရွှေဖြင့် လဲလှယ်နိုင်ခွင့်ရှိသော ငွေကြေး အမျိုးအစားတခုကို ဘဏ်ငွေစက္ကူနှင့် လဲလှယ်ယူရမည် ဖြစ်သည်။ ထိုစံနစ်ကို "ရွှေလဲလှယ်ရေး စံချိန်စံနစ်" ဟုခေါ်တွင်သည်။ သို့ဖြစ်၍ ရွှေစံချိန်စံနစ်သည် မည်သည့် အသွင်သဏ္ဍာန်ကို ဆောင်စေကာမူ ဖြန့်ဖြူးသုံးစွဲလျက် ရှိသော ငွေကြေး၏ ပမာဏအားဖြင့်သော်၎င်း၊ တန်ဖိုးအားဖြင့်သော်၎င်း တိုက်ရိုက်ဖြစ်စေ၊ တဆင့်ဖြစ်စေ ရွှေနှင့် ဆက်သွယ်လျက်ပင် ရှိလေသည်။

ခေတ်သစ် ရွှေစံချိန်စံနစ်၏ အကျိုးပြုသော လုပ်ငန်း နှစ်ရပ်မှာ (၁) ပြည်တွင်း၌ ဖြန့်ဖြူးထားသော ငွေကြေး၏ ပမာဏကို ကြီးကြပ်ထိန်းသိမ်းခြင်းနှင့် (၂) ငွေကြေးချင်း လဲလှယ်ရေး နှုန်းများ တည်ငြိမ်မှုရရှိစေရန် ထိန်းသိမ်းခြင်းတို့ပင် ဖြစ်သည်။

ပြည်တွင်း၌ ဖြန့်ဖြူးထားသော ငွေကြေး၏ ပမာဏကို ကြီးကြပ် ထိန်းသိမ်းသည့် လုပ်ငန်းရပ်မှာ ဗဟိုဘဏ်၏ ငွေကြေး ထုတ်ဝေနိုင်သော အာဏာကို အတိအကျ ကန့်သတ်ထားခြင်းပင် ဖြစ်သည်။ မည်သည့် ဗဟိုဘဏ် မဆို မိမိပိုင် ရွှေများကို အရေးပေါ် ကိစ္စအတွက် အသုံးပြုနိုင်ရန် သီးသန့်ထားရှိသည်။ သို့သော် မိမိပိုင် ရွှေအင်အား အထောက်အခံရှိသည်ထက် ပို၍ ဥပဒေအရ ငွေစက္ကူများကို ထုတ်လုပ်နိုင်ခွင့် မရှိချေ။ သို့မှသာလျှင် ထုတ်ဝေဖြန့်ဖြူးထားသော ငွေကြေး၏ ပမာဏကို ရုတ်တရက် တရားလွန် များပြားလာခြင်း မရှိစေရန် အကြမ်းအားဖြင့် ထိန်းသိမ်း ထားနိုင်သည်။ ထိုလုပ်ငန်းရပ်ကို "ပြည်တွင်းရွှေစံချိန်စံနစ်" ဟု ခေါ်သည်။

ငွေကြေး၏ပြည်ပတန်ဖိုး မယိမ်းမယိုင်စေဘဲ တည်တံ့ရန် ရည်ရွယ်သည့် ဒုတိယလုပ်ငန်းရပ်ကို "အပြည်ပြည်ဆိုင်ရာ ရွှေစံချိန်စံနှစ်" ဟု ခေါ်ဝေါ်သည်။ ထိုအပြည်ပြည်ဆိုင်ရာ ရွှေစံချိန်စံနှစ်၏ အဓိက ရည်ရွယ်ချက်မှာ ဖြန့်ဖြူးထားသော ငွေကြေးကို ရွှေနှင့် ယင်းတို့၏ အခြေခံ စံနှုန်းကို မှီး၍ သတ်မှတ်ထားသည့် အချိုးကျတန်ဖိုးအလိုက် လဲလှယ်နိုင်ခြင်းပင် ဖြစ်သည်။ ပြည်တွင်းနှင့် အပြည်ပြည်ဆိုင်ရာ စံချိန်စံနှစ်များ ထားရှိသော နိုင်ငံတွင်းတွင် ရွှေကို သီးသန့်၍ နှစ်မျိုး ထားရှိတတ်ကြသည်။ တမျိုးမှာ လက်ကိုင် သိမ်းဆီးထားရှိရန် ဖြစ်၍ တမျိုးမှာ သုံးစွဲရန် ဖြစ်လေသည်။

### ရွှေစံချိန်စံနှစ် ဖြစ်ပေါ်လာပုံနှင့် ရွှေအလားအလာ

ဗြိတိန်နိုင်ငံသည် ၁၇၂၁ ခုနှစ်မှ စတင်၍ ရွှေစံချိန် စံနှစ်ကို အသုံးပြုခဲ့သည်။ ထိုအချိန်အခါ မတိုင်မီက ငွေသတ္တုသာလျှင် ကမ္ဘာတွင်သုံးစွဲသည့် အဓိက ငွေကြေး ဆိုင်ရာ သတ္တု ဖြစ်ခဲ့၍ ပဌမ ကမ္ဘာစစ်ကြီးဖြစ်ပြီးနောက် ဥရောပတိုက်ရှိ နိုင်ငံများက မိမိတို့ ပြည်တွင်းသုံး ငွေကြေးကို ရွှေဖြင့် အခြေခံ အထောက်အထား ပြု၍ ခိုင်မြဲအောင် ပြုလုပ်လာကြပေသည်။ များသောအားဖြင့် ရွှေလဲလှယ်ရေး စံချိန်စံနှစ်ကို အန္တံအပြား အသုံးပြုကြပေသည်။ ထိုစစ်ကြီးပြီးဆုံးသည့် နောက်ကာလတွင် ဗဟိုဘဏ်များ တိုးတက်များပြားလာသည်နှင့်အမျှ ရွှေစံချိန်စံနှစ်ကို ငွေကြေး ပြန်လည်ထူထောင်ရန် အုတ်မြစ်သဖွယ် ချခဲ့သော်လည်း နောက် နှစ်ပေါင်း အနည်းငယ်အတွင်း၌ပင် ထိုစံနှစ်ကို စွန့်ခဲ့ကြသည်။ ၁၉၂၅ ခုနှစ် မေလတွင် ဗြိတိန် နိုင်ငံက ရွှေစံချိန် စံနှစ်ကို ပြန်လည် အသုံးပြုခဲ့ပြီးနောက် ၁၉၃၁ ခုနှစ် စက်တင်ဘာလတွင် ခေတ္တရပ်စဲခဲ့ပြန်သည်။ အနောက် ဥရောပတိုက်ရှိ အရေအတွက်အားဖြင့် တလက်ခုပ်စာမျှ ရှိသော တိုင်းပြည် အနည်းငယ်ကသာ ငွေကြေးလဲလှယ်ရေး လုပ်ငန်းများကို ပြင်းထန်စွာ ကြီးကြပ်ပြီးလျှင် ရွှေစံချိန်စံနှစ်ကို အားကိုးတခု ပြုခဲ့လေသည်။ သို့သော် နောက်နှစ်ပေါင်းများစွာ မကြာမီပင် နိုင်ငံ အများအပြားက ထို ရွှေစံချိန်စံနှစ်ကို တဖန် စွန့်လွှတ်ခဲ့ပြန်သည်။ ယင်းသို့ စွန့်လွှတ်ခဲ့ခြင်းမှာ ကမ္ဘာအရပ်ရပ်ရှိ ငွေကြေးဆိုင်ရာ အာဏာပိုင်များက ယခင် စစ်မဖြစ်မီကကဲ့သို့ ရွှေစံချိန်စံနှစ်ကို အားကိုးအားထားမပြုကြသောကြောင့် တကြောင်း၊ ငွေကြေး လဲလှယ်ရေးနှုန်းထားများ ပိုမို တည်ငြိမ်မှု ရရှိစေလိုသောကြောင့် တကြောင်း ဖြစ်လေသည်။ စစ်၏ဒဏ်ရာဒဏ်ချက်များကြောင့် ကမ္ဘာတဝှန်းလုံးတွင် စီးပွားရေး ကမောက်ကမ ဖြစ်ပြီးလျှင် ကုန်စျေးနှုန်းများလည်း ကြီးမားလာခဲ့သဖြင့် ရွှေစံချိန်စံနှစ်ကို အမှီသဟဲ ပြုနေရန်လည်း မဖြစ်နိုင်တော့သည့် အတွက် အပြည်ပြည်ဆိုင်ရာ ငွေကြေးစံနှစ်ကို ပြန်လည်ထူထောင်လာခဲ့ရာမှ ထိုရွှေစံချိန်စံနှစ်သည် ပျောက်ကွယ်လုနီးနီးပင် ရှိခဲ့လေသည်။ အထူးသဖြင့် စစ်ပြီးခေတ်တွင် ငွေကြေးလဲလှယ်ရေး နှုန်းထားများ တည်ငြိမ်မှု ရရှိနိုင်ရန် ပိုမို လိုအပ်လာပေသည်။ ဗဟိုဘဏ်များကလည်း ရွှေစံချိန်စံနှစ်ကို လက်ခံကျင့်သုံးရန် မလိုလားကြခြင်းသည် ရွှေ အသုံးမဝင်ခြင်းကြောင့် မဟုတ်ပေ။ ရွှေကိုမူ သူထက်ငါပင် ရယူ ပိုင်ဆိုင်လိုကြသည့် လက္ခဏာ ပေါ်ပေါက်လျက် ရှိသေးသည်။ အမှန်စင်စစ် ရွှေစံချိန်စံနှစ်ကို စွန့်ပစ်ခြင်းမှာ ကန့်သတ်သော စျေးနှုန်းဖြင့် ရွှေအရောင်းအဝယ် မပြုလုပ်ခြင်းမျှသာ ဖြစ်ပေသည်။ ကမ္ဘာ့နိုင်ငံများ အဖို့ ငွေပေးငွေချေ ပြုလုပ်ကြရာတွင် ရွှေသာလျှင် အမြဲတန်း အသုံးဝင်မည့် ကြားနေ ဝတ္ထုပစ္စည်း ဖြစ်ပေသည်။ ကမ္ဘာ့ တိုင်းနိုင်ငံကြီးများတွင် ရွှေကိုပင် လက်ကိုင် ထားကြ၏။ ရွှေအများဆုံးရှိသည့် တိုင်းပြည်မှာ အမေရိကန်ပြည်ထောင်စု ဖြစ်၍၊ ရွှေအထွက်ဆုံးနယ်ပယ်ဒေသမှာ ဗြိတိသျှ ဓနသဟာယအုပ်စု ဖြစ်ခဲ့ပေသည်။ ထိုတိုင်းပြည်ကြီးများကလည်း ရွှေ၏တန်ဖိုးကို မယုတ်မလျော့စေရန် အာရုံစူးစိုက်၍ စိတ်ဝင်စားစွာ ကြိုးစားကြမည်မှာ မလွဲပေ။

ရွှေသည် ပြည်တွင်းတွင် ပြိုင်ဖက်မရှိသုံးစွဲနိုင်သည့် ငွေကြေးအနေနှင့် အရည်အချင်းမရှိ ဖြစ်သွားသည့်တိုင်အောင် လူအများက နှစ်သက်ခုံမင်ကြ၍ တန်ဖိုး ထားကြခြင်းကြောင့် အပြည်ပြည်ဆိုင်ရာ ကူးသန်းရောင်းဝယ်ရေးလောကတွင် ထားရှိသင့်ထားရှိအပ်သော ပြည်တိုင်းကြိုက် ရောင်းချဖလှယ်နိုင်သည့် ဝတ္ထုပစ္စည်းအဖြစ် ဂုဏ်ထူးဝိသေသ ရှိနေပေဦးမည်။ သို့ဖြစ်၍ အမေရိကန်ပြည်ထောင်စုတွင် ၎င်း၊ အခြားတိုင်းပြည် အများအပြားတွင် ၎င်း ရွှေမျှော်မှန်းနိုင်သော ခေတ်တလျှောက်လုံး၌ မူလရွှေစံချိန်စံနှစ်နှင့် အလွန်အမင်း ကွာခြားခြင်းမရှိသည့် စံနစ်ကို ထားရှိကောင်း ထားရှိ ကျင့်သုံးနေမည် ဟုထင်မြင်ယူဆရပေသတည်း။

ဦးမင်းဆွေ

**ရွှေဆံတော် ဘုရား။** ။မြန်မာနိုင်ငံတွင် ရွှေဆံတော်ဟု ဘွဲ့ချီလျက် ထင်ရှားသည့် ဘုရားစေတီ သုံးဆူရှိသည်။ ပြည်မြို့တွင် တဆူ၊ တောင်ငူမြို့တွင် တဆူနှင့် တံတားမြို့တွင် တဆူ ဖြစ်၏။ ပြည်မြို့၏အရှေ့ပိုင်း ဆင်စုရပ် မြောက်ဖက်၌ သုဒဿန မည်သော တောင်ကုန်းငယ်တွင် တည်ရှိသော ရွှေဆံတော်ဘုရားကို မြသိတင် (မြသီးတင်) ဘုရားဟုလည်း ရှေးက ခေါ်တွင်ခဲ့သည်။ စာဆိုကျော် ပြည်နဝဒေးကြီး၏ ပြည်ဆံတော်ရှင် ဘုရားတိုင် ရတု၌ –

"ခေတ္တာ သရေ၊ မင်းနေ ရပ်စည်၊ ရွှေပြည် ထောင့်ယွန်း၊
တောင်ထိပ်စွန်းဝယ်၊ တသန်း ဉာဏ်ရှင်၊ မြသိတင်ဟု၊
ကောင်းကင်မိုးမြေ၊ နှံ့မျှဝေသည်၊ ဆံမွေ ဘုန်းခေါင်၊
မိတည်းနောင်" ဟု အထင်အရှား စပ်ဆိုခဲ့သည်။



ပြည်မြို့၏ ကျက်သရေဆောင် ရွှေဆံတော်ဘုရား

သမိုင်း အဆိုအရ ပြည်ရွှေဆံတော်ဘုရားတွင် ကကုသန်ဘုရားရှင်၏ ဒုကုဋ်တော်၊ ကောဏာဂုံဘုရားရှင်၏ အံသကိုဋ်သင်္ကန်းတော်၊ ကဿပဘုရားရှင်၏ ခါးပန်းတော်၊ ဂေါတမဘုရားရှင်၏ ဆံတော်လေးဆူနှင့် နိသီဒိုန်တို့ကို ဌာပနာကြောင်း သိရသည်။ ဂေါတမ မြတ်စွာဘုရားသခင်သည် ဘုရားဖြစ်၍ ရှစ်နှစ်မြောက်တွင် မြန်မာပြည်သို့ ဒေသစာရီကြွတော်မူရာ ဤအရပ်၌ ပုဂံပြည်ကြီးဖြစ်လတ္တံ့၊ ဤအရပ်၌ သရေခေတ္တရာ ပြည်ကြီး ဖြစ်လတ္တံ့ စသည်ဖြင့် ဗျာဒိတ်မြွက်ကြားပြီးနောက် စကြိန်ကျွန်းသို့ ကြွတော်မူသည်။ ယင်းသို့ ကြွတော်မူစဉ် ရောပထ နဂါးမင်းက ခပ်သိမ်းလူအပေါင်းတို့ ကိုးကွယ်ရစိမ့်သောငှာ ဆံတော်ဓာတ်ကို သနားရန် လျှောက်ထားလေသည်။ ဘုရားသခင်သည် နဂါးမင်းအား မပေးဘဲ သုဝဏ္ဏဘုမ္မိအရပ်သို့ ကုန်သွယ်သွားနေသော အစ္စိက-ဖလ္လိက ကုန်သည် ညီနောင်တို့အားသာ ပေးမည်ဟု မိန့်ကြားကာ လက်ျာလက်တော်ဖြင့် ဦးခေါင်းတော်ကို သုံးသပ်လေသော် ဆံတော်လေးဆူ ပါလာသည်။ ယင်းဆံတော်တို့ကို နဂါးမင်းဆက်သည့် မြကြုတ်၌ထည့်၍ ကိုးကွယ်ထိုက်သူ ဖူးတွေ့ကာ သာသနာတည်မည့်အရပ်၌ စေတီတည်ထား ကိုးကွယ်စေသတည်းဟု အမိန့်တော်ရှိလျှင် မြကြုတ်ဆည် လက်ဝါးတော်မှ ပျံတက်၍ ထန်းခုနစ်ဆင့်မြင့်သော အရပ်၌ ရောင်ခြည်တော် မြူးကာ တပင်ဝါးပဒေသာ ခွအကြား၌ ရပ်နားလေသည်။

သုဝဏ္ဏဘုမ္မိမှ ပြန်လာသော အစ္စိက - ဖလ္လိက ညီနောင်လည်း ရောဝတီ မြစ်ကြောင်းကို ဆန်တက်လာရာ ဆံတော်ကြုတ်တည်ရာ ကမ်းနားသို့ရောက်လျှင် ရွှေရောင်တဝင်းဝင်းနှင့် တွေ့မြင်ရသဖြင့် ကုန်းအထက်သို့တက်၍ ကြည့်ကြသည်။ ကုန်းပေါ် သို့ ရောက်သော် ရတနာမြကြုတ်နှင့်တကွ ဆံတော်လေးဆူကို တပင်ဝါးပဒေသာ အကြား၌ တွေ့ရှိ၍ ဖောင်ပေါ် သို့ ပင့်ခဲ့ပြီးနောက် မြင့်မြတ်ရာကုန်းကို ရှာသော် ယခုရွှေဆံတော်ဘုရား တည်ရာ သုဒဿနကုန်းကို တွေ့သဖြင့် ထိုကုန်း၌ပင် ရတနာမြကြုတ်နှင့် ဆံတော် လေးဆူကို ရွှေအုတ်ခုနစ်ချပ်ရံကာ ဌာပနာ၍ စေတီတည်သည်။

သာသနာနှစ် ၁၀၁ ခုတွင် ဒွတ္တပေါင်မင်းကြီး နန်းတက်သော် သုဒဿနကုန်း၌ ဘုရားသခင်၏ ဆံတော်လေးဆူ ဌာပနာ၍ စေတီတည်ထားကြောင်း ကြားတော်မူ၍ သုဒဿနကုန်းကို ရှာဖွေစေသည်။ ချုံနွယ်ပိတ်ပေါင်းတို့ဖြင့် ဖုံးအုပ်နေသော စေတီတော်ကို ဖူးတွေ့ရသော် အတောင် ၇၀ ရှိသော ဓာတ်တော်တိုက် တံခါးနံရံကို ဖွင့်လှစ်တော်မူ၍ ဆက်လက် တူးသော် ရှေးဘုရားသုံးဆူ၏ ပရိဘောဂထည့်ရာ ရွှေကျောင်းဆောင် သုံးခုနှင့် ဂေါတမဘုရား၏ ဆံတော်လေးဆူ

ကို ဖူးတွေ့ရပြီးနောက် စေတီတော်ကိုထပ်မံတည်ထားသည်။ သာသနာနှစ် ၁၂၆ ခု တပေါင်းလဆန်း ၈ ရက်နေ့ကစ၍ တည်ရာ ယင်း လပြည့်ကျော် ၈ ရက်နေ့တွင် ပြီးသောဟူ၏။ အစ္စိက-ဖလ္လိက ကုန်သည် ညီနောင်တို့ ရွှေအုတ်ရာတွင် ဆုတောင်းပြည့်ဘုရားကိုယ်တော် သဏ္ဌာန် ရုပ်တုတော် နှစ်ဆူ ဂူမုခ်လုပ်၍ တည်တော်မူသည်။ သက္ကရာဇ် ၄၅၀ ပြည့်တွင် ပုဂံပြည် အလောင်းစည်သူမင်းသည် စေတီတော်ကို ထပ်မံ ပြုပြင် တည်ထားတော်မူသည်။ ထိုနောက် ပြည်မင်းမျက်နှာ ရှည်လက်ထက် စေတီတော်ကို သံတောင် ၂၈ တောင်နှစ်မိုက်အထိ ထပ်ပွားတည်ကာ ရွှေထီး ကိုးဆင့် တင်တော်မူသည်။ ထိုနောက် သားတော်မျက်နှာပု လက်ထက် စေတီတော်၏ အရှေ့တောင်ထောင့် အခြေသာခိုင်၍ အနောက်မြောက်ထောင့် ချောက်ကြီးလှ၍ မခိုင်ဟုဆိုကာ ကုန်းတော်



တောင်ငူမြို့ရှိ ရွှေဆံတော်ဘုရား

ကို အမတ်တို့နှင့်တိုင်ပင်၍ အကျယ်ခဲ့သည်။ တည်ရင်းစေတီကို အရှေ့တောင်ထောင့် အင်္ဂါအရပ်က ထား၍ အမြင့်သံတောင် ၅၈ တောင်၊ စေတီရံ သုံးဆင့်နှင့် စည်းခုံစေတီကြီး တည်တော်မူသည်။ ရွှေထီး ကိုးဆင့် မြသီးရောင်လျှံတော်ဖူး တင်တော်မူ၍ မြသီးတင်ဘုရားဟု သမုတ်တော်မူသည်။

ဤသို့အားဖြင့် ရွှေဆံတော်ဘုရားကို ဘုရင်စိုးမင်းနှင့် မြို့စား အဆက်အဆက် ပြုပြင်ထပ်ပွား တည်ထားခဲ့ရာ ယခုအခြေသို့ ဆိုက်ရောက်ခဲ့လေသည်။

ရွှေဆံတော်၏ ဉာဏ်တော်မှာ ထီးတော်မှ ဖိနပ်တော် (တတိယ ပစ္စယံ) အထိ ၁၂၇ ပေ (၈၅ တောင်)၊ လုံးပတ်တော် ၈၈ ပေ ၈ လက်မ၊ ဖိနပ်တော် ၂၉၄ ပေ အသီးအသီး ရှိလေသည်။

ရွှေဆံတော် စေတီတော်၏ ရင်ပြင်တော် အရှေ့ယွန်း၌ ဆုတောင်းပြည့် ဂူနှင့် ရုပ်ပွားတော်ကြီး နှစ်ဆူရှိသည်။ ထိုကြောင့် စာဆိုကျော် နဝဒေးကြီးက ဆုတောင်းပြည့် ဘုရားတိုင် ရတု၌ "တောင်ထက်တောင်မြတ်၊ တောင်ကျော် ထွတ်၌၊ လူနတ်များရှင်၊ မြသိတင်နှင့်၊ တပြင်မခြား၊ ရှေ့ယွန်းနားဝယ်၊ တရားဘုန်းခေါင်၊ ဒွတ္တဘောင်ဟု၊ ပြည်ထောင်များနတ်၊ တည်ခဲ့မှတ်သည်၊ လျှံပတ်ညီးညီး၊ ခြောက်သွယ်စီးသား၊ ရွှေထီးရွှေတိုင်၊ ရွှေစိုင်တခဲ၊ လိုဏ်နန်းထဲက၊ ရဲရဲထွန်းပြောင်၊ ကိုယ်တော်ရောင်ဖြင့်၊ ညီနောင်နှစ်ဖော်၊ ကျွန်းလုံးကျော်သည်၊ မည်တော် ဆုတောင်းပြည့်တကား"ဟု စပ်ဆိုခဲ့ခြင်း ဖြစ်လေသည်။

တောင်ငူမြို့ရှိ ရွှေဆံတော်ဘုရားကို ဘုရင့်နောင် မင်းတရားကြီး၏ ညီတော် တောင်ငူမင်း သီဟသူရ မဟာဓမ္မရာဇာဘွဲ့ခံ ဘုရင်မင်းခေါင်သည် သက္ကရာဇ် ၉၃၂ ခုနှစ် တပေါင်းလပြည့်နေ့တွင် အုတ်မြစ်ချ တည်တော်မူ၍ သက္ကရာဇ် ၉၃၅ ခုနှစ် တပေါင်းလပြည့်နေ့တွင် ထီး တင်တော်မူသည်။ ဘုရင့်နောင် မင်းတရားကြီးသည် သက္ကရာဇ် ၉၃၀ ပြည့်နှစ်တွင် သိန်းဃိုဠ်မင်း ဓမ္မပါလ ဆက်သသော ဆံတော် ရှစ်ဆူအနက် လေးဆူသောဆံတော်များကို ညီတော်ပြည်မင်း၊အင်းဝမင်း၊ မုတ္တမမင်းနှင့် တောင်ငူမင်းတို့ထံ ကိုးကွယ်တော်မူရန် ဆံတော်တဆူကျစီ ပေးသနားတော်မူခဲ့ရာမှ တောင်ငူမင်း



တွံတေးမြို့ရှိ ရွှေဆံတော်ဘုရား

သည် မိမိရရှိသော ဆံတော်မြတ်ကို ဌာပနာ၍ တည်ထားခဲ့ခြင်း ဖြစ်သည်။ တောင်ငူမင်း သီဟသူရမဟာဓမ္မရာဇာ၏ ကုသိုလ်တော် ဆံတော်ရှင် ဘုရား၏ လုံးပတ်တော်မှာ သံတောင် ၁၅၄၀ အဝန်း ရှိသည်။ ဉာဏ်တော်အရပ်မှာ သံတောင် ၁၂၀ မြင့်သည်။ သံတောင် ကိုးတောင်ရှိ စေတီရံ ၂၀ ရှိသည်။အောက်ပန်းတင်ခုံ အရှေ့မှ အနောက်သို့ တာပေါင်း ၄၀၊ တောင်မှမြောက်သို့ တာပေါင်း ၄၀ စီ ရှိသည်။ ဘုရားကြီး၏ အနောက်မြောက်ထောင့်တွင် မဟာဗောဓိ ညောင်ပင်ကို စိုက်သည်။ ဘုရားကြီး၏ ပတ်ဝန်းကျင်တွင် ချယားပင်အများကို စိုက်သည်။ဘုရားကြီး၏ အရှေ့တောင်ထောင့်၊ အရှေ့မြောက်ထောင့်၊ အနောက်တောင်ထောင့်၊ အနောက်မြောက်ထောင့် အရပ်တို့တွင် ရေတွင်းလေးတွင်း တူးတော်မူသည်။ ဘုရားကြီး၏ လေးမျက်နှာ မုခ်အထွက်တို့တွင် ဇရပ်ကြီး လေးဆောင်ကို ဆောက်လုပ်ထားသည်။

ဘုရားကြီး တည်သော သက္ကရာဇ် ၉၃၅ ခုနှစ်မှသည် နောက်ဆုံး ပြိုပျက်သော ၁၂၉၃ ခုနှစ်အတွင်း ယင်းဘုရားကြီးသည် သုံးကြိမ်တိုင်တိုင် ပြိုပျက်၍ အသစ်ထပ်မံ၍တည်ထားကြောင်းကို အတွင်းအုတ်ရိုး သုံးထပ်ကို ခန့်မှန်းကြည့်ခြင်းအားဖြင့် သိရလေသည်။

၁၂၉၃ ခုနှစ် နတ်တော်လဆန်း ၁၄ ရက်နေ့ ညဥ့်အချိန်တွင် မြေလျှင် ကြီးစွာလှုပ်သဖြင့် ဘုရားကြီးမှာ ပြိုအက်ပျက်စီးပြီးလျှင် ငှက်မြတ်နားနှင့် စိန်ဖူးတော်ကြီးတို့မှာ မြေသို့ ခရလေသည်။ မြို့သူ မြို့သား နယ်သူနယ်သား များ၏ စေတနာသဒ္ဓါတရား ထက်သန်မှုကြောင့် မြေသို့ ခသော ငှက်မြတ်နားနှင့် စိန်ဖူးတို့ကို တဖန်ပြင်ဆင်ပြီးစီးသော်လည်း ၁၂၉၄ ခုနှစ် ဝါဆိုလတွင် မိုးသည်းထန်စွာ ရွာသွန်းမှုကြောင့် ဘုရားကြီး၏ ငှက်ပျောဖူးကြီး ပြိုကွဲပျက်စီးရပြန်လေသည်။

ထိုအခါ ဘုရားကြီး ပြန်လည် တည်ဆောက်ရေး အဖွဲ့လူကြီးများ ခေါင်းဆောင်ကာ မြို့နယ်လူထု အကူအညီဖြင့် ဘုရားကြီးကို ပြန်လည် တည်ဆောက်ခဲ့ရာ ၁၃၀၃ ခုနှစ်တွင် ရွှေချ အောင်မြင်ပြီးစီးသဖြင့် ထီးတော်တင်ပွဲ ပြုလုပ်အံ့ဆဲဆဲ၊ ထိုနှစ် တန်ခူးလဆန်း ၃ ရက်(ခရစ် ၁၉၄၂ ခုနှစ် မေလ ၁ ရက်) နေ့တွင် အင်္ဂလိပ်မဟာမိတ် တရုပ်စစ်သားများက ဒိုင်းနမိုင်းဖြင့် ဖောက်ခွဲဖျက်ဆီးခဲ့ခြင်းကြောင့် တတိယပစ္စယံတိုင်အောင် ပြိုကွဲ ပျက်စီးရခဲ့လေသည်။

ထိုနောက် သက်ဆိုင်ရာ ခရိုင်အရာရှိကြီးများနှင့် ဂေါပကလူကြီးများ၏ လုံးပန်းဆောင်ရွက်ချက်ကြောင့်၎င်း၊ နယ်သူနယ်သား၊ မြို့သူမြို့သားများ၏ စေတနာ သဒ္ဓါဟုန်ကြောင့်၎င်း ၁၃၁၂ ခုနှစ် တပေါင်းလဆန်း ၁၅ ရက် (ခရစ် ၁၉၅၁ ခုနှစ် မတ်လ ၂၂ ရက်)နေ့တွင် ထိုစဉ်က ဝန်ကြီးချုပ်ဦးနုကိုယ်တိုင် ရွှေဆံတော်စေတီကြီးကို အုတ်မြစ်ချနိုင်ခဲ့လေသည်။ ၁၃၁၆ ခုနှစ် သီတင်းကျွတ်လကုန်တွင် စေတီတော်မြတ်ကြီး ငှက်ပျောဖူး၊ ကြာမှောက်ကြာလန်အထိ အချောကိုင် ရွှေချပြီးစီးသည်။ ၁၃၆၁ ခုနှစ် တန်ဆောင်မုန်းလဆန်း ၉ ရက်နေ့အထိ ခုနစ်ရက်တိုင်တိုင် အလှူ့စည်ကားသိုက်မြိုက်စွာထီးတော်တင်ကပ်လှူပွဲကြီး ဆင်ယင်ကျင်းပခဲ့လေသည်။

တွံတေးမြို့ရှိ ရွှေဆံတော်ဘုရားကို မဟာသက္ကရာဇ် ၁၁၄ ခုနှစ် တန်ဆောင်မုန်း လပြည့်နေ့မှ စတင်၍ ပန္နက်ရိုက်ကာ တည်သည်။ ၁၂၃ ခုနှစ် တန်ခူးလပြည့်နေ့တွင် ထီးတော်တင်လှူပြီးစီးလေသည်။ ဂေါတမ မြတ်စွာဘုရားသခင်သည် မဟာသက္ကရာဇ် ၁၁၁ ခုနှစ်တွင် သုဓမ္မပူရတိုင်း၊ မုတ္တမ၊ ဇင်းကျိုက်သို့ ဒေသစာရီ လှည့်လည်ကြွရောက်တော်မူခဲ့စဉ် တွံတေး (ကွမ်းဒေး) မြို့၏ အရှေ့ ခြောက်မိုင်ကွာတွင် ယခင်ထိုထို ကျွန်းသီဟိုဠ်မှပြောင်းခဲ့ကြ၍ နေထိုင်ရာအတွင်း ခပင်းသီဟိုဠ်ယပ်ဟုတွင်သော ဒေသမှ ရောက်လာကြသော တိက္ခပညာ၊ သာဂရပညာ ကုန်သည်ညီနောင်တို့နှင့် သုမနထေရ်တို့အား ဆံတော်ရှင် နှစ်ဆူ ပေးသနားတော်မူခဲ့၏။ ထိုသို့ပေးသနားတော်မူလိုက်သော ဆံတော် နှစ်ဆူကို ဌာပနာလျက် မေရုဒကုန်းတွင် ပေါက္ခရဝတီဘုရင်သမိန်ထောဗညားရှက ရွှေဆံတော်စေတီကို တည်ထားခဲ့သည်။

ထိုစဉ်က တည်ထားခဲ့သောစေတီတော်မှာ ဖိနပ်တော် သံတောင် ၈၀ နှင့် လေးမိုက်၊ အရပ်တော် သံတောင် ၁၂၀ ရှိ၍ ထီး၀ ကိုး တောင်၊ ဘုံ ခုနစ်ဆင့်၊ ဇွန်ရိုး ဆပ်သွားဖူး ၂၀၊ ငှက်မြတ်နား တစ်၊ စိန်ဖူးတော် တစ်၊ ထီးဆိုင်းကြိုး ရှစ်၊ ကြေးစလောင်း တစ်၊ ရွှေဆည်းလည်း ၄၂ လုံး၊ ငွေဆည်းလည်း ၁၂၀၊ ကြေးဆည်းလည်း ၂၀၀ ဖြစ်သည်။ စေတီတော်ကို သုံးနှစ်တိုင် တည်လုပ်ရသည်။

သက္ကရာဇ် ၂၃၈ ခုနှစ်တွင် သမိန်ထော ဗညားရဲ မင်း၏ ညီတော် သမိန်ထော ဗညားကောဒေးမင်းသည် သထုံပြည် သီရိမာမင်း ကိုးကွယ်သော ဆံတော်မြတ်လေးဆူကို ရရှိ၍ ရွှေဆံတော်စေတီတွင် ဒုတိယအကြိမ် ထပ်မံ ဌာပနာ သွင်းနှံခဲ့လေသည်။

ထိုနောက်တွင် သရေခေတ္တရာ ဒွတ္တပေါင်မင်းမှ အစပြု၍ မင်းအဆက်ဆက်တို့ အသစ်ပြုပြင်ခြင်း၊ ရွှေချကပ်လှူခြင်းတို့ကို ပြုလုပ်ခဲ့သည်။ သက္ကရာဇ် ၁၁၇၀ ပြည့်နှစ် ပြာသိုလပြည့်ကျော် ၅ ရက် အင်္ဂါနေ့တွင် လျှော်ဒဏ်ကြောင့် ရွှေဆံတော်စေတီသည် ရွှေတိဂုံစေတီတော်နှင့် တပြိုင်နက် ပြိုကျလေရာ ကုန်းဘောင် ဆင်ဖြူရှင်မင်းသည် ၁၁၃၅ ခုနှစ်တွင် ရွှေတိဂုံစေတီတော်ကို အသစ် ပြန်လည်တည်ဆောက်ပေးကာ တွံတေး ရွှေဆံတော်ကိုလည်း ရွှေတိဂုံစေတီပုံအတိုင်း မူလတည်ရင်း ဉာဏ်တော် သံတောင် ၁၂၀ မှ ၁၆ တောင်မြင့်၍ ၁၃၆ တောင်အမြင့်သို့ အရံစေတီတော်အဆူ ၄၀ နှင့်တကွ တည်ပေးတော်မူခဲ့သည်။ ယခု ငှက်ပျောဖူးထိပ်တိုင် ၁၃၆ တောင်မြင့်၍ စိန်ဖူးတော်တိုင် ပေ ၂၅၀ မြင့်သည်။



ဗုဒ္ဓစာပေကို အင်္ဂလိပ်ဘာသာဖြင့် ပဌမဆုံး ပြန်ဆိုခဲ့သူ ဦးရွှေဇံအောင်

**ရွှေဇံအောင်၊ဦး** (ခရစ် ၁၈၇၁–၁၉၃၂)။ ။မြန်မာနိုင်ငံတော်၏သတင်းကို ကမ္ဘာချင်းအောင် ဆောင်ပို့သော နှလုံးရည် ပုဂ္ဂိုလ်ကြီးများတွင် ဦးရွှေဇံအောင်သည် တဦး အပါအဝင် ဖြစ်သည်။ ဦးရွှေဇံအောင်ကား ဗုဒ္ဓစာပေကို အင်္ဂလိပ်ဘာသာဖြင့် ပဌမဆုံးပြန်ဆိုရေးသားခြင်းဖြင့်အနောက်နိုင်ငံသားတို့၏ ချီးကျူးခြင်း ခံရသော ပုဂ္ဂိုလ်ကျော် ဖြစ်သည်။

ဦးရွှေဇံအောင်ကို ခရစ် ၁၈၇၁ ခုနှစ် ဇန္နဝါရီလ ၂၀ ရက်နေ့တွင် ရခိုင်တိုင်း စစ်တွေမြို့၌ ဖွားမြင်သည်။အဖ ခရိုင်ရဲဝန် ဦးရွှေသား၊ အမိ ဒေါ်အဖြူဇံတို့၏ သားသမီး လေးယောက်အနက် သားအကြီးဆုံး ဖြစ်သည်။ ၁၈၈၁ ခုနှစ်မှ စ၍ စစ်တွေမြို့အစိုးရ အလယ်တန်းကျောင်းတွင် ပညာသင်ကြားရာ ၁၈၈၅ခုနှစ်တွင် အလယ်တန်းစကောလားရှစ်ဆုကိုရရှိသည်။ ထိုမှတဖန် ရန်ကုန်မြို့သို့ ပြောင်းရွှေ့ ပညာသင်ကြားပြန်ရာ ၁၈၈၇ ခုနှစ်တွင် တက္ကသိုလ်ဝင် စာမေးပွဲကို အောင်မြင်သည်။ထိုနောက် ရန်ကုန်ကောလိပ်ကျောင်းတွင် ဆက်လက်ပညာသင်ယူပြန်ရာ ၁၈၉၁ ခုနှစ်တွင် ထိုခေတ်က မြန်မာနိုင်ငံ၌ အမြင့်ဆုံးဖြစ်သော ဝိဇ္ဇာဘွဲ့ထူးကို ဆွတ်ခူးရရှိသည်။ ၁၈၉၂ ခုနှစ်တွင် ပညာရေးဌာန၌ ပညာအုပ်အဖြစ် စတင်ဝင်ရောက်ထမ်းရွက်သည်။ ထိုနောက် မြေစာရင်းဌာနသို့ ပြောင်းရွှေ့ကာ အတန်ကြာ အမှုထမ်းခဲ့ရာ ၁၉၀၂ ခုနှစ်တွင် မြို့အုပ်တန်း ခေါ် မြန်မာနိုင်ငံ လက်အောက်ဝန်ထမ်းအဖွဲ့ဝင်အဖြစ် ပြောင်းရွှေ့ခန့်ထားခြင်း ခံရသည်။ ၁၉၀၇ ခုနှစ်တွင် ဝန်ထောက်တန်းခေါ် မြန်မာနိုင်ငံဝန်ထမ်း အဖွဲ့သို့ တိုးမြှင့် ခန့်ထားခြင်း ခံရသည်။

၁၉၀၉ ခုနှစ်တွင် ရန်ကုန်မြို့ ကောလိပ်တော်ရုံး၌ အခွန်ဝန်အဖြစ်ထမ်းရွက်နေစဉ် ထိုစဉ် ဖြေရှင်းရန် အလွန် ခက်ခဲသော ပြဿနာတရပ်ဖြစ်သည့် ကျူးကျော်နေထိုင်သူများကို နေရာချထား၍ မြေခွန်တော် စည်းကြပ်ရေးအတွက် အထူးတာဝန် ကျရောက်ထမ်းဆောင်ရသည်။ ဤပြဿနာကြီးနှင့် စပ်လျဉ်း၍ ဦးရွှေဇံအောင်၏ အကြံပေးချက်များကို အစိုးရက အထူးနှစ်သက်လက်ခံခဲ့သည်။ သူ၏ စာအုပ်ပြာ ခေါ် အစီရင်ခံစာကို သက်ဆိုင်ရာ အစိုးရအရာရှိများ အထူးအမှိုသဟဲပြု၍ ဖတ်ရှုခဲ့ကြရသည် ဟုဆိုသည်။ ၁၉၁၂ ခုနှစ်တွင် တံတားတူးမြောင်း ဖောက်လုပ်ရန်အတွက် မြေသိမ်းအရာရှိအဖြစ် ရွေးချယ် ခန့်အပ်ခြင်း ခံရပြီးနောက် ၁၉၁၃ ခုနှစ်တွင် စည်ကားစပြုလာပြီ ဖြစ်သော သံလျင်မြို့တွင် မြေပိုင်ဆိုင်ခွင့်ဆိုင်ရာ အထူးစုံစမ်းရေး အဖွဲ့ဝင်လူကြီး အဖြစ် ခန့်ထားခြင်း ခံရသည်။ ၁၉၁၄ ခုနှစ်၌ မြေဖက်ဌာနတွင် သူ၏ ထူးချွန်စွာ ဆောင်ရွက်မှုအတွက် ဗြိတိသျှအစိုးရက အေ-တီ-အမ် ခေါ် အမှုထမ်းကောင်းမင်း ဘွဲ့တံဆိပ်ကို ချီးမြှင့်သည်။ ၁၉၁၈ ခုနှစ်တွင် ကျောက်တန်း နယ်ပိုင် ဝန်ထောက်အဖြစ် ထမ်းရွက်နေယင်း ဦးရွှေဇံအောင်သည် ဒုတိယအကြိမ်မြောက် စစ်ချေးငွေ အမြောက်အမြား ရှာဖွေစုဆောင်းပေးခဲ့သည်။

ဦးရွှေဇံအောင်သည် ဟံသာဝတီခရိုင်တွင် နှစ်ကြိမ်တိုင်တိုင် ခရိုင်ဝန် အဖြစ် ထမ်းရွက်ရပြီးနောက် ၁၉၂၀ ပြည့်နှစ်တွင် မြန်မာနိုင်ငံ ဘဏ္ဍာတော် မင်းကြီး၏ အတွင်းဝန်အဖြစ် ယာယီခန့်အပ်ခြင်းခံရသည်။ ထိုနောက် သထုံခရိုင်ဝန် အဖြစ် ပြောင်းရွှေ့ထမ်းရွက်ရာ အထူးပင် လူချစ် လူခင်ပေါများသော အစိုးရအရာရှိ ဖြစ်ခဲ့သည်။ ၁၉၂၃ ခုနှစ်တွင် ကေ-အက်-အမ် ခေါ် ကျက်သရေဆောင် ရွှေစလွယ်ရမင်းဘွဲ့တံဆိပ်ကိုဗြိတိသျှအစိုးရက အပ်နှင်းချီးမြှင့်သည်။ ထိုနောက် အိန္ဒိယ နိုင်ငံတွင် မျူနီစီပယ် အခွန်တော်များ ကောက်ခံရေးဆိုင်ရာ စုံစမ်းမှု ကော်မီတီဝင် အဖြစ် ခန့်အပ်ခြင်း ခံရပြန်ရာ ယင်းကော်မီတီ ဥက္ကဋ္ဌ ကိုယ်တိုင်က ဦးရွှေဇံအောင်၏ ထူးချွန်ပေါက်မြောက်စွာ ဆောင်ရွက်နိုင်သော အရည်အချင်းကို ချီးကျူးခဲ့ရသည်။ မကြာမီ မြန်မာအမျိုးသားများအား မည်သည့် အခါကမျှ ခန့်အပ်ခြင်း မပြုခဲ့သည့် ရာထူးဖြစ်သော ယစ်မျိုးမင်းကြီးအဖြစ် ဦးရွှေဇံအောင်သည် ပဌမဆုံး ခန့်အပ်ခြင်း ခံရပြန်သည်။ ယင်းသို့ ရာထူးအမျိုးမျိုးတွင် အစိုးရအမှုတော်ကို ထူးချွန်ကျေပြွန်စွာ နှစ်ပေါင်း ၃၀ ကျော် ထမ်းဆောင်ခဲ့ပြီးနောက် ၁၉၂၆ ခုနှစ်တွင် ကျန်းမာရေးအတွက် အငြိမ်းစားပင်စင် ယူလေသည်။

ထိုသို့ အစိုးရအမှုတော်ကို မနေမနား အားထုတ်ဆောင်

ရှက် ခဲ့သည့် ကြားမှပင် ဦးရွှေဇံအောင်သည် သာသနာတော်၌ အလွန်ယုံကြည်လှသဖြင့် တကြောင်း၊ ပညာ ဗဟုသုတကို လိုလားလှသူ ဖြစ်သည်က တကြောင်း၊ လုံ့လ ဝီရိယ ထူးချွန်သူ ဖြစ်သည်က တကြောင်းတို့ကြောင့် ၁၈၉၅ ခုနှစ်မှ စ၍ ဆရာတော် ဦးဂန္ဓမာထံ၌ အဘိဓမ္မာ တရားတော်ကို နည်းနာခံယူ လေ့လာသင်ကြားလေသည်။ ထို့မျှသာမက လယ်တီ ဆရာတော်ဘုရားကြီး ထံတွင်လည်း မပြတ် ဆည်းကပ် သင်ကြား ဆွေးနွေးလေ့ရှိသည်။ ဦးရွှေဇံအောင်သည် မြန်မာနှင့် ပါဠိဘာသာ ကျမ်းဂန်များကို ဆရာတဆူဟု ဆိုရလောက်အောင် လေ့လာတတ်ကျွမ်းရုံမက အင်္ဂလိပ် ဘာသာ လက်တင်ဘာသာ စသည်တို့ဖြင့်ရှိသော ဖီလော်ဆော်ဖီ ခေါ် ဒဿနိကဗေဒကျမ်းများကိုလည်း နက်နဲစွာ လေ့လာသော ပုဂ္ဂိုလ်ကြီး ဖြစ်သည်။ ခရစ်နှစ် ၁၉၀၀ ပြည့်နှစ်လောက်က နိုင်ငံခြားသို့တိုင် ဗုဒ္ဓသာသနာတော်ကြီး ပေါက်ရောက် ထွန်းကားစေရန် ရည်သန်၍ အင်္ဂလိပ်ဘာသာဖြင့် သုံးလတကြိမ် ထုတ်ဝေသော ဗုဒ္ဓဝါဒ အမည်ရှိ မဂ္ဂဇင်းတွင် ဦးရွှေဇံအောင်သည် အဘိဓမ္မာတရားတော် အကြောင်း ပါဝင်ရေးသားခဲ့သည်။ ယင်းမဂ္ဂဇင်းသည် အမေရိကန်၊ အင်္ဂလန်၊ ပြင်သစ်၊ ဂျာမနီ၊ ဣတလီ၊ အိန္ဒိယ၊ ယိုးဒယား၊ တရုပ်၊ ဂျပန် စသော နိုင်ငံများသို့ ဖြန့်ချိရာ ယခင်က ဝိနည်းနှင့် သုတ္တန်ကျမ်းများသာ လေ့လာဘူးသော နိုင်ငံခြားသားများ အဖို့ အဘိဓမ္မာကျမ်းအကြောင်း သိရှိလာကြလေသည်။

ဗုဒ္ဓဝါဒ မဂ္ဂဇင်း ကြီးမှူးထုတ်ဝေသူ အာနန္ဒာမေတ္တေယျ ဆရာတော်ကို အကြောင်းပြု၍ လန်ဒန်မြို့ ပါဠိအသင်းကြီး၏ ဥက္ကဋ္ဌဖြစ်သူ မစ္စစ်ရစ်ဒေးဗစ်နှင့် ရင်းနှီးကာ ဦးရွှေဇံအောင်သည် အဘိဓမ္မတ္ထသင်္ဂဟ သင်္ဂြိုဟ်ကျမ်းကို အင်္ဂလိပ်ဘာသာသို့ ပြန်ဆို၍ မစ္စစ်ရစ်ဒေးဗစ်ထံ ပေးပို့သည်။ ယင်း စာမူကို မစ္စစ်ရစ်ဒေးဗစ်နှင့် ဦးရွှေဇံအောင်တို့ အပြန်ပြန် အလှန်လှန် စစ်ဆေးပြင်ဆင်ပြီးမှ ဗုဒ္ဓဝါဒမဂ္ဂဇင်းတွင် ဦးရွှေဇံအောင် ရေးသားသောဆောင်းပါးကို နိဒါန်းအဖြစ် ထည့်ကာ ၁၉၁၀ ပြည့်နှစ်တွင် ပုံနှိပ်ထုတ်ဝေသည်။ စာအုပ်ထွက်လာသည်နှင့် တပြိုင်နက် တကမ္ဘာလုံးမှ ပညာရှိများ၏ ချီးကျူးလက်ခံခြင်း ခံရသည်။ လယ်တီဆရာတော် ဘုရားကြီးနှင့် မစ္စစ်ရစ်ဒေးဗစ်တို့၏ ဗုဒ္ဓအဘိဓမ္မာနှင့် စပ်လျဉ်းသော အမေးအဖြေများကိုလည်း ဦးရွှေဇံအောင်ပင် အင်္ဂလိပ်ဘာသာဖြင့် ပြန်ဆိုကာ အပြန်အလှန်ဆက်သွယ်၍ အကျိုး ဆောင်ပေးခဲ့ရသည်။

ဦးရွှေဇံအောင်သည် မြန်မာနိုင်ငံမှ ဗုဒ္ဓကျမ်းကို နိုင်ငံခြားသားများ ဖတ်ရှုလေ့လာနိုင်ရန် ရေးသားရုံသာမက အနောက်နိုင်ငံ ကျမ်းတစောင်ဖြစ်သော ပါမောက္ခဂျီဗန်း စီရင်ရေးသားသည့် လောဂျစ် (ယုတ္တိဗေဒ) ကျမ်းကိုမှီ၍ 'တက္ကိယနယဒီပနီ' အမည်ရှိ ယုတ္တိဗေဒကျမ်းကိုပြုစုရေးသားသည်။ ထိုကျမ်းကို ပြုစုရာ၌ ဂျီဗန်း၏ လောဂျစ်ကျမ်းမှ သဘောနှင့် အစီအစဉ်ကိုသာ မှီး၍ စကားအသုံးအနှုန်း၊ ဥဒါဟရုဏ်ပြယုက်တို့ကို မြန်မာဆန်ဆန် ရေးသားထားလေသည်။ ဦးရွှေဇံအောင်သည် ကျမ်းကြီးကျမ်းခိုင်တို့၌သာ ကျွမ်းကျင်သည် မဟုတ်၊ ကဗျာ၊ လင်္ကာတို့၌လည်း ကဝိတဆူ ခေါ် လောက်အောင် ကျွမ်းကျင်ကြောင်းကို ၁၉၁၁ ခုလောက်မှ စ၍ ၁၉၂၀ ပြည့်နှစ်ခန့်အထိ မြန်မာနိုင်ငံ သုတေသန အသင်း ဂျာနယ်၌ရေးသားခဲ့သော ဆောင်းပါးအမျိုးမျိုးကို ကြည့်ခြင်းအားဖြင့် သိနိုင်ပေသည်။ ၁၉၂၄ ခုနှစ်ခန့်တွင် မြန်မာနိုင်ငံ တက္ကသိုလ်ကျောင်းကြီး အတွက် သင်္ခန်းစာများ ရွေးချယ်သတ်မှတ်ရေးကော်မီတီတွင် မြန်မာကဗျာ၊လင်္ကာ၊ ရာဇဝင် ကျမ်းများကို သင်ကြားနေပါက ခေတ်မှီအနောက်နိုင်ငံဘာသာရပ်များကို သင်ကြားချိန်နည်းမည့်အကြောင်းဖြင့် တစုံတဦးက ကန့်ကွက်ရာ ဦးရွှေဇံအောင်က အနောက်နိုင်ငံ၊ အရှေ့နိုင်ငံများမှ စာပေများကို နှံ့နှံ့စပ်စပ် ဖတ်ခဲ့ရဘူးသည့်အနက် မြန်မာနိုင်ငံဖြစ် လောကနီတိကျမ်းလောက် ကောင်းသည့်ကျမ်း မတွေ့ရကြောင်း၊ မြန်မာစာပေကို အထင်မသေးသင့်ကြောင်းတို့ဖြင့် ရှုတ်ရှုတ်ချချ ကာကွယ်ပြောဆိုခဲ့ကြောင်းဖြင့် အဆို ရှိသည်။ ဦးရွှေဇံအောင်ကား မြန်မာ့ ယဉ်ကျေးမှုနှင့် တကွ မြန်မာ့စာပေကို ချစ်မြတ်နိုးသော ပုဂ္ဂိုလ်ကြီးဖြစ်ပေသည်။

ဦးရွှေဇံအောင်သည် ဗုဒ္ဓအယူဝါဒနှင့် စပ်လျဉ်း၍ ကျမ်းကြီးခုနစ်ကျမ်းကို ပြုစုခဲ့သည်။ ယင်းတို့မှာ မြန်မာဘာသာဖြင့်ရေးသားသော (၁) ဇရာလက္ခဏာဒိ ဒီပနီကျမ်း၊ (၂) တက္ကိယနယဒီပနီကျမ်း၊ (၃) ကာယင်္ဂသမ္ဘာရဒီပနီကျမ်း၊ (၄) ရူပဒီပနီကျမ်း၊ အင်္ဂလိပ်ဘာသာဖြင့် ရေးသားသော (၅) ယမက ခေါ် ယမိုက်ကျမ်း၊ (၆) ကထာဝတ္ထု၊ (၇) အဘိဓမ္မတ္ထသင်္ဂဟကျမ်းတို့ ဖြစ်သည်။ အငြိမ်းစားယူပြီးနောက် နောက်ဆုံး ပြုစုသော လူမျိုးတရာ့တပါး ကျမ်းကြီးမှာ ပြီးမြောက်ခဲ့သော်လည်း ပုံနှိပ်ထုတ်ဝေခြင်း မပြုဖြစ်ခဲ့ချေ။ ဦးရွှေဇံအောင်သည် ကျမ်းကြီးကျမ်းခိုင်တို့ကိုသာမက လက်ဝဲသုန္ဒရ၏မဲဇာတောင်ခြေရတုကိုပင် အင်္ဂလိပ်ဘာသာဖြင့် ပြန်ဆိုရေးသားခဲ့သေးသည်။

ယင်းသို့ အင်္ဂလိပ်-မြန်မာနှစ်ဘာသာလုံးတွင် ထက်မြက်သော ကမ္ဘာသိ ပညာရှိ စာပြုပုဂ္ဂိုလ်ကြီး ဦးရွှေဇံအောင်အား ၁၉၃၂ ခုနှစ်တွင် ရန်ကုန်တက္ကသိုလ်မှ ဒီ-လစ် ခေါ် စာပေပါရဂူဘွဲ့ကို ပေးအပ်သည်။ သို့ရာတွင် ဘွဲ့နှင်းသဘင် ကျင်းပရန် ၁၀ ရက်ခန့်အလို ၁၉၃၂ ခုနှစ် မေလ ၁၁ ရက်နေ့တွင် ဒေါက်တာရွှေဇံအောင် ကွယ်လွန်ခဲ့လေသည်။

ဦးရွှေဇံအောင်ကား အရပ်ပုပ်ပုပ် ပိန်ပိန်ပါးပါး အသားဖြူ၍ ရုပ်ရည်သန့်ပြန့်သူ ဖြစ်သည်။ မြန်မာမှုကို လေးစားသူပီပီ ဆံပင်ရှည်နှင့် နှုတ်ခမ်းမွေးထားသူ ဖြစ်သည်။

**ရွှေတလေး။** ။ဘကလေး၊ ဦး၊(ရွှေတလေး) — ရှု။

**ရွှေတိဂုံဘုရား။** ။ဗုဒ္ဓအယူဝါဒီအပေါင်းတို့ အလွန်ရိုသေမြတ်နိုးရာ ဖြစ်ရုံမက ကမ္ဘာအရပ်ရပ်မှ စေတီတော်ကို ဖူးမြော်ရသူ အပေါင်းတို့၏ အံ့ချီးမကုန်ရာ ဖြစ်တော်မူသော ရွှေတိဂုံစေတီတော်ကြီးသည် ရန်ကုန်မြို့ ဆိပ်ကမ်းများ၏ မြောက်ဖက် နှစ်မိုင်ခန့်အကွာ ပဲခူးရိုးမ၏ တောင်ဖက်ဆုံး အစွယ် သိင်္ဂုတ္တရကုန်း ဟူ၍ အခေါ်များသော တမ္ဗဂုတ္တကုန်းပေါ်တွင် မားမားမတ်မတ် ရွှေတောင်ကြီးပေါက်သကဲ့သို့ တည်ရှိသည်။ (ပဲခူးရိုးမ — လည်းရှု။) သိင်္ဂုတ္တရကုန်းသည် ပင်လယ်ရေပြင် အထက် ၁၆၈ ပေမြင့်ရာ၊ ရန်ကုန်ဆိပ်ကမ်းသို့ ဝင်လာသော ပင်လယ်ကူး သင်္ဘောကြီးများပေါ်မှ ပင်လယ်ဖက်က ဝင်လာသည်နှင့်တပြိုင်နက် စေတီတော်ကို ကြည်ညိုဖွယ် ဖူးတွေ့ နိုင်ကြသည်။ ဤဘဒ္ဒကမ္ဘာ၌ ပွင့်တော်မူကြလေပြီးသော ကကုသန် ဘုရားရှင်၏ တောင်ဝှေးတော်၊ ကောဏာဂုံဘုရားရှင်၏ ရေစစ်တော်၊ ကဿပဘုရားရှင်၏ ရေသနုပ်တော်၊ ဂေါတမဘုရားရှင်၏ ဆံတော်တို့ကို ဌာပနာရာ၊ရှင်တော်ဘုရားလေးဆူ၏ ပရိဘောဂနှင့်ဆံတော် ဌာပနာရာ၊ စုပုံတည်ရာ ဖြစ်ခြင်းကြောင့် 'လေးဆူဓာတ်ပုံ ရွှေတိဂုံ'ဟု ဘွဲ့တော် သမုတ်ကြသည်။

စေတီတော်ကို လွန်ခဲ့သည့် နှစ်ပေါင်း ၂,၅၀၀ ကျော် ဖြစ်သော မဟာသက္ကရာဇ် ၁ဝ၃ ခုနှစ် တပေါင်းလပြည့်နေ့တွင် ဌာပနာတိုက် သွင်း၍ တည်ထားကိုးကွယ်ခဲ့ကြသည်။ တည်စက ဥဏှိသ်တော် ၄၄ တောင်မြင့်သော ဟူ၏။ ယခု စေတီတော်ကြီး၏ အရှေ့ဖက် စောင်းတန်းအဆင်း မြောက်ဖက် အလယ်ဆင့်တွင် စိုက်ထူထားသော ဓမ္မစေတီမင်းလက်ထက် 'ပါဠိ၊ မွန်၊ မြန်မာ အက္ခရာအသီးအသီးဖြင့် ရေးထိုး စိုက်ထူခဲ့သော ကျောက်စာချပ်ကြီးများကား ရွှေတိဂုံ စေတီတော်ကြီး၏ သမိုင်းမှန် ဟု ယူဆဖွယ် ဖြစ်သည်။ ဂေါတမဘုရားသခင်သည် မဟာသက္ကရာဇ် ၁ဝ၃ ခုနှစ်ကဆုန်လပြည့်နေ့တွင် ဘုရားအဖြစ် ရောက်တော်မူပြီးနောက် ၄၉ ရက်တို့ကာလ ပတ်လုံး သတ္တ သတ္တာဟ စံနေတော်မူသည်။ ဤသို့အားဖြင့် သီတင်းသုံးတော်မူပြီးအဆုံး ထိုနှစ် ဝါဆိုလဆန်း ၅ ရက်နေ့တွင် ရာဇာယတန လင်းလွန်းပင်အောက်တွင် သိကြားမင်း ဆက်ကပ်သော ကြဇံသီး၊ ကွမ်းရိုး ဒန်ပူ၊ အနောတတ်ရေတို့ကို သုံးဆောင်တော်မူပြီးနောက် ရာမညတိုင်း ပေါက္ခရဝတီ ဟူသော အသိတဥ္စန နဂိုရ် မြို့သား တပုဿနှင့် ဘလ္လိက ကုန်သည်ညီနောင်တို့ ရောက်လာ၍ ဆံတော်ရှစ်ဆူ ပေးသနားတော်မူလေသည်။ (ဘလ္လိက နှင့် တပုဿ — လည်းရှု။) ကုန်သည်ညီနောင်တို့လည်းဆံတော်ရှစ်ဆူကိုပင့်ကာ သင်္ဘောဖြင့် ပြန်လာ၍၊ လူအပေါင်းတို့ ကုသိုလ်ပွားနိုင်စိမ့်သောငှာ စေတီတည်ရန် အားထုတ်၏။ အချို့ သမိုင်းများ အဆိုအရ ဘုရားရှင် ဗျာဒိတ်တော်အရ ရှေးဘုရားရှင်တို့၏ ဓမ္မကရိက် ရေစစ်တော်၊ ရေသနုပ်တော်နှင့် တောင်ဝှေးတော်တို့ ရှိရာ သိင်္ဂုတ္တရကုန်းတော်ကို ရှာဖွေရာတွင် ရုတ်တရက် မတွေ့နိုင်ကြသဖြင့် သိကြားမင်းဆင်းလာကာ အသက်ကြီးသောနတ်ကြီးငါးပါးကို စုဝေးခေါ်ယူ၍ ရှာစေမှ တွေ့ကြရလေသည်။ ယင်းသို့ နတ်ကြီးများ စုဝေးရာ ကုန်းတွင် စေတီတည်၍ စုဝေးစေတီသမုတ်ရာမှ ကာလရွေ့လျောသောအခါ ဆူးလေ စေတီတွင်သည်ဟု ဆိုကြသည်။ (ဆူးလေဘုရား — ရှု။)

နတ်ကြီးငါးပါး၏ အကူအညီဖြင့် သိင်္ဂုတ္တရကုန်းမှ ရှေးဘုရားရှင်တို့၏ ပရိဘောဂများကို ဖော်ယူကာ ဂေါတမဘုရားရှင်၏ ဆံတော်ရှစ်ဆူနှင့် အတူ ဌာပနာ၍ စေတီတည်လေရာ နတ်ဗြဟ္မာအပေါင်း သောင်းသောင်းဖျဖျ ကူညီကြသည်။ ထိုအခါက ဓာတ်တော်များကို ကျောက်သေတ္တာဖြင့် ထား၍ အပေါ်မှ ရွှေစေတီ၊ ယင်းအပေါ်မှ ငွေစေတီ၊ ယင်းအပေါ်မှ ကြေးဖြူစေတီ၊ ကြေးနီစေတီ၊ ကျောက်ဖြူစေတီ၊ သံအုတ်စေတီ စသည်ဖြင့် အထပ်ထပ် ငုံပြီးလျှင် ဖိနပ်တော်မှ ငှက်ပျောဖူးအထိ ရတနာမျိုးစုံတို့ဖြင့် မွမ်းမံသည်။ဥဏှိသ်တော် ၄၄ တောင်မြင့်သော ဟူ၏။ မွန်ရာဇဝင် စေတီသမိုင်းပေါင်းချုပ် အဆိုအရ စေတီ၏ဖိနပ်တော် ၃၅ တောင် စတုရန်း၊ ဥဏှိသ်တော် ၅၅ တောင် တည်ဆောက်သည် ဟု ဖြစ်သည်။

တပုဿ ဘလ္လိက ညီနောင်တို့ တည်ခဲ့သော ထိုစေတီကို ဥက္ကလာပမင်းနှင့်တကွ သားမြေးစဉ် ၁၂ ဆက်စောင့်ရှောက်ခဲ့ကြပြီးနောက် သာသနာသက္ကရာဇ် ၁ဝ၁ ခုနှစ်တွင် သရေခေတ္တရာ ပြည်၌ နန်းတက်သော ဒွတ္တပေါင်မင်းကြီးသည် ဆံတော်ကို သရေခေတ္တရာသို့ ပင့်ယူရန် စစ်သည်ဗိုလ်ခြေနှင့် လာရောက်ရာ မအောင်မြင်ခြင်း၊ သာသနာ သက္ကရာဇ် ၂၃၆ ခုနှစ်တွင် သုဝဏ္ဏဘူမိ သထုံမြို့သို့ သာသနာပြု ကြွရောက်တော်မူကြသော ရှင်သောဏနှင့် ဥတ္တရ ထေရ်နှစ်ပါး၏ညွှန်ပြမှုကြောင့် သီရိမာသောကမင်းသည် တောခြုံရှင်း၍စေတီနှင့် စေတီအိမ် ပြာသာဒ်ကို တည်၍ ပူဇော်ခြင်း၊ ပုဂံအနော်ရထာမင်း တိဂုံမြို့သို့ လာ၍ ဆံတော်ပင့်ရန် ကြံစည်ပြန်သော်လည်း မအောင်မြင်ခြင်း စသော သမိုင်းအမှတ်အသားများမှတပါး အခြား အထူးအထွေ မရှိခဲ့ချေ။

ထိုနောက် ရာမညတိုင်းကို အစိုးရသော သဒ္ဓါတရားရှိသည့် မင်းများသည် ယိုယွင်းပျက်စီးလေသော စေတီအိမ်ကို အဆက်ဆက် လွှမ်းခြုံထပ်ဆင့် တည်ရကား ဤစေတီသည် မဟာစေတီကြီး ဖြစ်လာလေသည်။ သက္ကရာဇ် ၇၉၀ ခုနှစ် ရာမညပြည့်ရှင် ရာမရာဇာဓိရာဇ် (ဗညားရံ) လက်ထက် စေတီတော်သည် ခေါင်းလောင်းပုံမှ အထက် ခပ်သိမ်းပျက်လေသဖြင့် သူရှင်နှင့် မိဖုရား နာရာဇဒေဝီတို့သည် တဖန်တည်ဆောက်ရာ စေတီတော်ကို ပစ္စယာကြီးမှတဆင့်တိုးမြင့်



ဗုဒ္ဓအယူဝါဒီအပေါင်းတို့ အလွန်ရိုသေမြတ်နိုးရာ ဖြစ်ရုံမက ကမ္ဘာ့အရပ်ရပ်မှ စေတီတော်ကို ဖူးမြော်ရသူအပေါင်းတို့၏ အံ့ချီးမကုန်ရာ ဖြစ်တော်မူသော ရွှေတိဂုံစေတီတော်ကြီးသည် ပဲခူးရိုးမ၏ တောင်ဖက်ဆုံးအစွယ် သိင်္ဂုတ္တရကုန်းဟူ၍ အခေါ်များသော တမ္ဗဂုတ္တကုန်းပေါ်တွင် မားမားမတ်မတ် ရွှေတောင်ကြီးပေါက်သကဲ့သို့ တည်ရှိ၍ ကကုသန်ဘုရားရှင်၏ တောင်ဝေးတော်၊ ကောဏာဂုံဘုရားရှင်၏ ရေစစ်တော်၊ ကဿပဘုရားရှင်၏ ရေသနုပ်တော်၊ ဂေါတမဘုရားရှင်၏ ဆံတော်တို့ကို ဌာပနာရာ စုပုံတည်ရာ ဖြစ်ခြင်းကြောင့် "လေးဆူဓာတ်ပုံ ရွှေတိဂုံ" ဟူ၍လည်း ဘွဲ့တော် သမုတ်ကြသည်။

တည်ပြန်သည်။ ယင်းသို့ တည်၍ မပြီးမီ နတ်ရွာစံသဖြင့် နောက်မင်းများက အပြီးအထိ ဆက်လက်တည်လေသည်။

သက္ကရာဇ် ၈၁၄ ခုနှစ်တွင် နန်းတက်သော ဘုရင်မ ရှင်စောပုသည် ၈၂၂ ခုနှစ်တွင် သားမက်တော် ဓမ္မစေတီအား နန်းအပ်၍ ဒဂုန်မြို့သို့ သွားပြီးလျှင် စေတီတော် အနောက်တောင်ဖက်၌ မြို့နန်းတည်၍ စေတီတော်အား ပူပြင်သည်။ မယ်တော်နှင့် သားမက်တော်တို့သည် စေတီတော်ခြေရင်း ချိုင့်ဝှမ်းဖြစ်နေသည်များကို ဝဝကျောက်တို့ဖြင့် ဖို့၍ရင်း၊ မြင့်မောက်နေသော ကုန်းတို့ကို တူးဖော်၍ရင်း မြေမျက်နှာ ပြင်ညှိ၏။ စေတီတော် ပဌမပစ္စယာနှင့် အထက်ပစ္စယာ အကြား ရွှေမွမ်းမံသော ကျောက်ထီးများ စိုက်ခြင်း၊ ပစ္စယာ ခြေရင်းကို ကျောက်ပြားအပြည့်ခင်းခြင်းတို့ပြု၏။ ပိသာချိန် ၁၈၀,၀၀၀ ရှိသော ခေါင်းလောင်းတခု သွန်းလုပ် လှူဒါန်း၍ ကျောက်မီးတိုင်များပါ စီစဉ်ပြုလုပ်ထားသည်။ ဘေးနံပါး မြေတန်တိုင်း ဆောက်၍ အပေါ်တွင် ကြာပွင့်ပုံများ ပြုလုပ်သည်။ ရင်ပြင်အောက် နံပါးပတ်လည် ဇရပ်များ ဆောက်၏။ အောက် ရင်ပြင်ပတ်လည် တန်တိုင်းကာပြီးလျှင် တန်တိုင်းတွင်း အုန်းပင်များ အပြည့် စိုက်၏။ တန်တိုင်းပတ်လည် အပြင်ဖက်မြေကို အကုန်ညှိလေသည်။ ယင်းသို့ လှူဒါန်းပြုစုခဲ့ကြောင်းကို စေတီတော်ကြီး၏ အရှေ့စောင်းတန်း မြောက်ဖက်ဘေးတွင် ကျောက်စာတိုင် သုံးချပ် စိုက်ထူမော်ကွန်းထိုးခဲ့သည်မှာ ယခုတိုင် တွေ့မြင်နိုင်လေသည်။

ထိုမင်းသားတော် မင်္ဂလာဇာဘွဲ့ခံ ဗညားရံမင်းလက်ထက် ၈၅၆ ခုနှစ်တွင် လေမိုးပြင်းထန်စွာကျသဖြင့် တိဂုံဆံတော်ရှင် စေတီမှ ထီးတော် လွင့်စဉ်ပြီးသော် စေတီတော် အနောက်မြောက် တတိုင်ခန့်အကွာ သစ္စေးတောသို့ ကျသည်ကို ကောက်ယူ အသစ်ပြင်၍ မွမ်းမံတင်လှူသည်။ သက်ဒေ စေတီရံ ၄၀ ဆူကိုလည်း တည်တော်မူသည်။

သက္ကရာဇ် ၉၀၄ ခုနှစ်တွင် မင်းတရားရွှေထီးသည် ဒဂုန်မြို့သို့ လာ၍ ရွှေတိဂုံစေတီအား ချယားသီးမှ ကလာပ်ခြေမြေ အထိ ရွှေလုံးတော်ပြည့် ကပ်လှူတော်မူသည်။ ၉၂၈ ခုနှစ် တပို့တွဲလပြည့်ကျော် ၅ ရက်နေ့တွင် ဟံသာဝတီ ဆင်ဖြူများ ရှင် ဘုရင့်နောင် မင်းတရားကြီးသည် တိဂုံဆံတော်ရှင် စေတီတော်ကို ရွှေလုံးတော်ပြည့် ကပ်လှူခြင်း၊ ထီးတင်ခြင်း၊ မကိုဋ်တော်ကိုပင် ချွတ်၍ လှူဒါန်းခြင်း စသော ကောင်းမှုများ ပြုသည်။

သက္ကရာဇ် ၉၇၀ ပြည့်နှစ် သီတင်းကျွတ်လဆန်း ၉ ရက်နေ့တွင် မြေလျှင် ပြင်းစွာ လှုပ်၍ တိဂုံဆံတော်ရှင် စေတီ၏ ချယားသီး ဖောင်းလုံး၊ ဖောင်းမ အကုန် မြေသို့ကျသည်။ ထိုအခါ၌ ဟံသာဝတီတွင် သံလျင်စား ဇေကာ ကြီးစိုးခိုက်ဖြစ်၍ မုတ္တမ၌ မင်းပြုသော ပတ္တမြား တဇောမင်းက ပြည်သူပြည်သား အပေါင်းတို့နှင့် အတူ ဆံတော်ရှင်စေတီကို မူလပကတိအတိုင်း ဖြစ်စေပြီး ရွှေထီးတင်လှူသည်။ သံလျင်စား ဇေကာသည် စေတီတော်၌ ဓမ္မစေတီမင်း လှူဒါန်းသော ပိသာချိန် ၁၈၀,၀၀၀ ရှိ ခေါင်းလောင်းကြီးကို အမြောက်သွန်းလုပ်ရန် သံလျင်သို့ ယူဆောင်သွားရာ လမ်းတွင် ခေါင်းလောင်းတင်သောလှေ ကွဲနှစ်၍ မြစ်ထဲသို့ ကျလေသည်။ ၉၇၄ ခုနှစ် အင်းဝ အနောက်ဖက်လွန် မင်းတရားကြီး လက်ထက် သံလျင်စား ဇေကာကို အောင်မြင်တော်မူပြီးနောက် ဒဂုန်မြို့သို့ လာ၍ စေတီ လုံးတော်ပြည့် ရွှေသက်န်း ကပ်လှူခြင်း၊ ရတနာရွှေထီး တင်ခြင်း၊ ပတ္တမြားလုံးရေ ၂,၀၀၀ ရှိ စိန်ဖူး ရောင်လျှံ တင်လှူခြင်းများ ပြုသည်။

သက္ကရာဇ် ၁၀၄၀ ပြည့်နှစ်တွင် ရွှေတိဂုံစေတီ ရောင်လျှံ ပြိုကျရာ၊ ထိုအခါ အင်းဝမင်းရဲကျော်ထင်သည် အသစ် ပြုလုပ်၍ ၁၀၄၃ ခုနှစ်တွင် ဒဂုန်သို့ပို့၍ တင်လှူသည်။

သက္ကရာဇ် ၁၁၁၇ ခုနှစ် ကဆုန်လဆန်း ၆ ရက်နေ့တွင် အလောင်းမင်းတရားကြီး ဦးအောင်ဇေယျသည် ဒဂုန်မြို့သို့ လာရောက်၍ ဒဂုန်မြို့ဟောင်း အနောက်မြောက် တာ ၂၀၀ ခန့် အကွာတွင် မြို့နန်းဆောက်ကာ ရန်ကုန် ဟုသမုတ်တော်မူသည်။ရွှေတိဂုံစေတီအားလည်း မွမ်းမံပူဇော်၍ ဇရပ်တော ်ကြီး ဆောက်လုပ်လှူဒါန်းခဲ့သည်။

သက္ကရာဇ် ၁၁၃၀ ပြည့်နှစ် သားတော် ဆင်ဖြူရှင်မင်း လက်ထက် မြေလျှင်လှုပ်ရာ ရွှေတိဂုံစေတီတော်ကြီး၏ ထီးတော် အနောက်သို့ တိမ်းသည်။ ချယားသီးမှ ရွှဲအရောက် ကွဲအက်၏။ ၁၁၃၇ ခုနှစ် တော်သလင်းလဆန်း ၁၀ ရက် တနင်္လာနေ့တွင် ရန်ကုန် မြို့ဝန်အရာရှိတို့က ထီးတော်ကို ချပြီးလျှင် အင်းဝသို့ ပို့ပြီးနောက် စေတီတော်ကို ပြုပြင်လုပ် ဆောင်သည်။ ထီးတော်ကို အသစ်လုပ်ဆောင်ပြီးနောက် ဆင်ဖြူရှင်မင်းတရားသည် ကိုယ်တော်တိုင် ရန်ကုန်သို့ စုန်ဆင်းလာကာ ၁၁၃၆ ခုနှစ် တပေါင်းလဆန်း ၁၅ ရက်နေ့ တွင် ရွှေထီး တင်တော်မူသည်။

သက္ကရာဇ် ၁၁၃၉ ခုနှစ်တွင် စဉ့်ကူးမင်းသည် ရန်ကုန်သို့ စုန်ဆင်းလာ၍ စေတီတော်မြတ်ကြီးအား ရွှေလုံးတော်ပြည့် ကပ်လှူခြင်း၊ ရင်ပြင်တော် လေးမျက်နှာတွင် တန်ဆောင်း ပလ္လင်နှင့်တကွ ဘုရားလေးဆူကို ရည်မှတ်၍ ပဉ္စလောဟာ ဆင်းတုတော် လေးဆူကို သွန်းလုပ် တည်ထားခြင်းတို့ ပြုလေသည်။ ၁၁၄၀ ပြည့်နှစ် တပို့တွဲလဆန်း ၁ ရက်နေ့တွင် ကြေးပိသာ ၅၅,၅၅၅ ကို အချင်း ၇ါးတောင်၊ အရပ် ခုနှစ်တောင် နှစ်မိုက်၊ လုံးပတ် ၁၅ တောင်၊ အထု နှစ်မိုက်ရှိ မဟာဃဏ္ဍာ ဘွဲ့နှင့် ခေါင်းလောင်းကြီးတလုံး သွန်း၍ စေတီတော် အနောက်မြောက်တွင် ဆွဲတင်လှူဒါန်းသည်။ ထို ခေါင်းလောင်းကြီးကို သက္ကရာဇ် ၁၁၈၆ ခုနှစ်တွင် ပဌမ အင်္ဂလိပ်–မြန်မာ စစ်ပွဲ ဖြစ်ပွားသည့်နောက် ရွှေတိဂုံ ကုန်း တော်ကို အင်္ဂလိပ်များ သိမ်းပိုက်ရမိသောအခါ မိမိတို့နိုင်ငံ

သို့ ယူဆောင်ရန် သင်္ဘောပေါ်အတင် မြစ်ထဲသို့ ကျလေသည်။ အင်္ဂလိပ်တို့သည် ခေါင်းလောင်းကို အမျိုးမျိုး ကြိုးစား၍ ဆယ်သော်လည်း မရသဖြင့် ထားခဲ့ရာ နောင်တနှစ်ခန့်ကြာမှ မြန်မာတို့ ဆယ်ယူရရှိပြီးလျှင် မူလ နေရာသို့ ပို့ရသည်။

သက္ကရာဇ် ၁၂၀၃ ခုနှစ်တွင် သာယာဝတီမင်းသည် ရန်ကုန်သို့ စုန်ဆင်းလာကာ တိဂုံဆံတော်ရှင် စေတီ အနောက်တာဝန်းတထောင်ရှိသော မြို့ကို တည်ပြီး စံနေသည်။ ရွှေသား ကျပ်ချိန် ၁၂ ပိသာကို ရွှေမျက်ပါးခတ်၍ သံတောင် ၁၈ တောင် နှစ်မိုက် လေးသစ်ရှိ ရွှေတိဂုံစေတီတော်အား ငှက်ပျောဖူးမှ ဖိနပ်တော်အထိ ရွှေသင်္ကန်းကပ်သည်။ ကြေးချိန် ၂,၉၅၄,၀၄၉ ကျပ်(တန် ၄၀ ခန့်)ရှိ၍ အရပ် ကိုးတောင်သုံးမိုက် သုံးသစ်၊ အချင်း ငါးတောင်၊ လုံးပတ် ၁၅ တောင်၊ အထူ နှစ်မိုက် လေးသစ်ရှိ ခေါင်းလောင်းကြီးကို သွန်းလုပ်လှူဒါန်းသည်။ ထိုခေါင်းလောင်းကြီးကို မဟာတိသဒ္ဒဃဏ္ဍာဟုဘွဲ့တပ်၍ စေတီတော်၏ အရှေ့မြောက်ဖက်ဦး တန်ဆောင်းပြာသာဒ်နှင့်တကွ ဆွဲလှူခဲ့သည်။ ထိုမင်း၏ အနောက်နန်းမိဖုရား မမြကလေးသည် အနောက်ဖက်စောင်းတန်းကြီးကို ပြင်ဆင် ဆောက်လုပ်လှူဒါန်းသည်။

ထိုနောက် ရတနာပုံမြို့တည် နန်းတည် မင်းတုန်း မင်းတရားကြီးလက်ထက် ၁၂၃၃ ခုနှစ်တွင် စေတီတော်ကို ထီးတော်သစ် ပူဇော်တင်လှူတော်မူသည်။ ထိုအခါကား မြန်မာနိုင်ငံ အောက်ပိုင်းကို အင်္ဂလိပ်များ သိမ်းယူပြီး ဖြစ်၏။ မင်းတုန်းမင်းတရား လှူခဲ့သော ထီးတော်မှာ ယခုထီးတော်ပင် ဖြစ်၍ ပုံစံကို ကုန်းတော် အရှေ့ မျက်နှာစာတွင် တွေ့မြင်နိုင်သည်။ သက္ကရာဇ် ၁၂၅၀ ပြည့်နှစ်တွင် မြေလျှင်လှုပ်၍ ထီးတော်အထက် ငှက်မြတ်နား ပြုတ်၍ ကျသဖြင့် ပြည်သူပြည်သား အလှူငွေများဖြင့် ပြင်ဆင်ခဲ့ရသည်။ ၁၂၆၆ ခုနှစ်တွင် စေတီတော် ခေါင်းလောင်းပုံ အထက်သို့ မိုးကြိုးခ၍ ကြေးအုတ် ၁၀ ချပ် ကျလာသည်ကို ပြင်ဆင်ရသည်။ ၁၂၈၁ ခုနှစ် ဝါခေါင်လတွင် မြေလျှင် လှုပ်သဖြင့် ပိန္နဲတိုင် အနောက်မြောက်သို့ ယိုင်သည်ကို တိုင်းပြည်က အလှူငွေများ ထည့်ဝင်၍ ပြင်ဆင်ရသည်။ ငှက်မြတ်နား စိန်ဖူးဟောင်းကိုလည်း ချ၍ အသစ် ပြင်ဆင်ပြီးလျှင် ၁၂၈၂ ခုနှစ် တပေါင်းလဆန်း ၈ ရက်နေ့တွင် စတင် တင်လှူသည်။

ဒုတိယ အင်္ဂလိပ်–မြန်မာ စစ်ဖြစ်သည်မှ စ၍ နှစ်ပေါင်း ၈၀ ခန့်အတွင်း စေတီတော် အနောက်မုခ်ကို အင်္ဂလိပ်တို့က ခံတပ်အဖြစ် သုံးခဲ့ပြီးနောက် ၁၂၉၁ ခုနှစ်တွင်မှ ပြန်လည်ပေးအပ်သဖြင့် အခမ်းအနားနှင့် တပေါင်းလဆန်း ၄ ရက်နေ့တွင် ဖွင့်လှစ်ခဲ့သည်။ ထိုနောက် ၁၂၉၂ ခုနှစ် တပေါင်းလပြည့်ကျော် ၄ ရက်နေ့တွင် အနောက်မုခ်မှ စ၍ မီးစွဲလောင်ရာ ရွှေတိဂုံ ကုန်းတော်ပေါ်ရှိ တန်ဆောင်းများ၊ စောင်းတန်းများကိုပါ လောင်ကျွမ်းလေသည်။ ယခုတွေ့မြင်ရသော အဆောက်အအုံများမှာ များသောအားဖြင့် ထိုမီးကြီး လောင်၍ အပြီးတွင် ပြန်လည် တည်ဆောက်ထားသည်သာ များသည်။ စေတီတော်ကြီးကို ယခုအခါ ပြည်သူပြည်သား ကုသိုလ်ရှင်များ စုပေါင်းလှူဒါန်း၍ သုံးနှစ်၊ သို့မဟုတ် လေးနှစ်တကြိမ် လုံးတော်ပြည့် ရွှေချသည်။

ရွှေတိဂုံစေတီ ကုန်းတော်ကို တောင်မြောက် အလျားပေ ၉၀၀၊ အနံ ၆၇၅ ပေရှိသော ထောင့်မှန် စတုဂံပုံ မြေပြင်ညှိ၍ အမြင့် ငါးပေ၊ ထု နှစ်ပေခွဲရှိ အုတ်တန်တိုင်း ကာရံထားသည်။ ကုန်းတော် မျက်နှာပြင်အောက် ပေ ၅၀ နိမ့်သော နေရာတွင်လည်း မြေပြန့်တဆင့် ရှိသေးသဖြင့် ထိုအဆင့်ကိုလည်း တန်တိုင်းကာရံသည်။ ကုန်းတော်ခြေရင်းမှ ရင်ပြင်တော် ပေါ်သို့ တက်ရန် အရပ်ကြီးလေးမျက်နှာ၌ လှေကားထစ်များ လေးသွယ် ဖောက်လုပ်ထားပြီးလျှင် ထိုလှေကားထစ်များ၏ အပေါ်တွင် မြန်မာအနုပညာ လက်ရာများဖြင့် လှပစွာ တန်ဆာဆင်ထားသော စောင်းတန်းကြီးများ ဆောက်လုပ်ထားသည်။ စောင်းတန်းကြီးများသည် စေတီတော်၏ မုခ်လေးမုခ်နှင့်တည့်တည့်ရှိ၍ မည်သည့်ဖက်မှ မဆို တက်သွားလျှင် ရင်ပြင်တော်ပေါ် သို့ ရောက်သည်နှင့် တပိုင်နက် မုခ်ဦးတန်ဆောင်းကြီးများကို မြင်ရပေသည်။

တောင်ဖက် စောင်းတန်းသည် ရန်ကုန်မြို့၏ အစည်ကားဆုံး အပိုင်းမှ လာသော ဘုရားလမ်းနှင့် တည့်တည့် ရှိ၍ အတက်အဆင်း အများဆုံးဖြစ်ရုံ မက ဘုရားလမ်းတလျှောက်၌ ကျောင်း၊ ကန်၊ ဘုရား များစွာရှိခြင်းကို ထောက်၍ ရှေးအခါက အရှည်လျားဆုံး စောင်းတန်းတခု ဖြစ်ခဲ့ဟန် တူသည်။ ယခုအခါတွင် အရှေ့ဖက် စောင်းတန်းသည် အရှည်လျားဆုံးနှင့်အစည်ကားဆုံး ဖြစ်၍ လူနေအိမ်ခြေ သိပ်သည်းသော ဗဟန်းရပ်ကွက်ဖက်သို့ ဆင်းသည်။ ယခုအခါ အရှေ့၊ အနောက်နှင့် တောင်မုခ်များဖက်မှ လူတို့ မမောမပန်း တက်ရောက် ဖူးမြော်နိုင်ရန် ဓာတ်လှေကားများ တပ်ဆင်ထားသည်။မြောက်ဖက်စောင်းတန်းမှာ အတိုဆုံးဖြစ်သော်လည်း ကုန်းတော်ပေါ် သို့ လေးလံသောပစ္စည်းများတင်ရန် သံလမ်းဆင်ထားသည်။ အနောက်ဖက် စောင်းတန်းကို အင်္ဂလိပ်တို့ မြန်မာနိုင်ငံကို သိမ်းယူပြီးစ ခရစ် ၁၈၅၂ ခုနှစ်မှ စ၍ စစ်တပ်များ တပ်စွဲထားသဖြင့် ပိတ်ထားခဲ့ရာ ခရစ် ၁၉၂၉ ခုနှစ်တွင် စစ်တပ်များ မင်္ဂလာဒုံသို့ ပြောင်းရွှေ့ပြီးနောက် ခရစ် ၁၉၃၀ ပြည့်နှစ်တွင်မှ အများ သုံးနိုင်ရန် ပြန်လည် ရရှိခဲ့သည်။ ထိုစောင်းတန်းကို အသစ်တည်ဆောက်ခဲ့ရာ ခေတ်မှီ၍ ခန့်ညား လှပသော အဆောက်အအုံတခု ဖြစ်လာလေသည်။ အနောက်ဖက် စောင်းတန်း အဆင်းတွင် ဦးဝိစာရလမ်း ရှိသည်။ထို အနောက်ဖက်စောင်းတန်း၏ ကုန်းတော်ပေါ် ဖက်ထိပ်တွင် သိမ်ကြီးဈေးမှ ဈေးသူဈေးသားများ တနေ့လျှင်

ယိုက်ဆံ နှစ်ပြားကျ အလှူထည့်ဝင်၍ စုကာ ဆောက်လုပ်သော နှစ်ပြားတန်ဆောင်းကြီး ရှိသည်။

စေတီတော် အောက်ခြေ ပတ်ပတ်လည်တွင် ပေ ၅၀ မှ ၂၀၀ အထိ ကျယ်ပြန့်သောရင်ပြင်တော်ရှိ၍ စကျင်ကျောက်ပြားများ ခင်းထားသည်။ ကျန်သော ကုန်းတော် ရင်ပြင်တွင်ကား စေတီတော်သို့ တက်ရာ စောင်းတန်းထိပ်ရှိ မုခ်ဦးတန်ဆောင်းကြီးများကဲ့သို့ အနုပညာ လက်ရာတို့ဖြင့် အဆန်းတကြယ် ခြယ်လှယ် မွမ်းမံသော တန်ဆောင်းကြီးများလည်း ရှိလေသည်။ အချို့တန်ဆောင်းများမှာ မှန်စီရွှေချတိုင်လုံးများ၊ အလွန်နူးညံ့၍ လက်ရာပြောင်လှသော ပန်းဆွဲများ၊ ပန်းပုရုပ်လုံးများဖြင့် ရှုမငြီးနိုင်လောက်အောင်ပင် ဆန်းကြယ်ကြပေသည်။ အနောက်မုခ်မှ စေတီတော်ကို လက်ျာရစ်လှည့်သော် အနောက်မြောက်ထောင့်တွင် မဟာဃဏ္ဍာ ခေါင်းလောင်း တန်ဆောင်း၊ ဗောဓိညောင်ပင်နှင့် မုခ်ဝရှစ်ခုရှိ စေတီယ်တဆူကို တွေ့မြင်နိုင်သည်။ ထိုခေါင်းလောင်းတန်ဆောင်း၏ လက်ဝဲဖက်ရှိ တန်ဆောင်းအတွင်း၌ ပေ ၃၀ ခန့်မြင့်သော ဗုဒ္ဓရုပ်ပွားတော်ကြီး တဆူ ရှိသည်။ ထိုနောက်တွင် စေတီယ်ကလေးများနှင့် ဗောဓိပင်များကို တွေ့မြင်နိုင်၍ ကျိုက်ထီးရိုးစေတီတော်၏ ပုံတူကို ဖူးမြော်နိုင်ကြ၏။

မြောက်ဖက်စောင်းတန်း ထိပ်၏ လက်ျာဖက်တွင် ခြေတော်ရာ တန်ဆောင်း၊ စေတီယင်္ဂဏ အသင်း ပိဋကတ်တိုက်တို့ အပြင် ဆံတော်တွင်း တန်ဆောင်း၊ မဟာဗောဓိတန်ဆောင်းတို့ ရှိသည်။ ဆံတော်တွင်း တန်ဆောင်း၌ မြတ်စွာဘုရား၏ ဆံတော်ရှစ်ဆူကို ဆေးကြောခဲ့သည့် ရေတွင်းရှိသည်။ ထိုမှတဖန် မြောက်ဖက်စောင်းတန်း၏ အရှေ့ဖက်တွင်လည်း တန်ဆောင်းများ၊ စေတီယ်များကိုတွေ့ရသည်။ ယင်းတို့တွင် ဥက္ကလာပမင်း၏ ဆုတောင်းပြည့် ဘုရားနှင့် တန်ဆောင်း၊ နောင်တော်ကြီးစေတီနှင့် တန်ဆောင်း၊ ရှင်အဇ္ဇဂေါဏ တန်ဆောင်း၊ သာယာဝတီမင်း လှူဒါန်းခဲ့သော မဟာ တိသဒ္ဒဃဏ္ဍာ ခေါင်းလောင်းကြီးနှင့် တန်ဆောင်းစသည်တို့အပြင် တံခွန်တိုင် အများ ရှိသည်။ စေတီတော်၏ အရှေ့ဖက်မျက်နှာစာဖက်သို့ ရောက်လျှင် အင်းဝဆင်ဖြူရှင်မင်းတရား လှူဒါန်းခဲ့သော စေတီတော်၏ ထီးတော်ပုံစံနှင့် မင်းတုန်းမင်း လှူဒါန်းခဲ့သော ထီးတော်ပုံစံများကို တွေ့မြင်နိုင်သည်။ အရှေ့ဖက် စောင်းတန်းထိပ်၏ လက်ဝဲဖက်တွင် ကုန်းတော်ပေါ်၌ အကောင်းဆုံး လက်ရာများ၊ အများဆုံး တွေ့နိုင်သော ပြာသာဒ် ငါးဆောင်နှင့် တန်ဆောင်းကြီး ရှိသည်။ ထိုတန်ဆောင်းကြီး အတွင်း၌ ကြီးမားသော ရုပ်ပွားတော်ကြီး လေးဆူရှိ၍ မျက်နှာကျက်တွင် ဗုဒ္ဓဝင်ဇာတ်လမ်း ပန်းချီကားကြီးများ ရှိသည်။

အရှေ့တောင်ဖက်ထောင့်တွင် ကဆုန်လတိုင်း နှစ်စဉ် ညောင်ရေသွန်းပွဲ ပြုလုပ်ရာ ဗောဓိညောင်ပင်နှင့် တကွ အခြား တန်ဆောင်းများ၊ တံခွန်တိုင်များ ရှိသည်။ ယင်း၏ အနောက်ဖက်(စေတီတော်၏တောင်ဖက်မျက်နှာစာ)တွင် ရွှေတိဂုံစေတီ ဘဏ္ဍာတော်ထိန်းရုံး ရှိ၍၊ ထိုရုံးရှေ့တွင် ခရီးသည်များ နားနေနိုင်သည့် ရွှေတန်ဆောင်းကြီး ရှိသည်။ ရွှေတန်ဆောင်းကြီး၏ အနောက်ဖက်တွင် စေတီတော် ပြတိုက်ခန်း ရှိ၍၊ ထိုပြတိုက်တွင် သာသနာရေးဆိုင်ရာ ရှေးဟောင်း ပစ္စည်းများ၊ ရုပ်တုရုပ်ပွားတော်များ၊ မြန်မာ အနုပညာ လက်ရာများနှင့် အထူးအဆန်း ပစ္စည်းများကို ခင်းကျင်းပြသထားသည်။

တောင်ဖက်စောင်းတန်းထိပ်၏ လက်ဝဲဖက်တွင် စေတီယ်များအပြင် ပုညကုသလဗဟုကရခေါ် တရုပ်ကပြားတန်ဆောင်း၌ နှစ်ကျိပ်ရှစ်ဆူသော ဘုရားရှင်တို့၏ ရုပ်တုတော်များ ရှိသည်။ ကုန်းတော် အနောက်တောင်ထောင့်တွင် ဗောဓိပင် ရှိသည်။ ထိုနေရာရှိ တန်တိုင်းပေါ်မှနေ၍ ကြည့်လျှင် ရန်ကုန်မြို့ကမ်းနားပိုင်းနှင့် ရန်ကုန်မြစ်တဖက်ကမ်းရှိ စက်ရုံများကို လှမ်း၍ မြင်နိုင်သည်။

စေတီတော်၏ အနောက်ဖက်မျက်နှာစာတွင်လည်း တန်ဆောင်းကြီးများ ရှိ၍ ယင်းတန်ဆောင်းကြီးများတွင် အလျား ၂၀ ပေရှိ ရွှေသာလျောင်း ရုပ်ပွားတော်ကြီး တန်ဆောင်းနှင့် အင်္ဂလန်ပြည်မှ ပြန်လည် ပင့်ဆောင်ထားရသော ရုပ်တော်မူဘုရား တန်ဆောင်းတို့ ပါဝင်သည်။ ထိုနောက် အနောက်မုခ်ဝရှိ နှစ်ပြားတန်ဆောင်းသို့ ပြန်လည်ရောက်ရှိနိုင်လေသည်။

စေတီတော်မုခ် လေးမုတ်ရှိ မုခ်ဦးတန်ဆောင်း လေးခုအတွင်း၌ ဗုဒ္ဓရုပ်ပွားတော် တဆူစီ ရှိသည်။ အရှေ့မုခ်ဝအတွင်း၌ရှိသော ဗုဒ္ဓရုပ်ပွားတော်ကြီးသည် အခြားသော ရုပ်ပွားတော် သုံးဆူကဲ့သို့ လက်ျာဖက် လက်ဝါးကို မှောက်လျက်မထား ဖူးမြော်သူဖက်သို့ လှည့်လျက် ရှိ၏။

စေတီတော်ကြီး၏ဖိနပ်တော်ပတ်လည်သည် ၁,၄၂၀ ပေရှိ၍ စေတီရံ ၆၄ ဆူနှင့် မုခ်လေးမုခ်အဝရှိ စေတီကြီးလေးဆူဖြင့် ဝန်းရံထားသည်။ဖိနပ်တော်မှ စိန်ဖူးအထိ ဉာဏ်တော် ၃၂၆ ပေ မြင့်၍ စေတီရံများပါ ရွှေပိန်းချထားသည်။ ငှက်ပျောဖူးမှ အစ ထီးတော်ငှက်မြတ်နားနှင့် စိန်ဖူးတို့ကို အဖိုးတန်လှသော စိန်ကျောက် ပတ္တမြားတို့ဖြင့် ခြယ်စီထားရာ ထိုအပိုင်းတွင် အစုစု ရတနာတို့၏ တန်ဖိုး သိန်း ၄၀ ကျော်ဖြစ်သည် ဟုဆိုသည်။

စေတီတော် ပတ်လည်တွင် စေတီရံများမှ တပါး နေ့သင့်နံသင့် ဂြိုဟ်တိုင်အရုပ်များ၊ မနုဿီဟရုပ်၊ ခြင်္သေ့ရုပ်၊ ဘီလူးရုပ်၊ နယားရုပ်၊ နတ်ရုပ်၊ ဗြဟ္မာရုပ်များ၊ တံခွန်တိုင်များနှင့် သင်ပုတ်ပလ္လင်များ ရှိသည်။

စေတီတော်အနောက်မုခ်ကို တက်သော် တန်ဆောင်း၏

လက်ဝဲဖက် စေတီတော်၏ ပစ္စယာ နံရံ အနောက်မြောက်ထောင့်တွင် ဥက္ကလာပမင်းကြီး ရုပ်တုရှိ၍ လက်ျာဖက် စေတီတော်၏ ပစ္စယာနံရံ အနောက် တောင်ထောင့်တွင် ဥက္ကလာပမင်းကြီး မယ်တော်နှင့် ခမည်းတော်များ ဖြစ်သော သိကြားမင်းနှင့် မယ်လမု ရုပ်တုတို့ရှိသည်။

စေတီတော် တည်ပုံနှင့် အတိုင်းအတာများမှာ အောက်ပါအတိုင်း ဖြစ်၏။

၁။ ဖိနပ်တော် ပတ်ပတ်လည် ၁,၄၂၀ ပေ ရှိ၍ အမြင့် နှစ်ပေ သုံးလက်မ ရှိ၏။

၂။ ပစ္စယာသုံးဆင့်သည် အစုစု ပေ ၈၀ နှင့် တလက်မမြင့်သည်။ (ပဌမ ပစ္စယာ ၁၅ ပေ ၁၀ လက်မ၊ ဒုတိယ ပစ္စယာ ၃၈ ပေ ငါးလက်မ၊ တတိယပစ္စယာ ၂၅ ပေ ၁၀ လက်မ)

၃။ ခေါင်းလောင်းပုံနှင့် သပိတ်မှောက် ခေါင်းလောင်းကြီး အရင်း လုံးပတ် ၄၄၃ ပေ၊ ထိပ်၌ လုံးပတ် ၁၈၂ ပေရှိ၍ ပေ ၇၀ နှင့် လေးလက်မ မြင့်သည်။

၄။ ဖောင်းရစ်အရင်း လုံးပတ် ၁၈၂ ပေ၊ ထိပ်၌ လုံးပတ် ၉၆ ပေ ငါးလက်မ၊ အမြင့် ၄၁ ပေ ရှိသည်။

၅။ ကြာလန်(အောက်ကြာနု၊ အထက်ကြာနု) အမြင့် ၃၁ ပေ ငါးလက်မ။

၆။ ငှက်ပျောဖူး (အရင်း လုံးပတ် ၆၅ ပေ၊ ကိုးလက်မ။ အလယ် ၇၃ ပေ ၁၁ လက်မ။ အဖျား ၂၃ ပေ ခြောက်လက်မ။) အမြင့် ၅၂ ပေ ၁၁ လက်မရှိသည်။

၇။ ထီးတော် အဝ လုံးပတ် ၄၅ ပေ ခုနစ်လက်မ၊ အမြင့် ၃၃ ပေ။

၈။ ငှက်ပျောဖူး အဆုံးမှ (ပိန္နဲတိုင်) ငှက်မြတ်နား၊ စိန်ဖူး အထိ ၁၅ ပေ မြင့်၏။

ငှက်ပျောဖူးကို တပြားလျှင်တပေပတ်လည်ရှိ၍ ငါးကျပ်သား အချိန်စီးသော ရွှေပြားပေါင်း ၈,၆၈၈ ပြားဖြင့် ကပ်ထားသည်။ ထီးမှာ သံခွေကြီး ခုနစ်ခွေခံ၍ အောက်ဆုံးခွေမှာ အချင်း ၁၄ ၃/၄ ပေရှိ၍၊ အားလုံး ၁၄၃/၄ တန်လေးသည်။ ရွှေဆည်းလည်း၊ ငွေဆည်းလည်း၊ မိုးကြိုးဆည်းလည်း၊ သံသေဆည်းလည်း စသည့် ဆည်းလည်းပေါင်း များစွာအပြင် အဖိုးတန် ရွှေ ငွေ စိန် ကျောက်သံ ပတ္တမြားတို့ဖြင့် ခြယ်စီ ပြုလုပ်ထားသည်။

**ရွှေတောင် နန္ဒမိတ်။** ။ပိဋကတ်သမိုင်း၌နေမျိုးနန္ဒမိတ်ဟု ပါသော ရွှေတောင် နန္ဒမိတ်သည် ကုန်းဘောင်ခေတ် ပဌမပိုင်း ( သက္ကရာဇ် ၁၁၁၅ မှ ၁၁၄၃) တွင် ထင်ရှားသောစာဆိုဖြစ်သည်။ မွေးသက္ကရာဇ်၊ မိဖမည်ရည်တို့ကို မသိရသော်လည်း သက္ကရာဇ် ၁၁၄၃ ခုနှစ်တွင် နန်းတက်တော်မူသော ဘိုးတော်မင်းတရားကြီး မင်းသားဘဝနှင့် ရှိစဉ် အပါးတော်၌ ခစားထမ်းရွက်သောအကြိုးတော်၏သားဖြစ်ကြောင်းကို သိရသည်။ ရွှေတောင် နန္ဒမိတ်၏ ငယ်မည်မှာ မောင်သူ ဟူ၍၎င်း၊ မောင်ဘူးကလေး ဟူ၍၎င်း ခေါ်ဝေါ်သည် ဟုဆိုသည်။

ရွှေတောင် နန္ဒမိတ်သည် အလောင်းမင်းတရားကြီး လက်ထက် ထိုမင်း၏ ရဲဖက်တော် တဦးလည်း ဖြစ်သည်။ အင်းဝမြို့တွင် ဆင်ဖြူရှင် မင်းတရား စိုးစံသည့် ကာလ ဆင်ဖြူရှင်မင်း၏ လက်အောက်တွင် ဝင်ရောက်အမှုထမ်းသည်။ ငစဥ့်ကူးမင်းအထွတ်အမြတ်သို့ရောက်သောအခါ ရွှေတောင်နန္ဒမိတ်အား သံတော်ဆင့်အရာ၊ လှေ်ကား ၃၀၀၀ မှူးအရာနှင့် အတွင်းဝန်အရာတို့တွင် ထမ်းရွက်ရန် ခန့်ထားတော်မူသည်။ ဘိုးတော်မင်းတရား လက်ထက်တွင် အနိစ္စရောက်ကြောင်း သိရသည်။ ရွှေတောင်နန္ဒမိတ်တွင် သား တယောက် ထွန်းကားရာ ရွှေမင်းဘုန်း ဆင်တော်မေ်ာကွန်းဖွဲ့ဆိုသူ အတွင်းဝန် ဦးညို ဖြစ်သည်။ (ညို၊ ဦး — ရှု။)

ရွှေတောင်နန္ဒမိတ်သည် ဆင်ဖြူရှင်မင်း လက်ထက်တွင် ချေင်း ခြောက်စောင်၊ စဥ့်ကူးမင်း လက်ထက်တွင် ပျို့ သုံးစောင်နှင့် စန္ဒကုမ္မာ ဇာတ်ချင်းများ၊ ဘိုးတော်ဘုရားလက်ထက်တွင် ချေင်း တစောင် စပ်ဆိုခဲ့သည်။ စပ်ဆိုခဲ့သော ချေင်းများမှာ (၁) ဆင်ဖြူရှင်မင်း၏သားတော် စလင်းစားမောင်ပေါင်းချောင် ချေင်း၊ (၂)ဆင်ဖြူရှင်မင်းနှင့် အလယ်နန်းမိဖုရားတို့မှ ဖွားမြင်သော သားတော် သခင်ကြီးချေင်း၊ (၃)သားတော်လတ်သခင်လတ်ချေင်း၊(၄)သားတော်ငယ်သခင်ငယ် ချေင်း၊ (၅) သမီးတော် မြို့လုလင်စားမင်းသမီးချေင်း၊ (၆) ဆင်ဖြူရှင်နှင့် တောင်နန်းမတော်ကြီးတို့မှ ဖွားမြင်သော ငစဥ့်ကူးမင်းသား၏ နှမတော်၊ နောင် ပုဂံမင်းမိဖုရား ဖြစ်လာသော မင်းရွှေနန်း ချေင်း၊ (၇) ဘိုးတော်ဘုရား၏ သမီးတော်၊ ဘကြီးတော်၏ မယ်တော် ဖြစ်မည့် အိမ်ရှေ့မင်း မိဖုရား ချေင်း တို့ဖြစ်သည်။ ယင်းချေင်း ခုနစ်စောင်အနက် မင်းရွှေနန်း ချေင်းနှင့် စလင်းစားမောင်ပေါင်းချောင် ချေင်းတို့မှ တပါး ကျန်ချေင်းတို့ကို ရှာဖွေမတွေ့ရပေ။ ရွှေတောင်နန္ဒမိတ် ရေးသားသော ပျို့တို့မှာ ဥမ္မာဒန္တီပျို့၊ ကုသပျို့၊ မယ်တော်မာယာပျို့ တို့ဖြစ်သည်။ ယင်းတို့ကိုလည်း ယခုတိုင် ရှာဖွေ မတွေ့ရသေးချေ။ ဥမ္မာဒန္တီပျို့ကို ဆိမ်းခုံရွာစား ဦးရွှန်းက ထပ်မံ၍ ပျို့သစ်ရေးပြီး ကုသပျို့ကို ရွှေကျောင်းရဲရွာ ဦးပုနှင့် မုံရွေးဇေတဝန်ဆရာတော်တို့က တစောင်စီ ရေးကြသေးသည်။ (ရွှန်း၊ဦး။ မုံရွေးဇေတဝန်ဆရာတော် — လည်းရှု။)

**ရွှေတောင် နန္ဒသူ။** ။ စလင်း နဝဒေး ဟု ကျော်ကြားသောရွှေတောင်နန္ဒသူသည် ၁၁၂၅ ခုနှစ်တွင် အင်းဝရွှေနန်းကို ထပ်မံဖန်ဆင်း ကြငှန်းဖွင့်တော်မူသော ဆင်ဖြူရှင်လက်

ထက် ကျော်ကြားသော စာဆိုတော်ကြီး ဖြစ်သည်။ စလင်း နဝဒေး ဘွဲ့မှာ မင်းပေးဘွဲ့ မဟုတ်ချေ။ နဝဒေးကြီးတို့ကဲ့သို့ ကဗျာဉာဏ် အာဘော် ထက်မြက်သူ ဖြစ်သဖြင့် သူ၏အရည် အချင်း သိသူများက ခေါ်ဟန်တူလေသည်။

ရွှေတောင် နန္ဒသူ၏ ငယ်မည်ကို မောင်လှ ဟူ၍ရင်း၊ မောင်တရုပ် ဟူ၍ရင်း ဆိုကြသည်။ မွေးသက္ကရာဇ်နှင့် မိဖ မည်ရည်တို့ကို အသေအချာမသိရချေ။ ဆင်ဖြူရှင်လက်ထက် တော်၌ ဦးလှသည် စလင်းမြို့တွင် အမှုဆောင် ရွှေနေ ဖြစ်၏။ အမှုလိုက်ရာတွင် အထူးအောင်မြင်သဖြင့် အင်းဝ နေ ပြည်တော်သို့ တက်၍ လွှတ်တော်တွင် ရွှေနေ လိုက်လေ သည်။ ယင်းသို့ ရွှေနေလိုက်စဉ် နာမည် အလွန်ထွက်၍ ကျော်စောလာသဖြင့် အင်းဝရှိ သူအား မလိုလားသော ရွှေနေရွှေရပ်များက ဦးလှသည် ပညာအရည်အချင်းလည်း နုနယ်၊ အမိန့်တော်ရလည်း မခန့်အပ်ရသေးသဖြင့် လွှတ် တော်၌ လျှောက်လဲသင့် မလဲသင့် စာတင်သွင်းကြ၏။ သို့ရာ တွင် ဘုရင်မင်းမြတ် ကိုယ်တိုင်က ဦးလှအား အမိန့်တော်ရ ခန့်လိုက်သဖြင့် လွှတ်တော်တွင် လျှောက်လဲနိုင်လေသည်။ စစ်ကိုင်းမင်း လက်ထက်တွင် ဆင်ချေးတိုက်ဝန် ခန့်၏။ မ ကြာမီ အနောက်ဝန်ထောက် ခေါ် ဆင်ချေးဝန်ထောက် ဖြစ်လာသည်။ ရွှေတောင်နန္ဒသူ ဘွဲ့ကို မည်သည့်မင်း လက် ထက်တွင် ရသည်ကို သေချာစွာ မသိရချေ။ စစ်ကိုင်းမင်း လက်ထက်တွင်ပင် ရဟန်တူသည် ဟု သုတေသီတို့က ယူဆ ကြသည်။

ရွှေတောင်နန္ဒသူသည် ရကန်ဆရာ ဖြစ်၏။ မှန်ပုံပြင် ဖြစ် သော ရှင်မွေ့နွန်းနှင့်မင်းနန္ဒာတို့၏ အတ္ထုပ္ပတ္တိကို မှီငြမ်းပြု၍ ရေးသည့် မွေ့နွန်းရကန်သည် ရွှေတောင်နန္ဒသူ၏ လက်ရာ ဖြစ်သည်။ ရွှေတောင်နန္ဒသူသည် ရွှေနေရွှေဆောင် အဖြစ် ဖြင့် ဝါရင့်ခဲ့သူ ဖြစ်သောကြောင့် သူရေးသားသော ရကန် တွင် စကားအိမ်ဖွဲ့ပုံ၊ဆင်ခြေဆင်လက်တက်ပုံတို့သည် ရွှေနေ တို့၏ အာဘော်နှင့် တူလှပေသည်။ မွေ့နွန်းရကန်ကို ဖွဲ့နွဲ့ရာ၌ မည်သူ့အာဘော်ကိုမျှ အတုမယူ၊ မည်သူ့နည်းကိုမျှ မလိုက် ဘဲ ပင်ကိုယ်ဉာဏ်အလျောက် အချို့ အခန်းများကို ထည့် သွင်းဖွဲ့နွဲ့ထားရာ စာဆိုသူ၏ ထိုးထွင်းဉာဏ်ကို သိနိုင်သည်။ စကား အချေအတင် ပြောခန်းများ၌ စကားအရာ နိုင်နင်း လှသည်။ မွေ့နွန်းရကန်ကို မရေးမီ ရွှေတောင် နန္ဒသူသည် ငွေတောင် ရကန်သစ်နှင့် အင်းဝမြို့ဘွဲ့ ရကန်ကိုလည်း ရေးသားသေး၏။ ငွေတောင် ရကန်ကို ဆင်ဖြူရှင် လက် ထက် ရေး၍ မွေ့နွန်းရကန်နှင့် အင်းဝမြို့ဘွဲ့ ရကန် ကေပိဒ် တို့ကို စစ်ကိုင်းမင်းလက်ထက် ရေးသည်ဟု အဆိုရှိသည်။ သို့ရာတွင် မွေ့နွန်း ရကန်လောက် မထင်ရှားချေ။ အချို့က ရွှေတောင် နန္ဒသူသည် မဟာသုတသောမပျို ငါးအင်္ဂါ ခန့်ကိုလည်း ရေးခဲ့သေးသည် ဟု ဆိုကြသည်။

**ရွှေတောင်မြို့**။ ။ရွှေတောင်မြို့သည်ပြည်ခရိုင်ပေါင်းတည် ခရိုင်ခွဲ ရွှေတောင်မြို့နယ်၏ မြို့ပိုင် ရုံးစိုက်မြို့ ဖြစ်သည်။ ဧရာဝတီမြစ် အရှေ့ဖက်ကမ်းပေါ်တွင် တည်ရှိ၍ ပြည်မြို့ တောင်ဖက် ကိုးမိုင်ကွာဝေးသည်။ ရန်ကုန်–ပြည်သွား ကားလမ်းပေါ်တွင်လည်း တည်ရှိ၍ ရန်ကုန်မြို့မှ ၁၆၉ မိုင် ဝေးသည်။ရွှေတောင်မြို့သည် ရှေးအခါက နယ်ပိုင်ရုံးစိုက်မြို့ ဖြစ်သည်။ မော်တော်ကားလမ်း၊ မီးရထားလမ်းတို့ဖြင့် ကူး သန်း ဆက်သွယ်ရေး ကောင်းမွန်သော မြို့တမြို့လည်း ဖြစ် လေသည်။

ရွှေတောင်မြို့ကို မဟာသမ္မတမင်းမှ ရေတွက်သော် ၂၈ ဆက်မြောက်ဖြစ်သော အစ္စိ မည်သည့် မင်း၏သား သူရတပ မင်းကြီး တည်ထောင် ဖန်ဆင်းတော်မူသည်ဟု ဆိုသည်။ သူရတပမင်းသားသည် ပုရောဟိတ်ပုဏ္ဏားတို့ လျှောက်ထား ချက်အရ ခမည်းတော် စံရာ မဇ္ဈိမဒေသ မလ္လတိုင်း ကုသဝတီ ပြည်မှ မြန်မာပြည်ဖက်သို့ လာရောက်ကာ ကဥ္စနာဂီရိ ခေါ် ရွှေတောင်ကြီးကို ရှာဖွေလေသည်။ သို့ရာတွင် မတွေ့မမြင် ရှိ၍ စိတ်တော် ပင်ပန်းဖြစ်သည်တွင် သိကြားမင်းက ရှင်ရ သေ့အသွင် ဖန်ဆင်း၍ ရွှေတောင်ကြီးတည်ရာကို ညွှန်ပြ သဖြင့် သွားရောက်ရာ အခိုးအရောင်ဖြင့် ပြောင်ပြောင်ထိန် ဝင်းနေသော ရွှေတောင်ကို မြင်ကြရသည်။ ထိုအရပ်၌ မြို့ တည်ထောင်သည်ကို အစွဲပြု၍ ရွှေတောင်မြို့ဟု တွင်သည်။ ဒွတ္တပေါင်မင်းကြီးလက်ထက်ပိဿနိုးမိဖုရားက ကာသိကရာဇ် တိုင်း ဗာရာဏသီပြည်ကိုမြင်လိုသည့် ချင်ခြင်း ဖြစ်သည့်အခါ ရွှေတောင်မြို့ကိုပင် ဗာရာဏသီပြည်အဖြစ် ပြသရကြောင်း ဖြင့် အဆိုရှိသည်။ ၆၀၄ ခုနှစ်တွင် ပြည်မြို့၌ နန်းတက်သော သီဟသူမင်းမှ စ၍ ပြည်မြို့၌ စိုးစံသော မင်းများသည် အရည်အသွေးရှိသော မှူးမတ်များကိုသာ ရွှေတောင်မြို့ကို စားစေ၍ ပြည်မြို့က ဆင့်ဆိုရာကို နာခံ ထမ်းရွက်စေသည်။ သီဟသူမင်းသည် ရွှေတောင်မြို့နယ်ပယ်ကို အောက်ပါ အတိုင်း သတ်မှတ် ထားသည်။ အရှေ့လားသော် ပုတ်ရှည် ချောင်း တည်ပင်ခွ အခိုက် ပြည်မြို့မြေနှင့် တစပ်တည်း ဖြစ်သည်။ အရှေ့ တောင်သို့ လားသော် ကိုးတိုင်ကွာ လှော်ကား ကြေးကုန်း တဖက်၊ အင်းမကြီးမြေနှင့် တစပ် တည်း။ တောင်သို့လားသော် ၁၃ တိုင်ကွာ မြေခြားစိုင် ညောင်ပင် တရုပ်မျော်မြေနှင့် ကျောခိုင်းဖြစ်၏။ အနောက် တောင်သို့လားသော် သုံးတိုင်ကွာ မြစ်လယ်ကြော၊ သူရဲ တန်းမြေနှင့်ကျောခိုင်းဖြစ်၏။အနောက်သို့ လားသော် ဧရာ ဝတီမြစ်ထက်ဝက်၊ အနောက်မြောက်သို့ လားသော် ဧရာ ဝတီမြစ်ထက်ဝက်နှင့် ပြည်မြို့မြေအစပ်၊ မြောက်သို့ လား သော် လေးတိုင်ကွာ ပိုဝချောင်း တဖက်၊ ပြည်မြို့မြေနှင့် ကျောခိုင်းဖြစ်၍ အရှေ့မြောက်သို့ လားသော် မြင်ဗာဟု ဘုရားဖြစ်၏။ ဤသို့ နယ်ရှစ်ရပ်သတ်မှတ်၍ ဤနယ်အတွင်း



ရွှေတောင်မြို့ရှိ ရွှေမျက်မှန်ဘုရား

ရွာကြီး ၉၉ ရွာ၊ သူကြီးပေါင်း ၉၉ ယောက်၊ စာရေး ၉၉ ယောက်တို့နှင့် ဒိုင်စာရင်းလည်း ဖွဲ့တော်မူသည်။

ရွှေတောင်မြို့နယ်အတွင်းရှိ တန်ခိုးကြီးဘုရားများမှာ မြို့တောင်ဖက် လေးမိုင်ကွာရှိ ရွှေနတ်တောင်ဘုရား၊ မြို့အရှေ့မြောက်မြို့ဦးရှိ ရွှေမော်ဓောဘုရား၊ မျက်နှာတော်တွင် မျက်မှန်တပ်ထားသော ရွှေမျက်မှန်ဘုရား တို့ဖြစ်သည်။ ရွှေနတ်တောင်စေတီပွဲကို နှစ်စဉ်နှစ်တိုင်း တပေါင်းလတွင် ကျင်းပရာ အထူးပင် စည်ကားသော ဂေဇက်ဝင်ပွဲတော် ဖြစ်သည်။ (ရွှေနတ်တောင်ဘုရား — လည်းရှု။)

ရွှေတောင်မြို့သည် မြေဩဇာ ကောင်းမွန်သဖြင့် အသီးအနှံပန်းမာလ်များ စိုက်ပျိုး၍ အလွန်ဖြစ်ထွန်းသည်။ ရွှေတောင်မြို့၏ ထင်ရှားသော လုပ်ငန်းမှာ ပိုးထည်လုပ်ငန်းဖြစ်၍ ရွှေတောင်ပိုးထည်သည် အထူးပင် နာမည်ရသော အထည်အလိပ် ဖြစ်သည်။

စာပေဂန္ထဝင်တွင် ထင်ရှားသော ဇိနတ္ထပကာသနီနှင့် စွယ်စုံကျော်ထင်ကျမ်း ပြုစုသူ ရွှေတောင် ကျီးသဲလေးထပ်ဆရာတော်၊ မင်းတုန်းဘုရင် လက်ထက် ကျော်စောသော ဇန်းမော်ဆရာတော်စသော ပုဂ္ဂိုလ်ကြီးများသည် ရွှေတောင်မြို့နယ် ဇာတိများ ဖြစ်ကြသည်။

၁၉၅၆ ခုနှစ် ခန့်မှန်းခြေအရ ရွှေတောင်မြို့နယ် လူဦးရေ ၈၃,၁၅၀ ယောက်ရှိ၍ ရွှေတောင်မြို့၏ ၁၉၆၃ ခုနှစ်ခန့်မှန်းခြေစာရင်းအရ လူဦးရေသည် ၁၀,၇၈၈ ယောက် ဖြစ်သည်။

**ရွှေတောင် သီဟသူ။** ။ဘုရားဟော နိပါတ် ကျမ်းဂန်ဝတ္ထုများကို မှီငြမ်းမပြုဘဲ စိတ်ကူးဉာဏ်သက်သက်ဖြင့် ရေးသားသော ပဌမဆုံးဝတ္ထုရတနာကြေးမုံကိုရေးသားခဲ့သူမှာ ရွှေတောင် သီဟသူ ဖြစ်သည်။ မြန်မာစာပေသမိုင်း တလျှောက်တွင် ကုန်းဘောင် ပဌမခေတ်အထိ ယင်းသို့သော ဝတ္ထုမျိုး တခါမျှ မပေါ်ခဲ့ဘူးချေ။ (ရတနာ ကြေးမုံဝတ္ထု — လည်းရှု။) ရွှေတောင် သီဟသူ၏ မွေးဖွားရာအရပ်၊ မွေးဖွားသည့် ခုနှစ်သက္ကရာဇ်၊ မျိုးရိုးဇာတိတို့ကို ယခုတိုင် မတွေ့ရသေးချေ။ အလောင်းမင်းတရားကြီး လက်ထက် (မြန်မာ ၁၁၁၅–၁၁၂၂ ခုနှစ်)တွင် ပေါ်ပေါက်သော စာဆိုတော် ဖြစ်ကြောင်းသာ သိရသည်။

**ရွှေတိုင်ညွန့်(မြန်မာ ၁၂၇၀-၁၃၀၆)။** ။"ရွှေတိုင်ညွန့်က စာကိုစီ တေးသီချင်းနဲ့ ဘေးကင်းကြတော့မည်" စသည်ဖြင့် စာဆိုတော် ရွှေတိုင်ညွန့်သည် သူစပ်သော သီချင်း အတော်များများတွင် သူ့နာမည် ထည့်၍ စပ်လေ့ရှိသည်။ ဒုတိယကမ္ဘာစစ်ကြိုခေတ်က ထင်ရှားသော သီချင်း ခပ်များများသည် စာဆိုတော် ရွှေတိုင်ညွန့်၏ လက်ရာများ ဖြစ်သည်။

ရွှေတိုင်ညွန့်ကို အဖ နိုင်ငံကျော် လူရွှင်တော် အနုပညာရှင်ကြီး ဦးကျင်ခဲ၊ အမိ ဒေါ်အေးမျှင်တို့မှ ၁၂၇၀ ပြည့်နှစ် တန်ခူးလတွင် ရန်ကုန်မြို့ ကြည့်မြင်တိုင်ရပ်တွင် ဖွားမြင်သည်။ မွေးချင်း နှစ်ယောက် ရှိသည့်အနက် ရွှေတိုင်ညွန့်သည် သားငယ် ဖြစ်၍ အစ်ကိုဖြစ်သူမှာ နာမည်ကျော် ဇာတ်မင်းသား ကျော်အုန်းလှိုင် ဖြစ်သည်။ ရွှေတိုင်ညွန့်၏ အမည်ရင်းမှာ ကိုအုန်းဆိုင် ဖြစ်သည်။ (ကျင်ခဲ၊ ဦး — လည်းရှု။)

ကိုအုန်းဆိုင်သည် ဘမျိုးဘိုးတူ၊ ဝါသနာကလည်း ထုံသူဖြစ်သည့်အလျောက် ပတ္တလား၊ တရော၊ ဘင်ဂျို၊ မင်ဒလင်၊ ဆိုင်းဝိုင်း၊ စန္ဒရားစသည့် တူရိယာမျိုးစုံတို့ကို နိုင်နိုင်နင်းနင်း တီးတတ်သည့် အပြင်၊ သီချင်းကိုလည်း ပိုင်ပိုင်နိုင်နိုင် ဆိုတတ်သူ ဖြစ်သည်။ ငယ်စဉ်ကပင် မြန်မာမှု ကဗျာစုကို လေ့လာရန် ဝါသနာရှိသော ကိုအုန်းဆိုင်သည် ဖခင်ဖြစ်သူ၏ သင်ကြားပေးမှုဖြင့် သူကိုယ်တိုင်ပင် အငြိမ့် ဇာတ်ပွဲများအတွက် သီချင်းများစပ်၊ ကိုယ်တိုင်ဝင်၍မောင်းတီး၊ တရောထိုး၊ ပတ္တလားခေါက်ယင်း ဇာတ်သဘင်လောကထဲသို့ ပဌမဆုံး ခြေစုံပစ် ဝင်ခဲ့သည်။ သီချင်းများ စ၍စပ်စက 'ဝစနဆရာဆိုင်' ဟူသည့် နာမည်နှင့်စပ်ခဲ့လေသည်။ အငြိမ့်များအတွက် သီချင်းများ စပ်ဆိုရေးသားပေးခဲ့ရုံမက အငြိမ့်မင်းသမီးများကိုလည်း သီဆိုနည်း ကိုယ်တိုင်ကိုယ်ကျ သင်ကြားပေးခဲ့လေသည်။ အငြိမ့်မင်းသမီး ယုနီဘာစီတီမြသန်းကြည်၊ ဝိဇ္ဇာမယ်၊ လေဘာတီ မမြရင်တို့သည် ကိုအုန်းဆိုင်၏ သီချင်းများဖြင့် နာမည်ကျော်ခဲ့သူများ ဖြစ်ကြသည်။

လေဘာတီမဂြရင် အငြိမ့်တွင် နောက်ဆုံး ဝင်ရောက်လုပ် ကိုင်ခဲ့ပြီးနောက် ကိုအုန်းဆိုင်သည် ကိုလံဘီယာ ဓာတ်ပြား ကုမ္ပဏီသို့ ပဋ္ဌမဆုံး ဝင်ရောက် သီချင်းရေးသည်။ "နေရာ တကာ ရောက်ပါတယ်၊ ပေတရာမှာ လျှောက်ခါလည်" အစ ရှိသော နဂရာမယ်မြင့် သီဆိုသည့် လယ်သမားသီချင်းဖြင့် ပွဲဦးထွက် သူ၏သီချင်းကိုဓာတ်ပြားသွင်းခဲ့ရာ လူကြိုက်များ ခဲ့သည်။ ထိုသီချင်းမှစ၍ ရွှေတိုင်ညွန့် ဟူသော အမည်ဖြင့် ရေးသားခဲ့သည်။ လယ်သမား သီချင်းကို လူကြိုက် များ သလောက် စပ်ဆိုရေးသားသူ ရွှေတိုင်ညွန့်ကိုလည်း လူသိ များခဲ့လေသည်။

ရွှေတိုင်ညွန့် ရေးသား စပ်ဆိုခဲ့သော သီချင်းများမှာ များလှသည်။ စပ်ဆိုခဲ့သည့် သီချင်းများမှာ မြန်မာ နိုင်ငံ ၏ ကျက်သရေမင်္ဂလာနှင့် သဘာဝပစ္စည်း ပြည့်စုံပုံ အ ကြောင်း၊ သဘာဝရှုခင်း လှပပုံအကြောင်း၊ ဗုဒ္ဓဝင်၊ မဟာ ဝင်၊ ရာဇဝင်တို့မှ နောင်လာနောင်သားတို့ မှတ်သားဖွယ်ရာ အကြောင်းများ အထူးသဖြင့် ပါဝင်သည်။

ရွှေတိုင်ညွန့်၏ သီချင်းများအနက် သူ၏ လက်စွမ်းပြ ဟု ဆိုရမည့် သီချင်းများမှာ ဝိစိတြာနှင့် မိဘမေတ္တာတို့ ဖြစ် သည်။ ထိုသီချင်း နှစ်ပုဒ်စလုံးပင် မည်သည့် ခေတ်တွင်မျှ မရိုးဘဲ၊ လူကြီးရော ကလေးပါ လက်ခံနိုင်သည့် သီချင်းများ ဖြစ်လေသည်။



မြန်မာဂီတစာဆိုကျော် ရွှေတိုင်ညွန့်

မြန်မာနိုင်ငံ၏ သဘာဝပစ္စည်း ကြွယ်ဝချမ်းသာပုံ၊ အေး ချမ်းသာယာမည့်နိမိတ်လက္ခဏာ ရှိပုံတို့ကိုလည်း ဆရာရွှေ တိုင်ညွန့်သည် အိုးဝေဝေနှင့် သီတာရတနာ သီချင်းများဖြင့် စပ်ဆိုထားလေသည်။ တောကျေးလက် သဘာဝ လှပပုံ သရုပ်ပေါ် အောင်လည်း သူ၏ ဇာတိနွယ်နှင့် စုံတောမြိုင် သီချင်းများ၌ စပ်ဆိုထားသည်။ အမျိုးသားစိတ်ဓာတ် နိုး ကြားရန် တိုင်းပြည်ကိုချစ်ရန် လှုံ့ဆော်သည့် နေရာ၌ ဆရာ ရွှေတိုင်ညွန့်၏ သခင်မျိုးဟေ့ တို့ဗမာ၊ နဂါးနီ၊ အိုလံပစ် သွားမဲ့မောင် စသော သီချင်းများသည် ထိပ်တန်းက လိုက် လေသည်။

ရွှေတိုင်ညွန့်သည် ရာဇဝင်နိပါတ်လာ အကြောင်းရပ်များ ကို သီချင်းစပ်ရာ၌ ပို၍ သန်သည် ဟုဆိုသည်။ သူ၏ ဗောဓိ ပင်နှင့် ရွှေပလ္လင်၊ ဓာတ်တော်ဝေခန်း၊ စွယ်တော်ခိုးခန်း၊ မြမွစကြာ၊ မိဂဒါဝုန်၊ တေ-ဇ-သု-နေ-မ၊ နေရဥ္စရာ၊ ကော သလအိပ်မက်၊ မာတင်္ဂ၊ မင်းကုသ၊ မိဖုရားစော၊ ပါတော် မူစသော သီချင်းများသည် ဗုဒ္ဓဝင်၊ မဟာဝင်၊ ရာဇဝင်တို့မှ ထုတ်နုတ်ချက် သီချင်းများ ဖြစ်သည်။ "သေရည်ကို မ သောက်နှင့်၊ ရေကြည်ကို မနှောက်နှင့်၊ သေရည်ကို သောက် ယင် အပါယ်ငရဲကျမည်၊ ရေကြည်ကို နှောက်ယင် အနယ် ကလဲ ထမည်" ဆိုသော ရှေးစကားပုံကို တေးသွား ဖြစ် အောင် ရွှေတိုင်ညွန့်သည် သူ၏ ဦးနုစကားပုံသီချင်းတွင် စပ်ဆိုထားလေသည်။

ဒုတိယ ကမ္ဘာစစ် ဖြစ်ခါနီးကာလတွင် မြန်မာလူထုသည် လူမျိုးခြား အုပ်ချုပ်မှု နှောင်ကြိုးအတွင်းမှ ရုန်းထွက်လို သောစိတ် ပြင်းထန်နေချိန် ဖြစ်သည်။ ထို့ကြောင့် အချို့က မျိုးခြားအစိုးရကို တွန်းလှန်ရန် တောင့်တကြသည်။ အချို့ ကမူ စကြာမင်းပေါ် နိုးနိုး၊ ဘိုးဘိုးအောင် မတော့ မယောင် ယောင်နှင့် သိုက်တပေါင်စနည်းတို့ကို ရွတ်၍ တမ်းတနေကြ လေသည်။ ယင်းသို့သော ခေတ်တွင် ရွှေတိုင်ညွန့်သည် ခေတ်နှင့် လိုက်အောင် လူတို့အား မြှော်လင့်ချက်ပေး၍ အားတက်စေမည့်သီချင်းများကိုစပ်ခဲ့သည်။ ဘိုးဘိုးအောင်၊ စကြာသိုက်၊ သိကြားသာသနာ စသော သီချင်းများသည် ရွှေတိုင်ညွန့်၏ တပေါင်၊ စနည်းဆိုင်ရာ နာမည်ကျော်သီချင်း များ ဖြစ်သည်။ ဘိုးဘိုးအောင်နှင့် စကြာသိုက် သီချင်း ဓာတ်ပြားများကို ဗြိတိသျှအစိုးရတို့ကထုတ်မရောင်းရန်ပင် ပဋ္ဌမ ပိတ်ပင်ခြင်း ခံရလေသည်။ ဂျပန်ခေတ်ကလည်း ရွှေတိုင်ညွန့်သည် သူ့ခေတ်နှင့်သူ လိုက်အောင် အာဏာရှင် သီချင်းကို စပ်ဆိုခဲ့လေသည်။ ရွှေတိုင်ညွန့်သည် ရာဇဝင်၊ နိ ပါတ်၊ သိုက်၊ တပေါင်ဆိုင်ရာ သီချင်းများ၌သာ သန်သည် မဟုတ်၊ အချစ်နှင့်စပ်လျဉ်းသော သီချင်းများကိုလည်း

ပိုင်နိုင်သူ ဖြစ်သည်။ "ခကွေးယပင် စသတ် ချစ်တော့ အနှစ်သာရလို့ဆိုမလေ" ဟူသည့် အချစ်ဒီပနီသီချင်းသည် ရွှေတိုင်ညွန့်စပ်ဆိုသည့် ပြောင်မြောက်လှသော အချစ်သီချင်း ဖြစ်၏။ ရွှေတိုင်ညွန့်သည် သီချင်းများကို ရေးစပ်ရာ၌ မြန်မာအသံနှင့်သာ မဟုတ်၊ အနောက်တိုင်း သီချင်းသံနှင့်လည်း တော်တော်များများ စပ်ဆိုနိုင်ခဲ့သည်။ 'ရှေးရေစက်'၊ 'လှေကလေး'၊ 'ပေဟန်နန်း'၊ 'မိန်းမမြတ်' စသောသီချင်းများကို အနောက်တိုင်း သီချင်းသံဖြင့် စပ်ဆိုထားသည်။ ရွှေတိုင်ညွန့်၏ နာမည်ကျော် သီချင်းများ ဖြစ်ကြသည်။

ဒုတိယ ကမ္ဘာစစ်ကြို ခေတ်က နာမည်ကျော် ဓာတ်ပြားသီချင်း အများဆုံးစပ်ဆိုခဲ့သူ တဦးဖြစ်သူ ရွှေတိုင်ညွန့်သည် မြန်မာ သက္ကရာဇ် ၁၃၀၆ ခုနှစ် မိုးရာသီ ကုန်ခါနီးခန့်တွင် နာမကျန်းဖြစ်လာသဖြင့် ဆေးရုံသို့ တက်ရောက်ကုသသော်လည်း နာလန်မထူတော့ဘဲ ၁၃၀၆ ခုနှစ် တပေါင်းလဆုတ် ၁ ရက်နေ့တွင် ကြည့်မြင်တိုင် ဈေးကလေးရပ်ကွက်ရှိ နေအိမ်၌ပင် ကွယ်လွန်လေသည်။ မကွယ်လွန်မီ ဆေးရုံတက်နေစဉ် အစာကောင်းစွာ မဝင်သော အချိန်၌ပင် ဗမာ့တပ်မတော်အရာရှိကြီးများ၏ တောင်းပန်ချက်အရ "တပ်မတော်ကြီးကို အင်အားရှိဖို့ အရာရာမှာ ကူညီ၊ ရဲဘော်အပေါင်းကို ကိုယ့်သွေးသားလို အစဉ် မမေ့အပ်ပေသည်" အစချီသော တပ်မတော်အင်အား သီချင်းကို စပ်ဆို ပေးခဲ့ရလေသည်။ ဤသီချင်းကား ရွှေတိုင်ညွန့်၏ နောက်ဆုံး လက်ရာ ဖြစ်လေသည်။ ၁၃၀၆ ခုနှစ် တန်ခူးလဆန်း ၁၅ ရက် (၁၉၄၅ ခုနှစ် မတ်လ ၂၇ ရက်) နေ့တွင် ဖက်ဆစ်ဂျပန်အား တော်လှန်ရန် မြန်မာ့တပ်မတော်ကြီး ချီတက်သွားစဉ်က ရွှေတိုင်ညွန့်၏ တပ်မတော်သီချင်းနှင့်ပင် အောင်နိမိတ်ဖြင့် အောင်သံကြွေးခဲ့လေသည်။ ရွှေတိုင်ညွန့် မကွယ်လွန်မီ သုံးလခန့်တွင် ထိုအချိန်က စစ်အတွင်းအစိုးရ နိုင်ငံတော်အဓိပတိ ဒေါက်တာဘမော်က ရွှေတိုင်ညွန့်အား စာဆိုတော်ဘွဲ့ ချီးမြှင့်ခဲ့လေသည်။

ရွှေတိုင်ညွန့်သည် တနှစ်လျှင် သီချင်းအပုဒ်ပေါင်း ၈၀ ကျော် ရေးသား စပ်ဆိုခဲ့သည်ဟု ဆိုသည်။ သီချင်းစပ်အလွန်မြန်သူ အဖြစ်လည်း ကျော်ကြားသည်။ အကြောင်းကိစ္စပေါ်တိုင်း ဦးအုံးခင်၊ ဦးနု (ထိုအချိန်က နဂါးနီစာအုပ်အသင်းလူကြီးများ)၊ တပ်မတော် အရာရှိများ စသည်တို့သည် ရွှေတိုင်ညွန့်ထံ ချဉ်းကပ်၍ သီချင်းစပ်ခိုင်းလေ့ ရှိကြသည်။ ရွှေတိုင်ညွန့်ကလည်း တမဟုတ်ခြင်း စပ်ဆိုပေးနိုင်သူဖြစ်သည်။ သူက ရေးစပ်ပေး၍ သူနှင့် အလွန်ရင်းနှီးသူ စောင်းဦးဘသန်းက တီးကာ သီချင်းကို အကောင်အထည်ဖော်ပေးလေ့ရှိသည်။ ရွှေတိုင်ညွန့် ရေးစပ်သော သီချင်းများကို အဆိုကျော် မကြည်အောင်၊ မမေ၊ စိန်ပါတီ၊ နဂရာမယ်မြင့်၊ ဗိုလ်တပ်ပြန်သန်း၊ ဥဩဘသောင်၊ ဂီတာစိမ်းမောင်တို့ များသောအားဖြင့် သီဆိုကြ၍ ယင်းတို့အနက် မကြည်အောင်က အများဆုံး သီဆိုခဲ့လေသည်။ ရွှေတိုင်ညွန့်သည် မှိုင်းမြို့ပြု စပ်ဆိုရာ၌ ထူးချွန်သူဖြစ်သည်သာမက တေးသွားအဟောင်းကိုမှီး၍ စကားသစ် ထည့်ရေးရာ၌၎င်း၊ စကားအဟောင်းကို တေးသွားသစ်တွင် သွင်းရာ၌၎င်း ထူးချွန်သူဖြစ်လေသည်။

ရွှေတိုင်ညွန့်ကွယ်လွန်သောအခါ ဇနီး ဒေါ်သောင်းစိန်၊ ဒေါ်တင်စိန်နှင့် သားအဆိုကျော် သီချင်းရေးဆရာ မောင်မျိုးဆက်၊ သမီး မရင်မြ၊ သား လူရွှင်တော် မောင်တိုင်းကျော်၊ သမီး အဆိုကျော် ထားတို့ ကျန်ခဲ့သည်။ ရွှေတိုင်ညွန့်သည် အပေးအကမ်း ရက်ရောသူတဦး ဖြစ်သည်။ မိမိတွင် ရှိသမျှ ပေးချင်စိတ် ပေါက်လျှင် အကုန်ပေး၊ အကုန်ကျွေးတတ်သူဖြစ်သည်။ ငယ်စဉ်မှစ၍ ကွယ်လွန်သည့်တိုင် ဂီတ အနုပညာဖြင့်ပင် အမြတ်တနိုး အသက်မွေး ဝမ်းကျောင်းသွားသူ ဖြစ်လေသည်။

**ရွှေနတ်တောင်ဘုရား။** ။ပြည်ခရိုင် ရွှေတောင်မြို့နယ်ရှိ ရွှေနတ်တောင်ဘုရားသည် မြန်မာနိုင်ငံတွင်ထင်ရှား၍ တန်ခိုးကြီးဘုရားစေတီတော်တို့တွင် တဆူအပါအဝင်ဖြစ်သည်။

ရွှေနတ်တောင် ဘုရားသည် ရွှေတောင်မြို့တောင်ဖက် လေးမိုင်အကွာ ဒေဝဂိရိခေါ် ရွှေနတ်တောင်ကုန်းမြင့်ပေါ်တွင် တည်ရှိသည်။ စေတီတော်ဆိုင်ရာ သမိုင်းဟောင်း၊



ရွှေတောင်မြို့၏ ကျက်သရေဆောင် ရွှေနတ်တောင်ဘုရား

သမိုင်းလက်မျာ း အပြင် ပါဠိဘာသာဖြင့် ရေးသားထားသော သမိုင်းသစ် စသည်ဖြင့် အထင်အရှားရှိသည်။ သမိုင်းအဆိုအရ မြတ်စွာဘုရား သခင်သည် သဗ္ဗညုတ ရွှေဉာဏ်တော်ကို ရတော်မူပြီးနောက် တနှစ်မြောက်ဖြစ်သော သက္ကရာဇ် ၁၀၄ ခုနှစ်တွင် ရာဇဂြိုဟ်ပြည် ဝေဠုဝန်ကျောင်းတိုက်မှ ယခု ရွှေနတ်တောင်ဘုရား တည်ရာ ဒေဝါဂီရိတောင်သို့ အရှံသံဃာမပါ ကိုယ်တော်တပါးတည်းသာလျှင် တောင်စောင့်နတ်ကြီးအသွင်ဖြင့် ကြွရောက်တော်မူသည်။ ထိုကာလက ယင်းတောင်ကြီး၏ အနီးရှိ ယခု ရွှေတောင်မြို့ နေရာ ဖြစ်သော ကဠနဂီရိ နိဂုံးသူ နိဂုံးသားတို့သည် ဘာသာအလိုက် စရိုက်အားလျော်စွာ နတ်ကိုးကွယ်ကြရာ ထိုတောင်ကြီးပေါ်၌ နတ်ကွန်းဆောက်၍ တပေါင်းလတိုင်း ထိုတောင်စောင့်နတ်ကြီးကို ဆည်းကပ် ပသ တင်မြှောက် ပူဇော်ကြသည်။

ဒေဝါဂီရိတောင်ထိပ်ပေါ်သို့ ဘုရားရှင် ကြွတော်မူသည် ကာလ နတ် ဗြဟ္မာတို့လည်း ပူဇော်ရန် အသီးအသီး ရောက်လာကြကုန်သည်။ ထိုအခါ တောင်အလုံးသည် ဘုရားသခင်၏ ရောင်ခြည်တော်တို့ဖြင့် တလျှပ်လျှပ် ထွန်းပ၍ နေလေသည်။ ယင်းသို့ အလျှံအဝါ တောက်ပပုံကို မြင်ရသော နိဂုံးသူ နိဂုံးသားတို့သည် တအံ့တသြဖြစ်ကာ နောက်တနေ့ နံနက်တွင် တောင်သို့တက်၍ ကြည့်ကြရာ သိကြားမင်း ခင်းအပ်သော ပလ္လင်ညောင်စောင်း၌ နတ်သားအသွင် ဘုရားရှင်ကို တွေ့မြင်ရသည့်အခါ သူတို့ ကိုးကွယ်သော နတ်မင်း ကိုယ်ထင်ပြသည်ဟု ယူဆကြကုန်သည်။ ဘုရားသခင်အား နတ်ကြီးအမှတ်ဖြင့် ရှိခိုးပူဇော်ကြ၍ ဘုရားသခင်ဟောတော်မူသော တရားကို နာယူကြသည်တွင် အချို့သော ပရိသတ်သည် သရဏဂုံ သုံးပါးနှင့်တကွ ငါးပါးသီလ မြဲကြကုန်သည်။ ဘုရားသခင်သည် ခုနစ်ရက်ပတ်လုံး တရားဒေသနာများ ဟောတော်မူပြီးနောက် ရှစ်ရက်မြောက်သော နေ့၌ နိဂုံးသူ နိဂုံးသားတို့ ကိုးကွယ်ဆည်းကပ်ရန် ဘုရားရှင် ကိုယ်စား နတ်သားအသွင်ဖြင့် နိမ္မိတရုပ်ပွားတော်ကို ထားတော်မူခဲ့ကာ ရာဇဂြိုဟ်သို့ ပြန်ကြွတော်မူသည်။ နိဂုံးသူ နိဂုံးသားတို့သည် ရုပ်ပွားတော်ကိုပျက်ပြားဆုတ်ယုတ်ခြင်း မရှိစေရန် အင်္ဂတေအုတ်ရိုးတို့ဖြင့် ပုထိုးစေတီငုံ၍ တည်လေသည်။ စေတီတော်တည်ကြရာတွင် နေ့တွင် လူတို့ကတရစ် တည်၍ ညဥ့်တွင် နတ်တို့က တရစ် တက်တည်သည် ဟုအဆိုရှိသည်။ ထို့ကြောင့် သမိုင်းရင်း၌ ‘လူနတ် နှစ်လီ၊ တရစ်စီ၊ စေတီ ရွှေနတ်တောင်’ ဟုဆိုသည်။ စေတီတော် ဘုရားပွဲကိုလည်း နိဂုံးသူနိဂုံးသားတို့သည် ရှေးဦးမဆွ ကျင်းပပြုလုပ်မြဲအတိုင်း နှစ်စဉ် တပေါင်းလ၌ ကျင်းပကြရာ ယခုခေတ်တိုင်ပင် ဖြစ်သည်။ နတ်ကြီးနေရာတောင်တွင် ရွှေတောင်၊ ရွှေဘုံးကြီးကဲ့သို့ အရောင်အဝါများ တဖိတ်ဖိတ် တောက်သည်ကို အစွဲပြု၍ ရွှေနတ်တောင် ဟုတွင်ရာမှ ယင်းတောင်ပေါ်၌ တည်ထားသော ဘုရားသည် ရွှေနတ်တောင်ဘုရား ဟုကျော်ကြားခဲ့လေသည်။

ရွှေနတ်တောင်ဘုရားကို ဒုတ္တပေါင်မင်းကြီးမှ အစ မင်းအပေါင်းတို့သည် ဆက်လက် ပြုပြင် ကိုးကွယ်ကြသည်။

ဒုတ္တပေါင်မင်းကြီး လက်ထက်တွင် မိဖုရားနှစ်ပါး ဖြစ်ကုန်သော ပိဿနိုးနှင့် စန္ဒာဒေဝီ တို့သည် ပျက်စီးယိုယွင်းနေသော ရွှေနတ်တောင်ဘုရားကို အုတ်အင်္ဂတေများ ရှင်းလင်းပြီးနောက် ဘုရားရှင်၏ ဓာတ်တော်ပေါင်း ၁၇၂ ဆူကို ရတနာကြုတ်ဖြင့် ထည့်ကာ ဌာပနာ၍ ရွှေစေတီတထပ်၊ ငွေစေတီ တထပ် မွမ်းမံပြီးလျှင် အုတ်ရိုးစေတီ ၁၅ တောင် အမြင့်တည်သည်။ ဒုတ္တပေါင်မင်းကြီးကလည်း စေတီတော် ပြီးစီးသောအခါ နေထွက်နေဝင်အခါတွင် စေတီတော် အရိပ်ထွက်သမျှ ဌာနကို ဘုရားမြေဖြစ်စေ၊ ဤနယ်မြေမှ ထွက်သမျှ အခွန်ကို စေတီတော်၌ ဆွမ်းတော်ဝတ်၊ ဆီမီးဝတ် ဖြစ်စေ ဟု လှူ၍ တပေါင်းလတိုင်း ပွဲလမ်းသဘင် ဆင်ယင်ကျင်းပ ပူဇော်သည်။ ထို့နောက် ပုဂံပြည် တရုပ်ပြေးမင်း၏ သားတော် ပြည်စားသီဟသူသည် ခမည်းတော် မှာထားချက်အရ ခမည်းတော်လက်စွပ်ကို ရောင်းချ၍ ရွှေနတ်တောင် စေတီတော်ကို ထပ်မံ ပြုပြင်ရာ ဉာဏ်တော် ၄၄ တောင် မြင့်လေသည်။ တောင်ငူဘုရင် တပင်ရွှေထီး လက်ထက်တွင်လည်း ကိုယ်တော် လုံးပတ်ပြည့် ရွှေသင်္ကန်း ကပ်လှူတော်မူသည်။ ထိုနောက် ကုန်းဘောင်ခေတ် ဘိုးတော်ဘုရား လက်ထက် သားတော်အိမ်ရှေ့မင်းသည် ရခိုင်ကို အောင်၍ ပြန်လာသည်တွင် ရွှေနတ်တောင် ဘုရားအား ဖူးမြော်၍ ကိုယ်လုံးပြည့် ရွှေသင်္ကန်း ကပ်ခဲ့သည်။ ကုန်းတော်ရင်ပြင်ဝယ် တင့်တယ်ထူးဆန်း ခြူးပန်း ခြူးနွယ် အသွယ်သွယ်သော ရတနာတို့ဖြင့် ချယ်လှယ်အပ်သော ရွှေပြာသာဒ်တော်ကိုင်း၊ စောင်းတန်း လှေကား များစွာသော ဥယျာဉ်ခံ တန်ဆောင်းတို့ကိုင်း ဆောက်လုပ် လှူဒါန်းတော်မူသည်။ ယင်းသို့ မင်းအဆက်ဆက် ပြုပြင်ပူဇော်ခဲ့ရာ ယခုအခါ စေတီတော်သည် ထီးတော်မပါ ဉာဏ်တော် ၆၄ တောင် ရှိသည်။ ထီးတော်ပါမှ အတောင် ၇၀ မြင့်သည်။ စေတီတော်၏ ဝန်းကျင် ပတ်လည်တွင် စေတီရံ ၁၇ ဆူနှင့် ရွှေပန်းခိုင်ကြီး ၁၅ ခိုင်ရှိသည်။ ဘုရားကုန်းတော်ပေါ်၌ ကြေးခေါင်းလောင်းပေါင်း ၂၁ လုံး၊ ထီးတိုင်ပေါင်း ၁၄ ခုနှင့် ဘုရားဖူး ပရိသတ်တို့ နားနေရန် သုံးထပ် ဇရပ်ကြီးနှင့်တကွ ဇရပ် စုစုပေါင်း ၁၅ ခုရှိသည်။ မြန်မာနိုင်ငံ ဗြိတိသျှလက်အောက်၌ ရှိစဉ် အိန္ဒိယနိုင်ငံနှင့် ခွဲရေးတွဲရေး ပြဿနာ ပေါ်ပေါက်လာရာ ၁၉၃၇ ခုနှစ် ဧပြီလ ၁ ရက်နေ့တွင် ခွဲရေးအောင်မြင်သည်ကို အမှတ်ရစိမ့်သောငှါ ဘုရားကုန်းတော်ပေါ်၌ပင် ကျောက်စာတိုင် စိုက်ထူထားသည်ကို တွေ့ရသည်။ စေတီတော်ကုန်း

၏ တောင်ဖက်တွင် နှစ်ကျိပ်ရှစ်ဆူ ရုပ်ပွားတော်များ တန်ဆောင်းရှိ၍၊ ယင်းသို့ သွားရာလမ်းတွင် ဝက်ပါတောင်လမ်း ရှိသည်။

ထိုပြင် ဒွတ္တပေါင်မင်းကြီးလက်ထက် အလယ်နန်း ပ်ဿနိုး မိဖုရားသည် ရှင်မဟာယသမထေရ် ဟောကြားတော်မူသော တေမိဇာတ်တော်ကို ကြည်ညိုလှသဖြင့် တေမိဇာတ်၌ ပါရှိသည့် ကာသိကရာဇ်တိုင်း ဗာရာဏသီပြည်သို့ သွား၍ တေမိမင်းသား ရဟန်းပြုလုပ်သည့် တိုင်အောင်သော အဖြစ်အပျက် နေရာထိုင်ခင်းတို့ကို ရှုမြင်လိုသည့် ချင်ခြင်း ပြင်းပြစွာ ဖြစ်၏။ မိဖုရား၏ဆန္ဒကို ပြည့်ဝစေရန် ကဋ္ဌနာဂီရိခေါ် ရွှေတောင်မြို့ကို ဗာရာဏသီမြို့၊ ယင်း၏ အနီး ဝန်းကျင်ကို ကာသိတိုင်းအဖြစ် စီရင်၍ မိဖုရားအား လိုက်လံ ပြသသည် ဟုဆိုလေသည်။

ထို့ကြောင့် ရွှေနတ်တောင်၏ အနီးဝန်းကျင်တွင် မိဖုရားကြီး လှည့်လည်ကြည့်ရှုစဉ်က တေမိမင်းသားအား မြေမြှုပ်ရန် တွင်းတူးသည့်နေရာ ဟု ပြသရာ ဖြစ်သော တွင်းတောင်အရပ်၊ ရထားရပ်ရာဖြစ်သော ရပ်တော်မူအရပ် (ယခု မှတ်တော်မူအရပ်)၊ မင်းသား ရထားမှဆင်း၍ အားစမ်းအံ့သော ငှါ ရထားကို မြှောက်၍ လည်စေရာဌာနဟု ပြသည့်အရပ် ဖြစ်သော ယခုအခေါ် မြှောက်လယ်ရပ်၊ တေမိမင်း၏ ခမည်းတော် မယ်တော်တို့ လိုက်လာ၍ ရသေ့ရဟန်းပြုကာ နေထိုင်ရာဌာန ဟုပြသသည့်အရပ်ကို ခမည်းတော် သခ်မ်း၊ မယ်တော် သခ်မ်း ဟုတွင်သော သခ်မ်းကြီးတောင် စသည်တို့သည် ယခုတိုင် ရှိသေးသည်။ သခ်မ်းကြီးတောင်တွင်လည်း ဒွတ္တပေါင်မင်းကြီး မိဖုရား ပိဿနိုးနှင့် စန္ဒာဒေဝီတို့က ဓာတ်တော်ဌာပနာ၍ တည်ထားသော သခ်မ်းကြီးစေတီ ရှိသည်။

**ရွှေပြည်စိုးငှက်။** ။အမည်လှသလောက် အသံသာသော ရွှေပြည်စိုးငှက်ကို အတွေ့အမြင်ရ နည်းသော်လည်း စာဆိုတို့ဖွဲ့နွဲ့ ဖေါ်ပြဖန်များသဖြင့် လူသိများလျက်ရှိသည်။ ပါဏဗေဒ အမည်အားဖြင့် ရွှေပြည်စိုးငှက်ကို အီဂျီသီးနား တိုင်ဖီယား ဟုခေါ်၍ အီဂျီသီနီဒီး မျိုးရင်းတွင် ပါဝင်သည်။

ရွှေပြည်စိုးငှက်သည် ငှက်အငယ်စား ဖြစ်၍ အလျား ငါးလက်မခွဲခန့်သာရှိသည်။ မိတ်လိုက်ချိန်၌ ငှက်ဖို၏ ကိုယ်အထက် ပိုင်းသည် ချောမွတ်မည်းနက်လျက် ရှိသည်။အချို့ငှက်များသည် တင်ပါးမှလွဲ၍ တကိုယ်လုံး ချောမွတ် မည်းနက်နေ၍ အချို့တွင်မူ အတောင်၊ အမြီးနှင့် အမောက်၊ လည်ပင်းနှင့်ကျောရိုးပိုင်းရှိ အမွေးအတောင်အနည်းငယ်လောက်သာ မည်းနက်နေတတ်သည်။ ရွှေပြည်စိုး၏ အစာသည် ပိုးမွှားများပင် ဖြစ်သည်။

ရွှေပြည်စိုးငှက်၏အော်မြည်သံမှာ အမျိုးမျိုးဖြစ်၍ သာယာလှပေသည်။ ကြားရသူတို့အား ကြည်နူးစေသည်။



**အတွေ့အမြင်ရနည်းသော်လည်း စာဆိုတို့ ဖွဲ့နွဲ့ဖေါ်ပြဖန်များသဖြင့် လူသိများလျက် ရှိသော သံသာချိုအေးသည့် ရွှေပြည်စိုးငှက်**

ဧပြီလမှ ဇွန်လအတွင်း ကာလ၌ ရွှေပြည်စိုး ငှက်ငယ်များ ပေါက်ဖွားသည်။ သားငယ်များ ပေါက်သည့် အချိန်၌ ရွှေပြည်စိုးငှက်သည် ကောင်းကင်ထက်သို့ တင့်တယ်စွာ ပျံတက်၍ အတောင်များကို ဖြန့်ကာ အသံရှည်ဆွဲ၍ ဆင်းသက်လာတတ်သည်။ နားသည့်နေရာသို့ ရောက်သောအခါ ဥဒေါင်းငှက်ကဲ့သို့ တောင်ပံချ၍ အမြီးဖြန့်ကာ သာယာစွာ တွန်ကျူးလေသည်။ ရွှေပြည်စိုးငှက် တမြုံလျှင် နှစ်ဥမှ လေးဥအထိ ရှိသည်။ ဥသည် ကြက်ဥပုံသဏ္ဍာန်ဖြစ်၍ ချောမွတ်သော ဥခွံအဖြူတွင် အနီမှတ်ကလေးများ၊ အကြောင်းအစင်းများကို တွေ့ရသည်။ ဥ၏အရွယ်မှာ ပျမ်းမျှ အလျား ၀.၆၉ လက်မနှင့် ဗျက် ၀.၅၅ လက်မ ရှိသည်။

ရွှေပြည်စိုးငှက်ကို ဥယျာဉ်ပန်းခြံများရှိ ပန်းရုံ ပန်းချုံများ၌ တွေ့ရတတ်သည်။ များသောအားဖြင့် သစ်ပင် ထိပ်ဖျား၌ အသိုက်လုပ်နေတတ်သည်။ ရွာစွန် ရွာနား တောစပ် ချုံပုတ် လယ်ကွင်းစသည့် နေရာများသို့လည်း ရောက်ပေါက်လာတတ်သည်။ ယင်းတို့၏ အသိုက်များကို ချုံများ သစ်ပင်များမှ အလျားလိုက်၊ သို့မဟုတ် ဒေါင်လိုက် ဖြာထွက်နေသော အကိုင်းအခက်များတွင် မြက်ဖြင့် အလွန်သပ်ယပ်စွာ ဆောက်လုပ်ထားသည်။ အသိုက်အပြင်ဖက်မှလည်း ပင့်ကူမြှေးတို့ဖြင့် ရစ်ပတ်ထားလေသည်။

ရွှေပြည်စိုး ငှက်များ နှစ်ကောင်ထက်ပို၍ စုရုံးနေသည်ကို မတွေ့ရချေ။ တကောင်ချင်း သော်၎င်း၊ စုံတွဲ သော်၎င်း တပင်မှတပင် တချုံမှတချုံ ခုန်ပေါက်ပျံသန်း၍ ပုန်းလျှိုးနေထိုင်တတ်သည်။ အသံကြားမှသာ ယင်းတို့ ရှိကြောင်း သိရသည်။

ရွှေပြည်စိုးငှက်များကို အရှေ့ဖက် နိုင်ငံများတွင် အနှံ့အပြား တွေ့ကြရသည်။ မြန်မာနိုင်ငံ၌လည်း မြစ်ကြီးနားမြို့မှ တောင်ဖက် မြေပြင်ဒေသအတွင်း အနှံ့အပြား ရှိသည်။ အထူးသဖြင့် အပူပိုင်းဒေသ၌ ပိုမို တွေ့ရသည်။ မြောက်ဖက် တောင်ကုန်းဒေသ၌မူ မရှိချေ။

**ရွှေပြည်ဝန်ကြီး။** ။ဘိုးလှိုင်၊ ဦး — ရှု။

**ရွှေဖရုံ။** ။ရွှေဖရုံပင်သည် နွယ်ပင်မျိုး ဖြစ်သည်။ ရုက္ခဗေဒ အလိုအားဖြင့် ရွှေဖရုံသည် ဖူး၊ သခွား စသော အသီးမျိုးများနှင့် အတူ ကျူကာဗီတေးစီအီး မျိုးရင်းတွင် ပါဝင်သည်။ မြန်မာနိုင်ငံ၌ စိုက်ပျိုးသော ရွှေဖရုံမျိုးများ၌ပင် အမျိုးကွဲများ ရှိသည်။ ရွှေဖရုံတမျိုး၏ ရုက္ခဗေဒ အမည်မှာ ကျူကာဗီတာ မက်ဇီးမား ဟု ခေါ်သည်။ အရွက်သည် ဖူးရွက်ကဲ့သို့ကြီး၍ ဆူးမွေးများ ပါရှိသည်။ အပွင့် အဝါရောင် ဖြစ်သည်။ ပွင့်ဖတ်များ ကြွေသွားပြီးနောက် ယင်းမှ သီးကင်းဖြစ်လာသည်။

ရွှေဖရုံသီးသည် လုံးဝိုင်း၍ များသောအားဖြင့် ထိပ် နှစ်ဖက် ပြားသည်။ ဘေးတွင် အမွှာအမြောင်းများ ဖြစ်နေသည်။ အသီး၏ လုံးပတ်သည် တခါတရံ ခုနစ်ပေမှ ရှစ်ပေ အထိ ရှိတတ်သည်။ မျိုးလုပ်ရန် ထားသော အသီးသည် တခါတရံ ပိဿာ ၆၀ မှ ၁၀၀ အထိ လေးတတ်ကြသည်။ အခွံသည် မာ၍ အရောင် အမျိုးမျိုးဖြစ်သည်။ နုစဉ် အစိမ်းပေါ်၌ အစက်ပြောက်များရှိ၍ ရင့်လာသည့်အခါ ဝါညိုညို ပေါ်၌ အစက်ပြောက်များ ရှိလာသည်။ အခွံမှ အသားကို ထုတ်၍ အခွံကို အခြောက်လှမ်းပြီးလျှင် ခွက်အဖြစ် သုံးစွဲကြသည်။ အတွင်းသားသည် နုသည့်အခါ ဝါဖျော့ဖျော့ ဖြစ်၍ ရင့်သည့်အခါ ဝါရင့်ရင့် ရွှေရောင် ဖြစ်သည်။ အသီးနုသည် အသား အနည်းငယ် ပွသော်လည်း အသီးရင့်သည့်အခါ ကျစ်လာသည်။ ရင့်သည့်အသားကို ချက်ပြုတ်စားသည့်အခါ အလွန်စေးသည်။ အရသာ ချို၍ စဉ်းငယ် အငန်ဓာတ် ပါသည်။ အူလယ်သား ပွ၍ အစေ့ ရှိသည်။ ယင်းအစေ့များကို မျိုးယူ စိုက်ပျိုးရသည်။ အစေ့ကို ဆားဖြင့် လှော်၍ ယင်းအထဲမှ အဆန်ကို စားသည့်အခါ ဆိမ့်သည်။ ရွှေဖရုံသီးသည် ဖူးသီးကဲ့သို့ မဟုတ်၊ ခြောက်သွေ့သောနေရာ၌ ကြာရှည်စွာ အထားခံသည်။



ရသာ ချိုလေးသည့် ရွှေဖရုံသီး

ရွှေဖရုံသီး အခွံကို ဓားဖြင့်သော်ရင်း၊ လက်သည်းဖြင့်သော်ရင်း လိုးဖဲ့လိုက်လျှင် အစေးများ ထွက်လာကြသည်။ ရွှေဖရုံ၏ အရသာမှာ သကြားကဲ့သို့ ချို၍ ဗဇ္ဇန် အသားအစို အခြောက်တို့ဖြင့် ဟင်းချက်စားကြသည်။ သို့သော် အနောက်တိုင်းသားများသည် ရွှေဖရုံသီးချည်း ပြုတ်၍ပင် စားလေ့ရှိကြသည်။ မြန်မာနိုင်ငံ၌ ရွှေဖရုံပင်၏ အညွန့်အဖူး အပွင့်များကိုပင် ချက်ပြုတ်စားကြသည်။ ဒဗ္ဗဂုဏဆေးကျမ်း အလိုအရ ရွှေဖရုံသီးသည် ဝမ်းမီးတောက်စေ၏။ နှုတ်ကို မြိန်စေတတ်၏။ သည်းခြေကို ပျက်စေတတ်၏။ စိမ်းလျှင် ကား ကြေခဲ ကျက်ခဲ၏။ အေး၏။ ဝမ်းချုပ်၏ ဟုဆိုသည်။ အိန္ဒိယဆေးကျမ်း အလိုအရမူ ရွှေဖရုံသီး အသားခြောက်သည် ချောင်းဆိုးသွေးပါ ရောဂါအတွက် ကောင်းကြောင်း၊ အသီးမှည့်နှင့် ကပ်နေသည့်အညှာကို ရေနှင့်သွေး၍ အဆိပ်ပြင်းသော သတ္တဝါများ ကိုက်သည့်နေရာတွင် လူးလျှင် အဆိပ်ပြေကြောင်းဖြင့် ဆိုသည်။ အနောက်နိုင်ငံ အာဟာရ သုတေသန ပညာရှင်များ၏ အဆိုအရ ရွှေဖရုံသီးတွင် ဗီတာမင် အေ ဩဇာဓာတ်နှင့် ဗီတာမင် စီ ဩဇာဓာတ် ကြွယ်ဝသဖြင့် အားကိုဖြစ်စေသောအစာတမျိုးဟူ၍လည်းဆိုသည်။

ရွှေဖရုံပင်မှာ နွယ်တက်တတ်သော အပင်မျိုး ဖြစ်၍ စင်များကို ခိုင်ခံ့စွာ ဆောက်ပေးရသည်။ နွေရာသီ၌ စိုက်ပျိုးသော ရွှေဖရုံပင်များကို စင်ထိုးမပေးဘဲ မြေပေါ်၌ပင် လျှောက်သွားစေ၍ စိုက်ပျိုးကြသည်။ ယင်းတို့ကို ပြာသိုလမှ နယုန်လအထိ စိုက်ပျိုးကြသည်။ အစေ့မှ စိုက်လျှင် ကြီးပြင်းလာရန် နှစ်လမှ နှစ်လခွဲအထိ ကြာသည်။ အပူပိုင်းဒေသ၌ နေရာမရွေး စိုက်ပျိုး၍ ရသည်။

ရွှေဖရုံအပြင် မြန်မာနိုင်ငံတွင် ကျောက်ဖရုံ ဟုခေါ်ကြသော နွယ်ပင်တမျိုး ရှိသေးသည်။ မျိုးရင်းအားဖြင့် ရွှေဖရုံနှင့် အတူတူပင် ဖြစ်သော်လည်း မျိုးခွဲချင်း မတူပေ။ ရုက္ခဗေဒအမည်ဖြင့် ဗီနင်ကာဆာ စာရီဖာရာ ဟုခေါ်လေသည်။

ကျောက်ဖရုံပင်တို့သည် ပူနွေးသော ရာသီဥတုရှိသည့် ဒေသများတွင် ပေါက်ရောက်သည်။ အကာအကွယ်ရှိသည့် ချိုင့်ဝှမ်းဒေသများ၌ ပေ လေးထောင် အမြင့်ထိအောင် ပေါက်ရောက်နိုင်လေသည်။ ထိုအပင်တို့သည် တနှစ်တခါ စိုက်ရသော ဟင်းသီးဟင်းရွက်ပင်မျိုး ဖြစ်၍ နွယ်တက် ပေါက်ရောက်သည်။ အရွက်များသည် အနည်းငယ် ကြမ်း၍ အတန်ငယ် ကြီးမားပြီးလျှင် အရင်း ကား၍ အဖျား ချွန်းကာ ထောင့်ချွန်း အနည်းငယ် ပါရှိသည်။ ရွက်ညှာတံတွင် မွေးနုများ ရှိလေသည်။ အပွင့်များသည် အဝါရောင်ဖြစ်၍ အကြောစိမ်းကလေးများ ပေါ်နေသည်။ တပွင့်ချင်း ပွင့်၍ အပွင့် အတန်ငယ်ကြီးသည်။ တပင်တည်းတွင် အဖိုပွင့် အမပွင့် နှစ်မျိုးလုံး ပွင့်ရာ၊ အဖိုပွင့်၏ ဝတ်ဆံသည် စုခဲနေသည်။ အမပွင့်တွင် သီးကင်းကလေးများ ပါလာသည်။ အသီးများ

သည် ကြီးမား၍ ရှည်လျားလျား ဘဲဥပုံသဏ္ဌာန် ရှိသည်။ ဖယောင်းတိုက်ထားသကဲ့သို့ မာကြော၍ချောမွတ်စိမ်းဖျော့သော အခွံမျိုးရှိပြီးလျှင် အလွန် အလေးချိန်စီးသော အသီးများ ဖြစ်ကြလေသည်။

အတွင်းသားသည် ဗူးသီးကဲ့သို့ အဖြူရောင်ဖြစ်၍ အရည်ရွှမ်းသော်လည်း ဗူးသီးအသားထက် ပို၍ မာကျစ်သည်။ ရွှေဖရုံသီး နည်းတူ အူလယ်သား ပွ၍ အဖြူရောင် အစေ့များ ရှိလေသည်။

မြန်မာဆေးကျမ်းများ အလိုအရ ကျောက်ဖရုံသီး နုနုသည် အေး၏။ သည်းခြေကိုနိုင်၏။ မနုမရင့်သည် သလိပ်ကို ပျက်စေတတ်၏။ ရင့်လွန်းသော အသီးသည် ချိုအေးသော အရသာ ရှိ၏။ အနည်းငယ် ဖန်၏။ ဝမ်းမီးကို တောက်စေတတ်၏။ အစာကို ကြေစေတတ်၏။ ဆီးကို ရွှင်စေတတ်၏။ အသီးအရင့်မှည့်သည် မအေးလွန်း။ ချို၏။ စဉ်းငယ် ဖန်၏။ ကြေလွယ်၏။ ဝမ်းမီးကို တောက်စေတတ်၏။ ဆီးကို ရွှင်စေတတ်၏။ ဒေါသသုံးပါးလုံးကိုနိုင်၏။ ရူးသောအနာကို နိုင်၏ ဟူ၍ ဆိုလေသည်။

ကျောက်ဖရုံသီး၏ ဂုဏ်သည်ကား စိတ်နှလုံးကို နှစ်သက်စေတတ်၏။ အသားကိုလည်း ပွားစေတတ်၏။ သတိ နှလုံးပူကိုလည်း အေးစေတတ်၏။ သွေးနှင့် သင့်၏။ အားကို ဖြစ်စေတတ်၏။ အပေါ်ခွံသည်ကား အစာမကြေ။

အိန္ဒိယဆေးကျမ်းများ အလိုမှာမူ ကျောက်ဖရုံသီးသည် အာဟာရကိုဖြစ်စေသည်။ အားသစ်ကို ဖြစ်စေသည်။ ဆီးဝမ်း ကောင်းစေသည်။ သွေးကိုလည်း တိတ်စေနိုင်၍ ပြဒါးတောက်ခြင်းမှလည်း ကာကွယ်နိုင်သည်။ အပေါ်ခွံ ခွာပြီးသောအစေ့၏ အတွင်းမှ အဆံကို သန်ချဆေး၊ ဆီးရွှင်ဝမ်းနုဘ်ဆေးတို့အတွက် အသုံးပြုရသည်။ ယင်းတို့ဖြင့် ဖော်ထားသော တေဆေးသည် အားသစ်ကို ဖြစ်စေ၍ ဆီးရွှင်ဝမ်းမှန်စေလေသည်။

ကျောက်ဖရုံသီးကို ဆွတ်ခူးပြီးနောက် မခွဲမစိတ်ဘဲ ထားလျှင် နှစ်ပေါက်အောင် ခံသည်။ ကျောက်ဖရုံသီးကို အိမ်အဆောက်အအုံများ၌ ဆောင်ထားလျှင် မိုးကြိုးကွင်းသည် ဟူ၍၎င်း၊ လူသေ အလောင်းအောက်၌ ခေါင်းရင်းတလုံး၊ ခြေရင်းတလုံး ထားပေးလျှင် လူသေပုပ်စော်မနံ ဟူ၍၎င်း မြန်မာတို့ အယူရှိကြသည်။ အိန္ဒိယနိုင်ငံတွင် ကျောက်ဖရုံသီးနှင့် စပ်လျဉ်း၍ အယူဝါဒနှင့်သက်ဆိုင်သော အစွဲအလန်း ရှိကြသဖြင့် ယင်းတို့ကို ပိုင်ရှင်မသိဘဲ ခိုးယူခြင်း မပြုကြ ဟု ဆိုလေသည်။

ကျောက်ဖရုံရွက်သည်လည်း ဆီးများစေသည် ဟုဆိုကြသည်။ ကျောက်ဖရုံအရွက်နု၊ အသီးနု၊ အရိုးနုများကို ဟင်းချို၊ ကြော်ချက် စသည်ဖြင့် ချက်၍စားနိုင်သည်။ မရင့်သော အသီးများကိုလည်း ထိုနည်းတူ ချက်ပြုတ် စားသုံးနိုင်သည်။ ထိုပြင် ကျောက်ဖရုံသီးကို ယိုထိုး၍လည်း ရောင်းချကြလေသည်။

ကျောက်ဖရုံပင်ကို အစေ့ပျိုး၍ စိုက်ကြသည်။ မိုးဥတု၌ အစေ့ကြဲထားလျှင် နောက်နှစ်လ အကြာ၌ အသီးများ စားရစ ပြုသည်။ ကျေးလက်များ၌ လယ်တော တဲအိမ် အမိုးများပေါ်တွင် ကျောက်ဖရုံပင်များ နွယ်တက်၍ အသီးများ တိုးလုံးပက်လက် သီးနေသည်ကို တွေ့ရတတ်လေသည်။

**ရွှေဘိုခရိုင်။** ။ရွှေဘိုခရိုင်သည် မြန်မာနိုင်ငံ အထက်ပိုင်း စစ်ကိုင်းတိုင်းအတွင်း ပါဝင်၍ မိုးပါးရေရှား ရပ်ဝန်းတွင် ကျရောက်သော ခရိုင် ဖြစ်သည်။ အရှေ့ဖက်၌ ရှမ်းပြည်မြောက်ပိုင်းဒေသ၊ တောင်ဖက်၌ စစ်ကိုင်းခရိုင်နှင့် မုံရွာခရိုင်၊ အနောက်ဖက်၌ မော်လိုက် ခရိုင်၊ မြောက်ဖက်၌ ကသာခရိုင်တို့ဖြင့် ဝန်းရံလျက် ရှိ၏။ မူလ ရွှေဘိုခရိုင်တွင် ရွှေဘို၊ ရေဦးနှင့် ကန့်ဗလူ နယ်သုံးနယ်သာပါဝင်၍ ၅,၇၁၄ စတုရန်းမိုင်မျှ ကျယ်ဝန်းသည်။ ၁၉၄၁ ခုနှစ် သန်ကောင်စာရင်းအရ လူဦးရေ ၄၉၆,၁၀၅ ယောက်ရှိ၏။ ဒုတိယကမ္ဘာစစ်အပြီးတွင် ၁,၂၉၈ စတုရန်းမိုင်ခန့် ကျယ်ဝန်းသော မိုးကုတ်နယ်ကို ရွှေဘိုခရိုင်အတွင်းသို့ သွင်းလိုက်ရာ အစုစု လူဦးရေ ငါးသိန်းခွဲခန့်ရှိသည်။ ၁၉၅၆ ခုနှစ် ခန့်မှန်းခြေ အရမူ ရွှေဘိုခရိုင်၏ လူဦးရေသည် ၆၃၀,၁၄၇ ယောက် ရှိသည်ဟုခန့်မှန်းကြသည်။ ရွှေဘိုခရိုင်အတွင်း ပါဝင်ခဲ့သော မြို့နယ် ၁၀ ခု ရှိရာ ယင်းတို့မှာ ရွှေဘို၊ ခင်ဦး၊ ဝက်လက်၊ ကန့်ဗလူ၊ ကျွန်းလှ၊ ရေဦး၊ ဒီပဲယင်း၊တံဆည်၊ မိုးကုတ်နှင့် သပိတ်ကျင်းတို့ ဖြစ်သည်။ သို့သော် ၁၉၆၅ ခုနှစ် အောက်တိုဘာလ ၁ ရက်နေ့မှ အစပြု၍ မိုးကုတ်နှင့် သပိတ်ကျင်းမြို့နယ်တို့ကို မန္တလေးခရိုင်အတွင်း သွတ်သွင်းခဲ့လေသည်။

ရွှေဘိုခရိုင်တွင် တောင်နှင့်မြောက် တန်းလျက် ရှိသော တောင်တန်း နှစ်ခု ရှိ၍ အလယ်တွင် မူးမြစ် စီးဆင်း၏။ အရှေ့ဖက်တောင်တန်းမှာ မင်းဝံတောင်တန်းဖြစ်၍ ဧရာဝတီမြစ်ဝှမ်းနှင့် ကပ်လျက်ရှိသည်။ လေသာတောင်၊ မှန်တောင်၊ ရွှေကန်တောင်များ အပါအဝင် အနောက်ဖက်ရှိ တောင်တန်းများသည် ရွှေဘိုခရိုင်နှင့် မော်လိုက်ခရိုင်ကြား နယ်နိမိတ်ပေါ်တွင် ရှိသည်။ ယင်းတောင်တန်းကြီး နှစ်ခုအကြားတွင် ကျယ်ပြန့်သော မူးမြစ်ဝှမ်း ရှိသည်။ သို့ရာတွင် ရွှေဘိုခရိုင်သည် မိုးပါးရေရှားရပ်ဝန်းဖြစ်၍ မူးမြစ်မှ တူးမြောင်းများဖြင့် ရေသွယ်၍ လယ်ယာစိုက်ပျိုး လုပ်ကိုင်ကြရသောကြောင့် ဝက်လက်၊ ရွှေဘို၊ ခင်ဦး၊ ရေဦးနှင့် ဒီပဲယင်း မြို့နယ်များတွင်သာ စပါးအကြီးအကျယ် စိုက်ပျိုးနိုင်သည်။ ကျန်မြို့နယ်များတွင် မိုးကိုသာ အမှီပြု၍ စိုက်ပျိုးကြရသဖြင့် စပါးထွက်မမှန်ချေ။ ထိုဒေသများတွင် နှမ်း၊ ဝါ၊ ပဲ၊ ပြောင်းတို့နှင့်အလားတူ သီးနှံများကိုလည်း အားပြု စိုက်ကြရ၏။



ရွှေဘိုခရိုင်၏ အားထားရာဖြစ်သော ကာဘိုးဆည်ကြီး

ရွှေဘိုခရိုင်တခုလုံးသည် မိုးပါးရေရှား ရပ်ဝန်းတွင် ကျရောက် နေရကား နေ အလွန်ပူ၍ မိုး အလွန်နည်းသည်။ သို့ရာတွင် အေးသည့်အခါ၌ အလွန်အေးသည်။

ခရိုင်၏ အဓိကလုပ်ငန်းမှာ စိုက်ပျိုးရေးပင် ဖြစ်၍ စပါးသည် အဓိက သီးနှံ ဖြစ်၏။ ခရိုင်အတွင်း အခြား ထင်ရှားသော သီးနှံများမှာ နှမ်း၊ မြေပဲ၊ ဝါ၊ ပြောင်းဖူး၊ ပြောင်းစေ့နှင့် ပဲအမျိုးမျိုးတို့ ဖြစ်၏။

ရောဝတီ မြစ်သည် ရွှေဘိုခရိုင်၏ အရှေ့ဖက် နယ်နိမိတ် တလျှောက် မိုင် ၁၂၀ မျှ စီးဆင်း၍ ထိုအပိုင်းမှာ များသောအားဖြင့် ကျဉ်း၏။ မူးမြစ်သည် ကသာခရိုင်အတွင်း၌ မြစ်ဖျားခံ၍ ရွှေဘိုခရိုင်၏အလယ်မှ ဖြတ်စီးကာ မြင်းမူမြို့ အနီးတွင် ရောဝတီ မြစ်ထဲသို့ စီးဝင်သည်။ မူးမြစ်သည် နွေရာသီတွင် အလွန်ရေနည်းသဖြင့် မြစ်တလျှောက်လုံး ရေအနက် နှစ်ပေမှ လေးပေခန့်အထိသာ ရှိလေရာ အလှယ်တကူပင် ဖြတ်သန်း သွားလာနိုင်၏။ ခရိုင်အတွင်းရှိ အခြား ထင်ရှားသော မြစ်ချောင်းများမှာ ခေါင်းယူချောင်း၊ သောချောင်း၊ တိမ်ညင်းချောင်း၊ အင်းတော်ချောင်းတို့ ဖြစ်ကြသည်။

ရွှေဘိုခရိုင် အတွင်း၌ စစ်ကိုင်း–မြစ်ကြီးနား မီးရထားလမ်း မိုင်ပေါင်း ၁၀၀ ကျော်ရှိသည်။ ထိုမှတပါး မော်တော်ကားများ သွားလာနိုင်သော ကျောက်လမ်း (ကတ္တရာလမ်း) မိုင်ပေါင်း ၂၀၀ ကျော်နှင့် မြေဖို့ ပေတရာလမ်း မိုင်ပေါင်း ၁၅၀ ခန့်ရှိ၍ လမ်းပန်းဆက်သွယ်ရေး ကောင်းမွန်သည်။ စစ်ကိုင်း–ရွှေဘို ကားလမ်းသည် အထူး အသုံးဝင်လှပေသည်။

ရွှေဘိုမြို့၏ အရှေ့မြောက်ဖက် ၂၆ မိုင်အကွာ ကာဘိုးရွာအနီး၌ မူးမြစ်ရေကို ရေကာတာ (ရေတံခါး) များဖြင့် ပိတ်၍ လွှဲယူကာ ရွှေဘိုတူးမြောင်းနှင့် ရေဦးတူးမြောင်းမသို့ ရေသွင်းပေးသည့် ကာဘိုး ရေလွှဲဆည် ရှိသည်။ (ကာဘိုး ရေလွှဲဆည် — ရှု။) ထိုတူးမြောင်းမ နှစ်ခုမှ တူးမြောင်းခွဲများ လက်တံများဖြာ၍ မူးမြစ် ဝဲ ယာ ရှိ လယ် မြေ ကေပေါင်း သုံးသိန်းကျော်ကို ရေပေးသွင်းနိုင်လေသည်။ တူးမြောင်း ဘောင်များပေါ်တွင် တူးမြောင်းဖက်ဆိုင်ရာအရာရှိကြီးငယ်တို့၏ ကားများ သွားလာနိုင်သော လမ်းများ ဖောက်လုပ်ထား၏။ ထိုလမ်းများပေါ်တွင် တူးမြောင်းဌာနမှ အခွင့်အမိန့်ရရှိထားလျှင် မည်သည့် ကားငယ်ကလေးများမဆို သွားလာနိုင်၍ ခရိုင်အတွင်း လမ်းပန်းဆက်သွယ်ရေးတွင် များစွာ အထောက်အပံ့ ရလေသည်။ မြန်မာမင်းများ လက်ထက်က ဖောက်လုပ်ခဲ့သော တူးမြောင်းဟောင်းကြီး



ရှွေဘိုခရိုင် နာမည်ကျော် ကျောက်မြောင်းစဉ့်အိုးများကို ဖောင်ဖွဲ့ကာ ရောင်းရန် ပြင်ဆင်နေစဉ်

သည် ကာဘိုးရေလွှဲဆည်နှင့် ရေတံခါး၏ မြောက်ဖက် မိုင် ၃၀ ခန့်အကွာမှ ရှွေဘိုမြို့ မြောက်ဖက်ရှိ မဟာနန္ဒာကန်တော်အထိ ရှိသော်လည်း ယခုအခါ ကောသွားပြီ ဖြစ်သဖြင့် များစွာ အသုံး မဝင်တော့ချေ။ ခရိုင် အတွင်း၌ မဟာနန္ဒာကန်တော် အပြင် ရေကန်ပေါင်း များစွာ ရှိသော်လည်း သဘာဝ အင်းအိုင်များမှ ဟန်လင်းကြီးအင်းနှင့် ကဒူးအင်းတို့သည် ခရိုင်တောင်ဖက်စွန် စစ်ကိုင်းခရိုင် နယ်စပ်တွင် ရှိ၍ ဟန်လင်းကြီးအင်းသည် ဝက်လက်မြို့နယ်တွင် ရှိ၏။ မူးတူးမြောင်းမှ ရေသွင်းသော မဟာနန္ဒာကန်မှအပ ကျန်အင်းများသည် ရေအလွန် တိမ်သည်။ သို့ရာတွင် ရေခန်းခဲကြသည်။

ရှွေဘိုခရိုင်၏ အနောက်ပိုင်းနှင့် မြောက်ပိုင်းများသည် တောတောင် ထူထပ်၍ ကျွန်းသစ်နှင့် အခြား အဖိုးတန်သစ်ပင်များ ပေါက်ရောက်သည်။ သစ်လုပ်ငန်းတွင်ကျယ်၏။ ရေဝတီမြစ်၏ အနောက်ဖက် ခုနစ်မိုင်ခန့်ကွာသော နေရာအချို့တွင် ကျောက်မီးသွေးများ တူးဖော်ရရှိသည်။ မြေဒူး၊ ရွာသီ၊ ကျောက်အိုင်၊ တောက်ကရှပ်၊ ကန်ကြီးကုန်း၊ ကန့်ဗလူ တို့သည် ရှေးမြန်မာမင်းများ လက်ထက်က သံများတူးဖော် ကြိုချက်ရာဒေသများ ဖြစ်ကြ၏။ ခရိုင်၏အနောက်မြောက်ပိုင်းဖြစ်သော ရေဦးနယ်ရှိ အင်းကြီးနှင့် ခင်ပင်ရွာများ၊ တံဆည်နယ်ရှိ နန္ဒင်းတောနှင့် စိမ်းနန်းရွာများ၊ ကျွန်းလှနယ် အင်လှရွာ စသည့် ဒေသတဝိုက်တွင် ရှွေအနည်းငယ်ကျင်၍ ရသည်။ ကန့်ဗလူနယ်နှင့် ကျွန်းလှနယ် မြောက်ပိုင်းတို့တွင် ရေနံထွက်သည်။ ဟန်လင်းကြီးနှင့် သခွတ်တော (ဝက်လက်နယ်)တို့တွင် ဆားအကြီးအကျယ် ထွက်၍ ထိုနေရာများထက် အနည်းငယ်ညံ့သောဆားကို ခရိုင်မြောက်ပိုင်း နေရာများစွာ၌ ချက်လုပ်သည်။ ခရိုင်အတွင်း သစ်တောကြီးများ မရှိသော နေရာအနှံ့အပြားတွင် ထန်းတောကြီးများ ရှိသဖြင့် ထန်းလျက်သည်လည်း ရှွေဘိုခရိုင်၏ ထင်ရှားသော ထွက်ကုန်တမျိုးဖြစ်၏။ အခြား ထွက်ကုန်များမှာ ဝါးနှင့် ဝါးဖြစ်ပစ္စည်း၊ သစ်စေးနှင့် ယွန်းထည်၊ ထန်းခေါက်ဖာ၊ သနပ်ခါး၊ ဆိပ်ခွန် လုံချည်၊ စဉ့်အိုး၊ ဘီး၊ စိတ်ပုတီး စသည်တို့ ဖြစ်ကြလေသည်။

ရှွေဘိုခရိုင်သည် နိုင်ငံသမိုင်းတွင် ထင်ရှားသော ခရိုင်တခု ဖြစ်၍ ခရိုင်အတွင်း အနှံ့အပြားပင် ထင်ရှားခဲ့သည့် နေရာများ၊ အဆောက်အအုံနှင့် စေတီပုထိုး များစွာ ရှိလေသည်။ အထူးသဖြင့် ရှေးက မြို့ကြီးများ ဖြစ်ခဲ့သော ဟန်လင်းကြီး၊ ရှွေဘို၊ စည်ပုတ္တရာ၊ စည်သာ၊ ဒီပဲယင်း၊ မြေဒူး

ခေါ် သန္တိ၊ ငါးရာနဲ (ငရနဲ)၊ ထန်းတပင်၊ မလည် အရပ်များတွင်ရှေးဟောင်းစေတီပုထိုးနှင့်အဆောက်အအုံဟောင်းများ ပေါ်များ၍ အချို့မှာ ယခုတိုင် မပျက်မစီးဘဲ ထင်ရှားလျက်ရှိ၏။ ရေဦး အနောက်ဖက် ငါးမိုင်ခန့်ရှိ ဖလံကုန်းရွာတွင် နန်းမတော်မယ်နု တည်ခဲ့သော ဘုရားကြီးစေတီနှင့် အပြီးသို့ မရောက်ခဲ့သော ကျောင်းကြီး၏ အလွန်ကြီးမားသော တိုင်လုံးကြီးများကို ယခုတိုင် တွေ့မြင်နိုင်သည်။ ခရိုင်အတွင်း ထင်ရှားသော စေတီပုထိုးများမှာ ရွှေဘိုမြို့မှ ရွှေတန်ဆာဘုရား၊ ဆိတ်ခွန်မြို့မှ အင်ကြင်းတောဘုရား၊ မြေဒူးမြို့မှ ရွှေဂူဘုရား၊ ကဗွက်မြို့မှ သီဟတောဘုရား တို့ဖြစ်သည်။

ရွှေဘိုမင်း။ ။သာယာဝတီမင်း — ရှု။

ရွှေဘိုမြို့။ ။ရွှေဘို ခရိုင်ဝန်နှင့် နယ်ပိုင် ရုံးစိုက်ရာ ရွှေဘိုမြို့ကို "ဥ သြ အော် မြည်၊ ကုန်းဘောင်တည်" ဟူသော သင်္ကေတအတိုင်း မြန်မာသက္ကရာဇ် ၁၁၁၅ ခုနှစ် ပဌမ ဝါဆိုလပြည့်ကျော် ၆ ရက် ကြာသပတေးနေ့အဝင် ညဉ့် ၃ ချက်တီးကျော် ငါးနာရီပါဒ်ပြည့် ၁၁ ဗီဇနာ၊ ပြန်ပြည့်၊ ခရာပြည့်၊ ပြုဗ္ဗာဘဒြပိုဒ် နက္ခတ်၊ တပါဒ်မွန်းတည့် ပြိဿတွင် အလောင်းမင်းတရားကြီး ဦးအောင်ဇေယျသည် ရွှေဘိုမြို့ နေရာတွင် ရတနာသိင်္ဃ ကုန်းဘောင် နေပြည်တော်ကို စတင် တည်ထောင်ခဲ့သည်။ ထို့ကြောင့်လည်း အလောင်းမင်းတရား၏ အဆက်အနွယ် မင်းများကို ကုန်းဘောင်မင်းဆက် ဟုမှည့်ခေါ်ခဲ့ကြခြင်း ဖြစ်သည်။

ရွှေဘိုမြို့၏ မူလအမည်မှာ မုဆိုးဘို ဖြစ်သည်။ ပုဂံပြည်ရှင် အလောင်းစည်သူ မင်းကြီး (မြန်မာ ၄၇၄–၅၂၈) သည် တိုင်းခန်း လှည့်လည်စဉ်က ထိုဒေသသို့ ရောက်သောအခါ မြေဒူးမြို့တည်ရာ အနီး မြင်းခွာတောင်၌ စေတီပုထိုးများကို တည်တော်မူခဲ့ပြီးနောက် ထိုတောင်ခြေမှ တူးမြောင်းကြီး ဖောက်လုပ်ကာ ထိုတူးမြောင်း တလျှောက် သင်းကနက်သားဖောင်ဖြင့် စုန်ဆင်းခဲ့သည် ဟု ဆိုသည်။ တူးမြောင်းကြီး မိုင် ၅၀ ခန့်ရှိသောအခါ မဟာနန္ဒာကန်ကို ဆည်ဖို့၍ ရွှေတန်ဆာဘုရားကို တည်ကာ ငပို အမည် ရှိသော မုဆိုးအား ထိုနေရာ၌ ရွာတည်စေပြီးလျှင် စေတီစောင့် ထားခဲ့သည်ကို အကြောင်းပြု၍ ထိုရွာကို မုဆိုးငဘိုရွာ၊ ထိုမှတဆင့် မုဆိုးဘိုရွာ ဟု တွင်ကြောင်းဖြင့် ဆိုသည်။

သက္ကရာဇ် ၁၁၁၃ ခုနှစ်တွင် အင်းဝပြည်ကြီး ပျက်စီး၍ မြန်မာနိုင်ငံ အထက်ပိုင်းတွင် သူတလူ ငါတမင်း ပျက်စီးယို



ရွှေဘိုမြို့အဝင် ရှုခင်းတရပ်



အလောင်းမင်းတရားကြီး တည်တော်မူခဲ့သော ရွှေစေတီခေါ် မြို့ထောင့်စေတီ ဘုရားပွဲတော်ကျင်းပစဉ်

ယွင်းလျက် ရှိသည်ကို မုဆိုးဘို ရွာသူကြီး ဦးအောင်ဇေယျ၏ အစီအမံဖြင့် သိမ်းရုံး စုစည်းနိုင်ခဲ့သည်။ ထိုအချိန်မှစ၍ ဦးအောင်ဇေယျသည် မုဆိုးဘိုရွာ၌ ထီးနန်းစိုက်ထူခဲ့ရာ ရန်အပေါင်းကို အောင်မြင်သဖြင့် ရန်ကြီးအောင်မြို့ ဟူ၍ရင်း၊ ထိုမြို့အနီး တောင်နှင့်မြောက် တန်းလျက် တည်နေသော ယခု မြွေရိုးလမ်းတောင် တွင်သည့် ကုန်းဘောင်တောင်ကို အစွဲပြု၍ ကုန်းဘောင်မြို့ ဟူ၍ရင်း၊ မုဆိုးဘို ဟူသော အမည်တွင် မုဆိုးကို ဖျောက်၍ ရွှေမှ ရွှေတပ်ကာ အဖျားဆွတ်ခေါ်သည့် ရွှေဘိုမြို့ဟူ၍ရင်း (ရန်ကုန်မြို့ကို ရွှေကုန်မြို့ဟု အဖျားဆွတ်ခေါ်ကြသကဲ့သို့ ဖြစ်သည်။)၊ လောကီရတနာ၊ လောကုတ္တရာ ရတနာများ စုဝေးရာ ဦးစွန်းသဖွယ် ဖြစ်သဖြင့် ရတနာသိခမြို့ ဟူ၍ရင်း (အချို့ကဇေယသိခ–လူတို့ အထွတ်ဦးစွန်းသဖွယ်ဖြစ်သောမင်း၊ ပဥ္စသိခ – ဦးစွန်း ငါးခုရှိသော နတ်သား စသည့် အမည်တို့ကဲ့သို့ ဤမြို့ကိုလည်း ရတနာသိခမြို့ဟု ရေးသင့်ကြောင်း၊ သိင်္ဃ သဒ္ဒါသည် အလျှင်အမြန်ဟောသဖြင့် အလျှင်အမြန် ပျက်ရန် နိမိတ် ဖြစ်၍ ရတနာသိင်္ဃ(ရတနာသိင်္ဃ)ဟု မရေးသင့်ကြောင်း၊ ရတနာသိခ ဟုသာ ရေးသင့်ကြောင်း၊ ကာလရှည်ကြာသဖြင့် ရတနာသိခ် ဖြစ်လာကြောင်း အချို့ကဆိုကြသည်။) ဤသို့လျှင် ရွှေဘိုမြို့သည် အမည် ငါးမျိုးဖြင့် တွင်သည်။ ထို့ကြောင့် ကုန်းဘောင်ဘွဲ့ ပုံကြီးသံတွင် –

"ရန်ကြီးအောင်၊ ကုန်းဘောင်သာ၊ ငါးမည်ရ ပြည်ရွှေဘို၊ ဘေးရန်က ပြို၊ မုဆိုးဘို၊ ရန်ပြိုတဲ့၊ နာသိခ်၊ ဘိုးတော့ ဒေသ" ဟု ဖွဲ့ဆိုခြင်း ဖြစ်လေသည်။ အလောင်းမင်းတရားကြီးသည် "ရွှေဘုံအောင်မြို့၊ ရွှေမြို့ကျုံးဝန်း၊ နတ်ကွန်းရေကန်၊ ချိန်မှန်ပဟိုရ်၊ ရွှေချက်သို" ဟူသော စာဆိုအတိုင်း မြို့တော်၊ ကျုံးတော်၊ နတ်ကွန်းတော်၊ ရေကန်တော်၊ ပဟိုရ်စင်၊ မင်းတရားကြီး ချက်မြှုပ်ရာ၌ တည်သော ရွှေချက်သိုဘုရား ခုနစ်ဌာနကို တပြိုင်တည်း တည်ခဲ့ လေသည်။ အလောင်း မင်းတရားကြီး နတ်ရွာ စံလွန်သောအခါ သားတော် နောင်တော်ကြီးမင်းမှစ၍ ကုန်းဘောင်မင်း အဆက်ဆက်သည် စစ်ကိုင်း၊ အင်းဝ၊ အမရပူရ၊ မန္တလေးမြို့များ၌ ရွှေပြောင်းနန်းတည် စိုးစံခဲ့ကြသော်လည်း ရွှေဘိုမြို့သည် တိမ်ကော မသွားဘဲ၊ စစ်ရေးပေါ်တိုင်း အောင်မြေနင်းရာ ဌာန အဖြစ် ထင်ရှားလျက် ရှိသည်။ ဘိုးတော်ဘုရားသည်၎င်း၊ သာယာဝတီမင်းသည်၎င်း၊ မင်းတုန်းမင်းသည်၎င်း ထီးနန်းလုပ်ကြံရာတွင် ရွှေဘိုမြို့၌အောင်မြေနင်းခဲ့ကြလေသည်။ မြန်မာနိုင်ငံ တဝှန်းလုံးကို အင်္ဂလိပ်တို့ သိမ်းပိုက်သည့်အခါ

သူ့ကျွန်မခံလိုသော စိတ်ဓာတ်ပြင်းထန်သည့်ဒေသဖြစ်သော ရွှေဘိုမြို့တဝိုက်ကို အနိမ်နင်းရ အခက်ဆုံး ဟု ဆိုကြသည်။

ရွှေဘိုမြို့သည် မန္တလေး–မြစ်ကြီးနား မီးရထားလမ်းပေါ်တွင် တည်ရှိ၍ မန္တလေးမြို့မှ အနောက်မြောက်ဖက် ၆၄ မိုင်ဝေးသည်။ ဧရာဝတီ မြစ်ကမ်းပေါ်၌ တည်ရှိနေသော ကျောက်မြောင်းမြို့နှင့် ၁၇ မိုင်ဝေးသော ကျောက်လမ်းဖြင့်၎င်း၊ မူးမြစ်ပေါ်ရှိ ရေဦးမြို့နှင့် ၂၄ မိုင် ရှည်သော ကျောက်လမ်းဖြင့်၎င်း ဆက်သွယ်ထားသည်။ မြောက်ဖက်နှင့် တောင်ဖက်တို့သို့မူ ရွှေဘိုတူးမြောင်းကြီး၏ဘောင်ပေါ်တွင် ဖောက်ထားသော ကားသွားနိုင်သည့်လမ်းမြင့် ရှိသည်။ ယင်းတို့ကို ရွှေဘိုမြောက်လက်၊ ရွှေဘိုတောင်လက် ဟု ခေါ်ကြသည်။ ရွှေဘိုမြောက်လက်သည် ကာဘိုးဆည်အထိ ပေါက်၍ ရွှေဘို တောင်လက်သည် ဝက်လက်မြို့အထိ ပေါက်သည်။ မြို့၏ တောင်၊ မြောက်၊ အနောက်ဖက်တို့၌ လယ်ကွင်းကြီးများ ရှိ၍ စပါး၊ ပဲ၊ ပြောင်း စသည် စိုက်ပျိုးကြသည်။ မြစ်ဝကျွန်းပေါ်ကဲ့သို့ မြေဩဇာ မကောင်းသော်လည်း ဆည်များ တူးမြောင်းများမှ ရေဝအောင် သောက်ရသောကြောင့် သီးနှံများ ထွက်သည်။

ရွှေဘိုမြို့သည်မြန်မာမင်းများလက်ထက်က ထင်ရှားသော မြို့တော် ဖြစ်ခဲ့သည့်အလျောက် ရှေး မြန်မာမင်းတို့ တည်ခဲ့သော စေတီပုထိုး များစွာအပြင် ထင်ရှားကျော်ကြားသော ရှေးဟောင်း အဆောက်အအုံ များစွာ ရှိ၏။ ယင်းတို့ အနက် အလောင်း မင်းတရားကြီး တည်တော်မူခဲ့သော ရွှေစေတီ ခေါ် မြို့ထောင့် စေတီ၊ ရွှေချက်သိုစေတီ၊ ရွှေတန်ဆာ စေတီနှင့် အလောင်းမင်းတရားကြီး၏ အရိုးပြာသဒ်တို့မှာ အထူးပင် ထင်ရှားလေသည်။ ရွှေဘိုမြို့၏ မြောက်ဖက် တမိုင်ခန့်တွင် အလောင်းမင်းတရားကြီး ဆည်ဖို့ခဲ့သော မဟာနန္ဒာ ကန်တော်ကြီးသည် အလွန်သာယာ၍ ကန်တော်ပတ်လည်တွင် ထန်းတောများ ရှိလေသည်။ မြို့၏ အရှေ့မြောက်ဖက် တမိုင်ခန့်တွင် စစ်တပ်များ ထားသော "တပ်ကုန်း" ရှိ၏။ တပ်ကုန်းသည် စံပြမြို့ကလေးတမြို့သဖွယ် သာယာကျယ်ပြန့်သော မြို့ခင်းရှိ၍ အဆောက်အအုံများမှာ ကျန်းမာရေးနှင့် ညီညွတ်သော စစ်တန်းလျားများ၊ အစိုးရ အရာရှိကြီးများ၏ နေအိမ်များ ဖြစ်လေသည်။ တပ်ကုန်းတွင် ဒုတိယ ကမ္ဘာစစ်ကြီး မဖြစ်ပွားမီက မြန်မာပြည်လုံးဆိုင်ရာ မြေတိုင်း အတတ်သင်ကျောင်း ရှိ၏။

ရွှေဘိုမြို့၏ အရှေ့တောင်ဖက်သည်လည်း တပ်ကုန်းကဲ့သို့ပင် သာယာပြန့်ပြူး၍ အစိုးရ အဆောက်အအုံများ၊ အရာရှိကြီးများ၏ နေအိမ်များ ရှိသည်။ ထိုအပိုင်းကို "ဗိုလ်ကုန်း" ဟု ခေါ်သည်။ ဗိုလ်ကုန်းတွင် တူးမြောင်းရုံး၊ လမ်းပန်းနှင့် အဆောက်အအုံဌာနရုံးနှင့် စက်ရှင်ဗိုလ်တဲကြီး ရှိလေသည်။

ရွှေဘိုမြို့၏ အကျယ်အဝန်းမှာ တပ်ကုန်း အပါအဝင် သုံးမိုင်ပတ်လည်ခန့်ရှိ၍ ၁၉၆၇ ခုနှစ် သန်ကောင်စာရင်းအရ လူဦးရေ ၃၂,၄၂၈ ယောက်ရှိသည်။

**ရွှေဘုံနိဒါန်း။** ။ရွှေဘုံနိဒါန်း ဟူသည်မှာ မြန်မာဘုရင်များ၏ ရွှေလက်ထက်တော်အခါက မင်းခမ်းမင်းနားဆိုင်ရာ အဆောင်အယောင် အကြောင်းအရာတို့ကိုပြဆိုရာ ထီးနန်း မှတ်တမ်းကျမ်းပင် ဖြစ်သည်။

ရွှေနန်းရွှေဘုံနှင့် စပ်လျဉ်းသော အဆောင်အယောင် အခမ်းအနားတို့၏ မူလ အခြေအမြစ်နှင့်တကွ ဖော်ပြသော ကျမ်းကို ရွှေဘုံနိဒါန်း ဟု မှည့်ခေါ်ခြင်း ဖြစ်သည်။ ရွှေဘုံနိဒါန်းကို အမရပူရ ပဌမ မြို့တည်နန်းတည် ဘိုးတော်မင်းတရားကြီး လက်ထက် အိမ်ရှေ့အတွင်းဝန်၊ ရတနာပူရမြို့တောင် မဟာဇေယျပထ တန်တားဦးရွာ ဇာတိ သက္ကရာဇ် ၁၁၀၅ ခုနှစ်ဖွား ဇေယျသင်္ခယာ စီရင်ပြုစုခဲ့သည်။ သက္ကရာဇ် ၁၁၄၄ ခုနှစ်တွင်ဘိုးတော်ဘုရားသည် အမရပူရမြို့တော်သစ်ကို စတင်တည်ဆောက်၍ ၁၁၄၅ ခုနှစ်တွင် မြို့တော်သစ်သို့ ပြောင်းရွှေ့စံတော်မူရာ ဘိုးတော်ဘုရား၏ ထီးသစ် နန်းသစ် မြို့တော်သစ်ကို ချီးမြှောက်ဂုဏ်ပြုသောအားဖြင့် မော်ကွန်းရေးထိုးသော ကျမ်းစာစောင် ဖြစ်သည်။ ယင်းကျမ်းကို မြို့တော်သစ် ပြောင်းသည့် သက္ကရာဇ် ၁၁၄၅ ခုနှစ်တွင် ရေးသားပြီးစီးကြောင်းကို ကျမ်းနိဂုံး၌ "ရွှေဘုံနိဒါန်း စာစောင်သည် ကမ္ဘာပတ်လုံးတည်သော ကပ္ပဋ္ဌိတိ လေးပါးကဲ့သို့ သုဝဏ္ဏဝိမာနနိဒါန တံဆိပ်ခတ်သဖြင့် သိရိလက္ခ မာဿကာယေ သာသနာတော် ၂၃၂၇ ခုနှစ်၊ ကောဇာ ၁၁၄၅ ခုနှစ် ရောက်သောကာလ၌ 'ဝနပ္ပဂုမ္ဗေ ယထာ ဖုဿိတဂ္ဂေ၊ ဂိမှာနမာသေ ပဌမသ္မိံ ဂိမှေ' ပါဠိတော် ရှိသည်နှင့်အညီ၊ တောအုပ် သစ်ပင်တို့သည် အရင်းမှ အဖျားသို့ အရသာ တက်သော ဂိမှာန်အစ ပဌမဖြစ်သော တပေါင်းလဆန်း ၂ ရက် စနေနေ့ နေတက် နံနက်တချက်တီးအခါ၌ ရွှေဘုံနန်းတော်ကို ခိုလှုံ၍ မပင်မပန်း ရေးသားပြီးစီးပြည့်စုံ၏" ဟု ရေးသားခဲ့သည်။ ကျမ်းပြုဆရာသည် မြန်မာဘုရင်မင်းတို့၏ ရွှေလက်ထက်တော်၊ အထူးအားဖြင့် ဘိုးတော်ဘုရား၏လက်ထက်တော်၌ ပြည့်စုံ ထင်ရှားသော မင်းခမ်းမင်းနား အဆောင်အယောင်တို့ကို ပြဆိုလိုရင်း အာသီသဖြင့် ရေးသားပြုစုခဲ့ခြင်း ဖြစ်သည်။ ဤသည်ကို သတိပြုခြင်းအားဖြင့် ရွှေဘုံနိဒါန်းပါ မြို့ပြ ကျုံးမြောင်းနှင့်စပ်လျဉ်းသော အမှတ်အသားအမည်သညာတို့သည် ထိုကျမ်းမပြုစုမီတည်သော အင်းဝမြို့တော်နှင့်၎င်း၊ ကျမ်းပြုပြီး အနှစ် ၇၀ ခန့်ကြာမှ တည်သော မန္တလေးမြို့တော်နှင့်၎င်း တထပ်တည်း တိုက်ဆိုင် ညီညွတ်ခြင်း မရှိသည်ကို တွေ့ရပေမည်။ အခြားသော မင်းခမ်းမင်းနား အဆောင်အယောင်တို့သည်ကား ထီးနန်းစဉ်ဆက် လက်ခံလိုက်နာသုံးစွဲရိုး ရှိသည့်အတိုင်း ဤကျမ်းပါ

အခမ်းအနား အဆောင်အယောင်တို့သည် ဤကျမ်း မပြုစုမီ ရှေးနှင့် နှောင်းခေတ် အခမ်းအနား အဆောင်အယောင်တို့နှင့် ကွဲလွဲမှု မရှိလှချေ။

ရွှေဘုံနိဒါန်းတွင် အကြောင်းရပ်ကြီး ကိုးရပ်ပါဝင်သည်။ ယင်းတို့မှာ (၁) နန်းပြာသာဒ်ပလ္လင် အဆောင်အယောင်များ၊ (၂) မင်းခမ်းတော်များ၊ (၃) နေရာတော်များ၊ (၄) စည်တူရိယာများ၊ (၅) မင်းမှုထမ်းများ၊ (၆) လှေစု၊ (၇) ဖောင်စု၊ (၈) လှော်ကားစု၊ (၉) ပလ္လင်တော်တို့ ဖြစ်လေသည်။

နန်းပြာသာဒ် ပလ္လင် အဆောင်အယောင် အကြောင်းရပ်တွင် ပြာသာဒ်၊ သိကြားပေါက်၊ ကဒဏ်၊ မင်းဘုန်းပေါက်၊ နှာယောင်ခန်း၊ ရာဇပလ္လင်ဥကင်၊ သိကြားရုပ်၊ နဝရတ် ကိုးပါး၊ ခြင်္သေ့ရုပ်၊ တံခါးတိုင်၊ လောကနတ်၊ ဆင်ပျံ၊ ခြင်္သေ့ရုပ်၊ ပဒုမာကြာထက် သိကြားရုပ်၊ ဒေါင်းမြီးယပ်၊ ကိန္နရာ၊ ဆင်နားဇာ၊ ခြူးပန်းခြူးနွယ်၊ ဦးဆောက်ပန်း၊ မဟာဂီရိနတ်ကွန်းတို့အကြောင်း သိကောင်းစရာများကို ထည့်သွင်းရေးသားထားသည်။

မင်းခမ်းတော်များ အကြောင်းရပ်၌ သီဟာသန နေရာ၊ မင်းမြောက်တန်ဆာ ငါးပါး၊ ရတနာ ပန်းတောင်း၊ စလင့်ကြာ၊ ထွေးခံထွေးအင်၊ ကလပ်၊ ကွမ်းလောင်း ကြီးငယ်၊ ကျပ်၊ ကျပ်မြင်းမိုရ်၊ ကွမ်းခွက်၊ လက်တင်ကြား၊ ကွမ်းထည့် ကွမ်းချပ်၊ သလင်းမြောင်၊ သစ်တိုင်၊ ရွှေအိုးပျစ်၊ ရွှေမြူတာ၊ ရွှေတကောင်း၊ ရွှေဖလား၊ ရွှေကရား၊ ရွှေဖူး အတင်တော်ဘီလူးခံ၊ လကျာမင်းခမ်းတော်၊ လက်ဝဲ မင်းခမ်းတော်၊ ကွမ်းအုပ်၊ ထီး၊ ယပ်မား၊ မြေနန်း၊ ကြာချပ်၊ မြေလပ်၊ ပြောသား၊ တုရင်၊ ပြော စသည်တို့အကြောင်း ပါဝင်သည်။

နေရာတော်များ အကြောင်းရပ်၌ ပေါင်းတော်ဆောင်၊ လေသာဆောင် စသော အဆောင်တော်များ၊ သလွန်၊ သဠာလီ၊ မျက်နှာကြက်၊ ကြာယပ်၊ သလွန် ညောင်ရှက် စသည်တို့ အကြောင်းများ ပါဝင်သည်။

စည်တူရိယာ အကြောင်းရပ်၌ စည်တော်စုံ၊ နရည်း၊ ငွေမောင်း စသည်တို့အကြောင်း ပါသည်။

မင်းမှုထမ်းများအကြောင်း၌ ဝန်ကြီး၊ ဝင်းမှူး၊ ဝင်းကိုယ်ရံ၊ ဆောင်မှူး၊ မြို့ကွပ် စသည်တို့အကြောင်း ပါသည်။

လှေစုအကြောင်း၌ ပြည်ကြီးမှန် လှေ၊ လင်းဇင်း လှေ၊ ပိန်းကောလှေစသည်တို့အကြောင်းပါ၍၊ ဖောင်စုအကြောင်းရပ်၌ ပဋ္ဌရူပဖောင်မှ အစ ဒွိဒသရူပဖောင် အကြောင်း အထိ ပါသည်။

လှော်ကားစုတွင် လက်ရွေးကြီး လှော်ကားမှ အစ လှော်ကားပေါင်း ၃၀ အကြောင်း ပါသည်။

ပလ္လင်တော် အကြောင်းရပ်တွင် ရာဇပလ္လင် တဆဲ့နှစ်နေရာမှ အစ မာရဘင် အကြောင်းအထိ ပါရှိလေသည်။

ရွှေဘုံရွှေနန်း၌ အသုံးအဆောင် အခေါ်အဝေါ်များသည် ကာလရှည်ကြာသော် တိမ်မြုပ်ပျောက်ကွယ်သွားခြင်း မရှိစေရန် ရည်သန်၍ ရေးထားသောကျမ်း ဖြစ်သည်။

**ရွှေမော်ဓော ဘုရား။** ။ရွှေမော်ဓော ဘုရားသည် မြန်မာနိုင်ငံရှိ တန်ခိုးကြီး ဘုရားများအနက် တဆူအပါအဝင်ဖြစ်၍ သင်တိုင်းစေတီခေါ် မကိုဋ္ဌစေတီမျိုးဖြစ်သည်။ ပဲခူးမြို့၏ အရှေ့ပိုင်း ဟံသာကုန်း အစုတွင် အနောက်ဖက်ဆုံးကျသော ပဲကူး၊ သုဒဿန၊ မြင်းသီတာ၊ မရင်သိန္ဓု၊ မဓဝါ ဟူ၍ ခေတ်အလိုက် အမည်ပြောင်းခဲ့သော ကုန်းငယ်ပေါ်၌ ရွှေမော်ဓောစေတီ တည်ရှိသည်။ ယခုအခါ၌မူ ထိုကုန်းကို ရွှေမော်ဓောကုန်း ဟု အခေါ်များသည်။

ရွှေမော်ဓောစေတီ တည်သည့်နှစ်နှင့် ဌာပနာသည့် ပစ္စည်းအကြောင်းကို အမျိုးမျိုး ဆိုကြသည်။ အချို့က ဘုရား ပရိနိဗ္ဗာန် မစံမီကပင် တည်သည် ဟုရင်း၊ အချို့က ဘုရား ပရိနိဗ္ဗာန် စံပြီးမှ တည်သည် ဟုရင်း၊ အချို့က ဘုရား ဆံတော်ကို ဌာပနာသည် ဟုရင်း၊ အချို့က သွားတော်ကို ဌာပနာသည်ဟု ရင်း ရေးသားကြသည်။ သို့ရာတွင် ဘုရား ဒါယိကာမ ဟံသာဝတီ ဘုရင်မ ရှင်စောပုနှင့် သားမက်တော် ဘုရားဒါယကာ ဓမ္မစေတီမင်းတို့ ၈၂၄ ခုနှစ်တွင် ထိုးခဲ့သော မော်ဓောသမိုင်း ပါဠိကျောက်စာအရမူ သထုံမင်း စူဠ သိရိမာသောကသည် သာသနာနှစ် ၂၃၇ ခုလောက်တွင် ဘုရားရှင်၏ သွားတော်ဓာတ်ကို ဌာပနာကာ ရွှေမော်ဓော ဂန္ဓကုဋ္ဌိတိုက်ကို ရှေးဦးစွာ တည်ကြောင်း ထင်ရှားသည်။

မော်ဓောသမိုင်း ပါဠိကျောက်စာ၌ ပါရှိသည့် ရွှေမော်ဓောဘုရား သမိုင်းကား အောက်ပါအတိုင်း ဖြစ်သည်။

မြတ်စွာဘုရားသခင်သည် ဝါတော် ရှစ်ဝါ အရ အဋ္ဌနခုနှစ် ၁၁၁ ခုတွင် မိထိလာပြည်သို့ ကြွတော်မူ၏။ ဘုရားသခင်နှင့်အတူပါလာသော အရှင်ဂဝမ္ပတိ မဟာထေရ်သည် မိထိလာပြည်မှ ဖယ်ခွာခဲ့၍ သထုံပြည်ရှင် မဟာသိရိမာသောကမင်းထံ ကြွရောက်ပြီးလျှင် တရားစကားဖြင့် ဆုံးမကုံမြစ်၏။ သိရိမာသောကမင်းသည် တရားတော်ကို နာကြားရသောအခါ တရားအလုံးစုံကို အကုန်အစင် သိမြင်တော်မူသည့် ဘုရားသခင်အား ဖူးမြင်လိုသည့် ဆန္ဒ ဖြစ်၍ ဂဝမ္ပတိမထေရ်အား ဘုရားသခင်ကို ပင့်ပေးရန် တောင်းပန်လေသည်။ ဂဝမ္ပတိမထေရ်သည် မိထိလာပြည်သို့ ပြန်၍ ဘုရားသခင်အား အလုံးစုံ လျှောက်ကြားသောအခါ ဘုရားသခင်သည် ရဟန္တာနှစ်သောင်းနှင့်အတူ သထုံပြည် မဟာသိရိမာသောကမင်းထံ ကြွလာကာ တရားရေအေး တိုက်ကျွေးတော်မူလေသည်။ ကြွလာပြီးနောက် ခုနစ်ရက် လွန်မြောက်၍ သထုံပြည်မှ ပြန်ကြွတော်မူမည် ရှိသော် တရား



ရွှေမော်ဓော စေတီတော်မြတ်အား ကောင်းကင်မှ ဖူးမြင်ရစဉ်

နာလျက်ရှိသော ရသေ့ခြောက်ပါးက ဘုရားသခင်ကိုယ်စား ကော်ရော်ဖွယ်ရာ ထားခဲ့ရန် တောင်းပန် ကြသောအခါ ဘုရားသခင်က ဆံတော် ခြောက်ဆူကို ပေးတော်မူလေသည်။မဟာသိရိမာသောက မင်းကလည်း ကိုးကွယ်ဖွယ်ရာ ဆံတော်မြတ်ကို တောင်းသည့်အခါ ဘုရားသခင်က ဆံတော် ဓာတ်ကို မပေးဘဲ၊ "မလ္လာမင်း၏ အင်ကြင်းတောတွင် ငါ ပရိနိဗ္ဗာန် ပြုသည့်အခါ စန္ဒကူးထင်းပုံထက်၌ တင်၍ ဖုတ်ကြည်းကြကုန်လတ္တံ့။ ထိုအခါ ငါ၏ အဓိဋ္ဌာန်ဖြင့် ၃၃ ချောင်းသော သွားတော်ဓာတ်ကို စန္ဒကူးထင်းပုံထက်မှ ထုတ်၍ ဂဝမ္ပတိရဟန်းသည် ဆောင်ခဲ့လတ္တံ့။ ထိုဓာတ်ကို သင်မင်းကြီး ကော်ရော်ကြရကုန်လတ္တံ့" ဟု မိန့်တော်မူလေသည်။

ဘုရားသခင် ပရိနိဗ္ဗာန်စံ၍ စန္ဒကူးထင်းပုံထက် တင်ကာ ဖုတ်ကြည်းသောအခါ အဓိဋ္ဌာန်တော်ကြောင့် သွားတော်ဓာတ်ကို ဂဝမ္ပတိမထေရ်သည် ပင့်ဆောင်၍ သထုံပြည်ရှင် မဟာသိရိမာသောကမင်းအား ပေးလေသည်။ မင်းကြီးသည် ၃၃ ဆူသော သွားတော်ဓာတ်ကို ၃၃ ဆူသော ကျောက်စေတီငယ် ပြုစေ၍ ကိုးကွယ်လေသည်။ မဟာသိရိမာသောကမင်း လွန်သော် နှစ်ပေါင်း ၅၀ ခန့်လောက်သာ ထိုကျောက်စေတီများကို ကော်ရော်သူများ ရှိ၍ နောက် အနှစ် ၂၀၀ ခန့် ပစ်ပယ်ထားခြင်း ခံရသဖြင့် စေတီများသည် တောအတိ ဖုံးလွှမ်းသွားလေသည်။ သာသနာနှစ် ၂၃၆ ခုတွင် သထုံပြည်သို့ သာသနာပြု ကြွလာကြသော အရှင်သောဏနှင့် ဥတ္တရ မထေရ်နှစ်ပါး၏ ထုတ်ဖော်ချက်အရ သထုံပြည်ရှင် စူဠသိရိမာသောကမင်းသည် ၃၃ ဆူသော ကျောက်စေတီငယ်တို့မှ ၃၃ ဆူသော သွားတော်

ဓာတ်တို့ကိုထုတ်၍ နေပြည်တော်မှ အရှေ့မြောက်မျက်နှာ၌ မဝေးလွန်း မနီးလွန်းသော နေရာတွင် ၃၃ ခုသော ရွှေတိုက်တို့ကို ပြုစေ၍ ၃၃ ဆူသော သွားတော်ဓာတ်တို့ကို ရွှေကြုတ်တို့၌ ထည့်ကာ ရွှေအိုး ၃၃ လုံးဖြင့် ပိတ်၍ ရွှေတိုက်သွင်း၍ ပူဇော်သည်။ ထို့နောက် စူဠသိရိမာသောကမင်းသည် ဤသို့ အမိန့်ရှိ၏။ "ဤဓာတ်တော်တို့သည် ဘုရားသခင်၏ ဓာတ်တော်တို့ အမှန်စင်စစ် ဖြစ်ငြားအံ့၊ ထိုဓာတ်တော်တို့သည် သတ္တဝါတို့၏ စီးပွားချမ်းသာအလို့ငှာ ထိုက်သည့်အရပ်၌ ရွှေအိုးနှင့်တကွ တည်စေ ကုန်သတည်း"။ ယင်းသို့ အမိန့်ရှိပြီးသည်၏ အခြားမဲ့၌ သွားတော်ဓာတ် ၃၃ ဆူသည် ရွှေအိုးနှင့်တကွ ရွှေတိုက်၌ ကွယ်၍ ထိုထိုအရပ်တို့၌ တည်ကြကုန်၏။ ဟံသာဝတီမြို့၏ အနောက်မျက်နှာ၌ တည်သော စေတီကိုကား ရှေးသူဟောင်းတို့သည် မဓဝစေတီ၊ တနည်း မော်ဓော ဟု ခေါ်ဝေါ်ကြသည်။ နောက်လူတို့မှကား ထိုအတူ မဆိုမူ၍ "မဟာ်တဝ်" ဟုခေါ်ဝေါ်ကြကုန်၏။ သထုံမြို့ဟောင်းမှ ကေလာသစေတီ၊ သထုံမြို့သစ်မှ ရွှေစာရံစေတီ၊ ဇုတ်သုတ်မြို့မှ ဇုတ်သုတ်စေတီ၊ ယပ်မားမြို့မှ ကျိုက်ယပ်မား၊ စစ်တောင်းမြို့မှ ကျိုက်ကလံဗန်၊ ဘီးလင်းနယ် စရစ်မြို့မှ ကျိုက်စရစ်၊ သလွန်မြို့မှ ကျိုက်သလွန်၊ သူရဲမြို့မှ ကျိုက်သူရဲ၊ ကျောက်မော်မြို့မှ ကျိုက်ဘလင်၊ ကျောက်ပြာမြို့မှ ကျိုက်ဗောထွတ်၊ ကောလိယမြို့မှ ကျိုက်မုခလ၊ မောရဋ္ဌယမြို့မှ ကျိုက်မုပွန်၊ ဒင်မဲမြို့မှ ကျိုက်ခွက်၊ အခရိန်မြို့မှ ကျိုက်နုတ်၊ ကမော့နွတ်မြို့မှ ကျိုက်မုခိုင်၊ ဇုတ်ကနုတ်မြို့မှ ကျိုက်ဇုတ်ကနုတ်၊ မော်လမြိုင်မြို့မှ ကျိုက်သံလန်၊ ဘီလူးကျွန်း ခမောင်နတ်မြို့မှ ကျိုက်မူးနန်း၊ ဇာသပြင်မြို့မှ ကျိုက်ပိုင်ကြူ၊ မုတ္တမမြို့မှ ကျိုက်တမော (မြသိန်းတန်ဘုရား)၊ ကျိုက်ငေါ်မြို့မှ ကျိုက်ငေါ်၊ ကျိုက်ကာမြို့မှ ကျိုက်ကာ၊ ကျိုက်ရိုမြို့မှ ကျိုက်ရို၊ တင်စီမြို့မှ ကျိုက်တင်စီ၊ မုပ္ပလင်မြို့မှ ကျိုက်သလုံ၊ ဘီးလင်းမြို့မှ သောဏုတ္တရ၊ မိုးညက်မြို့မှ ကျိုက်မိုးညက်၊ မိုးနိုင်မြို့မှ ကျိုက်မိုးနိုင်၊ ကျိုက်ထိုမြို့မှ ကျိုက်ထို၊ မုက္ကဒူးမြို့မှ ကျိုက်ကဒူး၊ ကျိုက်ကော်မြို့မှ ကျိုက်ကော်၊ ရွှေဂွန်းမြို့မှ လေခလစ် စသော စေတီများသည် ကျန်သွားတော်ဓာတ် ၃၂ ဆူ တည်သော ဘုရားများဖြစ်ကြသည်။

မဓဝါမြို့သို့ ဘုရားသခင်၏ သွားတော်ဓာတ်တဆူ ရောက်သွားသည်ကို စူဠသိရိမာသောကမင်း သိလတ်သော် အနုမမည်သော အမတ်အား လွှတ်၍ တိုက်စေတီတဆူ တည်စေသည်။ အနုမ အမတ်သည် သွားတော်ဓာတ် တည်ရာ ရွှေအိုးကို ဆင်ပေါ်၌ တင်၍ တိုက်စေတီ တည်ထိုက်သော အရပ်တွင် ဆင်ဝပ်ပါစေသတည်းဟု အမိန့်ရှိကာ ဆင်ကို လွှတ်သော် ထိုဆင်သည် ဟသ်ာကုန်းတန်းမှ ဆင်း၍ အနောက်ဖက် မြင်းသီတကုန်းသို့ တက်ပြီးလျှင် ဝပ်လေ၏။ ထိုကုန်းကိုညှိပြီးလျှင် အမြင့် ရှစ်တောင်၊ အလျားအတောင် ၅၀၊ အနံ ၂၅ တောင် ရှိသော ခုံတုံးကို အုတ်ရင်ပြင်ပေါ်၌ တင်ပြီးမှ ယင်းအပေါ်၌ အလျား အတောင် ၄၀၊ အနံ အတောင် ၂၀၊ အမြင့် ရှစ်တောင် ရှိသော တိုက်စေတီကို ပြာသာဒ်နှင့်တကွ ပြု၏။ ပလ္လင်၌ ဘီလူးရုပ် ထုထားသော ဘီလူးရန်နိုင် ဗုဒ္ဓရုပ်ပွားကိုလည်း သွားတော်ဓာတ် ထည့်ရာ ရွှေအိုးနှင့်အတူ တိုက်စေတီတွင် ထား၍ ပူဇော်သည်။ ထိုတိုက်စေတီကို မဓဝါစေတီ ဟု သမုတ်ပြီးသော် သာသနာနှစ် ၂၃၈ ခုနှစ်တွင် ရေစက်ချ လှူဒါန်းသည်။

ယင်းသို့ တည်ပြီးနောက် မော်ဓောစေတီသည် ငလျင် အကြိမ်ကြိမ်မိ၍ ပြိုကျရာ အကြိမ်ကြိမ် ပြန်တည်ခဲ့ရသည်။ ရှင်ဥေယျဓမ္မ၏ ရွှေမော်ဓောသမိုင်းနှင့် သထုံရာဇဝင်အဆိုအရ သာသနာနှစ် ၃၄၇၊ ၄၅၄၊ ၅၃၂၊ ၅၆၆၊ ၆၀၈၊ ၆၉၇၊ ၇၇၅၊ ၈၄၃၊ ၉၃၁၊ ၁၀၀၄၊ ၁၀၇၁၊ ၁၁၅၉၊ ၁၁၉၆၊ ၁၂၈၀၊ ၁၃၅၇၊ ၁၄၁၉၊ ၁၅၃၀၊ ၁၆၀၃၊ ၁၇၀၅၊ ၁၈၁၃၊ ၁၈၃၀၊ ၁၈၉၂ ခုနှစ်များတွင် ၂၂ ကြိမ် တိုင်တိုင် ငလျင်ကြောင့် မော်ဓောတိုက်စေတီ ပြိုလေရာ၊ မင်းအဆက်ဆက်တို့ ပြန်လည် တည်ပေးရလေသည်။

သာသနာနှစ် ၁၈၉၂ ခုတွင် လှုပ်သော ငလျင်ကြီးကြောင့် မြင်းသီတကုန်းပေါ်ရှိ မော်ဓော တိုက်စေတီ အပါအဝင် စေတီ ၁၆ ဆူတို့သည် ပြုပြင်၍ မရအောင် ပျက်စီးခဲ့ရာ၊ ဟံသာဝတီပြည့်ရှင် ဗညားဦးသည် သာသနာနှစ် ၁၈၉၄ ခုတွင် မြင်းသီတကုန်း ဘုရား ၁၆ ဆူမှ ဓာတ်တော် ရုပ်ပွားတော်များကို တခုမကျန် ထုတ်နုတ်ပြီးလျှင် ပျက်ပြိုနေသော စေတီများ၏အကြားတွင် မြေဖြည့်၍ ပဌမ ရင်ပြင်တော်မှ ကိုးတောင် အမြင့်၌ ရင်ပြင်သစ် ခင်းပြီးလျှင် အလယ်တွင် တဆူတည်းသော သင်တိုင်းစေတီကို တည်လေသည်။ ဘုရားသခင်၏ သွားတော်ဓာတ်နှင့် ရုပ်ပွား စေတီအဟောင်း အသစ်များကို ဌာပနာလျက် မော်ဓောစေတီဟု အမည်ဟောင်းအတိုင်း ပြန်လည် သမုတ်တော်မူသည်။ စေတီ၏ ဥာဏ်တော် ၅၅ တောင်မြင့်လေသည်။ တိုက်စေတီဘဝက ၂၇ တောင်သာ မြင့်၏။ သာသနာနှစ် ၁၈၉၆ ခု သက္ကရာဇ် ၇၁၄ ခုနှစ်တွင် ရွှေချ ထီးတင်သည်။

သက္ကရာဇ် ၇၅၈ ခုနှစ်တွင် ငလျင်ကြောင့် ၂၃ ကြိမ်မြောက် မော်ဓောစေတီ ပြိုပြန်လေသည်။ ထိုအခါ ရာဇာဓိရာဇ်ဘုရင်သည် ခမည်းတော် ဗညားဦး၏ ၅၅ တောင်မြင့်သောမော်ဓောစေတီကို ငယ်သေးသည်ဟု တဆူလုံးပယ်၍ အတောင် ၇၀ မြင့်သော စေတီအသစ်ကိုတည်သည်။ သက္ကရာဇ် ၇၅၉ ခုနှစ် နတ်တော်လဆန်း ၅ ရက်နေ့တွင် မော်ဓောရှင် အသစ် အုတ်ရိုးတည် ရွှေချ ထီးတင်သော ကိစ္စများပြီးမြောက်သည်။ မော်ဓောစေတီသစ် ပန်းတင်ခုံများ၌ သက်စေ့ စေတီရံ ၄၈ ဆူ တည်တော်မူသည်။ ရှေးဌာပနာ

များကို ဌာပနာ အသစ်များနှင့်တကွ ပြန်၍ သွင်းတော်မူလေသည်။

၇၁၄ ခုနှစ်တွင် ရှင်စောပု နန်းတက်သည်။ ၇၁၉ ခုနှစ်တွင် မော်ဓောစေတီသည် ခေါင်းလောင်းပုံအဆုံးထိ လျှောင်ကြောင့် ၂၄ ကြိမ်မြောက် ပြိုပျက်လေသည်။ စေတီပျက်ကို ပဌမ ပစ္စယာ အရင်းထိ ဖယ်လိုက်ပြီးလျှင် ကျန်ပန်းတင်ခုံများကို ဖို့၍ အမြင့် အတောင် ၁၅၀ ရှိသော မော်ဓောစေတီသစ်ကို သားမက်တော် ဓမ္မစေတီမင်းနှင့် သက္ကရာဇ် ၈၂၀ တွင် ပြန်တည်ရာ ၈၂၄ ခုနှစ်၌ အောင်မြင်ပြီးစီးသည်။ ဘီလူးရန်နိုင် ဗုဒ္ဓရုပ်ပွားကို ပျက်စီးမည်စိုး၍ မြောက်ဖက်ပန်းတင်ခုံအတွင်း သွင်းကာ ဌာပနာတော်မူသည်။ ထိုရုပ်ပွားရှိရာကို သိစေရန် ခေါင်းလောင်းပုံထိပ် မြောက်အရပ်တည့်တည့် ပန်းဆွဲတွင် ဘီလူးရုပ် ထည့်၍ သွင်းစေသည်။ သီဟိုဠ်မှ ဘုရားဆံတော် တဆူကိုလည်း မော်ဓောစေတီ အရှေ့တောင်မှ ဖောက်၍ ထည့်ကာ ဌာပနာသည် ဟု ဓမ္မစေတီ အတ္ထုပ္ပတ္တိ၌ ဆိုသည်။ ထိုခေတ်တွင် ရွှေမော်ဓောစေတီသည် မြန်မာတပြည်လုံးတွင် ဥာဏ်တော်အမြင့်ဆုံးသင်တိုင်းစေတီ ဖြစ်လာလေသည်။

သက္ကရာဇ် ၉၂၆ ခုနှစ် သိတင်းကျွတ်လဆန်း ၂ ရက်နေ့တွင် လျှောင် ကြီးစွာ လှုပ်ပြန်ရာ မော်ဓောစေတီသည် ဟင်းရဲဖူးအရင်းနားထိ ပြိုလေသည်။ ယင်းလဆန်း ၃ ရက်နေ့တွင်လှုပ်ပြန်ရာ လည်ပေါ မှသည် အောက်ဆုံးဖောင်းရစ်အထိ ပြိုပြန်သည်။ ယင်း လဆန်း ၄ ရက်နေ့တွင် လျှောင်လှုပ်ပြန်ရာ ခေါင်းလောင်းပုံ နှစ်ခြမ်းကွဲ၍ အရှေ့တောင်နှင့် အရှေ့မြောက်ဖက်သို့ ပြိုကျလေသည်။ ဤကား ၂၅ ကြိမ်မြောက် မော်ဓောစေတီ ပြိုခြင်းဖြစ်သည်။ ယင်းသို့ ပြိုလေသည်ကို ဘုရင့်နောင် မင်းတရားကြီးသည် ဗညားအိန္ဒ၊ ဗညားပရံ၊ တရဖျား၊ တာနေန္တဘယသကြံတို့ကို ရွှေမော်ဓောစေဘီ ပြင်ရန် ခန့်တော်မူသည်။ ဓမ္မစေတီမင်း၏စေတီဟောင်း ပုံတော်အတိုင်း ဥာဏ်တော် အတောင် ၁၅၀ ပင် ပြန်လည် တည်စေသည်။ ပန်းတင်ခုံတွင်သာ ၁၄ တောင် ဖွင့်တည်စေသည်။ ၉၂၇ ခုနှစ် ဒုတိယ ဝါဆိုလပြည့်ကျော် ၅ ရက်နေ့တွင် စတင် တည်သည်။ ကောင်းမှုတော် မဟာစေတီအရှေ့ မနုရမာချောင်းနား အုတ်ဖိုများမှ အုတ်ကို မော်ဓောဘုရားတိုင်အောင် လမ်းတဖက်တချက် လူများနေ၍ လက်ဆင့်ကမ်းရသည်။ ပန်းတရော်မှ အုတ်များကိုလည်း ထိုနည်းတူ ရွှေမော်ဓောဘုရား တိုင်အောင် လက်ဆင့်ကမ်းရသည်။ မင်းတရားကြီးသည် ရွှေထည့်စရာ စားတော်ခေါ် သော အဆောင်အယောင်မင်းခမ်းမင်းနားတို့ကို ဖျက်၍ ရွှေကိုယ်လေးတော် ၅၃ ပိဿာ လှူတော်မူသည်။ သားတော်သိဃ်ဒတ္တကိုယ်လေး ရွှေ ၂၀ ပိဿာ ရွှေမော်ဓောဘုရားတွင် ရွှေထည့်စရာ လှူတော်မူသည်။ သက်တော်စေ့စေတီရံ ၅၂ ဆူလည်း လုပ်တော်မူသည်။ ရင်ပြင်တော်ကို ဓမ္မစေတီမင်း ရင်ပြင်အထက် တစ်ပေ နှစ်လက်မ မြှင့်တင်သည်။ မဟာရံတန်တိုင်းလည်း ဆောက်တော်မူသည်။ ၉၂၉ ခုနှစ် နယုန်လပြည့်ကျော် ၂ ရက်နေ့တွင် မော်ဓောစေတီနှင့်တကွ စေတီရံ ၅၂ ဆူကို ထီးများတင်တော်မူသည်။ ဆင်တော်မူသော မကိုဋ်တော်ကိုလည်း မော်ဓောရှင်အား လှူတော်မူသည်။

၉၃၂ ခုနှစ် ကဆုန်လတွင် မော်ဓောစေတီ၏ ဟင်းရဲဖူးလျှောင်ကြောင့် ၂၆ ကြိမ်မြောက်ပြိုခဲ့သည်ကို သိတင်းကျွတ်လပြည့်ကျော် ၂ ရက်နေ့ ပြန်လုပ်ရသည်။ ယင်းနှစ် တန်ခူးလပြည့်နေ့တွင် အလုံးစုံပြီး၍ ထီးသစ် တင်တော်မူသည်။ ၉၄၄ ခုနှစ် သိတင်းကျွတ်လတွင် လျှောင်ကြီး လှုပ်သောကြောင့် မော်ဓောစေတီ ၂၇ ကြိမ်မြောက် ပြိုပြန်သည်။ ခေါင်းလောင်းပုံအထိ ပျက်စီးသည်ကို ဘုရင့်နောင် သားတော်ကြီး နန္ဒဘုရင်က တဖြည်းဖြည်း ပြန်တည်ရာ ၉၅၀ ပြည့်နှစ် ဝါဆိုလဆန်း ၁၁ ရက်နေ့တွင် ထီးတော်အသစ်တင်နိုင်တော်မူသည်။ ၉၆၀ ပြည့်နှစ်တွင် ဟံသာဝတီနေပြည်တော်ကို ရခိုင်မင်း တပ်များက မီးတိုက်ရာ တမြို့လုံး မီးဟုန်းဟုန်းတောက်ကာ မော်ဓောစေတီကို မှိုင်းစွဲလေသဖြင့် စေတီတော်၏ ရွှေသင်္ကန်းရောင်သည် အိုးမည်းသုတ်ထားသကဲ့သို့ မတင့်မတယ် ဖြစ်ရလေသည်။ သို့ရာတွင် နိုင်ငံတော်အတွင်း စစ်မက်အရေး ရှုပ်ထွေးနေသဖြင့် စေတီတော်အား မပြုပြင်နိုင်ဘဲ ရှိခဲ့ရာ၊ ၉၇၅ ခုနှစ် တပေါင်းလတွင်မှ အနောက်ဖက်လွန်မင်းက ကိုယ်လုံးပြည့် ရွှေသင်္ကန်း ကပ်တော်မူသဖြင့် ၁၅ နှစ်တိုင် ညှိုးနွမ်းခဲ့သော မော်ဓောရှင်သည် ရွှေရောင်တဝင်းဝင်းနှင့် တင့်တယ်တော်မူလာလေသည်။ ၉၉၅ ခုနှစ်တွင် သာလွန်မင်းတရားကြီးက တဖန် ဖိနပ်တော်မှ ဟင်းရဲဖူးအဆုံး ရွှေချတော်မူပြန်သည်။

သက္ကရာဇ် ၁၀၀၆ ခုနှစ် ပြာသိုလဆန်း ၉ ရက်နေ့တွင် လျှောင်ကြီး ပြင်းစွာ လှုပ်၍ ရွှေမော်ဓောစေတီ ၂၈ ကြိမ်မြောက် ပြိုပျက်ရပြန်သည်။ ဒုတိယ ဖောင်းရစ်ထိ ပြိုလေသည်ကို သာလွန်မင်းတရားကြီးပင် ပြန်လည် တည်ဆောက်၍ ထီးတော်အသစ် တင်လှူတော်မူသည်။

သက္ကရာဇ် ၁၁၃၀ ပြည့်နှစ် ပြာသိုလပြည့်ကျော် ၅ ရက်နေ့တွင် ဆင်ဖြူရှင် မြေဒူးမင်းလက်ထက် လျှောင် ကြီးစွာလှုပ်၍ မော်ဓောရှင် သပိတ်မှောက်တိုင်အောင် ၂၉ ကြိမ်မြောက် ပြိုပျက်ပြန်သည်။ ဆင်ဖြူရှင်မင်းသည် မော်ဓောရှင်ကို မပြင်နိုင်မီ နတ်ရွာစံလေသည်။ စဉ့်ကူးမင်းလည်း စေတီပြင်ရန် အထမမြောက်ဘဲ ဘိုးတော်ဘုရား လက်ထက်ကျမှ ပြုပြင်ဖြစ်သည်။ ၁၁၄၈ ခုနှစ်တွင် မော်ဓောရှင်ကို စတင်ပြုပြင်ရာ ၁၁၅၁ ခုနှစ်တွင် ထီးတော် အောင်မြင်စွာ တင်ပြီးသည်။ စေတီတော် အမြင့် ၁၉၈ တောင် နှစ်မိုက်၊

ထီး ငှက်မြတ်နား ရောင်လျှံထိပ်ထိ အမြင့် ၂၂၃ တောင် နှစ်မိုက် ဖြစ်သည်။ စေတီတော်ကြီး၌ ဌာပနာတိုက်ပေါင်း ၁၄၅ တိုက်ပြုသည်။ ရွှေသွန်း ဆင်းတု ၃၆ ဆူ၊ ရွှေခတ် ဆင်းတု ၁၆၈၊ ငွေသွန်း ဆင်းတု ၃,၅၄၁၊ ငွေခတ် ဆင်းတု ၃,၇၅၁၊ ခဲ ဆင်းတု ၁၉,၃၆၁၊ နှံသာ ဆင်းတု ၃၀၊ ကျောက် ဆင်းတု ၈,၁၂၉၊ မြေ ဆင်းတု ၁၅၇၊ ဖန်ဆင်းတု ခုနစ်၊ ပန်းပေါင်းဆင်းတု နှစ်၊ ဆင်စွယ်ဆင်းတု ၁၄၊ ပယင်းဆင်းတု ၁၀၆၊ မြ ဆင်းတု တစ်၊ မိုးကြိုး ဆင်းတု နှစ်၊ သစ် ဆင်းတု ၃၄၊ ကရမက်ဆင်းတု ခြောက်၊ ပြဒါးသေ ဆင်းတု ခြောက်၊ ကြေး ဆင်းတု ၁,၉၈၃၊ ကျောက်စိမ်း ဆင်းတု ကိုး၊ ရွှေ အုတ်ချပ် ၂၅၊ ငွေအုတ်ချပ် ၂၅၊ ဖန်အုတ်ချပ် ၁၀၊ ခဲအုတ် ချပ် ၅၆၂၊ ကြေးအုတ် ၄၃၆၊ အင်္ဂတေအုတ် ၈၂၉၊ သန္တာ ၃၇ လုံး၊ ရာဇူကျောက် ၇၁၉ လုံး၊ ရွှေလက်စွပ် ၅၂ ကွင်း၊ ငွေလက်စွပ် ၃၂၄ ကွင်း၊ ဘုရားနှင့် ရဟန္တာ ဓာတ်တော် ၁၁,၂၄၃ ဆူ တို့ကို ဌာပနာသည်။ ရင်ပြင်တော်ကို နှစ်ပေ လေးလက်မ မြင့်၍ ခင်းသည်။ ဘိုးတော်မင်းတရား၏ ရင်ပြင်သည် စေတီတော်၏ ပဌမ ရင်ပြင် ဖြစ်သည်။ ရင်ပြင် ပေါ်၌ ပရိဘောဂတိုက်နှင့် ပဌာန်းစရပ်သာ ထားရာ ရင်ပြင်တော် ကျယ်ပြန့်ရှင်းလင်းသည်။

မြန်မာနိုင်ငံကို ဗြိတိသျှတို့ သိမ်းပိုက်ပြီးနောက် စေတီတော်ကို စောင့်ရှောက်လှူဒါန်းမည့် မင်းများ မရှိတော့သော်လည်း ပြည်သူပြည်သား ရှင်လူအများက တတ်အားသမျှ လှူဒါန်းပူဇော်ခဲ့သည်။ ၁၂၃၇ ခုနှစ်တွင် ပဲခူးမြို့ စစ်ကဲ ဦးမောင်ကလေး ခေါင်းဆောင်၍ ငှက်မြတ်နား အသစ် တင်ပွဲ ကျင်းပခဲ့သည်။ ၁၂၄၄ ခုနှစ်တွင် ဘိုးတော်ဘုရား၏ ထီးကို ချ၍ ကန္တာရဝတီ စော်ဘွားကြီး စဝ်လဖော် သခင်နှင့် သခင်မ နှစ်ပါးတို့၏ ထီးတော်သစ်ကို တင်လှူခဲ့ကြသည်။ ၁၂၇၄ ခုနှစ် တပို့တွဲလဆုတ် ၁၄ ရက်နေ့တွင် မြေလျှင်ကြီး လှုပ်ပြန်ရာ အကြိမ် ၃၀ မြောက် မော်ဓောရှင် ပျက်ရပြန်သည်။ ထီးတော်သံတိုင် ကျိုး၍ ငှက်မြတ်နားနှင့် စိန်ဖူးသည် ပဌမကြေးဝိုင်းသို့ ရောက်အောင် စျာန်သက် မြေခဲ့လေသည်။ ၁၂၇၆ ခုနှစ် ဦးတန်ခူး လပြည့်ကျော် ၈ ရက်နေ့တွင် တိုင်းသူပြည်သား ရှင်လူအများ၏ ကောင်းမှု ငှက်မြတ်နား စိန်ဖူးတော် အသစ်ကို မော်ဓောရှင်အား တင်လှူကြသည်။

၁၂၇၉ ခုနှစ် ဝါဆိုလပြည့်ကျော် ၂ ရက်နေ့တွင် တဖန် လျှင်ကြီးစွာ လှုပ်ပြန်ရာ မော်ဓောရှင်၏ တတိယဖောင်းရစ်မှ အထက်ပိုင်းသည် အရှေ့အရပ် ရင်ပြင်ပေါ်သို့ ၃၁ ကြိမ်မြောက် ပြိုပျက်ကျခဲ့သည်။ ၁၂၈၅ ခုနှစ်တွင် ပြည်သူပြည်သား ရှင်လူအများတို့ စုပေါင်း ဆောင်ရွက်မှုကြောင့် ဘိုးတော်မင်းတရား၏ စေတီအချိုးအတိုင်း တတိယ ဖောင်းရစ်မှ ပြန်တည်လာပြီးလျှင် ငှက်ပျောဖူးကျမှ လေးတောင်တိုး တည်လိုက်သောကြောင့် ၂၀၂ တောင် နှစ်မိုက် မြင့်သော မော်ဓောရှင် အသစ် အောင်မြင်စွာ တည်ဆောက်ပြီးခဲ့သည်။

၁၂၉၂ ခုနှစ် ကဆုန်လဆန်း ၉ ရက်နေ့တွင် လျှင်ကြီးစွာ လှုပ်ပြန်ရာ ၃၂ ကြိမ်မြောက် မော်ဓောရှင် ပြိုပျက်ရပြန်သည်။ စေတီတော်၏ အရှေ့တောင်ထောင့် ရင်ပြင်ပေါ်သို့ ခေါင်းလောင်းပုံ တခြမ်း ထိအောင် ပြိုပျက်ခဲ့ရာ ထိုနှစ်မှ စ၍ မော်ဓောရှင် ပြန်တည်ရေးအတွက် ဘုရားဘဏ္ဍာတော်ထိန်း ဂေါပကလူကြီးများ အားထုတ်ခဲ့သော်လည်း အကြောင်းအမျိုးမျိုးကြောင့် မအောင်မြင်ခဲ့ချေ။ ဒုတိယ ကမ္ဘာစစ်ကာလ ၁၃၀၄ ခုနှစ်မှ ၁၃၀၇ ခုနှစ်အတွင်း ရွှေမော်ဓောစေတီကို ဖြစ်သလို ပြန်လည် တည်မည် ဟု ဘဏ္ဍာတော်ထိန်းလူကြီး ၁၉ ဦးနှင့် မြို့မိမြို့ဖ ရှင်လူအပေါင်း ဆုံးဖြတ်ကြပြီးလျှင် စေတီတော်ကြီး၏ အင်္ဂါရပ်မျက်နှာမှ စ၍ အုတ်ရိုး စီခဲ့ကြသည်။ သို့သော် ဗိလတ်မြေ ရှားပါးလှသောကြောင့် တည်ဆောက်ရေးလုပ်ငန်း မတွင်ကျယ်ချေ။ ၁၃၀၇ ခုနှစ်တွင် မြန်မာနိုင်ငံကို ဂျပန်လက်မှ ဗြိတိသျှ ပြန်အသိမ်းတွင် တည်ဆောက်ရေး ခေတ္တရပ်ဆိုင်းထားရသည်။

၁၃၀၉ ခုနှစ် ပြာသိုလပြည့်ကျော် ၉ ရက်နေ့တွင် မြန်မာနိုင်ငံ လွတ်လပ်ရေးရပြီးနောက် ထိုနှစ် တပို့တွဲလဆန်း ၁၄ ရက်နေ့တွင် ထိုစဉ်က နိုင်ငံတော်သမတကြီး စဝ်ရွှေသိုက် ကိုယ်တိုင် ရွှေမော်ဓောစေတီ ပြန်လည်တည်ဆောက်ရန် ပန္နက်သံ ချပေးသည်။ သို့ရာတွင် အကြောင်းမညီညွတ်သဖြင့် သုံးနှစ်ကျော်မျှ လုပ်ငန်း အကောင်အထည် မပေါ်ဖြစ်ခဲ့ရသည်။ ထိုနောက် ၁၃၁၃ ခုနှစ် ဦးတန်ခူး လဆန်း ၁၄ ရက်နေ့တွင် စေတီတော်သစ် အုတ်မြစ်ကို ရင်ပြင်တော် အနောက်မျက်နှာ အရှေ့ခံ တန်ဆောင်း၏ တောင်ဖက် အနီး၌ ထိုစဉ်က ဝန်ကြီးချုပ် ဦးနု ချပေးလေသည်။ ၁၃၁၃ ခုနှစ် တန်ဆောင်မုန်းလပြည့်ကျော် ၉ ရက်နေ့မှ စ၍ သံရိုး ကျောက်ကျစ် အင်္ဂတေကို ရင်ပြင်တော်အောက် ၁၃ ပေခွဲ ထိ အနက်တူး၍ ချသည်။ စေတီတော်၏ ဌာပနာများကို စံနစ်တကျ တူးဖော်ကာ ပြတိုက် ထူထောင်၍ စုဆောင်း ပြသထားသည်။ ၁၃၁၅ ခုနှစ် နတ်တော်လပြည့်ကျော် ၉ ရက်နေ့တွင် စေတီတော် သံထည် အုတ်ထည် အပြီးတိုင် အောင်မြင်သည်။ ရွှေ၊ ငွေ၊ ကြေး၊ ခဲ၊ ကျောက်၊ ဆင်စွယ်၊ သစ်သား ဗုဒ္ဓရုပ်ပွား အသစ်အဟောင်းပေါင်း ၂၀,၀၀၀ ကျော်ကို ခေါင်းလောင်းပုံအတွင်း ဌာပနာသွင်းသည်။ ၁၃၁၅ ခုနှစ် နှောင်းတန်ခူးလဆန်း ၈ ရက်နေ့ မှစ၍ ရွှေချ ငွေထီးတော် ငါးဘုံနှင့် ရွှေရေစိမ် ငွေဆည်းလည်း လုံးရေ ၁၂၀ ကို စက်ရထားပုံနှင့် လေးရက်တိုင်တိုင် တင်သည်။ နှောင်းတန်ခူးလဆန်း ၁၂ ရက်နေ့တွင် ရွှေကွပ် ငွေဆတ် သွားဖူးကို တင်၍ လဆန်း ၁၃ ရက်နေ့တွင် ငှက်မြတ်နား

နှင့် စိန်ဖူးကို အောင်မြင်စွာ တင်ပြီးသည်။ ထီးတော်မှစ၍ စိန်ဖူးတင် အခမ်းအနားကို ထိုစဉ်က နိုင်ငံတော်သမတကြီး ဒေါက်တာ ဦးဘဦး အမှူးရှိသော ဝန်ကြီးများက ကြီးမှူး ဆောင်ရွက်ကြသည်။ ဤ ၃၃ ကြိမ်မြောက် အသစ် ပြန်လည် တည်ဆောက်သော မြန်မာ့ လွတ်လပ်ရေးခေတ် ရွှေမော်ဓောစေတီသည် ဥဿာဘ်တော် ၃၇၃ ပေ ကိုးလက်မ မြင့်လေသည်။

ရွှေမော်ဓောဘုရားသည် လျှောင်လှုပ်သော မြေကြော ပေါ်တွင် တည်ခဲ့သဖြင့် ၃၂ ကြိမ်တိုင်တိုင် ပြိုပျက်ခဲ့သော ကြောင့် မြန်မာ့လွတ်လပ်ရေးခေတ် ရွှေမော်ဓော ပြန်လည် တည်ဆောက်ရေးအဖွဲ့က လျှောင်ဒဏ်မခံနိုင်သော အုတ်ရိုး သက်သက် စေတီမျိုးကို မတည်ဘဲ သံရိုးခံ ကျောက်ကျစ် အင်္ဂတေနှင့် အုတ်ရိုး ဖက်စပ်၍ တည်ခဲ့သည်။

ရွှေမော်ဓော စေတီတော်ကို မင်းအဆက်ဆက်တို့သည် အထူးအမြတ် လေးစား ကိုးကွယ်ခဲ့ကြသည်။ ဟံသာဝတီ ဗညားဦး၏သားတော် ဗညားနွဲ့သည် ရာဇာဓိရာဇ် ဘွဲ့နှင့် ဘိသိက်ခံပြီးနောက် မော်ဓောရှင်သို့တက်၍ ခမည်းတော်၏ အမွေဖြစ်သော မကိုဋ်ကို ဘီလူးရန်နိုင် ဗုဒ္ဓရုပ်ပွားမှ တဆင့် မော်ဓောရှင်သို့ လှူသည်။ စစ်ချီ စစ်တက် ပြုမည့်အခါ လည်း မော်ဓောဘုရား၌ ရှိခိုးဆုတောင်းသည်။ တောင်ငူ ဘုရင် တပင်ရွှေထီးသည် မြန်မာတနိုင်ငံလုံးကို စည်းရုံးခြင်း မပြုမီ ဇေယသတ္တရူမြင်းကိုစီး၍ မြင်းတပ် ရဲဘော် ၁၀၀ နှင့် ရွှေမော်ဓောသို့ တောင်ငူမှ လာပြီးလျှင် ဘီလူးရန်နိုင် ရုပ် ပွား ဌာပနာသော မြောက်အရပ် အရုဏ်ခံ တန်ဆောင်း တွင် နားထွင်းမင်္ဂလာ ပြုသည်။ စစ်ရေး နိုင်ငံရေး၌သာ မဟုတ်၊ မော်ဓောရှင်သည် အချစ်ရေးအတွက်လည်း တိုင် တည် ဖွဲ့နှဲခံခဲ့ရသည်။ ဘုရင့်နောင်၏ တူတော် ပဋ္ဌသိဟက ဘုရင့်နောင် သမီးတော် စိုးမင်းမြတ်လှအား ပေးသော နဝဒေးကြီး စပ်ဆိုသည့် ဟံသာဝတီ ရွှေမော်ဓောသို့ ပဋ္ဌ သိဟတိုင်ရတုနတ်ရှင်နောင်က ရာဇမာတုကလျာအားပေး သော မော်ဓောရှင်တိုင် ရတုတို့ကား ထင်ရှားရှိနေသည်။

ရွှေမော်ဓော ဘုရားပွဲတော်ကို နှစ်စဉ် တန်ခူးလတွင် ကျင်းပပြုလုပ်ရာ အထူးပင် စည်ကားသည်။

**ရွှေမုဋ္ဌောဘုရား။** ။မြန်မာနိုင်ငံ တန်ခိုးကြီးဘုရားများ အနက် တဆူ အပါအဝင် ဖြစ်သော ရွှေမုဋ္ဌောဘုရားသည် ပုသိမ်မြို့လယ် ဈေးအနီးတွင်တည်ရှိသည်။ မြေပေါက်စေတီ ဖြစ်သည့်ပြင် ပုသိမ်မြို့၏ အထင်ရှားဆုံးဘုရား ဖြစ်သည်။

စေတီတော် သမိုင်း အဆိုအရ ရွှေမုဋ္ဌောဘုရားကို သာ သနာ သက္ကရာဇ် ၂၁၈ ခုနှစ် တပေါင်းလပြည့်နေ့ လ ငယ် ဖမ်းသောအခါတွင် သီရိဓမ္မာသောကမင်း တည်သည် ဟု ဆိုသည်။ သီရိဓမ္မာသောကမင်းလက်ထက် တည်စက ရွှေ



ပုသိမ်မြို့ရှိ ရွှေမုဋ္ဌောဘုရား

အဘာ စေတီ ဟု တွင်၍ ၄၅၇ ခုနှစ်တွင် အလောင်းစည် သူမင်းကြီး ပြန်လည် ပြုပြင်ပြီးသောအခါ ထူပါရုံစေတီ ဟု သမုတ်သည်။ ၆၂၅ ခုနှစ်တွင် သမုဒ္ဒဃောသ မင်းနှင့် ဥမ္မာဒန္တီ မိဖုရားတို့ တိုးချဲ့ တည်ပြီးသောအခါမှ ရွှေမုဋ္ဌော ဟု အမည်တွင်ခဲ့ခြင်း ဖြစ်လေသည်။

သီရိဓမ္မာသောကမင်းသည် စေတီပေါင်း ၈၄,၀၀၀ တည် သည့်အနက် ဘုရားအလောင်း ရွှေငါးကြင်း ဖြစ်စဉ် တ ကြိမ်၊ ဝက်မင်း ဖြစ်စဉ် တကြိမ် နေထိုင်ကျက်စားဘူးရာ ပုသိမ်မြို့ထိပ် ကမ်းနဖူး တောင်ဦးအခင်း ကျောက်သလင်း အမြင့်အပံ့ပေါ်တွင် ဘုရားတဆူ တည်သည်။ တည်စဉ်က ဒက္ခိဏသာခါ မိုက်ပြည့်တဆူလျှင် ရွှေမယ်န လေးဌာနစီ စွဲ၍ ဓာတ်တော်၊ မွေတော်၊ အံတော်၊ ဆံတော်၊ ညှပ်ရိုး တော်များပါ ဌာပနာသည်။ လုံးပတ် သုံးတောင်၊ အမြင့် ငါးတောင်ရှိသည်။

သက္ကရာဇ် ၄၅၇ ခုနှစ်တွင် အလောင်းစည်သူမင်းသည် တိုင်းခန်းလှည့်လည်ရာမှ အပြန် ပုသိမ်မြို့သို့ ဝင်ရာတွင် သီရိဓမ္မာသောကမင်းကြီး တည်ထားခဲ့သော ရွှေအဘာ ဘုရားကို ထပ်မံ မြင့် မြှောက်ပြီးလျှင် ထူပါရုံဟု သမုတ် သည်။ ထိုအခါ စေတီတော်၏ လုံးပတ် ၁၂ တောင်၊ အမြင့် ၁၅ တောင် ရှိ၏။ ထီးနှင့်သော် ၂၄ တောင် ရှိသည်။

တဖန် ပုသိမ် ၃၂ မြို့ကို စိုးမိုး အုပ်ချုပ်တော် မူသော သမုဒ္ဒဃောသမင်းနှင့် ဥမ္မာဒန္တီ မိဖုရားကြီးတို့ လက်ထက်

သက္ကရာဇ် ၆၂၅ ခုနှစ်တွင် မွေတော်တဆူ၊ ဆံတော် ရှစ်ဆူ၊ သွားတော်လေးချောင်း၊ ဘုရားပွင့်တော်မူရာ ဗောဓိညောင်ပင်မှ ဥသျှစ်သီးခန့် ပမာဏရှိ ညောင်သီးတို့ကို ရွှေကြုပ်၌ ထည့်၍ လုံးပတ် သုံးတောင်၊ အမြင့် ခုနစ်တောင် ရှိသော ပတ္တမြားစေတီတော်တွင် သွတ်သွင်းပြီးလျှင် ထိုပတ္တမြားစေတီတော်ကို ဌာပနာလျက် အလောင်းစည်သူမင်း တည်ခဲ့သော ထူပါရုံစေတီကို ပြုပြင် မွမ်းမံ တည်ထားတော်မူသည်။ ဘုရားဘွဲ့တော်ကို သီရိဓမ္မာသောကမင်းကြီး အမိန့်ဖြင့် ရွှေစေတီမိုက်ပြည့် ၈၄,၀၀၀ အနက်မှ တဆူ ဌာပနာရင်းစွဲရှိသည်ကို အကြောင်းပြု၍ ရွှေမုဋ္ဌောဟု သမုတ်တော်မူသည်။ မိုက်ကို ပါဠိဘာသာ မုဋ္ဌိခေါ်သဖြင့် မုဋ္ဌိသဒ္ဒါမှ မုဋ္ဌော ဖြစ်လာသည်။

ရွှေမုဋ္ဌောဘုရား၏ ခြေတော်ရင်း တောင်ဖက်အရပ်တွင် ဘုရားပူဇော်ရန် ပန်းဆေးရသော ချောင်းကို ပန်းဆေးချောင်းဟု ခေါ်သည်။ ယခု ဈေးချောင်း တွင်၏။ ဥမ္မာဒန္တီ မိဖုရားကြီး ဘုရားအား ပန်းပူဇော်ရန် တင်သည့်ကုန်း (မီးရထား ဘူတာရုံကုန်း) ကို ပန်းတင်ကုန်းဟု ခေါ်လေသည်။

သမုဒ္ဒဃောသမင်းနှင့် ဥမ္မာဒန္တီမိဖုယားကြီးတို့ နောက်တွင် စစ်ကိုင်းမင်း (ဘကြီးတော်ဘုရား) သည်ရင်း၊ ပုဂံမင်းသည်ရင်း၊ မင်းတုန်းမင်းသည်ရင်း ထီးတော်တင်လှူခြင်း၊ ရွှေလုံးတော်ပြည့် ကပ်လှူခြင်းနှင့် အခြားပူဇော်သက္ကာပြုခြင်း တည်းဟူသော ကောင်းမှုတော်တို့ကို အဆက်ဆက် ပြုခဲ့ကြသည်။ ထိုပြင် ပုသိမ်မြို့ဝန် အဆက်ဆက်ကလည်း စေတီကြီးအား ထိန်းသိမ်း စောင့်ရှောက် ကိုးကွယ်ခဲ့ကြသည်။

ဒုတိယ အင်္ဂလိပ်–မြန်မာ စစ်ပွဲ ပြီးဆုံးသွား၍ ပုသိမ်မြို့သည် ဗြိတိသျှတို့လက် ရောက်ရှိသွားပြီးနောက် ဗြိတိသျှအစိုးရခန့် စစ်ကဲတော်မင်းများသည်ရင်း၊ ဗုဒ္ဓအယူဝါဒီ မြို့မိမြို့ဖတို့သည်ရင်း ဆက်လက် ထိန်းသိမ်း စောင့်ရှောက် ကိုးကွယ်ခဲ့သည်။ ယခုတည်ရှိသည့်အတိုင်းဖြစ်သော မြေမှ ခရားသီးအဆုံးထိ ၇၇ တောင်၊ ထီးရပ် ၂၃ တောင်၊ နှစ်ရပ်ပေါင်း တရာ၊ လုံးပတ်တော် ၂၀၇ တောင်နှင့် ဖိနပ်တော် ၂၇၂ တောင် အသီးအသီးရှိသော ဥဘက်တော်၊ လုံးဝန်းပမာဏတော်တို့ကို ဆောင်စေလျက် စိန်ဖူးတော်၊ ရွှေထီးတော်၊ ငွေထီးတော်အပြင် ရတနာအပေါင်းဖြင့် စီခြယ်အပ်သော ရွှေသား ငှက်မြတ်နားတို့ဖြင့် ခမ်းနား ထည်ဝါ ကြည်ညိုဖွယ်ရာ တိုးမြှင့် တည်ထားနိုင်ခဲ့လေသည်။

# ရွှေမှုံကို အလှသာပြုသည့် မြန်မာ့အနုပညာ

**ရွှေမျက်ပါးခတ်သည့် လုပ်ငန်းကို လွန်ခဲ့သည့် အနှစ် ၂၀၀ ခန့်ကစ၍ မြန်မာတို့ တတ်ကျွမ်းခဲ့လေသည်။ မြန်မာတို့သည် ယိုးဒယားတို့ထံမှ ယင်းအတတ်ကို ရခဲ့ကြသည် ဖြစ်သော်လည်း ယခုအခါ မြန်မာ့လက်ရာ ရွှေမျက်ပါးလောက် ယိုးဒယားလက်ရာ ရွှေမျက်ပါးက မကောင်းတော့သဖြင့် ဝယ်သူနည်းသောကြောင့် ယိုးဒယား၌ ထိုလုပ်ငန်း တိမ်ကောမည့်အခြေ ရောက်နေလေပြီ။**

**ရွှေမျက်ပါး။** ။ဘုရားပုထိုး ရုပ်တု သစ်စေးထည်များကို ရွှေရောင်တင်ရန်၊ သို့မဟုတ် ရွှေချရန်အတွက် ရွှေစစ်ကို အလွန် ပါးလှပ်သော အလွှာကလေးများ အဖြစ် ပြုလုပ်ပြင်ဆင်ထားသည့် ရွှေမှုံလွှာကို ရွှေမျက်ပါး ဟု ခေါ်သည်။ ရွှေမျက်ပါးကို ရွှေချရန်သာ မဟုတ်၊ ဆေးဖော်စပ်ရာ၌လည်း အသုံးပြုသည်။ ဆေးတွင် ရွှေထည့်ဖော်ရန် လိုသောအခါ ရွှေတုံးကို အမှုံထောင်းရန် မလွယ်သဖြင့် ရွှေမျက်ပါးမှ ရွှေမှုံကို ခါယူ၍ ထည့်ကြသည်။ ဝတ္ထုပစ္စည်း တခုကို ရွှေဖြင့် အရောင်တင်လိုသောအခါ ယင်းကို စေးကပ်သော သစ်စေး သရိုး လိမ်းသုတ်၍ အဆိုပါ ရွှေမျက်ပါးတို့ဖြင့် စီကပ်ခြင်း ပြုရသည်။ မြန်မာတနိုင်ငံလုံး၌ တနှစ်လျှင် ရွှေဆိုင်းပေါင်း နှစ်သိန်းကျော် အသုံးပြုသဖြင့် တနှစ်လျှင် ပုရပိုက်ခေါက်ရွှေ ပိသာ တရာခန့် ရွှေမျက်ပါးခတ်ရသည်။

ရွှေမျက်ပါး ခတ်သည့် လုပ်ငန်းသည် နိုင်ငံခြား၌ မဖြစ်သော မြန်မာ့အနုပညာ လုပ်ငန်း တရပ်ဖြစ်သည်။ ရွှေမျက်ပါးလုပ်ငန်းကို မြန်မာနိုင်ငံ၌ ရှေးနှစ်ပေါင်း ၂၀၀ ကျော်က စတင် လုပ်ကိုင်ခဲ့ဟန် တူသည်။ သက္ကရာဇ် ၁၁၂၉ ခုနှစ်တွင် ယိုးဒယားနိုင်ငံကို ဆင်ဖြူရှင်မင်း အောင်ခဲ့စဉ်က ခေါ်ယူခဲ့သည့် အနုပညာသည် သုံ့ပန်းများအနက် ရွှေခတ်ပညာသည်များ ပါရှိခဲ့ရာမှ အစ မြန်မာနိုင်ငံ၌ ရွှေမျက်ပါးခတ် လုပ်ငန်း စတင် လုပ်ကိုင်ခဲ့ကြသည်။ သို့ရာတွင် အချို့ကလည်း ရွှေမျက်ပါးခတ် လုပ်ငန်းသည် ရှမ်းပြည်၌ ရှမ်းလူမျိုး ဆရာမွန်က စတင်လုပ်ကိုင်ပြီး ရှမ်းပြည်မှ မြန်မာပြည်သို့ ပြန့်ပွားလာသည် ဟုဆိုကြသည်။ ယိုးဒယားတို့ထံမှ ရွှေခတ်အတတ်ကို ရှမ်းဆရာ ဆရာမွန် ကရရှိ၍ ဆရာမွန်က တဆင့် မြန်မာတို့အား သင်ကြားပေးသဖြင့် တတ်မြောက်လာသည်ဟု ယူဆဖွယ် ဖြစ်သည်။ အဘယ်ကြောင့် ဆိုသော် ရွှေခတ်သမားများသည် ယခုထက်တိုင် ဆရာမွန်အား ပူဇော်နေကြသည်ကို တွေ့ရ၍ သိသာသည်။ ရွှေခတ်သော အခန်းထဲ၌ အချို့က ကြက်၊ ကောက်ညှင်း၊ ဗိလတ်ရည်၊ အချို့က ကြက်၊ အရက်တို့ဖြင့် နတ်ပူဇော်သည် ဟုဆိုကာ ဆရာမွန်နှင့်တကွ သေဆုံးကုန်ပြီးဖြစ်သော ဆရာကြီးများအား ပူဇော်ကြသည့် အလေ့သည် ယခုတိုင် ရှိသည်။

ရွှေခတ်ပညာကို ရှေးနှစ်ပေါင်း ၂၀၀ ကျော် က စတင် တတ်မြောက်ကြသည် ဟုဆိုသော်လည်း အမှန်အားဖြင့် မင်းတုန်းမင်းတရားကြီး လက်ထက်ရောက်မှ ဘုရင်၏ အားပေးချီးမြှောက်မှုကြောင့် ထွန်းကားလာခဲ့သည်။ မင်းတုန်းမင်းတရားကြီးသည် အသစ် ဆောက်လုပ်ပြီးသော နန်းတော်နှင့် ဘုရားပုထိုးများကို ရွှေချရန် ရွှေတိုက်တော်မှ စံတော် ရွှေတုံးများကို ထုတ်ပေး၍ ရွှေခတ်ပညာသည်များအား ရွှေမျက်ပါး ခတ်စေသည်။ ယင်းသို့ ရွှေမျက်ပါး ခတ်ရန် ခန့်ထားသော ပညာသည်များ လုပ်ကိုင်နေထိုင်ရန် ယခု မျက်ပါးရပ်တည်ရာ နေရာကို ရွေးခြယ် သတ်မှတ်ပေးပြီးနောက် ဟေမမာလာ မျက်ပါးရပ် ဟုခေါ်တွင်စေရာ ယခုတိုင် မန္တလေးမြို့၌ ထင်ရှားရှိသည်။ ဟေမ မှာ မြန်မာဘာသာဖြင့် ရွှေ ဟုဖြစ်သည်။

ရွှေမျက်ပါးတို့သည် ဘုရားပုထိုး အစ ရှိသော အထွတ်အမြတ် နေရာတို့၌ အသုံးပြုသော ပစ္စည်း ဖြစ်သဖြင့် ရွှေမျက်ပါးခတ်ရာ အခန်းထဲသို့ ရှိသေသမှုဖြင့် မည်သူမျှ ဖိနပ်မစီးရန် မင်းတရားကြီးက အမိန့်တော် ချခဲ့သည် ဟုလည်း ဆိုသည်။

ယခုတိုင် ရွှေခတ်ရာ အခန်းထဲသို့ ဖိနပ်စီးဝင်ခြင်း မပြုရချေ။ ရွှေခတ်သူတို့ အယူရှိသည်မှာ ရွှေခတ်သူသည် ညဉ့်အိပ်ပျက်ခဲ့လျှင် ဖြစ်စေ၊ စိတ်အနှောင့်အယှက်ဖြစ်၍ စိတ်မချမ်းမသာ ဖြစ်နေလျှင် ဖြစ်စေ ထိုသူ ခတ်သော ရွှေသည် မလှ ဖြစ်တတ်သည် ဟုဖြစ်သည်။ ရွှေမခတ်မီနှင့် ရွှေခတ်နေစဉ်တွင် ဆီ၊ ဆပ်ပြာနှင့် ရေကို လုံးဝ မသုံးစွဲရချေ။ သုံးစွဲမိပါက လက်ဆီ မထွက်တော့ဘဲ တူထုရာတွင် လိုရာ မကျသဖြင့် ရွှေ မလှ ဖြစ်တတ်သည် ဟုအယူရှိကြသည်။ ရွှေခတ်သူ လက် မတွေ့ပါက ရွှေ မလှရုံ မက ရွှေခတ်စက္ကူပါ ပျက်စီးသွားတတ်သည်။ ရွှေမျက်ပါးတို့သည် ရွှေခတ်သူအပေါ်၌သာ မဟုတ်၊ ရာသီဥတုပေါ်၌လည်း တည်သည်။ ရာသီဥတု ပြင်းထန်လွန်းလျှင် ရွှေခတ်၍ မကောင်းချေ။ ထို့ကြောင့် ရန်ကုန်မြို့၌ မိုးတွင်းအချိန်တွင် ရွှေမခတ်ဘဲ နွေအခါ၌သာ ခတ်သည်။ နွေအခါ ပူလွန်းပါက အလုပ်ကို လျှော့၍ လုပ်ကြသည်။ မန္တလေးမြို့၌မူ ကဆုန်လမှ တန်ဆောင်မုန်းလအထိသည် ရွှေခတ်၍ အကောင်းဆုံးကာလဖြစ်သည်။

ရွှေမျက်ပါး ခတ်သည့်အခါ ရှစ်မူးပဲရည် ရှိသော ရွှေကို ကိုးမူးပဲရည် ဖြစ်အောင် လှော်ပြီးဖြစ်စေ၊ ပုရပိုက်ခေါက် ရွှေစစ်ကို တကျပ်သားလျှင် ရွှေဒင်္ဂါးရွှေ နှစ်ရွေးခန့် အချိုးဖြင့် ရောပြီးဖြစ်စေကို ရွှေတထုပ်အတွက် ရွှေချိန် သုံးမတ်သားခန့် ချိန်ကာ ရွှေဆန့်ဖိုသို့ ပို့ရသည်။ ရွှေလက်ဆန့်ဆရာသည် ရွှေကို ဖို၌ နှစ်နာရီကြာအောင် ရွှေ၏ အသွေးအရည်ကြည့်၍ ငရဲမီး အခိုးအငွေ့များ ကုန်သည့်တိုင်အောင် ဖိုထိုးပေးရသည်။ ထိုသို့ နှစ်နာရီကြာမျှ ဖိုထိုးလိုက်သဖြင့် ပျော့လာသောရွှေကို ပေပေါ်တင်၍ နန်းကြိုး ရိုက်ထုပြီးနောက် ရွှေပြားဖြစ်အောင် ကြိတ်သော ဒလိမ့်တုံးပါ စက်ထဲသို့ ထည့်၍ အလျား ၃၆ လက်မ အနံသုံးမတ်ရှိသော ရွှေပြား နှစ်ပြား ဖြစ်သည့်တိုင်အောင် ကြိတ်ရသည်။

ဆန့်ပြီးသော ရွှေသုံးမတ်သားရှိ ရွှေပြားကို အစိတ်ကလေးပေါင်း ၂၀၀ အညီအမျှ ဖြတ်ရသည်။ ယင်းသို့ ဖြတ်ပြီးသော မန်ကျည်းစေ့ အရွယ်ခန့် ရွှေပြားကလေးများကို နှစ်လက်မခွဲခန့် ရှိသော ရွှေခတ်စက္ကူနှင့် ရွှေခတ်စက္ကူလုပ်ရာ၌ အညံ့ဖြစ်သော လေးစက္ကူ ဟုခေါ်သည့် စက္ကူတမျိုးတို့၏ အကြား၌ တထပ်စီ ညှပ်၍ ထည့်ပြီးနောက် သုံးလက်မပတ်လည် ရှိသော သမင်ရေနှင့် ပြုလုပ်ထားသည့် အိတ်၌ ထည့်သွင်းကာ အလေးချိန် ၉၅ ကျပ်သားခန့်ရှိသော ပိတောက်သားရိုးတပ် သံတူဖြင့် ရွှေပြားကလေး ဒင်္ဂါးဝိုင်းခန့် ရှိလာသည်အထိ ၁၅ မိနစ်မှ နာရီဝက်ခန့် ထုရသည်။ ယင်းသို့ ပြုသည်ကို အလျားပေါက်သည် ဟုခေါ်၍ အလျားပေါက်သည့် ရွှေထုပ်ကို အလျားထုပ် ဟုခေါ်သည်။ အလျားပေါက်သည့်အခါ မြေထဲ၌ နှစ်ပေခန့် မြှုပ်၍ မြေပေါ်၌ အနည်းငယ် ဖော်ထားသည့် ကျောက်တုံးပေါ်တွင် အလျားထုပ်ကို တင်ကာ မလှုပ်ရှားစေရန် သားရေဖြင့် ပြုလုပ်ထားသော ပါးချပ်ဖြင့် ချည်နှောင်ထားရသည်။ ယင်းသို့ အလျားပေါက်သည့်အခါ ရွှေခတ်သမားတို့သည် အပေါက်ဖောက်ထားသော အင်တုံထဲ၌ ရေထည့်၍ အမှတ်အသားပြုသော ရေနာရီကို သုံးလေ့ ရှိကြသည်။

အလျားပေါက်၍ ရသော ဒင်္ဂါးဝိုင်းခန့်ရှိ ရွှေပြားကို ခြောက်ပိုင်း ပိုင်းပြန်သည်။ ထိုအခါ ရွှေပြားကလေး စုစုပေါင်း ၁,၂၀၀ ရလေသည်။ ယင်းရွှေပြားများကို နှစ်လက်မခွဲ ပတ်လည်ရှိသော ရွှေခတ်စက္ကူထဲတွင် တဖန် ထည့်၍ အထက်နှင့်အောက်မှ ဒဏ်ခံအဖြစ်ဖြင့် ဝါးနှင့်ကောက်ရိုးကို ပြုလုပ်ထားသော သနပ် ခေါ်သည့် စက္ကူ ၁၀ ချပ်ထက်မနည်း ခံရသည်။ ယင်းကို သမင်ရေအိတ်ထဲ ထည့်ကာ ရှေးနည်းတူ ကျောက်တုံးပေါ်တင်ပြီး ရွှေပြားကလေးနှစ်လက်မခန့်ရှိလာသည်အထိ နှစ်နာရီခွဲခန့် ထုရသည်။ ထိုသို့ပြုသည်ကို ပဇခတ်သည် ဟုခေါ်၍ ထိုရွှေပြားထုပ်ကို ပဇထုပ် ဟုခေါ်သည်။ ခတ်၍ပြီးသော ရွှေမှုလုံးကို ပဇလုံး ဟုခေါ်သည်။ ပဇ ဟူသော စကားသည် ဗီဇ ဟူသော စကားကို နှုတ်လွယ်သလို ခေါ်ပြောခြင်း ဖြစ်ဟန် တူသည်။

နှစ်လက်မခန့် ဖြစ်လာသော ရွှေပြားကလေးများကို ငါးလက်မ ပတ်လည်ရှိသော ရွှေခတ်စက္ကူနှင့် တထပ်စီ တင်ရသည်။ ယင်းသို့ ပြုသည်ကို ရွှေတင်သည် ဟုခေါ်သည်။ ရွှေတင်ပြီးသောအခါ ရှေးနည်းတူ သနပ်စက္ကူ အထက်အောက် ခံ၍ သမင်ရေအိတ်ထဲထည့်ကာ ငါးနာရီခန့် ထု

ခတ်ရသည်။ ထိုအခါ ရွှေပြားသည် သုံးလက်မမှ သုံးလက်မခွဲ အချင်းရှိသော ရွှေပြားဝိုင်းကလေးများ ဖြစ်လာသည်။ ထိုရွှေပြားဝိုင်းကလေးများကို ရွှေခတ်လုပ်ငန်း ပြီးဆုံးပြီဖြစ်သဖြင့် ရွှေပြင်ခန်းသို့ ပို့ရသည်။

ရွှေပြင်ခန်းတွင် ရွှေမျက်ပါးလွှာကလေးများ ဖြစ်အောင်ပြင်၍ ရွှေဆိုင်းများ ဖြစ်သည် အထိ လုပ်ကြသည်။ ရွှေမှုန်များ လေလွင့်မည် စိုးသဖြင့် ရွှေပြင်ခန်းကို လေမဝင်စေရန် မှန်၊ သို့မဟုတ် အဝတ် ကာ၍ထားရသည်။ ရွှေပြင်ခန်းထဲ၌ သစ်စေး သုတ်ထားသော လေးထောင့် စားပွဲကလေးများ၏ တဖက်စီတွင် ဆေးလိပ်ခုံ၌ ဆေးလိပ် လိပ်ကြသူတို့ မျက်နှာချင်းဆိုင် ထိုင်သကဲ့သို့ ရွှေပြင်သူများ ထိုင်ရသည်။ ခတ်ပြီး ရွှေကို မိမိတို့ အလိုရှိသော ရွှေဆိုင်းပုံ အလိုက် ဖြတ်ထားသော ရွှေလှောင် စက္ကူပေါ်သို့ ကနုကမာပြား၊ သို့မဟုတ် စိုင်ချိုရိုးဖြင့် ပြုလုပ်ထားသော 'ဒန်' ခေါ် လက်ကိုင်ကလေးဖြင့် ဖြတ်ယူပြင်ရသည်။ ယင်းသို့ ရွှေပြင်ရာ၌ လက်တွင် ရွှေကပ်မနေစေရန် ကန့်ကူဆံမှုန့် အနည်းငယ်ကို မကြာမကြာ ကိုင်၍ လုပ်ရသည်။ လက်အဆီပြန်တတ်သူများ လုပ်၍ မရချေ။ ရွှေပြင်သူသည် ရွှေခတ်သူကဲ့သို့ပင် ကျွမ်းကျင်ဖို့ လိုသည်။ မကျွမ်းကျင်သူ ရွှေပြင်ပါက ရွှေထပ်ကာ ရွှေဆိုင်း အထွက် နည်းသဖြင့် ရွှေကုန်သည် အရှုံးတွေ့တတ်သည်။

ရွှေဆိုင်းများကို နှစ်လက်မတမတ်နှင့် နှစ်လက်မမူးတင်း နှစ်မျိုး အလုပ်များသည်။ ရွှေတဆိုင်းလျှင် အချပ်တရာ ရှိသည် ဟုဆိုသော်လည်း မန္တလေး ရွှေဆိုင်းသည် ၉၈ ချပ် ပါ၍ ရန်ကုန်ရွှေဆိုင်းသည် ၉၅ ချပ် ပါသည်။ ရွှေသုံးမတ်သား ပါရှိသော ရွှေတထုပ်ကို ထုခတ် ပြင်ဆင်လိုက်သည့်အခါ နှစ်လက်မတမတ် ရွှေဆိုင်း ၁၃ ဆိုင်းမှ ၁၉ ဆိုင်းအထိ အခတ် အပြင် ကောင်းပုံတွင် မူတည် ထွက်သည်။ များသောအားဖြင့် ၁၆ ဆိုင်းခန့် ထွက်သည်။

ရွှေခတ်ရာ၌ သုံးသော စက္ကူသည် မန္တလေးမြို့ စက္ကူတန်း၌ပင် ဝါးဖြင့် လုပ်ကိုင်သော စက္ကူဖြစ်သည်။ စက္ကူလုပ်ရာ၌ သုံးသော ဝါးသည် တန်ဆောင်မုန်းလပေါက်ဖြစ်၍ နတ်တော်လဆုတ်ထဲ၌ ခုတ်သော ဝါးဖြစ်ရသည်။ ထိုဝါးကို တောင်ဆုတ်ခန့်စီ ဖြတ်ပြီးနောက် အကြောများကိုသာ လွှာယူရသည်။ ယင်းအကြောများကို လက်တဆုပ်စည်းစီ စည်း၍ ဒယ်အိုးထဲတွင် ရေနှင့်ထည့်ကာ အငွေ့မလစ်စေရန် ဖုံးအုပ်၍ သုံးရက်တိုင်တိုင် မီးမပြတ် ထိုးကာ ပြုတ်ရသည်။ သုံးရက်စေ့လျှင် ထိုအစည်းများကို အိုးထဲမှ ဆယ်ယူ၍ နေလှန်းရသည်။ ခြောက်သွေ့သွားသောအခါမှ ထိုအစည်းများကို အိုးကြီးများထဲထည့်၍ ထုံးရည်ဖြင့် တလခန့် စိမ်ရသည်။ တလ ပြည့်သောအခါ ထိုဝါးကြောစည်းများကို အိုးမှ ထုတ်၍ ကျောက်ပြားပေါ်တင်ကာ သမင်ဖိုသား (သစ်ပင်အမည်) ကို ကြေးစည် လက်ခတ်သဖွယ် ပြုလုပ်၍ ဝါးစည်းများကို အမျှင်မျှင် ဖြစ်အောင် ထုရိုက်ရသည်။ ပြီးမှ ထုံးရည်ဖြင့် အိုးသွတ်ကာ အင်္ဂတေဖြင့် လေလုံ ပိတ်၍ သုံးနှစ်ထားရသည်။ အမြန်ကြိုက်သူများက ယခုအခါ ယင်းသို့ ထုပြီး ဝါးမျှင်များကို ကော့စတစ်ဆိုဒါဖြင့် ထည့်၍ တနှစ်သာ ထားပြီး လုပ်ကြသည်။ သို့ရာတွင် ထုံးရည်ဖြင့် သုံးနှစ်စိမ်ပြီးမှ လုပ်သော စက္ကူလောက် မကောင်းချေ။ သုံးနှစ်စေ့ပြီးနောက် ယင်းဝါးမျှင်များကို ဆယ်ယူကာ နေလှန်းရသည်။ ခြောက်သောအခါ ရေ အနည်းငယ်ဆွတ်၍ အဝတ်နှင့် ထုပ်ကာ အချိန်အနည်းငယ် ရေနှပ်ထားပြီးနောက် ရွှေးနည်းတူ ကျောက်ပြားပေါ် တင်၍ ကြေညက်အောင် ထုရသည်။ ထုပြီးသော ဝါးဖတ်များကို မောင်းနှင့် တဖန် ထောင်းပြီးနောက် ယင်းဝါးမှုန့်များကို အလေးချိန် အညီအမျှစီ လုံးရသည်။ ထိုနောက် လေးထောင့် ရေကန်ထဲသို့ လေးထောင့်ဘောင်တွင် ပိတ်ဖြင့် ကားကြက်ထားသော ပိတ်ကားကို ထည့်၍ အပေါ်မှ ဝါးမှုန့်ကို ရေဖျော်ကာ လောင်းချရသည်။ ပိတ်ပေါ်၌ တင်ကျန်သော ဝါးမှုန့်ဖတ်ကလေးများကို အောက်မှ စိမ့်ဝင်လာသည့် ရေဖြင့် နှံ့ပြီး အထူအပါး ညီအောင် ပိတ်ကားချပ်ကို ဘောင်ပါ မ ကာ နေလှန်းရသည်။ ခြောက်သောအခါ စက္ကူပြားကြီး ဖြစ်ပြီ ဖြစ်သဖြင့် အထူအပါး မညီပါက ခေးဖြင့် ညီအောင် လိုက်ခြစ်ရသည်။ ထိုနောက်မှ ငါးလက်မ ပတ်လည် စက္ကူစများ ဖြစ်အောင် ဖြတ်ရသည်။ ယင်းစက္ကူစ ငါး ချပ်နှင့် ရေဆွတ်ထားသော စက္ကူတချပ်ကို ညှပ်၍ အပေါ်မှ အဝတ်ပတ်ကာ အလေး ဖိထားရသည်။ ထိုနောက် မြေအောက်ရှိ မြေတိုက်ထဲသို့ ယူသွားကာ ရှစ်လက်မခန့် ရှိသော ကြေးပြင်ပေါ်၌ တချပ်စီ တင်ကာ သမင်ဖိုသား တုတ်နှင့် ထုရသည်။ ထိုသို့ ထုပြီးသော စက္ကူသည် ရွှေခတ်စက္ကူ ဖြစ်လေသည်။

ယိုးဒယားနိုင်ငံ၌လုပ်ကိုင်သော ရွှေခတ်စက္ကူနှင့်ရွှေဆိုင်းသည် မြန်မာရွှေခတ်စက္ကူနှင့် ရွှေဆိုင်းလောက် မကောင်းသဖြင့် ယိုးဒယားနိုင်ငံ၌ တိမ်ကော ပပျောက်သွားသည့် အခြေ ရောက်နေလေပြီ။

**ရွှေရိုး (ခရစ် ၁၈၅၁ – ၁၉၃၅)။** ။မြန်မာ့ဓလေ့ မြန်မာထုံးစံ မြန်မာ့အနေအထိုင် စသည်တို့ကို လေ့လာလိုသောသူသည် ရွှေရိုး၏ 'မြန်မာလူမျိုးတို့၏ နေထိုင်မှုနှင့် ဓလေ့ထုံးစံ' စာအုပ်ကို ရှာဖွေဖတ်ရှုကြရသည်။ ယင်းစာအုပ်ကို ရေးသားသူ ရွှေရိုးကား မြန်မာလူမျိုးမဟုတ်၊ အင်္ဂလိပ်လူမျိုး နိုင်ငံအုပ်ချုပ်ရေး ဝန်ထမ်း တဦး ဖြစ်သူ ဆာ (ဂျိမ်း) ဂျော့ စကော့ ဖြစ်သည်။ ရွှေရိုး ဟူသည်ကား ဆာဂျော့စကော့၏ ကလောင် အမည်ထည်း။



မြန်မာလို ဝတ်ဆင်ထားသည့် ရွှေရိုး (ရပ်နေသူ)နှင့်
ဘောလုံးကစားဖော် မြန်မာ့မိတ်ဆွေတဦး

ရွှေရိုးကို ၁၈၅၁ ခုနှစ် ဒီဇင်ဘာလ ၂၅ ရက်နေ့တွင် စကော့တလန်ပြည်မှ ဖိုက်ရှိုင်ယာနယ် ဒဲယားဆီး မြို့ကလေးတွင် ဖွားမြင်သည်။ ဖခင်ဖြစ်သူမှာ ၁၈၅၀ ပြည့်မှ ၁၈၆၁ ခုနှစ် အထိ ဒဲယားဆီးမြို့၏ ဓမ္မဆရာ ဂျော့ စကော့ဖြစ်၍ မိခင်ဖြစ်သူမှာ မေရီဖောဆစ် ဖြစ်သည်။ ၁၈၆၁ ခုနှစ်တွင် ဖခင် ကွယ်လွန်ပြီးနောက် ဂျော့စကော့နှင့် သူ၏ အစ်ကို ရောဗတ် ဖောဆစ် စကော့ (နောင် ကိမ်းဗရစ်တက္ကသိုလ် စိန်ဂျွန်းကောလိပ်ကျောင်း ဆရာ) တို့ကို မိခင်က စတပ်ဂတ်ကျောင်းသို့ပို့၍ ပညာသင်စေသည်။ စတပ်ဂတ်ကျောင်းတွင် သုံးနှစ်မျှ ပညာသင်ယူပြီးနောက် ဂျော့သည် လန်ဒန်မြို့ ဘုရင့်ကောလိပ်ကျောင်း၊ ထိုမှတဖန် အက်ဒင်ဗရာ တက္ကသိုလ်၊ အောက်စဖို့တက္ကသိုလ် စသည်တို့သို့ တဆင့်ထက်တဆင့် တက်ရောက်သင်ယူသည်။ ကောလိပ်နှင့် တက္ကသိုလ်များတွင် ဂျော့သည် ပညာအရာတွင် အထူးခြီးကျူးခံရသည်။ နောက်ဆုံးတွင် ငွေကြေး အခြေအနေအရ အောက်စဖို့တက္ကသိုလ် လင်ကွန်းကောလိပ်ကျောင်းမှ ဘွဲ့မရမီ ထွက်ခဲ့ရသည်။

၁၈၇၅–၇၆ ခုနှစ်အတွင်း ဂျော့သည် မလ္လာယုကျွန်းဆွယ် ပီရက်နယ် အရေးအခင်းအတွက် ဗြိတိသျှ အစိုးရက စေလွှတ်သော အဖွဲ့တွင် စတင်းဒတ် နေ့စဉ်၏ အထူးသတင်းထောက် အဖြစ် လိုက်ပါသွားရသည်။ ထိုမှတဆင့် ၁၈၇၉ ခုနှစ်တွင် မြန်မာနိုင်ငံသို့ စေလွှတ်ခြင်း ခံရ၍ ရန်ကုန်မြို့ရှိ စိန်ဂျွန်း ကောလိပ် ကျောင်းတွင် ကျောင်းအုပ်ဆရာကြီးအဖြစ် ထမ်းရွက်ခဲ့ရသည်။ စိန်ဂျွန်းကျောင်းအုပ်ကြီးအဖြစ် ဆောင်ရွက်စဉ် ပူအိုက်သောဒေသရှိ လူမျိုးများနှင့် အလျှင်းမသင့်တော်ဟုယူဆထားသည့် ဘောလုံးကန်ကစားခြင်းကို မြန်မာနိုင်ငံ၌ ကစားနိုင်ရန် စီစဉ်ဆောင်ရွက်ပေးခဲ့သည်။ ထိုအခါမှ စ၍ ဘောလုံးကန် ကစားနည်းသည် မြန်မာနိုင်ငံသို့ ရောက်လာ၍ ယခုအခါ ရေပန်းစားသော ကစားနည်း ဖြစ်နေလေပြီ။ သူ ကိုယ်တိုင်လည်း ဘောလုံးကန် ဝါသနာပါရာ သူ့တသက်တွင် ဂိုးပေါင်း ၃၀၀ သွင်းခဲ့ဘူးကြောင်းဖြင့် ထင်ရှားသည်။

၁၈၈၁ ခုနှစ်တွင် ဂျော့သည် နေရင်းဌာနသို့ ပြန်၍ ဥပဒေပညာကို လေ့လာသည်။ သို့ရာတွင် ကံအကြောင်းမလှ၍ သူ့အထက်က လူအထိသာ အရွေးခံရသဖြင့် ဝတ်လုံလိုက်၍ အသက်မွေးရန် လက်လျှော့လိုက်ရသည်။ ၁၈၈၂ ခုနှစ်တွင် ရွှေရိုး ဟူသော ကလောင်အမည်ဖြင့် ရေးသားသော သူ၏ နာမည်ကျော် "မြန်မာလူမျိုးတို့၏ နေထိုင်မှုနှင့် ဓလေ့ထုံးစံ" စာအုပ်ကြီး ထွက်ပေါ်လာသည်။ ယင်းစာအုပ်သည် အုပ်တွဲ နှစ်တွဲ ရှိ၍ မြန်မာနိုင်ငံနှင့် လူမျိုးတို့အကြောင်းကို မြန်မာနိုင်ငံနှင့် ဆက်စပ်နေသော အင်္ဂလိပ်များအတွက်သာ မက အင်္ဂလန်ပြည်၌ အမှုထမ်းနေသော အစိုးရအမှုထမ်းများအတွက်ပါ အထူးအသုံးဝင်သော စာအုပ် အဖြစ် ကျော်ကြားခဲ့သည်။ မြန်မာလူမျိုးနှင့် အင်္ဂလိပ်လူမျိုးတို့အား အချင်းချင်း ပိုမိုနားလည်၍ ရင်းနှီးစေသော စာအုပ် ဟုလည်း ဆိုရပေမည်။

၁၈၈၄ ခုနှစ်တွင် ပြင်သစ်အစိုးရနှင့် အင်ဒိုချိုင်းနားကျွန်းဆွယ် တုန်ကင်းပြည် တိုက်ပွဲဖြစ်ပွားရာသို့ စတင်းဒတ်နေ့စဉ်၏ စစ်သတင်းထောက်အဖြစ် သွားရောက် အမှုထမ်းရပြန်သည်။ "ပြင်သစ်နှင့်တုန်ကင်း" ဟူသော ပြင်သစ်-တုန်ကင်း တိုက်ပွဲအကြောင်း စာအုပ်နှင့် "ကျော်အိန္ဒိယကို သိမ်းပိုက်ခြင်း" (၁၈၈၅) စာအုပ်များကိုလည်း ရေးသားထုတ်ဝေခဲ့သည်။

ထိုနောက် ကောင်းစွာ မကျန်းမာသဖြင့် ဂျော့ စကော့သည် အင်္ဂလန်ပြည်သို့ ပြန်ကာ အနားယူပြီးနောက် ဥပဒေပညာကို ဆက်လက်လိုက်စားရာ ၁၈၈၆ ခုနှစ်တွင် ဝတ်လုံစာမေးပွဲကို အောင်မြင်သည်။ ၁၈၈၁ ခုနှစ်တွင် စကော့အား မြန်မာနိုင်ငံ မြောက်ပိုင်း ရှမ်းပြည်အရေးပိုင် အဖြစ် ခန့်အပ်သည်။ ၁၈၉၁ ခုနှစ်နှင့် ၁၈၉၄ ခုနှစ်များတွင် ယိုးဒယားနိုင်ငံဆိုင်ရာ ဗြိတိသျှသံမှူး အဖြစ် ထမ်းရွက်ရသည်။ ၁၈၇၉ ခုနှစ်မှ ၁၉၀၀ ပြည့်နှစ်အထိ ယိုးဒယား၊ ပြင်သစ်နှင့်

တရုပ်ပိုင် နယ်မြေများဆိုင်ရာ သုံးနိုင်ငံနယ်စပ်သတ်မှတ်ရေးကော်မရှင် အဖွဲ့ဝင်အဖြစ် ဆောင်ရွက်ရသည်။ ၁၉၀၂ ခုနှစ်တွင် တောင်ပိုင်းရှမ်းပြည် အရေးပိုင် အဖြစ် ခန့်အပ်ခံရပြန်သည်။ ၁၈၉၂ ခုနှစ်တွင် ဗြိတိသျှအစိုးရတို့က ဂျော့စကော့အား စီ-အိုင်-အီး ခေါ် အိန္ဒိယအင်ပိုင်ယာဆိုင်ရာ အမှုထမ်းကောင်းဘွဲ့ ပေးအပ်၍ ၁၉၀၁ ခုနှစ်တွင် ကေ-စီ-အိုင်-အီး ခေါ် သူကောင်းဘွဲ့ အပ်နှင်းခံရသဖြင့် ဆာ ဂျိမ်း ဂျော့စကော့ ဟုခေါ်တွင်ခဲ့ကြသည်။ ၁၉၁၀ ပြည့်နှစ်တွင် ဆာဂျော့စကော့သည် ပင်စင်ယူ၍ ဗိလတ်သို့ ပြန်သည်။

မြန်မာနိုင်ငံကို ဗြိတိသျှတို့ သိမ်းပိုက်ပြီးနောက် အရပ်ရပ်တွင် ဗြိတိသျှ အုပ်ချုပ်ရေးကို တော်လှန်ပုန်ကန်နေကြရာ ဆာဂျော့စကော့၏ အုပ်ချုပ်ရေး ပါးနပ်မှု၊ ဆက်ဆံရေးကောင်းမှုတို့ကြောင့် ရှမ်းပြည်နယ်တခိုတွင် သွေးထွက်သံယိုမှုများ ထင်သလောက် မများခဲ့ခြင်း ဖြစ်သည် ဟုဆိုကြသည်။ တခါတွင် ဂျော့ စကော့သည် အစောင့်တပ်သားများနှင့် အတူ ရှမ်းပြည်တနေရာတွင် အလုပ်ဝတ်တရားဖြင့် ခရီးသွားစဉ် လမ်း၌ ခုခံတိုက်ခိုက်ရန် စောင့်နေသော ဝ လူမျိုးများနှင့် ရင်ဆိုင် တိုးမိနေသည်။ စကော့သည် အခြားအရာရှိများကဲ့သို့ ထွက်ပြေးခြင်း၊ လက်နက်ဖြင့် ပစ်ခတ်ခြင်းတို့ မပြုမူဘဲ ဝ လူမျိုးတို့ အပါးသို့ လက်နက်မပါ တကိုယ်တည်းသွား၍ စကားပြန် ငါးယောက်ဖြင့် အဆင့်ဆင့် စကားပြောလိုက်ရာ မိနစ်အနည်းငယ် အတွင်း၌ပင် အလွန်တိုက်ခိုက်လိုစိတ် ပြင်းထန်နေသော ဝ တို့ ပြုံးရယ်ရွှင်မြူးခြင်း ဖြစ်ကာ တဖက်နှင့်တဖက် ရင်းနှီးသွားခဲ့ကြရသည် ဟုမှတ်တမ်းများအရ သိရသည်။

ဆာ ဂျော့ စကော့သည် ၁၈၉၀ ပြည့်နှစ်တွင် အယ်လစ်ဇဗက်ဒိုရာ ဆိုသူ အမျိုးသမီးနှင့် အိမ်ထောင်ကျခဲ့၍ ၁၈၉၆ ခုနှစ်တွင် ထိုပဌမဇနီး ဆုံးခဲ့ရာ ၁၉၀၅ ခုနှစ်တွင် အယ်လီနာဆာရာ ဆိုသူ အမျိုးသမီးနှင့် လက်ဆက်ခဲ့သည်။ ၁၉၁၈ ခုနှစ်တွင် ထိုဒုတိယဇနီးနှင့် ကွာရှင်းပြီးနောက် ၁၉၂၀ ပြည့်နှစ်တွင် စာရေးဆရာမ ဂျရယ်ဒင်း အီးဒစ် မီလတန်နှင့် အိမ်ထောင်ပြုသည်။ ပဌမနှင့် ဒုတိယ ဇနီးတို့မှ သမီး တယောက်စီ ရခဲ့သည်။ အသွင်တူသူ တတိယ ဇနီးနှင့် အိမ်ထောင်ပြုပြီးနောက် ဆပ်ဆက်နယ် ပက်ဝပ်မြို့အနီး ဂရေဟမ်ရွာကလေးသို့ ပြောင်းရွှေ့ နေထိုင်ခဲ့ရာ ထိုအရပ်၌ပင် ၁၉၃၅ ခုနှစ် ဧပြီလ ၄ ရက်နေ့တွင် ကွယ်လွန်သည်။ မကွယ်လွန်မီ ၁၉၂၁ ခုနှစ် ဇွန်လတွင် "မြန်မာနိုင်ငံ၏ လက်တွေ့စီးပွားရေးနှင့် နိုင်ငံရေးလက်စွဲ" ကျမ်းကို ပြုစုထုတ်ဝေခဲ့လေသည်။

**ရွှေရေးဆောင်ဆရာတော်**(မြန်မာ ၁၂၁၉–၁၂၉၇)။ ။ ရွှေရေးဆောင် ဆရာတော်သည် ရွှေပြည်ရန်အောင် အနောက်လက် ကျောက်ဆောက်မြို့အပိုင် ဖြစ်သော ယခုမြင်းခြံခရိုင် တောင်သာမြို့နယ် မန်ကျည်းချိုရွာတွင် သက္ကရာဇ် ၁၂၁၉ ခု၊ ဝါဆိုလဆန်း ၈ ရက် တနင်္ဂနွေနေ့၌ ဖွားမြင်တော်မူသည်။ မိဖများမှာ ရွှေပြည်ရန်အောင် မြင်းတပ်မှူး ဦးကြာဝင်းနှင့် ဇနီး ဒေါ်ကြွယ်တို့ဖြစ်သည်။ သားသမီး ခြောက်ယောက်အနက် စတုတ္ထမြောက် သားဖြစ်သည်။ ငယ်မည်မှာ ဦးကြည် ဖြစ်သည်။

ဆရာတော်၏ မိဖများသည် အမရပူရမြို့သို့ ပြောင်းရွှေ့နေထိုင်ကြလျက် ဆရာတော်လောင်း မောင်ကြည် ဆယ်နှစ်သား အရွယ်တွင် မန္တလေးမြို့ မြောက်ပြင် မင်္ဂလာမဟာ ဇောတိကာရာမတိုက်၌ သီတင်းသုံး နေထိုင်သောချောင်းဆုံဆရာတော် အရှင်တေဇဝန္တာဘိဓဇ ထံ အပ်နှံ၍သူငယ်ဆိုင်ရာ စာများကို သင်ကြားစေသည်။

ရွှေရေးဆောင် ဆရာတော်သည် ငယ်ဆရာရင်း ဖြစ်သော အရှင်တေဇဝန္တာဘိဓဇ ထံတွင် ပညာသင်ကြား၍ ဆဲ့နှစ်နှစ်သား အရွယ်သို့ ရောက်သောအခါ မင်းတုန်းမင်းကြီး၏ တောင်ညာစ ကြာဒေဝီ မဟေသီမိဖုရားခေါင်ကြီး ရွှေတော်တွင် ပဌမ ပြန်ဆိုလေသည်။ ထိုနောက် ဆဲ့သုံးနှစ်သားအရွယ်သို့ ရောက်သောအခါ သုဓမ္မာစရပ်တော်တွင် ပဌမငယ် ပြန်ဆို၍ ဆဲ့လေးနှစ်သားအရွယ်တွင် ပဌမလတ်၊ ဆဲ့ငါးနှစ်သား အရွယ်တွင် ပဌမကြီး ပြန်ဆိုတော်မူသည်။ ဆဲ့ရှစ်နှစ်သားအရွယ်သို့ ရောက်သောအခါ၌ကား ပဌမကျော် ပြန်ဆိုတော်မူလေသည်။

ရွှေရေးဆောင် ဆရာတော်လောင်းသည် ငယ်ဆရာ ဦးတေဇဝန္တာဘိဓဇထံ၌ပင် ရှင်သာမဏေအဖြစ်သို့ ရောက်ခဲ့သည်။ ဘွဲ့တော်မှာ ရှင်အနုရုဒ္ဓ ဖြစ်သည်။ သုဓမ္မာစရပ်၌ ပဌမပြန် လေးကြိမ် ပြန်ဆိုပြီးသည်နောက် ငယ်ဆရာဖြစ်သော အရှင် တေဇဝန္တာဘိဓဇသည် ချောင်းဆုံရွာသို့ ပြန်ကြွတော်မူသောအခါ ဆရာတော်လောင်း သာမဏေကို မင်္ဂလာ မဟာဇောတိကာရာမတိုက်ကြီး၏ ဦးစီးနာယက ဖြစ်တော်မူသော "သုဒဿနဓဇ ဓမ္မသာမိ သိရီ ပဝရ မဟာဓမ္မရာဇာဓိရာဇ ဂုရု" တံဆိပ်တော်ရ မင်္ဂလာစံကျောင်း ဆရာတော်ဘုရားကြီးနှင့် နောင်အခါ မိုင်းခိုင်းဆရာတော် ဟုထင်ပေါ် ကျော်စောတော်မူလတ္တံ့သော ပဌမ စာချ ဆရာတော်တို့ထံ အပ်နှံခဲ့လေသည်။

ရွှေရေးဆောင် ဆရာတော်လောင်းသည် အသက်နှစ်ဆယ်ပြည့်သောအခါ သက္ကရာဇ် ၁၂၃၉ ခုနှစ်တွင် မန္တလေးမြို့ မင်္ဂလာစံကျောင်းတိုက်အတွင်း ခဏ္ဍသိမ်၌ စံကျောင်းဆရာတော် ဘုရားကြီးကို ဥပဇ္ဈာယ်ပြု၍ ရဟန်းအဖြစ်သို့ ရောက်တော်မူလေသည်။ ရဟန်းဘွဲ့မှာ ရှင်အာဒိစ္စရံသီ ဖြစ်သည်။ ရဟန်းဒါယကာကား စလေမြို့စား လှေသင်းအတွင်းဝန်မင်းကြီး သိရိမဟာဇေယျကျော်ထင် ဖြစ်သည်။ လှေသင်း

အတွင်းဝန်မင်းကြီး သီရိမဟာဇေယျကျော်ထင်သည် ဘုရင့် အမိန့်တော်ဖြင့် သုဓမ္မာ စာပြန်ပွဲ သဘင်ကြီးကို နှစ်နှစ် တိုင်တိုင် ဆက်ကာ ကြပ်မ ဆောင်ရွက်ရသည် ဖြစ်သော ကြောင့် ရွှေရေးဆောင် ဆရာတော်လောင်း၏ အရည် အချင်းကို ကိုယ်တွေ့မျက်မြင် အထင်အရှား သိသဖြင့် စံကျောင်း ဆရာတော်ဘုရားကြီးနှင့် မိုင်းခိုင်းဆရာတော် တို့အား လျှောက်ထားတောင်းပန်ပြီးလျှင် ရဟန်းဒါယကာ ပြုလျက် ချီးမြှောက်ထောက်ပံ့ခြင်း ဖြစ်လေသည်။

ရဟန်းအဖြစ်သို့ ရောက်ပြီးနောက်၌လည်း စံကျောင်း တိုက်၌ပင် နေထိုင်လျက် စံကျောင်းဆရာတော် ဘုရားကြီး နှင့် မိုင်းခိုင်းဆရာတော်တို့ထံ၌ ပိဋကတ်စာပေများကို ဆက် လက် သင်ကြားနည်းခံ၍ မိမိကလည်း တဆင့် စာသင်သား တို့အား စာပေ ပို့ချတော်မူသည်။ သက္ကရာဇ် ၁၂၅၇ ခုနှစ် တွင် မိုင်းခိုင်းဆရာတော်သည် စံကျောင်းတိုက်မှ ရွှေရေး ဆောင်တိုက်သို့ ပြောင်းရွှေ့ သီတင်းသုံးတော်မူသော အခါ ၌ အရှင် အာဒိစ္စရံသီသည် စံကျောင်းတိုက်၌ပင် များစွာ သော စာသင်သားတို့အား ပိဋကတ်စာပေတို့ကို ပို့ချကာ နေရစ်တော်မူသည်။

ဆရာတော် အရှင်အာဒိစ္စရံသီသည် သက္ကရာဇ် ၁၂၆၀ ပြည့်နှစ်တွင် ဆရာရင်းဖြစ်သူ မိုင်းခိုင်းဆရာတော် ဘုရား ကြီး ခေါ်တော်မူချက်အရ စံကျောင်းတိုက်မှရွှေရေးဆောင် ကျောင်းတိုက်သို့ ရွှေပြောင်း ကြွရောက်ကာ မိုင်းခိုင်း ဆရာတော် ဘုရားကြီး၏ လက်အောက်တွင် စာပေ ပို့ချ တော်မူရလေသည်။သက္ကရာဇ် ၁၂၆၁ ခုနှစ် တပေါင်းလပြည့် ကျော် ဆဲ့သုံးရက်နေ့တွင် မိုင်းခိုင်းဆရာတော် ဘုရားကြီး ပျံလွန်တော်မူသဖြင့် ဆရာတော် အရှင် အာဒိစ္စရံသီသည် ရွှေရေးဆောင်တိုက်ကြီး၏ ဦးစီးနာယက ဂဏဝါစက စာချ ပုဂ္ဂိုလ်ကြီးအဖြစ်သို့ ရောက်လေသည်။ ထိုအခါမှ စ၍ ရွှေရေးဆောင်ဆရာတော် ဦးကြည်ဟု ထင်ပေါ်ကျော်ကြား လေသည်။ ဆရာတော်ကား ငယ်မည်ဖြင့် ထင်ရှားတော်မူ သည့် ဆရာတော် ဖြစ်သည်။

ရွှေရေးဆောင် ကျောင်းတိုက်ကြီးကား သက္ကရာဇ် ၁၁၅၃ ခုနှစ် ပြာသိုလဆန်း ၁၁ ရက်နေ့တွင် အမရပုရ ပဌမမြို့တည် နန်းတည် ဘိုးတော်မင်းတရားကြီး၏ တောင်ရွှေရေးဆောင် မိဖုရား သီရိမဟာမင်္ဂလာဒေဝီ ဆောက်လုပ်လှူဒါန်းခဲ့သော ကျောင်းတိုက်ကြီး ဖြစ်သည်။ "ဝေယန်စံလွတ်" ဟူ၍ ကျောင်းမည် ကမ္ပည်းစိုက်ခဲ့သော်လည်း ကျောင်းဒါယိ ကာမကို အစွဲပြု၍ ရွှေရေးဆောင်ကျောင်းတိုက် ဟူ၍သာ တွင်လေသည်။

ရွှေရေးဆောင် ဆရာတော်ကား မန္တလေးမြို့တွင် စာသင် သားတို့အား စာပေပို့ချရာ၌ လွန်စွာ နာမည်ကြီးသော ဆရာတော် ဖြစ်သည်။ ပါဠိ ပိဋကတ်ကျမ်းဂန်များသာ မက သက္ကတ ဗျာကရဏ်းကျမ်း၊ ဗေဒင်ကျမ်းတို့ကို တတ် ကျွမ်းတော်မူလေသည်။

ရွှေရေးဆောင် ဆရာတော်ဘုရားကြီးသည် မန္တလေးမြို့ တွင် ခိုဝင်ရောက်ရှိလာသော တပည့်စာသင်သား မြောက် မြားစွာတို့အား ပိဋကတ်ကျမ်းဂန်တို့ကို ချပို့တော်မူရင်း အောက်ပါကျမ်းတို့ကိုလည်းရေးသားပြုစုတော်မူလေသည်။

၁။ ဂမ္ဘီရတ္ထ မည်သော စံကျောင်းနိယံ
၂။ ဂမ္ဘီရတ္ထနိယာမ ဝိသဇ္ဇနာ
၃။ ဥပနာပဋ္ဌက၊ ဥပနာဆက္က အထွက် အတက်
၄။ နိပါတတ္ထ ဝိဘာဝနီ
၅။ ဘေဒစိန္တာဋီကာ နိဿယ
၆။ သုဗောဓ ဇာတက ဗေဒင်ကျမ်း
၇။ သောတုဇန ဟိတကာရီ
၈။ သိမ်လင်္ကာ
၉။ ဟာရကောက် လင်္ကာ
၁၀။ ကေကွရကောသ လင်္ကာ

ထိုပြင် အောက်ပါကျမ်းများကိုလည်း ပြင်ဆင်တော်မူခဲ့ လေသည်။

၁။ စလင်းဆရာတော် မဟာဝါ ဂဏ္ဌိ
၂။ နေတ္တိပါဠိတော် နိဿယ
၃။ မုဒ္ဒဗောဓ နိဿယ
၄။ ဘေဒစိန္တာ ဋီကာဟောင်း၊ ဋီကာသစ်
၅။ ဝိနယသင်္ဂဟ ဋီကာဟောင်း

ရွှေရေးဆောင်ဆရာတော် အရှင်အာဒိစ္စရံသီသည် သက် တော် ၇၈ နှစ်၊ ဝါတော် ၅၈ ဝါ အရ သက္ကရာဇ် ၁၂၈၇ ခုနှစ် ဦး တန်ခူးလပြည့်ကျော် ၄ ရက် တနင်္ဂနွေနေ့တွင် ပျံလွန် တော်မူလေသည်။

(ဤရွှေရေးဆောင် ဆရာတော်၏ အတ္ထုပ္ပတ္တိကို (၁) ဆရာတော် ကိုယ်တိုင်ရေးသည့် ဂမ္ဘီရတ္ထနိယာမ ဝိသဇ္ဇနာ ကျမ်း နိဂုံးနှင့် (၂) ဆရာလွန်း (သခင်ကိုယ်တော်မှိုင်း) ရေးသည့် ရွှေရေးဆောင် ထေရုပ္ပတ္တိကထာကျမ်း တို့ကို ကြည့်ရှု လေ့လာ တိုက်ဆိုင် ရေးသားပါသည်။)

ဦးထွန်းမြင့်

**ရွှေလီမြစ်။** ။တရုပ်နိုင်ငံတွင် မြစ်ဖျားခံပြီးလျှင် မြန်မာ နိုင်ငံ ဧရာဝတီမြစ်ကြီးထဲသို့ စီးဝင်သော ထင်ရှားသည့် မြစ် လက်တက်ကြီး တခုမှာ ရွှေလီမြစ် ဖြစ်၍ မြန်မာနိုင်ငံ၏ အရှေ့တံခါးပေါက်ကြီး တခု ဖြစ်သည်။ မိုင်ပေါင်း ၃၅၀ ခန့် ရှည်လျား၏။ ရွှေလီမြစ်စဉ်အတိုင်း ဆန်တက်ပါက တရုပ်-မြန်မာ နယ်နိမိတ်ကို ဖြတ်သန်း၍ တရုပ်နိုင်ငံတွင်းသို့ ပေါက်သည်။ တရုပ်—မြန်မာ လမ်းမကြီးသည် များသော အပိုင်းတွင် ရွှေလီမြစ်နှင့် ယှဉ်ပြိုင် သွယ်တန်းလျက်ရှိ၏။

တရုပ်နိုင်ငံ ထိန်ယွေး(မိုးမျဉ်း)နယ် အရှေ့မြောက်ဖက် မိုင် ၆၀ ခန့် အကွာမှ မြစ်ဖျားခံခဲ့ပြီးနောက်၊ အနောက်တောင်ဖက်သို့ စီးဆင်းကာ မိုင်းမော၊ နမ့်ခမ်းမြို့များအနီးမှ ဖြတ်သန်း၍ မိုးမိတ်နယ်သို့ ဝင်ပြီးလျှင် မြစ်ဆုံရွာအနီး ရောက်သောအခါ မြောက်ဖက်သို့ မြစ်ကြောင်းတဖန်လှည့်၍ ကဿာမြို့ တောင်ဖက် မိုင် ၂၀ ခန့် ကွာဝေးသော အင်းရွာနားမှ ဧရာဝတီမြစ်ထဲသို့ ပေါင်းဆုံစီးဝင်သည်။ ထို့ကြောင့် ရွှေလီမြစ်သည် တရုပ်၊ ရှမ်းနှင့် ကချင်ဒေသများကို ဆက်သွယ်ပေးသော တံခါးပေါက်ကြီးဟု ဆိုရပေမည်။

ရွှေလီမြစ်ကို ချီဖင်လွင်ပြင်သို့ မရောက်မီ တရုပ်တို့က လွန်ကျန်၊ လွန်ချွန်ကျန်မြစ်ဟု ခေါ်၍ ရှမ်းတို့က နမ့်ယန်မြစ်ဟု ခေါ်သည်။ ချီဖင်လွင်ပြင်ကို ကျော်လာသောအခါ နမ့်မောမြစ်ဟု ခေါ်ကြပြန်သည်။ အရှည်အားဖြင့် မိုင် ၂၆၀ ရှိ၍ တောတောင်စိမ့်စမ်း လျှိုမြောင်ကြားမှ ဖြတ်စီးရသောကြောင့် မြစ်ကျဉ်းများ ရေတံခွန်များ ပေါမျာသဖြင့် အချို့နေရာ၌ ကူးသန်းသွားလာရေး ခက်ခဲသည်။ မြစ်ဆုံရွာ အောက်ဖက်တွင် မြစ်ကြောင်းသည် ကျယ်သော်လည်း မြစ်ဆုံရွာ အထက်ဖက် မြစ်ကြောင်းသည် အလွန်ကျဉ်းသည်။ မိုးကုတ်နယ် ရွှေညောင်ပင်ရွာနားမှ စီးဆင်းလာသော ကင်းချောင်းနှင့် မိုးမိတ်မြို့ကို ဖြတ်သန်းစီးဆင်းလာသော နမ့်မိတ်မြစ်တို့သည် ပေါင်းဆုံပြီးနောက် မြစ်ဆုံရွာနားတွင် ရွှေလီမြစ်ထဲသို့ လက်ဝဲဖက်မှ စီးဝင်သည်။ အခြားထင်ရှားသော မြစ်လက်တက် ဟူ၍ကား မရှိချေ။ ရွှေလီမြစ်သည် ကူးသန်းသွားလာရန် များစွာ အသုံးမဝင်သော်လည်း ယင်းကို သစ်ဝါးမျှောရန် အသုံးပြုကြသည်။

နမ့်ခမ်းမြို့အနီး ဆွပ်ခမ်းရွာ အောက်နားတွင် ရွှေလီမြစ်သည် တောင်ကုန်းကို ဖြတ်၍ စီးရသဖြင့် ကိုက် ၁၀၀ ခန့်သာ ကျယ်၍ ရေတံခွန်များ အလွန်များပြားသဖြင့် လှေသင်္ဘောများ သွားလာခြင်း မပြုနိုင်ချေ။ ချီဖင်ဒေသ မန်ပင်ရွာနှင့် ဆွပ်ခမ်းရွာ ကြား၌သာ ကူးသန်း သွားလာရန် အသုံးဝင်လေသည်။ ဧရာဝတီမြစ်သို့ စီးဝင်ခါနီး ရွှေလီမြစ်၏ အောက်ပိုင်းဒေသ၌ သစ်တောကြီးများ ရှိသည်။

ရွှေလီမြစ်ပေါ်ရှိ ထင်ရှားသောကူးတို့ဆိပ်များမှာ နောင်ခမ်း၊ ဆွပ်ခမ်း၊ တကျယ်၊ အေအောကာ၊ တာလီ၊ ပိန်းခ၊ ဖျီပေါ၊ မန်းဆတ်တို့ ဖြစ်ကြသည်။ အချို့သည် အိမ်ခြေနှစ်ဆယ် အစိတ်သာ ဖြစ်သည်။

မိုင်းမောနှင့် နမ့်ခမ်း လွင်ပြင်ဒေသတွင် ရွှေလီမြစ်သည် လွင်ပြင်ကို စီးဆင်းရသော်လည်း အကွေ့အကောက် များသဖြင့် ဇရစုန်၌ပင် အသွားအလာ အလွန်နှောင့်နှေးသောကြောင့် ကုန်းလမ်းခရီးဖြင့်သာ အသွားများသည်။ ထိုနေရာရှိ ရွှေလီမြစ်ဝှမ်းဒေသသည် အရှေ့နှင့် အနောက် မိုင် ၃၀ ခန့်၊ တောင်နှင့် မြောက် ခုနစ်မိုင်ခန့် ရှည်လျားသည်။ ရေမျက်နှာပြင်မှ ပေ ၂,၄၀၀ မြင့်သော ချိုင့်ဝှမ်းဒေသဖြစ်၍ မိုးရာသီတွင် ရေလွှမ်းနေတတ်သည်။ ထိုဒေသသည် ရွှေလီမြစ်တလျှောက်တွင် လူဦးရေ အများဆုံး ဒေသ ဖြစ်သည်။ လူဦးရေ တသိန်းကျော်ခန့် ရှိသည်။

ရွှေလီနယ်ဒေသကို ရှေးနယ်ရှင်စော်ဘွားကြီးများခေတ်တွင် မြို့စားပေါင်း ၁၅ ဦးတို့ဖြင့် ခွဲဝေအုပ်ချုပ်ခဲ့လေသည်။ လွတ်လပ်ရေးရပြီးနောက် နယ်ရှင် သိန္နီစော်ဘွားကြီးက ရွှေလီနယ်ဒေသရှိ နမ့်ခမ်းမြို့တွင် ရွှေလီအမတ်တဦး ထားရှိကာ မြို့စားများကို အုပ်ချုပ်စေသည်။ စော်ဘွားများ အာဏာ စွန့်လွှတ်ပြီးနောက်၌မူ နမ့်ခမ်းမြို့တွင် နယ်ပိုင် ဝန်ထောက်တဦးနှင့် မြို့ပိုင်တဦး၊ မူဆယ်မြို့တွင် မြို့ပိုင်တဦးနှင့် လက်ထောက်မြို့ပိုင်တဦး ထားရှိပြီးလျှင် ယခင် မြို့စားများကို တိုက်သူကြီးများအဖြစ် ဆောင်ရွက်စေသည်။

ရွှေလီမြစ်ဝှမ်းဒေသတွင် ရှမ်းလူမျိုး အများဆုံး နေထိုင်သည်။ ကျန်လူမျိုးတို့မှာ ကချင်၊ ပလောင်၊ လီဆူများ ဖြစ်၍ တရုပ်လူမျိုးလည်း အများအပြား လာရောက်နေထိုင်ကြသည်။ ရွှေလီဒေသ ရှမ်းများသည် တနေရာမှ တနေရာသို့ ပြောင်းရွှေ့ စီးပွားရှာလေ့ ရှိကြသည်။ အထူးသဖြင့် ရှမ်းပြည်မြောက်ပိုင်းရှိ လားရှိုး၊ တန့်ယန်း၊ နမ္မတူမြို့များ၊ ရှမ်းပြည်တောင်ပိုင်းရှိ လင်းခေး၊ ပင်လုံ၊ ကျိုင်းတုံစသော မြို့များသို့ သွားရောက် စီးပွားရှာကြသည်။ ထိုမြို့များ၌မူ နမ့်ခမ်းရှမ်းဟု တွင်သည်။

ယင်းတို့သည် များသောအားဖြင့် ဗုဒ္ဓအယူဝါဒီများ ဖြစ်ကြသည်။ တစ်ရာခိုင်နှုန်းခန့်သာ ခရစ်ယန်၊ မွတ်စလင်နှင့် နတ်များကို ကိုးကွယ်သူများ ဖြစ်ကြသည်။ ထိုဒေသရှိ လူအပေါင်းတို့သည် မြန်မာနိုင်ငံထက် တရုပ်နိုင်ငံနှင့် အဆက်အသွယ် လွယ်ကူသဖြင့် အနေအထိုင် ဓလေ့ထုံးစံ ယဉ်ကျေးမှုတို့သည် တရုပ်ဆန်သည်။ တရုပ်နှစ်သစ်ကူးချိန်တွင် ပွဲလမ်းသဘင် ဆင်ယင်ကျင်းပလေ့ ရှိကြသည်။ စားသောက်ရာ၌လည်း တူဖြင့်ပင် စား၍၊ ဝတ်ဆင်ရာ၌ တရုပ်နိုင်ငံဖြစ်ပစ္စည်းများကို ဝတ်ဆင်လေ့ ရှိကြသည်။

ရွှေလီမြစ်ဝှမ်းဒေသတွင် များသောအားဖြင့် လယ်ယာကိုင်းကျွန်း လုပ်ကိုင် စားသောက်ကြသည်။ ထင်ရှားသော ထွက်ကုန်များမှာ လက်ဖက်ခြောက်၊ ကျောက်ကျော၊ မက်မုံသီး၊ သစ်သော့သီး၊ သစ်အယ်သီး၊ တယ်သီး၊ ဓား၊ လွယ်အိတ်၊ ခမောက် စသည်တို့ ဖြစ်ကြသည်။

ထိုဒေသသို့ ခရီးသွားကြသူများသည် တရုပ်ပြည်သူ့သမတနိုင်ငံဖက်ရှိ ဝမ်တိမ်မြို့ကလေးနှင့် တန်တားကလေးသာ ခြားလျက်ရှိသော ပန်ဆိုင်းမြို့သို့၎င်း၊ နမ့်ခမ်းမြို့ရှိ ခွဲစိပ်ကုသမှုတွင် အထူးကျော်ကြားသော ဒေါက်တာ ဆီးဂရေ့၏ နမ့်ခမ်း ဆေးရုံသို့၎င်း လာရောက် လည်ပတ်ကြည့်ရှုကြရသည်။

**ရွှေလှေ၊ ဦး** (မြန်မာ ၁၂၂၉–၁၂၉၃)။ ။ဦးရွှေလှေသည် ကျိုက္ခမီခရိုင် (ယခု မော်လမြိုင်ခရိုင်) မော်လမြိုင်မြို့နယ် ကတိုးကော့နှပ်ရွာတွင် မြန်မာ သက္ကရာဇ် ၁၂၂၉ ခုနှစ်၌ ဖွားမြင်သည်။ အဖ ကော့နှပ်ရွာ ဝေယန်ဘုံကျော်တိုက်ကျောင်းကြီးနှင့် စွယ်တော်တိုက် တန်ဆောင်းကြီး၏ ဒါယကာ၊ ဇင်းမယ်မြို့နယ်တွင် မှိုင်းလုံးကြီး၊မယ်ငဲ့သစ်တော၊ ထားခွင် သစ်တောကြီးများတို့၏ စာချုန်တော်ရ ပိုင်ရှင် "ဖညားဆလီဆောင်မုန်း ရာဇာမိုင်းထီး" ဟူသော ဘွဲ့ထူးဝိသေသနှင့်တကွ ရွှေသား ပကတိဖြစ်သော မား၊ရွှေထီး၊ရွှေဖလား၊မြို့စား၊ရွာစားတို့၏ အဆောင်အယောင်တို့ဖြင့် ဇင်းမယ်မြို့အစိုးရတို့၏ချီးမြှင့်သူကောင်းပြုခြင်းကိုခံရသူ သဌေးကြီး ဦးထွန်းကျော်နှင့် အမိသဌေးကတော် အရီးထော်တို့၏ သားသမီး သုံးယောက်အနက် သားကြီးဩရသဖြစ်သည်။ ဦးရွှေလှေတွင် ညီမ ဒေါ်နှင်းဂုန်နှင့် ညီ ဦးအုန်းခင် တို့ရှိသည်။ ဦးရွှေလှေ၏ ဖခင် ဦးထွန်းကျော်သည် မော်လမြိုင်မြို့နယ်တခွင်တွင် သူတော်ကောင်း ပုဂ္ဂိုလ်ကြီး ဟူ၍ရင်း၊ ရတနာသုံးပါးကို မတုန်မလှုပ် သက်ဝင်ကြည်ညိုသောသူ ဟူ၍ရင်း၊ ရက်ရက်ရောရော နှမြောမဲ့လျှင်း စွန့်ကြဲပေးကမ်းလှူဒါန်းခြင်းကို ပြုလေ့ရှိသောသူ ဟူ၍ရင်း၊ ရွာသူရွာသားလူအများကို သင်္ဂဟတရား လေးပါးတို့နှင့်အညီ သနားကြင်နာ လွန်စွာထောက်ပံ့တတ်သော ပုဂ္ဂိုလ်ကြီး ဟူ၍ရင်း၊ သီလ သမာဓိ သစ္စာ ဂတိ ရှိသူဖြစ်၍ ပေါင်းသင်းဆက်ဆံဘူးသူ မှန်သမျှတို့၏ ကလျာဏမိတ္တ အစစ်ကြီး ဟူ၍ရင်း ထင်ရှားကျော်စော အံ့ဩချီးမွမ်းခြင်း ခံရသူ ဖြစ်သည်။ ဦးရွှေလှေ၏ အမိဖြစ်သူ ကျောင်းဒါယိကာမကြီး အရီးထော်သည်ကား မွန်လူမျိုးတို့၏ မျက်နှာဖုံး ထင်ရှားသော ညီအစ်မ ငါးယောက်တွင် စတုတ္ထဖြစ်သူ မသက်စိတ်၏ သမီးချစ်ရတနာ ဖြစ်လေသည်။ ဦးရွှေလှေသည် ငယ်စဉ်အခါက မိဖတို့ကိုးကွယ်သော ကော့နှပ်ရွာဆရာတော်ကြီး၏ကျောင်းတွင် ဘာသာရင်းဖြစ်သော မွန်စာကိုရင်း၊ နောက် ကတိုးရွာ ဓမ္မာရုံကျောင်း ဆရာတော်ကြီးနှင့် မော်လမြိုင်မြို့ ရွှေတောင်ရပ် ဆရာကြီး ဦးဘိုးမင်းတို့ထံတွင် မြန်မာစာကိုရင်း သင်ကြားလေသည်။ ထိုနောက် မော်လမြိုင်မြို့စိန်ပက်ထရစ်ကျောင်းတွင် အင်္ဂလိပ်စာပေ ပညာများကို သင်ကြားလေသည်။ ထိုနောက် မိဖတို့က ဝေယန်ဘုံကျော်ကျောင်းတိုက်ကြီးကို ရေစက်သွန်းချသော အခမ်းအနားနှင့် တကွ သားကြီးရတနာကိုလည်း ပဗ္ဗဇ္ဇ မင်္ဂလာ ဆင်ယင်ကျင်းပလျက် ရှင်သာမဏေ ပြုစေကြသည်။

ဦးရွှေလှေသည် ရှင်လိင်ပြန်၍ အသက် ၁၄ နှစ် အရွယ်တွင် မော်လမြိုင် အရေးပိုင် ကာနယ် ဖာလောင်၏ နည်းပေးညွှန်ပြချက် အရ မိဖနှစ်ဖြာတို့ကလည်း သဘောတူညီကြသည်နှင့် ဗိလတ်သို့ သွားရောက် ပညာသင်ကြားရန် စီမံပြီး



ဦးရွှေလှေ ဆောက်လုပ်ခဲ့သော အိမ်ဂေဟာ

လျှင် အရေးပိုင် ကာနယ် ဖာလောင်နှင့်အတူ လန်ဒန်မြို့သို့ လိုက်ပါသွားလေသည်။

ဦးရွှေလှေသည် လန်ဒန်မြို့ရှိ စာသင်ကျောင်းများတွင် စာပေပညာရပ်များ သင်ကြားနေစဉ် လေးနှစ်ကြာသော အခါ မိဖတို့က သူတို့၏စီးပွားရေးလုပ်ငန်းတွင် ဦးစီးဆောင်ရွက်ရန် ပြန်ခေါ်သဖြင့် မြန်မာနိုင်ငံသို့ ပြန်ခဲ့ရသည်။

ခရစ်နှစ် ၁၈၈၆ ခုတွင် ကတိုးရွာနေ သစ်ခေါင်းကြီး ဦးဒွန်း၏ သမီးအကြီးဆုံး ဖြစ်သူ မကြင်ဥနှင့် လက်ထပ်ထိမ်းမြားသည်။

ဦးရွှေလှေသည် အသက် ၂၀ ကျော်အရွယ်တွင် ဇင်းမယ်မြို့နယ် မှိုင်းလုံးကြီးမြို့သို့ သွားရောက်၍ ဖခင်၏ ကိုယ်စား သစ်တောကြီးများကို အုပ်ချုပ် လုပ်ကိုင်လေသည်။

ထိုနောက် တောပိုင်စာချုန်ရ၊ မုန်းပဲကြီး မြို့စား ဘုရားဒါယကာ ကဏ္ဍာ ဆိုသူ ကွယ်လွန်ရာတွင် ဇင်းမယ်မင်းကြီး၏ သားတော် အိမ်ရှေ့မင်းက သစ္စာတော်ရည်သောက် ဖြစ်သော ဦးရွှေလှေကို တမင် ဆင့်ခေါ်တော်မူပြီးလျှင် မုန်းပဲ သစ်တောကြီးကို စာချုန်နှင့်တကွ နှင်းအပ် ပေးသနားတော်မူလေသည်။ ထိုစဉ်အခါ မုန်းပဲသစ်တောကြီးကို ရရန် အတွက် အသီးအသီးသော သစ်ကုန်သည်ကြီး၊ ကုမ္ပဏီကြီးတို့သည် ငွေသိန်းပေါင်းများစွာတို့ကို လက်ဆောင်တော် အဖြစ် ပေး၍ တောင်းခံကြသော်လည်း မရခဲ့ကြချေ။ ဇင်းမယ်နယ်တွင် သစ်လုပ်ငန်းကို အတော်ကြာ လုပ်ကိုင်ပြီးနောက် နေရင်း ကတိုးရွာမှ လုပ်ငန်းများကို ပြန်လည်

ဦးစီးလုပ်ကိုင်ရန် ဇင်းမယ် သစ်တောလုပ်ငန်းကို ပိတ်လိုက်သည်။ ကတိုးရွာသို့ ပြန်လည် ဆိုက်ရောက်သည်နှင့် တပြိုင်နက် ဦးရွှေလှေ့သည် အကောင်းဆုံးသော ကျွန်းသစ်တို့ဖြင့်သာ ပြီးသော သုံးထပ် နေအိမ်ကြီးတဆောင်ကို မြန်မာနိုင်ငံတွင် ဆောက်လုပ် နေကြပုံမျိုး မဟုတ်ဘဲ အနောက်နိုင်ငံ ဗိသုကာစံနစ်အတိုင်း မြေစိုက်တိုင်မပါဘဲ ထူးဆန်းစွာ ဆောက်လုပ်နေထိုင်လေသည်။ ထိုအိမ်ကို ပီနန်မြို့မှ တရုပ်မြန်မာ လက်သမားတရာကျော်နှင့် သုံးနှစ်တိုင်တိုင် ဆောက်ရသည်။

မြန်မာနိုင်ငံ အမြို့မြို့အရွာရွာမှ ကတိုးကော့နှပ်ရွာသို့ ဘုရားဖူး လာရောက်ကြကုန်သော သူတို့သည် ထိုဦးရွှေလှေ့၏အိမ်ကို အထူးအဆန်း ပြုလုပ်၍ ယခုထက်တိုင် ကြည့်ရှုမှတ်သားကြကုန်သည်။

ဦးရွှေလှေ့သည် မြန်မာနိုင်ငံသို့ ပြန်ရောက်သောအခါ လုပ်ငန်းဆောင်တာ အရပ်ရပ်ကို စူးစမ်းသည့် အနေနှင့် ငွေချေးငှါးခြင်းအလုပ်၊ စပါး ရောင်းဝယ်ခြင်းအလုပ်၊ ဆီဆုံများ တည်ထောင်၍ နှမ်းဆီကြိတ်ခြင်းအလုပ်၊ လယ်များ ဥယျာဉ်များကို ဝယ်၍ သီးစားချခြင်း အလုပ်တို့ကို ပြုလုပ်သော်လည်း မည်သည့်လုပ်ငန်းကိုမျှ သဘောမတွေ့သဖြင့် ၁၉၀၇ ခုနှစ်တိုင် ရောက်သောအခါ မြေကေ တရာလောက်တွင် ရော်ဘာပင် စိုက်ပျိုးခြင်းအလုပ်ကို စတင် စမ်းသပ်လုပ်ကိုင်လေသည်။ ထိုသို့ လုပ်ကိုင်နေစဉ်တွင် မျက်မြင်ကိုယ်တွေ့ မဟုတ်ဘဲ စာတွေ့ လူပြောသူပြောမျှနှင့် လုပ်ငန်းတရပ်ကို ကြီးပွားအောင် ဆောင်ရွက်နိုင်လိမ့်မည် မဟုတ်၊ ကမ္ဘာတခွင်လုံးကို လှည့်လည်၍ လုပ်ငန်းရပ်များ မျက်မြင်ကိုယ်တွေ့ ဖြစ်စေသင့်သည်ဟု အကြံဖြစ်ကာ ထိုနှစ်တွင်ပင် အင်္ဂလန်၊ အမေရိကန်၊ ဂျပန်၊ တရုပ်၊ မလေး စသော နိုင်ငံများသို့ လှည့်ပတ် သွားရောက်သည်။ ကမ္ဘာလှည့်လည်ရာမှ ပြန်ရောက်သောအခါ ဦးရွှေလှေ့သည် လုပ်လက်စရှိသော ရော်ဘာပင် စိုက်ပျိုးခြင်းကို ငွေရင်း အမြောက်အမြား မြှုပ်နှံ၍ ကြိုးစားလုပ်ကိုင်ရာ ဦးရွှေလှေ့ တဦးတည်းပိုင်သော ရော်ဗာခြံကြီးသုံးခြံသည် မြေကေပေါင်း ၂,၀၀၀ ကျော်မျှ ရှိသည်အထိ ကြီးပွားလာသည်။

ဦးရွှေလှေ့သည် ကမ္ဘာကို လှည့်လည်ရာတွင် အတိုင်းတိုင်း အပြည်ပြည်တို့၌ ရှိသော ပိဋကတ်တိုက်ကြီးများသို့ ဝင်ရောက်ကြည့်ရှုခဲ့ရာ နိုင်ငံတိုင်းလိုလို၌ ဗုဒ္ဓပိဋကတ်တော်ကို မိမိတို့၏ ဘာသာစကားဖြင့် ပြန်ဆိုရေးသားထားကြသည်ကို တွေ့မြင်ဖတ်ရှုခဲ့ရသောကြောင့် ပါဠိတော်မြတ် ပိဋကတ်တို့ကို မြန်မာဘာသာ စကားပြေသက်သက်ဖြင့် ပြန်ဆိုရသော် နောင်လာနောက်သား လူအများတို့အား အကျိုးစီးပွား များလေရာသည်ဟု ကြံစည်မိသည့်အတိုင်း မြန်မာနိုင်ငံတွင် မည်သူတယောက်မျှ မပြုလုပ် မလှူဒါန်းဘူးသေးသော သာသနာနုဂ္ဂဟ ဓမ္မဒါနကြီးကို ရဲရဲရင့်ရင့် စွန့်စွန့်စားစား နောက်မဆုတ်သော သဒ္ဓါတရားဖြင့် နိကာယ် ငါးရပ် ပိဋကတ်ကို မြန်မာပြန်ဆိုရန် ငွေအလုံးအရင်းနှင့် လှူဒါန်းသည်။ ပိဋကတ် မြန်မာပြန်ဆိုရန် ဆရာမြို့အား လွှဲအပ်ရာ ၁၉၁၁ ခုနှစ်မှ ၁၉၂၁ ခုနှစ်အတွင်း နိကာယ်ငါးရပ်ရှိသည့်အနက် နိကာယ်လေးရပ်ကို ပြန်ဆို ပြီးစီးသည်။ (မြို့၊ ဆရာ — လည်းရှု။) ပြန်ဆိုပြီးသမျှ စာမူတို့ကို ဦးရွှေလှေ့သည် ကိုယ်ကျိုးအတွက် ရောင်းချသုံးစွဲခြင်း မပြုဘဲ ထိုစဉ်အခါက ဘုရင်ခံဖြစ်သော ဆာ ဂျေ အေ မောင်ကြီးလက်သို့ ပုံနှိပ်ဖြန့်ချိရန် ပေးအပ်လိုက်သည်။

ဦးရွှေလှေ့၌ သားသမီး အရင်း ဟူ၍ မရှိ၊ မွေးစားသော မငွေကြည် ခေါ် သမီးတယောက်သည် အသက်ခြောက်နှစ်တိုင်ရောက်မှ ဦးရွှေလှေ့ ဇင်းမယ်မြို့က မပြန်မီပင် ကွယ်လွန်လေသည် ဖြစ်၍ ညီအရင်း ဦးအုန်းခင်နှင့် ဒေါ်ဖွားသာတို့မှ မွေးဖွားသော မောင်စံမြင့်၊ မငွေတင်၊ မောင်သင်းလှိုင်တို့ကို အမွေစား အမွေခံ သားသမီး အဖြစ်နှင့် ယုယပိုက်ဖြား မွေးစားထားလေသည်။

ဦးရွှေလှေ့သည် ပျိုမျစ်နုနယ် ငယ်ရွယ်စဉ် အခါက စောင်းတီးခြင်း အတတ်ကို ဝါသနာထုံသဖြင့် လေ့ကျက်သင်ကြားရာ ကောင်းစွာ တတ်မြောက်လေသည်။ မြင်းပြိုင်ခြင်း၊ လှေပြိုင်ခြင်းများကိုလည်း အပျော်အပါးအလို့ငှါ ဝါသနာ ရှိဘူးလေသည်။

ဦးရွှေလှေ့သည် အသက်အရွယ် ၄၀ ကျော်လွန်သောအခါ အပျော်အပါး စသည့် နောက်နောက်က ဝါသနာများ တစတစ ပျောက်ကွယ်၍ စီးပွားရေးကိုသာ စောက်ချလုပ်ကိုင်သည်။ အသက် ၅၃ နှစ်တွင် ဥပဒေပြု လွှတ်တော် မင်းတိုင်ပင်အမတ် အဖြစ် အစိုးရ၏ ခန့်အပ်ခြင်းခံရသည်။ အသက် ၅၇ နှစ်တွင် ခြေထောက်တွင် ဖိနပ်ပွန်းသည့်အနာသည် ဆီးချိုရောဂါကြောင့် မပျောက်နိုင်ဘဲ ဆိုးသည်ထက် ဆိုးလာရာ ဆေးရုံသို့ တက်ရောက်ပြီးသော် ခြေတဖက်ကို ဖြတ်ပစ်ရသည်။ ထိုအခါမှ စ၍ ခြေတုနှင့် လမ်းလျှောက်ခြင်း၊ ဘီးတပ်ကုလားထိုင်ဖြင့် သွားခြင်း ပြုရသည်။ ၁၉၂၃ ခုနှစ် အသက် ၆၄ နှစ်အရွယ်တွင် ဦးရွှေလှေ့သည် ထိုရောဂါဖြင့်ပင် ကွယ်လွန်ရှာသည်။

ဦးရွှေလှေ့သည် စိတ်ထားခိုင်မာ၏။ ထကြွ လုံ့လဝီရိယရှိ၏။ အမှတ်အသား မြဲမြံသဖြင့် သတိကောင်း၏။ ဥာနာဥာန ကောသလ္လ ဥာဏ်နှင့် ပြည့်စုံ၏။ အစဉ်းစား အဆင်ခြင်များ၏။ မိမိထက် အသက်အရွယ်ကြီးသူ၊ ဂုဏ်သိက္ခာကြီးသူ လူကြီးသူကြီးများကို ရိုသေ လေးမြတ်လေ့ ရှိ၏။ မိမိကိုယ်ကို နှိမ့်ချလေ့ရှိ၏။ ဝါကြွားပလွှားလေ့ မရှိ။ သစ္စာကတိ ရှိ၏။ ကတိသစ္စာပျက်မည့်အရာ လွန်စွာ စိုးရိမ်တတ်၏။ အလုပ်တခုခုကိုစမိလျှင် အထမမြောက်မခြင်း နောက်

သို့ ဆုတ်လေ့မရှိ။ ရဲရဲရင့်ရင့် လုပ်ကိုင် ဆောင်ရွက်လေ့ရှိ၏။ ပညာရှိ လူကြီးသူကြီးတို့ ဖြစ်တင် ကဲ့ရဲ့မည်ကို အလွန် ကြောက်တတ်၏။ ရပ်ရွာကိစ္စ၊ နိုင်ငံကိစ္စတို့ကို ဦးစီးဆောင် ရွက်တတ်သူ ဖြစ်လေသည်။

**ရှိုက်ဇာ၊ အယ်လဗတ်** (ခရစ် ၁၈၇၅–၁၉၆၅)။ ။ကျမ်းကြီး ကျမ်းခိုင်များကို ပြုစု ရေးသားသူအား စာပေပညာရှင်ဟု ခေါ်ကြသည်။ တူရိယာ ဂီတဖက်၌ ကျွမ်းကျင်ပြောင်မြောက်သူကို ဂီတပညာရှင်ဟုခေါ်ကြသည်။ ရောဂါဝေဒနာသည်များအား ဆေးဝါးကုသပေးသူကို သမားဟု ခေါ်ကြသည်။ သာသနာ ပြန့်ပွားရေး ဆောင်ရွက်သူကို သာသနာပြုဟု ခေါ်ကြသည်။ သစ်ပင် ပန်းပင် အကြောင်း တတ်သိ နားလည်သူကို ရုက္ခဗေဒ ပညာရှင်ဟု ခေါ်ကြသည်။ အဆောက်အအုံများ ဆောက်လုပ်ရေး၌ ကျွမ်းကျင် နားလည်သူကို ဗိသုကာဟု ခေါ်ကြသည်။ သို့သော် အဆိုပါ လုပ်ငန်းများကို လူတဦးတယောက်တည်းက အစုံ လုပ်ကိုင် ဆောင်ရွက်နေသောအခါ ထိုပုဂ္ဂိုလ်ကို အတတ်ပညာဆိုင်ရာ၊ လုပ်ငန်းဆိုင်ရာ ဂုဏ်ထူး ဝိသေသဖြင့် ခွဲခြားခေါ်ရန် ခဲယဉ်းနေသည့်အပြင် ဖော်ပြပါ လုပ်ငန်းများကိုလည်း တီးမိ ခေါက်မိရုံမျှသာ မဟုတ်၊ ပေါက်မြောက် ကျွမ်းကျင်စွာ လုပ်ကိုင် ဆောင်ရွက်နိုင်သူလည်း ဖြစ်ဘိမူကား ထိုသို့သော ပုဂ္ဂိုလ်မျိုးသည် လူအသိန်းအသန်း၌ပင် တယောက် ပေါ်ထွန်းနိုင်ခဲလှသည်။ ထို ရှားမှရှား ပုဂ္ဂိုလ်ထူးမျိုးထဲတွင် ဒေါက်တာ အယ်လဗတ်ရှိုက်ဇာသည် တဦးအပါအဝင် ဖြစ်သည်။

ဒေါက်တာ အယ်လဗတ်ရှိုက်ဇာသည် အထက် ဖော်ပြပါ လုပ်ငန်းများ အပြင် တိရစ္ဆာန် ဆေးကုပညာ၊ သွားစိုက်ပညာ၊ ပုံဆွဲပညာ စသည်ဖြင့် အတတ်ပညာ အမျိုးအမည် အတော်အတန် စုံလင်စွာ တတ်မြောက် ကျွမ်းကျင်သည်။ ယင်းသို့ လုပ်ငန်းမျိုးစုံ၌ ကျွမ်းကျင် တတ်မြောက်အောင် လေ့လာဆည်းပူးထားခြင်းမှာ သူ၏လူမှုအကျိုးပြု လုပ်ငန်းကြီး အကောင်အထည်ဖော်ရာ၌ အသုံးချရန်ဖြစ်လေသည်။

ထို့ကြောင့် ဒေါက်တာ ရှိုက်ဇာသည် မိမိ တတ်မြောက် ကျွမ်းကျင်သော အတတ်ပညာများကို အသုံးချရာ၌ အများနှင့်မတူ၊ တမူ ကွဲသည်။ ကျမ်းကြီး ကျမ်းခိုင်များကို ရေးသား ပြုစုသဖြင့်၎င်း၊ ဥရောပ နိုင်ငံများသို့ လှည့်၍ အော်ဂန် (ပြွန်စန္ဒရား) တီးပြသဖြင့်၎င်း၊ ဟောပြောပွဲများ ကျင်းပခြင်းဖြင့်၎င်း ငွေကြေး အများအပြားရရှိသည်။ သို့သော် ထိုငွေများကို ဒေါက်တာ ရှိုက်ဇာသည် မိမိ၏ ကိုယ်ကျိုး စီးပွားအတွက် မသုံးချေ။ သူ၏ အတတ်ပညာများဖြင့် ကြိုးပမ်းတကုတ် ရှာ၍ရရှိသော ငွေများသည် လူ့လောကတွင် မားမ နောက်ပိတ်ခွေး ဖြစ်နေကြသော လူအများ၏ ကျန်းမာရေး၊ အသိဥာဏ် ပွင့်လင်းရေး စသော ပရဟိတ လုပ်ငန်း မျိုးစုံ အတွက် ရန်ပုံငွေများ ဖြစ်သွားကြလေသည်။ ထို့ကြောင့် ဒေါက်တာ ရှိုက်ဇာကို လူမှုဝန်ထမ်း စေတနာရှင် ပုဂ္ဂိုလ်ထူးကြီးဟု ခေါ်ဆိုကြလေသည်။ လူမှုရေး အလွန်နိမ့်ကျနေသူများအား ကိုယ်ကျိုးစီးပွား လုံးဝ မဖက်ဘဲ ကရုဏာ၊ မေတ္တာ စေတနာသန့်သန့်ဖြင့် မိမိ၏ဘဝကို မြှုပ်နှံကာ လူမှု အကျိုးဆောင် လုပ်ငန်းကြီးကို ဆောင်ရွက်ခဲ့သဖြင့် ၁၉၅၂ ခုနှစ် ငြိမ်းချမ်းရေး နိုဗဲဆုကြီးကို ရရှိခဲ့သည်။ ထိုနိုဗဲဆုအတွက် ရရှိငွေ (မြန်မာငွေတန်ဖိုးအားဖြင့် တသိန်းကျော်)ကိုလည်း သူ၏လူမှုလုပ်ငန်းအတွက်ပင် ရင်းနှီး မြှုပ်နှံလိုက်လေသည်။

ပုဂ္ဂိုလ်ထူး ဒေါက်တာ ရှိုက်ဇာသည် ဂျာမန် လူမျိုးဖြစ်သည်။ ယခင်က ဂျာမန်ပိုင် ဖြစ်ခဲ့သော်လည်း ယခု ပြင်သစ်ပိုင် ဖြစ်သည့် အထက် အယ်လဆက်နယ်၊ ကိုင်ဇာဗတ်မြို့၌ ၁၈၇၅ ခုနှစ် ဇန္နဝါရီလ ၁၄ ရက်နေ့တွင် မွေးဖွားသည်။ မိဖဘိုးဘွားများသည် လူသာ ဂိုဏ်းဝင် သာသနာ့ဝန်ထမ်းများ ဖြစ်သည်။ ရှိုက်ဇာကို မွေးဖွားပြီး၍ မကြာမီပင် မိဖများသည် ဂျွန်းစဗတ်မြို့သို့ ရွှေ့ပြောင်းခဲ့ရာ ထိုမြို့သည် ရှိုက်ဇာ၏ ဇာတိဌာနေ ဖြစ်ခဲ့လေသည်။

ရှိုက်ဇာသည် ရှစ်နှစ်သား အရွယ်ကပင် အော်ဂန်ကို ကောင်းစွာ တီးနိုင်၍ ၁၈၉၃ ခုနှစ်တွင် ပါရစ်မြို့သို့ သွားရောက်ပြီးလျှင် အော်ဂန်ပါရဂူ ချားဗီဒေါ်ထံတွင် ကျနစွာ တပည့်ခံခဲ့သဖြင့် ကျော်ကြားသော အော်ဂန်ဝိဇ္ဇာတဦး ဖြစ်လာသည်။ အယ်လဗတ်ရှိုက်ဇာသည် ပြင်သစ် တက္ကသိုလ်၌၎င်း၊ ဂျာမန် တက္ကသိုလ်၌၎င်း ပညာ ဆည်းပူးခဲ့သည်။ အဓိက ထား၍ သင်ကြား ဆည်းပူးခဲ့သော ဘာသာရပ်တို့မှာ ဒဿနိကဗေဒနှင့် ကိုးကွယ်မှုဘာသာ ဆိုင်ရာ ဗြဟဒေဝဗေဒတို့ဖြစ်၍ ယင်းဘာသာရပ်တို့၌လည်း ပေါက်မြောက် ထူးချွန်သည်။ ၁၉၀၀ ပြည့်နှစ်တွင် ဗြဟဒေဝဗေဒအတွက် ပါရဂူဘွဲ့ကို စထရက်ဇဗူး တက္ကသိုလ် (ပြင်သစ်)မှ ရရှိခဲ့သည်။ ထိုပါရဂူဘွဲ့အတွက် ဆည်းပူးနေစဉ် စထရက်ဇဗူးမြို့၊ စိန့်နစ်ကိုလတ် ဘုရားရှိခိုးကျောင်း၏ မွဆရာအဖြစ် ဆောင်ရွက်ခဲ့၍ ပါရဂူဘွဲ့ ရပြီးနောက်တွင် စထရက်ဇဗူး တက္ကသိုလ် ဘာသာရေး ကောလိပ်၏ ကျောင်းအုပ်အဖြစ် ခန့်အပ်ခြင်း ခံရသည်။

ဒေါက်တာ ရှိုက်ဇာသည် ဒဿနိကဗေဒနှင့် ဗြဟဒေဝဗေဒတို့ကို စူးစူးစိုက်စိုက် လေ့လာသကဲ့သို့ ဂီတကိုလည်း စွဲစွဲမြဲမြဲ ဝါသနာထုံသည်။ ထို့ကြောင့် ကိုးကွယ်မှု ဆိုင်ရာ အကြောင်းရပ်တို့ကို သုတေသန ပြုသကဲ့သို့ ဂီတလောကဆိုင်ရာ၌လည်း စူးစမ်း လေ့လာမှု ပြုခဲ့သည်။ ၁၉၀၅ ခုနှစ်တွင် ဂျာမန် ဂီတပညာရှင်ကြီး ဗာခ်၏ အတ္ထုပ္ပတ္တိကို ရေးသား ပြုစု ထုတ်ဝေခဲ့ရာ ဂီတလောကနှင့် စပ်လျဉ်းသော



ငြိမ်းချမ်းရေး နိုဗဲဆုရ ဒေါက်တာ အယ်လဗတ်ရှိုက်ဇာ

ကျမ်းကြီး ကျမ်းခိုင် တအုပ် ဖြစ်ခဲ့သည်။ ရှိုက်ဇာသည် ကိုးကွယ်မှုနှင့် စပ်လျဉ်း၍ မိရိုးဖလာ ယုံကြည် ကိုးကွယ်မှု အတိုင်း လက်ခံသည် မဟုတ်ချေ။ စူးစမ်းမှု၊ ဝေဖန်ပိုင်းခြားမှုတို့ကို ပြုခဲ့သည်။ ထိုကြောင့် "သခင်ယေရှု အကြောင်း စူးစမ်း လေ့လာချက်" စာအုပ်ကို ဗာခ် အတ္ထုပ္ပတ္တိ စာအုပ် ထုတ်ဝေပြီး နောက်တွင် ထုတ်ဝေခဲ့ရာ ကမ္ဘာက ရှိုက်ဇာ အား အလေးထား ဂရုပြုခြင်းကို ပဌမဆုံး ခံယူခဲ့ရသည်။

ထိုအချိန်တွင် ရှိုက်ဇာသည် ပညာ အခြေခံ၌ ထိပ်တန်း အဆင့်တွင် ရှိ၍ မိမိ၏ ဘဝ ရှေ့ရေးအတွက် မတောင့်မတ မကြောင့်မကျရသော အခြေအနေဖြင့် နေနိုင်ပေပြီ။ သို့သော် ရှိုက်ဇာသည် မိမိ၏ အရေးထက် လူနေမှု အဆင့်အတန်း အလွန် နိမ့်ကျနေသေးသူတို့ အတွက် လူမှုရေးကိစ္စများကို စေတနာ့ဝန်ထမ်း ဆောင်ရွက်ပေးရန် ပို၍ အလေးပေး အရေးထားခဲ့သည်။ ထိုကြောင့် လူမှုဝန်ထမ်း လုပ်ငန်းများကို ဆောင်ရွက်ယင်း မိမိဘဝကို မြှုပ်နှံရန် စိတ်ပိုင်းဖြတ်လိုက်လေသည်။

လူမှု ဝန်ထမ်း လုပ်ငန်းကို ဆောင်ရွက်ပေးရန် အရေး၌ ဥရောပတိုက်ရှိ မျိုးတူ နွယ်တူများအတွက် ရှိုက်ဇာ မစဉ်းစားခဲ့ပေ။ အကြောင်းမှု ဥရောပတိုက်သားတို့ကား လူနေမှု အဆင့်အတန်း၌ ခေတ်နှင့် အမှီလိုက်လျက် ရှိကြသည်။ ဥရောပတိုက်နှင့် ပင်လယ် တခုသာ ခြားလျက် ရှိသော အာဖရိကတိုက်၏ အလယ်ပိုင်း အီကွေတာ သစ်တောကြီးများ ဒေသရှိ တိုင်းရင်းသား လူမျိုးများ၏ ဘဝ အခြေအနေကား ကမ္ဘာတွင် အောက်တန်း အကျဆုံး ရှိနေခဲ့သည်။ ခေါမ နောက်ပိတ်ခွေး ဖြစ်နေသူတို့၏ ကျန်းမာရေး၊ အသိဉာဏ် ပွင့်လင်းရေးတို့အတွက် မိမိ၏ ဘဝကို မြှုပ်နှံ၍ ဆောင်ရွက်ရန် စိတ်ပိုင်းဖြတ်လိုက်ပြီးလျှင် ရှိုက်ဇာသည် မိမိ၏ ရည်ရွယ်ချက်ကို အကောင်အထည် ဖော်နိုင်ရန် လိုအပ်သမျှတို့နှင့် တတ်နိုင်သမျှ ပြည့်စုံလေအောင် ပြင်ဆင်မှုများ ပြုလေတော့သည်။

ထိုကြောင့် အသက် ၃၀ အရွယ် ပါရဂူဘွဲ့ကို ရရှိပြီးမှပင် အလုပ်မှ နုတ်ထွက်၍ ပရဟိတ လုပ်ငန်း ဆောင်ရွက်ရေး အတွက် ဆေးပညာဘွဲ့ ရရှိရန် ၁၉၀၅ ခုနှစ်တွင် စထရက်ဇဗူး တက္ကသိုလ်၌ ဆေးပညာကို ပြန်လည် ဆည်းပူးသည်။ ထိုအတောအတွင်း သူမတူသော ဇွဲလုံ့လတို့ဖြင့် ကျမ်းကြီး ကျမ်းခိုင်တို့ကို ပြုစုခဲ့လေသည်။ ၁၉၁၁ ခုနှစ်၌ ဆေးပညာဘွဲ့ကို ရရှိပြီးနောက်တွင် အာဖရိကတိုက်၌ မိမိ၏ ပရဟိတ လုပ်ငန်းကြီး အကောင်အထည်ဖော်ရမည့် အရပ်ဒေသကို စုံစမ်းရှာဖွေရခြင်း၊ လိုအပ်သော ပစ္စည်းများ စုဆောင်းရခြင်းတို့ဖြင့် နှစ်နှစ်မျှ အချိန်ကုန်လွန်ခဲ့ရသည်။ အာဖရိက၌ မိမိလုပ်ငန်း အကောင်အထည်ဖော်ရမည့် အရပ်ဒေသ အတွက် ပါရစ်မြို့တွင် ဌာနချုပ်ရှိသော ပါရစ် သာသနာပြု အသင်းနှင့် ဆက်သွယ်ရသည်။ ထိုအသင်း၏ အဖွဲ့တဖွဲ့သည် အာဖရိကတိုက်၏ တောကြီးမျက်မည်း အလယ်ရှိ လမ်ဗာရေးနေး ရွာကလေးတွင် စခန်းချလျက်ရှိ၍ ထိုအဖွဲ့အတွက် ဆရာဝန် တဦး လိုနေသည်။ ရှိုက်ဇာသည် လမ်ဗာရေးနေးသို့ ဆရာဝန်အဖြစ် မိမိစရိတ်ဖြင့် သွားလိုကြောင်း လျှောက်လွှာ တင်သည်။ သို့သော် အသင်းဌာနချုပ်သည် ရှိုက်ဇာကဲ့သို့ ခရစ်ယန် သာသနာရေးတွင် အမြင်တမျိုး ရှိနေသူ တဦးအား လက်ခံစေလွှတ်ရန် ရှုံ့နေကြသည်။ ကန့်ကွက်သူများကလည်း ကန့်ကွက်ကြသည်။ နောက်ဆုံးတွင် ရှိုက်ဇာ၏ ထက်သန်သော စေတနာကိုင်း၊ သူ့စရိတ်နှင့် သူ ဆောင်ရွက်မည့်လုပ်ငန်း အစီအစဉ်များကိုင်း ဌာနချုပ်က ကျေနပ်သဖြင့် ရှိုက်ဇာကို လက်ခံလိုက်ကြသည်။ ယင်းသို့ဖြင့် ဘွဲ့ထူး၊ ဂုဏ်ထူး၊ ရာထူးဂုဏ်သိရ်တို့ဖြင့် ပြည့်စုံသူ ပညာတတ်လူတန်းစားတို့ မွေ့လျော်သော သိမ်မွေ့ နူးညံ့သည့် ဘဝလမ်းခရီးကို ကျော်ခိုင်း၍ ကြမ်းတမ်းခက်ထရော်သော ဘဝလမ်းခရီးကို စတင်ရန် ၁၉၁၃ ခုနှစ်တွင် ရှိုက်ဇာသည် အာဖရိကတိုက် ဂဗွန်ပြည်နယ်၊ လမ်ဗာရေးနေး ရွာသို့ ခရီးထွက်ခဲ့လေသည်။

ရှိုက်ဇာသည် အာဖရိကတိုက်သို့ထွက်ခွာခဲ့ရာ၌ သူတဦးတည်း မဟုတ်ပေ။ သူ၏ ပါရမီကို ကူညီ ဖြည့်တင်းရန် ဟယ်လင်ဗရက်စလောသည် ဖဝါးထက်ချပ် လိုက်ပါလာသည်။ ဟယ်လင်ဗရက်စလောသည် စထရက်ဇဗူး တက္ကသိုလ်မှ သမိုင်း သုတေသီ တဦး၏ သမီး ဖြစ်သည်။ ဟယ်

လင်ဗရက်စလေ၁ ကိုယ်တိုင်သည်လည်း ပညာရှင်တဦး ဖြစ်လင့်ကစား ရှိုက်ဇာ၏ ပရဟိတ လုပ်ငန်းကြီးတွင် အကူအညီ ပေးနိုင်ရန် ရှိုက်ဇာက ဆေးဝါး ကုသရေးနှင့် ခွဲစိတ်ပညာတို့ကို ဆည်းပူးနေစဉ် ဟယ်လင် ဗရက်စလေ၁သည် သူနာပြုအတတ်ကို သင်ကြား ဆည်းပူးခဲ့သည်။ ရှိုက်ဇာနှင့် ဟယ်လင်ဗရက်စလေ၁တို့သည် ၁၉၁၂ ခုနှစ်တွင် လက်ထပ်ခဲ့ကြသည်။

ရှိုက်ဇာတို့ ဇနီးမောင်နှံသည် အာဖရိကတိုက် ဂဗွန်ပြည်နယ်၏ တောကြီး မျက်မည်းအလယ်၊ အိုဂိုဝီမြစ်ကြောပေါ်ရှိ လမ်ဗာရေးနေးရွာသို့ ထွက်ခွာလာခဲ့ကြစဉ်က သူတို့၏ ရည်မှန်းချက်လုပ်ငန်းကို စတင်ရန်အတွက် ဂျာမန် မတ်ဒင်္ဂါး နှစ်ထောင် ပါလာ၍ ဆေးခန်းတခု တည်ထောင်ရန်အတွက် လိုအပ်သောဆေးဝါးများ၊ ကရိယာ တန်ဆာပလာများနှင့် ပစ္စည်းအသုံးအဆောင်အချို့ကို သူတို့ဖာသာ ဝယ်ယူ စုဆောင်းထားသည်များလည်း ပါသည်။ စေတနာရှင် မိတ်ဆွေ အပေါင်းအသင်းများက ပေးကမ်း လှူဒါန်းလိုက်သည်များလည်း ပါသည်။ ရှိုက်ဇာတို့ ဇနီးမောင်နှံသည် ဥရောပတွင် ရှိစဉ်က အနေအထိုင် ပတ်ဝန်းကျင်မျိုးနှင့် အစစအရာရာ ကွာခြားလှ၍ ဥရောပ တိုက်သားများအတွက် ပစ္စန္တရစ် ကဲ့သို့သော အရပ်မျိုး၌ အခက်အခဲ အမျိုးမျိုးကို ရင်ဆိုင်လျက် သာသနာပြု အသင်းက ကြက်မွေးရန် ဆောက်ထားသော အိမ်ကလေးတွင် အခမဲ့ ဆေးဝါး ကုသပေးသော ဆေးခန်းတခုကို ဖွင့်လှစ်၍ မိမိတို့၏ လုပ်ငန်းကို စတင် အကောင်အထည် ဖော်ခဲ့လေသည်။

ရှိုက်ဇာတို့ ဇနီးမောင်နှံသည် ဖြူစင် သန့်ရှင်းသော စေတနာဖြင့် အခမဲ့ ဆေးဝါးကုသပေးခဲ့ရာ တိုင်းရင်းသားတို့သည် ရှိုက်ဇာတို့အား ခင်မင် ရင်းနှီးလာကြ၍ ယုံကြည်စိတ်ချစွာဖြင့် ဆက်ဆံလာကြသည်။ ထိုကြောင့် ဒေါက်တာ ရှိုက်ဇာ ဖြစ်သလို ဆောက်ထားသော ဆေးခန်းသို့ မိုင် ၂၀၀ ကျော် ခရီးမှပင် လူနာများ လာရောက်၍ ဆေးဝါး ကုသမှု ခံယူကြသည်။ ဒေါက်တာ ရှိုက်ဇာ ကိုယ်တိုင်ကလည်း ဆေးခန်းတွင်သာ ဆေးကုသပေးသည် မဟုတ်။ လမ်ဗာရေးနေးနှင့် မိုင်ပေါင်းများစွာ ဝေးကွာသော ဒေသများသို့လည်း ဆေးအိတ်ဆွဲကာ လှေဖြင့် တလှည့်၊ ခြေလျင်ဖြင့်တခါ လှည့်လည်၍ ဆေးကုသ ပေးခဲ့ရသည်။ ဒေါက်တာ ရှိုက်ဇာ ဇနီးမောင်နှံတို့ ကုသပေးရသော ရောဂါတို့ကား ဆင်ခြေထောက် ရောဂါ၊ အိပ်မဝရောဂါ၊ ကုဋ္ဌနူနာ ရောဂါနှင့် ငှက်ဖျား စသော အပူပိုင်းဒေသ ရောဂါ အမျိုးမျိုးတို့ ဖြစ်ကြသည်။

ဒေါက်တာ ရှိုက်ဇာသည် တိုင်းရင်းသားတို့အား တဖက်တွင် ဆေးဝါး ကုသပေးလျက် တဖက်တွင် ယင်းတို့၏ စာရိတ္တ မဏ္ဍိုင် ကြံ့ခိုင်ရေးအတွက် ဆောင်ရွက်ပေးသည်။ ဒေါက်တာ ရှိုက်ဇာ အဓိကထားသော ဝါဒကား “အသက်ရှင်မှု အလေးအမြတ်ပြု” ဟူ၍တည်း။

လူမှုဝန်ထမ်း ဆရာဝန်ကြီးသည် အလွန် အလုပ် လုပ်နိုင်သူလည်း ဖြစ်သည်။ တဖက်တွင် ဆေးကု လုပ်ငန်းတို့ကို ကိုယ်ဖိ ရင်ဖိ ဆောင်ရွက်သကဲ့သို့ ဆေးရုံ အဆောက်အအုံ တိုးချဲ့ ဆောက်လုပ်ရေးကိုလည်း တိုင်းရင်းသားတို့၏ အကူအညီဖြင့် ကိုယ်ထိ လက်ရောက် ဆောင်ရွက်သည်။ ယင်းသို့ အလုပ် တာဝန် များပြားလှသည့် အကြားမှပင် ကမ္ဘာ့လူနေမှု တိုးတက်ပုံ၊ ယဉ်ကျေးမှု သမိုင်း စသည်တို့ကို ကျမ်းတစောင် ပေတဖွဲ့အဖြစ်ပြုစုရန် သုတေသနပြုလျက်ရှိသည်။

၁၉၁၄ ခုနှစ်တွင် ပဌမ ကမ္ဘာစစ်ကြီး ဖြစ်လာ၍ ဇနီးမောင်နှံ နှစ်ဦးစလုံး ပြင်သစ် အစိုးရ၏ သုံ့ပန်းအဖြစ် ပြင်သစ်နိုင်ငံ ရရောဗန်းနယ် သုံ့ပန်းစခန်း၌ သွား၍ နေရသောအခါ ဆိုခဲ့သော သုတေသန ပြုမှုကို ဒေါက်တာ ရှိုက်ဇာသည် ပို၍ ဆောင်ရွက်နိုင်ခဲ့သည်။ သုံ့ပန်း စခန်းသို့ ရောက်ပြီး၍ အတန်ကြာလျှင် ဒေါက်တာ ရှိုက်ဇာသည် အာဏာပိုင်တို့၏ ခွင့်ပြုချက်အရ ဘဝတူများကို ဆေးဝါး ကုသပေးခဲ့သည်။

၁၉၁၈ ခုနှစ်တွင် ဇနီးမောင်နှံ နှစ်ဦးသည် သုံ့ပန်းဘဝမှ လွတ်မြောက်ခဲ့သော်လည်း ကျန်းမာရေး ချွတ်ယွင်းခဲ့သဖြင့် အနားယူနေခဲ့ရသည်။ ဒေါက်တာရှိုက်ဇာသည် ကျန်းမာရေး အခြေအနေ ပြန်ကောင်းလာလျှင် ဂရိတ် ဗြိတိန်၊ ပြင်သစ်၊ နယ်သာလန်၊ စကင်ဒီနေးဗီးယား နိုင်ငံတို့သို့ သွားရောက်၍ အော်ဂန်တီးခြင်း၊ ဟောပွဲများ ပြုလုပ်ခြင်းဖြင့် ငွေရှာခဲ့ရသည်။ ယခင်က သုတေသန ပြုထားခဲ့သော အကြောင်းရပ်တို့ကို စာအုပ်များအဖြစ် ရိုက်နှိပ် ထုတ်ဝေခဲ့သည်။ ယင်းသို့ဖြင့် ယဉ်ကျေးမှု၊ လူ့ကျင့်ဝတ် စသည်တို့နှင့် စပ်လျဉ်းသော ကမ္ဘာကျော် စာအုပ်ကြီးများသည် ၁၉၂၃ ခုနှစ်တွင် ပေါ်ထွက်ခဲ့လေသည်။ ထိုအခါ သုံ့ပန်းဘဝက စတင်ခဲ့သော ကြွေးမြီများလည်း ကြေလည်၍ အာဖရိကတိုက်ရှိ ဆေးရုံနှင့် ပရဟိတ လုပ်ငန်းများကို ပြန်လည် ထူထောင်ရန် ငွေကြေးအတော်အတန် စုဆောင်းမိပြီးဖြစ်သဖြင့် လမ်ဗာရေးနေးသို့ ပြန်ခဲ့ပြန်လေသည်။ ဤတကြိမ်တွင် ကျန်းမာရေး မတောင့်တင်းလှသော ဇနီးသည်နှင့် သမီးငယ်တို့ကို ဥရောပတိုက်၌ပင် ထားရစ်ခဲ့လေသည်။

လမ်ဗာရေးနေး ဆေးရုံသည် အတော်ပင် ပျက်စီး ယိုယွင်း နေသဖြင့် ရှိုက်ဇာသည် အစမှပင် ပြန်၍ ထူထောင်ရသည်။ ရောဂါ ဝေဒနာရှင်တို့ကို ဆေးကုယင်းပင် ဆေးရုံကို ပြန်၍ ထူထောင်ရသည်။ ကုဋ္ဌနူနာ ရောဂါသည်များအတွက် ဆေးကုဋ္ဌာန တခုကိုလည်း သပ်သပ် ဖွင့်လှစ်သည်။ ဆေးရုံ လုပ်ငန်းများ အခြေတကျ ရှိပြန်လျှင် မိမိ၏ လုပ်ငန်းများ အရှိန် မပျက်စေရန် လိုအပ်သော စရိတ်

ကြေးငွေအတွက် ဥရောပသို့ ပြန်၍ ငွေရှာရပြန်သည်။ ရှိုက်ဇာသည် အာဖရိကနှင့် ဥရောပကို ကူးချည် သန်းချည် ပြုနေရသည်။ အော်ဂန် တီး၍ငင်း၊ ဟောပြောပွဲများ ကျင်းပ၍ငင်း၊စာအုပ်စာတမ်းများမှ ရရှိသော ရှိုင်ယယ်တီများဖြင့်ငင်း ဆေးရုံအတွက် ရန်ပုံငွေ စုသည်။ ထိုပြင် ရှိုက်ဇာ၏ လုပ်ငန်းကို သိမြင်ကြသူ စေတနာရှင်များက လည်း အလှူငွေနှင့် ဆေးဝါးပစ္စည်းများကို ထည့်ဝင် လှူဒါန်းကြသည်။ ဤသို့ဖြင့် ရှိုက်ဇာ၏ လုပ်ငန်းကို ကမ္ဘာက သိလာကြ၍ အကူအညီ ပေးလာကြသဖြင့် လမ်ဗာရေးနေး ဆေးရုံသည်လည်း အခြေခိုင်ခိုင် စိုက်မိခဲ့လေသည်။ လူနာများလည်း များပြားလာသဖြင့် ဥရောပတိုက်သား ဆရာဝန်များ၊ သူနာပြုများကလည်း ရှိုက်ဇာ၏ ဆေးရုံတွင် လာရောက် ကူညီ ဆောင်ရွက်ပေးကြသည်။ အချို့သည် နှစ်ကာလ ကြာမြင့်စွာ ရှိုက်ဇာနှင့်အတူ ဒိုးတူ ပေါင်ဖက် ဆောင်ရွက်ပေးကြသည်။ ရှိုက်ဇာ၏ ကိုယ်ကျိုးမငဲ့ ကြိုးပမ်း ဆောင်ရွက်မှုတို့ကို ချီးကျူးသောအားဖြင့် ၁၉၂၅ ခုနှစ်တွင် ချက်ကိုစလိုဗားကီးယားနိုင်ငံ ပရာဟာ တက္ကသိုလ်က ရှိုက်ဇာအား ဂုဏ်ထူးဆောင် ပါရဂူဘွဲ့ကို အပ်နှင်းလေသည်။ ၁၉၂၈ ခုနှစ်တွင် ဂျာမနီ နိုင်ငံက စာရေး ဆရာကြီး ဂိုတာ၏ ဆုကို ရှိုက်ဇာအား ချီးမြှင့်လေသည်။

ဒုတိယ ကမ္ဘာစစ် အတွင်းတွင်လည်း ရှိုက်ဇာသည် လမ်ဗာရေးနေး ဆေးရုံမှ မခွာဘဲ နေခဲ့သည်။ စစ်ကာလ အတွင်း အခက်အခဲ များစွာ တွေ့ခဲ့ရသော်လည်း အမေရိကန်မှ မိတ်ဆွေများ၏ အကူအညီဖြင့် ဆေးဝါးပစ္စည်းများကို ရရှိခဲ့သောကြောင့် လမ်ဗာရေးနေး ဆေးရုံကို အရှိန်မပျက် ဆက်လက် ဖွင့်ထားနိုင်ခဲ့သည်။ ထိုကြောင့် ထိုကျေးဇူးကို ထောက်ထား၍တကြောင်း၊ လမ်ဗာရေးနေး ဆေးရုံအတွက် ရန်ပုံငွေ (မြန်မာငွေ သုံးသောင်းကျော်ခန့်) ထည့်ဝင်မည်ဟု ကတိပြုသည်က တကြောင်းကြောင့် ၁၉၄၉ ခုနှစ်တွင် အမေရိကန် ပြည်ထောင်စု၊ ကော်လိုရာဒိုးပြည်နယ်၊ အက်စပင်မြို့၌ ကျင်းပသော ဂျာမန်ဂီတပညာရှင် ဂိုတာ ကွယ်လွန်သည့် အနှစ် ၂၀၀ ပြည့် အထိမ်းအမှတ်ပွဲသို့ တက်ရောက် မိန့်ခွန်း ပြောခဲ့ရသည်။ ထိုသို့ အမေရိကန်သို့ သွားရောက်စဉ် ရှီကာဂိုး တက္ကသိုလ်က ဒေါက်တာ ရှိုက်ဇာအား ဥပဒေပါရဂူ ဂုဏ်ထူးဆောင်ဘွဲ့ကို ပေးအပ်လေသည်။

ရှိုက်ဇာသည် လမ်ဗာရေးနေး ဆေးရုံကို တဖြည်းဖြည်း တိုးချဲ့ခဲ့ရာ ဆေးရုံ ပရဝုဏ် အတွင်း၌ အဆောက်အအုံ ၄၅ ခုမျှ ရှိသည်။ ဆေးရုံနှင့် ပတ်ဝန်းကျင်တွင် စားနပ်ရိက္ခာ ဖူလုံရေး အတွက် ၁၅ ဧက ကျယ်ဝန်းသော စိုက်ပျိုးခင်းကို စိုက်ပျိုးထားသည်။ ဒေါက်တာ ရှိုက်ဇာ၏ ဆေးရုံသို့ နှစ်စဉ် ပျမ်းမျှ လူနာ ၅၀,၀၀၀ ကျော်ခန့် လာရောက်ကြ၍ လူနာ ၇၀၀ ခန့်ကို ခွဲစိတ် ကုသပေးရသည်။ ရောဂါသည်များသည် ဝေးလံသော အရပ်ဒေသမှလည်း လာရောက်ကြရာ လူနာတဦး ရောက်လာလျှင် သူ့ အိမ်သူအိမ်သားဥသေး ဥမ္မားမကျန် ပါလာတတ်သည်။ ထိုသူတို့ကို ဆေးရုံဝင်း အတွင်း၌ နေရာပေးထားရသည်။ သို့မဟုတ်လျှင် လူနာသည် ရောဂါ မပျောက်မီ အိမ်ပြန်ပြေးတတ်သည်။ လူနာနှင့် ပါလာသူများအား လူနာကို ချက်ပြုတ် ကျွေးမွေးခြင်း စသော ဝေယျာဝစ္စများ ပြုစေသည့်ပြင် အဝတ်လျှော်ခြင်း၊ ထင်းခွဲခြင်း စသော ဆေးရုံ၏ ဝေယျာဝစ္စများကိုလည်း ကူညီ လုပ်ကိုင်စေသည်။ ထိုကြောင့် လမ်ဗာရေးနေး ဆေးရုံဝင်းသည် ဆေးရုံဝင်းနှင့် မတူ၊ တိုင်းရင်းသားကျေးရွာ ဇနပုဒ်ကလေး တခုကဲ့သို့ ရှိတော့သည်။

ရှိုက်ဇာ၏ မွန်မြတ် သန့်စင်သော စေတနာ လုပ်ငန်းကို သန်းပေါင်း များစွာသော ကမ္ဘာသူ ကမ္ဘာသားတို့က အားပေး ချီးကျူးနေကြစဉ် ဝေဖန်သူ အပြစ်တင်သူများလည်း ရှိခဲ့သည်။ ဝေဖန်သူများ၏ အပြစ်ဆိုချက်များထဲတွင် အထက်တွင် ဖော်ပြခဲ့သည့်အတိုင်း လမ်ဗာရေးနေး ဆေးရုံကို ဆေးရုံနှင့်တူအောင် မထားဘဲ ကျေးရွာတခုကဲ့သို့ ဖန်တီးထားမှုလည်း ပါဝင်သည်။ ရှိုက်ဇာသည် တိုင်းရင်းသားတို့၏ ဓလေ့စရိုက်ကို ကြည့်၍ ယင်းတို့၏ စရိုက်နှင့် အညီ တိုင်းရင်းသားတို့ လက်လှမ်းမှီသော အခြေအနေမျိုး ဖြစ်စေရန် တတ်နိုင်သမျှ ဆောင်ရွက်ထားခြင်း ဖြစ်သည်။ အထပ်ပေါင်း များစွာ ရှိသော ခေတ်မီ ဆေးရုံကြီးတခုသည် တိုင်းရင်းသားတို့အား ဆေးဝါး ကုသရန် လာရောက်ရေးကို မဆွဲဆောင်နိုင်သည်သာမက ဆေးရုံ၏ အရှိန်အဝါသည် တိုင်းရင်းသားတို့အား ဆေးရုံနား မကပ်ဝံ့အောင်ပင် ပြုနိုင်မည်ကို ဒေါက်တာ ရှိုက်ဇာ နားလည်ပေသည်။ ထိုကြောင့် လမ်ဗာရေးနေး ဆေးရုံဝင်းရှိ အဆောက်အအုံတို့သည် အရှိန်အဝါ ကောင်းသည့် အဆောက်အအုံများ မဟုတ်ပေ။ အရေးပေါ် ခွဲစိတ် ကုသမှုများကို ပြုနိုင်ရန်သာ ခွဲစိတ်ခန်းအတွက် လျှပ်စစ်ဓာတ်မီး တပ်ဆင်ထား၍ ဆေးဝါး ကုသမှု၊ ခွဲစိတ် ကုသမှုတို့၌ ဒေါက်တာ ရှိုက်ဇာသည် ခေတ်မီလွန်းသော စနစ်များကို တတ်နိုင်သမျှ ရှောင်၍ သမရိုးကျ စနစ်များကို အသုံးများသည်။ တိုင်းရင်းသားများအား ဇိကုတ်၍ နတ်ပြည်မတင်ဘဲ ဖြည်းဖြည်းမှန်မှန် ပြုပြင်မှုကို ဆောင်ရွက်ပေးရာ အချို့ဝေဖန်ရေးဆရာတို့က ကိုလိုနီစနစ်၏ အငွေ့အသက်ကို ဆက်လက် လက်ခံကျင့်သုံးသည်ဟု ဆိုကြသည်။ မည်သို့ဆိုကြစေကာမူ ရှိုက်ဇာသည် ဆေးကုသပေးယင်းပင် တိုင်းရင်းသားတို့၏ အသိဉာဏ် ပွင့်လင်းရေးအတွက် ပညာပေးလျက်ရှိရာ ပုံစံအားဖြင့် ဆိုရလျှင် ယခင်က အမွှာပူးကလေးများကို နိမိတ်မကောင်းဟု သတ်ပစ်လေ့ ရှိသော်လည်း ယခုအခါ အမွှာပူး ကလေးရှင်

မိဖများသည် အမှာပူးများကို ကြင်နာစွာစောင့်ရှောက် ကျွေးမွေးလျက် ရှိကြလေပြီ။

ရှိုက်ဇာ၏ ကြိုးပမ်း ဆောင်ရွက်မှုကြောင့် အာဖရိက တိုက် အလယ်ပိုင်းတွင် ကုဋ္ဌနူနာရောဂါ ပြန့်ပွားခြင်းသည် ရပ်တန့်သွားခဲ့သည်။ သူ၏ စေတနာ မေတ္တာ ကရုဏာတို့ သည် မိုးသီးမိုးပေါက်ကဲ့သို့ သန့်ရှင်း စင်ကြယ်လေသဖြင့် ဒေါက်တာ ရှိုက်ဇာ၏ ကုသမှုကို ခံယူရသော တိုင်းရင်း သား ရောဂါ ဝေဒနာသည် အများစုတို့သည် နတ်ဆေးကို စားသုံးရသည့်နှယ် ရောဂါ ကင်းရှင်း ပျောက်ကင်း ချမ်း သာကြရသောကြောင့် တိုင်းရင်းသားတို့က ကြည်ညို လေး စား ဂုဏ်ပြုသောအားဖြင့် "လူဖြူ ကဝေ ဆရာကြီး" ဟု ဒေါက်တာ ရှိုက်ဇာအား ခေါ်ဝေါ်ကြလေသည်။ ဒေါက် တာ ရှိုက်ဇာအား ကြည်ညို လေးစားသူ အများကမူ သူ တော်စင် တပါး ဟု ယူဆကြလေသည်။

အများက ထင်သကဲ့သို့ ရှိုက်ဇာ၏ ရည်မှန်းချက်သည် ဓားမနောက်ပိတ်ခွေး ဖြစ်နေသူများအား ကျန်းမာရေးဖြင့် ပြည့်စုံအောင် ပြုစုရေးတခုတည်းကိုသာ အဓိကထားသည် မဟုတ်ချေ။ နိုင်ငံရေး အတွက်လည်း ရှိုက်ဇာက ဂရုမစိုက် ချေ။ တိုင်းရင်းသားတို့၏ စာရိတ္တမဏ္ဍိုင် ကြံ့ခိုင်ရေးကို ဆောင်ရွက်ရေးသည် ရှိုက်ဇာ၏ အဓိက ရည်မှန်းချက် တရပ် ဖြစ်သည်။ ရှိုက်ဇာ ပြောလေ့ရှိသော လက်သုံး စကားမှာ ဘုရားသခင်နှင့် နီးစပ်လိုလျှင် မေတ္တာ၊ ကရုဏာ၊ မုဒိတာ၊ ဥပေက္ခာ တည်းဟူသော ဗြဟ္မစိုရ်ရတရားလေးပါး ကို လက်ကိုင်ပြု၍ လူသား အချင်းချင်း ဆက်ဆံရေး ဖြစ် ပေရာ သူ၏ စကားနှင့် အညီလည်း ကိုယ်တိုင် လိုက်နာ ဆောင်ရွက်ခဲ့သည်။

ရှိုက်ဇာ၏ဆေးရုံသည် လောဘ၊ ဒေါသ၊ မောဟတို့ဖြင့် အရှိန်တငြိုးငြိုး တောက်လောင် ပူပြင်းနေသော သဲကန္တာရ ကြီးနှင့် တူသည့် ကမ္ဘာကြီးအလယ်၌ မေတ္တာ၊ ကရုဏာ၊ မုဒိတာ တရားတို့ဖြင့် ပြည့်လျှမ်းသော စမ်းရေအိုင်ကလေး သဖွယ် ဖြစ်ပေသည်။ ထို့ကြောင့် ကမ္ဘာ့ နိုင်ငံကြီးများက ရှိုက်ဇာ၏ မွန်မြတ်သော လုပ်ငန်းကို အားပေး ချီးမြှင့် လျက် ရှိကြ၍ ဘုရင် သမတ စသော နိုင်ငံထိပ်သီး ခေါင်း ဆောင်ကြီးများကပင် ရှိုက်ဇာအား ကြည်ညိုလေးစားစွာ ဆက်ဆံကြသည်။ အလွန်များပြားလှသော တာဝန် ဝတ် တရားများကို အသက် ရှစ်ဆယ်ကျော်၍ ကိုးဆယ်ပိုင်းသို့ ချဉ်းကပ်လာသည့်တိုင်အောင် ဖျတ်လတ်သွက်လက်စွာဖြင့် စိမ် ဆောင်ရွက်နိုင်သော ဒေါက်တာရှိုက်ဇာ၏ ကိုယ်လက် ကြံ့ခိုင်မှု၊ စိတ်ဓာတ် ကြံ့ခိုင်မှုတို့သည် အံ့သြချီးကျူးဖွယ်ရာ ဖြစ်သည်။ ရှစ်ဆယ်ကျော်ပိုင်းသို့ ရောက်လာသည်မှ စ၍ ဒေါက်တာ ရှိုက်ဇာသည် ခွဲစိတ် ကုသမှုတို့ကို ကိုယ်တိုင် မဆောင်ရွက်တော့ဘဲ စီမံခန့်ခွဲမှုပိုင်းကို ပို၍ အလေးပေး ဆောင်ရွက်ခဲ့သည်။ တောင့်တင်း ကြံ့ခိုင်သော ကိုယ်နေ ဟန်ထား သိမ်မွေ့ နူးညံ့လှသော်လည်း စူးရှထက်မြက်သော မျက်နှာ အမူအရာတို့သည် ဒေါက်တာရှိုက်ဇာအား တွေ့ မြင်ရသူများအဖို့ ကြည်ညို လေးစားစိတ်နှင့်အတူ ချစ်ခင် အားကိုးစိတ်တို့ပါ ပေါ်ပေါက်စေနိုင်သည်။ ဒေါက်တာ ရှိုက်ဇာသည် မိမိ၏ ရည်မှန်းချက်၏ အောင်မြင်သော အသီးအပွင့်များကို ကျေနပ်စွာကြည့်ယင်း လမ်ဗာရေးနေး ဆေးရုံကို အရှိန်ကောင်းကောင်းဖြင့် ပြုစု ပျိုးထောင် လျက်ကပင် အသက် ၉၀ ပြည့်ပြီးနောက် ကိုးလခန့် အလွန် တွင် ၁၉၆၅ ခုနှစ် စက်တင်ဘာလ လေးရက်နေ့၌ သူ၏ စိတ်ဆန္ဒအတိုင်းပင် လမ်ဗာရေးနေး တောတွင်းဆေးရုံ ဝင်းရှိ နေအိမ်တွင် လူကြီးရောဂါဖြင့် ကွယ်လွန်သည်။ ဇနီးသည် ဟယ်လင် ရှိုက်ဇာသည် ၁၉၅၇ ခုနှစ်၌ ဥရောပ တွင် ကွယ်လွန်ခဲ့၍ ဇနီးသည်၏အရိုးပြာကို လမ်ဗာရေးနေး နေအိမ်နှင့် မနီးမဝေးတွင် မြှုပ်နှံ ထားခဲ့ရာ ထိုနေရာနှင့် ယှဉ်လျက် ဒေါက်တာရှိုက်ဇာကို မြှုပ်နှံခဲ့ကြသည်။ ပြိုင်စံ ရှားလှသော လူမှုဝန်ထမ်း စေတနာရှင် တောပျော် ဆရာဝန်ကြီးက အပင်ပမ်း အဆင်းရဲခံ၍ သူမတူသော ဇွဲ လုံ့လတို့ဖြင့် အကောင်အထည် ဖော်ခဲ့သည့် လမ်ဗာရေး နေး ဆေးရုံနှင့် လူမှုဝန်ထမ်း လုပ်ငန်းကိစ္စ အဝဝတို့ ဆက် လက် တည်တံ့ ခိုင်မြဲစေရန် ဒေါက်တာ ရှိုက်ဇာ၏ တဦး တည်းသော သမီး မစ္စက်ရီးနားက တာဝန်ယူ ဆောင်ရွက် လျက် ရှိလေသည်။

**ရှန်း၊ ဦး** (မြန်မာ ၁၁၄၄ ဖွား)။ ။ကုန်းဘောင်ခေတ် ဒုတိယပိုင်းတွင် ပျို့ကဗျာရေးဖွဲ့မှု၌ အထူးပင် ကျော်ကြား သော ပဂံဝန် ဆီမီးခုံရွာစား ဦးရှန်းသည် ဗန့်ကျီတိုက် ဆား လင်းကြီးရွာ ဇာတိ၊ လေးထပ်ကျောင်းနှင့်တကွ ရွှေမုဋ္ဌော ဘုရားကြီး ဒါယကာ အမိန့်တော်ရ ဦးသူရမနု၏ သား ဖြစ် သည်။ မိခင်မှာ ဆင်ဖြူရှင်ဘုရား လက်ထက် အနောက် ဖက်တိုက်ဝန် ပုခန်းကြီး မြို့စား ဆားလင်းကုန်း မင်းကြီး မဟာရာဇသင်္ကြန်၏ သမီး ဖြစ်သည်။

ဦးရှန်းကို ၁၁၂၇ ခုနှစ်တွင် ဗန့်ကျီတိုက် ဆားလင်းကြီး ရွာ၌ ဖွားမြင်သည်ဟု အချို့က ဆိုကြသည်။ သို့ရာတွင် ဦးရှန်းကိုယ်တိုင် ရေးသားသည့် သုတသောမပျို့ နိဂုံး၌ "ဘုရားသာသနာ၊ နှစ်ထောင်သာ၍၊ သုံးရာလွန်ရောက်၊ နှစ်ဆယ့်ခြောက်ဝယ်" ဘွားသည့်အကြောင်း ဖော်ပြထား ရာ တွက်စစ်လိုက်သည့်အခါ ဘိုးတော်ဘုရား နန်းတက်၍ အမရပူရမြို့ကို တည်ထောင်သည့် ၁၁၄၄ ခုနှစ်တွင် ဖွား ကြောင်း သိသာသည်။

ဦးရှန်းသည် ငယ်စဉ်ကပင် ဗေဒင်ကျမ်းများကို ဆည်း ပူး လေ့လာ၍ ဘကြီးတော်ဘုရား မင်းသားဘဝနှင့် ရှိစဉ်

စန္ဒကျော်ခေါင်ဘွဲ့နှင့် ခစားထမ်းရွက်၍ ဗေဒင်များ သင်ကြားပြသရသည်။ ဘကြီးတော်ဘုရား အထွတ်အထိပ်သို့ ရောက်တော်မူသောအခါ အစု ၄၀ တော် သူရရွှေတောင်သွေးသောက်မှာ ဖွဲ့တော်မူသည်။ ထိုနောက် ဆိမ်းခုံရွာ၊ သာထွန်းရွာ၊ နေနံရွာ၊ မြစ်ကိုင်းရွာများကို ရာဇဝတ်ရေးနှင့်တကွ ရွာစား သနားတော်မြတ် ခံရသည်။ ဖောင်းကတ္တိပါနီ၊ ရွှေသားဘွဲ့ သင်းကျစ်တပ် ဝတ်လုံ ဘဲရိ၊ စလွယ်သွယ်ပျောင်း အဆောင်အရွက်ကြီး ရွှေထီး သနားတော်မြတ် ခံရသည်။ ထိုနောက် ကသည်းစစ် ကုလားစစ်များမှာ အမှုတော်ကို ရဲရင့်မြဲမြံစွာ သက်စွန့်ကြိုးပမ်းထမ်းရွက်သောကြောင့် ပုဂံမြို့ကို အစည်းအကြပ် ဗိုလ်ဝန် ခန့်တော်မူသည်။ မဟာမင်းလှ မင်းခေါင်ကျော် ဟူသောဘွဲ့ကိုလည်း ပေးသနားတော်မူခြင်း ခံရသည်။ ညီတော် သာယာဝတီမင်း လက်ထက်တွင်လည်း ထိုဘွဲ့နှင့်ပင် ပညာရှိ စာဆိုအရာနှင့်တကွ သားမယား အခြွေအရံများပါ သူကောင်းပြုသည်ကို ခံရသည်။ သားတော် ပုဂံမင်း လက်ထက်တွင်လည်း ထိုနည်းတူ ခြီးမြှင့် သူကောင်းပြုခြင်း ခံရသည်။

ဦးရှင်းသည် မည်သည့်ခုနှစ်တွင်ကွယ်လွန်ကြောင်း အတိအကျ မသိရသော်လည်း ၁၂၁၁ ခုနှစ်တွင် ရေးသားပြုစုပြီးစီးသော ဓမ္မဇပျို့သည် ဦးရှင်း၏ နောက်ဆုံးလက်ရာပင် ဖြစ်သောကြောင့် ၁၂၁၁ ခုနှစ်နောက်မှ ကွယ်လွန်သည်ဟုယူသင့်သည်။

ပုဂံမင်းလက်ထက် စာဆိုပညာရှိများ စာရင်းတွင် ဦးရှင်းအမည် ပါရှိသော်လည်း မင်းတုန်းမင်းတရားကြီး လက်ထက်စာရင်းတွင်မူ ဦးရှင်းအမည် မပါတော့သည်ကို ထောက်၍ ပုဂံမင်း လက်ထက် တွင်ပင် လွန်သည်ဟု ကောက်ယူနိုင်သည်။

ဦးရှင်း ရေးသား ပြုစုခဲ့သော စာများမှာ တောင်ငူဆိုရတုအဖြေ(၁၁၉၅ ခုနှစ်)၊ ဘကြီးတော်၏ သားတော် နားတော်သွင်း (၁၁၉၆)၊ ဘကြီးတော်၏ သမီးတော် ချေင်း (၁၁၉၆)၊ မဟာသုတသောမပျို့ (၁၂၀၁)၊ မဟော်ဥမင်ခန်းပျို့ (၁၂၀၂)၊ မဟော်ပြဿနာခန်းပျို့ (၁၂၀၃)၊ သရဘင်္ဂပျို့ (၁၂၀၄)၊ အာယုဒ္ဒိဿ ဆေးကျမ်း လင်္ကာ (၁၂၀၅)၊ မဟာသာမဇေဒ ဋီကာ (၁၂၀၅)၊ တဖက်ပြသတ်ပုံ (၁၂၀၆)၊ ဘုရားတိုင်အတွက်ရတု (၁၂၀၇)၊ အဘိဓမ္မတ္ထသင်္ဂြိုဟ် ဘုံစိတ် အကျဉ်း ရတု (၁၂၀၇)၊ ဂါမဏိစန္ဒပျို့ (၁၂၀၈)၊ မဟာဇနကပျို့ (၁၂၀၉)၊ ဥမ္မာဒန္တီပျို့ (၁၂၁၀)၊ ဓမ္မဇပျို့ (၁၂၁၁) တို့ ဖြစ်သည်။

ယင်းတို့အနက် မဟာသုတသောမပျို့နှင့် ဥမ္မာဒန္တီပျို့တို့သည် ဦးရှင်း၏ အကောင်းဆုံး လက်ရာများ ဖြစ်ကြသည်။ သူ့ယုတ်မာတို့နှင့် ပေါင်းခြင်း၏ အပြစ်၊ သူတော်ကောင်းတို့နှင့် ပေါင်းခြင်း၏ အကျိုးတို့ကို ဖော်ထုတ်လို၍ မဟာသုတသောမပျို့ကို စပ်ဆိုပြီးလျှင် စိတ္တဇနာကို ပညာဖြင့် ကုစားမှသာ ချမ်းသာနိုင်ခြင်း၊ သူတပါးစကားကို မိမိ ကိုယ်ပိုင်ဉာဏ်ဖြင့် အဖန်ဖန် စဉ်းစားချင့်ချိန်ပြီးမှသာ ယုံကြည်ထိုက်ခြင်း တို့ကို ပြလို၍ ဥမ္မာဒန္တီပျို့ကို စပ်ဆိုသည်။ ဦးရှင်း၏ အစပ် အဆိုများသည် ပြေပြစ်ချောမော၍ အဓိပ္ပါယ် ပေါ်လွင်သည်။ ခက်ခဲနက်နဲသော စကားများကိုမသုံးဘဲ လွယ်ကူ၍ အနက်မထောင့်သော စကားလုံးများကို ရွေးကောက်သုံးစွဲတတ်သူ ဖြစ်သည်။



မြန်မာ ဗျည်း ၃၃ လုံးတွင် လ သည် ၂၈ ခုမြောက် အက္ခရာ ဖြစ်သည်။ ယ၊ ရ၊ လ၊ ဝ၊ သ၊ ဟ၊ ဠ၊ အ ဟူသော အဝဂ်တွင် ပါဝင်၍ လ အသံ၏ ဖြစ်ရာဌာနမှာ ဒန္တဌာန် သွားအရပ်ဖြစ်သည်။ လ အက္ခရာကို လ ဟူ၍ပင် အသံထွက်သည်။ လ အရေးအသား၏ မူလမှာ ဗြာဟ္မီ အက္ခရာ ၂ ဖြစ်သည်။ ဗြာဟ္မီ ၂ မှ ကုသန ၂၊ ဂုတ္တ ၂၊ ကဒံဗ ၂ သို့ အဆင့်ဆင့် ပြောင်းလဲလာပြီးနောက်၊ ကျောက်စာများတွင် ၂ နှင့် ပေစာများတွင် လ ဟု ရေးသားသည်ကို တွေ့ရသည်။ ဗြာဟ္မီ အရေးအသား ၂ တွင် လက်ျာဖက်၌ ထောင်မတ်နေသော မျဉ်းသည် တစတစ လက်ဝဲဖက်ထိပ်နှင့် ညီအောင် တိုလာပြီး ရေးဖန်များသော် မြန်မာ အက္ခရာ လ ဖြစ်ပေါ်လာလေသည်။ လ အက္ခရာ၏ အဆင့်ဆင့် ဖြစ်ပေါ်လာပုံကို အောက်တွင် အစဉ်အတိုင်း ယှဉ်တွဲ၍ ပြထားသည်။

# ချမ်းမြေ့ရောင်ဖြူ သီတဂူ

**နက္ခတ္တဗေဒတွင် ဂြိုဟ်များကို ရံသော လပေါင်း ၃၁ လုံး ရှိသည်ဟု သတ်မှတ်ထားလေသည်။ ယင်းအနက် ကျွန်ုပ်တို့ ကမ္ဘာ၌ ထွန်းလင်းသော လသည် ကမ္ဘာကိုရံသော လဖြစ်သည်။ လသည် ကမ္ဘာနှင့် နီးလွန်းရကား အလွန်အားကောင်းသော မှန်ပြောင်းနှင့်ကြည့်လျှင် လကို ကမ္ဘာနှင့် မိုင် ၅၀ အကွာလောက် အထိ နီးလာအောင် မြင်ရသည်။**

လ။ ။ကျွန်ုပ်တို့ တွေ့မြင်နေကျဖြစ်သော မိုးပေါ်က လသည် ကမ္ဘာမြေ၏ အရံဂြိုဟ်ဖြစ်သည်။ နက္ခတ္တဗေဒတွင် ဂြိုဟ်များကို ရံနေသော လပေါင်း ၃၁ လုံး ရှိသည်ဟု မှတ်သားထားသည်။ မား (အင်္ဂါဂြိုဟ်)၌ လ နှစ်လုံး၊ ကျွန်ုပ်တို့ ကမ္ဘာ၌ လဂြိုဟ်တလုံး၊ ယူရေးနပ်ဂြိုဟ်၌ လ ငါးလုံး၊ ဂျူပီတာဂြိုဟ်၌ လ ၁၂ လုံး၊ ဆက်တန်ဂြိုဟ်၌ လ ကိုးလုံး၊ နက်ပကျွန်းဂြိုဟ်၌ လ နှစ်လုံး အသီးအသီး ရံလျက်ရှိ၏။ ကျွန်ုပ်တို့ မသိရှိသေးသော လများလည်း ရှိကောင်း ရှိပေဦးမည်။ ထို ၃၁ လုံးသော လတို့သည် တခုနှင့်တခု အရွယ်ထုချင်း မတူကြပေ။ ဆက်တန်ဂြိုဟ်ကို ရံထားသော လတလုံး၏ အချင်းသည် ၃,၅၅၀ မိုင်ရှိ၍ ကျွန်ုပ်တို့ ကမ္ဘာကို ရံထားသော လ၏ အချင်းမှာ ၂,၁၆၀ မိုင် ရှိလေသည်။

အမြင်အားဖြင့် လသည် ကြယ်များ ဂြိုဟ်များထက် ကြီး၍ နေလုံးနီးနီးခန့် ရှိသည်ဟု ထင်မှတ်ရပေသည်။ သို့ရာတွင် အမှန်စင်စစ် လသည် နေစကြဝဠာတွင် ရှိသော ဂြိုဟ်တို့ထက် ငယ်၏။ ကမ္ဘာနှင့် နီးလွန်းသဖြင့် ကြီးသည်ဟု ထင်ရခြင်းသာ ဖြစ်သည်။ လသည် ကမ္ဘာမှ ပျမ်းမျှခြင်းအားဖြင့် မိုင်ပေါင်း ၂၄၀,၀၀၀ ခန့် ဝေးကွာသည်။ နေမှာ ထိုအကွာအဝေးထက် အဆပေါင်း ၄၀၀ ပို၍ ကမ္ဘာမှ ဝေးကွာသည်။ ကြယ်တို့သည်ကား နေ၏ အကွာအဝေးထက် အဆပေါင်းမြောက်မြားစွာ ပို၍ပင် ဝေးကွာပေသေးသည်။ အလွန်အားကောင်းသော မှန်ပြောင်းများနှင့် ကြည့်လျှင် လကို ကမ္ဘာမှ မိုင် ၅၀ အကွာလောက်အထိ နီးလာအောင် မြင်ရသည်။ ထိုမှန်ပြောင်းမျိုးနှင့် ကြည့်ခြင်းဖြင့် နက္ခတ်ဆရာတို့သည် လ၏ မျက်နှာပြင် အကြောင်းနှင့် ဆိုင်သော ဗဟုသုတများကို အတော်စုံစုံလင်လင် သိရှိခဲ့ကြလေသည်။

ရှေးက လ၌ နေကဲ့သို့ ကိုယ်ပိုင် အလင်းရောင် ရှိသည်ဟု လူတို့ ထင်မှတ်ခဲ့ကြသည်။ နက္ခတ်ပညာ ထွန်းကားလာသော အခါမှ လသည် နေမှ အလင်းရောင် ရရှိ၍သာ လင်းရကြောင်းကို သိလာကြသည်။ နေမှ လပေါ်သို့ ထိုးသော အလင်းကို လ က ကမ္ဘာမြေပေါ်သို့ ပြန်၍ ဟပ်စေသည်။ နေဝင်သွားသည့် တိုင်အောင် လကိုမြင်ရခြင်းမှာ နေသည် လပေါ်သို့ အလင်းရောင် အစဉ်အမြဲ ထိုးလျက်နေခြင်းကြောင့်ပင် ဖြစ်သည်။ လသည် ကမ္ဘာကို အနောက်မှ အရှေ့သို့ လှည့်ပတ်ရာတွင် ၂၇⅓ ရက်ခန့်ဖြင့် တပတ် ပတ်မိ၏။ သို့ရာတွင် ကမ္ဘာကိုယ်တိုင်က အနောက်မှ အရှေ့သို့ လည်နေသည့် အတွက် ကမ္ဘာမှ အမြင်အားဖြင့် ကမ္ဘာကို တပတ် ပတ်မိအောင် ရက်ပေါင်း ၂၉½ ရက်မျှ ကြာသွားလေသည်။ ထိုအချိန်အတွင်း၌ လ သည် မိမိ၏ ဝင်ရိုးပေါ်တွင် လည်ပတ်နေသဖြင့် ကျွန်ုပ်တို့သည် မြင်နေကျဖြစ်သော လ၏ မျက်နှာကိုသာ အမြဲ မြင်တွေ့နေကြရလေသည်။

လ၌ ဝိုင်းစက်သော ပုံသဏ္ဌာန်ရှိ၏။ သို့သော် ကျွန်ုပ်တို့သည် လပြည့်နေ့၌သာလျှင် လ၏ ဝိုင်းစက်နေသော လဝန်းပြည့်ပုံသဏ္ဌာန်ကို မြင်ရ၍ လဆန်း လဆုတ် ရက်များတွင် လ၏ တစိတ်တဒေသဖြစ်သော လခြမ်းပုံများကိုသာ မြင်ရသည်။ အဘယ်ကြောင့် ထိုသို့ မြင်ရသည်ကို အောက်ပါ လက်တွေ့စမ်းသပ်မှုဖြင့် စမ်းသပ်ဆင်ခြင်ကြည့်ပါ။

အခန်းတခန်းတွင် ပတ်လည် လှည့်နိုင်သော ဆုံလည်ကုလားထိုင် တလုံးကိုထားပါ။ မှန်အိမ်၊ သို့မဟုတ် လျှပ်စစ်ဓာတ်မီးလုံး တခုကို အခန်း၏ တနေရာတွင် ချိတ်ဆွဲထားပါ။ သင်သည် ရှေးဦးစွာ ကုလားထိုင်ပေါ်တွင် မီးလုံးကို ကျောပေးထိုင်၍ လက်တဖက်ကို ရှေ့တည့်တည့်သို့ ဆန့်တန်းထားပြီးလျှင် ထိုလက်တွင် ဘောလုံး အဖြူတလုံးကို ကိုင်ထားပါ။ မီးကို နေ အဖြစ်ရင်း၊ ဦးခေါင်းကို ကမ္ဘာလုံး အဖြစ်ရင်း၊ ဘောလုံးကို လ အဖြစ်ရင်း သဘောထားပါ။ ကုလားထိုင်ကို မလှည့်မီ မီးလုံးသည် သင်၏ ကျောဖက်တွင် ရှိပါစေ။ ဘောလုံးပေါ်သို့ ဦးခေါင်း၏ အရိပ် မထိုးရအောင် ဘောလုံးကို ခပ်မြောက်မြောက် ကိုင်ထားပါ။ မီးလုံးမှ အလင်းရောင်သည် ထိုအချိန်၌ ဘောလုံးပေါ်သို့ တိုက်ရိုက်ကျနေသဖြင့် သင့်ဖက်သို့ လှည့်နေသော ဘောလုံး၏ မျက်နှာသည် အပြည့်လင်းနေလိမ့်မည်။ ထိုသို့ အပြည့်လင်းနေသော ဘောလုံးမျက်နှာ၏ ပုံသဏ္ဌာန်သည် လပြည့်ဝန်း ပုံသဏ္ဌာန်ပင် ဖြစ်၏။ ထို့နောက် ကုလားထိုင်ကို လှည့်ပေးသောအခါ ဘောလုံးပေါ်၌ အရိပ်ကျနေသော အမှောင်ပိုင်းသည် အလင်းပိုင်းထက် တဖြည်းဖြည်း ပို၍ များလာလိမ့်မည်။ ကုလားထိုင်ကို လေးပုံ တပုံ လှည့်ပေးမိသောအခါ ဘောလုံး၏ မျက်နှာပြင်၌ တခြမ်း လင်း၍ တခြမ်းမှာ မှောင်နေသည်ကို တွေ့ရလိမ့်မည်။ ထိုသို့လင်းသော ဘောလုံး မျက်နှာတခြမ်း၏ ပုံသဏ္ဌာန်သည် လဆုတ် ၇ ရက် ၈ ရက်၌ ရှိသော လခြမ်း၏ ပုံသဏ္ဌာန်မျိုးပင် ဖြစ်သည်။ ထို့နောက် ကုလားထိုင်ကို လေးပုံ တပုံ ထပ်မံလှည့်ပေးလိုက်၍ သင်သည် မီးလုံးနှင့် မျက်နှာချင်းဆိုင် ဖြစ်နေသောအခါ ဘောလုံးပေါ်မှာရှိသော လင်းနေသောအပိုင်းသည် လုံးဝ ကွယ်ပျောက်သွားပြီး မှောင်ရိပ်ကျနေသော အပိုင်းကိုသာ



လကမ္ဘာမှ ပျမ်းမျှခြင်းအားဖြင့် မိုင်ပေါင်း နှစ်သိန်းလေးသောင်းခန့် ဝေးကွာသော လ၏မျက်နှာပြင် တစိတ်တဒေသကို လနှင့် ၁၇၂မိုင်ကျော် အမြင့်မှ အနီးကပ်မြင်ရပုံဖြစ်သည်။ ပုံအထက်ပိုင်း လကျာဖက်တွင် ဂါလီလေအိုင် မီးတောင်ကြီးကို တွေ့မြင်နိုင်သည်။

မြင်ရလိမ့်မည်။ ထိုအနေမျိုး၌ လကွယ်သည် ဟု ဆိုကြသည်။ ထိုနောက် ကုလားထိုင်ကို လေးပုံ တပုံ လှည့်ပေးလိုက်ပြန်သောအခါ ဘောလုံး၏ မျက်နှာတခြမ်း ပြန်လင်းလာ၍ တခြမ်းမှာ မှောင်နေလိမ့်မည်။ ထိုသို့ လင်းသော ဘောလုံးမျက်နှာတခြမ်း၏ ပုံသဏ္ဍာန်သည် လဆန်း ၇ ရက် ၈ ရက်၌ ဖြစ်သော လ၏ ပုံသဏ္ဍာန်မျိုးပင် ဖြစ်ပေသည်။ ထိုနောက် ကုလားထိုင်ကို မူလနေရာ ရောက်အောင် တပတ်အပြည့် လှည့်ပေးလိုက်သောအခါ ဘောလုံး၌ မျက်နှာပြင်အပြည့် ပြန်လည် လင်းလာပုံကို သင်တွေ့ရလိမ့်မည်။ လသည် ပြည့်ရာမှ ဆုတ်၊ ဆုတ်ရာမှ ကွယ်၊ ကွယ်ရာမှ ဆန်း၍ ဆန်းရာမှ ပြန်ပြည့်ပုံတို့မှာ ဤအတိုင်းပင် ဖြစ်လေသည်။

လ၌ အရောင် ဖြူနေရခြင်းမှာ နေမှအလင်းရောင်ကြောင့် ဖြစ်၏။ အကယ်၍ နေမှ အလင်းကို မရရှိပါက လသည် မဲမှောင်၍ နေလိမ့်မည်။ လသည် တလကြာမှ တပတ် လည်သဖြင့် လပေါ်က တရက်သည် ကမ္ဘာပေါ်က တလနှင့် ညီမျှသည်။ သို့အတွက် လပေါ်က တနေ့တာ အချိန်သည် ရက်သတ္တ နှစ်ပတ်ခန့် ကြာ၍ တညဉ့်တာအချိန်သည်လည်း ရက်သတ္တ နှစ်ပတ်ခန့်ပင်ကြာသည်။ လပေါ်တွင် ညဉ့်အချိန် ကျရောက်သောအခါ နေမှ အပူနှင့် အလင်းတို့ကို မရရှိသဖြင့် လသည် မဲမှောင်၍ အလွန်အေးလျက် ရှိမည်။ သုညဒီဂရီအောက် ဒီဂရီ ၂၀၀၊ သို့မဟုတ် ဒီဂရီ ၄၀၀ ရောက်အောင်ပင် အေးပေမည်။ နေ့အချိန် ကျရောက်သောအခါတွင်မူ ရေဆူလောက်အောင်ပင် ပူလိမ့်မည် ဟု ခန့်မှန်းရလေသည်။

လပေါ်တွင် ရေ၊ လေနှင့် သက်ရှိအရာများ မရှိကြချေ။ အသံလည်း မဖြစ်ပေါ်နိုင်ပေ။ အကယ်၍ ကမ္ဘာမှ လွှတ်လိုက်သော ဒုံးပျံသည် အရှိန်ပြင်းစွာဖြင့် ကျရောက် ထိမှန်သည့်တိုင်အောင် ထိုထိမှန်သည့် အသံကြီးသည် ပေါ်ပေါက်မည်မဟုတ်ပေ။ အကြောင်းမှာ လ၏ ပတ်လည်တွင် လေထုမရှိဘဲ လေဟာပြင်နယ် ဖြစ်နေသောကြောင့် ဖြစ်၏။ လပေါ်၌ တောင်များ ရှိသည်။ အချို့တောင်ထိပ်တို့မှာ ပေပေါင်း ၃၆,၀၀၀ ခန့်အထိ မြင့်ကြ၍ ကမ္ဘာပေါ်တွင် ထိုလောက် မြင့်သော တောင်ထိပ်များ မရှိပေ။ လပေါ်တွင် တွင်းကြီးများလည်း ရှိသေးသည်။ ထိုတွင်းကြီးများသည် မိုးကျသံတွေခဲများ လပေါ်သို့ ကျရောက်ရာမှ ဖြစ်လာသည်ဟု အချို့နက္ခတ်ဆရာတို့က ဆိုကြသည်။ အချို့နက္ခတ်ဆရာများကလည်း ထိုတွင်းကြီးများသည် မီးတောင်သေများ၏ ထိပ်ဝများဟုဆိုကြသည်။ အချို့ တွင်းကြီးများ၏ ထိပ်ဝတို့သည် မိုင် ၁၀၀ ခန့်ပင် ကျယ်၍ မိုင် ၅၀ ခန့် နက်သည် ဟုခန့်မှန်းကြလေသည်။

လပေါ်တွင် မြစ်ကြောင်းများနှင့် သဏ္ဍာန်တူသော အစင်းကြောင်းများကိုလည်း တွေ့ရသည်။ အကယ်၍ ထိုအစင်းကြောင်းများသည် မြစ်များ ဖြစ်လျှင် ရေမရှိသော မြစ်များသာ ဖြစ်ကြပေမည်။ နှစ်ပေါင်း များစွာက ပေါ်ပေါက်ခဲ့သော မြစ်များ ဖြစ်၍ ယခုအခါတွင် ရေ လုံးဝမရှိတော့ဘဲ မြစ်ရိုးများသာလျှင် ကျန်နေခြင်း ဖြစ်မည် ဟု နက္ခတ်ဆရာတို့ ယူဆကြလေသည်။

ဤကဲ့သို့ ရှေးအခါက စ၍ နက္ခတ် ဆရာများသည် လ၏ အကြောင်းကို မှန်ဘီလူး၊ မှန်ပြောင်းစသည်တို့ မပါဘဲနှင့်ရင်း၊ မှန်ဘီလူး၊ မှန်ပြောင်း စသည်တို့၏ အကူအညီဖြင့်ရင်း၊ ဓာတ်ပုံများ ရိုက်ယူ၍ရင်း လေ့လာခဲ့၏။ လ၏ မျက်နှာပြင် အကြောင်းကိုလည်း အတော်အတန် သိရှိလာခဲ့ကြ၏။ လမျက်နှာပြင်မှ နေရာအများအပြားကိုလည်း အမည် အမျိုးမျိုး ပေးခဲ့၏။

ထိုနောက် နှစ်ဆယ်ရာစုနှစ် ဒုတိယပိုင်း အစလောက်မှ စ၍ လမျက်နှာပြင် စူးစမ်းရေး အာကာသယာဉ်များ တင်လွှတ်၍ စုံစမ်း လေ့လာ ခဲ့ကြ၏။ ဤသို့ လမျက်နှာပြင် စူးစမ်းရေး အာကာသယာဉ်များ တင်လွှတ်ရေး ကိစ္စတွင် ဆိုဗီယက် ယူနီယံနှင့် အမေရိကန် ပြည်ထောင်စု နိုင်ငံတို့သည် ငွေအမြောက်အမြား အကုန်အကျခံကာ ဆောင်ရွက်လျက်ရှိရာ ကမ္ဘာမြေမှ မမြင်ရသည့် လ၏ အစိတ်အပိုင်းများကို ဓာတ်ပုံများ ရိုက်ကူးယူနိုင်ခဲ့သည်။ လမျက်နှာပြင် အကြောင်း ပိုမို သိရှိလာရပြန်သည်။

၁၉၅၉ ခုနှစ် စက်တင်ဘာလ ၁၂ ရက်နေ့တွင် ရုရှားတို့သည် လဆီသို့ အရောက် ပစ်လွှတ်လိုက်သော ဒုံးပျံအထက်ပိုင်း(လမျက်နှာပြင် လေ့လာရေးယာဉ်)သည် ကြံရွယ်ထားသည့် ပစ်ကွင်းနှင့် မိုင် ၁၆၀ အကွာ (မာရီစီရီနီတာတစ်ဒေသ) တွင် လနှင့် ထိတွေ့ခဲ့သည်။ ၁၉၆၄ ခုနှစ် ဇူလိုင်လ ၂၈ ရက်နေ့တွင် အမေရိကန်တို့ ပစ်လွှတ်လိုက်သော အက်ထလတ်အေဂျီနာဒုံးပျံက တင်ဆောင် သွားသည့် ရိမ်းဂျား -၇ အာကာသယာဉ်သည် (ဂူအာရစ်ကီချိုင့်ဝှမ်းအနီးတွင်) လမျက်နှာပြင်နှင့် ထိတွေ့ခဲ့သည်။ ပါသွားသည့် ကင်မရာများက ဓာတ်ပုံ ရိုက်ကူးနိုင်ခဲ့၍ အလုံးစုံအောင်မြင်သည်။ လမျက်နှာပြင် အကြောင်းလည်း ယခင်ကထက် ပိုမို သိရှိလာခဲ့ရပြန်လေသည်။

ထိုမှတဆင့် တက်ပြန်၍ လူသားတို့ လပေါ်သို့ သွားရောက် နိုင်ရေး အတွက် အမေရိကန် ပြည်ထောင်စုနှင့် ဆိုဗီယက်ယူနီယံတို့သည် စီမံကိန်းများချကာ ဆောင်ရွက်ခဲ့ကြရာ၊ အမေရိကန် အပိုလို ၁၁ အာကာသသူရဲကောင်း နေးအမ်စထရောင်းနှင့် အောလဒရင်တို့သည် ၁၉၆၉ ခုနှစ် ဇူလိုင်လ ၂၀ ရက်နေ့တွင် လမျက်နှာပြင်ပေါ် ပဌမဆုံး ခြေချနိုင်ခဲ့လေသည်။

မြန်မာကျမ်းဂန်များတွင် လနှင့် စပ်လျဉ်း၍ ဤသို့ ဖော်ပြပါရှိ၏။ ကမ္ဘာဦးအခါ၌ ဗြဟ္မာပြည်မှ ဗြဟ္မာတို့








၁၉၆၉ ခုနှစ် ဇူလိုင်လ ၂၀ ရက်နေ့တွင် လ မျက်နှာပြင်ပေါ်သို့ လူသားတို့ အောင်မြင်စွာ ပဌမဆုံး ခြေချခဲ့သည်။ အမေရိကန် အပိုလို ၁၁ အာကာသ သူရဲကောင်း နေးအမ့်စထရောင်းနှင့် အောလဒရင်တို့သည် လ မျက်နှာပြင်ပေါ် ခြေချခဲ့ရုံမက သိပ္ပံသုတေသနပါ ပြုလုပ်ခဲ့ကြသည်။ အပေါ် ဝဲ-မုံမှာ လ ဆင်းယာဉ်ပေါ်မှ ဆင်းလာပုံဖြစ်၍၊ ယာ-ပုံမှာ လျှောင်တိုင်း ကရိယာကို စိုက်ထူနေပုံဖြစ်သည်။ ထိုပြင် ကမ္ဘာမြေကြီးနှင့် လတို့၏ အကွာအဝေးကို တိကျစွာ တိုင်းတာနိုင်ရန် လေဆာရောင်ပြန်ဟပ် ကရိယာကိုပါ လ မျက်နှာပြင်ပေါ်၌ ထားရှိခဲ့ကြသည်။ (အောက်ပုံ)

သည် အသက်ကုန်သဖြင့်ၛင်း၊ ကံကုန်သဖြင့်ၛင်း စုတေ၍ လူ့ပြည်သို့ ဥပပါတ် ကိုယ်ထင် ဖြစ်လာကုန်၏။ ထိုသူတို့သည် ကိုယ်ရောင်ဖြင့်သာ ထွန်းပကုန်လျက် ဖြဟ္မာ့ပြည်မှာကဲ့သို့ ပီတိသာလျှင် အာဟာရကိစ္စကို ပြီးစေကုန်လျက် ကောင်းကင်၌ ငှက်ကဲ့သို့ပျံဝဲ၍မွေ့လျော်ကုန်၏။ယောကျ်ားမိန်းမ ဟူ၍ အသွင် မရှိကုန်။ သတ္တဝါ ဟူ၍သာ ခေါ်ဝေါ်ကုန်၏။ ထိုသတ္တဝါတို့သည် ရသပထဝီကို စားအံ့သောငှါ အားထုတ်ကုန်သည် ရှိသော် မိမိတို့ ကိုယ်ရောင်သည် ကွယ်ခဲ့၍ အမိုက်အတိ ဖြစ်ရကား ကြောက်ခြင်း ပြင်းစွာ ဖြစ်ကုန်၏။

ထိုသူတို့၏ ဘုန်းကြောင့် ၛင်း၊ ဖြစ်မြဲသော ဓမ္မတာအားဖြင့် ၛင်း ဘာနုရာဇာ မည်သော ရောင်ခြည်တထောင်ဆောင်သော နေမင်းသည် တပေါင်းလပြည့် တနင်္ဂနွေနေ့ ပုဗ္ဗဝိဒေဟကျွန်း၏ အလယ်၌ ဥဒည်တောင်ထိပ်မှ ထွက်လာ၍ အလင်းကို ဖြစ်စေ၏။ ကမ္ဘာဦးသူတို့သည် ကြောက်ခြင်းမှ ကင်းကုန်၍ ရဲရင့်ခြင်းဖြစ်ကုန်သောကြောင့် 'သူရိယ' ဟူသော အမည်ကို ခေါ်ဝေါ်ကုန်၏။ ထိုသို့ ပေါ်လာသော နေမင်းသည် နာရီ ၃၀ လှည့်၍ ယုဂန္ဓိုရ်တောင် ကွယ်သည် ရှိသော် အမိုက်အတိသာ ဖြစ်၍ ကမ္ဘာဦးသူတို့သည် တခုသော အလင်းကို ရစေသတည်း ဟူ၍ တောင့်တကုန်သည် ရှိသော် အတွင်းကား ပတ္တမြား၊ အပကား ငွေ အတိ ပြီးသော အချင်း ၄၉ ယူဇနာ၊ အဝန်း ၁၄၇ ယူဇနာ ရှိသော ငြိမ်းသော အရောင်ကို ဆောင်သော လမင်းသည် ၂၇ လုံးသော နက္ခတ်မှ စ၍ တာရာကြယ်အပေါင်း ခြံရံလျက် ကန်ရာသီ ၁၃ လုံး ဖြစ်သော ဟဿတနက္ခတ်ကို စီးလျက် အရှေ့မျက်နှာမှ ထွက်လာသည် ရှိသော် ကမ္ဘာဦးသူတို့သည် ဝမ်းမြောက်ဝမ်းသာ ရွှင်မြူးစွာ ဖြစ်ကုန်လျက် ငါတို့ အလိုဆန္ဒအတိုင်း ရပေသည် ဟူ၍ 'စန္ဒ' ဟူသော အမည်ဖြင့် ခေါ်ဝေါ်ကုန်၏။

မြန်မာဘာသာ လ ခေါ်သည်မှာ အမရကောသ အဘိဓာန်ကျမ်းလာ ဂေါ်လ ဟူသော မူလဘာသာတွင် ဂေါ်သဒ္ဒါ ကျေ၍ လ အက္ခရာတလုံးကို မြန်မာဘာသာမှာ 'လမင်း' ဟု ခေါ်ဝေါ် ထင်ရှား ရေးသားကြသည်ဟု ယူရန် ရှိ၏။ တကြောင်းမှာလည်း လလိတ သဒ္ဒါ၊ လလ သဒ္ဒါ နှစ်ပါးသည် တင့်တယ်ခြင်း စံပယ်ခြင်း အနက်ကို ဟော၏။ လဗိမာန်မှာ နက္ခတ်ကြယ်အပေါင်းတို့ဖြင့် ခြံရံသည် ဖြစ်၍ တင့်တယ်ထွန်းလင်းသော အရောင်အဝါ ရှိသည်ကို အစွဲပြု၍ လလိတ သဒ္ဒါ၊ လလ သဒ္ဒါ များတွင် လ အက္ခရာတလုံးကို မြန်မာဘာသာမှာ 'လ' ဟူ၍ ခေါ်ဝေါ်ထင်ရှားသည် ဆိုရန်ရှိ၏။

ထိုလမင်းကို တနင်းလာဂြိုဟ် ဟုခေါ်ဝေါ် ရေးသားကြသည့် မြန်မာဘာသာ စကားမှာ ကမ္ဘာ့တန်းဆာ ရာဇမတ္တဏ်ကျမ်းလာ သသလဉ္ဆနော ဟူသောပါဌ်တွင် အရင်း၌တည်သော သ အက္ခရာတလုံး ကျေ၍ သလဉ္ဆနော ဆိုလိုသည်ကို ကာလရှည်လျားသောကြောင့် မြန်မာစကားမှာ တနင်းနာ ဟူ၍ၛင်း၊ တလင်းလာ ဟူ၍ ၛင်း၊ တနင်းလာ ဟူ၍ၛင်း ခေါ်ဝေါ် ရေးသားကြလေသည် ဟု ယူရန်ရှိသည်။ မြန်မာစကားအရ သသ လဉ္ဆနော ဟူသော ပုဒ်ကို ဝိဂြိုဟ်ကြံသော် သသလဉ္ဆနံ လက္ခဏံ ယဿာတိ သသလဉ္ဆနော ဟုပြုလုပ်ရာ၏။ ယဿ၊ အကြင် လမင်းအား။ သသလဉ္ဆနံ၊ ယုန်ရေးတံဆိပ် ဟူသော။ လက္ခဏံ၊ အမှတ်သည်။ အတ္ထိ၊ ရှိ၏။ ဣတိ၊ ထိုကြောင့်။သသလဉ္ဆနော၊မည်၏။သသလဉ္ဆနော၊ တနင်းလာဂြိုဟ်တည်း။ ကမ္ဘာ့တန်းဆာ ရာဇမတ္တဏ်၊ ယောဂယာတြာ နှစ်ကျမ်းတွင် တနင်းလာကား ယဝနတိုင်း ခိရောဒမိ နို့ရည်သမုဒ္ဒရာမှ တနင်းလာဂြိုဟ် ဖြစ်ကြောင်းကို ဆိုသည်။

**လ (မာသ)**။ ။ လသည် ကမ္ဘာကို လှည့်ပတ် သွားလာရာ၌ ကမ္ဘာမှ ကြည့်လျှင် လဆန်းတခုမှ နောက်လဆန်း တခုသို့ ရောက်အောင် ရက်ပေါင်း ၂၉ ရက် ၁၂ နာရီ၊ ၄၄ မိနစ်၊ ၂.၈ စက္ကန့် ကြာရ၍ ထိုမျှ ကြာသော ရက်အပိုင်းအခြားကို တလ ဟုခေါ်သည်။ ဤသို့ လ သွားကို အစွဲပြု၍ သတ်မှတ်သောကြောင့် ယင်း လကို စန္ဒရ မာသ ဟုခေါ်သည်။ ယင်းသည့် လပေါင်း ၁၂ လကို တနှစ် ဟုသတ်မှတ်ကြသည်။ လကို သတ်မှတ်ရာ၌ အမျိုးမျိုး သတ်မှတ်ကြသည်။ လကို အလွန်ဝေးသော အခြားကြယ်တခုမှ ကြည့်ပါက လ သည် ကမ္ဘာကို တပတ်ရအောင် ရက်ပေါင်း ၂၇ ရက်၊ ၇ နာရီ၊ ၄၃ မိနစ် ၁၁.၅ စက္ကန့် ကြာကြောင်း တွေ့ရသည် ဟုဆိုသည်။ ထိုမျှ ကြာသော တလ၏ ရက်အပိုင်းအခြားသည် ကြယ်ကို အစွဲပြု၍ ခေါ်ဆို သတ်မှတ်ထားသော လ ဖြစ်သည်။ တဖန် ကမ္ဘာသည် နေကို ပတ်၍ သွားလျက်ရှိရာ တပတ်ပြည့်အောင် သွားရသော အချိန်တာကို တနှစ် ဟုခေါ်သည်။ ထိုတနှစ်ကို ၁၂ ပိုင်း ပိုင်းခြား၍ တပိုင်းကို တလ ဟုခေါ်ပြန်ရာ ထိုတလတွင် ရက်ပေါင်း ၃၀၊ ၁၀ နာရီ၊ ၂၉ မိနစ်၊ ၄ စက္ကန့် ရှိလေသည်။ ယင်းသို့ နေသွားကို အစွဲပြု၍ သတ်မှတ်သော လ ကို သူရိယ မာသ ဟုခေါ်သည်။

အထက်ပါ လများအပြင် ပက္ခဒိန်လ ဟူ၍ ရှိပြန်သည်။ ပက္ခဒိန်လများကား နေ၊ လ၊ ကြယ် စသည့် မည်သည်ကိုမျှ အစွဲပြု၍ သတ်မှတ်ထားခြင်း မဟုတ်ဘဲ လူများက ဖန်တီးပြုလုပ်ထားသော လများ ဖြစ်သည်။ ထိုလများသည် တလနှင့်တလ ရက်ပေါင်း မတူကြဘဲ တလလျှင် ၂၈ ရက်မှ ၃၁ ရက်ထိ ရှိကြသည်။ ထိုပက္ခဒိန်လများကို အနောက်တိုင်းများတွင်သာ မက၊ ကမ္ဘာ အနှံ့အပြားမှာပင် သုံးစွဲ

လျက်ရှိရာ ယခုအခါ ကမ္ဘာသုံး လများလောက်ပင် ဖြစ်နေပေပြီ။ ထိုလများမှာ ဇန်နဝါရီလ၊ ဖေဖွာရီလ၊ မတ်လ၊ ဧပြီလ၊ မေလ၊ ဇွန်လ၊ ဇူလိုင်လ၊ ဩဂုတ်လ၊ စက်တင်ဘာလ၊ အောက်တိုဘာလ၊ နိုဝင်ဘာလနှင့် ဒီဇင်ဘာလတို့ ဖြစ်ကြသည်။ ရှေး ရောမ ပက္ခဒိန်၌ တနှစ်တွင် ၁၀ လသာ ရှိခဲ့၍ ဇန်နဝါရီလနှင့် ဖေဖွာရီလများ မရှိချေ။ ဤလ နှစ်လကို နောက်မှ ထပ်လောင်း ဖြည့်စွက်လိုက်သဖြင့် ၁၂ လ ဖြစ်လာသည်။ ထိုလများတွင် တလနှင့်တလ၊ ရက်အရေအတွက်ချင်း မတူညီကြသော်လည်း သာမန်ကိစ္စများအတွက်ဖြစ်လျှင် တလကို ပျမ်းမျှ ရက်ပေါင်း ၃၀ နှင့်ပင် တွက်ချက်လေ့ရှိကြသည်။

မြန်မာလများသည် လဆန်းတခုမှ နောက်လဆန်းတခုသို့ ရောက်သည်အထိ သတ်မှတ်ထားသော စန္ဒရမာသ လများဖြစ်၍ တနှစ်တွင် ၁၂ လရှိသည်။ သာမန်အားဖြင့် ထို ၁၂ လတွင် ခြောက်လသည် ၂၉ ရက်စီ ဖြစ်၍ အခြား ခြောက်လသည် ရက် ၃၀ စီ ဖြစ်သည်။ ဝါထပ်ရက်ငင်များလည်း ရှိ၏။ အဆိုပါ ၁၂ လကား တန်ခူး၊ ကဆုန်၊ နယုန်၊ ဝါဆို၊ ဝါခေါင်၊ တော်သလင်း၊ သီတင်းကျွတ်၊ တန်ဆောင်မုန်း၊ နတ်တော်၊ ပြာသို၊ တပို့တွဲ၊ တပေါင်း လများ ဖြစ်ကြသည်။ (ဆိုင်ရာ လများနှင့် ပက္ခဒိန် — လည်းရှု)။

**လချေး။** ။လချေးသည် တွင်းထွက် ပစ္စည်းတမျိုးဖြစ်သည်။ ကျောက်များတွင် ဖွဲ့စည်း ပါဝင်သဖြင့် နေရာတကာတွင် အနှံ့အပြား တွေ့ရသည်။ ကမ္ဘာပေါ်တွင် လချေး အမျိုးမျိုး ရှိသည့်အနက် မပ်စကိုဗိုက်၊ ဗိုင်အိုတိုက်၊ ဖလော့ဂိုပိုက်နှင့် လီပစ်အိုလိုက် တို့မှာ လူသိ အများဆုံး ဖြစ်သည်။ လချေးသည် ခတ်သဘောအားဖြင့် အလွန်ရှုပ်ထွေးသော ပစ္စည်း ဖြစ်သည့်ပြင် နေရာကို လိုက်၍လည်း တမျိုးနှင့်တမျိုး ကွဲပြား ခြားနားလေသည်။ များသောအားဖြင့် လချေးသည် အယ်လကာလီများနှင့် ဗေ့ဆစ် ဟိုက်ဒြိုဂျင်တို့ ရောနှောပါဝင်သော အလျူမီနီယမ် ဆီလီကိတ် ဖြစ်သည်။ တခါတရံ သံ၊ ကရိုမီယမ်၊ မန်ဂနိ၊ ဗေရီယမ် တို့ကိုလချေးတွင် တွေ့ရ၏။ အချို့လချေးမျိုးတွင် ဖလိုရင်း အမြဲတမ်း ပါရှိတတ်သည်။ လချေး အမြောက်အမြား ထွက်သော ဒေသများမှာ အိန္ဒိယနိုင်ငံ၊ အမေရိကန်ပြည်ထောင်စု၊ ဗရာဇီးနိုင်ငံတို့ဖြစ်သည်။ အိန္ဒိယနိုင်ငံမှ ထွက်သော လချေးကို ဗင်္ဂလားနယ်နှင့် မဒရပ်နယ်များမှ တူးဖော် ရရှိကြ၍ များသောအားဖြင့် ထိုလချေးမှာ မပ်စကိုဗိုက် လချေးမျိုး ဖြစ်သည်။ မပ်စကိုဗိုက် အမျိုးသည် အလွန်ကောင်းသော အလင်းပေါက် ပစ္စည်း ဖြစ်၍ မှန်နီးပါးမျှ ကြည်လင်သည်။ လချေး အမျိုးမျိုးရှိသည်နှင့်အမျှ အရောင်များလည်း အဝါ၊ အစိမ်း၊ အညို၊ အနီ၊ အမဲ စသည်ဖြင့် အမျိုးမျိုး ရှိသည်။

လချေးသည် အလင်းပေါက် ပစ္စည်းဖြစ်၏။ မီးနှင့်အပူချိန် ရုတ်တရက် ပြောင်းလဲခြင်းတို့ကို ခံနိုင်ရည် ရှိသဖြင့် မီးဖိုပြတင်းများတွင် တပ်ဆင်ရန်၎င်း၊ စက်မီးဖိုများ၌ ကြည့်ပေါက်များ ပြုလုပ်ရန်၎င်း၊ ခတ်မီးပြောင်းများ ပြုလုပ်ရန်၎င်း အသုံးပြုသည်။ ရှေးအခါက အိမ်ပြတင်းပေါက်များနှင့် အချို့ စစ်သင်္ဘောတို့၏ လေဝင်ပေါက်များတွင် မှန်အစား လချေးကို တပ်ဆင် သုံးစွဲခဲ့လေသည်။ လျှပ်စစ်ခတ်လိုက် အလွန် ညံ့ဖျင်းသော ပစ္စည်း ဖြစ်၍ ယခုအခါ လျှပ်စစ်လုပ်ငန်းတွင် လျှပ်စစ်ခတ်ကာများ ပြုလုပ်ရာ၌ အများဆုံး အသုံးပြုကြသည်။

# သတ္တိနှင့်သစ္စာ ကြီးသည့် မှန်သူရဲကောင်း

မိမိ၏ အရှင်အကျိုးကို သက်စွန့်ကြိုးပမ်း ထမ်းဆောင်ခဲ့ပေါင်း များသဖြင့် အရှင်သခင် ဘုရင်ဖြစ်သူက မိမိ၏ မိဖုရားထက် ပို၍ပင် နှမြောခဲ့ရသော သူရဲကောင်းဖြစ်သည်။

**လဂွန်းအိမ်။** ။လဂွန်းအိမ်သည် သက္ကရာဇ် ၇၄၅ ခုနှစ်မှ ၇၇၃ ခုနှစ်တိုင် ဟံသာဝတီ ထီးနန်းကို စိုးစံတော်မူခဲ့သော ဘုရင်ရာဇာဓိရာဇ် လက်ထက်တော်၌ အမတ်ဒိန်၊ ဗိုလ်မင်းဖြတ်စ၊ သမိန်ဗရမ်း စသော သူရဲကောင်းတို့နှင့်အတူ သခင့်အကျိုးကို သက်စွန့်ကြိုးပမ်း အမှုတော်ထမ်းခဲ့သော မှန်သူရဲကောင်းကြီး ဖြစ်သည်။ အမည်ရင်းမှာ မသလုံ ဖြစ်၍ လဂွန်းအိမ်မှာ နောက်မှ ရသော ဘွဲ့ဖြစ်၏။ ရာဇာဓိရာဇ် ထက်ထက်၌ မင်းကြီးစွာစော်ကဲနှင့် နှစ်ကြိမ်၊ သားတော် ဘုရင်မင်းခေါင်နှင့် ရှစ်ကြိမ် အကြိမ်ပေါင်းများစွာ မြန်မာတို့နှင့် စစ်တိုက်ခဲ့ရသည်တွင် မှန်သူရဲကောင်း အမှုထမ်းတို့ပေါများသောကြောင့် စစ်ပွဲအစတွင် မည်သို့ ရှိစေကာမူ အဆုံး၌ မြန်မာတို့ မှန်နယ်မှထွက်ခွာပြန်လည်ရသည်ချည်း ဖြစ်သည်။

အခါတပါး ရာဇာဓိရာဇ်သည် ဟံသာဝတီတွင် ရှိစဉ် မြို့ပြကျုံးမြောင်း မကောင်းသည်တို့ကို ပြင်ဆင်ကာ နိုင်ငံသာယာမှုများကို ပြုစု အားထုတ်တော်မူဆဲ၌ အရှေ့ သုံးဆဲ့နှစ်မြို့သားတို့ ထောင်ထား ထကြသဖြင့် တိုက်ခိုက်နှိမ်နင်းရန် ဆင်မြင်းဗိုလ်ထု အလုံးအရင်းနှင့် ချီတော်မူရလေသည်။ သီရိမြို့ (တရည်မြို့)၊ သံမောင်မြို့များကို အစဉ်အတိုင်းနှိမ်နင်းခဲ့ပြီးနောက် ဝန်မြို့ကို တိုက်ခိုက်ရာ အောင်မြင်တော်မူ၏။ ဝန်မြို့စား ကျဆုံး၍ ယင်း၏ သမီး နှင်းကေသရာကို ကိုယ်လုပ်တော် အဖြစ် ကောက်ယူခဲ့လေသည်။ တရည်

မြို့ကို အောင်ပြီးနောက်တွင် သံလံကို စစ်သူရဲ ၅,၀၀၀ နှင့် နေစေ၏။ တရည်မြို့ကို မုတ္တမမြို့၊ မော်လမြိုင်မြို့ကလာ၍ တိုက်လာသည်ကို သံလံတွင် ခစားလာသည့် အတွတ်သား မသလုံသည် တိုက်လာတိုင်းပင် ပွဲလမ်းရဖန်များသည်ကို ကြားတော်မူ၍ ဆုလာဘ်မပြတ် ပေးတော်မူ၏။ ထိုနောက် သံလံတွင် မသလုံလည်း ယောကျ်ားကောင်း ဟုသိတော်မူ၍ သိမ်းတော်မူသည်။

ဝန်မြို့ကို အောင်တော်မူပြီးနောက် လဂွန်းမြို့ကို လုပ်ကြံတော်မူစဉ် သစ္စာတော်ခံသဖြင့် စားမြဲစားစေခဲ့သော သံမောင်မြို့စား မဂြုန်သည် ပုန်ကန်ထကြွကာ ညဉ့်အချိန် သူရဲ ၅,၀၀၀ နှင့် ချီလာပြီးလျှင် ရာဇာဓိရာဇ်၏ အပြင်တပ်များကို တိုက်သဖြင့် ပြင်းစွာ အမျက်ထွက်ကာ သည်ကျွန်ပျက် မဂြုန်ငယ်ကို မည်သူ ရအောင် ယူပါချိမ့်မည်နည်း ဟု မိန့်တော်မူသည်တွင် တထောင်တပ် ဗိုလ်မှူး မသလုံက ဦးခိုက်၍ ကျွန်တော်မျိုး ရအောင် ဆက်ပါမည်ဟု ဝန်ခံလေ၏။ ထိုနောက် မသလုံသည် ဓားလွှားကိုင်ကာ ထမင်းအိုးကို ဦးခေါင်းရသည့် အယောင် ဆောင်၍ မဂြုန်ကို ဆက်မည့်ဟန်ဖြင့် ထွက်လေ၏။ မဂြုန်၏ လူတို့လည်း ညဉ့်အချိန် ဖြစ်သောကြောင့် ယင်းတို့၏ လူပင် ထင်၍ မတားမဆီးဝင်ရ၏။ မဂြုန် အနီးသို့ ရောက်လျှင် ရောက်ခြင်း ထမင်းအိုးကို ပစ်၍ မဂြုန်ကို ခုတ်ချပြီးလျှင် ဦးခေါင်းကို ဖြတ်ယူကာ ရာဇာဓိရာဇ်ထံ ဆက်လေ၏။ ဘုရင်လည်း ခေါင်းဆက်သည်ကို မီးရောင်တွင် မြင်ရလျှင် ကောင်းလှ၏ ဟုသာ ခြီးမွမ်းတော်မူ၏။ ဆုလာဘ်ပေးတော် မမူချေ။ မသလုံလည်း သို့စဉ်သည့်ပွဲကိုမျှ ဆုလာဘ် မပေးဟု နှလုံးမသာ ရှိခဲ့လေသည်။ ထိုနောက် မုတ္တမ၊ မော်လမြိုင်မြို့များကို အစဉ်အတိုင်း တိုက်ခိုက်နှိမ်နင်းကာ တပ်လှည့်ပြန်တော်မူပြီးလျှင် တိုက်ကုလားမြို့၌ စခန်းချစဉ် သံမောင်မြို့စား မဂြုန်၏ ဦးခေါင်းကို ဖြတ်၍ ဆက်သော မသလုံအား ''လဂွန်းအိမ်'' ဟူသောဘွဲ့ကိုချီလျက် သရဖူ၊ ဆင်ပေါက်ခနစ်စီးနှင့် တိုက်ကုလားမြို့ကို ပေးသနားတော်မူပြီးလျှင် ကိုယ်လုပ်တော်အဖြစ် ရည်ရွယ် ကောက်ယူလာသော ဝန်မြို့စား၏ သမီး နှင်းကေသရာကို အပ်နှင်း ခြီးမြှင့်တော်မူလေသည်။

ထိုနောက် ရာဇာဓိရာဇ်သည် မြောင်းမြကို တိုက်စဉ် ပုသိမ်သားတို့က လှေတက် အများနှင့် မြောင်းမြဖက်မှ ကူမည်ကြား၍ ထိုပုသိမ်သားတို့ကို နှိမ်နင်းရန် လဂွန်းအိမ်ကို စေလွှတ်တော်မူ၏။ လဂွန်းအိမ် အားတက်၍ ကြိုးစား ထမ်းရွက်စေလိုသောကြောင့် ဘုရင်သည် မိဖုရား တလသုတ မာယာကို လဂွန်းအိမ်ထံ ကွမ်းခွက်တော်နှင့် ကွမ်းပို့စေ၏။ ကွမ်းရလျှင် ဦးခိုက်၍ ထွက်သွားလေ၏။ လဂွန်းအိမ်လည်း ပုသိမ်သားတို့ အားကြီးသည်။ ငါတို့ကား အားနည်းသည်။ ငါ့သခင် စိတ်တော်ကို စမ်းဦးမည်။ ချစ်တော်မူသည် မှန်မှ အသက်နှင့် အမှုတော်ကို ထမ်းမည် ဟု ခေါင်းမြီးခြုံ၍ အိပ်နေလေ၏။ မိုးသောက်သော် လဂွန်းအိမ် မသွားသောကြောင့် အမတ်ဒိန်နှင့် ဗြာတ်စတို့က စုံစမ်းရာ ယမန်နေ့က ဘုရင့် မိဖုရား တလသုတမာယာ ကွမ်းပို့လာရာတွင် ရင်ဝတ်တော် လျော၍ မြင်မိသည်ကို ရေစာ မယူနိုင် ရှိခဲ့ပြီ။ သွားလည်း သေမည်၊ နေလည်း သေမည့် အတူတူ ဖြစ်သောကြောင့် နေတော့သည်ဟု လဂွန်းအိမ်က မာယာဖြင့် ဆိုလေ၏။ ဘုရင် ကြားတော်မူသော် ''မိဖုရားကို ငါ မနှမြော၊ သင့်ကိုသာ ငါ နှမြောသည်'' ဟု မိန့်တော်မူပြီးလျှင် မိဖုရားအား နှားချတော်မူကာ လဂွန်းအိမ်ထံသို့ ပို့စေ၏။ လဂွန်းအိမ်လည်း မိဖုရား ရောက်လာသည်ကို မြင်လျှင် ခရီးကြို၍ အရိုအသေပြုကာ ဦးခိုက်ကန်တော့လျက် အကျွန်ုပ် သခင်၏ စိတ်တော်ကို စမ်းခြင်းမျှသာ ဖြစ်ပါသည်။ ချစ်သနားတော်မူကြောင်း မှန်ပါသည်။ ယခုသော် အသက်နှင့် အမှုတော်ကို ထမ်းရွက်ပါတော့မည်ဟု လျှောက်၏။ ထိုနောက် တပ်များနှင့် ထွက်၍ တိုက်လေလျှင် ပုသိမ် လှေတပ်ကို အောင်နိုင်လေသည်။

တခါသော် ရာဇာဓိရာဇ်သည် အကောက်ကြံ၍ စစ်အောင်နိုင်ရေးကို မလိုလားမှုကြောင့် လဂွန်းအိမ်အား ကွပ်မျက်စေဟု အမိန့်ပေးခဲ့ဘူးလေသည်။ သို့သော် ဗိုလ်မင်းဗြာတ်စက ယခုစစ်အတွင်း၌ အမတ်သူရဲကောင်းကို သတ်လျှင် ရန်သူကို အားပေးသကဲ့သို့ ရှိချိမ့်မည်။ လဂွန်းအိမ်ကို မေးပါရစေဦး။ အမှုတော်ကို အသက်နှင့်လဲ၍ ထမ်းမည် ဆိုလျှင်ထမ်းပါစေဦးဟု ဝင်ရောက်လျှောက်သော် ဘုရင် ဆိတ်ဆိတ် နေတော်မူ၏။ပြီးမှ မင်းခေါင်ကို ဆင်စီးချင်းရအောင် တိုက်လေ၊ ရမှသာလျှင် အသက်ကို ချမ်းသာပေးမည် ဟု ဆိုရာ တိုက်ပါမည်ဟု လဂွန်းအိမ်က ဝန်ခံလျှောက်တင်လေ၏။ တကြိမ်တွင် လဂွန်းအိမ်သည် ဘုရင်မင်းခေါင်နှင့် စီးချင်းတိုက်ခွင့် ရ၍ ယှဉ်မည်အပြုတွင် မင်းခေါင်နှင့် မသင့်သဖြင့် ရာဇာဓိရာဇ်ထံမှာ ခိုနေလာ၍ မင်းခေါင်ကို မသိသည့် လဂွန်းအိမ်အား နောင်တော်ကို ပြစေရန် ဆင်တွင်ကုန်းလယ်စီး ထည့်လိုက်သော မင်းခေါင်၏ ညီတော်၊ ရာဇာဓိရာဇ်၏ ယောက်ဖတော် ဖြစ်သော ရှင်သိဒ္ဓတ်က လဂွန်းအိမ် နောက်မှနေပြီးသော် မင်းကေရာင်ဖြစ်လျက် အမှူးအမတ်နှင့် ဆင်စီးချင်း တိုက်ရာသည်လော၊ နောက်က ဆင်ကူ များလှသည်။ ထီးဖြူကို လှည်း၍ထားလေဟု ဆိုသဖြင့် မင်းခေါင် ဆုတ်ခွာသွားလေသည်။ ထိုအကြောင်းကို ရာဇာဓိရာဇ်ကြားလျှင် ရှင်သိဒ္ဓတ်အား ကွပ်မျက်တော်မူ၏။

လဂွန်းအိမ်သည် မင်းခေါင်ကို ရအောင် တိုက်မည် ဟု ကတိပြုထားသည့်အတိုင်း တညဉ့်တွင် မင်းခေါင် အိပ်ရာသို့ အရောက် သွား၍ မင်းခေါင်၏ ကွမ်းခွက်တော်နှင့် ပတ္တမြား

မားကို ယူပြီးနောက် လုပ်ကြံရန် သင့် မသင့် စဉ်းစားနေခိုက် ကိုယ်လုပ်တော် အစောင့်တယောက် နိုး၍ ဟစ်အော်သဖြင့် တတပ်လုံး သောသောရုတ်ရုတ် ဖြစ်သောကြောင့် လဂွန်းအိမ် ပြန်ထွက်ခဲ့ရလေသည်။ လဂွန်းအိမ် ပြန်ရောက်၍ ရာဇာဓိရာဇ်က ပြီးခဲ့၏လောဟု မေးတော်မူမှ ဘုန်းကြီးသော မင်းကေရာဇ်တို့ကို လုပ်ကြံသောသူသည် ဘုန်းမကြီး အသက်မရှည်ဟု လူကြီးမိဖတို့ ပြောဘူးပါသည်။ အသက်ရှည်မှ အမှုတော်ကို ထမ်းရမည်ကို ရည်၍ ကျွန်တော် မလုပ်ကြံခဲ့ပါ။ အပါးတော်သို့ ရောက်ကြောင်း ပြရန် ဘုရင်မင်းခေါင်၏ ကွမ်းခွက်တော်နှင့် ပတ္တမြားခါးတို့ကို ယူခဲ့သည်ဟု ရာဇာဓိရာဇ်အား လျှောက်ထားရာ နှစ်သက်တော်မူသဖြင့် နင့်အသက်ကို ငါလွှတ်၏ဟု မိန့်တော်မူ၏။

သက္ကရာဇ် ၇၇၄ ခုနှစ်အတွင်း ဘုရင်မင်းခေါင်နှင့် ရာဇာဓိရာဇ်တို့ စစ်ပြုနေကြစဉ် တကြိမ်၌ ပြည်မြို့ဖက်တွင် မင်းခေါင်တို့က တပ်ချနေ၏။ ရာဇာဓိရာဇ်တို့က တဖက်မှ အောက်နားတွင် တပ်ချနေ၏။ဤသို့ စစ်နားနေကြစဉ် လှေတစီးချင်း ကစားစေ၏။ မြန်မာတို့က ဥာဏ်ကူ၍ လှေ လေးစင်း၊ သူရဲကောင်း လေးယောက် ဦးစီးစေပြီးလျှင် သုံးစင်းကို မြစ်အနောက်ဖက် ကမ်းထောင့်အကွေ့တွင် ပုန်းကွယ်နေစေ၏။ တစင်းကိုသာ စည် မောင်း နရည်း တီး၍ ထွက်စေ၏။ ကြည်းဖက် ကမ်းမှ မြင်းနှစ်ထောင်လည်း လိုက်၍နေရ၏။ မွန်တို့ဖက်က သူရဲကောင်း လဂွန်းအိမ် ဦးစီး၍ လှေတစင်းနှင့် စည်မောင်းတီးကာ ထွက်လာ၏။ လှေ နှစ်စင်းတွေ့သောအခါ ပုန်းနေသော မြန်မာလှေသုံးစင်းတို့က ထွက်လာပြီးလျှင် ဝိုင်းအုံ ကူညီတိုက်လေသောကြောင့် မွန်လှေစီးတို့ ရေသို့ ကျကုန်၏။ လဂွန်းအိမ်၏ ပေါင်ခြံကိုလည်း လှံထိလေ၏။ ထိုအခါ ဘေးက ကြည့်နေသော မင်းရဲကျော်စွာက မသေစေနှင့်၊ မသေစေနှင့်ဟု ဟစ်၍ဆိုသဖြင့် လဂွန်းအိမ်ကို ရေမှ ဆယ်ကာ အသာအယာ ယူဆောင်ခဲ့ကြ၏။ သို့သော် အနာသည်းသည် ဖြစ်၍ စကား အနည်းငယ်သာ ပြောပြီးလျှင် ကွယ်လွန်သဖြင့် အလောင်းကို ငှက်ပျောဖောင်တွင် ပုဆိုးဖြူအုပ်လျက် ခေါင်းရင်းက ဆီမီးတိုင်နှင့် ရာဇာဓိရာဇ်ထံ မျှောလိုက်ရာ ဘုရင်လည်း ဆယ်ယူပိုက်ချီ၍ ဗိုလ်မင်းဗြာတ်စလည်း မရှိပြီ။ မင်း ငါ့ကို စွန့်၍ သွားပြန်သော် အစွယ်နှစ်ချောင်း ကျွတ်သည်နှင့်အလားတူ၊ ငါ၌ တိုင်ပင်အားကိုးရန် မရှိတော့ချေပြီဟု ငိုယိုတော်မူ၏။ ထိုနောက် လဂွန်းအိမ်၏အလောင်းကို ကောင်းစွာ သင်္ဂြိုဟ်လေသည်။

**လပွတ္တာမြို့**။ ။လပွတ္တာမြို့သည် ဧရာဝတီတိုင်း မြောင်းမြခရိုင် လပွတ္တာမြို့နယ် ရုံးစိုက်ရာ မြို့ ဖြစ်သည်။ ဧရာဝတီမြစ်မှ အဆင့်ဆင့် ခွဲထွက်လာသော ရွှေးမြစ်၏ အနောက်ဖက်ကမ်း၌ မြောက်လတ္တီတွဒ် ၁၆ ဒီဂရီ ၈ မိနစ်နှင့် အရှေ့လောင်ဂျီတွဒ် ၉၄ ဒီဂရီ ၅၉ မိနစ် ဆိုရာအရပ်တွင် အရှေ့နှင့် အနောက် အလျားလိုက် တည်ရှိသည်။ ဧရာဝတီမြစ်ဝကျွန်းပေါ် ဒေသတွင် တောင်ဖက် အစွန်ဆုံး ကျသော မြို့ ဖြစ်သည်။ ရွှေးမြစ်သည် လပွတ္တာမြို့ တောင်ဖက်သို့ မိုင် ၂၀ ခန့် စီးဆင်း၍ ဗင်္ဂလားပင်လယ်၏ တစိတ်တဒေသဖြစ်သော ကပ္ပလီပင်လယ်ထဲသို့ စီးဝင်သည်။ လပွတ္တာမြို့နယ်၏ နယ်နိမိတ်မှာ မြောက်လားသော် ကန်ဘဲ့၊ အရှေ့လားသော် ပြင်စလူမြစ်၊ တောင်လားသော် ကပ္ပလီပင်လယ်၊ အနောက်လားသော် သက်ကယ်သောင်မြစ် ဖြစ်သည်။

အထွေထွေ စီရင်အုပ်ချုပ်ရေးအလို့ငှါ မြို့ပိုင်ရုံး၊ တရားစီရင်ရေးအလို့ငှါ တရားမနှင့် ၁-ရာဘက် ရာဇဝတ်တရားသူကြီးရုံး ဟူ၍ ရုံးနှစ်ရုံးကို တပေါင်းတည်း ပြုထားသော လပွတ္တာမြို့နယ်ရုံးသည် မြို့မြောက်ပိုင်းရပ်တွင် တည်ရှိသည်။ ပြည်သူ့ရဲတပ်ဖွဲ့စခန်း၊ တပ်ရင်း (၉၃) ၏ တပ်ခွဲရုံး၊ ကြိုးမဲ့ကြေးနန်းရုံး၊ စာတိုက်၊ ဆေးရုံ၊ အစိုးရ အထက်တန်းကျောင်းတို့လည်း အသီးအသီးရှိသည်။

ရှေး လူကြီးသူမများ လက်ထက်က စ၍ တည်ထောင်ထားသော ဘုန်းကြီးကျောင်းများမှာ အထက် (အရှေ့) ပိုင်းမှ စ၍ အောက် (အနောက်)ပိုင်းအထိ အစဉ်လိုက် ရေတွက်သော် ဗောဓိကျောင်း၊ ဝါးကျောင်း၊ ကမ္မဋ္ဌာန်းကျောင်း၊ လေးထပ်ကျောင်း ဟူ၍ ဖြစ်သည်။ လပွတ္တာမြို့ အနောက်ဖက် လပွတ္တာလုပ် သွားရာလမ်း ဘုရားသုံးဆူ အနီးရှိ တောရကျောင်းမှာ လွန်ခဲ့သော နှစ်ပေါင်း ၄၀ ကျော်ခန့်က တည်ထောင်သည့်ကျောင်း ဖြစ်သည်။ အထက်ပိုင်း ဗောဓိကျောင်း၌ တာဝတိံသာ စကြံနှင့် ဘုရား ရှိသည်။ ရှေးက ထိုကျောင်းဝင်းတွင် ဝါဆိုလျှင် တာဝတိံသာတက်ပွဲ၊ဝါကျွတ်လျှင် တာဝတိံသာဆင်းပွဲတို့ကို ကျင်းပလေ့ရှိသည်။ ယခု ဤဘုရားပွဲ ကျင်းပသော ဓလေ့မှာ တိမ်ကောစ ပြုလာပြီ။ သို့သော် အထက်ပိုင်း အောင်တော်မူ ဘုရားပွဲနှင့် အောက်ပိုင်း သကျမာရဇိန် ဘုရားပွဲတို့မှာကား နှစ်စဉ် ကျင်းပမြဲ ကျင်းပလျက် ရှိသည်။

လပွတ္တာမြို့၏ ပဓာန စီးပွားရေးလုပ်ငန်းမှာ စပါးစိုက်ပျိုးရေး ဖြစ်၏။ လွန်ခဲ့သော ၃၅ နှစ်ခန့်က လပွတ္တာမြို့ အောက်ပိုင်း ဆားချင်း (ဆားကျင်း) ချောင်း တဖက်ကမ်းတွင် ဆန်စက်တလုံးကို စတင် တည်ထောင်ခဲ့သည်။ ယခုမှာမူ လပွတ္တာမြို့ အထက်ပိုင်း၊ အောက်ပိုင်း စသည်တို့တွင် ဆန်စက် ခြောက်လုံးရှိသည်။ လပွတ္တာမြို့နယ်အတွင်း ဘီတွတ်၊ ကန်ဘဲ့ စသည့် အရပ်တို့၌လည်း ဆန်စက်အများ ရှိသည်။ ဆန်စပါးလုပ်ငန်းအပြင်၊ ငပိ နှင့် ဆား လုပ်ငန်းများမှာလည်း ဒုတိယ အရေးကြီးသော လုပ်ငန်းများ ဖြစ်ကြ၏။ ယခုခေတ်၌ ငပိလုပ်ငန်းကို လျှပ်စစ်အားဖြင့်မောင်း

နှင်သော ငပိကျိတ်စက်များဖြင့် လုပ်ကိုင်လျက်ရှိရာ မြို့ပေါ်တွင် ငပိကျိတ်စက် အများ ရှိသည်။ ဆားလုပ်ငန်းကို မြို့ပေါ်၌ ဆားဖိုသူကြီးတို့က ကြီးကြပ် အုပ်ချုပ် လုပ်ကိုင်ကြသည်။ ဆားချင်း (ဆားကျင်း)၊ သက်နံးကျွန်း၊ ပြင်စလူ၊ စလူဆိပ်၊ ဆားချက် စသည့် ဒေသတို့တွင် ဆား အမြောက်အမြား ချက်ကြသည်။

ရွှေးမြစ်၊ ပြန်မလောမြစ်၊ ပြင်စလူမြစ်၊ ကကရန်မြစ် စသော မြစ်ဝဒေသများတွင် ကနစို၊ မြင်းက စသော သစ်တောများ ရှိသည်။ ထို သစ်တောတို့ကို အမှီပြု၍ ထင်းလုပ်ငန်းလည်း ကြီးကျယ်သည်။ ကနစိုထင်း၊ မြင်းကထင်းတို့ကို ရှေးက ရေဝတီ မီးသင်္ဘော ကုမ္ပဏီလီမိတက်၊ ယခု ပြည်တွင်း ရေကြောင်းသယ်ယူပို့ဆောင်ရေး အဖွဲ့တို့က အများ အပြား သုံးစွဲသည်။ ထိုထင်းများကို ရန်ကုန်မြို့သို့လည်း တင်ပို့ရောင်းချသည်။ ယခုမှာမူ ဆားလုပ်ငန်းသည် အဆမတန် တိုးတက်လာလေရာ လပွတ္တာမြို့နယ်မှ ထွက်သော ထင်းကို ဆားဖိုများက အသုံးများသည်။

လပွတ္တာမြို့သည် မူလက ဆားချက်သော ရွာကလေး တရွာမျှသာ ဖြစ်သည်။ ဆားချက်လုပ်ငန်းနှင့် ယှဉ်၍ တံငါအလုပ်ကိုလည်း လုပ်ကြသည်။ လပွတ္တာမြို့မှ အနောက်ဖက် ဆားချင်းချောင်းသည် ရှေးက အလွန် ရေငန်သော ချောင်း ဖြစ်သည်။ ပင်လယ်ရေသည် လပွတ္တာမြို့အထက်သို့ တိုင်အောင် ဝင်သည်။ ထို့ကြောင့် ရှေး လူကြီးများသည် ဆားချင်းချောင်းကို အမှီပြု၍ မြန်မာဆားအိုးကြီးများဖြင့် ဆားချက်ကြသည်။ နောင်အခါတွင် ဆားချင်းရွာ၊ မန်ကျည်းပင်ရွာ၊ သုံးခွရွာတို့တွင် လယ်ကွင်းထဲ ဆားရေသွင်း၍ ဆားဖိုများနှင့် ဆားချက်ကြသည်။

ရွှေးမြစ်သည် မိုးဥတုရာသီ၌ အလွန် လှိုင်းလေပြင်းထန်သည်။ သို့သော် ဆားချင်းချောင်းသည် လေမိုးခိုရန် ကောင်းသည်။ လပွတ္တာရွာတွင်ရှိ ကုန်းတန်းသည်လည်း ရေချိုရေကောင်း ရရာ အရပ် ဖြစ်သည်။ ထို့ကြောင့် ဤအရပ်ကို မှီ၍ ရွာသူရွာသားတို့သည် ပင်လယ်ငါး၊ ပုဇွန်၊ မျှင် စသည်တို့ကို မင်းထောင်ခြင်း၊ မြှုံးထောင်ခြင်း၊ ပိုက်ချခြင်းတို့ဖြင့် ဖမ်းယူကြသည်။ ဤလုပ်ငန်းတို့သည် ဆားလုပ်ငန်းနှင့် ယှဉ်၍ ဖွံ့ဖြိုးလာသောအခါ လပွတ္တာငပိလုပ်ငန်းသည် ကြီးကျယ်လာလေသည်။ ရှေးအခါက ရွာပေါ်မှာပင် ငပိလုပ်ကြသည်။ သို့သော် လပွတ္တာမြို့ဟုကျေညာလိုက်သောအခါ ငပိလုပ်ငန်းသည် ဆားချင်းချောင်းထဖက်ရှိ ငပိဆိပ်သို့ ရွှေပြောင်းပေးရသည်။ ယခုခေတ်၌ မင်းထောင်ခြင်း၊ မြှုံးထောင်ခြင်းအလုပ်တို့ကို လပွတ္တာမြို့တောင်ဖက် ရွှေးမြစ်ဝရှိ ကျေးရွာများ၌ လုပ်ကြသည်။

၁၈၆၉ ခုနှစ်တွင် ဆူးအက်တူးမြောင်း လမ်းပွင့်သောအခါ ငပိ လုပ်ငန်းကိုသာ အဓိကထားခဲ့သော လပွတ္တာဒေသသည် စပါးစိုက်ပျိုးရေးကို ချဲ့ထွင် လုပ်ကိုင်လာသည်။ ၁၉၁၄–၁၈ ခုနှစ် ပဌမ ကမ္ဘာစစ်အတွင်း၌ ယင်းစပါးစိုက်ပျိုးရေးလုပ်ငန်းသည် အထူး တိုးတက်ဖွံ့ဖြိုးလာလေသည်။ မြေမှာ နုံးတင်မြေသစ် ဖြစ်လေရာ တာတမံလုံလျှင် အလွန် မြေဩဇာ ကောင်းသည်။ ထို့ကြောင့် ထိုခေတ်မှ စ၍ တောင်သူလယ်သမားတို့သည် မြေသစ်များကို ခုတ်ထွင် ရှင်းလင်း၍ လယ်သစ် တီကြသည်။

ထိုသို့ လယ်သစ်တီရာမှ လပွတ္တာသည် တစတစ ကြီးပွား တိုးတက်လာသည်။ ဗြိတိသျှအုပ်ချုပ်ရေး လက်ထက်တွင် လပွတ္တာရွာသည် ၁၈၇၆–၇၇ ခုနှစ်၌ ပဌမဦးစွာသန်ကောင်စာရင်း ကောက်ခြင်းကို ခံရသည်။ ထိုစဉ်က လပွတ္တာရွာ၏ လူဦးရေသည် ၁,၂၁၁ ယောက်ဖြစ်သည်။ မြောင်းမြမြို့၏ လူဦးရေသည်ပင်လျှင် ၁,၇၁၅ ယောက်မျှသာ ရှိသေးသည်။ ၁၉၁၂ ခုနှစ် ရောက်သော် လပွတ္တာရွာ၏ လူဦးရေမှာ ၁,၅၂၅ ယောက် ဖြစ်လာသည်။ ထိုနောက် မြန်မာနိုင်ငံတွင် ဆယ်နှစ်တကြိမ် သန်ကောင်စာရင်း ကောက်ခံခြင်းသည် အတည်တကျ ဖြစ်လာသည်။ ၁၉၂၁ ခုနှစ်တွင် လပွတ္တာမြို့၏ လူဦးရေသည် ၁,၉၀၇၊ ၁၉၃၁ ခုနှစ်တွင် ၂,၆၇၄ ဟူ၍ ဖြစ်လေသည်။ ထိုနောက် ဒုတိယကမ္ဘာစစ်ကြောင့် သန်ကောင်စာရင်း မရှိ ဖြစ်ခဲ့သည်။ သို့သော် ၁၉၅၃ ခုနှစ် စာရင်းအရမှာ လူဦးရေ ၁၂,၇၄၃ ယောက် အထိ တိုးလာသည်။

မူလက လပွတ္တာရွာကို တည်သောအခါ ယခု တောရကျောင်းအနီးရှိ ဘုရားသုံးဆူ အရပ်မှ စ၍ တည်သည်ဟု ယူဆရန် ရှိသည်။ လွန်ခဲ့သော နှစ်ပေါင်း ၄၀ ကျော်ခန့်က ဘုရား သုံးဆူကို သိုက်သမားများ တူးသောအခါ မွန်ကျောက်စာများကို တွေ့ရသည်။ သို့သော် ထိုကျောက်စာများသည် အထိန်းအသိမ်းမရှိ၍ ပျောက်ပျက်သွားပြီ ဖြစ်သည်။ လပွတ္တာရွာသည် မွန်ရွာဖြစ်သည်။ လပွတ် ဟူသော စကားမှာ မွန်ဘာသာ ''လပတ်''၏ ပုဒ်ပျက် ဖြစ်၍ မြစ်နှစ်သွယ်ကို ဆက်ထားသော ရေကျော်ဟု အဓိပ္ပါယ်ရသည်။ မွန်ဘာသာ ''တာ'' ဟူသော စကားမှာ မြန်မာလို ထန်း ဖြစ်သည်။ ထိုစကားနှစ်ရပ် ပေါင်းသော် ထန်းပင်ရေကျော်ဟု အဓိပ္ပါယ်ရ၏။ ဗြိတိသျှတို့၏ မှတ်တမ်းတွင် ယခု ဆားချင်းချောင်းကိုပင် လပွတ္တာချောင်းဟု အမှတ်သညာ ပြုသည်။ ထိုလပွတ္တာချောင်းသည် အနောက်ဖက် သက်ကယ်သောင်မြစ်ကို အရှေ့ဖက် ရွှေးမြစ်နှင့် ဆက်သွယ်ပေးသည်။ ထို့ကြောင့် ထန်းပင်ရေကျော် (လပွတ္တာ)ဟူသော ဗျုပ္ပတ်သည် ယုတ္တိရှိသည်။ လပွတ္တာ အနောက်ဖက် လေးမိုင်ကွာခန့်တွင် လပွတ္တာလုပ် (ရှေးအခေါ် လပွတ္တာရပ်)ရွာရှိသည်။ လပွတ္တာနှင့် လပွတ္တာလုပ် အကြားတွင် ရှင်စောပု တည်ထားသည်ဟု ဆိုသော လပွတ္တာလုပ်စေတီ ရှိသည်။

ဇမ္ဗူဒီပ ဥဆောင်းကျမ်းပါ စစ်တမ်းများတွင် ပန်းမဝတီမြစ် အရှေ့ဖက်ကို မြောင်းမြနယ်၊ အနောက်ဖက်ကို ပုသိမ်နယ်ဟု မြန်မာမင်း အဆက်ဆက်တို့ သတ်မှတ်ကြောင်း ဆိုသည်။ လပွတ္တာသည် ပန်းမဝတီနှင့် ဆက်သွယ်သော သက်ကယ်သောင်၏ အရှေ့ဖက်ကျသဖြင့် မြန်မာမင်းများ လက်ထက်ကပင်လျှင် မြောင်းမြနယ်ထဲ၌ ပါဝင်ခဲ့ပေမည်။ ၁၈၅၆ ခုနှစ် ဗြိတိသျှတို့ မြန်မာနိုင်ငံ အောက်ပိုင်းကို သိမ်းပိုက်သောအခါ လပွတ္တာရွာသည် မြောင်းမြ မြို့နယ်ထဲ၌ အကျုံးဝင်၍ ပုသိမ်ခရိုင်ထဲတွင် ပါဝင်သည်။ ၁၈၈၁ ခုနှစ်တွင် ယခု သဘောၤဆိပ်နေရာ၌ နယ်လှည့် မြို့အုပ်တို့ ရုံးထိုင်ရန် ရုံးအဆောက်အအုံကို တည်ဆောက်ခဲ့သည်။ ၁၈၉၂ ခုနှစ် လေကြီးမိုးကြီး လာသောအခါ ထိုရုံးသည် ပြိုလဲလေသည်။ ထို့ကြောင့် ယခု ဗိုလ်တဲဟု ခေါ်သော မင်းတဲကို နောက်ထပ် ဆောက်သည်။ မြောင်းမြနယ်ကို ပုသိမ်ခရိုင်မှ ခွဲထုတ်၍ မြောင်းမြခရိုင်ဟု ဖွဲ့စည်းသောအခါ လပွတ္တာရွာသည် မြောင်းမြမြို့ အပိုင် ဖြစ်လာသည်။ ၁၈၉၂–၉၃ ခုနှစ်တွင် လပွတ္တာရွာမြေကို စတင်သတ်မှတ်သည်။ ၁၉၀၇ ခုနှစ် အောက်တိုဘာလ ၂၃ ရက်နေ့စွဲ အထွေထွေဌာန အမိန့်ကြော်ငြာ အမှတ် ၃၁၅ အရ လပွတ္တာကို မြောင်းမြမြို့နယ်မှ ခွဲထုတ်၍ လပွတ္တာမြို့နယ်ဟု သတ်မှတ်သည်။ ၁၉၀၈ ခုနှစ် ဒီဇင်ဘာလ ၂၇ ရက်နေ့စွဲ အခွန်တော်ဌာန အမိန့်ကြော်ငြာ အမှတ် ၁၂၇ အရ (နောင်သောအခါ သတိုးသီရိ သုဓမ္မ ဖာနီဗယ်ဟု တွင်သော) မြောင်းမြ အရေးပိုင် မစ္စတာဂျေအက် (စ) ဖာနီဗယ် လက်ထက်တွင် လပွတ္တာရွာကို လပွတ္တာမြို့ဟု ကျေညာသည်။ မြို့တည်စက လပွတ္တာမြို့၏ အကျယ်အဝန်းမှာ ၀၀.၉ စတုရန်းမိုင် ရှိသည်။ ၁၉၂၀ ခုနှစ်၌ ကျေးရွာကိုယ်ပိုင်အုပ်ချုပ်ရေး အက်ဥပဒေအရ လပွတ္တာဈေး၊ ဆေးရုံ၊ စာသင်ကျောင်းတို့ကို မြောင်းမြခရိုင် ကောင်စီနှင့် ကျောင်းဘုတ်အဖွဲ့တို့က အုပ်ချုပ်သည်။ ၁၉၂၅ ခုနှစ်တွင် ယခု ရှိရင်းစွဲ မြို့နယ်ရုံးကို ဆောက်လုပ်ပြီးစီးသည်။ ၁၉၂၇ ခုနှစ်တွင် လပွတ္တာမြို့နယ်ထဲမှ ကန်ဘဲ့မြို့နယ်ကို ခွဲထုတ်သည်။ သို့သော် ၁၉၃၁ ခုနှစ်တွင် ကန်ဘဲ့မြို့နယ်ကို ပြန်လည် ဖျက်သိမ်း၍ လပွတ္တာမြို့နယ်ထဲသို့ ပြန်သွင်းသည်။ ၁၉၄၈ ခုနှစ်တွင် လပွတ္တာမြို့မြေကို ပြန်လည် သတ်မှတ်သောအခါ အကျယ်အဝန်းမှာ ၀.၇၃ စတုရန်းမိုင် ဖြစ်လာလေသည်။

ဦးထင်ဖတ်

**လဗင်ဒါပင်။** ။လဗင်ဒါပင်သည် လာဗီအားတီး မျိုးရင်းတွင် ပါဝင်၍ ယင်း၏ ရုက္ခဗေဒ အမည်မှာ လဗင်ဒူလာ ဗီရာ ဖြစ်သည်။ လဗင်ဒါပင်သည် ချုံပင်ငယ်မျိုး ဖြစ်၍ အပွင့်နှင့် အရွက်များတွင် မွှေးကြိုင်သော အနံ့များ ရှိကြသည်။ ယင်း၏ မူလပေါက်ရာ အရပ်များမှာ မြေထဲပင်လယ်ဒေသများနှင့် အာရှတိုက် အနောက်တောင်ဖက်ရှိ တိုင်းပြည်များ ဖြစ်ကြသည်။ ထိုဒေသများတွင် အလေ့ကျပေါက်၍ မျိုးစိတ်ပေါင်း ၂၀ ခန့်ရှိသည်။

လဗင်ဒါပင်၏ အရွက်များသည် သေးသွယ်ရှည်လျား၍ အပင်ရင်းနားတွင် စု၍ ထွက်ကြသည်။ အပင်၏ အမြင့်မှာ ၁၈ လက်မကျော်ကျော်လောက်သာ ရှိသော်လည်း အရွက်များကြားမှ ထိုးထွက်လာသော အပွင့်တံများသည် နောက်ထပ် ၁၈ လက်မခန့် ရှည်သောကြောင့် အပွင့်နှင့်တကွ တပင်လုံး၏ အမြင့်မှာ သုံးပေနှင့် လေးပေ အကြားတွင် ရှိသည်။ ခရမ်းနုရောင် အသွေးရှိသော အပွင့်များသည် ပွင့်တံ တလျှောက် ပတ်၍ ပွင့်ကြသည်။ အပွင့်များတွင် လွင့်ပြယ်လွယ်သော အဆီတမျိုး ပါရှိရာ အပွင့်များကို ရေနှင့် ပေါင်းခံ၍ ထိုအဆီကို ထုတ်ယူကြသည်။ ထိုအဆီအတွက် လဗင်ဒါပင်များကို စိုက်ပျိုးကြသည်။ လဗင်ဒါအဆီများကို အဓိကအားဖြင့် ရေမွှေး၊ ပေါင်ဒါ၊ ဆပ်ပြာမွှေး လုပ်ငန်းများတွင်အသုံးပြုကြသည်။ အားဆေး၊ အစာကြေဆေး များတွင်လည်း ဘယဆေး အဖြစ်ဖြင့် အသုံးပြုကြသည်။

လဗင်ဒါပွင့်နှင့် ပွင့်တံများကို နေပူနေသည့်အခါတွင် ဆွတ်ခူးရသည်။ သို့မှသာ ထိုအပွင့်များ ခြောက်သွားသည့်အခါ အမွှေးနံ့ လုံးလုံး ရရှိနိုင်သည်။ အဝတ်အစားများကို ဗီရိုများ၊ သေတ္တာများတွင် ထည့်၍ သိမ်းဆည်းရာ၌ လဗင်ဒါ ပန်းပွင့် အခြောက်များကိုပါ ထည့်၍ ထားတတ်ကြသည်။ သို့ဖြင့် အဝတ်အထည်များတွင် လဗင်ဒါပန်းနံ့ မွှေးနေပြီးလျှင် ပိုးဟတ်၊ ခြ စသော ပိုးကောင်များ၏ ဘေးမှလည်း ကင်းလွတ်သည်။

ဆိုင်ကြီးများတွင် ရောင်းချလျက် ရှိသော လဗင်ဒါရေမွှေးမှာ လဗင်ဒါဆီနှင့် အရက်ပျံ ရောစပ်ထားခြင်း ဖြစ်သည်။ လဗင်ဒါပင်များသည် နေရောင်ကောင်းစွာ ရရှိ၍ ခြောက်သွေ့ ကြေမွသော မြေများတွင် ကောင်းစွာ ဖြစ်ထွန်းသည်။ စိုက်ပျိုးရန် အကောင်းဆုံးနည်းမှာ တနှစ်သား အပင်များမှ အကိုင်းများကို ဖြတ်၍ ပြန်စိုက်ခြင်းပင် ဖြစ်လေသည်။

**လဗွာစီယေ့,အော၊ အယ်** (ခရစ် ၁၇၄၃–၁၇၉၄)။ ။ "ခေတ်သစ် ဓာတုဗေဒ၏ ဖခင်ကြီး" ဟူ၍ အမည်တွင်ခဲ့သူ သိပ္ပံပါရဂူကြီး လဗွာစီယေကို ၁၇၄၃ ခုနှစ် ဩဂုတ်လ ၂၆ ရက်နေ့တွင် ပြင်သစ်နိုင်ငံ၊ ပါရစ်မြို့တော်၌ ဖွားမြင်ခဲ့၏။ သူ၏ဖခင်မှာ ရှေ့နေတဦး ဖြစ်လေသည်။ လဗွာစီယေသည် ဖခင်၏ ခြေရာအတိုင်း ဥပဒေပညာကို သင်ကြားခဲ့သော်လည်း သိပ္ပံပညာတွင်သာ ဝါသနာထုံခဲ့၏။ ပဌမဆုံး သူ၏

အမည်သည် ၁၇၆၆ ခုနှစ်၌ ပါရစ်မြို့တော်ကို မီးထွန်းညှိရန် အကောင်းဆုံးသော နည်းလမ်းအကြောင်း ရေးသားရသော စာစီစာကုံးပြိုင်ပွဲတွင် ပဌမဆုကို ဆွတ်ခဲ့ရာမှ စတင်၍ ထင်ပေါ်လာခဲ့လေသည်။

လဗွာစီယေသည် ဓာတုဗေဒ၊ ရူပဗေဒ၊ သင်္ချာ၊ နက္ခတ္တဗေဒ ပညာရပ်များကို အလွန်နှစ်သက်သဖြင့် အထူး လေ့လာခဲ့သည့်ပြင် အခြားသော ပညာရပ်များကိုလည်း အလွတ်မပေးဘဲ လေ့လာခဲ့ပေသည်။ လဗွာစီယေသည် ပညာရပ်တိုင်းတွင် လေ့လာလိုက်စားသောကြောင့် ဘာသာရပ်တခုခုနှင့်စပ်ဆိုင်သော သိမှုတွေ့မှုဟူ၍ကား အကြီးအကျယ် မရှိခဲ့သော်လည်း သူ ကြိုးပမ်းရှာဖွေ တွေ့ရှိခဲ့သည့် အချက်အလက်များ အားလုံးကို ပေါင်းစည်းလိုက်ခြင်းဖြင့် ရူပဗေဒနှင့်ဓာတုဗေဒပညာအတွက် အရေးကြီးလှသော အခြေခံအချက်ကြီးများဖြစ်ပေါ်လာသည်ကို တွေ့ရပေသည်။

ရှေးခေတ်များက ယူဆခဲ့ကြသည့် ဖလော်ဂျစ်စတန်ခေါ် မီးဓာတ်အယူကို ဖျက်ဆီးပစ်ခဲ့၍ အရာဝတ္ထုများ မီးလောင်ကျွမ်းရာ၌ မီးလောင်ခြင်းကို အားပေးသော လေထဲ၌ ပါဝင်သည့် အငွေ့တမျိုးကို တွေ့ရှိလျက် ထိုအငွေ့အား အောက်ဆီဂျင်ဟု အမည်ပေးခဲ့သူမှာ လဗွာစီယေပင်ဖြစ်သည်။ အောက်ဆီဂျင်နှင့်ဟိုက်ဒရိုဂျင်တို့ ပေါင်းစပ်ခြင်းဖြင့် ရေဖြစ်ကြောင်းကိုလည်း လဗွာစီယေပင် တွေ့ရှိခဲ့၍ ဒြပ်တည်မြဲမှု သဘောကိုလည်း ပြသခဲ့သေးသည်။ သူသည် အခြားသော အဖော်သိပ္ပံပညာရှင်များနှင့်အတူ ဓာတုဗေဒပညာရပ်ဆိုင်ရာ အရာဝတ္ထုများကို အမည်ပေးခြင်း စံနစ်သစ်ကို ကြံစည်ပြုလုပ်ခဲ့၍ ဒြပ်စင် စာရင်းကိုလည်း ပြုလုပ်ခဲ့သည်။ သူ၏ စုံစမ်းရှာဖွေ တွေ့ရှိမှုတို့သည် အလွန် စေ့စပ်သေချာ၍ ခေတ်သစ်ဓာတုဗေဒ အခြေခံ အချက်ကြီးများ ဖြစ်ခြင်းကြောင့် သူ့အား "ခေတ်သစ် ဓာတုဗေဒ၏ ဖခင်ကြီး"ဟု ခေါ်ဝေါ်ခဲ့ကြခြင်း ဖြစ်လေသည်။

လဗွာစီယေသည် ဓာတုဗေဒ၌သာ မက ရူပဗေဒတွင်လည်း အတော် နှံ့စပ်ခဲ့သူ ဖြစ်သည်။ အပူအကြောင်းနှင့် စပ်လျဉ်းသော သူ၏ တွေ့ရှိချက်များသည် အလွန်အရေးကြီးသော အချက်များ ဖြစ်ပေသည်။ သူသည် ၁၇၇၉ ခုနှစ်တွင် ဓာတုဗေဒ ဒြပ်စင်များအကြောင်း စာအုပ်ကို ထုတ်ဝေခဲ့၍ သူကွယ်လွန်ပြီးနောက် ၁၈၀၅ ခုနှစ်တွင် သူ၏ ဇနီးသည်က သူ၏ ဓာတုဗေဒပညာ မှတ်တမ်း စာအုပ်ကို ထုတ်ဝေခဲ့လေသည်။

ဤခေတ်သစ် ဓာတုဗေဒ ဖခင်ကြီး၏ ဘဝဇာတ်လမ်းမှာ ကြေကွဲဖွယ် အဆုံးသတ်ခဲ့ရလေသည်။ ထိုအချိန်က ပြင်သစ်နိုင်ငံ၌ တိုင်းသူပြည်သားတို့အား အခွန်အမျိုးမျိုး ကောက်ခံကာ နှိပ်စက်နေခဲ့သော အခါမျိုး ဖြစ်၍ အခွန်ကောက်ခံသူတို့မှာ အလွန် နာမည်ဆိုးရှားခဲ့လေသည်။ လဗွာစီယေသည် သူ၏ သိပ္ပံလုပ်ငန်းများအတွက် ငွေအမြောက်အမြား အလိုရှိနေသောကြောင့် ထိုအလုပ်မျိုးကို ဝင်ရောက် လုပ်ကိုင်ခဲ့ရလေသည်။ ပြင်သစ်နိုင်ငံ တော်လှန်ရေးကြီး ပေါက်ကွဲလာသောအခါတွင် သူ့အား အောင်ပွဲခံ တော်လှန်ရေးသမားများက ပြည်သူ့သမ္မတနိုင်ငံတော်တွင် သိပ္ပံပညာရှင်များကို အလိုမရှိအပ် ဆိုကာ ၁၇၉၄ ခုနှစ် မေလတွင် ခေါင်းဖြတ်၍ သတ်စေခဲ့လေသည်။



အောက်ဆီဂျင် ဒြပ်စင်ကို စတင် တွေ့ရှိခဲ့သူ ပြင်သစ် သိပ္ပံပါရဂူ အော၊ အယ် လဗွာစီယေ

**လမုပင်**။ ။လမုပင်သည် ရိုင်ဇိုဖော်ရေးစီအီး မျိုးရင်းတွင် ရိုင်ဇိုဖောရ မျိုးစု၌ ပါဝင်၍ ယင်း၏ ရုက္ခဗေဒ အမည်မှာ ရိုင်ဇိုဖောရ မင်းဂဲ ဖြစ်သည်။ လမုပင်သည် အမြင့် ပေ ၂၀ မှ ၂၅ ပေအထိ ရှိ၍ အသားမှာ ကျစ်၍ လေးသည်။ အခေါက်ကို သားရေနယ် လုပ်ငန်းတွင် အသုံးပြုသည်။ လမုသီး၏ အရသာမှာ ချိုချဉ် လူများ တခါတရံ



ဆားငန်ရေအရပ်တွင် ပေါက်ရောက်လေ့ရှိသည့် လမုပင်

စားသောက်ကြသည်။ လမုပင်များ ပေါက်လေ့ရှိသော အရပ်များမှာ အပူပိုင်းဒေသရှိ ပင်လယ်ကမ်းစပ်များပင် ဖြစ်သည်။ ယင်းအပင်များသည် ဆားငန်ရေကို နှစ်သက်ရကား ဆားငန်ရေရှိသော အရပ်များတွင် ထူထပ်စွာ ပေါက်ရောက်ကြသည်။ ထိုသို့ ထူထပ်စွာ ပေါက်ရောက်ကြခြင်းကြောင့် ပင်လယ်ကမ်းတလျှောက်သို့ လူများ ဖြတ်သန်းသွားလာရန် အလွန်ခဲယဉ်းပေသည်။ ယင်းသို့ ဖြတ်သန်းမသွားနိုင်လောက်အောင် ထူထပ်ခြင်းမှာ ယင်းတို့၏ အမြစ်များကြောင့်သာ ဖြစ်သည်။ အမြစ်များသည် အကိုင်းမှလည်း ထွက်၍ ပေါက်ကြသည့်ပြင် ပင်စည်မှလည်း ထွက်၍ ပေါက်ကြသည်။

အမြစ်များသည် တခုနှင့်တခု ရှုပ်ထွေးစွာ လိမ်ပတ်လျက်ရှိပြီးလျှင် ရွှံ့နွံများဖြင့် ရောနှော ပိတ်ဆို့နေကြသည်။ အမြစ်များသည် တဖြည်းဖြည်း တိုးပွားလာပြီး နောက်ဆုံးတွင် မြေကွက်လပ် ကေပေါင်း မြောက်မြားစွာကို ဖုံးလွှမ်းအုပ်ဆိုင်းသွားလေသည်။ ပုံစံအားဖြင့် မလ္လာယုကျွန်းဆွယ်နှင့် ဖလော်ရီဒါပြည်နယ်တို့တွင် ပေါက်ရောက်သော လမုပင်များကိုကြည့်က ဖြတ်သန်းသွားလာရန် မည်မျှခက်ခဲသည်ကို တွေ့ရပေမည်။

လမုပင်များ၏ ထူးခြားချက် တရပ်မှာ လေရှူမြစ်များ ရှိခြင်းပင် ဖြစ်သည်။ ထိုလေရှူမြစ်များသည် ရေအောက်သို့ တိုးဝှေ့ဝင်ရောက်ပြီး တဖန် ရေပေါ်သို့ ပေါ်၍လာကြသည်။ လမုပင်များ၏ ဘေးပတ်လည်တွင် ရေအောက်မှ ထွက်ပေါ်လာကြသော ငုံးတိတိ လေရှူမြစ်များ ပြည့်နှက်နေသည်ကို တွေ့ရှိကြရသည်။ ယင်းလေရှူမြစ်များကြောင့်သာ လမုပင်မှာ အသက်ရှင်နေနိုင်ခြင်း ဖြစ်သည်။ အကြောင်းကား လေထဲတွင် ပါဝင်သော အောက်ဆီဂျင်ဓာတ်ငွေ့ကို ထိုလေရှူမြစ်များက ရှူရှိုက်၍ သစ်ပင်တပင်လုံးရှိ အစိတ်အပိုင်းများသို့ ဖြန့်ဖြူးပေးလေသည်။

လမုပင်များ မျိုးပြန့်ပွားပုံမှာလည်း အံ့သြဖွယ်တရပ်ဖြစ်လေသည်။ လမုပင်၏ အစေ့များသည် အပင်ပေါ်၌ အပင်အညှောက် ပေါက်ကြ၍ ထိုအညှောက်များမှာ တဖြည်းဖြည်း ရှည်လာပြီးလျှင် အမြစ် ဖြစ်လာသည်။ အမြစ်များ သုံးပေမှလေးပေခန့်ရှည်သည့်အခါမှသာအပင်အောက်သို့ ကြွေကျသည်။ ကြွေကျပြီးသည်နှင့် တပိုင်နက် အမြစ်များသည် ရွှံ့နွံထဲတွင် စွဲမြဲပြီး အပင်ပေါက်ကလေးများ ဖြစ်လာကြသည်။ လမုပင်၏ အမြစ်များသည် ပင်စည်လုံးပတ်မှငှင်း၊အကိုင်းများမှငှင်း ထွက်ကြပြီးလျှင် အပင်အောက်သို့ တွဲလွဲဆွဲ၍ အမြစ်တွယ်ကြခြင်းကြောင့် ရုတ်တရက်ကြည့်လျှင် သစ်ပင်ကို ထောက်များဖြင့် ထောက်ထားသည် ဟု ထင်ရလေသည်။

မြန်မာနိုင်ငံတွင် ပင်လယ်ကမ်းစပ် ဒေသမျိုးနှင့် မြစ်ဝကျွန်းပေါ် ဒေသမျိုးများ၌ လမုပင်များနှင့် ကနစိုပင်များ ထူထပ်စွာ ပေါက်ရောက်ကြသည်။ ကနစိုတောကို ကုန်းပိုင်း၌ တွေ့ရ၍ လမုတောကို ပင်လယ်ကမ်းစပ် တလျှောက်၌ တွေ့ရသည်။ ရေတက်သောအခါ လမုမြစ်များကို ရေဖုံးနေသော်လည်း ရေကျချိန်၌ ပေါ်နေတတ်ကြသည်။

**လမွတ်ပင်။** ။လမွတ်ပင်သည် သရက် မရမ်းတို့နှင့်အတူ အန်နကာဒီယေးစီအီး မျိုးရင်းတွင် ပါဝင်၍ ယင်းကို ရုက္ခဗေဒ အမည်အားဖြင့် မန်ဂျီဖီရာ ဖိုဆစ်ဒါး ဟု ခေါ်သည်။ တောသရက်မျိုးတွင်ပါဝင်သည်။ လမွတ်ပင်သည် အပင်ကြီးမျိုးထဲကဖြစ်၍ အကိုင်းအခက်များအလွန်တိုသည်။ အရွက်များသည် အလျား ၁၀ လက်မမှ ၁၂ လက်မအထိ ရှိ၍ ပြက်သုံးလက်မမှ လေးလက်မအထိ ရှိကာ အလွန်ကြီးသည်။ အရင်းသွယ်သည်၊ သို့မဟုတ် ခပ်ရှည်မျှော့မျှော့ ရှိသည်။ အလွန်ထူ၍ ခြောက်သွားသည့်အခါ ဖြူဖတ်ဖြူယော်ရှိသည်။ ရွက်ညှာသည် တလက်မခွဲမှ နှစ်လက်မထိ ရှည်သည်။

လမွတ်ပင်မှ ပွင့်သော ပန်းခိုင်သည် ကြီး၍ ဝေဝေဆာဆာ ရှိသော အခက်များဖြင့် တောင့်တင်း ခိုင်မာသည်။ ထိုအခက်များမှ တဖန် ကြက်သွေးရောင် အခက်ကလေးများ ပြာထွက်သည်။ ပန်းပွင့်သည် ပြက် လက်မဝက်ခန့်ရှိ၍ အရောင်မှာ ပန်းရောင်နှင့် အနီရင့်ရောင်တို့ ဖြစ်သည်။

ပွင့်ချပ်များသည် ထိပ်တွင် တုံးနေသည်။ ပွင့်ဖတ်ငါးခု ရှိရာ အလယ်တွင် ခေါက်နေသည်။ ဝတ်ဆံဖို ငါးခုရှိသည့်အနက် တခုသာ အောင်အောင်မြင်မြင် ရှိ၍ ကျန်လေးခုမှာ တို၍ မအောင်မြင်ချေ။ အစေ့အိမ်မှာ ချောမွတ်၍ ပန်းကညစ်ကား သေးလျက် ဘေးတွင် ထွက်နေသည်။ လမွတ်သီးသည် ပုံသဏ္ဌာန် အမျိုးမျိုး ရှိ၍ အနည်းငယ် ပျော့နေသည်။ ရှည်မျောမျော ရှိ၍ အရောင်မှာ စိမ်းပြီးလျှင် ချောမွတ်လျက်ရှိ၏။ လမွတ်သီး၏ အသားမှာ အဝါရောင်ရှိ၍ အသား များသည်။

လမွတ်ပင်ကို တနင်္သာရီတောင်ပိုင်း မြိတ်နယ်တွင် တွေ့ရ၍ ကမ်းခြေတလျှောက်မှ တနင်္သာရီရိုးမတောင်ခြေအထိ တောများတွင် ပေါက်ရောက်သည်။ လမွတ်သီး၏ အရသာမှာ ချဉ်၍ အမျှင် များပြီးလျှင် အလွန်ပြင်းသော တာပင်တိုင်နံ့ ထွက်နေသောကြောင့် ခြံသမားများ မစိုက်ပျိုးကြချေ။

**လရှီလူမျိုး။** ။လရှီလူမျိုးသည် တိဗက်–မြန်မာအစုဝင်၊ မြန်မာအုပ်စုမှ မရူ–အဇီး အုပ်စုခွဲတွင် ပါဝင်သည်။ ကချင်ပြည်နယ်၊ မြစ်ကြီးနားတဖက်ကမ်း ဓားလွယ်ခုတ် အရပ်ရှိ ဆဒုံးမှ လောခေါင် တောင်တန်းတလျှောက် ကျေးလက်ဒေသများကား အဇီး၊ လရှီနှင့် မရူ လူမျိုးတို့ စုဝေးနေထိုင်ရာ အရပ် ဖြစ်သည်။ (မရူလူမျိုး — လည်းရှု။)

လရှီလူမျိုးစုတို့သည် ဆဒုံး၊ အထက် ဖီမော်၊ ဂေါ်လမ်စသည့် နယ်များတိုင်အောင် ပျံ့နှံ့နေထိုင်ကြသည်။ အထူးသဖြင့် အင်မိုင်ခ မြစ်ဝှမ်း အောက်ပိုင်းတွင် အများဆုံး နေထိုင်ပုံ ရသည်။ အင်မိုင်ခမြစ်ဝှမ်းသည် မရူ၊ လရှီနှင့် အဇီးတို့၏ နေရင်းဒေသဖြစ်နေပေသေးသည်။

လရှီ၊အဇီးနှင့်မရူလူမျိုးတို့သည် တမျိုးနှင့်တမျိုး အလွန်တူကြသည့်ပြင် ဘာသာစကား၌လည်း နီးနီးကပ်ကပ် တူကြသောကြောင့် တမျိုးပြောသော စကားကို တမျိုးက နားလည်ကြသည်။ လရှီစကားသည် မရူစကားမှပင် ဆင်းသက်လာသည်ဟု အချို့ပညာရှင်တို့ ဆိုကြသည်။ သို့ရာတွင် လရှီစကားမှာ မြန်မာစကားနှင့် သာ၍ပင် နီးစပ်ကြောင်း တွေ့ရသည်။ ဝေါဟာရများ တူညီနေပုံ၊ ဥပမာဆောင်ပုံ၊ စကားစပ်ဟပ်ပုံတို့မှာ မြန်မာစကားနှင့် တထပ်တည်းပင်ဖြစ်သည်။ လရှီလူမျိုးတို့သည် မရူနှင့်အဇီးလူမျိုးတို့ထက် တရပ်နယ်စပ်၌ နီးနီးကပ် နေထိုင်ကြသည်။ လရှီ၊ အဇီးနှင့် မရူ လူမျိုးစုတို့သည် မျက်နှာပုံပန်းတွင် မြန်မာနှင့် တူလေသည်။ ရှေးက မြန်မာနိုင်ငံ အတွင်း ရောဝတီမြစ်ရိုးတလျှောက် ဆင်းသက်လာကြသော တိဗက်–မြန်မာလူမျိုးစုတို့မှ ကျန်ရစ်ခဲ့သည့် လူမျိုးစုများ ဖြစ်ပေသည်။ လရှီတို့သည် မိမိတို့ ကိုယ်ကို 'လချစ်ဝေါ်'ဟု ခေါ်ဝေါ်ကြ၏။ နတ်ကိုးကွယ်သူများ ဖြစ်သော်လည်း တရုတ်တို့၏ အယူဝါဒကိုလည်း လိုက်နာကျင့်သုံးလျက်ရှိသည်။မန်းရှန်း၊ ဟရဲ၊ လွတ်ဆင်၊ ယင်ဒမ်၊ ဝေါ်လန်၊ ဆီချန်စသည်ဖြင့်လည်း အစုငယ်များ ကွဲပြားနေသည်။ ၁၉၃၁ ခုနှစ် သန်ကောင်စာရင်းအရ လရှီလူမျိုး လူဦးရေ ၂၂,၃၆၂ ယောက်ခန့် ရှိလေသည်။



တိဗက် - မြန်မာအစုဝင် မြန်မာ အုပ်စုမှ မရူ-အဇီး အုပ်စုခွဲတွင် ပါဝင်သည့် လရှီ အမျိုးသားနှင့် အမျိုးသမီးတို့၏ ဝတ်စား ဆင်ယင်ဟန်

**လဟုဘာဏ်။** ။လဟုဘာဏ် ဟူသည် ရဟန်းတော်များ အတွက် ပေါ့ပါးသော အသုံးအဆောင်များ ဖြစ်၍ ခွဲဝေ ပေးကောင်းသော ပစ္စည်းများ ဖြစ်သည်။ ဒါယကာတို့က ပစ္စည်းတခုခု ပေးလှူလျှင် လဟုဘာဏ် ပရိက္ခရာ ဖြစ်က မိမိကိုယ်တိုင် ပုဂ္ဂလိကအဖြစ် သုံးဆောင်လိုက သုံးဆောင်နိုင်သည်။ သံဃာများအတွက် သံဃိကပစ္စည်းအဖြစ် ထားလိုကလည်း ထားနိုင်သည်။ အခြားသံဃာများအား ခွဲဝေပေးလိုကလည်း ပေးဝေနိုင်သည်။ ထိုကြောင့် ပေါ့ပါးသော အသုံးအဆောင် ဟုခေါ်သည်။

ဂရုဘာဏ်ကား ဤကဲ့သို့ မဟုတ်ပေ။ မဝေဖန်ကောင်းသော ပစ္စည်းများ ဖြစ်သည်။ အချို့ ဂရုဘာဏ် ပစ္စည်းများသည် မိမိ ရသော်လည်း စောင့်ရှောက်ရုံသာ စောင့်ရှောက်နိုင်သည်။ မိမိလည်း မယူနိုင်၊ သံဃာလည်း မပိုင်ဆိုင်။ အချို့ ဂရုဘာဏ်ပစ္စည်းများသည် မိမိအား လှူသော်လည်း မိမိ မပိုင်၊ သံဃာနှင့်သာ ဆိုင်၏။ အချို့ ဂရုဘာဏ်ပစ္စည်းများသည် လူ့ဥစ္စာ အဖြစ်ဖြင့်သာ သုံးဆောင်ရ၏။ မည်သူမျှ မပိုင်ဆိုင်။ အချို့ ဂရုဘာဏ် ပစ္စည်းများသည် ကျောင်းအသုံးအဆောင် အဖြစ်ဖြင့်သာ အမှတ်ထား၍ သုံးဆောင်ရ၏။ မည်သူမျှ မပိုင်ဆိုင်။

လဟုဘာဏ် ပစ္စည်းများကား အထက်ပါ ဂရုဘာဏ် ပစ္စည်းများကဲ့သို့ ခွဲဝေ မပေးကောင်းသော ပစ္စည်းများ မဟုတ်၊ ပေါ့ပါးသော ပစ္စည်းများ ဖြစ်သောကြောင့် ခွဲဝေ ပေးကောင်းသော ပစ္စည်းများ ဟုဆိုလိုသည်။ ဂရုဘာဏ် ပရိက္ခရာ ၂၅ ပါးမှတပါး အခြားသော သင်္ကန်း၊ သပိတ်၊ ခါးပန်းကြိုး၊ စိပ်ပုတီး၊ ထီး၊ ဘိနပ်၊ ခြင်ယပ်၊ မွေးညှပ်စသော ရဟန်းပရိက္ခရာ ဟူသမျှမှာ လဟုဘာဏ် ပရိက္ခရာများ ဖြစ်သည်။ (ဂရုဘာဏ် — လည်းရှု။)

**လလူမျိုး။** ။ဝလူမျိုး — ရှု။

**လဝလူမျိုး။** ။ဝလူမျိုး — ရှု။

**လာဂါလေဗ့ ဆယ်မာ** (ခရစ် ၁၈၅၈ – ၁၉၄၀)။ ။ ဆယ်မာ အော့တီလီယာနာ လူဗီဇာ လာဂါလေဗ့သည် ဆွီဒင် နိုင်ငံ၏ ထင်ရှားသော ဆွီအမျိုးသမီး စာရေးဆရာမ ဖြစ်၏။ စာပေဆိုင်ရာ နိုဗဲဆုကို ဆွတ်ခူး၍ ဆွီဒင်ပညာ့တံခွန် အသင်းတွင် အဖွဲ့ဝင်တဦးအဖြစ် ရွေးကောက် တင်မြှောက်ခြင်း ခံရပေရာ အမျိုးသမီးများအနက် ပဌမဆုံး ရွေးကောက်ခံရသူ ဖြစ်၏။ ဆယ်မာသည် ကြည်းတပ်မှ စစ်ဗိုလ်တဦး၏ သမီးဖြစ်၍ ဗမ်းလင်းဒေသ၌ ၁၈၅၈ ခုနှစ် နိုဝင်ဘာလ ၂၀ ရက်နေ့တွင် မွေးဖွားသည်။ ဆယ်မာသည် ငယ်စဉ်က စတော့ဟုမ်းမြို့တွင် ပညာသင်ယူပြီးလျှင် ၁၈၈၂ ခုနှစ်မှ ၁၈၈၅ ခုနှစ်အထိ ဆရာဖြစ်သင်ကျောင်းသို့ တက်ရောက်သည်။ ဆရာဖြစ်သင်တန်း အောင်ပြီးသည်နောက် ၁၈၈၅ မှ ၁၈၉၅ ခုနှစ်အထိ ၁၀ နှစ်ပတ်လုံး ဆွီဒင်နိုင်ငံ တောင်ပိုင်းရှိ လန်စကရိုနာမြို့ကလေးတွင် ကျောင်းဆရာမ လုပ်ခဲ့သည်။ ဤသို့ ဆရာမလုပ်နေစဉ် ၁၈၉၁ ခုနှစ်တွင် "ဂူးစတားဗားလင်းအကြောင်း" ဝတ္ထုကို ရေးသားခြင်းဖြင့် မိမိ၏ စာပေဆိုင်ရာ လက်စွမ်းလက်စကို ထင်ရှားစေခဲ့သည်။ ဤပဌမဆုံး ဝတ္ထုဖြင့်ပင် ဆယ်မာ လာဂါလေဗ့သည် နာမည်ရလာ၍ ဝတ္ထုမှာလည်း ထင်ရှား ကျော်ကြားခဲ့ပေသည်။ အထူးသဖြင့် ဤဝတ္ထုကြောင့်ပင် ၁၉၀၉ ခုနှစ်၌ နိုဗဲဆုကို ဆွတ်ခူးနိုင်ခဲ့သည်။ ဆွီဒင် ပညာ့တံခွန် အသင်းတွင်လည်း အဖွဲ့ဝင်အဖြစ် ၁၉၁၄ ခုနှစ်၌ ရွေးကောက် တင်မြှောက်ခြင်း ခံရလေသည်။

ယင်းသို့ ဆွီဒင်နိုင်ငံ၏ဂုဏ်ကို ဆောင်ခဲ့သော ဆယ်မာ လာဂါလေဗ့သည် သာယာလှပသော ပတ်ဝန်းကျင်၌ ကြီးပြင်းခဲ့ရသဖြင့် ငယ်စဉ်ကပင် အားလပ်သည့်အခါတိုင်း ရှိမြောင်ခင်တန်းတို့ကို လှည့်လည်သွားလာကာ ထိုအရပ်ဒေသ၏ သမိုင်းပုံပြင်များကို နားထောင်လေ့ ရှိသည်။ တောရွာငယ်ကလေးတွင် မထင်ရှားသော ကျောင်းဆရာမ အဖြစ်နှင့် နေစဉ် သမိုင်းပုံပြင်များကို စုဆောင်းကာ စာအုပ်ထုတ်သဖြင့် နာမည်ကျော်ကြားလာလေသည်။

လာဂါလေဗ့သည် ပုံပြင်ဒဏ္ဍာရီ ရေးရာတွင် သုခုမပညာသည်တဦး ပီပီ လူတို့၏ စိတ်ကို ယူကျုံးဆွဲငင်နိုင်သော သတ္တိထူး ရှိလေသည်။ လာဂါလေဗ့သည် စစ္စလီကျွန်းသို့ ခရီးလှည့်လည်ခဲ့စဉ်က ကြုံတွေ့ရသော အဖြစ်အပျက် အကြောင်းအရာများကို အခြေခံ၍ ၁၈၉၇ ခုနှစ်တွင် စာတအုပ် ရေးသားလေသည်။ ၁၉၀၂ ခုနှစ်တွင် ဆွီဒင် အမျိုးသား ကျောင်းဆရာများ၏ တိုက်တွန်းချက်အရ ကျောင်းသုံးစာအုပ် တအုပ်ကို ရေးသားသည်။

သူ၏ သတ္တိထူးမှာ ကျောင်းသုံးသင်ခန်းစာ စာအုပ်ကိုပင် ဒဏ္ဍာရီပမာ စိတ်ဝင်စား စွဲလမ်းဖွယ်ဖြစ်အောင် ဖန်တီးနိုင်ခြင်း ဖြစ်လေသည်။ ဆွီဒင် ရှေးဟောင်းပုံပြင်များ၌ ပါသော နတ်သူငယ်ကလေးသည် ငန်းကြီးပေါ်တွင် တက်စီး၍ တိုင်းခန်း လှည့်လည်ပုံကို ဒဏ္ဍာရီအဖြစ် ရေးယင်းပင် ကျောင်းသားများအတွက် ပထဝီပညာ၊ သဘာဝ လေ့လာမှုပညာ သင်ခန်းစာများ ပါဝင်အောင် ရေးနိုင်ခဲ့လေသည်။ ထိုစာအုပ်မှာ ကလေးသူငယ်တို့အတွက် အလွန်အဖိုးတန်သော စာအုပ် ဖြစ်၍ ထိုစာအုပ်ကို ဘာသာအမျိုးမျိုးသို့ ပြန်ဆိုကာ ကျောင်းသုံးအဖြစ် ပြဋ္ဌာန်းကြရသည်။ သူ ရေးသော စာအုပ် အများအပြားပင် ရှိ၏။ ရေးသမျှစာတို့၌ ဆွီဒင်နိုင်ငံအကြောင်း ပါသည်ချည်းတည်း။

မိမိကိုယ် မိမိ ကေရာင်ဘုရင် ဟုထင်မှတ်နေသော ဆွီဒင်နိုင်ငံ တောရွာသားတဦးအကြောင်းကို စာတအုပ်တွင် ရေးသားထားပုံမှာ ဖတ်သူတိုင်း စိတ်ဝင်စားဖွယ် ဖြစ်ပေသည်။ ဆယ်မာ လာဂါလေဗ့သည် စာဖတ် ပရိသတ်၏ အာရုံကို အကုန် ဆွဲငင်နိုင်သော ပုံဝတ္ထုရေးသမား ဖြစ်သည်။ အထူးသဖြင့် ကလေးစာပေတွင် သူ၏ပညာစွမ်းကို ပြခဲ့လေသည်။

ဆယ်မာ လာဂါလေဗ့သည် ဂူးစတားဗားလင်း အကြောင်းဝတ္ထု အပြင် ဆွီ ဘာသာဖြင့် အခြားစာအုပ်များလည်း ပြုစု ခဲ့သေးသည်။ ၁၉၄၀ ပြည့်နှစ် မတ်လ ၁ ရက်နေ့တွင် ဗမ်းလင်းတွင်ပင် ကွယ်လွန်သွားသည်။

# ဝေါဟာရ နှင့် အသံလှယ်အမည်များ

ဤကျမ်းတွင် ကမ္ဘာပေါ်ရှိ ကျယ်ဝန်းလှသော ပညာရပ်အမျိုးမျိုး၊ အကြောင်းရပ်အမျိုးမျိုးတို့ ပါဝင်သည့်ပြင်၊ မြန်မာနိုင်ငံတွင် ပဌမဆုံး ပေါ်ထွက်လာရခြင်းဖြစ်သည့်အလျောက်၊ ဘာသာခြားမှ မြန်မာလိုပြန်ဆိုထားသော ဝေါဟာရသစ်များနှင့် အသံလှယ်ယူထားသော အမည်များ မြောက်မြားစွာပါရှိသည်။ ဤကျမ်းတွင်ပါဝင်သော ဝေါဟာရနှင့် အသံလှယ်ယူထားသောအမည်တို့ကို မူရင်းစကားနှင့်တကွ အောက်တွင် အက္ခရာစဉ်အတိုင်း ဖော်ပြထားသည်။ ထုတ်ဝေပြီးအတွဲများတွင် ဖော်ပြပါရှိပြီးဖြစ်သော ဝေါဟာရများနှင့် အသံလှယ် အမည်များကိုမူ အောက်ပါစာရင်း၌ ထပ်မံဖော်ပြခြင်းမပြုပါ။

## ဝေါဟာရများ

ကပေးယှန်း မင်းဆက် — Capetian Dynasty

ကရေးဗက်ပတ်တီး — Cravat Bandage

ကယားအိုးမြို့ — Callao

"ကာကွယ်မဲ့ မြို့တော်" — "Open City"

ကယ်ရိုလင်ဂျင် မင်းဆက် — Carolingian Dynasty

ကက်ပီတိုလင်တောင်ကုန်း — Capitoline Hill

"ကံကြမ္မာ" — "Destiny"

"ကမ္ဘာကို တုန်လှုပ်စေသော ဆယ်ရက်" — "Ten Days That Shook The World"

ကျား လီလီပန်း — Tiger Lily

ကျီချူမြစ် — Kyi-chu R.

"ကျော်အိန္ဒိယကို သိမ်းပိုက်ခြင်း" — "Occupation of Further India"

ကျောက်ခေတ်ရှေ့ပြေးခေတ် — Eolithic Age

ကျောက်ခေတ်သစ် — Neolithic Age

ကျောက်ခေတ်ဟောင်း — Palaeolithic Age

ကြေးညိုခေတ် — Age of Bronze

ကြေးနီခေတ် — Age of Copper

ကြေး လေတူရိယာ — Brass Wind Instrument

ကြိုးဆွဲရုပ်သေး — String Puppets

ကွီရိနေ် တောင်ကုန်း — Quirinal Hill

ကွေ့တီမြို့ — Kwei-te

ကွန်စတန့်အိုင် — Constance L.

"ကျွန်ုပ်တို့ ဘာကြောင့်တိုက်ရသလဲ" — "Why We Fight"

"ကျွန်ုပ်တို့ အမှုတော်ထမ်းရာ" — "In Which We Serve"

ကြွက်လီမာမျောက် — Mouse Lemur

ချာကက်တယာတောင် — Chacattaya Mt.

"ချီယူပု သီချင်းများ" — "Songs of Chiu-pu"

ချယ်လဆီး ဆေးရုံ — Chelsea Hospital

ချန်မင်းမြို့ — Chang Ming

ချမ်ဗီဇီမြစ် — Chambezi River

ဂရင်း ရေတံခွန် — Grand Falls

ဂလုပ် ဇာတ်ရုံ — Globe Theatre

"ဂူးစတား ဗားလင်း အကြောင်း" — "Gosta Berling's Story"

ဂေဟဗေဒ — Ecology

ငွေကြေးဆိုင်ရာ သတ္တု — Monetary Metal

စကားဗားရားမြို့ — Scarborough

"စတီးဝဲလမ်း" — "Stillwell Road"

စထရက်ဖို့-အွန်-ဧဗွန်းမြို့ — Straford-on-Avon

စပီးယားမြို့ — Spires

"စက်ဘီးသူခိုး" — "Bicycle Thieves"

စန် ဂျိုကွင် ချိုင့်ဝှမ်း — San Joaquin Valley

| | |
|---|---|
| စန္ဒရ မာသ | Lunar Month |
| စိန့်ဂျော့ ခန်းမဆောင် | St. George's Hall |
| "စိန့်ဂျော့နှင့်နဂါးကြီး" | "St. George & The Dragon" |
| စိန့်ပီတာစဗတ်မြို့ | St. Petersburg |
| "စိန့်ပီတာစဗတ်မြို့တော်၏ ဇာတ်သိမ်း" | "The End of St. Petersburg" |
| ဆူကရေးမြို့ | Sucre |
| ဆင်ဗတ်စကမြို့ | Simbirsk |
| "ဆန် ပီတြို တိုက်ပွဲ" | "Battle of San Pietro" |
| ဆန် မာကတ် တက္ကသိုလ် | San Marcas University |
| ဆုန်းမြစ် | Saône River |
| ဆပ် | Italian Millet |
| "ဇာဘုရင်" | "The Czar" |
| ဇမ်ဗီဇီမြစ် | Zambezi River |
| ဇမ်ဗီယာနိုင်ငံ | Zambia |
| "ညစောင့်များ" | "The Night Watch" |
| "တတိယလူ" | "Third Man" |
| တာအိုး အယူဝါဒ | Taoism |
| "တီလီ၏ချစ်ကိစ္စ" | "Tillie's Punctured Romance" |
| တော်ဝင် ပညာတံခွန်ကျောင်း | Royal Academy |
| တော်ဝင် အနုပညာအသင်း | Royal Society of Arts |
| တော်ဝင် အသင်း | Royal Society |
| "တောက်တီးတောက်တဲ့ ပုံပြင်များ" | "Book of Nonsense" |
| တောင် ဂျော်ဂျီးယားကျွန်း | South Georgia Island |
| တောင်ပံ လေယာဉ် | Wing Plane |
| တုတ်ထိုး ရုပ်သေး | Rod Puppets |

| | |
|---|---|
| "တွေ့ရဆုံရ ထိုခဏ" | "Brief Encounter" |
| ထရဲလက်မြို့ | Trelleck |
| ဒမ်အက်တာမြို့ | Damietta |
| ဒူဇဲလဒေါ့မြို့ | Düseldorf |
| "ဒူရဘင်္ဂါ မဟာရာဇာ" | "Maharaja of Durbhanga" |
| ဒူးရန့်မြစ် | Durance River |
| ဒဲယားဆီးမြို့ | Dairsie |
| "ဒန်တီ၏ အိပ်မက်" | "Dante's Dream" |
| "ဒန်တီနှင့် သူ၏ အသိုင်းအဝိုင်း" | "Dante and His Circle" |
| ဓာတ်စီးပြောင်းစက် | Rectifier |
| ဓာတ်ပြောင်းကွင်း | Commutator |
| ဓာတ်အိမ်ပျံ | Gas Balloon |
| "နာတာလူးပွဲတော် အိပ်မက်" | "Christmas Dream" |
| "နားထောင်၊ နားထောင်၊ ပိုးငှက်မောင်" | "Hark, Hark, The Lark" |
| "နေရီရီ" | "Sunset" |
| နှင်းဆီ စစ်ပွဲ | War of Roses |
| "ပညတ်တော် ဆယ်ပါး" | "The Ten Commandments" |
| "ပရာဟာမြို့မှ ကျောင်းတော်သား" | "The Student of Prague" |
| ပရီဗို့ရှဉ့် | Prevost's Squirrel |
| ပရီရက်ဖီယယ်လိုက် အနုပညာရှင်ဂိုဏ်း | Pre-Raphaelite Brotherhood |
| "ပရိုမီးသယူး၏ လွတ်မြောက်ခြင်း" | "Prometheus Unbound" |
| ပါဏဗေဒအသင်း | Zoological Society |
| ပါအိုလိုနှင့် ဖရန်ဆက်ကာ | Paolo & Francesca |
| ပီလ်ဒေါင်း ဦးခေါင်းခွံ | Piltdown Skull |

| | |
|---|---|
| ပီထရိုဂရက်မြို့ | Petrograd |
| ပယ်လတင်း တောင် | Pelatine Hill |
| "ပေါ်စီအွန်စူလာ ကောင်း ကင်တမန်တို့၏အရှင် ကျွန်ုပ်တို့ သခင်မ၏မြို့တော်" | "The City of Our Lady Queen of The Angles of Porciuncula" |
| "ပိုတင်မကင် စစ်သင်္ဘောကြီး" | "Battleship Potemkin" |
| ပက်ဒျူးအားမြို့ | Padua |
| ပက်ဝပ်မြို့ | Petworth |
| ပင့်ဟားမြို့ | Penkhull |
| ပန်ဒိုးလဖီနီ နန်းတော် | Pandolfini Palace |
| ပန်းကညစ် | Style |
| ပြဒါးမီးစွယ် ရက်တီဖိုင်းယား | Mercury-arc Rectifier |
| ပြည်တွင်း ရွှေစံချိန်စံနစ် | Domestic Gold Standard |
| ပြင်သစ်ပညာတံခွန်အသင်း | French Academy |
| ပွန်ချာထရိန်း အိုင် | Pontchartrain L. |
| "ဖိနပ်တိုက်သမား" | "Shoe Shine" |
| "ဖိနပ်နီနီ" | "Red Shoes" |
| ဖိအားတိုင်းကရိယာ | Pressure Gauge |
| ဖိုက်ရှိုင်ယာနယ် | Fifeshire |
| ဗရူးအတ်ဇမြို့ | Brouage |
| ဗရက်-လီတော့စက စာချုပ် | Treaty of Brest-litovsk |
| ဗလန့်ချ မင်းသမီး | Princess Blanche |
| ဗိရှော့စတော့ဖို့မြို့ | Bishop's Stortford |
| ဗီယင်းမြို့ | Vienne |
| "ဗီးနပ်နှင့် အဒိုးနစ်" | "Venus & Adonis" |
| ဗူးရှ်မြို့ | Bourges |
| ဗူးလာဝေးပိုးမြို့ | Bulawayo |
| ဗေတန်ရူမြို့ | Baton Rouge |
| ဗဲလအိုင်ရေလက်ကြား | Relle Isle Strait |
| "ဗိုလ်ချုပ် လေက်မ" | "General Tom Thumb" |
| ဗက်တီကင်နန်းမြို့ | Vatican |
| ဗက်ဒွင် မင်းသား | Prince Baduin |
| ဗောက်ဆာ အရေးတော်ပုံ | Boxer Movement |
| ဗစ်တင်ဗတ် တက္ကသိုလ် | Wittenburg University |
| ဗတ်ဗုမြို့ | Wartburg |
| ဗမ်းမြို့ | Worms |
| ဗမ်းလင်းဒေသ | Varmland |
| ဗြိတိသျှ တောင်အာဖရိက ကုမ္ပဏီ | British South Africa Company |
| "ဘီလူးမ အပုကလေး" | "Dwarf Giantess" |
| မဒေါနား လီလီပန်း | Madonna Lily |
| မားဗက်မြို့ | Marback |
| "မီးပွား" | "The Spark" |
| "မီးရထား ဓားပြမှုကြီး" | "Train Robbery" |
| မိုဇဲမြစ် | Moselle River |
| မက်ဂဒီဗတ်မြို့ | Magdeburg |
| "မက်ဘုရင်မ" | "Queen Mab" |
| မေန့်ဇမြို့ | Mainz |
| မန်းဟိုင်းမြို့ | Mannheim |
| မျိုးစု | Genera |
| မျိုးစဉ် | Order |
| မျိုးဆက်စဉ် | Phylogeny |

| | |
|---|---|
| မျိုးပေါင်း | Class |
| မျိုးပေါင်းစု | Phylum |
| မျိုးရိုးပညာ | Genetics |
| မျိုးရင်း | Family |
| မြေစပ်လေထု | Troposphere |
| မြေစပ်လွှာ ထပ်ကြား | Tropopause |
| "မြတ်လှကြီး" | "Grande" |
| "မြန်မာလူမျိုးတို့၏ နေထိုင်မှုနှင့် ဓလေ့ထုံးစံ" | "Burman, His Life & Notion" |
| "မျှော်တလင့်လင့်" | "The Great Expectations" |
| ယှဉ်ပြ အနာတမီ (ယှဉ်ပြကာယဗေဒပညာ) | Comparative Anatomy |
| ရီမက်မြစ် | Rimac River |
| ရေခဲစိုင်မျော | Ice Floe |
| ရေယာဉ်ပျံ | Sea Plane |
| ရောမ သာသနာစောင့် နိုင်ငံတော် | Holy Roman Empire |
| ရိုဇက်တာ ကျောက်စာ | Rosetta Stone |
| ရိုဒီးဇီးယားနယ် | Rhodesia |
| ရိုဒီးဇီးယားနိုင်ငံ | Rhodesia |
| ရိုးရာပုံပြင် | Folklore |
| ရက်ကွန်းဝံ | Raccoon |
| ရုက္ခဗေဒ | Botany |
| ရိုက်ညီနောင် | Wright Brothers |
| ရိုက်စက်ဘီးကုမ္ပဏီ | Wright Cycle Company |
| ရိုင်းစပါး | Rye |
| "ရိုင်းမြစ်တပ်မတော်၏ စစ်ချီသံ" | "The War Song of The Army of Rhine" |
| ရောင်စုံလက်ရေးစာမူ | Illuminated Manuscripts |

| | |
|---|---|
| ရစ် | Pheasant |
| ရစ်ကြီး | Guinea Fowl |
| ရှုန်း ရေခဲမြစ် | Rhone Glacier |
| ရုပ်ပုံစာ | Hieroglyphics |
| ရုပ်လုံးထုအတတ် | Sculpture |
| ရုပ်သွင်ပညာ | Morphology |
| ရုံးပတီ | Lady's Finger |
| ရှရိပို့မြို့ | Shreveport |
| ရှရီမန်ဂျုံပင် | Buckwheat |
| ရှာဗာနီယက်မြို့ | Chavaniac |
| ရှားလော့ မင်းသမီး | Princess Charlotte |
| ရှီကားဂိုးမြို့ | Chicago |
| ရှီနွန်မြို့ | Chinon |
| ရှူးပျံ | Flying Squirrel |
| ရှေတော်သွင်း စာချွန်တော် | Habeas Corpus |
| "ရှေးခေတ် ဣတာလျံ စာဆိုကြီးများ" | "Early Italian Poets" |
| ရှေးဖားဥာဏ်ကူ အသက်ရှူနည်း | Chaefer Method |
| ရှေးဦး သူနာပြု | First Aid |
| ရှဲလဒိုနီယန် ဇာတ်ရုံ | Sheldonian Theatre |
| ရှက်ဖီးမြို့ | Sheffield |
| ရှန်ဟိုင်းမြို့ | Shanghai |
| ရှပ်ဖဟောင်ဇင် ရေတံခွန် | Schaffhausen Falls |
| ရှမွား ဆိတ် | Chamois |
| ရွှေစံချိန်စံနှုန်း | Gold Standard |
| ရွှေစံချိန်ပြည့်စံနှုန်း | Full Gold Standard |

| | |
|---|---|
| "ရွှေတူးသမား" | "Gold Digger" |
| ရွှေလဲလှယ်ရေး စံချိန်စံနှစ် | Gold Exchange Standard |
| ရွှေသတ္တု စံချိန်စံနှစ် | Gold Bullion Standard |
| လချေး | Mica |
| "လဗိမာန်သို့ ခရီးတခေါက်" | "A Voyage To Moon" |
| လဗင်ဒါပင် | Lavender |
| လမုပင် | Mangrove |
| လမွှတ်ပင် | Wild Mango |
| "လရောင်အောက် တကိုယ်တည်း သောက်စားစဉ်" | "Drinking Alone By Moonlight" |
| လာဆာမြို့ | Lhasa |
| လာပတ်မြို့ | La Paz |
| လာမာ ကုလားအုပ် | Llama |
| လာမာ ဘုန်းကြီး | Lama |
| လာ ရိုရှဲမြို့ | La Rochelle |
| လာဟိုမြို့ | Lahore |
| လာဗရာဒေါ ရေစီးကြောင်း | Labrador Current |
| လူဆွန်ဂိုဏ်းချုပ် | Bishop of Luçon |
| လူဆာကာမြို့ | Lusaka |
| လီဒိုလမ်း | Ledo Road |
| လီနင်ဂရက်မြို့ | Leningrad |
| လီဗာပူးမြို့ | Liverpool |
| လီမာမျောက် | Lemur |
| လီမာမြို့ | Lima |
| "လီယာဘုရင်" | "King Lear" |
| လီယို တတိယ | Leo III |
| လီယွန်မြို့ | Lyons |
| လူငယ်တည်းအိမ် | Youth Hostel |
| လူတိုင်းစစ်မှုထမ်းရေး | Conscription (or) Compulsory Service |
| လူနေမှု တိုးတက်လာခြင်း | Civilization |
| လူမှုရေးရာ ပညာ | Sociology |
| လူမှုရေး အာမခံ | Social Insurance |
| လူမှုဝန်ထမ်း | Social Service |
| လူဝီဇီယန္နား ပြည်နယ် | Louisianna |
| လူဝံ | Orang-utan |
| လူ့ကျင့်ဝတ်ပညာ | Ethics |
| လူ့အခွင့်အရေး စာတမ်း | Universal Declaration of Human Rights |
| လူ့အခွင့်အရေးနေ့ | Human Rights' Day |
| လူး | Small Millet |
| လူးဗရပြတိုက် | Louvre Museum |
| လေ တူရိယာ | Wind Instruments |
| လေထု | Atmosphere |
| လေထုဖိအား | Atmospheric Pressure |
| လေထီး | Parachute |
| လေဒင် ဓာတ်အိုး | Leyden Jar |
| လေပူမှုတ်ပြွန် | Tuyere |
| လေပြင်းဖို | Blast Furnace |
| လေမှုတ်မီးခွက် | Blow Lamp |
| လေရဟတ်စက် | Wind Mill |
| လေရည် | Liquid Air |
| လေသင်္ဘော | Airship |

| | |
|---|---|
| လေးညှင်း | Clove |
| လဲပင် | Kapok |
| လော့ဂရစ်သမ်ဇယားများ | Logarithmic Tables |
| လော့စိန်းဂျလီးမြို့ | Los Angeles |
| "လက်နက်တိုက်" | "Arsanel" |
| လက်သွင်း ရုပ်သေး (လက်ရုပ်သေး) | Hand Puppets |
| လင်းမရစ်ကဗျာ | Limericks |
| လိတ်ဟတ်မြို့ | Lakehurst |
| လန်စကရိုနာမြို့ | Landskrona |
| "လိမ်မော် မင်းသား" | "Prince of Orange" |
| လွားမြစ် | Loire River |
| လွတ်လပ်ရေးကဗျာ | "Ode to Liberty" |
| "လှယဉ်ကျေး" | "Beauty" |
| လျှပ်စစ်ကဲ ဓာတ်ငွေ့ထု | Ionosphere |
| လျှပ်စစ်ခံဓာတ်ကာ | Insulator |
| လွှာထပ်လေထု | Stratosphere |
| ဝါးနား ညီနောင် | Warner Brothers |
| ဗိတိုရိယ မင်းသမီး | Princess Victoria |
| ဝီလရှိုင်ယာနယ် | Wiltshire |
| "ဝေလ မင်းသား" | "Prince of Wales" |
| ဝေါလွန်းနယ် | Walloon |
| ဝက်အူရစ်ပုံစည်းနည်း | Spiral |
| ဝက်အူရစ် ပြောင်းပြန်ပုံ စည်းနည်း | Reverse |
| "သူတော်စဉ် လူဝီ" | "Louis The Pious" |
| သူရိယ မာသ | Solar Month |
| "သဲကန္တာရ မြေခွေး" | "Desert Fox" |
| "သေရေးရှင်ရေး" | "A Matter of Life & Death" |
| သစ်သား လေတူရိယာ | Wood Wind Instrument |
| သတ္တုခေတ် | Metal Age |
| သတ္တု ရက်တီဖိုင်းယား | Metal Rectifier |
| သွန်းသံ | Cast Iron |
| ဟော်ရှမ်မြို့ | Horsham |
| ဟင်နရီယက်တာ မာရီယာ မိဖုရား | Queen Henrietta Maria |
| ဟွန်ပူမြစ် | Hwangpoo River |
| အစကွထိန်း | Aileron |
| "အချက်ကြီး ၉၅ ချက်" | "Ninety-five Theses" |
| "အဆင်းသဏ္ဍာန်ပြောင်းခြင်း" | "The Transfiguration" |
| "အပျိုစင်၏ လက်ထပ်ပွဲ" | "Marriage of The Virgin" |
| အပြည်ပြည်ဆိုင်ရာ ရွှေစံချိန်စံနစ် | International Gold Standard |
| "အမေရိကန် မီးသတ်သမားဘဝ" | "The Life of An American Fireman" |
| "အမေးအဖြေစာ" | "Catechisms" |
| အမျိုးသား စစ်မှုထမ်းရေးဥပဒေ | National Service Act |
| အမြိုတ်ပန်း | Tapestry |
| "အရူး၏ နေ့စဉ်မှတ်တမ်း" | "Madman's Diary" |
| အရိပ် ရုပ်သေး | Shadow Puppets |
| အလယ်ပိုင်း ကျောက်ခေတ် | Mesolithic Age |
| 'အလင်းဆောင်ပါလော့" | "Let There Be Light" |
| အသုံးချ ရုက္ခဗေဒ | Applied Botany |
| အသွားနှုန်းတိုင်း ကရိယာ | Speed Indicator |

အာစထရစ် မင်းသမီး — Princess Astrid
အာဗီနိုမြို့ — Urbino
"အာရှတခွင်မှ မုန်တိုင်း" — "Storm Over Asia"
အားဖတ် တက္ကသိုလ် — Erfurt University
အားလ်မြို့ — Arles
အီစနွိုင်းမြို့ — East Knoyle
"ဣတာလျံ ပန်းချီမင်းသား" — "Prince of Italian Painting"
"ဣတာလျံမြက်ဦးထုပ်" — "The Italian Straw Hat"
အီဇျမြစ် — Isère River
အုထမြစ် — Ourthe River
အယ်လပါကာကောင် — Alpaca
"အယ်လဗန်နီမြို့စား" — "Duke of Albany"

အဲရီဗတ်တောင် — Mount Erebus
အဲလဗတ် မင်းသား — Prince Albert
အဲလဗတ် ရွှေတံဆိပ် — Albert Gold Medal
အော့တို ပဌမ — Otto I
ဩဂင်ဂန္ဒရား — Organ
အိုဇုန်းလွှာ — Ozonosphere
အက်ရှမိုလီယန် ပြတိုက် — Ashmolean Museum
အိုက်စလေးဗင်မြို့ — Eisleben
အင်ဒရိ လီမာမျောက် — Indri Lemur
"အစ္စလာမ် တော်လှန်ရေး" — "The Revolt of Islam"
အန်နိုနေးမြို့ — Annonay
အွတ်လွားနယ် — Haute-loire

## အသံလှယ်အမည်များ

ကဗယ်ကန်တီ — Cavalcanti
"ကရော့စ်ဖိုင်ယား" — "Crossfire"
ကရိုတွန် — Croton
ကရိုမာညွန် — Cro-magnon
ကရပ်စီးယပ် ဩရတပ် — Crassius Auratus
ကလဲ, ရနေး — Clair, Renè
"ကာဆာဗလန်ကာ" — "Casablanca"
ကာရိုလပ် ဩဂတ်စတပ် — Carolus Augustus
ကာရက်တာရစ်စတစ် — Characteristic
ကာလိုမန် — Carloman
ကားတစ်, ဂလင်း — Curtiss, Glenn

ကိနိတိုဂရပ် — Kinetograph
ကီနီမာစကုပ် — Kinemascope
ကီနီမာတိုဂရပ် — Kinematograph
ကီရင်စကီ — Kerensky
ကော်လော့ဆီယမ် — Colosseum
"ကိုဗားဒစ်" — "Quo Vadis"
ကက်တာစီအီး — Cactaceae
ကက်ပရာ, ဖရင့် — Capra, Frank
ကင်ဇီ, ဂျွန် — Kenzie, John
ကောင်းဝပ်, နိုဝယ် — Coward, Noel
ကစ်တီ ဟော့ — Kitty Hawk

| | |
|---|---|
| ကျူကာဗီတာ မက်ဇီးမား | Cucabita Maxima |
| ကျူကာဗီတေးစီအီး | Cucabitaceae |
| ကွားကပ် | Quercus |
| ကွားကပ် ရူဗရာ | Quercus Rubra |
| ကွားကပ် အယ်လဗာ | Quercus Alba |
| ကွီရိနပ် | Qurinus |
| ကွေးဖီး | Kwei Fe |
| ကွန်မျူတေတာ | Commutator |
| ခရီ-ဆရုန်-အိုက်-ဗစန် | Khri-srong-ide-btsans |
| ချား မာတယ် | Charles Martel |
| ချား-သ-ဗိုး | Charles-the-bold |
| ချီမား | Che-Mah |
| ချောင်ရှူကျင် | Chou-shu-jin |
| "ချန္ဒရာလက္ခ" | "Chandralekha" |
| ဂရာမီနီး | Gramineae |
| ဂရင်းဖဲ့,ဝီလဖရက် | Grenfell, Wilfred |
| ဂရစ်ဖစ်, ဒီ၊ ဒဗျူ | Griffith, D. W. |
| "ဂရန်းဒေး" | "Grande" |
| ဂရပ် ဇက်ပလင် | Graf Zeppelin |
| ဂါဂန်းတူးအား | Gargantua |
| ဂါဒီနီယာ ကိုရိုနေရီယာ | Gardenia Coronaria |
| ဂါဒီနီယာ အော့ဗတူဆီဖိုလီယာ | Gardenia Obtusifolia |
| ဂါနာရင်,အွန်ဒရေး ဂျေ | Garnerin, Andre J. |
| ဂေဗယ်, ကလပ် | Gable, Clark |
| ဂေါ်ဒွင်, ဝီလျံ | Godwin, William |
| ဂေါ်ဒွင်, မေရီ | Godwin, Mary |
| ဂစ်ဖတ်, ဟင်နရီ | Giffard, Henry |
| ဂစ်ဗဆင်, ရစ်ချတ် | Gibson, Richard |
| ဂန့်, အားဗယ် | Gance, Abel |
| ဂျဟန်ဂါ | Jehangir |
| ဂျားဗစ်, ဂျွန် | Jervis, John |
| ဂျော့, ဟင်နရီ | George, Henry |
| "ဂျော့ဆန်း" | "George Sand" |
| ဂျိုကန် | Jokang |
| ဂျိုလီယက် | Joliet |
| "ဂျက်ကျူ" | "J'Accuse" |
| ဂျက္ကဆန်, တောမတ် ဂျွန်နသန် | Jackson, Thomas Jonathan |
| ဂျင်းကင်း, စီ၊ ဖရန်းဆစ် | Jenkins, C. Francis |
| "ဂျင်းတဲလမင်း ပရီဖားဗလွန်း" | "Gentlemen Prefer Blondes" |
| "ဂျင်းတဲလမင်း အဂရီမင့်" | "Gentleman's Agreement" |
| ဂျိုင်ရိုပလိန်း | Gyroplane |
| ဂျန်းနင်း,အေမီ | Jannings, Emil |
| ဂျိမ်းဆန် | Jameson |
| ဂွာနာကို | Guanaco |
| ဂျွန်အော့ဂေါင့် | John of Gaunt |
| စကော့, ကပ္ပတိန်ရောဗတ် | Scott, Captain Robert |
| စကော့,ဆာ ဂျိမ်းဂျော့ | Scott, Sir James George |
| စကော့,ဂျော့ | Scott, George |
| စကော့,ဝင်းဖီး | Scott, Winfield |
| စတီး,အေ၊ ဒဗျူ | Still, A. W. |

| | |
|---|---|
| စတီးလား၊ မောရစ္စ | Stiller, Mauritz |
| စတီးဝဲ၊ ဂျိုးဇက် | Stillwell, Joseph |
| စတိုင်ခင်၊ အက်ဒွပ် | Steichen, Edward |
| စတန်းဖို့၊ လယ်လန် | Stanford, Leland |
| စထြေတိုစဖီးယား | Stratosphere |
| စထြေတိုလိုင်းနား | Strato Liners |
| "စထြိတ်တိုင်း" | "Strait Times" |
| စထရက်တန်, ချား | Stratton, Charles |
| စနိုးဒန်၊ ဖိလစ် | Snowden, Phillip |
| စီနီရာမာ | Cinerama |
| စီးရီးယပ် | Cereus |
| စင်နမိုမမ် အော့ဗတူဆီဖိုလီယမ် | Cinamomum Obtusifolium |
| စန္တီ, ဂျိုးဗန္နီ | Santi, Giovanni |
| စိန့်မိုက်ကယ် | St. Michael |
| စပ် (ချပ်), (ဒိပ်ချဒါစီ) | Chads, (H. Dacie) |
| ဆဂွားရိုး | Saguaro |
| ဆဗစ်ကောင်း | Zwickau |
| ဆရုန်-ဆန် ဂံ-ပို | Sarong-tsan Gam-po |
| ဆာမားတိကပ် ဟမိအီး | Syrmaticus Hamiae |
| "ဆာ မက်အာသာ" | "Sir MacArthur" |
| ဆာရာ ဗန်းဟတ် | Sarah Bernhardt |
| "ဆာ ရစ်ချတ် ဂတ်" | "Sir Richard Garth" |
| "ဆာ အက်ရှလေ အီဒင်" | "Sir Ashley Eden" |
| ဆီကာလီ ဆီရီယေး | Secale Sereale |
| ဆီတေးရီးယား ဣတလိက | Setaria Italica |
| ဆိမိုင်ဒီအီး | Simiidae |
| ဆိယူရိဒီး | Sciuridae |
| ဆိယူရိုနီး | Sciurinae |
| ဆိယူရောပတာရိနီး | Sciuropterinae |
| ဆိယူရပ် | Sciurus |
| ဆီးစထရွမ်း, ဗစ်တာ | Seaström, Victor |
| ဆူဆွန်း | Su Tsung |
| ဆူတင်း | Su Ting |
| ဆူမာချင်ချင် | Hsuma Ching Ching |
| ဆူယူရှိ | Hsu-yu-shih |
| ဆယ်လဇနစ် | Selznick |
| ဆဲလား, ကိုးလမင်း | ellers, Coleman |
| ဆဲလျူလွိုက်ဖလင် | Celluloid Film |
| ဆော့စဗာရီ | Salisbury |
| ဆင်းနက်၊ မက် | Sennett, Mack |
| ဆိုင်ဗာ ပင်တန်ဒရာ | Ceiba Pentandra |
| ဆစ်ဒဲ၊ အယ်လစ်ဇဗက် အယ်လီနာ | Siddal, Elizabeth Eleanor |
| ဆက်စကီယာဗန် ဗီလင်ဗော့ | Saskia Van Vylenborch |
| "ဆန်းဆက်" | "Sunset" |
| ဆပ်ဗလျဲ၊ မဒမ် ဒါ လာ | Subliere, Madame De La |
| ဆွန်ခါပ | Tsong-Kha-Pa |
| ဆွန်ဂျိုဆု | Sung Jo-Ssu |
| ဆွန်တိုင်ချုံ | Sun Tai-Chung |
| ဇာလက္ကာ ဝါလီချီယာနာ | Zallacca Wallichiana |
| ဇီမီ | Zywmy |

| | |
|---|---|
| ဇူးကော့, အဒေါ့ | Zukor, Adolph |
| "ဇိုလာ" | "Zola" |
| ဇိုးထရုပ် | Zoetrope |
| ဇက်ပလင်, ကောင့်ဖာဒီနန် ဗွန် | Zeppelin, Count Ferdinand Von |
| တာဖက်တာ | Taffeta |
| တာအိုတေချင် | Tao-tê Ching |
| တူနီကက် | Tourniquet |
| တော့, မိုက်ကယ် | Todd, Michael |
| တော့–အောအို | Todd-ao |
| တောမတ်, လိုဝယ် | Thomas, Lowell |
| တက်ကိုမီတာ | Tachometer |
| တက်ဇယ်, ယိုဟန်း | Tetzel, Johann |
| "တပ်ကဆစ်" | "Turksib" |
| တြိုပိုစဖီးယား | Troposphere |
| တြိုပိုပေါ့ | Tropopause |
| တွီယာ | Tuyere |
| ဒရက်ဆလာ, မာရီ | Dressler, Marie |
| ဒါ ဆိုးတိုး | De Soto |
| ဒီဗိုင်း ရက်ဖီအယ် | Divine Raphael |
| ဒီဗွန် | Debung |
| ဒီမိုတစ် | Demotic |
| ဒေးဗစ်, ဂျက်ဖာဆန် | David, Jefferson |
| ဒေါလဒရမ် | Doldrum |
| ဒိုနာတယ်လို | Donatello |
| ဒက်ဆဒ်ဒီးရီးယပ် | Desiderius |
| ဒေါက်ဂလတ် ဒီစီ–၃ | Dauglas DC-3 |
| ဒျူဗန်း, မဒမ် | Dudevant, Mme. |
| ဒျူဗီဗီယေး, ဇူး | Duvivier, Jules |
| ဒူးမောင့်, အယ်လဗာတို ဆန်းတော့ | Dumont, Alberto Santos |
| "ဒွန်ကားလော့" | "Don Carlos" |
| "ဒွန်ဝှန်း" | "Don Juan" |
| နဒိုလာ | Ndola |
| နဗျူးနေ့ | Nabunaid |
| နီဂရီ, ပိုလာ | Negri, Pola |
| နီယာစာလန် | Nyasaland |
| နေပယား, ဂျွန် | Napier, John |
| နေယန်းဒါတော | Neanderthal |
| နိုက်တြိတ်ဖလင် | Nitrate Film |
| ပရု, ဂျော့ | Prout, George |
| ပရိုစိုင်ယိုနီဒီး | Procyonidae |
| ပရိုစိုင်ယွန် ကန်ကရီးဗိုးရပ် | Procyon Cancrivorus |
| ပရိုစိုင်ယွန် လိုတော | Procyon Lotor |
| ပရက်ဇီနိုစကုပ် | Praxinoscope |
| ပရင်စီပီးယား | Principia |
| ပလာဇာ ဒါ အာမက် | Plaza De Armas |
| ပါသီ | Pathè |
| "ပါးစတား" | "Pasteur" |
| ပီတာ မတ် ရော့ဂျက် | Peter Mark Roget |
| ပေး, ဒဗျူစီ | Pei, W. C. |
| ပေးရူးဂျီးနိုး | Perugino |

| | |
|---|---|
| ပေါ်တာ, အက်ဒွင်အက်(စ) | Porter, Edwin S. |
| ပေါ, ရောဗတ် | Paul, Robert |
| ပေါလ မော ဂေဇက် | Pall Mall Gazette |
| ပိုတာလာ | Potala |
| ပက်ပင်-သ-ရှော့ | Pepin-The-Short |
| ပစ်, လူးဝစ် အေ | Pick, Lewis A. |
| ပစ်ကဖို့, မေရီ | Pickford, Mary |
| ပစ်ကရင်, အန်နီ | Pitcairn, Annie |
| ပစ်ကတ်, ပါမောက္ခ | Piccard, Prof. |
| ပန်တာဂရူးယယ် | Pantagruel |
| ပန်နီကမ် မီလီယာစီယမ် | Panicum Miliaceum |
| ပန်သီယွန် | Pantheon |
| ပွန်တယ်ဖရက် | Pontefract |
| ဖလော့ဂိုပိုက် | Philogopite |
| ဖလော်ဂျစ်စတန် | Phlogistan |
| ဖာစီအင်နီဒီး | Phasianidae |
| ဖာမင်းဂျား, တီ၊ အေ | Firminger, T. A. |
| ဖိလစ် ဩဂပ်စတပ် | Phillip Augustus |
| ဖီး လော့ | Field Lord |
| ဖေဒါ, ဇက် | Feyder, Jacques |
| ဖော်ဆစ်, မေရီ | Forsyth, Mary |
| ဖိုနိုဂရပ် | Phonograph |
| ဖိုရမ် | Forum |
| ဖက်ဂိုပိုင်ရမ် အက်စကူလင်တမ် | Fagopyrum Exculentum |
| ဖိုက် | Fife |
| ဖောက်, ဝီလျံ | Fox, William |
| ဖစ်ဇီမွန် | Fitzimmonds |
| ဗရိုကိတ် | Brocade |
| ဗရောင်း, ဂျွန် | Brown, John |
| ဗရောင်း, ဖို့မဒေါ့ | Brown, Ford Madox |
| ဗရစ်, ဟင်နရီ | Briggs, Henry |
| ဗလက်, ဒေးဗစ်ဆန် | Black, Davidson |
| ဗလက်ဒီများ အူလျာနပ် | Vladimir Ulyanov |
| ဗလန်ချတ်, ဂျေ၊ ပီ | Blanchard, J. P. |
| ဗာတိုလိုမီယို | Bartolommeo |
| ဗာရော့ချို, အန်ဒရီးယား ဒယ် | Verrocchio, Andrea Del |
| "ဗာလင်ရှတိုင်း" | "Wallenstein" |
| ဗီ, ဖရက်ဒရစ် | Wieck, Friedrich |
| ဗီတာစကုပ် | Vitascope |
| ဗီနင်ကာဆာ စာရီဖာရာ | Benincasa Cerifera |
| ဗီလော, မေဂျာ | Bilau, Major |
| ဗီအက်တာ ဗီအားထရစ် | Beata Beatrix |
| ဗီးနပ် ဒီ မိုင်လို | Venus De Milo |
| ဗူးလရန်း | Bull Run |
| ဗေးရလီအိုး | Berlioz |
| ဗယ်ဗင်, အားနက် | Bevin, Ernest |
| ဗော့စဝပ် ဖီး | Bosworth Field |
| ဗိုရူလွားစကီး | Borulwask |
| ဗက်ချူအားနာလန် | Bechuanaland |
| ဗက်ဆွန်း | Bassoon |

| | |
|---|---|
| ဗင်ကယ်လမန်း, ယိုဟန်း | Winckelmann, Johann |
| ဗိုင်အိုတိုက် | Biotite |
| ဗိတ်, ကွန်းရတ် | Veidt, Conrad |
| ဗယ်တင်ဗတ် | Wüttenburg |
| ဗုံဗကာစီအီး | Bombacaceae |
| ဗွိုင်လို | Boileau |
| "ဗျူးတီး" | "Beauty" |
| "မကာသူရီ" | "Macarthuri" |
| မာကျူရီအပ် ရက်တီဖိုင်းယား | Mercury-arc Rectifier |
| မာတေးစီအီး | Myrtaceae |
| မာနောင်း | Murnaü |
| မာရီ ဂျိုးဇက်ပေါ် အီးဗီး ရော့ ဂီးလဗတ် ဒူ မော်တီယေး | Marie Joseph Paul Yves Roch Gilbert Du Mortier |
| မာရှိုနာလန် | Mashonaland |
| မားကက် | Marquett |
| မားကပ် ဩရီးလီးယပ် | Marcus Aurelius |
| မီလေး, ဂျွန် အက်ဗာရက် | Millais, John Everette |
| မီကန်နစ်ကယ် ရက်တီဖိုင်းယား | Mechanical Rectifier |
| မဲလီ, ဂျော့ | Mellies, George |
| မော်ဂန်, လူးဝစ် အိပ်(ချ) | Morgan, Lewis H. |
| မော်ရစ်ဆန်, ဟားဗတ် | Morrison, Herbert |
| မောရစ် ဟျူးလက် | Maurice Hewlette |
| "မိုနာလီစာ" | "Mona Lisa" |
| မက္ကဆွဲ | Maxwell |
| "မက္ကဗက်" | "Macbeth" |
| မက္ကလယ်လန် | McClellan |
| မက်ဆာချို | Masaccio |
| မက်တဲ ရက်တီဖိုင်းယား | Metal Rectifier |
| "မက်တြိုပိုလစ်" | "Metropolis" |
| မင်ဒယ်, ဂရီဂေါ် | Mendel, Gregor |
| မောင့်ရွိုင်ယယ် | Mount Royal |
| မိုင်းဗရစ်, အက်ဒ်ဝိယတ် | Muybridge, Eadweard |
| မန်ဂျီဖီရာ ဖိုဆစ်ဒါး | Mangifera Focitda |
| မန်တစ္စ | Mantissa |
| မန္နင်း, တောမတ် | Manning, Thomas |
| မပ်စကိုဗိုက် | Muscovite |
| မွန့်ဂိုးလဖီးယား | Montgolfier |
| ယူဂျီးနီးယား ကယ်ရီယိုဖီလေးတား | Eugenia Caryophyllata |
| ယန်းမင်း, မေရီဂျိန်း | Youngman, Mary Jane |
| ရနွား, ဇင်း | Renoir, Jean |
| ရိ, ကာရို | Reed, Carol |
| ရိ, အေ၊ စီ | Reed, A. C. |
| ရီးမတ် | Remus |
| ရူတာစီအီး | Rutaceae |
| ရူဗီအေစီအီး | Rubiaceae |
| ရူးပီကေးပရ ထရေးဂတ် | Rupicapra Tragus |
| ရေးလီ, လော့ | Rayleigh, Lord |
| ရော့ခမွန့်, လွီဒေါ် | Rochemont, Louis De |
| ရော်ဘတ်စ် (ရောဗတ်ဆန်) | Robertson, T. C. |
| ရိုဆာ | Rosa |
| ရိုဆက်တီ, ခရစ္စတီနာ ဂျော်ဂျီနာ | Rossetti, Christina Georgina |

